ရွှေတောင်မြို့

## ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး

စီရင်ဖြေဆိုအပ်သော

# ဥယ်ခုံကျော်ထင်ကျမ်း

ကြည့်ကန်ရှင်ကြီးအမေးပုစ္ဆာတစ်ထောင်ကျော်၏ အဖြေများ

ခင်ချိုထွန်းစာပေ
အမှတ် ၇၆၊ ၃၇ လမ်း၊ ရန်ကုန်မြို့

ဥယ်ခုံကျော်ထင်ကျမ်း

## အောက်ပါစာအုပ်များကို ဝယ်ယူရရှိနိုင်ပါပြီ




ခင်ချိုထွန်းစာပေ
၈၆၊ ၃၇-လမ်း၊ ကျောက်တံတားမြို့နယ်၊
ရန်ကုန်။ ဖုန်း-၅၄၂၀၅၆

ဖြန့်ချိရေး
သန်းမြင့်မြင့် ပိဋကတ်စာအုပ်ဆိုင်
အမှတ်(၃၇)၊ ရွှေတိဂုံတောင်ဘက်ဈေးတော်ရုံ၊
ရန်ကုန်။ ဖုန်း-၃၈၃၅၁၁ လိုင်းခွဲ-၁၇၅

ရွှေတောင်မြို့

# ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး

စီရင်ပြေဆိုအပ်သော

# ဓွယ်ခိုကျော်ထင်ကျမ်း

ကြည့်ကန်ရှင်ကြီး အမေးပုစ္ဆာ တထောင်ကျော်၏ အဖြေများ

ခင်ချိုထွန်းစာပေ

အမှတ် ၈၆၊ ၃၇လမ်း၊ ၇န်ကုန်မြို့။

ဒီဇိုင်း/သံလွင်

## ကျေးဇူးတင်လွှာ

ဤစာအုပ်ဖြစ်မြောက်ရေးအတွက် အဘက်ဘက်မှ အကူအညီပေးတော်မူကြသော မြို့နယ်သံဃနာယကအဖွဲ့နှင့် ပါဠိစာများကို စေတနာထားပြီး ဂရုတစိုက်ပြင်ဆင်ပေးကြသော ဦးအောင်ညွန့် (ဓမ္မာစရိယ)၊ ဦးချစ်သိန်း (သာသနဓဇသိရိပဝရဓမ္မာစရိယ)၊ ဦးဉာဏ်လင်းအောင် (ဓမ္မာစရိယ)၊ ကွန်ပျူတာစာစီပေးသော ကိုကျော်ကျော်သန်းအားလည်းကောင်း၊ အမြန်ပြုစုထုတ်ဝေဖြန့်ချိပေးရန် အကြံဉာဏ်များပေးကြသော ဦးညွန့်နိုင်(ကျီးသဲ)အားလည်းကောင်း၊ စာပေမိတ်ဆွေသုတေသီလူကြီးမင်းများအားလည်းကောင်း ခင်ချိုထွန်းစာပေတိုက်မှ အထူးကျေးဇူးတင်ရှိပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။

ဦးသိန်းထွန်း
ခင်ချိုထွန်းစာပေ
အမှတ် ၈၆၊ ၃၇ လမ်း၊ ရန်ကုန်။

သာသနာရေးဦးစီးဌာန၏
စာအမှတ် ၁၁၉/၁ ပုံနှိပ်၊ သသန-၂၀၀၂
၁၆-၂-၂၀၀၂ နေ့စွဲပါ ခွင့်ပြုချက်အရ
ဦးသိန်းထွန်း (မြ ၀၄၈၂၂) သိန်းထွန်းအော့ဖ်ဆက်
အမှတ် ၅၀-၅၂၊ ဒဂုံသီရိလမ်း၊ ကျောက်မြောင်း၊ တာမွေ၊ ရန်ကုန်မြို့မှ
ပုံနှိပ်၍
ညွှန်ကြားရေးမှူး ဦးညွန့်မောင်
(၀၂၄၀၅/၀၂၅၂၇) က ထုတ်ဝေသည်။



ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး၏ ပုံတော်



ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး ကိုးကွယ်တော်မူခဲ့သော ဒက္ခိဏာသာခါဘုရားကို ရွှေတောင်မြို့ ဗိုလ်ရုံကျောင်းတိုက်၌ တွေ့ရပုံ။



ရွှေတောင်မြို့ ဗိုလ်ရုံကျောင်းတိုက်အတွင်း၌ တွေ့ရသော ကျီးသဲ လေးထပ် ဆရာတော်ဘုရားကြီး၏အရိုးအိုးစေတီတော်။



အင်္ဂလိပ်အရေးပိုင်ကြီးက ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီးအား လှူဒါန်းခဲ့သည့် ရွှေတောင်မြို့ရှိ ဗိုလ်ရုံကျောင်းတိုက်နေရာ၌ သုံးဆက်မြောက်ကျောင်းထိုင်ဆရာတော် ဦးစန္ဒောဘာသလက်ထက် အသစ်ပြုပြင်ဆောက်လုပ်ထားသည့် ကျီးသဲလေးထပ်ဗိုလ်ရုံကျောင်းတိုက်ပုံ။



ပုဂံမင်းလက်ထက် ရွှေတောင်မြို့နှင့် ရန်ကုန်မြို့ဝန် ဖြစ်ခဲ့သော ဝန်ကြီးဦးမှုံ ဆောက်လုပ်လှူဒါန်းခဲ့သည့် ရွှေတောင်မြို့နယ် ကျီးသဲမြို့ အရှေ့ဘက် တစ်မိုင်အကွာ ရွှေမြင်သာကုန်းမြေပေါ်မှ လေးထပ်ကျောင်းတော်ကြီး မီးလောင်ပျက်စီးပြီးနောက် (ယခုမျက်မှောက်ခေတ်၌) အထိမ်းအမှတ်ကျောက်စာတိုင်စိုက်ထူထားပုံ။(အပေါ်ပုံ)



ရွှေတောင်မြို့အဝင်ဝ တည်ကုန်းရပ်ကွက် လမ်းသုံးခွဆုံတွင်တွေ့ရသည့် ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး၏ ရုပ်ထုတော်။



ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး ငယ်စဉ်ကျောင်းသားဘဝမှစ၍ ပညာသင်ကြားခဲ့ရသော ငယ်ဆရာရင်း ဦးပညာသာမိ၏ နွားမယံကျောင်းတိုက် (ယခုအခါ ရွာသာကျောင်းတိုက်ဟု အမည်တွင်သည်။

ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး ငယ်စဉ်အခါက သာမဏေကျော်ဘွဲ့ရရှိတော်မူခဲ့သည်၊ ထိုသို့ရရှိတော်မူခြင်းမှာ ၁၆-နှစ်သား ကိုရင်ဘဝ၌ ငယ်ဆရာရင်း ဦးပညာသာမိထံ "မဟာသရုပ်ကြီး"ကို စပ်ဆိုရေးသား ဆက်ကပ်ခဲ့သောကြောင့်ဖြစ်သည်။ ၎င်းမဟာသရုပ်ကြီးကို ယခုတွေ့မြင်ရသော တိုင်ပေါင်းတစ်ရာကျော်ရှိသည့် တိုင်တစ်ရာတံတားကြီးအပေါ်၌ ရေးသားခဲ့ခြင်းဖြစ်သည်။





ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး ကိုးကွယ်တော်မူခဲ့သော ယွန်းဘုရားကို ရွှေတောင်မြို့ ဗိုလ်ရုံကျောင်းတိုက် ဘုရားစင်၌ တွေ့ရပုံ။

ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး ကိုးကွယ်တော်မူခဲ့သည့် ရွှေတောင်မြို့ သမိုင်းဝင် ရွှေနတ်တောင်စေတီတော်ကြီး။



သမိုင်းဝင် ရွှေနတ်တောင်



သစ်တောနီကျောင်းတိုက်ကြီး နေရာတွင် ရှာသာကျောင်းတိုက် ဆရာတော်ဦးဃောသိတ ဦးဆောင်၍ ဆောက်လုပ်လှူဒါန်းလျက် ပေပုရပိုဒ်များ၊ ရုပ်ထုများနှင့်ပန်းချီကားကြီးများကို ပြသထားသည့် ကျီးသဲလေးထပ် ပြတိုက်ကြီးပုံ။

ကျီးသဲမြို့ရှိ ကျီးသဲလေးထပ်ပြတိုက်အတွင်း၌ တွေ့ရသော ဇာတ်ကြီးဆယ်ဘွဲ့ ပန်းပုံရုပ်လုံးထွင်း ရွှေပိန်းချစာတိုက်သေတ္တာကြီး (ရှေးအခါက ပေပုပိုဒ်များထည့်၍ သိမ်းသော သေတ္တာကြီးဖြစ်သည်) ၎င်းသေတ္တာကြီး၏ ဝဲယာတို့တွင်လည်း အခြားစာတိုက်ကြီးများကို တွေ့ရသည်။





ကျီးသဲမြို့ရှိ ကျီးသဲလေးထပ်ပြတိုက်ကြီးအတွင်း၌ ပေပုပိုဒ်များထည့်၍ ပြသထားသော မှန်ဘီဒိုကြီးများရှိသည်။ ယခုဖော်ပြပုံမှာ ရန်ကုန်မြို့ ၃၇-လမ်း၊ ခင်ချိုထွန်း စာပေတိုက်မှ ဦးသိန်းထွန်း-ဒေါ်ချို မိသားစု လှူဒါန်းထားသော မှန်ဘီဒိုကြီးဖြစ်သည်။



ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး၏ လက်ရေးမူရင်းကို ပုရပိုဒ်၌ တွေ့ရစဉ်။



ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး၏ ဇိနတ္ထပကာသနီကျမ်း လက်ရေးမူရင်း ပေရွက်ပေါ်၌ တွေ့ရပုံ။ ပထမတွဲကျမ်းပြီးနှင့် ဆဋ္ဌမတွဲကျမ်းရက်စွဲတို့ကို လေ့လာနိုင်ရန် ဖော်ပြလိုက်ပါသည်။

## သာသနာ့အာဇာနည်ကြီး၏ အဓိဋ္ဌာန်

ကိုယ်တစ်ယောက်တည်း ချမ်းသာဖို့ ခုလောက် ကြိုးကုတ် အားမထုတ်ဘူး။ ဗုဒ္ဓမြတ်စွာ၊ သာသနာ၏ ရှေးခါဘိုးဘ၊ လက်ထက်ကလျှင်၊ ရသည့်တန်ခိုး၊ ထပ်မညှိုးအောင်၊ အားကြိုးမာန်တက်၊ ငါဆောင်ရွက်သည်၊ ဆက်လက်တည်တံ့ရုံသာတည်း။

(အရှင်ဇနကာဘိဝံသ)

1
A

## ကျီးသဲညွန့်နိုင်၏ ဦးခိုက် နိဒါန်း

အမေး ကျွဲကျောင်းသား၊ အဖြေ ဘုရားလောင်း ဟူသော စကားကို ထောက်၍ အမေးကား လွယ်သည်။ အဖြေသည်သာ ခက်၏ဟု ဆိုခဲ့ကြသည်။

ယခု ဤစွယ်စုံကျော်ထင်ကျမ်းကြီး၏ အမေးပုဂ္ဂိုလ်ကြီးနှင့် အဖြေပုဂ္ဂိုလ်ကြီး နှစ်ဦး စလုံးမှာ ပညာဉာဏ်ကြီးမားပြီး လောကီ လောကုတ် ပိဋကတ်စာပေပညာတို့ကို ထုံးလိုချေ၊ ရေလိုနှောက် တတ်မြောက်သိမြင်သည့်အပြင် ဘုရားဆုပန် ပုဂ္ဂိုလ်ကြီးများဖြစ်နေကြောင်း အထောက်အထားများက သက်သေပြနေပေသည်။

## အမေးရှင် ကြည့်ကန်ရှင်ကြီး

စွယ်စုံကျော်ထင် အမည်ရှိသော ဤအမေးပုစ္ဆာကျမ်းကို ပြုစုစီရင်သော ကြည့်ကန်ရှင်ကြီး ရှင်နန္ဒမေဓာကို ပခုက္ကူမြို့နယ် ကြည့်ကန်ရွာတွင် မြန်မာသက္ကရာဇ် ၁၁၁၉–ခုနှစ်၌ ဖွားမြင် တော်မူသည်။ လူအမည်မှာ မောင်နုဖြစ်သည်။ အသက်ထက်ဆုံး သာမဏေဝတ်၍ အရိုးထုတ် သွားသောကြောင့် ကြည့်ကန်ရှင်ကြီးဟု အမည်တွင်ခဲ့သည်။

ကြည့်ကန်ရှင်ကြီးသည် ရွှေမြို့တော်ရှိ ဆရာတော်ကြီးများနှင့် အနယ်နယ်အရပ်ရပ်ရှိ ပညာတတ်အကျော်အမော် ဆရာတော်ကြီး (၂၂) ပါးထံ၌ ပညာဆည်းပူးခဲ့သည်။

## ၁၃ ကျမ်း ပြုစုခဲ့

ပညာပြည့်စုံသောအခါ စာချ–စာပို့ခြင်း၊ စာရေးခြင်းအလုပ်တို့ကို မပြတ်ပြုလုပ်ခဲ့သည်။ စုစုပေါင်း ကျမ်း (၁၃)ကျမ်း ပြုစုခဲ့သည်။ သက်တော် (၅၄) နှစ်သို့ရောက်သော (၁၁၇၃) ခုနှစ် တွင် ပျံလွန်တော်မူသည်။ ဤသို့သော အထောက်အထားတို့က ကြည့်ကန်ရှင်ကြီးကို ပညာရှင် သူတော်ကောင်း ပုဂ္ဂိုလ်ကြီးဖြစ်ကြောင်း ဖော်ပြနေပေသည်။

## မှတ်တမ်းတင်

ထို့အပြင် အဖြေရှင် ဝိသဇ္ဇက ပုဂ္ဂိုလ် ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီးက စွယ်စုံ ကျော်ထင်ကျမ်းပြီး နိဂုံးအဆုံးသတ်၌ "ကျမ်း၏အခြင်းအရာ"ဟု ခေါင်းစဉ်တပ်၍ ကြည့်ကန် ရှင်ကြီး အကြောင်းကို ဤသို့မှတ်တမ်းတင်တော်မူခဲ့သည်။

စွယ်စုံကျော်ထင် အမည်ရှိသော ဤပုစ္ဆာကျမ်းကို စီရင်သော ရှင်နန္ဒမေဓာကား ယောက်ျားသာမည မဟုတ်။ ဗုဒ္ဓ၊ ပစ္စေက၊ သာဝကအားဖြင့် ဆုမြတ်သုံးပါးတွင် ဘုရားရှင်တို့၏ ဆုကို ပန်လျက် ဆယ်တန်သော ပါရမီတရားကို အားထုတ်၍ ဖြည့်ကျင့်သည်။

ဇေနဉာဏ်, တိက္ခဉာဏ်, ဂမ္ဘီရဉာဏ်, ဟာသဉာဏ်, သုတမယဉာဏ်, စိန္တာမယဉာဏ်, ပဋိဘာန်တို့နှင့် ပြည့်စုံသည်။ ဆရာမွန်, ဆရာမြတ်တို့၏လက်မှ လျှို့ဝှက်ခဲကတ်သော ပိဋကတ်ကျမ်း၊ ဗေဒင်ကျမ်းများကို သင်ကြားနည်းယူသဖြင့် သူမတူနိုင်သော သတ္တိ ဇျတ္တိ ရှိသည်။

## ဘုရားစင်စစ်ဖြစ်လတ္တံ့

ဤကန္ဒနီအကျော်၊ ဝေရော်စန၊ မြဲဇောတိရည်၊ မျက်မြတ်ဉဿုံ၊ လွန်ပြည့်စုံသော ဝေပုလ္လတောင်မင်းကဲ့သို့ ပရိသတ်ခပင်းတို့၏ မိုတင်းကိုးကွယ်ရာ ကျမ်းဂန်ပရိယတ်တရားကို သင်ကြားပို့ချလျက်နေသည်။ အသက်လေးဆယ်ကျော်သောအခါတွင် ငါတို့ဂေါတမဘုရားကို ဖူးတွေ့ရ၍ "ကျွန်ုပ်ဘုရားဖြစ်ပါအံ့လော"ဟု လျှောက်သည်တွင် "သင်သည် နောင်သောအခါ ငါကဲ့သို့ ဘုရားစင်စစ်ဖြစ်လတ္တံ့"ဟု ဗျာဒိတ်ပေးတော်မူသည်ကို ခံရသည်ဟူ၍ သုံးကြိမ်တိုင်တိုင် အိပ်မက်မြင်မက်ကြောင်းကို ၎င်းဆရာစီရင်သော သုတ်နိဿယနိဂုံးတွင် ပါရှိသည်။

ယင်းသို့ ပါရမီခံ ဉာဏ်ကံကြီးမားသော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်ဖြစ်ရကား မြင်မြင်ဝါးဝါး သူတစ်ပါးတို့သည် ဖွဲ့ထားကုံးသီနိုင်မည်ကို မဆိုထားလင့်။ မေးခွင့်မေးရာကိုမျှ ကြံခြင်းငှာ မစွမ်းနိုင်သောပုစ္ဆာ၊ သိလွယ်ငြားသော်လည်း နောက်သားတို့ပညာပွားရန် အကျိုးရှိသောပုစ္ဆာ၊ ဤပုစ္ဆာအရပ်ရပ်တို့ကို ပိဋကတ်ဗေဒင်၊ ရာဇဝင်ကျမ်း၊ ဆန်းအလင်္ကာ၊ လောကာယတဖြစ်သော ဂန္ထန္တရကျမ်း၊ ပုံပြင်ကျမ်းတို့မှ အဆန်းတကြယ် မှတ်ဖွယ်ကောင်းလှသော စကားအဆီအနှစ်၊ အဆစ်အဖုတို့ကို ဖွေနှုတ်၍ ပုစ္ဆာပြုခဲ့ပေသည်ဟု ဖော်ပြပါရှိပါသည်။

သို့သော် ကြည့်ကန်ရှင်ကြီး အမေးပုစ္ဆာပြုထားခဲ့သည့် စွယ်စုံကျော်ထင်မှ သံပေါက်လင်္ကာ အမေးပုစ္ဆာ (၁၁၁၇) ပုဒ်တို့ကို အမေးပုစ္ဆာရှင် ကြည့်ကန်ရှင်ကြီး ပျံလွန်တော်မူပြီးနောက် နှစ်ပေါင်း (၅၀) ကျော်သည့်တိုင်အောင် မည်သူမျှ အောင်အောင်မြင်မြင် မဖြေနိုင်ခဲ့ကြချေ။ လက်တည့်စမ်းဖြေကြည့်ပြီး မပြေ၍ လက်လျှော့ထားခဲ့သည်များကိုသာ တွေ့ခဲ့ကြရသည်။

## ကျီးသဲလေးထပ် ဆရာတော်က ဖြေပြီ

(၁၁၇၃) ခုနှစ်တွင် ကြည့်ကန်ရှင်ကြီး ပျံလွန်တော်မူပြီးနောက် (ခြောက်နှစ်ခန့်အကြာ) (၁၁၇၉) ခုနှစ်ရောက်မှ ဖွားမြင်တော်မူလာသည့် ကျီးသဲလေးထပ် ဆရာတော်ဘုရားကြီးက အကောင်းဆုံး ပြီးမြောက်အောင်မြင်အောင် (သီတင်းသုံးဖော် သံဃာတော်တို့၏ တောင်းပန်မှုကို သနားကရုဏာပြုလျက်) ၁၂၂၇-ခုနှစ်တွင် ရေးသားပြုစုပြီးစီးတော်မူခဲ့သည်။

## အမေးပုစ္ဆက

ထို့ကြောင့် နက်နဲခက်ခဲလှသည့် လောကီ လောကုတ္တရာ နှစ်ဖြာအကျိုးရှိသော နည်းယူ မှတ်သားစရာ ပညာရပ် ဗဟုသုတအထွေထွေကို ကျမ်းအစောင်စောင်မှ ထုတ်နုတ်၍ မေးခွန်း တစ်ထောင်ကျော်အောင် မေးသည့် ကြည့်ကန်ရှင်ကြီးကလည်း မေးနိုင်ပါပေသည်။

## အဖြေဝိသဇ္ဇက

ဖြေသည့် လေးထပ်ဆရာတော်ဘုရားကြီးကလည်း မှတ်လောက်သားလောက် နည်းယူလောက်အောင် (အမေးတစ်ခု၊ ဖြေမှုနည်းစုံ၊ လက်စွမ်းကုန်အောင်) ကျမ်းအစောင်စောင်မှ ဖော်ထုတ်ပြီး လက်စွမ်းပြ ဖြေနိုင်တော်မူပါပေသည်ဟု ပညာရှိအပေါင်းတို့က မှတ်ချက်ပြုခဲ့ကြသည်။

## ကျီးသဲလေးထပ်ဆရာတော် ဘဒ္ဒန္တ မုနိန္ဒာဘိဓဇ

ဤစွယ်စုံကျော်ထင်ကျမ်းကြီး၏ အမေးပုစ္ဆာတစ်ထောင်ကျော်ကို ဖြေဆိုတော်မူသည့် အဖြေဝိသဇ္ဇကပုဂ္ဂိုလ် ဖြစ်တော်မူသော ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီးကို အဖ တရားသူကြီး ခံတော် ဦးအောင်မင်း၊ အမိ ဒေါ်ဂျမ်းဘုံတို့မှ မြန်မာသက္ကရာဇ် (၁၁၇၉) ခုနှစ်၊ သီတင်းကျွတ် လပြည့်ကျော် (၈) ရက် (၂၂-၁၀-၁၈၁၇) ကြာသပတေးနေ့ နံနက်ဦး ရောင်နီ လာချိန်တွင် ပဲခူးတိုင်း၊ ရွှေတောင်မြို့နယ်၊ ကျီးသဲမြို့၊ ရှမ်းတန်းလေးလမ်း၌ မီးရှူးသန့်စင် ဖွားမြင်တော်မူသည်။

## တောကင်းနိမိတ်

လေးထပ်ဆရာတော်လောင်းလျာ ဖွားမြင်ပြီး တစ်လသားအရွယ်တွင် နေ့လယ်,ပခက် အတွင်း၌ အိပ်နေစဉ် တောကင်း (ကင်းခြေများ)ကြီး နှစ်ကောင် ရောက်ရှိလာကာ ပခက် ဘောင်ပေါ် လှည့်ပတ်စောင့်ရှောက်သည်ကို တွေ့ကြရသည်။ မောင်းထုတ်ပစ်သော်လည်း မသွားသဖြင့် ကြည့်နေကြရသည်။ ၎င်းတောကင်းနိမိတ်ကို အကြောင်းပြု၍ ငယ်နာမည် မောင်ကင်းဟု မှည့်ခေါ်ခဲ့ကြသည်။

## ကျောင်းသားဘဝ

ဆရာတော် ကိုးနှစ်သားအရွယ် ကျီးသဲအရှေ့ဘက် တာနှစ်ရာအကွာ ရွာသာရွာ သစ်နီတောကျောင်းတိုက် ဆရာတော်ဦးပညာသာမိထံ အပ်နှံ၍ ပညာသင်သည်။ ကျောင်း အပ်ပြီး မကြာမီပင် သင်ပုန်းကြီးဆယ်စောင်တွဲကို အလွယ်တကူ သင်ကြားတတ်မြောက်

ခဲ့သည်။ ဉာဏ်ပညာအထူးထက်မြက်ပြီး စာတော်သော၊ ကြိုးစားသော ကျောင်းသားဖြစ်သောကြောင့် ဆရာတော်ဦးပညာသာမိက အရေးပေးသည်။ ချစ်ခင်သည်။ မြှောက်စားသည်။ (၁၁)နှစ်သား၌ ကစ္စည်းကျမ်း၊ သင်္ဂဟကျမ်းများကို ကျွမ်းကျင်စွာ တတ်မြောက်ခဲ့သည်။

## သာမဏေကျော် ရှင်မုနိန္ဒာဘိဓဇ သံဃာ့ဒုတိယ

(၁၄) နှစ်သားအရွယ် (၁၁၉၃) ခုနှစ်၊ ပထမဝါဆိုလပြည့် (၂၅-၆-၁၈၃၁) စနေနေ့တွင် ဆရာတော်ဦးပညာသာမိထံ၌ သာမဏေပြုတော်မူသည်။ ဘွဲ့တော်မှာ ရှင်မုနိန္ဒဖြစ်သည်။

ရှင်သာမဏေဘဝတွင် သခေ်ပဝဏ္ဏနာကျမ်း၊ ကစ္စာယနသာရကျမ်း၊ ကေကွရကောသကျမ်း၊ ဂန္ဓာဘရဏကျမ်း၊ သဒ္ဒဝုတ္တိကျမ်း၊ သဒ္ဒသာရတ္ထဇာလိနီကျမ်း၊ ညဝါမာတိကာ ဓာတုကထာကျမ်းများကို အရွယ်နှင့်မလိုက်အောင် နှုတ်တက်ရွရွ ဆောင်နိုင်တော်မူသည်။ ထို့ပြင် နိဒ္ဒေသပကရဏကျမ်း၊ မူလဗေဒကျမ်းတို့ကိုလည်း သင်ယူတတ်မြောက်တော်မူသည်။

၁၆ နှစ်သားအရွယ် (၁၁၉၅) ခုနှစ်၊ တစ်ညနေတွင်ဖြစ်သည်။ သစ်နီတောကျောင်းတိုက်၏ အရှေ့မြောက်ဘက် ရွှေမြင်တင်ဘုရားကုန်းတော်နှင့် ဝဘုရားကုန်းတော်တို့၏ အလယ်၌ ပိန်းအင်းကြီးကိုဖြတ်၍ တည်ဆောက်ထားသည့် တိုင်တစ်ရာတံတားကြီးပေါ်တွင် ကိုရင်မုနိန္ဒကို နောက်မှာထားလျက် စင်္ကြံလျှောက်နေသည်။

ညင်သာသော လေပြည်ကလေးသည် ကွန့်မြူးရနေသည့် ပိန်းအင်းကြီး၏ ရေပြင်ကို လှိုင်းကလေးများထအောင် ဖန်တီးနေသည်။ အင်းကြီးထဲတွင် ဖူးပွင့်ဝေဆာနေသည့် ကြာဖြူ၊ ကြာနီ၊ ကြာညိုနှင့် ပဒုမ္မာကြာတို့သည် လှိုင်းကလေးများပေါ်တွင် ဟီးလေးခိုကာ အငြိမ့်စီးနေကြသည်။

ညနေစောင်း၏ တောက်ပသောနေရောင်ခြည်သည် စိမ်းလဲ့ကြည်လင်နေသည့် ရေပြင်ပေါ်တွင် ဖြာကျနေသည်။ ကျေးငှက်မျိုးစုံတို့၏ တွန်ကျူးသံတို့သည်လည်း သာယာအေးချမ်းလှသည့် ပိန်းအင်းကြီး၏ ပတ်ဝန်းကျင်ကို ပို၍သာယာအောင် ပြုမူနေဘိသို့ရှိသည်။

အနီးရှိ သစ်နီတောကျောင်းတိုက်၊ နွားမယံကျောင်းတိုက်နှင့် ဝဘုရား၊ ရွှေကြာရံဘုရား၊ ရွှေမြင်တင်ဘုရားတို့သည် ပိန်းအင်းကြီး၏ ပတ်ဝန်းကျင်ကို လောကုတ္တရာအရိပ် မိုးပေးနေသည်။ သာယာကြည်နူးဖွယ်ပတ်ဝန်းကျင်သည် ကဗျာတစ်ပုဒ်ကဲ့သို့ ဖြစ်နေသည်။ ၎င်းကဗျာဆန်သော ပတ်ဝန်းကျင်သည် စာဆိုသာမဏေ၏ ခံစားချက်နှလုံးသားကို မြှူဆွနေလေသည်။ ဆရာတော်ကြီးသည် တပည့်သာမဏေ၏ အကဲကို ခတ်မိလေသည်။

## မဟာသာရမြို့

ထို့ကြောင့် ဆရာတော်ကြီးက တပည့်သာမဏေအား သည်အိုင် သည်အင်း သည်ပတ်ဝန်းကျင်ကို အာရုံပြုပြီး ပျို့ကဗျာတစ်စောင်စပ်ဆိုရန် တာဝန်ပေးလိုက်သည်။

သို့ဖြင့် သီရိပရမ၊ သုဓမ္မေယျဖြင့်၊ လောကသုံးခိုင်၊ ဆုံးမဲ့ပိုင်သည်၊ ဘုန်းလှိုင်သကျ၊ စိန္တေ ယျနှင့်၊ ဓမ္မဆယ်ဖြာ၊ မြတ်သံဃာကို၊ စေတနာညွတ်တွား၊ ကံသုံးပါးဖြင့်၊ ဦးဖျားညွတ်ငိုက်၊ တစ်မွတ်စိုက်ပြီ- အစချီသည့် 'မဟာသာရပျို့' (ပုရပိုက်ဖြင့် '၃၇' မျက်နှာပါရှိသည်) ကို စပ်ဆို၍ ဆရာတော်ကြီးအား ဆက်ကပ်လိုက်သည်။

ထိုအခါ ဆရာတော်ကြီးဦးပညာသာမိက နှစ်ထောင်းအားရ ကျေနပ်လှသဖြင့် သစ်နီတော စာသင်တိုက်ကြီးအတွင်းရှိ စာသင်သားသံဃာပေါင်း များစွာ၏အလယ်တွင် ရှင်မုနိန္ဒချီးကျူး ဂုဏ်ပြုပွဲကြီးတစ်ခု ပြုလုပ်လျက် 'အဘိဓမ္မသံဃဒတ္ထိယဘွဲ့တံဆိပ်တော်'ကို ပေးအပ်ချီးမြှင့် လိုက်သည်။ ထို့ပြင် သစ်နီတောကျောင်းတိုက်၏ မြောက်ဘက်တွင် ကပ်လျက်ရှိသော 'နွားမယံကျောင်းတိုက်ကြီးနှင့် ဥယျာဉ်ကြီး'ကို အပိုင်ပေးသနားတော်မူသည်။ သို့ဖြင့် ကျီးသဲ လေးထပ် ဆရာတော်လောင်းလျာသည် သာမဏေဘဝကတည်းက 'သာမဏေကျော်ဘွဲ့'ကို ရရှိတော်မူခဲ့သည်။

## ရွှေတောင်သို့တက်ပြီ

သက်တော် (၁၇) နှစ်တွင် ရွှေတောင်မြို့ မင်းတဲရပ်ရှိ ဝိစိတ္တာလင်္ကာရမဟာဓမ္မရာဇဂုရု ပထမကျော် လင်္ကာဒီပဆရာတော်ထံ၌ အဘိဓမ္မာပါဠိတော် (၇) ကျမ်းအဖွင့်ဖြစ်သော အဋ္ဌသာလိနီ အဋ္ဌကထာ၊ သမ္မောဟဝိနောဒနီအဋ္ဌကထာ၊ အဘိဓမ္မတ္ထဝိဘာဝနီဋီကာကျမ်းများကို သင်ကြား တတ်မြောက်တော်မူသည်။

## ရဟန်းအဖြစ်သို့ရောက်ပြီ

သက်တော် (၁၉) နှစ်၊ ခြောက်လအရွယ် ၁၁၉၈-ခုနှစ်၊ တပေါင်းလပြည့် (၁၉-၂-၁၈၃၇) အင်္ဂါနေ့တွင် ကဝိန္ဒာဘိသဒ္ဓမ္မပဝရ မဟာဓမ္မရာဇဂုရု ဂုဏမုနိန္ဒာလင်္ကာရ သဒ္ဓမ္မ မဟာဓမ္မ ရာဇာဓိရာဇဂုရု တံဆိပ်တော်နှစ်ဃပ်ရ အမရပူရ ရွှေတောင်ဆရာတော်ဘုရားကြီး အရှင်ဂုဏာစာရ၏ သဒ္ဓိဝိဟာရိက ရွှေတောင်မြို့ ဂိုဏ်းအုပ်ဆရာတော် အရှင်ကုမာရကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ဘွဲ့တော်မှာ အရှင်မုနိန္ဒဓဇပင် ဖြစ်သည်။

## နေပြည်တော်တွင် ပညာသင်

ရဟန်းအဖြစ်သို့ ရောက်ပြီးနောက် အထက်မြန်မာပြည်သို့တက်ရောက်ကာ အမရပူရ နေပြည်တော်တွင် ပိဋကတ်အကျော်အမော် ဆရာတော်ကြီးများဖြစ်သည့် ဘွဲ့တံဆိပ်တော် အထပ်ထပ် ရတော်မူသော (၁) မောင်းထောင်သာသနာပိုင်ဆရာတော် ဦးဉေယျဓမ္မ(ဉေယျဓမ္မာ လင်္ကာရ မဟာဓမ္မရာဇာဓိ ရာဇဂုရု/ဉေယျဓမ္မာဘိဝံသ သီရိပဝရလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု/ဉေယျဓမ္မာဘိဝံသ မုနိဝရဉာဏကိတ္တိ သီရိဓဇဓမ္မသေနာပတိ မဟာ

ဓမ္မာစရိယာဇဂုရု၊ အမရပူရမြို့) (၂) မိတ္တီလာဆရာတော် ဦးဥတ္တမ (ဥတ္တမစက္ကိန္ဒဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု၊ အမရပူရမြို့) (၃) ခင်မကန်ဆရာတော် ဦးမဃိဇောတ (မဃိဇောတာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု၊ အမရပူရမြို့) (၄) ရွှေတိုက်ဝန်ဆရာတော် ဦးအရိန္ဒမ (အရိန္ဒမဂုဏာဘိသီရိဓဇ မဟာဓမ္မရာဇဂုရု၊ အမရပူရမြို့) နှင့် (၅) ဆရာတော်ဦးအရိယ (မြို့မကျောင်းတိုက်၊ အင်းပူမြို့) တို့ ထံတော်၌ သာသနိကဖြစ်သော ပိဋကတ်ကျမ်း၊ အနုဝဇ္ဇဖြစ်သော လောကီယကျမ်းနှင့် သက္ကတကျမ်းစသည့် ပိဋကတ်သုံးသွယ် နိကာယ်ငါးရပ်နှင့် ကျမ်းမျိုးစုံတို့ကို ဆုံးခန်းတိုင် အာဂုံဆောင်တတ်မြောက်အောင် သင်ကြားခဲ့ရသဖြင့် သာသနာဝယ် နေလအသွင် ထင်ရှားသော ရဟန်းတစ်ပါးအဖြစ်သို့ ရောက်တော်မူသည်။

## လေးထပ်ကျောင်းတော်ကြီးကို အလှူခံ

ရဟန်းခြောက်ဝါရရှိပြီး ပညာစုံသောအခါ ရွှေတောင်သို့ ပြန်ကြွလာလေသည်။ ထို့နောက် အမရပူရနန်းစံ ပုဂံမင်းတရားကြီးလက်ထက် ရွှေတောင်မြို့၊ ပန်းတောင်းမြို့နှင့် ဟံသာဝတီ ရန်ကုန်မြို့များကို အုပ်ချုပ်၍ မြို့ဝန်လုပ်ရသော သတိုးမင်းကြီး မဟာမင်းလှမင်းခေါင်ကျော်ထင်နော်ရထာဘွဲ့ခံ သတိုးဝန်ကြီးဦးမှုံက ကျီးသဲအရှေ့ဘက် တာနှစ်ရာကျော်ကွာဝေးသော ရွှေမြင်တင်ဘုရား အနီး ကုန်းမြေတွင် လေးထပ်ကျောင်းတော်ကြီးကို (ကောဇာသက္ကရာဇ် ၁၂၀၆–ခုနှစ်)တွင် ဆောက်လုပ်လှူဒါန်းသည်။ ထိုအချိန်တွင် ရဟန်းရှစ်ဝါရရှိပြီ။

## ကျီးသဲလေးထပ်ဆရာတော်ဟု ထင်ပေါ်ကျော်ကြားခြင်း

ဤသို့ လေးထပ်ကျောင်းတော်ကြီးတွင် ကျောင်းထိုင်သီတင်းသုံးသည်က စတင်၍ ဆရာတော်ကြီး ပြုစုရေးသားသမျှ စာပေ၊ကဗျာ၊ မေတ္တာစာနှင့် ကျမ်းဟူသမျှတွင် "ကျီးသဲလေးထပ်ဆရာတော်"ဟု ကလောင်အမည်တပ်တော်မူခဲ့သည်။ လာလာသမျှ စာသင်သားတို့ကိုလည်း စာဝါများ ပို့ချပေးတော်မူသည်။ အချိန်ကန့်သတ်၍ အာနာပါန သမထဝိပဿနာတရားများကိုလည်း အားထုတ်တော်မူသည်။

လေးထပ်ကျောင်းတော်ကြီး၏ ဒါယကာ သတိုးဝန်ကြီးဦးမှုံ၊ ဆရာကြီးဦးရန်ကင်းနှင့် အခြားရဟန်းရှင်လူပုဂ္ဂိုလ်အချို့တို့၏ လျှောက်ထားတောင်းပန်ချက်အရ ထင်ရှားကျော်ကြားသော ကျမ်းပေါင်းများစွာကို အချိန်ပေးအလေးထား ရေးသားပြုစုတော်မူခဲ့သည်။

ထို့ကြောင့် ဆရာတော်ဘုရားကြီး၏ အသက်တာတော်အတွင်း ပြဇာတ်၊ ပျို့ကဗျာနှင့် မေတ္တာစာအပါအဝင် ကျမ်းပေါင်း (၄၂) ကျမ်းတို့ကို (ယခုအချိန်အထိ ရှာဖွေတွေ့ရှိရသမျှ) ပြုစုရေးသားတော်မူခဲ့သည်။

ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး ပြုစုရေးသားတော်မူခဲ့သော ကျမ်းများမှာ–

၁။ ဝိနတ္ထပကာသနီကျမ်း

၂။ စွယ်စုံကျော်ထင်အဖြေကျမ်း

## ဦးနိုက်နိဒါန်း




၃။ မဟာဝင်ကျမ်း
၄။ သီလဗေဒ ပကာသနီကျမ်း
၅။ ပဥ္စာ ဗျာကရဏ အဋ္ဌတိသကျမ်း
၆။ နိဗ္ဗာန်လမ်းပြကျမ်း
၇။ သံသယဝိသောဓနောကျမ်း
၈။ မနောရထပူရဏီကျမ်း
၉။ ဝိမတိစ္ဆေဒနီကျမ်း
၁၀။ မင်္ဂလတ္ထဒီပနီ နိဿယကျမ်း
၁၁။ အဘိဓမ္မတ္ထသင်္ဂဟ နိဿယကျမ်း
၁၂။ သဒ္ဒါကြီး နိဿယကျမ်း
၁၃။ ကဝိသာရ ဆန်းဋီကာ နိဿယကျမ်း
၁၄။ ဂန္ထဝံသ နိဿယကျမ်း
၁၅။ ဓမ္မဒေသနာကျမ်း
၁၆။ ဗုဒ္ဓဒေသနာကျမ်း
၁၇။ ပရိမိတ္တနိဒါန်းကျမ်း
၁၈။ ဘိက္ခုဝိဘင်း နိဿယကျမ်း
၁၉။ ဘိက္ခုနီဝိဘင်းပါဠိတော် နိဿယကျမ်း
၂၀။ ဝိနည်းမဟာဝါပါဠိတော် နိဿယကျမ်း
၂၁။ ဝိနည်းစူဠဝါ ပါဠိတော် နိဿယကျမ်း
၂၂။ ဝိနည်း ပရိဝါ ပါဠိတော် နိဿယကျမ်း
၂၃။ ကဗျာသာရတ္ထသင်္ဂဟကျမ်း
၂၄။ သဋ္ဋနဝိလာသနီကျမ်း
၂၅။ ဆပဥ္စင်္ဂီကကျမ်း
၂၆။ သုဝိနာဗျာယကျမ်း
၂၇။ ဒိဋ္ဌိပကာသနီကျမ်း
၂၈။ ပုရာဏကျမ်း
၂၉။ ဓမ္မဂန်ဖတ်စာ
၃၀။ အနတ္တသုခ ဒီပနီကျမ်း
၃၁။ ဆုတောင်းဂါထာပါဌ်ကျမ်း
၃၂။ မဟာသာရပျို့
၃၃။ ဒုဋ္ဌဂါမဏီပြဇာတ်
၃၄။ မောင်ထော်လေးရေစက်ချစာတမ်း
၃၅။ ပကိဏ္ဏကနမက္ကာရအစိန္တေယျကြီး


2
A

၃၆။ ကျီးသဲမေတ္တာစာ
၃၇။ စေတီတော်အား လျှပ်စစ်မီး တပ်သင့်၊ မတပ်သင့် ဝိနိစ္ဆယကျမ်း
၃၈။ ဗဘာသုံးနည်း အဆုံးအဖြတ်ကျမ်း
၃၉။ ကထိန်အမေးအဖြေကျမ်း
၄၀။ လောကနီတိ နိဿယကျမ်း
၄၁။ သိမ်ကျောက်စာများ
၄၂။ ခေါင်းလောင်းသံပိုင်း စသည်တို့ ဖြစ်သည်။

## အကျော်ကြားဆုံးကျမ်း

ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီးသည် စာသင်သားသံဃာများအား စာပေသင်ကြားပို့ချခြင်း၊ ဝိပဿနာတရားအားထုတ်ခြင်း၊ ရံဖန်ရံခါတွင် အရပ်ရပ်ပတ်ဝန်းကျင်မှ လာရောက်မေးမြန်း လျှောက်ထားကြသည့် ရဟန်းရှင်လူတို့၏ အမေးပုစ္ဆာများကို ပြန်လည်ဖြေကြားတော်မူခြင်းနှင့် ကျမ်းစာအမျိုးမျိုး ရေးသားပြုစုခြင်းတို့ကို မပြတ်မလပ် အားထုတ်တော်မူခဲ့သည်။

ဇိနတ္ထပကာသနီကား မြန်မာနိုင်ငံရှိ ဗုဒ္ဓဘာသာဝင်များ၏ အိမ်တိုင်းလိုလိုတွင်ရှိသော စာအုပ်စင်များ၌ ထိပ်တန်းနေရာကို ရယူလျက်ရှိသည့် ကျမ်းစာအုပ်ဖြစ်သည်။ မည်သည့်ဗုဒ္ဓဝင်စာအုပ်မျှ ဇိနတ္ထပကာသနီကို မကျော်လွှားနိုင်သေးပေ။

ထိုသို့ဖြစ်ရခြင်းမှာ ဇိနတ္ထပကာသနီသည် ဗုဒ္ဓဝင်ကြောင်းနှင့်ပတ်သက်၍ အကြောင်းအရာစုံသည့်အပြင် ပြည်သူလူထုအတွင်းသို့ ထွင်းဖောက်တိုးဝင်နိုင်သည့် ဝေါဟာရစကားလုံးတို့ဖြင့် ရေးသားပြုစုထားသောကြောင့်ဖြစ်သည်။

ဇိနတ္ထပကာနီ ရေးသားဟန်မှာ ခံ့ညားမှု၊ ညက်ညောမှု၊ လွယ်ကူမှု၊ မြန်မာဆန်မှု၊ ခေတ်မီမှုတို့ဖြင့် ထုံမွှမ်းနေပေသည်။ ဇိနတ္ထပကာသနီသည် မြန်မာစာအုပ်လောကထဲတွင် အတွင်ကျယ်ဆုံး၊ လူသိအများဆုံး၊ အပုံနှိပ်ဆုံးစာအုပ်တစ်အုပ်ဖြစ်သည်။ ပိဋကတ်စာပုံနှိပ်တိုက်ကြီးများမှ သရုပ်ဖော်ပုံများနှင့် ရိုက်နှိပ်ထုတ်ဝေခဲ့သည်မှာ အကြိမ်ပေါင်းများစွာရှိပေပြီ။ အုပ်ရေပေါင်းလည်း များလှပြီ။ ယနေ့အထိ အကြိမ်ကြိမ်ရိုက်နှိပ်နေရဆဲ။ စောင်ရေပေါင်းလည်း သန်းချီနေပြီ။ ယခုအထိ ရောင်းမလောက်သောစာအုပ်ဖြစ်သည်။ ဇိနတ္ထပကာသနီကို တက္ကသိုလ်ကျောင်းသုံးစာအုပ်အဖြစ်နှင့်လည်း ပြဋ္ဌာန်းခဲ့ဖူးပေသည်။ ဝိဇ္ဇာတန်းတွင် ပြဋ္ဌာန်းခဲ့သည်။

လေးထပ်ဆရာတော်ဘုရားကြီး၏ အခြားကျမ်းများသည်လည်း လေးနက်ခံ့ညား ထူးခြားပြောင်မြောက်စွာ အရေးကောင်းသောကြောင့် မြန်မာနည်း မြန်မာ့ဟန်နှင့် ဆရာတော်၏ပင်ကိုဟန်များ ထူးခြားကောင်းမွန်မှုတို့ကြောင့် အထူးအောင်မြင်လှပေသည်။

## ဦးပုညသို့ မေတ္တာစာ

ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီးသည် ပန်းတောင်းမြို့တွင် သီတင်းသုံးနေခိုက် စလေဦးပုညထံ မေတ္တာစာတစ်စောင် ပေးပို့ခဲ့သည်။ ထိုစဉ်က စလေဦးပုညမှာ စလေမြို့ ဒက္ခိဏာဝံသကျောင်းတိုက်၌ သီတင်းသုံးနေသော ရှင်သာမဏေဖြစ်ပြီး ကျီးသဲလေးထပ်ဆရာတော်မှာ မုနိန္ဒာဘိဓဇအမည်ဖြင့် ထင်ရှားကျော်ကြားနေသော မထေရ်တစ်ပါး ဖြစ်နေလေပြီ။

ကျီးသဲလေးထပ်ဆရာတော်က စလေဦးပုညအား 'ညီတော်' ဟူ၍ ခေါ်ပြီးလျှင် ညီတော်၏ ပညာဂုဏ်သတင်းကို ကြားရကြောင်း၊ ညီတော်နှင့်မိတ်သင်္ဂဟဖြစ်လိုကြောင်း၊ ယခုအခါ နောင်တော်တွင် ဒူလာပါဒရက်ရောဂါဖိစီးနှိပ်စက်နေသည်ဖြစ်၍ ဆေးကုစွမ်းရည်ထက်လှသော ညီတော်ထံတွင် ဆေးနည်းကောင်းများရှိလျှင် နောင်တော်အားကြားသိစေလိုကြောင်း စသည်ဖြင့် မေတ္တာစာတစ်ပုဒ် ရေးပေးလိုက်လေသည်။ ထိုမေတ္တာစာသည် "ကျီးသဲလေးထပ်မေတ္တာစာ" စာအုပ်တွင် ပါရှိသည်။ ထိုစာအုပ်တွင် လေးထပ်ဆရာတော်ကြီး ရေးသားထားခဲ့သော မေတ္တာစာ (၂၂) ပုဒ် ပါရှိသည်ကို တွေ့ရသည်။

## ဒုဋ္ဌဂါမဏိပြဇာတ်ရေး၍ တိုင်းပြည်သို့ သတိပေး

နယ်ချဲ့အင်္ဂလိပ်တို့သည် (၁၈၂၄) ခုနှစ်တွင် တစ်ကြိမ်၊ (၁၈၅၂) ခုနှစ်တွင် တစ်ကြိမ်၊ နှစ်ကြိမ်တိုင်တိုင် မတရားစစ်ပြုခဲ့ကြသည်။ ထို့ကြောင့် ပထမအကြိမ်တွင် ရခိုင်နှင့်တနင်္သာရီဒေသတို့ကို ဆုံးရှုံးလက်လွှတ်ခဲ့ရသည်။ ဒုတိယအကြိမ်တွင် ပဲခူးနယ် (ပဲခူးတိုင်း) မှစ၍ မြန်မာနိုင်ငံ အောက်ပိုင်းတစ်ခုလုံး လက်လွှတ်ဆုံးရှုံးရကာ နယ်ချဲ့အင်္ဂလိပ်တို့လက်အောက် ကျရောက်ခဲ့ရသည်။

ထို့ကြောင့် ကျီးသဲလေးထပ်ဆရာတော်သည် ဒုဋ္ဌဂါမဏိပြဇာတ်ကို ရေးသား၍ တိုင်းသူပြည်သားတို့ အသိအမြင်နိုးကြားအောင် ဆောင်ရွက်တော်မူခဲ့သည်။

ငင်းပြဇာတ်မှာ သာသနာ၏အန္တရာယ် ရန်ဆူးရန်ငြောင့်များဖြစ်သော ကျေးတစ်ဆယ့်ခြောက်ပြည်ထောင်တို့ကို တိုက်ခိုက်နှိမ်နင်းသုတ်သင်ပြီး သာသနာတော်အဓွန့်ရှည် တည်တံ့ပြန့်ပွားရေးအတွက် ဆောင်ရွက်သွားသော သာသနာပြုမင်း ဒုဋ္ဌဂါမဏိအကြောင်း ရေးသားထားသည့် ပြဇာတ်ဖြစ်သည်။

စင်စစ် ကျီးသဲလေးထပ်ဆရာတော်သည် ဘာသာ သာသနာ မကွယ်ပျောက်ရအောင် ဒုဋ္ဌဂါမဏိပြဇာတ်ကို ရေး၍ တိုင်းပြည်အား အလေးအနက်သတိပေးခဲ့ခြင်းဖြစ်သည်။

နှောင်းလူတို့က ဒုဋ္ဌဂါမဏိပြဇာတ်ကို ရုပ်စုံရောင်စုံပန်းချီကားကြီးများ ရေးဆွဲ၍ ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး ကိုးကွယ်ခဲ့သော ရွှေတောင်မြို့ ရွှေနတ်ကောင်စေတီတော် မြတ်ကြီး၏ အနောက်ဘက်စောင်းတန်းတွင် ချိတ်ဆွဲထားခဲ့သည်။ နှစ်ပေါင်းများစွာကြာပြီဖြစ်သော်လည်း မပျက်မစီး အကောင်းပကတိအတိုင်း ရှိသေးသော ငင်းပန်းချီကားကြီးများကို ယနေ့တိုင် တွေ့မြင်နိုင်သေးသည်။

## စွယ်စုံကျော်ထင်ကျမ်း

၁၂၂၇–ခုနှစ်တွင် ရေးသားပြုစုပြီးခဲ့သော စွယ်စုံကျော်ထင်အဖြေကျမ်းသည် ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး၏ မသိတာမရှိအောင် ကြီးမားများပြားလှသည့် မ,တစ်လုံးကျေ ပညာပါရမီကြီးရင့်မှုကို ပြသနေပေသည်။

ဤသို့နက်နဲခက်ခဲလှသည့် လောကီလောကုတ္တရာနှစ်ဖြာအကျိုးရှိမည့် နည်းယူမှတ်သားစရာ ပညာရပ် ဗဟုသုတ အထွေထွေကို ကျမ်းအစောင်စောင်မှ ထုတ်နုတ်၍ လက်စွမ်းပြအဖြေ တစ်ထောင်ကျော် ဖြေဆိုထားတော်မူသောကြောင့် လူကြိုက်များလှသော စာအုပ်တစ်အုပ်ဖြစ်နေသည်။

## အကြိမ်ကြိမ်ရိုက်နှိပ်ခြင်း

ဤစွယ်စုံကျော်ထင်ကျမ်းကြီးကို ယခင်က ပထမတွဲ၊ ဒုတိယတွဲနှစ်တွဲ ခွဲ၍ ရိုက်နှိပ်ခဲ့သည်။ ၁၃၁၇ (၁၉၅၅) ခုနှစ်တွင် ဣန္ဒာသယပုံနှိပ်တိုက် (ရန်ကုန်မြို့) မှ ပထမတွဲကို စတင်ရိုက်နှိပ်ခဲ့သည်။ ၁၉၅၅–ခုနှစ်မှာပင် ဒုတိယတွဲကို ဂန္ဓမာပုံနှိပ်တိုက် (ရန်ကုန်မြို့) မှ ရိုက်နှိပ်ခဲ့သည်။

၁၃၂၉ (၁၉၆၈) ခုနှစ်တွင် ရတနာဒီပပုံနှိပ်တိုက် (မန္တလေးမြို့) မှ ပထမတွဲကို ဒုတိယအကြိမ် ရိုက်နှိပ်သည်။ ၁၉၆၈–ခုနှစ်မှာပင် ကာယသုခပုံနှိပ်တိုက် (ရန်ကုန်မြို့) မှ ဒုတိယတွဲကို ရိုက်နှိပ်ထုတ်ဝေခဲ့သည်။

ထို့နောက် ၁၃၄၄ (၁၉၈၃) ခုနှစ်တွင် သာသနာရေးဦးစီးဌာနပုံနှိပ်တိုက် (ရန်ကုန်မြို့)မှ ပထမတွဲနှင့် ဒုတိယတွဲတို့ကို တစ်အုပ်တည်းပေါင်းပြီး ရိုက်နှိပ်ထုတ်ဝေခဲ့သည်။

၁၃၆၂ (၂၀၀၀) ပြည့်နှစ်တွင် သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်မှပင် နှစ်တွဲပေါင်းကို ထပ်မံရိုက်နှိပ် ထုတ်ဝေခဲ့ကြောင်း တွေ့ရှိရသည်။ ထိုသို့ ရိုက်နှိပ်ထုတ်ဝေပြီး ရက်ပိုင်းအတွင်း စာအုပ်အားလုံး ကုန်အောင် အရောင်းသွက်ခဲ့ကြောင်း သိရသည်။

ထို့ကြောင့် စွယ်စုံကျော်ထင်ကျမ်း ဝယ်ယူရရှိသူ ပြည်သူတို့၏တောင်းဆိုချက်၊ မြို့နယ်သံဃနာယကအဖွဲ့၏ မေတ္တာရပ်ခံချက်တို့ကြောင့် ဦးသိန်းထွန်း (ခင်ချိုထွန်းစာပေတိုက်) က ရိုက်နှိပ်ထုတ်ဝေရန် စီစဉ်ပြင်ဆင်သည်။ ထို့ကြောင့် စာရေးသူက ဤဦးနိုက်နိဒါန်းကို ရှိသေစွာ ရေးသားလိုက်ရပေသည်။

## သမိုင်းမော်ကွန်းဝင်ကျမ်း

ဤစွယ်စုံကျော်ထင်ကျမ်းကြီး၏ ကောင်းခြင်းအင်္ဂါအဖြာဖြာတို့ကား ပြောမကုန်နိုင်အောင် ရေးသားတင်ပြမကုန်နိုင်အောင် များပြားလှသည်။

ဤစွယ်စုံကျော်ထင်ကျမ်းကြီးကား စာပေလောကတွင် သမိုင်းဝင်မော်ကွန်းတင်လောက်ပါပေသည်။ ပညာရှိတစ်ဦးက ပုစ္ဆာအမေးထုတ်၍ အခြားပညာရှိတစ်ဦးက ဝိသဇ္ဇန ဖြေတော်မူသော ကျမ်းအချို့ရှိသည့်အနက် ဤစွယ်စုံကျော်ထင်ကျမ်းကြီးလောက် အလွန်ခက်ခဲ နက်နဲသော အမေးပုစ္ဆာ တစ်ထောင်ကျော်ကို ခဲရာခဲဆစ် ပြည့်ပြည့်စုံစုံ ခမ်းခမ်းနားနား

ဝင့်ဝင့်ထည်ထည် ကြွယ်ကြွယ်ဝဝ ဝိသဇ္ဇက ဖြေပြထားတော်မူသော ကျမ်းမျိုးကား လွန်စွာ ရှားလှပေသည်။

## လက်ဝယ်ထားကာ လေ့လာသင့်သောကျမ်း

ထို့ကြောင့် ဗဟုသုတ အကြားအမြင်နှင့် ပြည့်စုံသူ၊ ပညာဉာဏ်ကြီးမားသူအဖြစ်သို့ ရောက်လိုသူတိုင်း ဤစွယ်စုံကျော်ထင်ကျမ်းကြီးကို လက်ဝယ်ထားကာ လေ့လာမှတ်သား အပ်ပေသည်။ ပညာစီးပွားကြီးပွားလိုသူတိုင်း လက်မလွှတ်သင့်ပေ။

ဤစွယ်စုံကျော်ထင်ကျမ်းကြီး၏ ကောင်းခြင်းအင်္ဂါအဖြာဖြာတို့ကို အကျဉ်းချုပ်၍ ဖော်ပြ ရသော် ဂေါတမဗုဒ္ဓရှင်တော်ဘုရားဟောကြားတော်မူခဲ့သည့် တရားတော် ပါဠိတော်တို့သည် ပိဋကတ်သုံးသွယ် နိကာယ်ငါးဖြာ ရှိသည်။ ဆဋ္ဌသံဂါယနာတင်' မူများဖြင့် ဆိုရသော် စာအုပ်ပေါင်း (၄၀) ရှိသည်။

ထိုမူများပြားသော ပါဠိပိဋကတ်သုံးသွယ်၊ နိကာယ်ငါးဖြာတို့ထဲမှ သိဖွယ်၊ မှတ်ဖွယ် ကောင်းသည့် အကြောင်းအရာအချက်အလက်များနှင့် အဋ္ဌကထာ၊ ဋီကာဂန္ထန္တရ– နက္ခတ်၊ ဗေဒင်ကျမ်း၊ ဆေးကျမ်း၊ အင်္ဂရတ်ကျမ်း၊ သမိုင်းကျမ်းတို့ပါမကျန် လောကီ လောကုတ္တရာ အထွေထွေသော ကျမ်းမျိုးစုံတို့မှ ထုတ်နုတ်၍ မေးသူက သတ်ပုံပြသံပေါက်ကာဗျာဖြင့် မေး၍ ဖြေသူက စကားပြေနှင့် ပြည့်ပြည့်ဝဝ ဖြေထားသည်။

ထို့ကြောင့် ဤမျှလောက် ပြည့်စုံကြွယ်ဝကောင်းမွန်သော အမေးအဖြေကျမ်းမျိုးကား ရှေးက မပေါ်ဖူး၊ မရှိဖူးသေးပေ။

ထို့အပြင် မေးခွန်းတစ်ခု၊ ဖြေမှုအသွယ်သွယ်၊ ပရိယာယ်အဖုံဖုံ နည်းမျိုးစုံကိုလည်း တွေ့ရပေသည်။

အချို့သောအဖြေတို့တွင် "တစ်နည်းကား" "တစ်နည်းလည်း"စသည်ဖြင့် အဖြေအမျိုးမျိုး ဖြင့် ဖြေပြထားသည်။

ဥပမာပုံစံမှာ– အမေးပုစ္ဆာသံပေါက်နံပါတ် (၇၄) နှင့် (၇၅) တို့ကို အကျယ်ဖြေပြရာ၌ "တစ်နည်းကား"ကို အသုံးပြုဖြေပြထားသည်။

သံပေါက်နံပါတ် (၁၀၀) နဝရတ်ကိုးသွယ်၊ ဆင်စလွယ်၊ ဘယ်သူဘယ်သို့ဆင်ရန်နည်းကို ဖြေဆိုရာတွင် "တစ်နည်းလည်း"ကို အသုံးပြုဖြေပြထားသည်။

သံပေါက်နံပါတ် (၃၇) တွင်ဆိုလျှင် "သာသနာဝယ်၊ စိုးဆက်နွယ်၊ ဘယ်မျှမင်းပေါင်းရှိပြီ နည်း"ဟု အမေးပုစ္ဆက စာ (၁၄) လုံးဖြင့်မေးထားသည်ကို အဖြေဝိသဇ္ဇကဖြေတော်မူရာ၌ကား ပုံနှိပ်စာမျက်နှာ (၄) မျက်နှာ၊ စာလုံးရေ (၃၅၀၀) ခန့်ဖြင့် ဖြေဆိုထားသည်။ သာသနာတော်နှစ်၊ ကောဇာသက္ကရာဇ် မင်းစဉ်မင်းဆက်-မင်းသက်၊ နန်းသက်တို့ကို အသေးစိတ်ဖြေဆိုထားသည်။

သံပေါက်နံပါတ် (၃၂၄) "အလိမ်အလိမ်၊ အကြိမ်ကြိမ်၊ မိုးတိမ်ဘယ်ကဖြစ်သနည်း"ဟု အမေးပုစ္ဆက စာ (၁၄) လုံးဖြင့် မေးသည်ကို ဖြေဆိုရာ၌ စာ (၄) မျက်နှာ၊ စာလုံးရေ (၃၅၀၀) ခန့်ဖြင့် ဖြေဆိုထားတော်မူသည်။

သံပေါက်နံပါတ် (၃၃၈) "အပြစ်ခပ်သိမ်း၊ လောင်းရိုမ်းရှိမ်း၊ စိမ်းစော်နံတရား ဘယ်မျှနည်း"ဟု အမေးပုစ္ဆာ (၁၅) လုံးမျှသောစာဖြင့် မေးသည်ကို ဖြေဆိုရာ၌ စာ (၄) မျက်နှာ၊ စာလုံးရေ (၃၅၀၀) ခန့်ဖြင့် ဖြေဆိုထားတော်မူသည်။

သံပေါက်နံပါတ် (၇၂၀) "နိဗ္ဗာန်ရွှေပြည်၊ ဤကသည်၊ မည်မျှတာပေါင်းကွာသနည်း" ဟူသော စာ (၁၄) လုံးပါ အမေးပုစ္ဆာကို ပုံနှိပ်စာမျက်နှာ (၅) မျက်နှာ၊ စာလုံးရေ (၄၃၀၀) ကျော်ဖြင့် ဖြေဆိုကာ နိဗ္ဗာန်အကြောင်းကို ရှင်းလင်းလွယ်ကူစွာ သိမြင်အောင် အသေးစိတ် ဖြေဆိုထားတော်မူသည်။

၎င်းအဖြေ၏ နိဂုံး၌–

"သုတဝါ၊ အကြားအမြင် ပညာရှိသော။ အရိယသာဝကော၊ အရိယာဖြစ်သော တပည့်သည်။ အဇ္ဈတ္တိကေ၊ အတွင်းသန္တာန်၌ဖြစ်ကုန်သော။ အာယတနေ၊ အာယတနခြောက်ပါးတို့ကိုလည်းကောင်း။ နာဘိနန္ဒတိ၊ အလွန်မနှစ်သက်။ အလွန်ကောင်း၏ဟု မပြောဟော။ အနဇ္ဈောသာယ၊ မသက်ဝင်ခြင်းဖြင့်။ တိဋ္ဌတိ၊ တည်၏။ တံ၊ ထိုအာယတနတစ်ဆယ့်နှစ်ပါးကို။ အနဘိနန္ဒတော၊ အလွန်မနှစ်သက်သောအားဖြင့်။ အနဘိဝဒတော၊ အလွန်မပြောဟောသော အားဖြင့်။ တိဋ္ဌတော၊ တည်သော။ တဿ၊ ထိုပုဂ္ဂိုလ်အား။ တဏှာ၊ တပ်မက်တတ်သော တဏှာသည်။ နိရုဇ္ဈတိ၊ ချုပ်၏။

"တဏှာနိရောဓာ၊ တဏှာ၏ချုပ်ခြင်းကြောင့်။ ဥပါဒါနနိရောဓာ၊ စွဲလမ်းခြင်းဥပါဒါန်၏ ချုပ်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ဥပါဒါနနိရောဓာ၊ ဥပါဒါန်၏ချုပ်ခြင်းကြောင့်။ ဘဝနိရောဓော၊ ဖြစ်ခြင်းဟူသော ဘဝ၏ချုပ်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ဘဝနိရောဓာ၊ ဘဝချုပ်ခြင်းကြောင့်။ ဇာတိနိရောဓော၊ ဇာတိ၏ချုပ်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ဇာတိနိရောဓာ၊ ဇာတိ၏ချုပ်ခြင်းကြောင့်။ ဇရာမရဏသောက ပရိဒေဝ ဒုက္ခဒေါမနဿု ပါယာသာ၊ အိုခြင်း၊ သေခြင်း၊ စိုးရိမ်ခြင်း၊ ငိုကြွေးခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာယာခြင်း၊ သက်ကြီးရှိုက်တငင် ပင်ပန်းခြင်းတို့သည်။ နိရုဇ္ဈန္တိ၊ ချုပ်ကုန်၏။"

"ဧဝံ၊ ဤသို့။ ကေဝလဿ၊ ချမ်းသာမဖက် သက်သက်သော။ ဧတဿဒုက္ခက္ခန္ဓဿ၊ ထိုဆင်းရဲအစု၏။ နိရောဓော၊ ချုပ်ခြင်းသည်။ ဟောတိ၊ ထင်ရှား၏။ ဧဝံခေါ၊ ဤသို့လျှင်။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ နိရောဓော၊ ချုပ်၏။"ဟူ၍ ဖြေဆိုထားတော်မူသည်။

## ဘုရားဆုပန်သော ကျီးသဲလေးထပ်ဆရာတော်

စွယ်စုံကျော်ထင်ကျမ်းပြီးနိဂုံးတွင်၊ စတုစက္ကသမ္ပုဏ္ဏာသ၊ ပတိရူပစသည့်အင်္ဂါ၊ စက်လေးဖြာနှင့် လွန်စွာပြည့်စုံထသော။ ကဥ္စနာဂိရိနဂြဿ၊ ရွှေတောင်အမည်ရှိသောမြို့၏။ တိလကဗ္ဘူတေ၊ မှန်ကင်းအတူ မှန်ကူသဖွယ်လည်း ဖြစ်ထသော။ စက္ကဋ္ဌေ၊ ဘုရားသြဝါဒသာသနာ၏ တည်ရာ ခေတ်မြတ်လည်း ဖြစ်ထသော။ ကျီးသဲက္လတျာဘိသမ္ဘတေ၊ ကျီးသဲဟူ၍ ဗိုလ်လူသမုတ်အပ်သော အရပ်၌။ ဇာတတ္တာစ၊ သန္ဓေကိန်းပျော် ဖွားမြင်ကြီးရင့်သည်၏အဖြစ်ကြောင့်လည်းကောင်း။ တဿနိဂမဿ၊ ထိုကျီးသဲအမည်ရှိသောနိဂုံး၏။ ပါစီဘူမိဓေဋ္ဌေ၊ အရှေ့မျက်နှာ၊ တာသုံးရာခန့်၊ မျှော်ရာမွေဘုံ၊ မြေခုံညွန့်မြိတ်၊ ကုန်းဦးထိပ်၌၊ မဟာမဏ္ဍေန၊ ရွှေတောင်ပန်းတောင်း

ကူးပြောင်းလှယ်ကာ၊ ဟံသာဝတီ၊ ဌာနီပိုက်ချုပ်၊ ဝန်ကြီးလုပ်ရသော၊ မင်းကြီး မဟာမင်းနော်ရထာ၊ ကြော်ငြာတွင်ပြီး၊ အမတ်ကြီးသည်။ သာသနဒ္ဓရာယ၊ သာသနာကိုစည်ပင်စွာ ဆောင်ရွက်စေခြင်း အကျိုးငှာ၊ ပုတ္တဒါရာနံ၊ ရင်နှစ်နှစ်ဖော်၊ ကြင်ဖော်ဇနီး၊ မြောက်သားကြီးတို့ကို။ ကာရာပိတော၊ မိမွေဖငုတ်၊ ကံကျွေးထုတ်၍ ဆောက်လုပ်တည်ထောင်စေအပ်သော။ စတုဘုမ္မိကာဝါသော၊ လေးထပ်ကျောင်းကြီး၌၊ ပဋ္ဌမံ ရှေးဦးစွာ။ ဝသိတတ္တာစ၊ ယာပိုက်ဖြည့်တင်း၊ သီတင်းသုံးနေသည်၏ အဖြစ်ကြောင့်လည်းကောင်း။။

ကျီးသဲလေးထပ်တိအာချာတေန၊ ကျီးသဲလေးထပ်ဆရာဟူ၍ ခေါ်ဝေါ် အပ်ထသော။ စက္ကုသန္ဓရာစေရာနံ၊ ပရိယတ်၊ ပဋိပတ်၊ နှစ်ရပ်သောသာသနာကို၊ ကောင်းစွာဆောင်ကုန်သော၊ ဆရာမွန် ဆရာမြတ်တို့၏။ ဝံသာလင်္ကာရဘူတေန၊ အဆက်အနွယ်ကို ၊တင်တယ်စွာ တန်းဆာဆင်သကဲ့သို့ဖြစ်ထသော။ သဒ္ဓမ္မေ၊ သူတော်ကောင်းတို့၏တရား၌။ အဘိရမန္တေန၊ အလွန်မွေ့လျော်စွာထသော။ သီလာဒိဂုဏာယုတ္တေန၊ သံဝရဝိနည်း၊ အာစာရဝိနည်း၊ စောင့်စည်း ခြိုးခြံ၊ မြူမရုံသော၊ သီလပညာ သမာဓိဂုဏ်နှင့်လည်း ယှဉ်ထသော။ ဝေပုလ္လပညာ ဝေယတ္တိကေန၊ ပြန့်ပြောကျယ်ဝင်း၊ ထိုးထွင်းနိုက်နဲ၊ ခွဲခြမ်းဝေဖန်နိုင်သော၊ ဉာဏ်ပညာအစွမ်း လည်း ရှိထသော။

တိပိဋကဝေဒတ္တယ ဗဟုသုတဂုဏောဟိ၊ ပါဠိအဋ္ဌကထာ၊ ဋီကာဥဿုံ၊ ကျမ်းသုံးပုံကို၊ ချက်ကုန်ထုတ်ဖောက်၊ လုံ့,မစောက်ဖြင့်၊ ပြန်ခေါက်များစွာ၊ လေ့လာနိုင်ခြင်းတည်းဟူသော ပိဋကတ္တယဗဟုသုတ၊ ဆန်းအလင်္ကာ၊ သဒ္ဒါနေတ္တိ၊ ဝိဒဂ်ဒဏ္ဍီ၊ ဗျဍ္ဍိကလာပ်၊ ဗြိဟတ်ရာဇမတ္တဏ်၊ ကာတန္တြသရောဒယ၊ ဇောတိသတ္တ၊ သူရိယသိဒ္ဓန္တ၊ စသည်သုံးခန်း၊ ဝေဒလ်ကျမ်းတို့၌၊ ပွန်းတီးလေ့လာ၊ လိမ္မာသိမြင်ခြင်းတည်းဟူသော၊ ဗေဒတ္တယဗဟုသုတ၊ ထုံးရာဇဝင်၊ ပုံပြင်လင်္ကာ၊ ကဗျာအရပ်ရပ်၌၊ ဓမ္မသတ်ဆေးကျမ်း၊ ခတ်ကျမ်းစမ၊ လောကဝိဇ္ဇာ၊ အရာရာတို့၌ ကောင်းစွာ လိမ္မာခြင်းတည်းဟူသော ဗဟုသုတဂုဏ်တို့ကြောင့်၊ ဝိသုတေန၊ နိုင်ငံမဆံ့၊ ပျံ့သောကျော်စောခြင်း လည်းရှိထသော။ဂဏာဝါစကေန၊ ရှစ်ခွင်ဒိသာ၊ ဝင်ရောက်လာသော၊ သံဃာအပေါင်းတို့၏ စာပို့စာချဆရာလည်းဖြစ်ထသော။

မုနိန္ဒာဘိဓေသည်ိနာ၊ မုနိန္ဒာဘိဓေအမည်ရှိသော။ မယာ၊ ငါသည်။ ဥတ္တရတိတ္ထံနာမဇနပဒံ၊ မြောက်ဆိပ်ရွာဟု၊ ကြေငြာကျော်ချီး၊ ဇနပုဒ်ကြီးကို။ ဥပနိဿာယ၊ အမှီပြု၍။ နဝဝိဟာရဂဗ္ဘံ၊ အသစ်သောကျောင်းတိုက်ကို။ ကာရယန္တော၊ ပြုစုတည်ထောင်လျက်။ သဝန္တော၊ သီတင်းသုံးနေစဉ်။ မင်္ဂလတ္ထဒီပနိယာ၊ မင်္ဂလတ္ထဒီပနီဋီကာကျမ်းကြီး၏။ အတ္ထံ၊ မြန်မာဘာသာ၊ မှီရာအတ္ထ၊ နိဿယကို။ ရစိတ္တွာ၊ ရေးသားပြုပြင်စီရင်ပြီး၍။ အစိရံဝ၊ မကြာမြင့်မီပင်လျှင်။ သဗြဟ္မစာရီနံ၊ သီတင်းသုံးဖော် သံဃာတော်တို့၏။ အာယာစနဥ္စ၊ တောင်းပန်ခြင်းကိုလည်းကောင်း။ ပရာနုကမ္ပာယ၊ သူတစ်ပါးတို့အား၊ သနားသောကရုဏာ၏။ စောဒိတဥ္စ၊ တိုက်တွန်းခြင်းကိုလည်းကောင်း။ ဥပါဒါယ၊ အစွဲပြု၍။ ဝိသဇ္ဇ ကာမဝိဒူနံ၊ ပုစ္ဆာခဲကတ်၊ အရပ်ရပ်ကို၊ ဆုံးဖြတ်ဖြေဆိုလိုကုန်သော ပညာရှိ တို့၏။ မုခမဏ္ဍနာယ၊ နှုတ်ခမ်းတန်းဆာ၊ ဆင်ပါစေခြင်းအကျိုးငှာ၊ ဣမံဂန္ထံ၊ ဤစွယ်စုံကျော်ထင် အမည်ရှိသော ပုစ္ဆာကျမ်းကို။ ဝိဿဇ္ဇေ၊ ဖြေလိုက်၏။ သယံလိက္ခေ၊ ကိုယ်တိုင် ရေးသီလိုက်၏။

## ဦးခိုက်နိဒါန်း

အယံဂန္ထေ၊ ဤကျမ်းကို။ ဝေယျာကရဏောတိသမ္ဗတော၊ အမေးအဖြေ စုံကာနေသော ကြောင့် ဝေယျာကရဏ်းဟူ၍ သတ်မှတ်အပ်၏။ သောစဂန္ထော၊ ထိုအဖြေကျမ်းသစ်သည်လည်း။ ဇိနစက္ကေ၊ ဘုရားသခင့်သာသနာတော်သည်။ ဆိဒြာကာသသိန္ဓုပသေ၊ ၂၄၀၉-ခုမြောက်ဖြစ်သော။ ဂေါဓေ၊ လူတို့ဝေါဟာ၊ နှစ်ဂေါစာသည်။ ကွသိကြလ္လာစမ္ဗရူပေ၊ ၁၂၂၇-ခုမြောက်ဖြစ်သော။ ဝသော၊နှစ်၌။ ဇနမာသပက္ခာဟာဒိနဘူတေ၊ ဖွားလ၊ ဖွားဖက်၊ ဖွားရက်၊ ဖွားနေ့ဖြစ်၍ဖြစ်သော။ အသာယုဇဇုဏှာအင္ဂမိဇီဝဒုနေ၊ သီတင်းကျွတ်လပြည့်ကျော်ရှစ်ရက်၊ ကြာသပတေးနေ့၌။ နိဋ္ဌံဂတော၊ အပြီးဆုံးသို့ရောက်၏။

မဟာမေဃော၊ ဘုရားစကြာ၊ ဖြစ်သောခါ၌၊ ဩဘာထွန်းအံ့၊ လေးကျွန်းနှံ့အောင် ရွာသောမိုးကြီးသည်။ အခိလံဇနံ၊ ဤတိုက်အတွင်း၊ ခပင်းဥဿုံ၊ ရှိနေကုန်သော လူနတ်များစွာ၊ သတ္တဝါတို့၏။ သုခါဝဟော၊ ချမ်းသာကိုရွက်ဆောင်နိုင်သည်။ အဟုဏ္ဏ၊ ဖြစ်သကဲ့သို့။ အယံဂန္ထော၊ ဤကျမ်းသည်။ ဘူမိလေ၊ မြေပြင်ပတ်ကုံး၊ နိုင်ငံလုံး၌။ သုဝေသာနံ၊ လောကုတ်လောကီ၊ ကျမ်းဆီညွှန်မှု၊ သုတပညာ၊ အလိမ္မာကို၊ ဖွေရှာတောင့်တကုန်သော သူအပေါင်းတို့၏။ သီဃံ၊ ကောင်းမြတ်သော။ ဆန္ဒဒွရော၊ လိုအင်ဆန္ဒ၊ ဟူသမျှကို၊ ပြည့်ဝအောင်ဆောင်ရွက်နိုင်သည်။ ဟောထ၊ ဖြစ်ပါစေကုန်သတည်း။

## ဆုကြီးကို ပန်ပြီ

အဟံ၊ငါသည်။ အနေနပုညေန၊ ဤဝေယျာကရဏ်းကျမ်းကို ပြုသွန်းစီရင်ရသော ကောင်းမှုကြောင့်။ အနာဂတေ၊ နောင်သောအခါ၌။ အသေသဉာဏော၊ အကြွင်းမထင်၊ သိမြင်နိုင်သော ပညာရှိသော။ အတုလဂုဏဒ္ဒရော၊ သူမတူနိုင်၊ ကြီးခိုင်မြင့်မြတ်သော၊ ဂုဏ်ကျေးဇူးကိုဆောင်နိုင်သော။ ဇိနဗ္ဗာဝေါ၊ ငါးမာရ်ပယ်ရှား၊ ဘုရား၏အဖြစ်သည်။ ဟုတွာ၊ ဖြစ်၍။ သဒေဝကံ၊ နတ်နှင့်တကွသောလူအပေါင်းကို။ တာရေမိ၊ သံသရာနယ်၊ မြစ်ပင်လယ်မှ၊ ရှစ်သွယ်မဂ္ဂင်၊ ဖောင်လင်းယာဉ်ဖြင့်။ ခေမဂ်တံ၊ ပြည်နိဗ္ဗာန်သို့။ အမြန်ကယ်တင်ရလို၏။

ယာဝ၊ အကြင်မျှလောက်။ ဇိနတ္တံ၊ ဘုရားအဖြစ်သို့။ အပတ္တံ၊ မရောက်သေး။ တာဝ၊ ထိုမရောက်သေးသမျှ ကာလပတ်လုံး။ သံသရန္တော၊ သံသရာ၌ကျင်လည်ရသည်ရှိသော်။ ဥက္ကဋ္ဌသန္ဓိယာ၊ တိဟိတ်ဥက္ကဋ်၊ မြတ်သောသန္ဓေ၊ နေရခြင်းဖြင့်။ သန္ဓိကော၊ ပဋိသန္ဓေတည်နေရသည်။ ဇာတိဿရဉာဏော၊ ကိုယ်၏အဖြစ်ကို၊ တွက်စစ်စေ့မြေ့ အောက်မေ့နိုင်သောပညာသည်။ ဒိဋ္ဌိဇု၊ ဖြောင့်မတ်ဟုတ်မှန်သည်ကိုသိသော၊ ပဝတ္တိပညာရှိသည်။ ဟုတွာ၊ ဖြစ်၍။ သဗ္ဗသိပ္ပာနိ၊ အလုံးစုံသောအတတ်မျိုးတို့ကို။ သုတစိန္တေန၊ ကြားကာ, မြင်ကာ, ကြံစည်ကာဖြင့်။ နိဋ္ဌံတော၊ အပြီးတိုင်ရောက်၊ တတ်မြောက်နိုင်ခြင်းသည်။ ဟောမိ၊ ဖြစ်ရပါလို၏။ ကွဒဥပုညဘာဂံ၊ ဤကောင်းမှု၏အဖို့ကိုလည်း။ သဗ္ဗသတ္တာနံ၊ အလုံးစုံသောသတ္တဝါတို့အား။ ဘာဇေမ၊ အမျှပေးဝေပါကုန်၏။ သုသက်ပ္ပာ၊ ကောင်းသောအကြံတို့သည်။ သမိဇ္ဈန္တု၊ ပြည့်စုံပါစေကုန်သတည်းဟု ပြည့်စုံစွာဖော်ပြထားသည်ကို ရှိသေစွာ ဦးခိုက်မှတ်တမ်းတင်လိုက်ရပါသတည်း။

**ကျိုးသဲညွှန့်နိုင်**

၁၇-၇-၂၀၀၁

# စွယ်စုံကျော်ထင်ကျမ်း

## မာတိကာ

ဤစွယ်စုံကျော်ထင်ကျမ်း၌ မာတိကာ သီးသန့်ညွှန်ပြဖွယ် မရှိတော့ပြီ၊ အမေးပုစ္ဆာ သံပေါက်များသည်ပင် မာတိကာအရာ၌ တည်လေသဖြင့် ယင်း၏ အဖြေတည်ရာများကို ဤအမေးပုစ္ဆာ သံပေါက်တို့၌ စာမျက်နှာညွှန်လိုက်ပါသတည်း။

**ဦးရေ** | **အကြောင်းအရာ** | **စာမျက်နှာ**

## (၁) "အယ်" ကာရန်ပုစ္ဆာ ၁၇၆-ပုဒ်


၁။ သာကီဝင်နွယ်၊ စောဘုန်းကြွယ်၊ မင်းဘယ်မျှတွင် ပွင့်သနည်း ၃
၂။ ဉာဏ်တော်ခြောက်သွယ်၊ အံ့ဩဖွယ်၊ ဘယ့်နှယ်ဝိထိကျသနည်း ၄
၃။ သဗ္ဗညုဉာဏ်ကျယ်၊ မင်္ဂနောင်ဝယ်၊ ဘယ်ဝိထိတွင် ဖြစ်သနည်း ၉
၄။ ပလ္လင်ကိုရွယ်၊ တို့ဘုန်းကြွယ်၊ ဘယ်တွက်ပူဇော်ပြန်သနည်း ၉
၅။ သွားတော်လေးဆယ်၊ သီချင်ဖွယ်၊ စွယ်တော်လုံးလျား ဘယ်မျှနည်း ၁၀
၆။ ဓာတ်တော်ဝေဖွယ် သုသာန်ဝယ်၊ ဘယ်ဖြင့်ပြီးသည့် အိုးပေနည်း ၁၂
၇။ နှစ်ဆယ့်လေးသွယ်၊ ပဋ္ဌာန်းဝယ်၊ အဘယ်ပစ္စည်း ကျယ်သနည်း ၁၃
၈။ ပဋ္ဌာန်းကျမ်းကျယ်၊ သင့်စဖွယ်၊ ရုပ်ဝယ်ပစ္စည်း ဘယ်မျှနည်း ၁၃
၉။ အဘိဓမ္မာဝယ်၊ တို့ဘုန်းကြွယ်၊ ဘယ်ဉာဏ်တော်ဖြင့် ဟောသနည်း ၁၅
၁၀။ လယ်ကိုင်းချမ်းဖွယ်၊ ကျောင်းတော်ဝယ်၊ အဘယ်သစ်ဖြင့် ဆောက်သနည်း ၁၅
၁၁။ လ-ရုံဖန်ငယ်၊ ရုံဖန်ကွယ်၊ ကြယ်ကား ဘယ့်ကြောင့်မကွယ်သနည်း ၁၅
၁၂။ ပဥ္စတားဝယ်၊ ကြိုဟ်ခြောက်သွယ်၊ ဘယ်က ဖယားထွက်သနည်း ၁၆
၁၃။ နိဗ္ဗာန်ရောက်ဖွယ်၊ ကြွေးကိုးဆယ်၊ ပါးဘယ်ခန့်မျှ ပွင့်သနည်း ၂၂
၁၄။ နေတ္တိကျမ်းဝယ်၊ ဆယ့်ခြောက်သွယ်၊ အဘယ်ဟာရ ကျယ်သနည်း ၂၄
၁၅။ နည်းကားငါးသွယ်၊ နေတ္တိဝယ်၊ ဘယ့်နှယ်နယ ခဲသနည်း ၂၅
၁၆။ နေတ္တိကျမ်းဝယ်၊ မင်းကိုးနွယ်၊ ဘယ်သည့်ဘယ့်သည့် မင်းတို့နည်း ၂၅
၁၇။ ငါတို့မင်းဝယ်၊ သက်ရှစ်ဆယ်၊ ဘယ်သိုက်တွက်ဟု ဆိုမည်နည်း ၂၅
၁၈။ အတုလံသွယ်၊ သကြိုဟ်ဝယ်၊ ဘယ်နှယ်ပဋိသောခနည်း ၂၆
၁၉။ နောပေတိဝယ်၊ သိသာလွယ်၊ အဘယ်သန္ဓိ ဆိုမည်နည်း ၂၆
၂၀။ ဂေါသဒ္ဒါဝယ်၊ ကြံစဖွယ်၊ အဘယ်ရှဋ္ဌိပေတို့နည်း ၂၆
၂၁။ မြောက်ကိုသိဖွယ်၊ မြစ်ကြီးငယ်၊ ဘယ်မှာသည်က ရှိသနည်း ၂၆
၂၂။ ပြဟ္မာရွေးဝယ်၊ လူ့ရှစ်သွယ်၊ ကြီးငယ်နံ့လျား ဘယ်မျှနည်း ၂၈

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၂၃။ | စို့သက်တံနွယ်၊ ကောင်းကင်လယ်၊ ဘယ်အကြောင်းကြောင့် ဖြစ်သနည်း | ၂၉ |
| ၂၄။ | ရှေ့နောက်သွယ်သွယ်၊ တန်း၍နွယ်၊ နေစွယ်ထွက်ကြောင်း ဘယ်မျှနည်း | ၃၀ |
| ၂၅။ | ချမ်းအေးစဖွယ်၊ လေညှင်းသွယ်၊ လေဝယ် ဓာတ်ပေါင်းမည်မျှနည်း | ၃၁ |
| ၂၆။ | ကမျဉ်းနီငယ်၊ ဆင်ကြီးကျယ်၊ ဘယ်သူစိတ်ရ များသနည်း | ၃၂ |
| ၂၇။ | လူနတ်ကိုးကွယ်, သီဟိုဠ်ဝယ်၊ ဘယ်သို့စက်ဦး ရှိသနည်း | ၃၃ |
| ၂၈။ | နေ–မိုး–လ–ကြယ်၊ ရောင်ခြည်သွယ်၊ ဘယ်သည့်ရုပ်ဟု ဆိုမည်နည်း | ၃၃ |
| ၂၉။ | ဆီမီးတောက်ငယ်၊ စေတီလယ်၊ ဘယ်မျှကလာပ် ရှိသနည်း | ၃၄ |
| ၃၀။ | လက္ခဏာယာဉ်ဝယ်၊ မဝင်ဖွယ်၊ ဘယ်ဒေသနာ ကြွင်းသနည်း | ၃၅ |
| ၃၁။ | မိဂဒါလယ်၊ တောရပ်ဝယ်၊ ဘယ်သူဆောက်သည့် ကျောင်းပေနည်း | ၃၅ |
| ၃၂။ | ယောက်ျားဝမ်းဝယ်၊ သန္ဓေလွယ် ဘယ်ပြု မီးမနေသနည်း | ၃၅ |
| ၃၃။ | နှစ်ရာကျော်ကယ်၊ စွန်းလေးဆယ်၊ ဘယ့်နှယ် နို့ထိန်းတိုက်လိမ့်နည်း | ၃၇ |
| ၃၄။ | တခြားကျွန်းဝယ်၊ တို့ကျွန်းနှယ်၊ အိုင်ကျယ် နောတတ်ရှိလိမ့်နည်း | ၃၈ |
| ၃၅။ | ဘုရားဘုန်းကြွယ်၊ ကိုယ်တော်ဝယ်၊ ရှစ်ဆယ် ပိုးမျိုးရှိလိမ့်နည်း | ၃၈ |
| ၃၆။ | ကိရိယာခြောက်ဆယ်၊ အသွယ်သွယ်၊ အဘယ်ကျမ်းက ထွက်သနည်း | ၃၈ |
| ၃၇။ | သာသနာဝယ်၊ စိုးဆက်နွယ်၊ ဘယ်မျှမင်းပေါင်း ရှိပြီနည်း | ၄၀ |
| ၃၈။ | ကသစ်သဖွယ်၊ ဥစ်တို့ဝယ်၊ ဘယ်ကြောင့်ခွင်စေ့ မထားသနည်း | ၄၅ |
| ၃၉။ | ဆယ့်နှစ်ခွင်ဝယ်၊ ကသစ်ရွယ်၊ ဘယ်အကြောင်းရင်း ဖြစ်သနည်း | ၄၆ |
| ၄၀။ | ပရိသတ်ဝယ်၊ နားခြောက်သွယ်၊ ကြီးငယ်ဘယ်မျှစီတို့နည်း | ၄၈ |
| ၄၁။ | ပါရမီဝယ်၊ ပေါင်းသုံးဆယ်၊ ဘယ်ကိုဖြည့်နိုင်ခဲ့သနည်း | ၄၈ |
| ၄၂။ | စွန့်ခြင်းငါးသွယ်၊ ဘုရားဝယ်၊ သားငယ်ဘယ်မျှ စွန့်သနည်း | ၄၉ |
| ၄၃။ | ကျွန်းသီဟိုဠ်ဝယ်၊ ရာ့ရှစ်သွယ်၊ ဘယ်သူ တောင်းပန်လေသနည်း | ၄၉ |
| ၄၄။ | ဒဟရောဝယ်၊ လူသူငယ်၊ ဘယ်နာမ်ဆိုထိုက်ပါလိမ့်နည်း | ၅၀ |
| ၄၅။ | ကာရကဝယ်၊ ပေါင်းခြောက်သွယ်၊ အဘယ်တရား ကိုယ်တို့နည်း | ၅၀ |
| ၄၆။ | အိုးအမိငယ်၊ နတ်ဓါနှယ်၊ အဘယ်အာလုပ် ဆိုမည်နည်း | ၅၀ |
| ၄၇။ | မြှောက်၍သွယ်သွယ်၊ ယူစဖွယ်၊ အဘယ်သင်္ချာပေတို့နည်း | ၅၁ |
| ၄၈။ | သင်္ချာတို့ဝယ်၊ မှတ်စဖွယ်၊ ဘယ်မျှအပြားရှိသနည်း | ၅၁ |
| ၄၉။ | ဝိရတီသုံးသွယ်၊ မဂ်စိတ်ဝယ်၊ ဘယ်ကို အာရုံပြု၍ဖြစ်သနည်း | ၅၂ |
| ၅၀။ | နာခေါင်းအလယ်၊ လေနှစ်သွယ်၊ ဘယ်ခဏတွင် ဖြစ်သနည်း | ၅၂ |
| ၅၁။ | ထက်နတ်ပြည်လယ်၊ စုတေ့ကွယ်၊ ဘယ့်နှယ်သင်္ဂြိုဟ်ကြသနည်း | ၅၃ |
| ၅၂။ | စိတ္တကျမ်းဝယ်၊ မဟောဖွယ်၊ ဘယ်ပြု ဠီကိုဟောသနည်း | ၅၃ |
| ၅၃။ | မှတ်ဆိတ်ကျင်စွယ်၊ လူတို့နှယ်၊ နတ်ဝယ်ပေါက်ရောက်လေလိမ့်နည်း | ၅၄ |


3
B

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၅၄။ | အဘယ်ဘုံဝယ်၊ လူတို့နှယ်၊ စံဖွယ်စည်းစိမ်ရှိလိမ့်နည်း | ၅၆ |
| ၅၅။ | ကျွန်းကြီးကျွန်းငယ်၊ အသွယ်သွယ်၊ ဘယ့်နှယ်အသက်နေလိမ့်နည်း | ၅၇ |
| ၅၆။ | တုသိတာလယ်၊ တစ်နေ့ငယ်၊ လူဝယ်နှစ်ပေါင်းဘယ်မျှနည်း | ၅၈ |
| ၅၇။ | ကတ္တားနှစ်သွယ်၊ ဝုစ်လိုက်ဝယ်၊ သဒ္ဒါငယ်ကျမ်း မြဲလိမ့်နည်း | ၅၈ |
| ၅၈။ | လေညှင်းသွယ်သွယ်၊ ပြဟ္မာဝယ်၊ အကယ်လာတို့လေလိမ့်နည်း | ၅၉ |
| ၅၉။ | ဘင်ခဏဝယ်၊ မဖြစ်ဖွယ်၊ အဘယ်ရုပ်ဟု ဆိုမည်နည်း | ၅၉ |
| ၆၀။ | ခဏတိုင်းဝယ်၊ ဖြစ်စဖွယ်၊ ဘယ်မျှရုပ်ပေါင်း ရှိသနည်း | ၆၀ |
| ၆၁။ | သားငါးရာကြွယ်၊ တို့မိမယ်၊ မျိုးနွယ် ဘယ်ကပေတို့နည်း | ၆၀ |
| ၆၂။ | အာသဝေါဝယ်၊ အာ–ကြံဖွယ်၊ အဘယ် အဝဓိတို့နည်း | ၆၀ |
| ၆၃။ | သဘော်ပင်လယ်၊ ကူးသည်ဝယ်၊ အဘယ်နည်းဟု ဆိုပိမ့်နည်း | ၆၁ |
| ၆၄။ | အဟိတ်စိတ်ဝယ်၊ ပိတ်ဆီးကွယ်၊ ဘယ်ကြောင့်မဂ္ဂင်မရသနည်း | ၆၁ |
| ၆၅။ | မဇ္ဈေတိုက်ဝယ်၊ အံ့ဩဖွယ်၊ ဘယ်မျှ ဗောဓိမြင့်သနည်း | ၆၂ |
| ၆၆။ | သုံးရာ့ခုနစ်ဆယ်၊ သာသနာဝယ်၊ ကြီးကျယ် ဘယ်စေတီနည်း | ၆၃ |
| ၆၇။ | သက်တော်ရှစ်ဆယ်၊ နောက်ကိုသွယ်၊ အဘယ်အင်းက ထွက်သနည်း | ၆၃ |
| ၆၈။ | အမိဝမ်းထဲလွယ်၊ သားသူငယ်၊ ကျဖွယ်ဝီထိဘယ်မျှနည်း | ၆၃ |
| ၆၉။ | တစ်နာရီဝယ်၊ နေ–လ–ကြယ်၊ ဘယ်မျှ ခရီးရောက်သနည်း | ၆၄ |
| ၇၀။ | ဂြိုဟ်–နက္ခတ်–ကြယ်၊ တာရာဝယ်၊ ရောက်ဖွယ် တစ်နေ့ဘယ်မျှနည်း | ၆၅ |
| ၇၁။ | နှေးဖွယ်လျင်ဖွယ်၊ ထိုထိုကြယ်၊ ဘယ်ကြယ်လျင်နှေး သွားသနည်း | ၆၅ |
| ၇၂။ | နေ–လနှင့်ကြယ်၊ ကောင်းကင်လယ်၊ ဘယ်သူ ထက်အောက်သွားသနည်း | ၆၆ |
| ၇၃။ | ကောင်းကင်အလယ်၊ လိပ်သူငယ်၊ ဘယ်ပြုမြေသို့ ကျသနည်း | ၆၇ |
| ၇၄။ | သျှုတြဝယ်၊ အရပ်သွယ်၊ ဘယ်မျှအကြိမ်ဆိုမည်နည်း | ၆၈ |
| ၇၅။ | ခြောက်ကျိပ်လေးသွယ်၊ မိန်းမဝယ်၊ ဘယ့်နှယ်မိန်းမ ညံ့သနည်း | ၆၈ |
| ၇၆။ | မိစ္ဆာဖြစ်ဖွယ်၊ အိမ်ရှင့်ဝယ်၊ လေးသွယ်ရှိ၏ အဘယ်နည်း | ၇၃ |
| ၇၇။ | လေးဆယ့်နှစ်သွယ်၊ ခေတ်ပြားဖွယ်၊ လူဝယ်မည်သို့ ပြားသနည်း | ၇၃ |
| ၇၈။ | ခြောက်ဆယ့်လေးသွယ်၊ ခြေရိုးဝယ်၊ ဘယ်သည့်ဘယ်သည့် အရိုးနည်း | ၇၆ |
| ၇၉။ | နှာခေါင်းရိုးဝယ်၊ တည်စဖွယ်၊ အဘယ်အရိုး ပေတို့နည်း | ၇၇ |
| ၈၀။ | နံရိုးတို့ဝယ်၊ တည်လေဖွယ်၊ ဘယ်သည့်ဘယ်သည့် အရိုးနည်း | ၇၇ |
| ၈၁။ | ပိုးမျိုးရှစ်ဆယ်၊ လူတို့ဝယ်၊ ဘယ့်နှယ်ဘယ်သို့ နေသနည်း | ၇၇ |
| ၈၂။ | နား နှာခေါင်းဝယ်၊ ပိုးသုံးသွယ်၊ အဘယ်မည်သော ပိုးတို့နည်း | ၈၀ |
| ၈၃။ | ခြင်ဆီဦဝယ်၊ နေစဖွယ်၊ သုံးဆယ်ပိုးကား အဘယ်နည်း | ၈၀ |
| ၈၄။ | မြင်းခေါင်းတင့်တယ်၊ ဇာတိနှယ်၊ ဘုန်းကြွယ် ဘယ်ကောင်းမှုကြောင့်နည်း | ၈၀ |

# မာတိကာ


| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |
| ၈၅။ | လေးချောင်းအစွယ်၊ ကိုယ်တော်ဝယ်၊ ဘယ်ကောင်းမှုကြောင့် ဖြစ်သနည်း | ၈၁ |
| ၈၆။ | အာချာတ်ဓာတ်ရှယ်၊ ဖွင့်သည့်ဝယ်၊ ဘယ်သံဝဏ္ဏနာတို့နည်း | ၈၁ |
| ၈၇။ | ကိတ်ပစ္စည်းဝယ်၊ အဖွင့်ကျယ်၊ အဘယ်အဖွင့်ဆိုမည်နည်း | ၈၁ |
| ၈၈။ | ကာရကခြောက်သွယ်၊ ကိရိယာဝယ်၊ စပ်ဖွယ်မြဲကောင်း ပေလိမ့်နည်း | ၈၂ |
| ၈၉။ | စ–နှစ်ပါးလယ်၊ ပုဒ်ကိုရှယ်၊ အဘယ်သမာသ် ဆိုမည်နည်း | ၈၃ |
| ၉၀။ | နာမ်ဝိဘတ်ဝယ်၊ ခုနစ်သွယ်၊ ဘယ်ပုဒ်ရှိက ကျေသနည်း | ၈၃ |
| ၉၁။ | သာသနာအံ့ဖွယ်၊ ဘယ်ချိန်ဝယ်၊ စွယ်တော်သီဟိုဠ် ရောက်သနည်း | ၈၃ |
| ၉၂။ | ဘုရားရှင့်စွယ်၊ သီဟိုဠ်ဝယ်၊ ဘယ်မင်းလက်ထက် ရောက်သနည်း | ၈၃ |
| ၉၃။ | ရွှေဝမြို့လယ်၊ နန်းစံပယ်၊ ဘယ်မင်းဆက်က ဦးသနည်း | ၈၄ |
| ၉၄။ | ကုလားကျငယ်၊ ပုဂံဝယ်၊ ဘယ့်နှယ် ကံထိုက်လေသနည်း | ၈၄ |
| ၉၅။ | ရသေ့ကြောင်ဝယ်၊ သားသူငယ်၊ ဆက်နွယ်ရှိတို့ လေလိမ့်နည်း | ၈၅ |
| ၉၆။ | သာသနာရောင်သွယ်၊ ရာ့တစ်ငယ်၊ ဘယ်ပြည်ထီးနန်း ဆောက်သနည်း | ၈၅ |
| ၉၇။ | ရသေ့မြို့ဝယ်၊ စိုးဆက်နွယ်၊ ဘယ်မျှမင်းပေါင်းရှိသနည်း | ၈၅ |
| ၉၈။ | ပြည်မြို့၌ဝယ်၊ စိုးစံပယ်၊ မင်းဘယ်မျှလောက် ဆက်သနည်း | ၈၆ |
| ၉၉။ | တောင်ငူမြို့လယ်၊ သဝန်ငယ်၊ ဘယ်မျှထီးနန်း စံသနည်း | ၈၆ |
| ၁၀၀။ | နဝရတ်ကိုးသွယ်၊ ဆင်စလွယ်၊ ဘယ်သူဘယ်သို့ ဆင်ရန်နည်း | ၈၇ |
| ၁၀၁။ | ပြည်ဝမ်းပြည်စွယ်၊ သည်နှစ်သွယ်၊ ဘယ်ကိုခေါ်ကြပေသနည်း | ၈၈ |
| ၁၀၂။ | တမှတ်ဆိုးဖွယ်၊ ပညာကျယ်၊ နယ်နုဘယ်သို့ ဆိုးသနည်း | ၈၈ |
| ၁၀၃။ | ကြိုဟ်ရှစ်လုံးကြွယ်၊ စားရာဝယ်၊ ဘယ်ကျောက်လက်စွပ် ဝတ်မည်နည်း | ၈၈ |
| ၁၀၄။ | လက်ညှိုးလက်လယ်၊ လက်သူကြွယ်၊ လက်ငယ်လက်မ ဘယ်ကျောက်နည်း | ၈၈ |
| ၁၀၅။ | စမ်းလက်ယှဉ်တွယ်၊ ပူးရာဝယ်၊ ဘယ်ခွင်ဘယ်ရောက် ဝတ်မည်နည်း | ၈၉ |
| ၁၀၆။ | နက္ခတ်သွယ်သွယ်၊ ကျောက်မျိုးခြယ်၊ ဘယ်ကျောက် ဘယ်နက္ခတ်၌နည်း | ၈၉ |
| ၁၀၇။ | သက်တံခုနစ်သွယ်၊ ကျောက်မျိုးဝယ်၊ ဘယ်မျှအဖိုး ထိုက်သနည်း | ၈၉ |
| ၁၀၈။ | အာယုခက်ဝယ်၊ အင်းလေးသွယ်၊ ဘယ့်နှယ်ဂဏန်းစသနည်း | ၉၀ |
| ၁၀၉။ | အဋ္ဌမုခ်ကျဉ်းကျယ်၊ အင်းကိုးသွယ်၊ ကြီးငယ်ဘယ်က ထွက်သနည်း | ၉၄ |
| ၁၁၀။ | စာစပ်ရိုးဝယ်၊ မုလေးသွယ်၊ ဘယ်နှယ်ချရိုး ရှိသနည်း | ၉၆ |
| ၁၁၁။ | ဖျောက်ဆိပ်လလယ်၊ စပ်ရိုးဝယ်၊ ဘယ့်နှယ်အသတ်များသနည်း | ၉၆ |
| ၁၁၂။ | သုံးဆယ့်သုံးသွယ်၊ ဗျည်းကကျယ်၊ ဘယ်သူဘယ်ဗျည်း စပ်မည်နည်း | ၉၇ |
| ၁၁၃။ | သနားစဖွယ်၊ ကြာပွင့်နှယ်၊ သည်နှယ် ဘယ်အနက် ဟောသနည်း | ၉၇ |
| ၁၁၄။ | မမျှလှူဝယ်၊ သည်သူ့နှယ်၊ သည်နှယ်မှုကား မည်သို့နည်း | ၉၇ |
| ၁၁၅။ | ဟိန္နယ်သည့်နှယ်၊ ဆိုစဖွယ်၊ သည်နှယ်မူလည်း ဘယ်နက်နည်း | ၉၈ |

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၁၁၆။ | သံတော်ခံဝယ်၊ အင်ခြောက်သွယ်၊ အဘယ်သင်္ချာ ဆိုမည်နည်း | ၉၈ |
| ၁၁၇။ | စားတော်ကဲဝယ်၊ ပြည့်စုံဖွယ်၊ ငါးသွယ်အင်္ဂါ ဘယ်သို့နည်း | ၉၈ |
| ၁၁၈။ | အင်ခုနစ်သွယ်၊ မှတ်စဖွယ်၊ သူငယ်တော်တို့ အဘယ်နည်း | ၉၈ |
| ၁၁၉။ | ဆီးချုံကိုပယ်၊ မြို့တည်ဖွယ်၊ ဘယ်မြို့တိတ်တဘောင်ပေနည်း | ၉၉ |
| ၁၂၀။ | ပုဗ္ဗာတွင်ဖွယ်၊ ဂါထာဝယ်၊ အဘယ်ဂိုဏ်းဟု ဆိုမည်နည်း | ၁၀၀ |
| ၁၂၁။ | ဂါယတ္တိဝယ်၊ ဂိုဏ်းနှစ်သွယ်၊ ဘယ်ဂိုဏ်းဖြစ်တို့လေသနည်း | ၁၀၀ |
| ၁၂၂။ | ဝိသမဝယ်၊ ဘဂိုဏ်းသွယ်၊ အဘယ်ဂါထာ ဆိုမည်နည်း | ၁၀၁ |
| ၁၂၃။ | ဝါရတစ်ဆယ်၊ တိကဝယ်၊ ဘယ့်နှယ်ဆန်းကျမ်း တွက်မည်နည်း | ၁၀၁ |
| ၁၂၄။ | သချာထုပ်ဖွယ်၊ ရှေးတစ်သွယ်၊ ဘယ်ဝိကပ်တို့ မြွက်သနည်း | ၁၀၃ |
| ၁၂၅။ | ဆယ်တစ်နက်ဝယ်၊ သက်စဖွယ်၊ အဘယ်ဝိဘတ်တို့ပေနည်း | ၁၀၃ |
| ၁၂၆။ | သတ္တမီဝယ်၊ ဆယ့်တစ်သွယ်၊ သက်ဖွယ်အနက်အဘယ်နည်း | ၁၀၄ |
| ၁၂၇။ | ရှစ်ဆယ့်ခုနစ်သွယ်၊ အနက်ဝယ်၊ သက်ဖွယ်ဝိဘတ် ဘယ်မျှနည်း | ၁၀၄ |
| ၁၂၈။ | ကလာပ်ကျမ်းနှယ်၊ သဒ္ဒါဝယ်၊ ဘယ့်ကြောင့်ဒွိဝုစ် မဟောသနည်း | ၁၀၅ |
| ၁၂၉။ | နာကောပုဒ်ဝယ်၊ ဆန်းကြတယ်၊ ဘယ်ကိုကကြီး ဟောသနည်း | ၁၀၆ |
| ၁၃၀။ | ဥဏ္ဏာဂူဝယ်၊ ယင်းဂငယ်၊ ဘယ်အနက်ကို ဟောသနည်း | ၁၀၇ |
| ၁၃၁။ | မင်းတေမိမယ်၊ စလုံးဝယ်၊ ဘယ့်နှယ်အနွက် ဟောသနည်း | ၁၀၇ |
| ၁၃၂။ | နဂရံဝယ်၊ ယင်းနငယ်၊ အဘယ်အနက် ရှိသနည်း | ၁၀၈ |
| ၁၃၃။ | နိပုဏောဝယ်၊ နိဟောဖွယ်၊ ဘယ်အနက်ဟု ဆိုမည်နည်း | ၁၀၈ |
| ၁၃၄။ | ဂရုဠောဝယ်၊ ဟောစဖွယ်၊, ဘယ်ကိုဠကြီး ဟောသနည်း | ၁၀၈ |
| ၁၃၅။ | သတ္တဝါတိုင်းဝယ်၊ စီးဖြန်းဖွယ်၊ ဘယ်ဒွတ္တိသရှိလိမ့်နည်း | ၁၀၈ |
| ၁၃၆။ | ဧကိုတစ်သွယ်၊ တသတ်ဖွယ်၊ ဘယ်သို့ကျောက်စာ ဖတ်မည်နည်း | ၁၀၉ |
| ၁၃၇။ | ဟေတုဒုက်ဝယ်၊ တွန်းစဖွယ်၊ ဘယ်မျှပစ္စည်း တွန်းမည်နည်း | ၁၀၉ |
| ၁၃၈။ | ဆယ်ရက်နွှားငယ်၊ စားသည်ဝယ်၊ ဘယ်သို့လျှော်ရှိုး တပ်မည်နည်း | ၁၀၉ |
| ၁၃၉။ | သူ့ကြောင်ခွေးငယ်၊ သတ်ရာဝယ်၊ ဘယ့်နှယ်လျော်ထုံးရှိသနည်း | ၁၀၉ |
| ၁၄၀။ | ဘစ်ပါးတည်းဝယ်၊ ခြသေ့်နယ်၊ ဘယ်လက္ခဏာပေတို့နည်း | ၁၀၉ |
| ၁၄၁။ | ကျီးတို့၌ဝယ်၊ ကျင့်ငါးသွယ်၊ အဘယ်အကျင့် ဆိုင်ပိမ့်နည်း | ၁၁၀ |
| ၁၄၂။ | စာတစ်စောင်ဝယ်၊ အဓိပ္ပာယ်၊ တစ်သွယ်စောင်သို့ လိုက်လိမ့်နည်း | ၁၁၀ |
| ၁၄၃။ | ပညတ်၌ဝယ်၊ တသတ်ဖွယ်၊ တစ်သွယ်ပသတ် ဘယ်ကြောင့်နည်း | ၁၁၁ |
| ၁၄၄။ | အာပေါဓာတ်ဝယ်၊ မှတ်စဖွယ်၊ ဘယ့်နှယ်ရသာ ဆိုပိမ့်နည်း | ၁၁၁ |
| ၁၄၅။ | ပဥ္စကူဝယ်၊ ဆေးငါးသွယ်၊ ဘယ်သည့်ဘယ်သည့် ဆေးတို့နည်း | ၁၁၁ |
| ၁၄၆။ | အကာင်းမျိုးဝယ်၊ ငန်းမျိုးပြွယ်၊ ပေးဖွယ်တမြစ် ဘယ်ဆေးနည်း | ၁၁၂ |

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၁၄၇။ | ခတ်မျိုးရှင်ဖွယ်၊ အကင်းပြယ်၊ မွေးကြွယ် ဘယ်နံ့သာတို့နည်း | ၁၁၂ |
| ၁၄၈။ | ရောဂါကပ်ဖွယ်၊ တပေါင်းဝယ်၊ ဘယ်အဓိကပြုသနည်း | ၁၁၂ |
| ၁၄၉။ | တန်ခူးလဝယ်၊ ရောဂါကွယ်၊ ဆိုဖွယ် ဘယ်အဓိကနည်း | ၁၁၂ |
| ၁၅၀။ | ဖျားခြင်းခြောက်သွယ်၊ ဆေးကျမ်းဝယ်၊ ဘယ့်နှယ်ခွဲခြမ်းပေအံ့နည်း | ၁၁၃ |
| ၁၅၁။ | ရာသီဆေးဝယ်၊ ဆယ့်နှစ်သွယ်၊ ဘယ်သို့ရသာ ရှိကြသနည်း | ၁၁၃ |
| ၁၅၂။ | ထုပ်လျားတစ်ဆယ်၊ အိမ်ဆင်ဖွယ်၊ ဘယ်မျှမြောတိုင် ထားသနည်း | ၁၁၄ |
| ၁၅၃။ | ဥစ္စာများကြွယ်၊ အိမ်ဆောက်ဖွယ်၊ ရှည်သွယ်တိုင်ယပ် ဘယ်မျှနည်း | ၁၁၅ |
| ၁၅၄။ | ရဟန်းတို့ဝယ်၊ မွေးကျင်စွယ်၊ မပယ်အာပတ် သင့်ချိမ့်နည်း | ၁၁၅ |
| ၁၅၅။ | ကျဉ်းမြောင်းရာဝယ်၊ မွေးကိုပယ်၊ အဘယ်အာပတ် သင့်သနည်း | ၁၁၅ |
| ၁၅၆။ | ရှိမခိုးဖွယ်၊ ပေါင်းတစ်ဆယ်၊ ဘယ်သူဘယ်ကြောင့် ခွဲမည်နည်း | ၁၁၆ |
| ၁၅၇။ | သစ်ခက်ချိုးဖွယ်၊ ရဟန်းဝယ်၊ ဘယ်သည့်ဘယ်သည့် အကြောင်းနည်း | ၁၁၆ |
| ၁၅၈။ | ကိုယ့်သေစိမ့်ရှယ်၊ အစာငယ်၊ ဘယ့်ကြောင့်အာပတ် မသင့်သနည်း | ၁၁၇ |
| ၁၅၉။ | ဆံဖြူနုတ်ပယ်၊ ရဟန်းဝယ်၊ အဘယ်အာပတ်သင့်သနည်း | ၁၁၈ |
| ၁၆၀။ | တို့စောဘုန်းကြွယ်၊ အာပတ်ငယ်၊ နုတ်ပယ်ဘယ့်ကြောင့်မိန့်သနည်း | ၁၁၈ |
| ၁၆၁။ | ဝေတ္တရဏီလယ်၊ ကြိမ်ပိုက်ဝယ်၊ ဘယ်သို့ကျင့်သူ ခံလိမ့်နည်း | ၁၂၀ |
| ၁၆၂။ | မီးကျင်းတွင်းဝယ်၊ ခံစဖွယ်၊ အဘယ်မကောင်းမှုပေနည်း | ၁၂၁ |
| ၁၆၃။ | ငါးနှစ်မြင်းစွယ်၊ ဖူး၍ကယ်၊ ရက်ဘယ်မျှလောက် မွေးလိမ့်နည်း | ၁၂၁ |
| ၁၆၄။ | နှာ-တင်-ရင်ကျယ်၊ မြင်းတို့ဝယ်၊ ငယ်ခြင်းသုံးပါး အဘယ်နည်း | ၁၂၁ |
| ၁၆၅။ | မြင့်ခြင်းသုံးသွယ်၊ မြင်း၌ဝယ်၊ ကြီးဖွယ်သုံးပါး အဘယ်နည်း | ၁၂၁ |
| ၁၆၆။ | ကောင်းခြင်းမှတ်ဖွယ်၊ မြင်းတို့ဝယ်၊ သုံးသွယ်ရှိ၏ အဘယ်နည်း | ၁၂၂ |
| ၁၆၇။ | ကျိုးကြည့်သဖွယ်၊ နည်းကိုရှယ်၊ အဘယ်ဥဒါဟရဏ်နည်း | ၁၂၂ |
| ၁၆၈။ | ဝိသေသနဝယ်၊ ဝိဂြိုဟ်သွယ်၊ ဘယ်ပဋ္ဌာနထည့်ပိမ့်နည်း | ၁၂၂ |
| ၁၆၉။ | မည်းနက်ခြယ်လှယ်၊ သပိတ်လွယ်၊ ငှက်ငယ်ဝိဂြိုဟ်မည်သို့နည်း | ၁၂၃ |
| ၁၇၀။ | ဝါး၌ဖြစ်ဖွယ်၊ ပုလဲဝယ်၊ ဘယ်သို့အရောင် ထွက်သနည်း | ၁၂၃ |
| ၁၇၁။ | တိမ်တိုက်အလယ်၊ ဖြစ်စဖွယ်၊ ဘယ့်နှယ်ပုလဲအဆင်းနည်း | ၁၂၄ |
| ၁၇၂။ | မုတ်ဆိတ်ကျင်စွယ်၊ လူတို့နှယ်၊ နတ်ဝယ်ပေါက်ရောက်လေလိမ့်နည်း | ၁၂၄ |
| ၁၇၃။ | လှည့်ဖြားရည်ရှယ်၊ မုသားသွယ်၊ ဘယ်ကိုအာရုံပြုသနည်း | ၁၂၄ |
| ၁၇၄။ | ခေါ်ပနသွယ်၊ ဟေတုဝယ်၊ ဘယ်မျှဒုက်ပွါးရသနည်း | ၁၂၄ |
| ၁၇၅။ | စိတ္တသူကြွယ်၊ ဒကာဝယ်၊ ဘယ်တေဂ်ရသနည်း | ၁၂၅ |
| ၁၇၆။ | ထွက်သက်တိုင်းဝယ်၊ ထွက်ဘုန်းကြွယ်၊ ဘယ်သမာပတ်ဝင်သနည်း | ၁၂၆ |


**"အယ်" ကာရန်ပုစ္ဆာ ၁၇၆-ပုဒ် ပြီး၏။**

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| | **(၂) "အဲ" ကာရန်ပုစ္ဆာ ၂၄-ပုဒ်** | |
| ၁၇၇။ | မြေမနင်းဘဲ၊ ကြွစမြဲ၊ စောကဲဘယ့်ကြောင့်ကြွနိုင်သနည်း | ၁၂၆ |
| ၁၇၈။ | ဆွမ်းဘုန်းပေးမြဲ၊ စောရန်ကဲ၊ ခန့်ခွဲဘယ်လောက်ကုန်သနည်း | ၁၃၁ |
| ၁၇၉။ | ရသေ့ရိပ်လွှဲ၊ ကျောက်ရဲရဲ၊ ဖြစ်မြဲမှန်တို့လေလိမ့်နည်း | ၁၃၂ |
| ၁၈၀။ | မြို့သောက္ကတဲ၊ မြို့သင်းတွဲ၊ မိုးထဲ ဘယ်တာရာတို့နည်း | ၁၃၃ |
| ၁၈၁။ | တရုတ်ရန်စဲ၊ ရိမဒ်ထဲ၊ ရှဲအောင် ဘယ်သို့ကြံသနည်း | ၁၃၃ |
| ၁၈၂။ | လူသက်မမြဲ၊ ကျမ်းကခွဲ၊ မြဲသည့်ကျွန်းရှိ ဘယ့်ကြောင့်နည်း | ၁၃၃ |
| ၁၈၃။ | ပြစ်မရှိဘဲ၊ ဆံဦးဆွဲ၊ ပျော်မြဲဘယ့်လောက်ပေတို့နည်း | ၁၃၄ |
| ၁၈၄။ | မန့်ပါဘဲ၊ နံ့ဓါတ်ဆွဲ၊ ခွဲခြမ်းစီရင် မည်သို့နည်း | ၁၃၄ |
| ၁၈၅။ | မနာလိုဘဲ၊ လိင်ဆုတ်ဆွဲ၊ မိညဲ့ပျော်ရိုး မည်မျှနည်း | ၁၃၄ |
| ၁၈၆။ | လက်ယာလက်ဝဲ၊ သည်နှစ်ကွဲ၊ ဝတ်မြဲကျောက်မျိုး ဘယ်မျှနည်း | ၁၃၄ |
| ၁၈၇။ | ဆက်စာမြင့်မြဲ၊ ရောက်လာခဲ၊ သည်ခဲဘယ်အနက်ပေနည်း | ၁၃၄ |
| ၁၈၈။ | ရောက်ခေါင့်ရောက်ခဲ၊ မြေတာလွဲ၊ သည်ခဲမည်သို့ဆိုပိမ့်နည်း | ၁၃၅ |
| ၁၈၉။ | မခေါ်မကျဲ၊ စီသည့်ရွှဲ၊ စောကဲသွားတော် ဘယ်ကြောင့်နည်း | ၁၃၅ |
| ၁၉၀။ | တတ္တအစွဲ၊ စိတ်မရဲ၊ မျော်မြဲရှေ့နောက် ဘယ်ကိုနည်း | ၁၃၆ |
| ၁၉၁။ | မ-ဣတင်မြဲ၊ ရ-မဆွဲ၊ ခက်ခဲကျောက်စာ မည်သို့နည်း | ၁၃၆ |
| ၁၉၂။ | ကကြီးဝဆွဲ၊ ပင့်စမြဲ၊ နောက်တွဲယသတ် မည်သို့နည်း | ၁၃၆ |
| ၁၉၃။ | ခချေးဝဆွဲ၊ ဝသတ်မြဲ၊ မလွဲဖတ်ရိုး ဘယ့်နှယ်နည်း | ၁၃၆ |
| ၁၉၄။ | ဆင်၊ မြင်း၊ နွား၊ ကျွဲ၊ ဖွားစဆဲ၊ ပျော်မြဲသတ်သော် ဘယ်မျှနည်း | ၁၃၆ |
| ၁၉၅။ | လျှာသံချိတ်တွဲ၊ ငင်၍ဆွဲ၊ ခက်ခဲခံရ ဘယ့်ကြောင့်နည်း | ၁၃၇ |
| ၁၉၆။ | ပြာပူငရဲ၊ အောက်အထဲ၊ ခံမြဲဘယ်မကောင်းကျိုးနည်း | ၁၃၇ |
| ၁၉၇။ | ပြောင်ပြောင်တောက်ဖွဲ့၊ စားတော်မြဲ၊ ကွဲလွဲဘယ်အပြစ်ကြောင့်နည်း | ၁၃၇ |
| ၁၉၈။ | ဆင်ဦးကင်းထဲ၊ မြတ်ပုလဲ၊ ထွန်းမြဲအရောင်ဘယ်သို့နည်း | ၁၃၈ |
| ၁၉၉။ | မြွေဦးခေါင်းစွဲ၊ ကျောက်ပုလဲ၊ ကွဲလွဲရောင်ခြည် ဘယ်သို့နည်း | ၁၃၈ |
| ၂၀၀။ | ယောက်သွားဖြစ်မြဲ၊ မျိုးပုလဲ၊ ထူးကဲရောင်လျှံ ဘယ်သို့နည်း | ၁၃၈ |
| | **"အဲ" ကာရန်ပုစ္ဆာ ၂၄-ပုဒ် ပြီး၏။** | |
| | **(၃) 'အဲ့' ကာရန်ပုစ္ဆာ ၁၁-ပုဒ်** | |
| ၂၀၁။ | ခြေမတော်တဲ့၊ ကွဲပြန်ခဲ့၊ ဘဲ့ဝိပါက်တော်ပါသနည်း | ၁၃၉ |
| ၂၀၂။ | ထွန်းတုံးရှိတဲ့၊ ရွှေတောခဲ့၊ ဖဲ့၍ထမ်းသော်နိုင်လိမ့်နည်း | ၁၄၇ |

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၂၀၃။ | ကျယ်လျှင်ကားချဲ့၊ ပွဲလျှင်ဖွဲ့၊ နွဲ့လျှင်ကားသတ်၊ ဘယ့်ကြောင့်နည်း | ၁၄၈ |
| ၂၀၄။ | ပြဟ္မာမင်းတဲ့၊ စုတေခဲ့၊ တိမ်းငဲ့တိရစ္ဆာန်ဖြစ်လိမ့်နည်း | ၁၄၈ |
| ၂၀၅။ | ကြက်ဆူပင်တဲ့၊ ရိုးရွက်ဖွဲ့၊ ဘယ့်ကြောင့်ဓားလှံဖြစ်သနည်း | ၁၄၉ |
| ၂၀၆။ | ဝါယောဓာတ်နွဲ့၊ ပျက်တုံခဲ့၊ ဘယ့်တဲ့အချိန်၌ သေလိမ့်နည်း | ၁၅၀ |
| ၂၀၇။ | ဆီးပညောင်တဲ့၊ ဆေးဘိန်းနွဲ့၊ ဘယ့်နှယ်ရာသီပေးမည်နည်း | ၁၅၀ |
| ၂၀၈။ | မစင်ပြွံပြွံ၊ စားရခဲ့၊ ငရဲပြည်၌ ဘယ်ပြစ်နည်း | ၁၅၁ |
| ၂၀၉။ | ဘီလူးစေးတဲ့၊ တွေ့တုံခဲ့၊ ဘယ့်ကြောင့်လောင်းတော် လွတ်သနည်း | ၁၅၂ |
| ၂၁၀။ | သရဖူတဲ့၊ တက်တူငဲ့၊ တောက်တဲ့ဝိဂြိုဟ်မည်သို့နည်း | ၁၅၅ |
| ၂၁၁။ | သုတ်ခုန်၍တဲ့၊ လိုက်တုံခဲ့၊ ဘယ့်နှယ်ဂတိကပေနည်း | ၁၅၆ |


**"အဲ့" ကာရန်ပုစ္ဆာ ၁၁-ပုဒ် ပြီး၏။**

## (၄) "အံ့" ကာရန်ပုစ္ဆာ ၂၉-ပုဒ်


| | | |
|---|---|---|
| ၂၁၂။ | အစိမ်းရွှေယျံ၊ ဂုဏ်ဂုဏ်၊ ဆက်ဆံနေ့ချင်းရလိမ့်နည်း | ၁၅၆ |
| ၂၁၃။ | ဗုဒ္ဓကိစ္စံ၊ နိဋ္ဌိတံ၊ ဝေသာယန်ဘယ့်ကြောင့် ဖြစ်ပြန်သနည်း | ၁၅၇ |
| ၂၁၄။ | အကုသိုလ်ကံ၊ ကုသိုလ်ကံ၊ ဘယ်ကံ အားကြီးကြသနည်း | ၁၅၈ |
| ၂၁၅။ | ကောင်းကင်တိမ်ယံ၊ ရှာန်ဖြင့်ပျံ၊ ပါဒ်ခြေလှမ်း လေလိမ့်နည်း | ၁၅၉ |
| ၂၁၆။ | အဂ္ဂါဂါရံ၊ တာသာဟံ၊ ဘယ်လိဂ်သို့ သွင်းမည်နည်း | ၁၆၀ |
| ၂၁၇။ | ငွေရောင်ခြည်လျှံ၊ လစန္ဒံ၊ ကြံလော့ ဘယ်နံ့ပေတို့နည်း | ၁၆၁ |
| ၂၁၈။ | နီဝရဏံ၊ ဝဏ္ဏကံ၊ အရုပ်၌ ရှိလိမ့်နည်း | ၁၆၁ |
| ၂၁၉။ | မြင်းမိုရ်အောက်ယံ၊ တစ်လျှံလျှံ၊ ခံသည့်ခုံလောက် ဘယ်မျှနည်း | ၁၆၁ |
| ၂၂၀။ | သမုသစ္စံ၊ နိရုဒ္ဓံ၊ ဒုက္ခံသစ္စာ ဖြစ်လိမ့်နည်း | ၁၆၂ |
| ၂၂၁။ | စက္ကဝါဠံ၊ အနန္တံ၊ ရှာန်ပျံရသော့ ရှိလိမ့်နည်း | ၁၆၂ |
| ၂၂၂။ | ပလ္လင်တော်ရံ၊ သတ်ဌာနံ၊ အလံဘယ်မျှ ခြားသနည်း | ၁၆၃ |
| ၂၂၃။ | သိကြားအောက်ခံ၊ ကမ္ဗလံ၊ လျှားနံ့အထု ဘယ်မျှနည်း | ၁၆၄ |
| ၂၂၄။ | သစ်ပင်လက်ပံ၊ အကိုင်းလံ၊ အောက်ခံ ဘယ်နေ့သားဖို့နည်း | ၁၆၄ |
| ၂၂၅။ | စနေနူးစံ၊ နေဘို့ကြံ၊ စီမံဘယ်ကောင်းကျိုးတို့နည်း | ၁၆၄ |
| ၂၂၆။ | ပေဟိမိတ္တံ၊ ဂါထာရံ၊ အင်းဆံအဌမှန် ဘယ်သို့နည်း | ၁၆၄ |
| ၂၂၇။ | ပြဟ္မာမင်းသံ၊ စောဘုန်းလျှံ၊ ချေငံ ဘယ်ကောင်းမှုကြောင့်နည်း | ၁၆၆ |
| ၂၂၈။ | ထက်အောက်ကျော်ညံ၊ ပြည်ပေါက်ကုံ၊ နိုင်ငံမင်းဆုံး ဘယ်နှစ်နည်း | ၁၆၆ |
| ၂၂၉။ | သီဟသူခံ၊ ပင်းယစံ၊ ပုဂံမင်းဆက် ကုန်ပြီနည်း | ၁၆၆ |

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၂၃၀။ | တောင်ငူမြို့ရဲ့ ထီးနန်းစံ၊ ပုံ့ချိုနှစ်ပါး ဘယ်မျှနည်း | ၁၆၆ |
| ၂၃၁။ | နိဒသာနံ၊ နိဒါနံ၊ နိဋ္ဌိတံ'နိ' ထူလိမ့်နည်း | ၁၆၇ |
| ၂၃၂။ | နိယျာနိကံ၊ နိဂ္ဂတံ၊ နိဗ္ဗာနံ'နိ' ဘယ်ဟောနည်း | ၁၆၇ |
| ၂၃၃။ | နိသာမိတံ၊ နိပုဏံ၊ နိဿယံ၌ ဘယ်သို့နည်း | ၁၆၇ |
| ၂၃၄။ | နဒီပါရဲ့ ပုဒ်ရင်းခံ၊ ကြံလော့'ပါ' ကား ဘယ်ဟောနည်း | ၁၆၇ |
| ၂၃၅။ | မိစ္ဆာစာရဲ့ ပြစ်မှားကံ၊ ဆက်ဆံ ဘယ်ဝေဒနာနည်း | ၁၆၈ |
| ၂၃၆။ | ထန်းရွက်ရှည်လံ၊ သူ့ဘုန်းကံ၊ သန်လျက်ဖြစ်၏ မည်သူနည်း | ၁၆၈ |
| ၂၃၇။ | သူ့ရန်သူကြံ၊ မိုးသို့ပျံ၊ နာမံဘယ်မြို့ဘယ်ကြောင့်နည်း | ၁၆၉ |
| ၂၃၈။ | ရာဇသင်္ကြံ၊ စိတ်စက်ခံ၊ မန္တံ ဘယ်မင်းသားကိုနည်း | ၁၇၀ |
| ၂၃၉။ | ဒသဗလံ၊ မြတ်ဉာဏံ၊ ဓမ္မံ ဘယ်တရားတို့နည်း | ၁၇၁ |
| ၂၄၀။ | ရွှေတောင်မစံ၊ ဟသ်ာပျံ၊ စိတ်ခံမည်သို့ ရှိသနည်း | ၁၇၂ |


"အံ" ကာရန်ပုစ္ဆာ ၂၉-ပုဒ် ပြီး၏။

## (၅) "အံ့" ကာရန်ပုစ္ဆာ ၉-ပုဒ်


| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၂၄၁။ | ဘီလူးစားအံ့၊ မကြောက်ရွံ့၊ ရဲဝံ့လောင်းလျာ ဘယ်မျှနည်း | ၁၇၃ |
| ၂၄၂။ | ကက္ကာရုန့်၊ မွှေးပျံ့ပျံ့၊ နံ့သည်ဘယ်လောက် တိုင်အောင်နည်း | ၁၈၀ |
| ၂၄၃။ | ရှည်ကြာမင့်၊ ကျောင်းဆောက်အံ့၊ နံ့သာဘယ်က ဆောင်ခဲ့သနည်း | ၁၈၁ |
| ၂၄၄။ | ကျောင်းတိုင်ပျံ့ပျံ့၊ မွှေးမျိုးနံ့၊ နံ့သာအဖြူဖြစ်လိမ့်နည်း | ၁၈၁ |
| ၂၄၅။ | သြဇာမဆံ့၊ ရသာပျံ့၊ အနံ့ ပြဟ္မာရှိလိမ့်နည်း | ၁၈၂ |
| ၂၄၆။ | နိုင်ငံလုံးနှံ့၊ ဘုန်းတော်ပျံ့၊ အံ့ဖွယ် ဘယ်အာစာရနည်း | ၁၈၂ |
| ၂၄၇။ | သိမ်မွေ့နူးညံ့၊ ကြီးရှည်ပျံ့၊ အံ့ဖွယ်လျှာတော် ဘယ့်ကြောင့်နည်း | ၁၈၃ |
| ၂၄၈။ | ရွှေနန်းသိမ်းအံ့၊ စားတော်ခွံ့၊ နူးညံ့ဆုပ်ပေါင်း ဘယ်မျှနည်း | ၁၈၃ |
| ၂၄၉။ | သုံးပါးအညံ့၊ မြင်း၌အံ့၊ သိစုံဘယ်သုံးပါးတို့နည်း | ၁၈၃ |


"အံ့" ကာရန်ပုစ္ဆာ ၉-ပုဒ် ပြီး၏။

## (၆) "အုံ" ကာရန်ပုစ္ဆာ ၃၃-ပုဒ်


| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၂၅၀။ | မွေးရှင်တော်စုံ၊ ဥဏ္ဏာလုံ၊ ဆန်တုံ ဘယ်လောက်ရှည်သနည်း | ၁၈၃ |
| ၂၅၁။ | ကျားစားခိုက်တုံ၊ မဂ်ဖိုလ်ကြုံ၊ လူ့ဘုံ ဘယ်ပုဂ္ဂိုလ်ပေနည်း | ၁၈၄ |
| ၂၅၂။ | ကမ္ဗလာခြုံ၊ ငှက်ချိုတုံ၊ နှုတ်ငုံဝမ်းက ဘယ်သူနည်း | ၁၈၅ |


4
A

၅၁၂။ ပျားတရထည်၊ ဂုဏ်လုပ်တည်၊ အဝတ်ထည် မဟာထေရ်အသို့နည်း
၅၁၃။ အောင်ပန်လည်၊ ရွာမလည်၊ လူအိုလည်၊ သေဥ်လည်ကြောင်မင်း အသို့နည်း
၅၁၄။ တဝဲလည်လည်၊ ပုံတောင်းလည်၊ နားမလည်လူတို့လည် မည်သို့နည်း
၅၁၅။ အနားလည်လည်၊ ရေဝဲလည်၊ တလည်လည်၊ ကျင့်လည်အသို့နည်း
၅၁၆။ ကျင့်မှုရည် ရေနည်၊ အာဇာနည်၊ ဖွေနည် မဲနည် အသို့နည်း
၅၁၇။ ချောင်းရေကန်ဆည်၊ ဖိတားဆည်၊ စိတ်ဆည် ပိတ်ဆည် အသို့နည်း
၅၁၈။ ဝါးချည်ပိုးချည်၊ ကြိုးနှင့်ချည်၊ ပရိတ်ချည်ရိပ်ချည် အသို့နည်း
၅၁၉။ ဆံချည်ရွှေချည်၊ မိန့်နှုတ်ချည်၊ သွေးချည် မြူချည် ဘယ်သို့နည်း
၅၂၀။ ထူလည်လှည့်လည်၊ စကြာလည်၊ လော်လည် ပတ်လည် ဘယ်သို့နည်း
၅၂၁။ ရွှေရည်ငွေရည်၊ မှတ်ထင်ရည်၊ မျက်ရည်နို့ရည်အသို့နည်း
၅၂၂။ ရုပ်ရည်လူရည်၊ လူရွှေရည်၊ ပရိတ်ရည် စိတ်ရည် သို့ပေနည်း
၅၂၃။ ယမ်းဖည် သွေးဖည်၊ ယိမ်းမဖည်၊ မသွေဖည် ဖည်ယမ်းအသို့နည်း
၅၂၄။ မြည်စည်ကြဲစည်၊ ယိမ်းမဖည်၊ မသွေဖည် ဖည်ယမ်း အသို့နည်း
၅၂၅။ ဘုန်းစည်ပင်စည်၊ ရွာပြင်ဆည်၊ တီးသည့်စည် သစ်မည် အသို့နည်း
၅၂၆။ ဝါဝါသည်သည်၊ ကချေသည်၊ အုံကြသည် ခေါ်မည်သို့နည်း
၅၂၇။ ကုန်သည်အသည်၊ ကတ္တားသည်၊ ညှိသည်စစ်သည် ဘယ်သို့နည်း
၅၂၈။ လေပြည်ရွာပြည်၊ လူပျိုပြည်၊ ဆန်တစ်ပြည် သွေးပြည်ဘယ်သို့နည်း

**သံတူကြောင်းကွဲ "အည်" ကာရန်ပုစ္ဆာ ၂၇-ပုဒ် ပြီး၏။**

## (၇၉) သံတူကြောင်းကွဲ "အည့်" ကာရန်ပုစ္ဆာ ၈-ပုဒ်

၅၂၉။ သာမောလှည့် မျက်လှည့်၊ ချာချာလှည့်၊ စကြာလှည့် လက်ယာလှည့် မည်သို့နည်း
၅၃၀။ ပြုတတ်လှည့်မှုတတ်လှည့်၊ ပတ်ပတ်လှည့်၊ မျက်စောင်းလှည့် လုလင်လှည့် အသို့နည်း
၅၃၁။ ရွာဝမ်းပြည့် လပြည့်၊ ရှင်အိမ်ပြည့်၊ ဖြည့်၍ပြည့် ပြည့်စဉ်ပင် အသို့နည်း
၅၃၂။ နှိုင်းရှည့်တိုင်းရှည့်၊ နတ်တရှည့်၊ မှုရှည့်ခံရှည့် အသို့နည်း
၅၃၃။ သစ်သီးရွှမ်းမှည့်၊ ရွှေစဉ်မှည့်၊ အရောင်မှည့်မှည့် ဘယ်သို့နည်း
၅၃၄။ ကရွဲ့ကထည့်၊ အပြည့်ထည့်၊ သွားထည့် ရွှေထည့် ဘယ်သို့နည်း
၅၃၅။ ပြာသာဒ်သကြည့်၊ ခံအောက်ကြည့်၊ တပ်ကြည့်ရှုကြည့်မည်သို့နည်း
၅၃၆။ ရှေ့ကတည့်တည့်မတ်မတ်တည့်၊ လက်မတည့်ရွယ်တည့်တည့်၊ စိတ်မတည့် အသို့နည်း

**သံတူကြောင်းကွဲ "အည့်" ကာရန်ပုစ္ဆာ ၈-ပုဒ် ပြီး၏။**

## (၈၀) သံတူကြောင်းကွဲ "အည်း" ကာရန်မှည်ာ ၃၂–မုဒ်

၅၃၇။ ဘုရားမိတည်း၊ ပိတ်ရတည်း၊ ပြတည်းချုပ်တည်း မည်သို့နည်း

၅၃၈။ ကြိုးနှင့်တည်း ကြပ်တည်း၊ စာပေတည်း၊ တည်းစပ်တည်းစပ် အသို့နည်း

၅၃၉။ ခွေးကညည်းညည်း၊ ခံညည်းညည်း၊ ညည်းတွား ညည်းညူ အသို့နည်း

၅၄၀။ ရာသကျည်းမန်းကျည်း၊ ဓားကတ်ကြည်း၊ လေတကျည်း ကျည်းပင် ဘယ်သို့နည်း

၅၄၁။ ငှက်တင်ကျည်း၊ မြည်ကျည်းကျည်း၊ မိညက်ကျည်း၊ ထူးနှင့်ကျည်း တံခါးကျည်း ဘယ်သို့နည်း

၅၄၂။ မပြစ်မကျည်း၊ ရေတကျည်း၊ ကျည်းပုဏ္ဏား ကျည်းကျည်းနား ဘယ်သို့နည်း

၅၄၃။ ဖနှောင့်ဖကျည်း၊ ကုလားကျည်း၊ ထိတ်ကျည်း ကျော့ကျည်း မည်သို့နည်း

၅၄၄။ လိပ်လည်း တည်းလည်း၊ ဘယ့်နှယ်လည်း၊ သစ်ဆည်းလည်း ခြူဆည်းလည်း ဘယ်သို့နည်း

၅၄၅။ ပလလည်း လူလည်း၊ တော်သံလည်း၊ စိတ်လည်းစုလည်း ဘယ်သို့နည်း

၅၄၆။ ကုတ်နှင့်ကော်ကြည်း၊ နှလုံးကြည်း၊ ရိုက်ကြည်း ပဲ့တင်ကြည်း မည်သို့နည်း

၅၄၇။ ရွှေတောင်မည်း ခမည်း၊ မျက်နှာမည်း၊ ဥပမည်း နက်မည်း ဘယ်သို့နည်း

၅၄၈။ ဦးခေါင်းပြည်းစည်း၊ အချည်းစည်း၊ ကြိုးနှင့်စည်း ဓာတ်ပစ္စည်း မည်သို့နည်း

၅၄၉။ စောင့်စည်း နှာစည်း စောင်းရန်စည်း၊ တစည်းပဲခွပ် မည်သို့နည်း

၅၅၀။ ပေါင်းစည်းရုံးစည်း၊ မင်းသိဋ္ဌည်း၊ သမုစ္စည်း စည်းဝေးဘယ်သို့နည်း

၅၅၁။ သစ်ပင်ကစ္စည်း၊ ထေရ်ကစ္စည်း၊ ဆွမ်းပစ္စည်း၊ ဘွဲ့ပစ္စည်း မည်သို့နည်း

၅၅၂။ ဖြုတ်ချည်း ရုတ်ချည်း၊ တကိုယ်ချည်း၊ မဲ့ချည်း မောင်းချည်း ဘယ်သို့နည်း

၅၅၃။ လျှလျှခြည်းခြည်း၊ သံခြည်းခြည်း၊ သပ်သပ်ချည်း၊ အချည်းနှီး ဘယ်နှယ့်နည်း

၅၅၄။ သိပ်သည်းကျော်သည်း၊ ရေယဉ်သည်း၊ ချုံးစွန်သည်း လူကသည်းဘယ်သို့နည်း

၅၅၅။ အအူအသည်း၊ နာရှိန်းသည်း၊ ခြေသည်း လက်သည်း ဘယ်သို့နည်း

၅၅၆။ စင် တလင်းလှည်း၊ တိုက်ဖျက်လှည်း၊ တံမြက်လှည်း ဝန်တင်လှည်း အသို့နည်း

၅၅၇။ ပိတ်သည်း ပိတ်နည်း၊ ဝမ်းပန်းနည်း၊ အနည်းနည်း၊ ဝိနည်းဘယ်သို့နည်း

၅၅၈။ ထုံးနည်း ပုံနည်း၊ ဥစ္စာနည်း၊ စံနည်း မောင်းနည်း သို့လျှင်နည်း

၅၅၉။ ဆင်တဟည်းဟည်း၊ သစ်ကုတ်ဟည်း၊ ဟည်းလည်းတံခါးပွင့် ဘယ်သို့နည်း

၅၆၀။ ဖြစ်ပည်း ပေါပည်း၊ စာကမ္ပည်း၊ ပည်းချင်းခြားဟန် ဘယ်သို့နည်း

၅၆၁။ ဆည်းကျုံကျုံ သိမ်းဆည်း၊ ရှာဖွေဆည်း၊ ဆည်းပူး မည်သို့ခြားသနည်း

၅၆၂။ ဆုံဆုံဆည်းဆည်း၊ ချဉ်းကပ်ဆည်း၊ ခြူးဆည်းလည်း ဆည်းဆာ အသို့နည်း

၅၆၃။ ပြုံးပြုံးပြည်းပြည်း၊ ရှမ်းခေါင်းပြည်း၊ ပြာသာဒ်ဦးပြည်း ဘယ်သို့နည်း

၅၆၄။ တပြုံ့ပြည်းပြည်း၊ ကုံပြည်းပြည်း၊ ပြည်းပြည်းဝင်စုံ သို့လျှင်နည်း

၅၆၅။ ကမ္ဗောရည်း၊ တင့်ရည်းရည်း၊ နိဿရည်း အိုးစရည်း စရည်းပင် ဘယ်သို့နည်း

၅၆၆။ ရန်ရှာခိုက်နည်း၊ တင့်တရည်း၊ ငယ်ကရည်း ရော့ရည်း ဘယ်သို့နည်း
၅၆၇။ ကိုယ်ကိုသရည်း၊ ရှင်အရည်း၊ ပုံမောင်းနရည်း မည်သို့နည်း

**သံတူကြောင်းကွဲ "အည်း" ကာရန်ပုဒ္ဓာ ၃၂-ပုဒ် ပြီး၏။**

## (၈၀) သံတူကြောင်းကွဲ "အဉ်" ကာရန်ပုဒ္ဓာ ၁၂-ပုဒ်

၅၆၈။ အစုအစဉ်၊ သံဃာစဉ်၊ ကောက်ရိတ်တံစဉ် ဖိတ်စဉ်၊ မည်သို့နည်း
၅၆၉။ နန်းစဉ် စီစဉ်၊ ဆေးဝါးစဉ်၊ နေနားစဉ်၊ သစ်ပင်စဉ် အသို့နည်း
၅၇၀။ ဆေးပြားပျဉ်၊ အင်ပျဉ်၊ ခွေတင်ပျဉ်၊ ကျောက်ပျဉ် ပျဉ်တလား ဘယ်သို့နည်း
၅၇၁။ ညောင်စောင်းအင်းပျဉ်၊ ထူပျဉ်ပျဉ်၊ အပျဉ် ပျဉ်ပြား အသို့နည်း
၅၇၂။ ခြေကျဉ်လက်ကျဉ်၊ ပရွက်ကျဉ်၊ ထုံကျဉ်ကျဉ် ခါကျဉ်ဘယ်သို့နည်း
၅၇၃။ ပုထုဇဉ် သံယောဇဉ်၊ ဥယောဇဉ်၊ ဇဉ်ချင်း မည်သို့ခြားသနည်း
၅၇၄။ အဘိညာဉ် ပဋိညာဉ်၊ ဘာဝနာညာဉ်၊ စိတ်ဝိညာဉ် ဉာဏ်ပညာဉ် ဘယ့်နှယ်နည်း
၅၇၅။ တန္တစိမ်းချဉ်၊ စိတ်စက်ချဉ်၊ လူချဉ် ချိုချဉ် ဘယ်သို့နည်း
၅၇၆။ ထီးမင်ယဉ် ရေယဉ်၊ လုပ်ချက်ယဉ်၊ စီးသည့်ယဉ် ယဉ်ကျေး ဘယ်သို့နည်း
၅၇၇။ သိန်းနီမိုင်းယဉ်၊ မြိုင်ဥယာဉ်၊ ပျောင်းယဉ် နုယဉ် ဘယ်သို့နည်း
၅၇၈။ ဗျာပါဆံလျဉ်၊ စီလျဉ်လျဉ်၊ အလျဉ်မပျက် ဘယ်သို့နည်း
၅၇၉။ ဥပါယ်တမျဉ်၊ ခိုင်တမျဉ်၊ တမျဉ်နိမိတ်ဘယ့်နှယ်နည်း

**သံတူကြောင်းကွဲ "အဉ်" ကာရန်ပုဒ္ဓာ ၁၂-ပုဒ် ပြီး၏။**

## (၈၂) သံတူကြောင်းကွဲ "အဥ္စ" ကာရန်ပုဒ္ဓာ ၃-ပုဒ်

၅၈၀။ ပုဆိုးရဥ္စရဥ္စ၊ ထားဖြင့်ရဥ္စ၊ ကရဥ္စ ကသီ မည်သို့နည်း
၅၈၁။ စဥ္စကူးမြို့ စေဉ်၊ သွန်းသည့်စဥ္စ၊ ကစဥ္စကလျား ဘယ်သို့နည်း
၅၈၂။ ဝတ်ထည်လျဥ္စလျဥ္စ၊ ဖြတ်လျဥ္စလျဥ္စ၊ ဆံလျဥ္စလျဥ္စပျံလဥ္စလဥ္စသို့ပေနည်း။

**သံတူကြောင်းကွဲ "အဥ္စ" ကာရန်ပုဒ္ဓာ ၃-ပုဒ် ပြီး၏။**

## (၈၃) သံတူကြောင်းကွဲ "အဉ်း" ကာရန်ပုဒ္ဓာ ၁၅-ပုဒ်

၅၈၃။ ပဲယဉ်း ခဲယဉ်း၊ မြို့မိုင်းယဉ်း၊ ပေယဉ်း မည်သို့ခြားသနည်း
၅၈၄။ အနားယဉ်း မျက်စိယဉ်း၊ ရွက်လင်းယဉ်း၊ ဦးယဉ်ခေါင်းခဲ ဘယ်သို့နည်း
၅၈၅။ စိုးစဉ်း မျက်စဉ်း၊ သိအစဉ်း၊ နုပ်နုပ်စဉ်း ထုလွှစဉ်း ဘယ်သို့နည်း
၅၈၆။ နှုတ်စဉ်း လက်စဉ်း၊ တောပစဉ်း၊ ဇာတာစဉ်း စဉ်းစဉ်းဝင် ဘယ်သို့နည်း

၅၈၇။ နှုတ်လက် မကစဉ်း၊ တောက်တောက်စဉ်း၊ မြားစဉ်း သွားစဉ်းခွက် အသို့နည်း
၅၈၈။ သွေးလဖျဉ်း၊ ဝမ်းနာဖျဉ်း၊ ပိန်းနဲဖျဉ်း ညှိုးဖျဉ်း စပါးဖျဉ်း ဘယ်သို့နည်း
၅၈၉။ မြက်ပျဉ်းပါးပျဉ်း၊ အင်ကြင်းပျဉ်း၊ နေပျဉ်းပျဉ်းတော်သိမ် ဘယ်သို့နည်း
၅၉၀။ အမဲရွက်ပျဉ်း၊ ရွှမ်းမိုင်းပျဉ်း၊ လဝန်းပျဉ်း ပျဉ်းတော်သိမ် ဘယ်သို့နည်း
၅၉၁။ စက်မျဉ်း မျောက်မျဉ်း၊ မခိုင်မျဉ်း ကြိုးတံမျဉ်း ပျော့မျဉ်းမျဉ်း အသို့နည်း
၅၉၂။ လျောင်းမျဉ်းငိုက်မဉ်း၊ စစ်ဝတ်မျဉ်း၊ မိုင်းမျဉ်းရှမ်းရွာ ဘယ်သို့နည်း
၅၉၃။ ရှမ်းရွာမိုင်လျဉ်း၊ နှုတ်နှင့်လျဉ်း၊ စပ်လျဉ်း အလျဉ်းသင့် ဘယ်သို့နည်း
၅၉၄။ ကတဉ်း အင်တဉ်း၊ ကြေးပန်းတဉ်း၊ တဉ်ချင်း မည်သို့ကွဲပိမ့်နည်း
၅၉၅။ ကျဉ်းကျယ် အကျဉ်း၊ ရပ်ဟိုးကျဉ်း၊ ကျဉ်းမြောင်းကျဉ်လှ ဘယ့်သို့နည်း
၅၉၆။ ရုံးချဉ်း ကပ်ချဉ်း၊ အနီးချဉ်း၊ ချဉ်းဆရာချဉ်း မည်သို့နည်း
၅၉၇။ အဟဉ်း အဟဉ်း၊ ချောင်းညံ့ဟင်း၊ နံ့ဟဉ်းဟဉ်း၊ အင့်ဟဉ်းဟဉ်း အသို့နည်း

**သံတူကြောင်းကွဲ "အဉ်း" ကာရန်ပုစ္ဆာ ၁၅-ပုဒ် ပြီး၏။**

## (၈၄) သံတူကြောင်းကွဲ "အေ" ကာရန်ပုစ္ဆာ ၁၅-ပုဒ်

၅၉၈။ ဆတ်ဆတ်ချေ၊ ကျေးငှုးချေ၊ ကြေအောင်ခြေ၊ သည်းခြေ ချေငံ မည်သို့နည်း
၅၉၉။ မြို့ညောင်ရွှေ မျက်ပါးရွှေ၊ သူငယ်ရွှေ လူရွှေ ရွှေစောင်း၊ အသို့နည်း
၆၀၀။ မျက်စိစွေ မိုးစွေ၊ ပန်းမိုးစွေ စွေလိပ်လိပ် အသို့နည်း
၆၀၁။ ပွတ်ကြေ ညက်ကြေ၊ ထွားထွားကြေ၊ သိသိကြေ အောက်အကြေ အသို့နည်း
၆၀၂။ ငါးငပြေ မိပြေ၊ အလွမ်းပြေ-စကားပြေ သပြေပင် ဘယ်သို့နည်း
၆၀၃။ ခွဲဝေ သဲဝေ၊ ရေးသဝေ၊ လူငဝေ မှိုင်းဝေဝေ အသို့နည်း
၆၀၄။ မိန်းမရှင်ဝွေ၊ ထူးသည်းဝေ၊ စုန်းကဝေ အိုးဝေ မည်သို့နည်း
၆၀၅။ တဝက်တဝေ၊ ရသံဝေ၊ ဆာဝေဝေ လွမ်းဝေဝေ အသို့နည်း
၆၀၆။ ပိုလ်ခြေဆင်ခြေ၊ မိန့်သံခြေ၊ လက်ခြေ ကချေ အသို့နည်း
၆၀၇။ ကြက်သရေ အသရေ၊ နွားသရေ၊ မသရေ မသေရာ အသို့နည်း
၆၀၈။ လနေစနေ၊ မီးယပ်နေ၊ တဲနေ အနေကျ ဘယ့်နှယ်နည်း
၆၀၉။ လူလေ ဆူးလေ၊ မုန်တိုင်းလေ၊ အိမ်းလေ အဲလေ မည်သို့နည်း
၆၁၀။ မြို့စလေ သွေးလေ၊ ငါးငလေ၊ ပလေပစာ မည်သို့နည်း
၆၁၁။ လူတွေ မှိုင်တွေ၊ သံကိုတွေ၊ စီးတွေတွေ ရေတွေတွေ အသို့နည်း
၆၁၂။ မိမွေဖမွေ ငါးငမွေ၊ အမွေမမြင် အသို့နည်း

**သံတူကြောင်းကွဲ "အေ" ကာရန်ပုစ္ဆာ ၁၅-ပုဒ် ပြီး၏။**

## (၈၅) သံတူကြောင်းကွဲ "အေ့" ကာရန်ပုစ္ဆာ ၃-ပုဒ်

၆၁၃။ မီးငွေ့တိမ်ငွေ့၊ ဘုန်းရှိန်ငွေ့၊ နဂါးငွေ့ ရင်ငွေ့ ဘယ်သို့နည်း
၆၁၄။ ခြင်္သေ့ရသေ့၊ ငွေနှင့်သေ့၊ သေ့ချင်း ဘယ့်နှယ်ထူးသနည်း
၆၁၅။ သစ်ကောက်ကွေ့၊ လိမ်ကောက်ကွေ့၊ လူမျိုးကွေ့ စိတ်ကွေ့ မည်သို့နည်း

**သံတူကြောင်းကွဲ "အေ့" ကာရန်ပုစ္ဆာ ၃-ပုဒ် ပြီး၏။**

## (၈၆) သံတူကြောင်းကွဲ "အေး" ကာရန်ပုစ္ဆာ ၇-ပုဒ်

၆၁၆။ ခေးသွား ကွမ်းသွေး၊ ကိုယ်တွင်းသွေး၊ ခေါ်သွေး သွေးဆောင် မည်သို့နည်း
၆၁၇။ ဝန်လေးလောက်လေး၊ ချိန်ကျပ်လေး၊ အလေး လေးစား အသို့နည်း
၆၁၈။ သစ်ပင်ကျွေး တင်သည့်ကြွေး၊ ထမင်းကျွေး၊ ကံကျွေး လက်ခ အသို့နည်း
၆၁၉။ မောင်းကျောက်ခွေး၊ အဖျားခွေး၊ ဟောင်သည့်ခွေး၊ လူငခွေး သံခွေး အသို့နည်း
၆၂၀။ စောင်းတေး ငြင်းတေး၊ ခပ်ပြာတေး၊ လူငတေး တေးချင်း အသို့နည်း
၆၂၁။ လူမည်ချစ်ထွေး၊ ကွမ်းသွေးထွေး၊ ပိုက်ထွေး ရှုပ်ထွေး ဘယ့်နှယ်နည်း
၆၂၂။ ကြံတွေး တံတွေး၊ နီတွေးတွေး၊ တွတ်တွတ် တွေးတွေး မည်သို့နည်း

**သံတူကြောင်းကွဲ "အေး" ကာရန်ပုစ္ဆာ ၇-ပုဒ် ပြီး၏။**

ဤသို့ဆိုအပ်ခဲ့ပြီးသော အခြင်းအရာ အစရှိသည်ဖြင့် တစ်ရာ့တစ်ပါးသော ဘာသာမျိုးနှင့် လျော်စွာ ရရာသော သံတူကြောင်းကွဲ ပုစ္ဆာမျိုးအပေါင်းကား မကျဉ်းမကျယ်လွန်းသော နည်းအားဖြင့် ၇၇၁၆-ပါးအပြားရှိ၏။ အဘယ်သို့ပြားသနည်း ဟူမူကား-က ကာမျိုး ၉-ပါး၌ ၂၁၉၀။ ကက်ကိတ်မျိုး ၉-ပါး၌ ၇၉၂။ ကင်းကိန်မျိုး ၉-ပါး၌ ၇၉၂။ ကိုကိုမျိုး ၉-ပါး၌ ၆၅၇။ ကုမ်ကုမ်မျိုး ၉-ပါး၌ ၆၅၇၊ ဤသို့အားဖြင့် ပေါင်းသည်ရှိသော် သံတူကြောင်းကွဲ ပုစ္ဆာမျိုးတို့ကား ၇၇၁၆-ပါး အပြားရှိ၏။

ထိုပုစ္ဆာမျိုး စေ့ရှုံ့မျှပင် ဆိုသော်လည်း အလွန်ကျယ်ပွား၍ ဂန္ထဂရုဒေါ်သရောက်ရာသော ကြောင့် နည်းမှီရရုံ အမြွက်မျှသာ ပြလိုက်သတည်း။ ၇၇၁၆-ပါးသော ပုစ္ဆာမျိုးတို့ကို စေ့စုံစွာ မူလပြုလျက် ဖွင့်သော်အကျယ်တစ်နည်းဖြစ်၏။ ထိုအကျယ်အားဖြင့်ကား ဤမျှဤရွေ့ရှိသည် ဟု သာမညဉာဏ်ဖြင့် ပိုင်းခြားခြင်းငှာ မတတ်ကောင်း။ အဘယ်ကြောင့်နည်း။ ၇၇၁၆-ပါး တို့သည် တစ်ပါးတစ်ပါးတွင်ပင် ဘာသာထူးခြား၊ ဝေါဟာရကွဲခြင်း၊ အကြောင်းအားဖြင့် အပြားရှိသောကြောင့်တည်း။ ပညာရင့်တော်မူကုန်သော သူမြတ်တို့ကား ခဲခက်ကြောင်းကို

ခွဲခြမ်း၍ သိတော်မူကုန်သလျှင်ကတည်း။ ပညာရင့်ခြင်းငှာ အလိုရှိကုန်သောသူတို့သည် ဤကျမ်း၌ ပြသောနည်းကို အစဉ်မှီးသဖြင့် ခက်ခဲကြောင်းကို သိရှုံမှုကြိုးစား၍ ကြံစည်စေကုန်သတည်း။

စွယ်စုံကျော်ထင်အမည်ရှိသော ကျမ်း၌ သဒ္ဒသမအတ္တဝိသေသ ဟုဆိုအပ်သော သံတူကြောင်းကွဲ ပုဒ္ဓသတ်ပုံကို အကျဉ်းအားဖြင့် ဝေဖန်ရာဝေဖန်ကြောင်းဖြစ်သော ဒုတိယပိုင်းကား ဤ၌တွင်ရှေ့ပြည့်စုံပြီ။

ကြည့်ကန် က္လတ်ဝှယေ ဂါမေ၊ အနောက်ဘက်တိုက် အဘန္တရေ။
ဘုံသာထွန်း က္လတီဝေါဟာရေ ဝသန္တေ နရမာသနေ။
(ပထျာဝတ္တ)

တောင်ငူဝှနဂရိန္ဒသာ၊ ဂေဟာနိစ္စန္ဒာနုနေတ္တော။
နန္ဒဓဇော ကတော ဂန္ထော၊ အနာကုလံ သုနိဋ္ဌိတံ။
(ဤဂါထာကား၊ နဒိဿတေတ္တ ယံ ဆန္ဒံစသော ကျမ်းနှင့်အညီတည်း)
ပရိပုဏ္ဏော နဝါလီကော၊ ကာလမှိ ဇိနသာသနေ။
ဘဒြမာသေ တုလေ ရသော၊ ဒီဃဂေါစေ ဒမာကုဠေ။ ။
(ပထျာဝတ္တ)

ကရကဋ္ဌသုစန္ဒြော၊ သုက္ကပက္ခစျံ သူရိယေ။
ရဝိကန္တုဗုဓာတူလော၊ ပြဋ္ဌာလဂ္ဂေ ဓနူဘုမေ။
(ပထျာဝတ္တ)

မေဓုန္တ ရာဟုသောရေစ၊ ပုဏ္ဏာဖုသျုယုတေဇနံ။
ဇီဝှာကုမ္ဘော သောကြာသိန္ဓော၊ ကွာပိန္ဒသာ သမိဋ္ဌာဘု။
(တတိယမကာရ ဝိပုလ ပထျာဝတ္တ)

ပဥ္စပညာသ ပဥ္စာနံ၊ ပုစ္ဆိတဗ္ဗံ ကထေတွာန။
နိဋ္ဌိတံဝ သုစိန္တံ့နော၊ မေတ္တာဒကေန မံ သိဥ္စံ။
(ပထျာဝတ္တ)

**အနက်ကား။** ။အနောက်ဘက်တိုက် အဘန္တရေ အနောက်ဘက်တိုက်၏ အတွင်းဖြစ်သော။ ကြည့်ကန်က္လတိင္ဂယေ၊ ကြည့်ကန်ဟူ၍ ခေါ်ဝေါ်အပ်သော။ ဂါမေ၊ ရွာ၌။ ဘုံသာထွန်း က္လတီဝေါဟာရေ၊ ဘုံသာထွန်းဟူ၍ ခေါ်ဝေါ်သမုတ်အပ်ထသော။ ရမေ၊ နှလုံးမွေ့လျော်ဖွယ်ရှိထသော၊ အာသနေ၊ ကျောင်းနေရာ၌။ ဝသန္တေန၊ နေထသော။ ။တောင်ငူဝှနဂရိန္ဒသာ၊ တောင်ငူပြည်ကြီးကို အစိုးရတော်မူထသော ရေမြွေသခင်ရွှေနန်းရှင်၏။ ဂေဟာနိစ္စန္ဒနေတ္တော၊ အဆောင်မြဲမင်း၏ မြစ်လည်းဖြစ်ထသော။ နန္ဒဓဇော၊ နန္ဒဓဇအမည်ရှိသော ငါသည်။ ။

ပုစ္ဆိတဗ္ဗ၊ အရိယဝံသအာဒိစ္စရံသီ ပုဂ္ဂိုလ်သည် မေးတော်မူအပ်သော။ ပဥ္စပညာသပဉှာနံ၊ ငါးဆယ့်ငါးပါးသော အမေးပြဿနာတို့ကို။ ကထေတွာန၊ ဖြေဆိုပြီး၍။ ဝါပါဠိ၊ အဋ္ဌကထာ၊ ဋီကာအတန်တန်၊ ကျမ်းဂန်တို့ဝယ်၊ အဓိပ္ပာယ်ကို၊ လွယ်ကူဖော်ထုတ်၊ မယုတ်မယို၊ မပိုမလျှံ၊ ချောင်စွာ ဖြေဆိုပြီး၍။ ဝါ၊ ပေထက်တင်ကာ ပြေလည်စွာဖြေဆိုပြီး၍။ ကတော၊ ပြုအပ်သော၊ ဝါ၊ စီရင်အပ်သော။ ဂန္ထော၊ ကျမ်းသည်။ ဝါ၊ သတ်ပုံလည်းပါ၊ ပုစ္ဆာလည်းရ၊ သိပ္ပကုံလုံ၊ နှစ်ချက်စုံကြောင့် စွယ်စုံကျော်ထင် အမည်ရှိသောကျမ်းသည်။ ဇိနသာသနေ၊ ဘုရားရှင်သာသနာတော်မြတ်သည်၊ နဝါလိကေ္ခ၊ ၁၃၄၀။ ဒီဃဂေါစ၊ အရှည်ဖြစ်သော ဂေါစာသက္ကရာဇ်သည်။ ဒမာကုဍ္ဍေ၊ ၁၁၅၈ ခု။ ရသေ၊ အတိုသက္ကရာဇ်သည်။ အတုလေ၊ ၃၆၀။ ပရိပုဏ္ဏေ၊ ပြည့်လတ်သော်။ ဘဒြမာသေ၊ တော်သလင်းလ၌။ သုက္ကပက္ခစိျသူရိယေ၊ လဆန်းပက္ခ ၉–ရက် တနင်္ဂနွေနေ့။ ကရကဋ္ဋသုစန္ဒြေ၊ ကရကင်္၌ ကောင်းသောစန်း၊ ဝါ၊ မိဿ၊ ကရကဋ်၊ သိဟ်၊ တူ၊ မကရ၊ ကုမ်၊ ရေကုံစဉ်စီ၊ ခြောက်ရာသီ၌ အညီစန်းမင်း မြင်လေလျှင်းသော်၊ ကောင်းခြင်းစင်စစ်၊ မင်းလျှင်ဖြစ်အံ့ဟူသော ပရိဘာသာနှင့်အညီ။ ကရကဋ်၌ကောင်းသောစန်း။ ဗြိစ္ဆာလဂ္ဂေ၊ ဗြိစ္ဆာလဂ်။ ဝါ၊ ဗြိစ္ဆာ၌ ရွှေဟသ်ာမင်းလဂ်ထက်။ အဩေ၊ ယင်းမှတစ်ပါးသော ဂြိုဟ်တို့ကား။ ရဝိကန္ဒပုဓာတူလေ၊ ကန်၌တနင်္ဂနွေ၊ တူ၌ဗုဒ္ဓဟူး။ ဓနူဘုမေ၊ ဓနု၌အင်္ဂါ။ ဇိဝ့ါကုမ္ဘေ၊ ကုမ်၌ ကြာသပတေး၊ သောကြာသိန္ဓေ၊ သိန်၌သောကြာ၊ မေဓုန္ဒရာဟုသောရေ၊ မေဓုန်၌ ရာဟုနှင့်စနေ။ ပုဏ္ဏဖုသ္သျူယုတေဇနံ၊ ပုဏ္ဏဖုသ္သျူနက္ခနှင့် ယှဉ်သည်ဖြစ်လျက်။ ကာလမှိ၊ အမရပူရရွှေမြို့တော်တည် သာသနာ့ဒါယကာ မင်းတရားကြီးရွှေလက်ထက်တော်၌။ အနာကုလံ၊ အနှောင့်အယှက် ကင်းသော။ ဝါ၊ နှောင့်ယှက်ခြင်းကင်းသည်ဖြစ်၍။ သုနိဋ္ဌိတံ၊ ကောင်းစွာပြီးပြည့်စုံပြီ။ ဣမံ၊ ဤကျမ်းသည်။ နိဋ္ဌိတံဝ၊ အပြီးရောက်သကဲ့သို့။ နော၊ ငါတို့၏။ ကွာပိန္ဒသာ၊ ရေမြေရှင် မင်းတရားကြီး၏။ သုစိန္တံ၊ ကောင်းမြတ်သော အကြံတော်သည်။ သမိဇ္ဈတု၊ ကောင်းစွာပြီး ပြည့်စုံတော်မူစေသတည်း။ ဇနာနံ၊ သတ္တဝါအပေါင်းတို့၏လည်း။ မေတ္တောဒကေန၊ မေတ္တာရေဖြင့်။ သိဥ္စံသိဥ္စန္တု။ သွန်းလောင်းစေကုန်သတည်း။ ။

နန္ဒမောကို ထေတွာန၌ ကတ္တားစပ်။ ဤသို့စပ်ခြင်းကား–

ယေန ယဿ ဟိ သမ္ဗန္ဓော၊ ဒူရဋ္ဌမ္ပိစ တဿ တံ။

အတ္ထတောဟျ သမာနာနံ၊ အာသန္နတ္တမကာရဏံ။

ဟူ၍ မိန့်ဆိုအပ်သော ကစ္စည်းကျမ်း၏ အဖွင့်ဖြစ်သော မုခမတ္တ ဒီပနီ အမည်ရှိသော ဉာသ်ကျမ်းနှင့် အညီတည်း။ ။ ကထေတွာန နှင့် ပဥ္စပညာသ ပဉှာနံကား "ပါပဿ အကရံ သုခံ" တို့ကဲ့သို့ ဆဋ္ဌီကံတည်း။

**စွယ်စုံကျော်ထင် အမေးပုစ္ဆာ သတ်ပုံကျမ်း ပြီး၏။**



# စွယ်စုံကျော်ထင်ကျမ်း

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ပဏာမ ဂန္ထာရမ္ဘ

ဝိဒ္ဒသူဟိဓ ပုဋ္ဌိတော၊ နာနာပဉှေ ဝိဘာဝိတံ။
ကဝိန္ဒင်္ဂံ နမဿိယ၊ စွယ်စုံကျော်ထင် ဝိဿုတော။
နာနာနယပ္ပဘာသမ္ပုဏ္ဏော၊ သာဂရော ယံဝ ဂမ္ဘီရော။
ပဏ္ဍိတာနံ မနောဟာရော၊ ဟိတာဝဟော သုတေသာနံ။
ဝိဇ္ဇံ့ တဿ ထာပုဏ္ဏာ၊ ဘတာစေရာပိ သေသာဝ။
တံတဿွာ တွံ ဝိဿုတ္တာဟိ၊ ပရမ္ပရာန ဆေကတ္ထံ။
ကလျာဏဓေ ထေရဿ၊ ပဏ္ဍာလဿ စ အညေသံ။
အဇ္ဈေသနံ နုဿရန္တော၊ နဝုတ္တရံ ရာဘိဿာမိ။
ယုတ္တဂ္ဂယှ ပုရာသတ္တံ၊ အယုတ္တံ သောဓယိတွာန။
သေသကဥ္စ ဝိဿဇ္ဇန္တော၊ ဝေယျာကရဏောတိ ဝေါဟာရန္တိ။

ဤဂါထာတို့တွင် ပဌမဂါထာကား "ဩဇေသု ဇေန သိန္ဓုတော၊ တမေဝ ဝိပရိတာဒိ" ဟူသော ဆန်းသုတ်နှင့်အညီ ဖွဲ့သီအပ်သော ဝိပရိတပထျာ။ နောက်၄-ဂါထာ ဝတ္တာသက်သက်၊ ဝိပုလာအယှက်ဟည်း။

အဟ်၊ မုနိန္ဒာဘိဓေ နာမသမုတ် အကျွန်ုပ်သည်။ ဣဓ၊ ဤစကြဝဠာ လောက ဓာတ်၌။ ဝိဒ္ဒသူဟိ၊ ပညာရှိဟု တံခွန်ထူကုန်သော လူနတ်ပြဟ္မာ မဟာကဝိန် သုခမိန် တို့သည်။ ပုစ္ဆိတေ၊ မေးလျှောက်စုံစမ်း ထောက်လှမ်းအပ်ကုန်သော။ နာနာပဉ္ဟေ၊ အထူးထူးသော လျှို့ဝှက်ခဲကတ် တုံ့ဆတ်ခက်စွာ ပြဿနာတို့ကို။ ဝိဘာဝိတာ၊ လက်ငင်း မကြာ ထင်စွာပြချေ ဖြေတော်မူတတ် ထသော။ ကဝိန္ဒဂ္ဂံ၊ ကဝိတကာတို့၏ အရှင် ဘုရင်တမွတ် အထွတ်ထိပ်ဖူး ဖြစ်တော်မူသော မြတ်စွာဘုရားကို။ နမဿိယ၊ ညွတ်ခကြည်သာ ရှိခိုးပါ၏။ နမဿိယ၊ ညွတ်ခကြည်နူး ရှိခိုးဦး၍။ စွယ်စုံကျော်ထင်၊ လောကဓမ္မ သိပ္ပကုံလုံ ဉာဏ်စွယ်စုံဖြစ်စေခြင်းငှာ ကျည်းကန်ရွာမှ **သာမဏေကျော် နန္ဒမဇ** သည် ကုံးသီရေးစု အမေးပြုခဲ့သော စွယ်စုံကျော်ထင် အမည်ရှိသော ပုဏ္ဏ ကျမ်းကို။ (ဝိဿဇ္ဇတေ၊ ဖြေလိုက်အံ့။ အယံဂန္ထော၊ ဤပုဏ္ဏကျမ်းသည်။) နာနာနယတ္ထ သမ္ပုဏ္ဏော၊ အထူးထူးသော လောကီ လောကုတ္တရာ လမ်းနှစ်ဖြာ၌ ပညာကြီးဖွယ် လွန်ဆန်းကြယ်သော အတ္ထနယတို့နှင့်လည်း ပြည့်စုံ၏။ ဝါ၊ အထူးထူးသောနည်း အထူးထူးသော အနက်အဓိပ္ပါယ်တို့နှင့်လည်း ပြည့်စုံ၏။ သာဂရောက္ကဝ၊ ရတနာ ခုနစ်သွယ် အံ့ဖွယ်ရှစ်မည် ဂုဏ်ပေါင်းတည်သော လေးမည်သာဂရ ပင်လယ်မ ကဲ့သို့။ ဂမ္ဘီရော၊ နက်နဲကျယ်ဝန်း၏။ ပဏ္ဍိတာနံ၊ ပညာရှိ တကာတို့၏။ မနောဟာရော၊ စိတ်နှလုံးကို ယူကျုံး ရွက်ဆောင်တတ်၏။ ဝါ၊ လည်ဝယ်မပြတ် ဆင်ဆောင်အပ်သော နဝရတ်အမျက် စီယှက်ခြယ်လှယ် ပုလဲသွယ်ကဲ့သို့ နှုတ်ဝယ် မပြတ် ဆင်ဆောင်အပ် သော လူ,နတ်, တန်ဆာလည်း ဖြစ်၏။ သုတေသာနံ၊ သုတ ပညာ အလိမ္မာကို ဖွေရှာတောင့်တကုန်သော သူတို့၏။ ဟိတာဝဟော၊ ပညာစည်ကား ကျော်ထင်ရှားသော စီးပွားချမ်းသာ ကိုလည်း ဆောင်တတ်၏။ အထ၊ ယင်းသို့သော ဂုဏ် ပြည့်စုံပါလျက်။ တဿ၊ ထိုပုဏ္ဏ ကျမ်း၏။ ဝိဇဋ္ဋံ၊အဖြေသည်။ ဝါ၊ဖြေရာဖြေကြောင်းကျမ်းသည်။ အပုဏ္ဏာ၊ပြည့်စုံစွာမရှိ။ အာစေရာ၊ ရှေးဆရာတို့သည်။ ကတာပိ၊ ဖြေဆိုသမှု ရေးပြုပါသော်လည်း။ အပုဏ္ဏာ၊ မပြည့်စုံ။ သေသာဝ၊ သိခက်ခဲရာ ပုဏ္ဏကိုကား ကျော်ခုန်လွှားသောကြောင့် အများ ကြွင်းကျန်ရစ်သည်သာလျှင်။ ဟောတိ၊ ဖြစ်၏။ အပိ၊ ကြွင်းရုံသာ မဟုတ်။ အနိဋ္ဌေ၊ ရှေ့နောက်စီလျှဉ် အစဉ်မမှန် ကာရန်မရှု ရကာစုရေးထားခြင်း မသင့်သည်ကိုဖြေဆိုမိခြင်း၊ ထပ်ကာဖန်များ ရေးသားမိခြင်းကို သန့်ရှင်း၍မပြီးမီ။ ကာလကိတတ္တာ၊ ဆရာလွန်လေ သောကြောင့်။ အာကုလာ စ၊ နှောင်ယှက် ရောပွှမ်းသည်လည်း။ ဟောတိ၊ ဖြစ်၏။ တသ္မာ၊ ထို့ကြောင့်။ တံ ဂန္ထံ၊ ထိုပုဏ္ဏကျမ်းကို။ ပရမ္ပရာနံ၊အဆက်ဆက်သော သူတို့၏။ ဆေကာတုံ၊ မေးစုဖြေရာ လမ်းနှစ်ဖြာ၌ လိမ္မာစေခြင်းအကျိုးငှာ။ ဝါ၊လောကီ လောကုတ် သမုတ်ပြဋ္ဌာန်း အကျမ်းကျမ်း၌ ကူးသန်းလျင်မြန် ဉာဏ်လိမ္မာစေခြင်းအကျိုးငှာ။ တွံ၊ အရှင်ဘုရားသည်။ ဝိဿဇ္ဇာဟိ၊ ဖြေတော်မူပါလော့။ ။ဣတိ၊ ဤသို့။ ကလျာဏ ဓေတ္တေရဿ စ၊ ကလျာဏဓဇ နာမပေါ်ထင် အရှည်ဝါသီထေရ်မြတ်၏ လည်းကောင်း။ ပဥ္စာလဿ

စ၊ ပဥ္စာလဟု နာမခေါ်ဆို ပုဂ္ဂိုလ်သူမြတ်၏လည်းကောင်း။ အညေသဥ္စ၊ ဤမှ တစ်ပါးသော ရဟန်းရှင်လူတို့၏လည်းကောင်း။ အဇ္ဈေသနံ၊ တောင်းပန်ခြင်းကို။ အနုသာရန္တော၊ အဖန်ဖန် အောက်မေ့လျက်။ ယုတ္တဂ္ဂယှ ပုရာသဇ္ဇံ၊ ရှေးအဖြေစာ သင့်တင့်ရာကို ကောင်းစွာယူငင်၍။ အယုတ္တံ၊ မသင့်သည်ကို။ သောဓယိတွာန၊ အသစ် ပြင်ဆင်၍။ သေသကဥ္စ၊ သက်သက်မဖြေ ကြွင်းလေသမျှကိုလည်း။ ဝိသဇ္ဇန္တော၊ ဖြေသင်လျက်။ ဝေယျာကရဏောတိ ဝေါဟာရံ၊ အမေးအဖြေ စဉ်ကာနေ၍ ဝေယျာ ကရဏ အဂ်ီ ညီညွတ်စွာ သောကြောင့် ဝေယျာကရဏ်း ဟူ၍ ခေါ်ဝေါ်အပ်သော။ နဝုတ္တရံ၊ အသစ်ဖြစ်သော အဖြေကျမ်းကို။ အာရဘိဿာမိ၊ အားထုတ်ပေအံ့။ ဣတိ၊ ဤသည်လျှင် ဂန္ထာရမ္ဘ, ပဏာမ, ပဋိညာဉ်, ဥယျောဇဉ်,ကရဏပွကာရကို ပြသော စကားရပ် အပြီးသတ်တည်း။

(ဤစွယ်စုံကျော်ထင်ကျမ်း၌ ကဏ္ဍာနှစ်ရပ်ရှိသည့်တွင် ပထမပိုင်း၌ သံကွဲ ကြောင်းကွဲခက်ခဲသော အဓိပ္ပါယ် အမေးပုစ္ဆာသည် သချာအားဖြင့် ၁၁၁၅- ရပ် ရှိသည်။ ထိုတွင်ရှေးဆရာတို့ ဖြေသည်မှာ ယသတ်နောက်ပစ်၊ တသတ် နသတ် ညသတ်တို့ကို အများအားဖြင့် ကြွင်းသော အသတ်တို့ကို နှစ်ပုဒ်၊ သုံးပုဒ်စီအားဖြင့် ဖြေခဲ့သည်ဖြစ်၍ ဝိသဇ္ဇနာပေါင်း သုံးရာကျော်သာ ပြီးသည် ဖြစ်၍ စပါးတစ်ထောင် ထွက်သောလယ်၌ ယောကျ်ားကောင်း တစ်ယောက် ရိတ်ခန့်သာ တွင်သေးသည်။ တွင်ပါသော်လည်း သိလွယ်သော စကားကို ကျယ်ပွားစွာ ဆို၍ သိခက်သောစကားကို ထင်ရှားအောင် မဆိုခဲ့ရကား ပေကုန်သာများ၍ စာသွားမတွင် ဖြစ်ခဲ့၏။ ထို့ကြောင့် အသစ်တစ်ဖန် ထပ်မံ၍ ရေးလိုက်ပြန်၏ ဟူလိုသည်)။

ပဏာမ ဂန္ထာရမ္ဘ ပြီး၏။

❖❖❖❖❖

## (၁) 'အယ်' ကာရန်ပုစ္ဆာ ၁၅၆-ပုဒ်အဖြေ

### ၁။ သာကီဝင်နွယ်၊ စောဘုန်းကြွယ်၊မင်းဘယ်မျှတွင် ပွင့်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား-မဟာသမ္မတ၊ မင်းကစ၍၊ ရေဆတွက်ကိန်း၊ ဂဏန်းထိန်းသော်၊ သုံးသိန်းသုံးသောင်း၊ လေးထောင့်ငါးရာ ခြောက်ဆယ်သာ ကိုးဖြာဆက်တွင် ပွင့်သတည်း ဟူ၍ ဖြေအပ်၏။ ။
ကောဒသမ မြောက်သော မဟာသမ္မတ မင်းကစ၍ ဥက္ကာကရာဇ်မင်း တိုင်အောင် မင်းဆက်ပါင်း နှစ်သိန်း ငါးသောင်း နှစ်ထောင့်ငါးရာ ငါးကျိပ် ခြောက်ဆက်တည်း။
။ထိုဥက္ကာ ကရာဇ်မင်း၏သားတော် ကပိလဝတ်ပြည်ကို တည်ထောင်ဦး ဖြစ်သော

ဥက္ကာမုခ မင်းမှ စ၍ ဘုရားခမည်းတော် သုဒ္ဓေါဒနမင်း တိုင်အောင် မင်းဆက်ပေါင်းကား ရှစ်သောင်း နှစ်ထောင့် တစ်ကျိပ် သုံးဆက်တည်း။ ။ နှစ်စုပေါင်းသော် သုံးသိန်း သုံးသောင်း လေးထောင် ငါးရာ့ ခြောက်ဆယ့်ကိုးဆက်တွင် ပွင့်သည်ဟု သိရာ၏။ သာကီဝင်နွယ် ဖြစ်သော မင်းဆက် ဘယ်မျှတွင် စောဘုန်းကြွယ် ပွင့်သနည်းဟူသော ပုစ္ဆာ၌ အဓိပ္ပါယ် ယူသော် ဥက္ကာမုခမင်းမှ စ၍ ရေတွက်အပ်သော် ရှစ်သောင်း နှစ်ထောင့်တစ်ကျိပ် သုံးဆက်တွင် ပွင့်၏ဟု ဖြေ။ ။ အကျယ်မှာ မဟာရာဇဝင်၌ လည်းကောင်း၊ ရွှေနားတော်သွင်း လက်ာ၌ လည်းကောင်း ထင်စွာရှိပြီ။

❖❖❖❖❖

## ၂။ ဉာဏ်တော်ခြောက်သွယ်၊ အံ့ဩဖွယ်၊ဘယ့်နှယ် ဝိထိကျသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား– ဉာဏ်တော်ခြောက်ပါး ဟူသော်ကား– ပစ္စေကဗုဒ္ဓါ သာဝကတို့နှင့် မဆက်ဆံသော အသာဓာရဏ ဉာဏ်တော်ခြောက်ပါးကို ယူအပ်၏။ ခြောက်ပါးဟူသည်ကား–

**ဣန္ဒြိယပရောပရိယတ္တေ ဉာဏံ ဗုဒ္ဓဉာဏံ၊ အာသယာနုသယေ၊ ယမကပါဋိဟာရိယေ၊မဟာကရုဏာ သမာပတ္တိယာ၊ သဗ္ဗညုတဉာဏံ အနာဝရဏဉာဏံ ဗုဒ္ဓဉာဏံ။**

**အနက်ကား။** ။ဣန္ဒြိယပရောပရိယတ္တေ၊ သတ္တဝါတို့၏ ဣန္ဒြေ ရင့်မရင့်သော အဖြစ်၌။ ဉာဏံ၊ သိသောဉာဏ်သည်။ ဗုဒ္ဓဉာဏံ၊ ဘုရားဉာဏ်မည်၏။ အာသယာနုသယေ၊ သတ္တဝါတို့၏အလို, ကိန်းဝပ်သည်၌။ ဉာဏံ၊သိသောဉာဏ်သည်။ ဗုဒ္ဓဉာဏံ၊ ဘုရားဉာဏ်မည်၏။ ယမကပါဋိဟာရိယေ၊ ရေမီး အစုံအစုံသော တန်ခိုးဖန်ဆင်းရာ၌။ ဉာဏံ၊ သိသော ဉာဏ်မည်သည်။ ဗုဒ္ဓဉာဏံ၊ ဘုရားဉာဏ်မည်၏။ မဟာကရုဏာ သမာ ပတ္တိယာ၊ သတ္တဝါတို့အား သနားခြင်းကရုဏာသို့ ကောင်းစွာ သက်ဝင်ခြင်း၌။ ဉာဏံ၊ သိသော ဉာဏ်သည်၊ ဗုဒ္ဓဉာဏံ။ ဘုရားဉာဏ်မည်၏။ သဗ္ဗညုတဉာဏံ၊ ခပ်သိမ်းသော တရားအပေါင်းတို့ကို သိခြင်းသည်။ ဗုဒ္ဓဉာဏံ၊ ဘုရားဉာဏ်မည်၏။ အနာဝရဏ ဉာဏံ၊ ခပ်သိမ်းသော တရားတို့၌ တားမြစ်ပိတ်ပင်ခြင်းမရှိ သိသော ဉာဏ်သည်။ ဗုဒ္ဓဉာဏံ၊ ဘုရားဉာဏ်မည်၏။

ဤသို့လာသော ဇိနာလင်္ကာရ ဋီကာပါဠ်ဖြင့် သိအပ်၏ ဟူပေ။ ထိုဉာဏ်တော် ခြောက်ပါးတို့ဖြစ်သော ကာလ ဘယ်သို့ ဝိထိ ကျသနည်းဟူရာ၌–

(၁) ဣန္ဒြိယ ပရောပရိယတ္တိဉာဏ် ဖြစ်ဟန်ကား သတ္တဝါအများတို့၏ သန္တာန်၌ ရှိသော စိတ်စေတသိက်ကို သိခြင်းငှာ စေတောပရိယ အဘိညာဉ်ကို ဝင်စားပြီးမှ ထိုသတ္တဝါအများတို့၏ သန္တာန်၌ ဖြစ်သော သဒ္ဓိန္ဒြေစသည်၏ ရင့်, မရင့်ကို ထောက်ချင့် 12 B

ဆင်ခြင် လိုလတ်သည့်ရှိသော် ပဋိသန္ဓေ စိတ်တော်နှင့်တူသော မဟာဝိပါက် သောမနဿ ဉာဏသမ္ပယုတ် အသင်္ခါရိကစိတ်သည် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ။ ထို့နောင် သဗ္ဗညုတ္တစသည်ကို အာရုံပြု၍ မနောဒွါရာဝဇ္ဇန်း။ ထို့နောင် မဟာကိရိယာဇော ရှစ်ခုတို့တွင် တစ်ခုခုသည် ပစ္စဝေက္ခဏာ ဇောကိစ္စ ခုနစ်ကြိမ်ဖြစ်၍ချုပ်၏။ ထို့နောင် ဘဝင်ကိစ္စဖြစ်၍ ချုပ်၏။

(၂) အာသယာနုသယဉာဏ်ဖြစ်ဟန်ကား သတ္တဝါအများတို့၏ အလိုဆန္ဒ အာသယကိုသိခြင်းငှာ စေတောပရိယ အဘိညာဉ်ကို ဝင်စားပြီးမှ ထိုသတ္တဝါအများတို့၏ စိတ်အလိုကို ဆင်ခြင် လိုလတ်သည့်ရှိသော် ပဋိသန္ဓေ စိတ်တော်နှင့်တူသော စိတ်သည် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ။ ထို့နောင် သတ္တဝါတို့၏ အလိုဆန္ဒ အာသယကို အာရုံပြု၍ မနောဒွါရာဝဇ္ဇန်း။ ထို့နောင် မဟာကိရိယာဇော ရှစ်ခုတို့တွင် တစ်ခုခုသည် ပစ္စဝေက္ခဏာ ဇောကိစ္စ ခုနစ်ကြိမ်ဖြစ်၍ ချုပ်၏၊ ထို့နောင် ဘဝင်ကိစ္စဖြစ်၍ ချုပ်၏။

(၃) ယမက ပါဋိဟာရိယဉာဏ် ဖြစ်ဟန်ကား သုတ် သီလက္ခန် အဋ္ဌကထာ၌–

**နီလရသ္မိအတ္ထာယ ဟိ ဘဂဝါ နီလကသိဏံ သမာပဇ္ဇတိ။ ပီတ´ရသ္မိ အတ္ထာယ ပီတကသိဏံ၊ လောဟိတဩဒါတရသ္မိအတ္ထာယ လောဟိတ ဩဒါတကသိဏံ၊ အဂ္ဂိက္ခန္ဓတ္ထာယ တေဇောကသိဏံ၊ ဥဒကဓာရတ္ထာယ အာပေါကသိဏံ သမာပဇ္ဇတိ။** ဟူ၍ မိန့်တော်မူသည်။

**အနက်ကား။** ။ ဘဂဝါ၊ မြတ်စွာဘုရားသည်။ နီလရသ္မိအတ္ထာယ၊ ညိုသော ရောင်ခြည်ကို ဖြစ်စေခြင်းအကျိုးငှာ။ နီလကသိဏံ၊ နီလကသိုဏ်းကို။ သမာပဇ္ဇတိ၊ ဝင်စားတော်မူ၏။ ပီတရသ္မိအတ္ထာယ၊ ရွှေသောရောင်ခြည်ကို ဖြစ်စေခြင်းအကျိုးငှာ။ ပီတကသိဏံ၊ ပီတကသိုဏ်းကို။ သမာပဇ္ဇတိ၊ ဝင်စားတော်မူ၏။ လောဟိတဩဒါတ ရသ္မိအတ္ထာယ၊ နီသောရောင်ခြည်, ဖြူသောရောင်ခြည်ကို ဖြစ်စေခြင်းငှာ။ လောဟိတ ဩဒါတ ကသိဏံ၊ လောဟိတ ဩဒါတကသိုဏ်းကို။ သမာပဇ္ဇတိ၊ ဝင်စားတော်မူ၏။ အဂ္ဂိက္ခန္ဓတ္ထာယ၊ မီးအစုကို ဖြစ်စေခြင်းငှာ။ တေဇောကသိဏံ၊ တေဇောကသိုဏ်းကို။ သမာပဇ္ဇတိ၊ ဝင်စားတော်မူ၏။ ဥဒကဓာရတ္ထာယ၊ ရေအလျဉ်ကို ဖြစ်စေခြင်းငှာ။ အာပေါကသိဏံ၊ အာပေါကသိုဏ်းကို။ သမာပဇ္ဇတိ၊ ဝင်စားတော်မူ၏။

ဗုဒ္ဓဝင် အဋ္ဌကထာ၌လည်း–

**နီလရသ္မိအတ္ထာယ ဟိ ဘဂဝါ နီလကသိဏံ သမာပဇ္ဇတိ၊ ပီတရသ္မိ အာဒီနမတ္ထာယ ပီတ ကသိဏာဒီနိ သမာပဇ္ဇတိ**–ဟူ၍ မိန့်သည်။

အဘိဓမ္မတ္ထသင်္ဂြိုဟ် အဋ္ဌကထာ၌ကား–

ဘဂဝတော ပန ယမကပါဋိဟာရိယ ကာလာဒီသု လဟုကပ္ပဝတ္တိယံ စတ္တာရိ ပဉ္စ ဝါ ပစ္စဝေက္ခဏစိတ္တာနိ ဘဝင်္ဂါနိပိ ဝဒန္တိ–ဟူ၍ ဇောအကြိမ်ကို မိန့်သည်။

ဎင်းအဖွင့် ဋီကာကျော်၌လည်း–

ဘဂဝတော။ ပ။ ဝဒန္တီတိ၊ ဘဂဝတော ယမကပါဋိဟာရိယ ကာလာဒီသု ဥဒကက္ခန္ဓအဂ္ဂိက္ခန္ဓပ္ပ ဝတ္တနာဒိအတ္ထံ ဝိသုံ ဝိသုံ ပါဒကဇ္ဈာနံ သမာပဇ္ဇိတ္ဝာ တတော ဝုဋ္ဌာယ ဈာနဓမ္မေ ဝိသုံ ဝိသုံ အာဝဇ္ဇန္တဿ အာဝဇ္ဇန ဝသိတာယ မတ္ထကပတ္တိယာ အာဝဇ္ဇနတပ္ပရော၀ စိတ္တာဘိနီဟာရော ဟောတီတိ ယထာဝဇ္ဇိတ ဈာနင်္ဂါရမ္မဏာနိ စတ္တာရိ ပဥ္စ ဝါ ပစ္စဝေက္ခဏဇဝနစိတ္တာနိ ပဝတ္တန္တီတိ ဝဒန္တိ အဋ္ဌကထာစရိယာ–ဟု မိန့်၏။

**အနက်ကား။** ။ဘဂဝတော။ပ။ ဝဒန္တီတိ၊ ဘဂဝတော။ပ။ ဝဒန္တိ–ဟူသည်ကား။ ဘဂဝတော၊ မြတ်စွာဘုရား၏။ ယမကပါဋိဟာရိယ ကာလာဒီသု၊ ရေမီး အစုံ အစုံ ဖြစ်သော တန်ခိုးပြာဋိဟာကို ပြတော်မူသောအခါ စသည်တို့၌။ ဥဒကက္ခန္ဓ အဂ္ဂိက္ခန္ဓပ္ပ ဝတ္တနာဒိအတ္ထံ၊ ရေအစု မီးအစုကို ဖြစ်စေခြင်း အစရှိသော အကျိုးငှာ။ ဝိသုံ ဝိသုံ၊ အသီးအသီး။ ပါဒကဇ္ဈာနံ။ ပါဒကဈာန်ကို။သမာပဇ္ဇိတ္ဝာ၊ ဝင်စားတော် မူ၍။ တတော၊ ထိုပါဒကဈာန်မှ။ ဝုဋ္ဌာယ၊ ထ၍။ ဈာနဓမ္မေ၊ ဈာန်အင်္ဂါတရား တို့ကို။ ဝိသုံ ဝိသုံ၊ အသီးအသီး။ အာဝဇ္ဇန္တဿ၊ ဆင်ခြင်တော်မူသော မြတ်စွာဘုရားအား။ အာဝဇ္ဇန ဝသိတာယ၊ အာဝဇ္ဇနဝသီဘော်၏။ မတ္ထကပတ္တိယာ၊ အဆုံးသို့ ရောက်ခြင်းကြောင့်။ အာဝဇ္ဇနတပ္ပရော၀။ အာဝဇ္ဇန်းပြဋ္ဌာန်းခြင်း ရှိသည်သာဖြစ်သော။ စိတ္တာဘိနီဟာရော၊ ပစ္စဝေက္ခဏာ စိတ်ကို အာရုံသို့ ရှေးရှုဆောင်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ ယထာဝဇ္ဇိတ ဈာနင်္ဂါရမ္မဏာနိ၊ အကြင်အကြင် ဆင်ခြင်အပ်ပြီးသော ဈာနင်သာလျှင် အာရုံရှိကုန်သော။ စတ္တာရိ ပဥ္စ ဝါ၊ လေးကြိမ် ငါးကြိမ်လည်းဖြစ်ကုန်သော။ ပစ္စဝေက္ခဏဇဝနစိတ္တာနိ၊ ပစ္စဝေက္ခဏာ ဇောစိတ်တို့သည်။ ပဝတ္တန္တိ၊ ဖြစ်ကုန်၏။ ဣတိ၊ ဤသို့။ အဋ္ဌကထာစရိယာ၊ အဋ္ဌကထာဆရာတို့သည်။ ဝဒန္တိ၊ ဆိုကုန်၏။

ဤသို့လာသော အဋ္ဌကထာ ဋီကာကိုမှီ၍ ဆရာကြီးတို့ ဝီထိ စီရင်ကြသည်ကား–ယမကပါဋိဟာရိယ ဝီထိဖြစ်လိုလတ်သည်ရှိသော် ပဋိသန္ဓေ စိတ်တော် ဖြစ်သော မဟာဝိပါက် ဉာဏသမ္ပယုတ် အသင်္ခါရိကစိတ်သည် ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒဟု ဘဝင်ကိစ္စ နှစ်ကြိမ်ဖြစ်၍ ချုပ်၏။ ထို့နောင် အာပေါကသိဏ်းကို အာရုံပြု၍ ဆင်ခြင် တတ်သော မနောဒွါရာဝဇ္ဇန်း။ ထို့နောင် ထိုကသိဏ်းကို အာရုံပြု၍ မဟာကိရိယာ ပဌမ ဒွေးတို့တွင် တစ်ခုခုသည် ဥပစာ၊ အနုလုံ၊ ဂေါတြဘူဟု သုံးကြိမ်။ ထို့နောင် ထိုကသိဏ်းကို အာရုံပြု၍ ရူပါဝစရကိရိယာ ပဌမဈာန်စိတ်သည် အပ္ပနာဇော ကိစ္စဖြစ်၍ တစ်ကြိမ်။ ထို့နောင် ဘဝင်။ ထို့နောင် ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ။ ထို့နောင် ပဌမဈာန် ရှိသော ဝိတက်ကို အာရုံပြု၍ ဆင်ခြင်တတ်သော မနောဒွါရာဝဇ္ဇန်း။ ထို့နောင် ဝိတက်ကို အာရုံပြု၍ မဟာကိရိယာ ရှစ်ခုတို့တွင် တစ်ခုခုသည် ပစ္စ

ဝေက္ခဏာဇော လေးကြိမ်။ ထို့နောင် ဘဝင်။ ဤအတူ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာကို ဆင်ခြင်၏။ ထို့နောင် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ။ ထို့နောင် အာပေါကသိုဏ်းကို အာရုံပြု၍ ဆင်ခြင်တတ်သော မနောဒွါရာဝဇ္ဇန်း၊ ထို့နောင် ဥပစာ၊ အနုလုံ၊ ဂေါတြဘူ၊ ဒုတိယစျာန်။ ထို့နောင် ဘဝင်၊ ထို့နောင် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ၊ ထို့နောင် စတုက္ကနည်းအားဖြင့် ဒုတိယစျာန်၌ ရှိသော ပီတိကို၊ သုခကို၊ ဧကဂ္ဂတာကို ဆင်ခြင်၏။ ထို့နောင် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ။ ထို့နောင် အာပေါကသိုဏ်းကို အာရုံပြု၍ မနောဒွါရာဝဇ္ဇန်း၊ ဥပစာ၊ အနုလုံ၊ ဂေါတြဘူ၊ တတိယစျာန်။ ထို့နောင် ဘဝင်။ ထို့နောင် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ။ တတိယစျာန်၌ ရှိသော သုခကို၊ဧကဂ္ဂတာကို ဆင်ခြင်၏။ ထို့နောင် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ။ ထို့နောင် အာပေါကသိုဏ်းကို အာရုံပြု၍ မနောဒွါရာဝဇ္ဇန်း။ ဥပစာ၊ အနုလုံ၊ ဂေါတြဘူ၊ စတုတ္ထစျာန်။ ထို့နောင် ဘဝင်။ ထို့နောင် စတုတ္ထစျာန်၌ရှိသော ဥပေက္ခာ,ဧကဂ္ဂတာကို ဆင်ခြင်၏။ ဤဝီထိတို့ဖြင့် အဘိညာဉ်ကို အခြေပြုပြီးမှ ရေအလျဉ်ကို ဖြစ်စေလို လတ်သည်ရှိသော် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ။ အာပေါကသိုဏ်းကို အာရုံပြု၍ မနော ဒွါရာဝဇ္ဇန်း၊ ထို့နောင် မဟာကိရိယာ ရှစ်ခုတို့တွင် တစ်ခုခုသည် အဓိဋ္ဌာန်ဇောကိစ္စ ခုနစ်ကြိမ်ဖြစ်၍ ချုပ်၏။ ထို့နောင် ဘဝင်။ ဤဝီထိဖြင့် ရေဖြစ်စေသောဟု အဓိဋ္ဌာန်၏။ ထို့နောင် အဘိညာဉ်၏ အခြေဖြစ်သော ပါဒကစျာန်ကို ဝင်ပြန်လိုလတ်သည် ရှိသော် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ၊ အာပေါကသိုဏ်းကို အာရုံပြု၍ မနောဒွါရာဝဇ္ဇန်း။ ထို့နောင် မဟာကိရိယာ တတိယ ဒွေးတို့တွင် တစ်ခုခုသည် ဥပစာ၊ အနုလုံ၊ ဂေါတြဘူ။ ထို့နောင် စတုက္က နည်းအားဖြင့် ဥပေက္ခာ၊ ဧကဂ္ဂတာဟူသော စျာန်အင်္ဂါ နှစ်ပါးနှင့် ပြည့်စုံသော ရူပါဝစရ ကိရိယာ စတုတ္ထစျာန်သည် ပါဒက စျာန်ဖြစ်၍ ချုပ်၏။ ထို့နောင် ဘဝင်။ ထို့နောင် အဘိညာဉ်ဇော ဖြစ်လိုလတ်သည်ရှိသော် ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒ။ အာပေါကသိုဏ်းနှင့် တူသော အနာဂတ်ရုပ်ကို အာရုံပြု၍ မနောဒွါရာဝဇ္ဇန်း။ ထို့နောင် မဟာကိရိယာ တတိယဒွေးတို့တွင် တစ်ခုခုသည် ဥပစာ၊ အနုလုံ၊ ဂေါတြဘူ။ ထို့နောင် အာပေါကသိုဏ်းနှင့်တူသော မိမိဖန်ဆင်းအပ်သော သဟဇာတ်ရုပ်ကို ဖြစ်စေတတ်သော ရူပါဝစရ စတုတ္ထစျာန် ကိရိယာစိတ်သည် အဓိဋ္ဌာန်သောအတိုင်း ရေကိုဖြစ်စေလျက် အဘိညာဉ် ဇောကိစ္စ တစ်ကြိမ်ဖြစ်၍ ချုပ်၏။ ထို့နောင် ဘဝင်၊ ဤဝီထိဖြင့် ရေကိုဖြစ်စေ၏။ မီးကိုဖြစ်စေရာ၌လည်း ဤနည်းတူပင် ဝီထိကျ၏။ ဤသို့သော ဝီထိတို့ဖြင့် ရေအစုံ မီးအစုံ ရေမီးအစုံ အစရှိသော ယမိုက်ပြာဋိဟာသည် ဖြစ်၏ဟူပေ။ ဋီကာကျော်၌ ဥဒကက္ခန္ဓသဒ္ဒါကို ရှေးဦးစွာ ဆိုသောကြောင့် ရေအလျဉ်ကို အာရုံပြုသော ဝီထိကို ရှေးဦးစွာပြလိုက်သည်။ တန်ခိုး ပြာဋိဟာကို ပြသောကာလမှ တစ်ပါးသော ကာလတို့၌ ကျသော ပစ္စဝေက္ခဏာ ဇောတို့ကား ဘုရားသခင်အားလည်း ခုနစ်ကြိမ်ပင်စော၏။ တစ်ပါးသောပုဂ္ဂိုလ်တို့မှာ ဆိုဖွယ်မရှိပြီ။ ခုနစ်ကြိမ်သာ ဖြစ်၏ဟု ဋီကာဆရာတို့ မိန့်၏။

(၄) မဟာကရုဏာ သမာပတ္တိဉာဏ်ဖြစ်ဟန်ကား-ခပ်သိမ်းသော သတ္တဝါတို့၏ သံသရာဝဋ်နှင့် ဒုက္ခ၌ ဆင်းရဲကြအင်ကို ဆင်ခြင်တော်မူလိုလတ်သည် ရှိသော် ပဋ္ဌိသန္ဓေစိတ်တော်နှင့်တူသော စိတ်သည် ဘဝင်္ဂစလန၊ဘဝင်္ဂုပစ္ဆေဒ။ ထို့နောင် ဒုက္ခိတသတ္တဝါကို အာရုံပြု၍ မနောဒွါရာဝဇ္ဇန်း။ မဟာကိရိယာ ဇောခုနစ်ကြိမ်။ ထို့နောင် ဘဝင်ကိစ္စဖြစ်၍ ချုပ်၏။

(၅) သဗ္ဗညုတဉာဏဝီထိဖြစ်ဟန်ကား-အရဟတ္တမဂ် အရဟတ္တဖိုလ်ကို ရပြီး၍ ဆင်ခြင်ပြီးသောနောင်မှ ဉေယျဓံငါးပါးကို သိလိုလတ်သည်ရှိသော် ပဋ္ဌိသန္ဓေစိတ်တော်နှင့် တူသောစိတ်သည် ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ။ ဉေယျဓံငါးပါးကို အာရုံပြု၍ ဆင်ခြင် တတ်သော မနောဒွါရာဝဇ္ဇန်း။ ထို့နောင် မဟာကိရိယာဇောခုနစ်ကြိမ်။ ထို့နောင် ဘဝင်ကိစ္စဖြစ်၍ ချုပ်၏။

(၆) အနာဝရဏဉာဏ်လည်း ဤနည်းတူပင်။

ဤဉာဏ်ငါးဦးတို့သည် မဟာကိရိယာစိတ်၌ယှဉ်သော ပညာစေတသိက်ချည်းဖြစ်၍ လောကီဉာဏ်သာတည်း။ ဝီထိကျဟန်ကိုကား-

**အရဟာ မဂ္ဂါ ဝုဋ္ဌဟိတွာ မဂ္ဂံ ပစ္စဝေက္ခတိ။ ပုဗ္ဗေ သုစိဏ္ဏာနိ ပစ္စဝေက္ခတိ။ ကုသလံ အနိစ္စတော ဒုက္ခတော အနတ္တတော ဝိပဿတိ။ စေတောပရိယ ဉာဏေန ကုသလစိတ္တသမင်္ဂိဿ စိတ္တံ ဇာနာတိ။ အရဟာ ဝေါဒါနံ ပစ္စဝေက္ခန္တိ။ပ။ ပရဿ စိတ္တံ ဇာနန္တိ။**

စသည်ဖြင့် ဟောတော်မူသော ပဋ္ဌာန်းပါဠိတော်။ ထို၏ အဋ္ဌကထာ, ဋီကာတို့ကို ထောက်၍ သိရာသည်။ ။ သဗ္ဗညုတဉာဏ်နှင့် အနာဝရဏဉာဏ်နှစ်ပါးကား သဘော သတ္တိမပြား။ ဝိသယပ္ပဝတ္တိမျှသာ ပြားသည်။ အသို့ ပြားသနည်းဟူမူ သဗ္ဗညုတဉာဏ်မှာ ဉေယျဓံငါးပါးကို အာရုံပြု၍ သိသည်။ အနာဝရဏဉာဏ်မှာ ရှေ့ဉာဏ်ဖြင့် သိသော အရာ၌ တစ်စုံတစ်ခုသော ပိတ်ပင်ဆီးတားခြင်းမရှိ သိသည်။ ထို့ကြောင့် မဇ္ဈိမနိကာယ် မဟာသီဟနာဒသုတ် အဋ္ဌကထာ၌-

သဗ္ဗညုတဉာဏံ ပန ကာမာဝစရမေဝ။ တထာ အနာဝရဏဉ္စ။ ဟူ၍ လည်းကောင်း။ ။ ဥဒါန်းအဋ္ဌကထာ၌ ကေမေဝဉာဏံ သဗ္ဗညုတ ဉာဏ အနာဝရဏံ ဉာဏန္တိ ဝိသယပ္ပဝတ္တိမုခေန အညေဟိ အသာဓာရဏဘာဝ ဒဿနတ္ထံ ဒွိဓာ ဥဒ္ဒိဋ္ဌံ။ တတ္ထာယံ ပါဠိ၊ သဗ္ဗံ သင်္ခတမသင်္ခတမနဝသေသံ ဇာနာတီတိ သဗ္ဗညုတဉာဏံ။ တတ္ထ အာဝရဏံ နတ္ထီတိ အနာဝရဏဉ္စ ဝိတ္ထာရော။ ဟူ၍ လည်းကောင်း မိန့်အပ်၏။

❖❖❖❖❖

## ၃။ သဗ္ဗညုဉာဏ်ကျယ်၊ မဂ်နောင်ဝယ်၊ ဘယ်ဝီထိတွင် ဖြစ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား– ဝိမောက္ခော အရဟတ္တမဂ္ဂေါ၊ ဝိမောက္ခသအန္တေ အရဟတ္တဖလေ တသ္မိံ ဝိမောက္ခန္တေ ဝိမောက္ခန္တိကံ နာမ သဗ္ဗညုတဘာဝေါတိ–• ဟူ၍လာသော အဋ္ဌကထာဖြင့် ဖြေရာ၏။

**အဓိပ္ပါယ်ကား။** ။ အရဟတ္တမဂ်ဉာဏ်သည် ကိလေသာမှ လွတ်သောကြောင့် ဝိမောက္ခမည်၏။ ထိုဝိမောက္ခ အမည်ရသော မဂ်၏အဆုံး၌ နှစ်ကြိမ်လည်းကောင်း၊ သုံးကြိမ်လည်းကောင်းကျသော အရဟတ္တဖိုလ်စိတ်။ ထိုစိတ်၏ အဆုံး၌ဖြစ်သော ဝီထိတွင်ပါသော ဉာဏ်သည် သဗ္ဗညုတဉာဏ်မည်၏ ဟူလိုသည်။ ဝီထိကျဟန်ကား အရဟတ္တမဂ် အရဟတ္တဖိုလ်ကို ရပြီးသော် ဉေယျဓံတရားကို သိခြင်းငှာ သခ်ီရ၊ ဝိကာရ၊ လက္ခဏ၊ နိဗ္ဗာန်၊ ပညတ်အားဖြင့် ငါးပါးတွင် တစ်ပါးပါးကို အာရုံပြု၍ ဆင်ခြင်တတ်သော မနောဒွါရာဝဇ္ဇန်း။ ထို့နောင် မဟာကိရိယာဇော ခုနစ်ကြိမ်။ ထို့နောင် ဘဝင်ကျ၏။ ဤနည်းတူ ငါးဝီထိချသင့်၏။ ထိုငါးဝီထိတို့၌ ပါသောဉာဏ်ကို သဗ္ဗညုတဉာဏ် ဆို့အပ်၏ဟူပေ။ ဤငါးဝီထိတို့၏ နောက်မှ ဉေယျဓံတရား ငါးပါးကို ပိုင်းခြား၍သိခြင်း၌ တစ်စုံတစ်ခုသော ပိတ်ပင်ဆီးတားခြင်း ရှိသေး၏လော–ဟု တွေးတောသော ကာလ၌ ရှေးနည်းတူကျသော ဆဋ္ဌဝီထိ၌ပါသော ဉာဏ်ကို အနာဝရဏ ဉာဏ်ဟု ဆိုအပ်၏။

❖❖❖❖❖

## ၄။ ပလ္လင်ကိုရှယ်၊ တို့ဘုန်းကြွယ်၊ ဘယ်တွက်ပူဇော်ပြန်သနည်း။

ဟူသော အမေးပုစ္ဆာ၌ မေးလိုရင်းအဓိပ္ပါယ်ကား–ဘုရားသခင်သည် ပလ္လင်တော်ကို ကြည့်လျက် ခုနစ်ရက်ပတ်လုံး ရပ်တော်မူခြင်းသည် ပလ္လင်ကို ပူဇော်သည် မည်၏။ ထိုသို့ အဘယ်အတွက်ကြောင့် ပူဇော်ပြန်သနည်းဟု မေးလိုသည်။ ။ အဖြေကား။ တစ်ထောင့် ငါးရာ ကိလေသာကိုခွေရာ, သဗ္ဗညုတဉာဏ်ကိုရရာ မြတ်လှစွာသော ဇေယျာဘူမိဖြစ်၍ တစ်ပါးသတ္တဝါတို့ကို မဆိုထားဘိ ငါဘုရားမှ သော်လည်း ပူဇော်ခြင်းငှာ ထိုက်သေး၏ဟု ဝေနေယျ တို့ကို ဩဝါဒပေးလိုသောကြောင့် ပူဇော်သည်ဟု ဖြေ။

ထို့ကြောင့် အဋ္ဌသာလိနီ အဋ္ဌကထာ၌–

**အယမ္ပိ ဘဂဝါ ဗောဓိမူလေ နိသိန္နော ။ပ။ အနိမ္မိသေဟိ စက္ခူဟိ သတ္တာဟံ ပလ္လင်္ကံ ဩလောကေန္တော အဋ္ဌာသိ။** ဟူ၍ဆိုတော်မူသည်။

အယမ္ပိ ဘဂဝါ၊ ဤငါတို့ဘုရားသည်လည်း။ ဗောဓိမူလေ၊ ဗောဓိပင်၏ အနီး၌။ နိသိန္နော၊ နေတော်မူလျက်။ ဣမံ၊ ဤနယသာဂရကို။ ပဋိဝိဇ္ဈိတွာ၊ ထိုးထွင်း၍ သိတော်မူပြီး၍။ ဣမံ ဓမ္မံ၊ ဤတရားအစုကို။ သေန္တဿ၊ ရှာထသော။ ဂဝေသန္တဿ၊ အပန်တလဲလဲ ရှာဖွေထသော။ မေ၊ ငါ့အား။ ကပ္ပသတသဟဿာဓိကာနိ၊ ကမ္ဘာ

တစ်သိန်း အလွန်ရှိကုန်သော။ စတ္တာရိ အသင်္ချေယျာနိ၊ လေးသင်္ချေတို့သည်။ ဝီတိဝတ္တာနိ ဝတ၊ လွန်လေကုန်ပြီတကား။ အထ၊ ထိုသို့လွန်ပြီးမှ။ ကပ္ပမသ္မိံ ပလ္လင်္ကေ၊ ဤရွှေပလ္လင်၌။ နိသိန္နေန၊ နေသော။ မေ မယာ၊ ငါသည်။ ဒီယမှ ကိလေသသဟာသံ၊ အခွဲလျှင် နှစ်ခုမြောက်ရှိသော တစ်ထောင်သော ကိလေသာကို။ ခေပေတွာ၊ ကုန်စင်စေ၍။ အယံ ဓမ္မော၊ ဤတရားအစုကို။ ပဋိဝိဒ္ဓေါ ဝတ၊ ထိုးထွင်း၍ သိအပ်ပြီ တကား။ ဣတိ၊ ဤသို့။ ပဋိဝိဒ္ဓဓမ္မံ၊ ထိုးထွင်း၍ သိအပ်ပြီးသော တရားကို။ ပစ္စဝေက္ခန္တော၊ ဆင်ခြင်တော်မူလျက်။ သတ္တာဟံ၊ ခုနစ်ရက်ပတ်လုံး။ ကေပလ္လင်္ကေန၊ တစ်ထက်ဝယ် တည်းဖြင့်။ နိသီဒိ၊ နေတော်မူ၏။ တတော၊ ထို့နောက်မှ။ တမှာ ပလ္လင်္ကာ၊ ထိုဗောဓိ ရွှေပလ္လင်မှ။ ဝုဋ္ဌာယ၊ ထတော်မူ၍။ ကပ္ပမသ္မိံ ပလ္လင်္ကေ၊ ဤဗောဓိပင် ရွှေပလ္လင်၌။ သဗ္ဗညုတဉာဏံ၊ သဗ္ဗညုတ ဉာဏ်ကို။ မေ၊ ငါသည်။ ပဋိဝိဒ္ဓံ ဝတ၊ ထိုးထွင်း၍ သိပေပြီတကား။ ဣတိ၊ ဤသို့။ အနိမ္မိသေဟိ၊ မမှိတ်ကုန်သော။ စက္ခူဟိ၊ မျက်စိတို့ဖြင့်။ သတ္တာဟံ၊ ခုနစ်ရက်ပတ်လုံး။ ပလ္လင်္ကံ၊ ပလ္လင်တော်ကို။ ဩလောကေန္တော၊ ကြည့်လျက်။ အဋ္ဌာသိ၊ ရပ်တော်မူ၏။

ဤ၌ ပလ္လင်ကို ကြည့်၍ရပ်ကြောင်းကိုသာ ဆိုသည်။ ဝေနေယျတို့အား ဩဝါဒ ပေးကြောင်းကို မဆိုတကားဟု စောဒနာငြားအံ့။ ကျေးဇူးကြီးသောကြောင့် ကြည့်တော် မူသည်ကိုဆိုက အဝုတ္တသိဒ္ဓိနည်းအားဖြင့် ထိုအနက်ပြီးတော့သည်ဟူပေ။ ။ထို့ကြောင့် အဘိဓမ္မာဂဏ္ဌိ၌။ ဂုဏာဝိသေသကိတ္တနေန· သယမေဝ ဒဿနေန စ ဝေနေယျာနံ ပူဇာရဟတံ ဉာပေတိ နာမ–ဟုမိန့် သတည်း။။အဋ္ဌကထာပါဠိ၌ ဘုရားသခင်သည် ပလ္လင်တော်ကို ခုနစ်ရက်ပတ်လုံးကြည့်၏ ဟူ၍သာ ဆိုသည်။ ပူဇော်သည် ဟူ၍ မဆိုဘဲလျက် အဘယ့်ကြောင့် ပူဇော်သည်ဟု ဖြေသနည်းဟူငြားအံ့။ ဓမ္မာသောက မင်းကြီးသည် ကာလနဂါးဖန်ဆင်း၍ပြသော ဘုရားရုပ်ကို ခုနစ်ရက်ပတ်လုံး ကြည့်သည် ကိုပင်။ ဗုဒ္ဓရူပံ ပဿန္တော သတ္တဒိဝသာနိ အက္ခိပူဇံ နာမ အကာသိ ဟူ၍ ပါရာဇိကဏ် အဋ္ဌကထာ၌ လာသည်ကို နည်းယူ၍ ကြည့်သည်ကိုပင် ပူဇော်၏ဟု ဆိုသည် ဟူပေ။

❖❖❖❖❖

## ၅။ သွားတော်လေးဆယ်၊ သိချင်ဖွယ်၊ စွယ်တော်လုံးလျား ဘယ်မျှနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

**စတ္တာလီသ ဒန္တောတိ ဥပရိဒန္တာနိ ဝီသတိ ဟေဋ္ဌိမဒန္တာနိ ဝီသတိတိ စတ္တာလီသ ဟောန္တိ။ သမဒန္တောတိ အညေသံ ကေစိ ဒန္တာ ဥစ္စာ ဟောန္တိ၊ ကေစိ ဒန္တာ နီစာ၊ ကေစိ ဒန္တာ သမသဏ္ဌိတာ။ ဘဂဝတော ပန ကကစေန ဆိန္နံ သင်္ခပတ္တံ ဝိယ သမံ ဟောတိ။ အဝိရဠဒန္တောတိ အညေသံ ဒန္တာ ကုမ္ဘီလ ဒန္တာ ဝိယ ဝိရဠာ မစ္ဆမံသာဒီနိ ဒန္တန္တရေ ပဝိသန္တိ။ ဘဂဝတော**

> ပန ပဝါဠပိဋ္ဌေ ဋ္ဌပိတဝဇိရပန္တိ ဝိယ အဝိရဠ၊ သုသုက္ကဒါဠ္ဌောတိအညေသံ ပူတိဒါဌာ ဝါ ကဏှဒါဌာဒယော ဝါ ဟောန္တိ။ ဘဂဝတော ပန ဩသဓိတာ ရကာနိ ဝိယ အတိပရိသုဒ္ဓဒါဌာနိ ဟောန္တိ။

ဟူသော ဇိနာလင်္ကာရဋီကာပါဠ်ဖြင့် ဖြေအပ်၏။

အနက်ကား။ ။စတ္တာလီသဒန္တောတိ၊ အမျှလေးဆယ်သော သွားဟူသည်ကား။ ဥပရိဒန္တာနိ၊ အထက်သွားတော်တို့သည်။ ဝီသတိ၊ နှစ်ဆယ်။ ဟေဋ္ဌိမဒန္တာနိ၊ အောက်သွားတော်တို့သည်။ ဝီသတိ၊ နှစ်ဆယ်။ ဣတိ၊ ဤသို့။ စတ္တာလီသ၊ လေးဆယ်တို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။ သမဒန္တောတိ၊ ညီညွတ်သော သွားတော် ဟူသည်ကား။ အညေသံ၊ တစ်ပါးကုန်သောသူတို့အား။ ကေစိ ဒန္တာ၊ အချို့သော သွားတို့သည်။ ဥစ္စာ၊ မြင့်ကုန်သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။ ကေစိ ဒန္တာ၊ အချို့သော သွားတို့သည်။ နီစာ၊ နိမ့်ကုန်သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။ ကေစိ ဒန္တာ၊ အချို့သောသွားတို့သည်။ သမသဏ္ဌိတာ၊ အညီအမျှတည်ကုန်သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။ ဘဂဝတော ပန၊ ဘုရားသခင် အားကား။ ကကစေန၊ လွှဖြင့်။ ဆိန္နံ၊ ဖြတ်အပ်သော။ သင်္ခပဋ္ဋံ ဝိယ၊ ခရုသင်းကွက်ကဲ့သို့။ သမံ၊ ညီညွတ်သည်။ ဟောတိ၊ ဖြစ်၏။ ။အဝိရဠ ဒန္တောတိ၊ မကျဲသောသွားတော် ဟူသည်ကား။ အညေသံ၊ တစ်ပါးကုန်သော သူတို့၏။ ဒန္တာ၊ သွားတို့သည်။ ကုမ္ဘီလဒန္တာ ဝိယ၊ မိကျောင်း သွားကဲ့သို့။ ဝိရဠာ၊ ကျဲကုန်၏။ မစ္ဆမံသာဒီနိ၊ ငါးအမဲ စသည်တို့သည်။ ဒန္တန္တရေ၊ သွား၏ အကြား၌။ ပဝိသန္တိ၊ ဝင်ကုန်၏။ ဘဂဝတော ပန။ ဘုရားသခင်အားကား။ ပဝါလပိဋ္ဌေ၊ သန္တာပြား အပြင်၌။ ဋ္ဌပိတဝဇိရပန္တိ ဝိယ၊ ထားအပ်သော ဝဇိရစိန် အစဉ်ကဲ့သို့။ အဝိရဠ၊ မကျဲသည်။ ဟောတိ၊ ၏။ သုသုက္ကဒါဠ္ဌောတိ၊ အလွန်ဖြူစင်သော စွယ်တော်ရှိ၏ ဟူသည်ကား။ အညေသံ၊ တစ်ပါးကုန်သောသူတို့အား။ ပူတိဒါဌာ ဝါ၊ ပုပ်ဆွေးသော အစွယ်ရှိကုန်သည်လည်း။ ဟောန္တိ၊ ဖြစ်ကုန်၏။ ကဏှဒါဌာဒယော ဝါ၊ မည်းနက်သော အစွယ်စသည် ရှိကုန်သည်လည်း။ ဟောန္တိ၊ ဖြစ်ကုန်၏။ ဘဂဝတော ပန၊ ဘုရားသခင်အားကား။ ဩသဓိတာရကာနိ ဝိယ၊ သောက်ရှူးကြယ်တို့ ကဲ့သို့။ အတိပရိသုဒ္ဓဒါဌာနိ၊ အလွန် စင်ကြယ်သော စွယ်တော် ရှိကုန်သည်လည်း။ ဟောန္တိ၊ ဖြစ်ကုန်၏။

ဤနည်းအတူ သုတ်မဟာဝါ အဋ္ဌကထာတို့၌လည်း လာသည်။ ဤသို့ ကျမ်းဂန်တို့၌ သွားတော်တို့၏ အရေအတွက် ဂုဏ်လက္ခဏာကိုသာပြသည်။ ပမာဏကို မပြကြကုန်။ ဒါဌာဓာတုဝင်၌ကား သွားတော်လည်းကောင်း၊ စွယ်တော် လည်းကောင်း သီဟိုဠ်ကညစ်ရိုး ပမာဏရှိသည်ဟုဆို၏။ သီဟိုဠ် ကညစ်ရိုးသည်လည်း လက်ညှိုးရင်း ပမာဏ ရှိသည်ဟု ဆရာကြီးတို့ မိန့်ဆိုကုန်၏။

❖❖❖❖❖

၆။ ဓာတ်တော်ဝေဖွယ်၊ သုသာန်ဝယ်၊ဘယ်ဖြင့်ပြီးသည့် အိုးပေနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

တတော ဒသဗလဿ ဓာတုယော သုဝဏ္ဏစင်္ကောဋ္ဋကေ ပက္ခိပိတွာ အန္တော နဂရေ သဏ္ဌာဂါရေ ဌပေတွာ သတ္တိပဉ္စရံ ကတွာ ဓနုပါကာရေဟိ ပရိက္ခိ ပါပေတွာ သတ္တာဟံ နစ္စဂီတဝါဒိတဂန္ဓမာလာဒီဟိ မလ္လရာဇပုတ္တာ သက္ကာရံ ကရိံသု ဟူ၍လည်းကောင်း။ **ဒေါဏော တုမ္ဗံ ဂဟေတွာန၊ ကာရေသိ တုမ္ဗ စေတိယံ။** ဟူ၍ လည်းကောင်း နလာဋဓာတုဝင်၌ လာသည်။

**အနက်ကား။** ။ တတော၊ ထိုမီးငြိမ်းပြီးသော နောက်မှ။ ဒသဗလဿ၊ မြတ်စွာဘုရား၏။ ဓာတုယော၊ ဓာတ်တော်တို့ကို။ သုဝဏ္ဏစင်္ကောဋ္ဋကေ၊ ရွှေပန်းတောင်း၌။ ပက္ခိပိတွာ၊ ထည့်၍။ အန္တောနဂရေ၊ မြို့တွင်း၌။ သဏ္ဌာဂါရေ၊ မင်းကွန်း၌။ ဌပေတွာ၊ ထား၍။ သတ္တိပဉ္စရံ၊ လှံချိုင့်ကို။ ကတွာ၊ ပြု၍။ ဓနုပကာရေဟိ၊ လေးတံတိုင်းတို့ဖြင့်။ ပရိက္ခိပါပေတွာ၊ ရံစေ၍။ သတ္တာဟံ၊ ခုနစ်ရက်ပတ်လုံး။ နစ္စဂီတဝါဒိတ ဂန္ဓမာလာဒီဟိ၊ ကခြင်း, သီခြင်း, တီးမှုတ်ခြင်း, နံ့သာပန်း စသည်တို့ဖြင့်။ မလ္လရာဇ ပုတ္တာ၊ မလ္လာမင်းသား တို့သည်။ သက္ကာရံ၊ ပူဇော်သကာကို။ ကရိံသု၊ ပြုကုန်၏။ ။ ဒေါဏော၊ ဒေါဏ ပုဏ္ဏားသည်။ တုမ္ဗံ၊ တစ်ပြည်ဝင်သော ခွက်ကို။ ဝါ၊ ဓာတ်တော်ခြင်သော စရွတ်ခွက်ကို။ ဂဟေတွာန၊ ယူ၍ ။ တုမ္ဗစေတိယံ၊ တုမ္ဗမည်သောစေတီကို။ ကာရေသိ၊ ပြုစေ၏။

ဤသို့လာသည်ကို ထောက်၍ ရွှေဖြင့်ပြီးသော ပန်းပုံတောင်း၌သာ ထား၏။ တစ်ပြည်ဝင်သော စရွတ်ခွက်ဖြင့်သာခြင်၏ဟု သိရာသည်။ ။ဒီဃနိကာယ်၊ မဟာဝဂ်၊ ပရိနိဗ္ဗာနသုတ် ပါဠိတော်၊အဋ္ဌကထာ၊ ပါရာဇိကကဏ် အဋ္ဌကထာ၊ ဋီကာ၊ သုတ်သီလက္ခန် အဋ္ဌကထာ၊ ဋီကာတို့၌ ဘုရားသခင်သည် သက်တော်ရှစ်ဆယ်ပြည့်သောနှစ်၊ ကဆုန် လပြည့် မိုးသောက်ယံ၌ နိဗ္ဗာန်ဝင်တော်မူသည်။ ထို့နောင် ခုနစ်ရက်ပတ်လုံး ရွှေအဆင်းနှင့် တူသော အလောင်းတော်ကို နံ့သာပန်းစသည်တို့ဖြင့် ခုနစ်ရက်တိုင်တိုင် ပူဇော်ကြသည်။ ထိုခုနစ်ရက်သည် သာဓုကီဠန သတ္တာဟမည်၏။ ထို့နောင် စန္ဒကူးထင်းပုံ ထက်၌ ခုနစ်ရက်တိုင်တိုင်ထား၍ ခုနစ်ရက်လွန်မှ သဂြိုဟ်ရသည်။ ထိုခုနစ်ရက်သည် စိတက သတ္တာဟ မည်၏။ ထို့နောင် လောင်တိုက်မှ ဓာတ်တော်ကို ယူ၍ လက်နက်တို့ဖြင့် ဝန်းရံလျက် သဏ္ဌာဂါရ၌ထား၍ ခုနစ်ရက်ပတ်လုံး ဓာတ်တော်ကို ပူဇော်ကြသည်။ ထိုခုနစ်ရက်သည် ဓာတုပူဇာသတ္တာဟ မည်၏ ဟုဆိုသည်။ ။ ဤသို့ဆိုလျှင် ကုသိနာရုံ မြို့၏ အနောက်တောင် အင်ကြင်းတော၏ အကွေ့၌ နိဗ္ဗာန် ယူတော်မူသည်။ မြို့၏အရှေ့ မလ္လာမင်းတို့၏ မကိုဋ်မှဘွဲ့ စပြုရာဖြစ်သော မကုဋ္ဋ ဗန္ဓနမည်သော အရပ်၌ အလောင်း တော်ကို သဂြိုဟ်သည်။ ထို့နောင် ဓာတ်တော်တို့ကို မြို့တွင်းသို့ဆောင်၍ မင်းကွန်း၌ ခုနစ်ရက်ပတ်လုံးထားသည်။ ထို့နောင် ရှစ်ပြည်ထောင် မင်းတို့ ရောက်လာ၍ ဆရာဒေါဏ ပုဏ္ဏားသည် ဓာတ်တော်တို့ကို ရွှေစရွတ်ခွက်ဖြင့် ဝေသည်ဟူ၍သာ ကျမ်းဂန်၌လာသည်။ ''သဂြိုဟ်ရာ သုသာန်၌ ဝေသည်ဟူ၍လည်း မလာ။ ဓာတ်တော်ကို အိုးနှင့်ထည့်၍'' ထားသည်ဟူ၍လည်း မလာ။ အိုးနှင့်ခြင်သည်

13
B

ဟူ၍လည်းမလာ။ ထို့ကြောင့် ဤပုစ္ဆာသည် နေရာမကျ ဆိုဖွယ်ရှိသည်။ သို့သော်လည်း မေးသောအရာဖြစ်၍ သမိပူပစာဖြင့် ဆိုသည်ဟု မှတ်ရမည်။

❖❖❖❖❖

## ၇။ နှစ်ဆယ့်လေးသွယ်၊ ပဋ္ဌာန်းဝယ်၊ အဘယ်ပစ္စည်း ကျယ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

အာရမ္မဏူပနိဿယ ကမ္မတ္ထိပစ္စယေသု စ သဗ္ဗေပိ ပစ္စယာ သမောဓာနံ ဂစ္ဆန္တိဟူ၍ အဘိဓမ္မတ္ထ သင်္ဂြိုဟ်၌ မိန့်ဆိုသည်နှင့်အညီ အာရမ္မဏပစ္စည်း၊ ဥပနိဿယ ပစ္စည်း၊ ကမ္မပစ္စည်း၊ အတ္ထိပစ္စည်း။ ဤလေးပစ္စည်းတို့၌ ခပ်သိမ်းကုန်သော ပစ္စည်းတို့သည် ပေါင်းခြင်းသို့ ရောက်ကုန်၏။ ထိုသို့ ပေါင်းနိုင်သောကြောင့် ဤလေး ပစ္စည်းသည် ကျယ်၏ဟု ဖြေရာ၏။ အဘယ်သို့ ပေါင်းခြင်းသို့ ရောက်သနည်း ဟူမူကား စိတ် စေတသိက်တို့၏ အာရုံအဖြစ်သို့ မရောက်သော တစ်စုံတစ်ခုသော တရားသည်မရှိ။ ထိုသို့အာရုံအဖြစ်သို့ ရောက်သမျှသော တရားသည် အာရမ္မဏ ပစ္စည်းတပ်သည်ချည်း ဖြစ်ရကား ခပ်သိမ်းသောပစ္စည်းသည် အာရမ္မဏပစ္စည်း၌ဝင်၏၊ ပေါင်း၏။ ။ အကြင် ပစ္စည်းသည် မိမိ၏ပစ္စယုပ္ပန် တရားတို့အား ဥပနိဿယ အဖြစ်သို့မရောက်ရာ၊ ထိုသို့ မရောက်ရာသော ပစ္စည်းသည် တစ်စုံတစ်ခုမျှမရှိ။ ထို့ကြောင့် ခပ်သိမ်းသော ပစ္စည်း သည် ဥပနိဿယပစ္စည်း၌ပေါင်း၏။ ။အကြင်ပစ္စည်းတရား ဟူသမျှသည် ကံဟူသော အကြောင်းအရင်း ရှိသောကြောင့်လည်းကောင်း၊ ကံ၌ဖြစ်ခြင်းကြောင့် အကျိုးအကြောင်း ဟူ၍ ခေါ်ဝေါ်အပ်သောကြောင့်လည်းကောင်း ကံဟူသော သဘော၌ ဝင်သည်သာ တည်း။ ထို့ကြောင့် ခပ်သိမ်းသော ပစ္စည်းတို့သည် ကမ္မပစ္စည်း၌ ပေါင်း၏။ ။ ခပ်သိမ်းသော ပစ္စည်းတရားတို့သည် ပရမတ္ထအားဖြင့် လည်းကောင်း၊ လောက သမ္မုတိ အားဖြင့် လည်းကောင်း ထင်ရှားရှိကုန်၏။ ထိုသို့ ရှိကုန်သောကြောင့် ခပ်သိမ်းသော ပစ္စည်းတို့သည် အတ္ထိပစ္စည်း၌ ပေါင်းကုန်၏။ ထို့ကြောင့် ဋီကာကျော်၌–

**ဣဒါနိ သဗ္ဗေပိ ပစ္စယာ သင်္ခေပတောပိ စတုဓာယေဝါတိ ဒဿေတုံ အာရမ္မဏူပနိဿယ ကမ္မတ္ထိပစ္စယေသု စ သဗ္ဗေပိ ပစ္စယာ သမောဓာနံ ဂစ္ဆန္တီတိ ဝုတ္တံ။**

အစရှိသည်ဖြင့် မိန့်တော်မူသည်။ ထိုပါဠ်၏ အကျယ်ကိုကား ၎င်းဋီကာကျော် ကျမ်း၌ယူပါကုန်။

❖❖❖❖❖

## ၈။ ပဋ္ဌာန်းကျမ်းကျယ်၊ သင့်စဖွယ်၊ ရုပ်ဝယ်ပစ္စည်း ဘယ်မျှနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

အာရမ္မဏ။ အာရမ္မဏာဓိပတိ။ သဟဇာတ။ အညမည။ နိဿယ။ ပုရေဇာတ။ အာဟာရ။ ဣန္ဒြိယ။ ဝိပ္ပယုတ္တ။ အတ္ထိ။ အဝိဂတ။ ဤတစ်ဆယ့်တစ် ပစ္စည်းသည် ရုပ်ပစ္စည်းဖြစ်၏။ ။ အဘယ်သို့ ဖြစ်သနည်း ဟူမူကား–ရုပ်အဋ္ဌဝီသသည် ဝိညာဉ်

ခြောက်ပါးတို့၏ အာရုံဖြစ်သောကြောင့် အာရမ္မဏပစ္စည်းတပ်၏။ ။ အလေးအမြတ်ပြုအပ်သော ဣဋ္ဌဖြစ်သော နိပ္ဖန္နရုပ်အဋ္ဌာရသသည် အာရမ္မဏာဓိပတိပစ္စည်းတပ်၏။ စိတ္တဇ၊ ပဋိသန္ဓေကမ္မဇ၊ ဗာဟိရ၊ အာဟာရဇ၊ ဥတုဇ၊ အသညသတ်ကမ္မဇ၊ ပဝတ္တိကမ္မဇအားဖြင့် ရစွမ်းသော မဟာဘုတ်လေးပါး။ ပဥ္စဝေါကာရ ပဋိသန္ဓေနာမက္ခန္ဓာအား တပ်သော ဟဒယဝတ္ထု။ ဤတရားတို့သည် သဟဇာတ ပစ္စည်း တပ်သော တရားတို့မည်ကုန်၏။ ။အချင်းချင်းအား တပ်သောစိတ္တဇ၊ ပဋိသန္ဓေကမ္မဇ၊ ဗာဟိရ၊ အာဟာရဇ၊ ဥတုဇ၊ အသညသတ်ကမ္မဇ၊ ပဝတ္တိကမ္မဇအားဖြင့် ရစွမ်းသော မဟာဘုတ်လေးပါး။ ပဥ္စဝေါကာရ ပဋိသန္ဓေနာမက္ခန္ဓာအား တပ်သော ဟဒယဝတ္ထု။ ဤတရားတို့သည် အညမည ပစ္စည်းတပ်သော တရားတို့မည်ကုန်၏။ နိဿယ ပစ္စည်းသည် သဟဇာတနိဿယ၊ ပုရေဇာတနိဿယအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုနှစ်ပါးတို့တွင် သဟဇာတနိဿယသည် သဟဇာတနှင့်တူ၏။ ပုရေဇာတ နိဿယ သည်လည်း ဝတ္ထု ပုရေဇာတ နိဿယ၊ ဝတ္ထာရမ္မဏပုရေဇာတ နိဿယအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုနှစ်ပါးတို့တွင် ပဝတ္တိအခါ ဆဝတ္ထု၊ ဤတရားတို့သည် ဝတ္ထုပုရေဇာတ နိဿယ ပစ္စည်းတပ်သော တရားတို့မည်ကုန်၏။ ။မရဏာ သန္နအခါ စုတိစိတ်၏ ရှေ့တစ်ဆယ့်ခုနစ်ချက်မြောက်သော စိတ်နှင့်အတူ ဥပါဒ်သော ဟဒယဝတ္ထု၊ ဤတရားသည်ကား ဝတ္ထာရမ္မဏပုရေဇာတ နိဿယပစ္စည်းတပ်သော တရားမည်၏။ ။ ပုရေဇာတ ပစ္စည်းသည်လည်း အာရမ္မဏပုရေဇာတ၊ ဝတ္ထုပုရေဇာတ အားဖြင့် နှစ်ပါးအပြားရှိ၏။ ထို နှစ်ပါးတို့တွင် ပစ္စုပ္ပန်ဖြစ်သော နိပ္ဖန္နရုပ်အဋ္ဌာရသ၊ ဤတရားတို့သည် အာရမ္မဏ ပုရေဇာတ ပစ္စည်းတပ်သော တရားတို့မည်ကုန်၏။ ဝတ္ထုပုရေဇာတသည် ဝတ္ထုပုရေဇာတ နိဿယနှင့်တူ၏။ အာဟာရပစ္စည်းသည် နာမ် အာဟာရ၊ ရုပ်အာဟာရဟူ၍ နှစ်ပါး အပြားရှိ၏။ ထိုနှစ်ပါးတို့တွင် ဗဟိဒ္ဓသြဇာဟု ဆိုအပ်သော ကဗဠီကာရ အာဟာရသည် ရုပ်အာဟာရ ပစ္စည်း တပ်၏။ (နာမ်အာဟာရကား အရာမဟုတ်)။

ဣန္ဒြိယ ပစ္စည်းသည် ပုရေဇာတိန္ဒြိယ၊ သဟဇာတိန္ဒြိယ၊ ရူပဇီဝိတိန္ဒြိယအားဖြင့် သုံးပါးအပြားရှိ၏။ ထိုသုံးပါးတို့တွင် ကမ္မဇရုပ်၌ အကျုံးဝင်သော စက္ခုန္ဒြေ၊ သောတိန္ဒြေ၊ ဃာနိန္ဒြေ၊ ဇိဝှိန္ဒြေ၊ ကာယိန္ဒြေ ဤပသာဒရုပ် ငါးခုသည် ပုရေဇာတိန္ဒြိယ ပစ္စည်းတပ်၏။ သဟဇာတိန္ဒြိယမှာ နာမ်သက်သက်တည်း။ ပဝတ္တိ ပဋိသန္ဓေအားဖြင့် နှစ်ပါးသော ရုပ်ဇီဝိတိန္ဒြေသည် ရူပဇီဝိတိန္ဒြိယပစ္စည်းတပ်၏။ ။ဝိပ္ပယုတ္တပစ္စည်းသည် သဟဇာတဝိပ္ပယုတ်၊ ပုရေဇာတဝိပ္ပယုတ်၊ ပစ္ဆာဇာတဝိပ္ပယုတ်အားဖြင့် သုံးပါးအပြားရှိ၏။ ထိုသုံးပါးတို့တွင် ပဥ္စဝေါကာရ ပဋိသန္ဓေ နာမက္ခန္ဓာအားတပ်သော ဟဒယဝတ္ထုသည် သဟဇာတဝိပ္ပယုတ္တ ပစ္စည်းတပ်၏။ ပုရေဇာတဝိပ္ပယုတ်သည် ပုရေဇာတ နိဿယနှင့် တူ၏။ (ပစ္ဆာဇာတဝိပ္ပယုတ်မှာ နာမ်သက်သက်သာဖြစ်၏)။ ။ အတ္ထိပစ္စည်းသည်လည်း သဟဇာတတ္ထိ၊ ပုရေဇာတတ္ထိ ပစ္ဆာဇာတတ္ထိ၊ အာဟာရတ္ထိ၊ ဣန္ဒြိယတ္ထိ အားဖြင့် ငါးပါးတည်း။ ထိုငါးပါးတို့တွင် သဟဇာတတ္ထိသည် သဟဇာတနှင့် တူ၏။ ပုရေဇာတတ္ထိသည် ပုရေဇာတနှစ်ပါးနှင့်တူ၏။ ပစ္ဆာဇာတတ္ထိမှာ နာမ်သက်သက် ဖြစ်၏။

အာဟာရတ္ထိသည် အာဟာရနှင့်တူ၏။ ။ဣန္ဒြိယတ္ထိသည် ရုပ်ဣန္ဒြေနှင့်တူ၏။ ။ အဝိဂတသည် အတ္ထိနှင့်တူ၏။ ။ အဓိပတိသည် အာရမ္မဏာဓိပတိ၊ သဟဇာတာဓိပတိအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုနှစ်ပါးတို့တွင် အလေးအမြတ် ပြုအပ်သော ကုဋ္ဌဖြစ်သော နိပ္ဖန္နရုပ် အဋ္ဌာရသသည် အာရမ္မဏာဓိပတိ ပစ္စည်းတပ်၏။ (သဟဇာတာဓိပတိမှာ နာမ်သက်သက်ဖြစ်၍ မဆိုင်ပြီ)။ ဤသို့လည်း မကျဉ်းမကျယ် ဖြေရာသည်။ အကျယ်ဖြေသော် မဆုံးနိုင်ရာ။

❖❖❖❖❖

## ၉။ ဘိဓမ္မာဝယ်၊ တို့ဘုန်းကြွယ်၊ ဘယ်ဉာဏ်တော်ဖြင့်ဟောသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မာတရံ ပမုခံ ကတွာ၊ တဿာ ပညာယ တေဇသာ။
အဘိဓမ္မကထာမဂ္ဂံ၊ ဒေဝါနံ သမ္ပဝတ္တယိ။ ။ဟူသည်တည်း။

အနက်ကား။ ။ မာတရံ၊ မယ်တော်ဖြစ်ဖူးသော သန္တုသိတ နတ်သားကို။ ပမုခံ ကတွာ။ အဦးပြု၍။ တဿာပညာယ၊ ထိုကရုဏာတော်၏ ဥပမေယျ ဖြစ်သော သဗ္ဗညုတ ဉာဏ်တော်၏။ တေဇသာ၊ အစွမ်းအားဖြင့်။ အဘိဓမ္မကထာမဂ္ဂံ၊ အဘိဓမ္မာဒေသနာအစဉ်ကို။ ဒေဝါနံ။ နတ်တို့အား။ သမ္ပဝတ္တယိ၊ ဟောတော်မူပြီ။ ။ ဤအဋ္ဌသာလိနီ ဂါထာဖြင့် ဖြေရာ၏။

❖❖❖❖❖

## ၁၀။ လယ်ကိုင်းချမ်းဖွယ်၊ ကျောင်းတော်ဝယ်၊ အဘယ်သစ်ဖြင့်ဆောက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

စန္ဒကူးသစ်ဖြင့် ဆောက်ကြောင်းကို မဇ္ဈိမနိကာယ်၊ ဥပရိပဏ္ဏာသ၊ ပုဏ္ဏောဝါဒ သုတ်၌လာ၏ဟု ဖြေ။

❖❖❖❖❖

## ၁၁။ လ ရံဖန်ငယ်၊ ရံဖန်ကွယ်၊ ကြယ်ကားဘယ့်ကြောင့်မကွယ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

တေသု ပန စန္ဒမဏ္ဍလံ ဟေဋ္ဌာ၊ သူရိယမဏ္ဍလံ ဥပရိ။ အန္တရာနေသံ ယောဇနံ ဟောတိ– အစရှိသည်ဖြင့် လာသော သာရတ္ထဒီပနီဋီကာပါဠိ။ ဤနည်းတူ လာသော သာရတ္ထ သင်္ဂဟ ပါဠိတို့နှင့်အညီ လဗိမာန်သည် အောက်၊ နေဗိမာန်သည် အထက်၊ အကြားတစ်ယူဇနာခန့်ခွာလျက် လှည့်လည်သည်။ ယင်းသို့ လှည့်လည်ရာ၌ နေကား အဖြောင့်သွား လျင်သည်။ ဖီလာသွား နှေးသည်။ လကား အဖြောင့်သွား နှေးသည်။ ဖီလာသွားလျင်သည် ဖြစ်သောကြောင့် လကွယ်နေ့၌ နေနှင့်လ ယှဉ်လျက်

သွားသည်။ လဆန်းတစ်ရက်နေ့တိုင်လျှင် နေမှ လသည် ယူဇနာတင်သိန်းခန့် ကျန်ရစ်သည်။ လဆန်းနှစ်ရက်နေ့လျှင် နှစ်သိန်း၊ သုံးရက်နေ့လျှင် သုံးသိန်း ကျန်ရစ်သည်။ ၁၅–ရက် တိုင်လျှင် တစ်သန်းငါးသိန်း ကျန်ရစ်သည်ဖြစ်၍ ထုတ်ခတ်စက်သွား မြင်းမိုရ်ခြားလျက် ရှိသည်။ ထိုမှတစ်ဖန် တစ်နေ့တစ်သိန်းစီနီး၍ လိုက်ပြန်သဖြင့် လကွယ်နေ့သို့ ရောက်လျှင် နေနှင့်လ ထပ်မိကြသည်။ ယင်းသို့ သွားရကား နေနှင့်နီးသောအခါ လငယ်သည်။ ထပ်မိသောအခါ လကွယ်သည်။ ။ကြယ်မှာမူကား အများဖြစ်၍ နေနှင့် နီးသော ကြယ်ကွယ်သော်လည်းကောင်း၊ ငယ်သော်လည်းကောင်း မထင်ရှားလေ။ ကြယ်လည်း ကွယ်သည့်အခါ ကွယ်၏။ ငယ်သည့်အခါ ငယ်၏ဟူပေ။ ။ ယင်းသို့ နေလတို့၏ အသွားမညီခြင်းသည် အဘယ့်ကြောင့်ဖြစ်သနည်းဟု မေးခဲ့အံ့– ''လောကစိန္တာ ဘိက္ခဝေ အစိန္တိယာ န စိန္တေတဗ္ဗာ။ ယံ စိန္တေန္တော ဥမ္မာဒဿ ဝိဃာတဿ ဘာဂီ အဿ'' ဟူ၍ ဟောတော်မူ အပ်သော စတုကနိပါတ် အင်္ဂုတ္တိုရ်ပါဠိတော်ဖြင့် ဖြေအပ်၏။ ဘိက္ခဝေ၊ ရဟန်းတို့။ လောကစိန္တာ၊ လောကဓာတ် ၏ အဆန်းအကြယ် ကြံစည်ဖွယ် ဖြစ်ခြင်းကို။ အစိန္တိယာ၊ မကြံစည်နိုင်သည်၏ အဖြစ်ကြောင့်။ န စိန္တေတဗ္ဗာ၊ မကြံစည် အပ်ကုန်။ ယံ၊ အကြင်လောက၏ ဖြစ်ခြင်းကို။ စိန္တေန္တော၊ ကြံစည်သောသူသည်။ ဥမ္မာ ဒဿ၊ ရူးခြင်း၏။ ဝိဃာတဿ၊ စိတ်ဖောက်ပြန်ခြင်း၏။ ဘာဂီ၊ အဖို့သည်။ အဿ၊ ဖြစ်ရာ၏။

❖❖❖❖❖

## ၁၂။ ပဥ္စတားဝယ်၊ ဂြိုဟ်ခြောက်သွယ်၊ ဘယ်က ဇယားထွက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

အင်္ဂါ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ၊ စနေဟူသော ကြယ်ငါးလုံး တို့၏ အသွားကို တွက်သောကိန်းဖြစ်၍ ပဥ္စတာရာ ဆိုလိုလျက် သသံကရိုက်သံနှင့်ရော၍ ပဥ္စတား ဟုခေါ်သည်။ ထိုဂြိုဟ် ငါးလုံးတွင် အင်္ဂါဂြိုဟ်သည် ၇၆–နှစ်သာ အသွား ထူးသည်။ ဗုဒ္ဓဟူးဂြိုဟ်သည် ၄၆–နှစ်သာ အသွားထူးသည်။ ကြာသပတေး ဂြိုဟ်သည် ၈၃–နှစ်သာ။ သောကြာဂြိုဟ်သည် ၈–နှစ်သာ။ စနေဂြိုဟ်သည် ၅၉–နှစ်သာ အသွား ထူးသည်။ နောက်ကို ဤနည်းတူ လှည့်ကာ လှည့်ကာ ဖြစ်သည်။ ယင်းသို့ ဖြစ်ရကား မိမိတို့၏အသွား ထူးသမျှနှစ်၌ မည်သည့်ကာလ အဖြောင့်သွားသည်။ မည်သည့်ကာလ သီဟစာသွားသည်။ မည်သည့်ကာလ ဝက္ကစရိယာသွားသည်။ မည်သည့်ကာလ နိယ ထုံနေသည်ဟု ရက်လကိုမှတ်၍ ထိုအမှတ်အတိုင်း တွက်စိမ့်သောငှာ တစ်နှစ်၏ နာရီပုံ ၂၁၆၀၀– ကိုလည်းကောင်း၊ တစ်ပက္ခ၏ နာရီပုံ ၉၀၀ ကိုလည်းကောင်း တည်၍ တွက်သဖြင့် ရကောင်းရကား မဟာနာရီမှ ထွက်သည်ဟု ဆိုအပ်၏။

အဘယ်သို့ တွက်ရာသနည်းဟူမူကား– မဟာနာရီ ၂၁၆၀၀–ကိုတည်၊ ၁၀–နှင့် မြှောက်။ ၉၀၀– ကိုတည် ၁၁၄– ခုမြှောက်။ ၎င်းနှစ်ရပ်ကို ရော၍ ၉၀၀– ၎င်း

စား၊ လဒ်ကား အင်္ဂါမကရဇယား တစ်တန့်ဖြစ်၏။ (၁)။ ။ (ဤနည်းတူ တွက်ရမည်။ မြှောက်ခြေသာ ထူးကြသည်ဖြစ်၍ ထိုမြှောက်ခြေကိုသာ ဆိုလိုက်အံ့။ စားခြေမူကား ၉၀၀–နှင်နှင်သာတည်း)။ ။ မဟာနာရီတည်၊ ၂၈–မြှောက်။ ၉၀၀–တည်၊၂၂၄ မြှောက်။ စားမြဲစား။ လဒ်ကား ဇယား တစ်ဆင့်။ (၂)။ ။ မဟာနာရီတည်၊ ၄၀– မြှောက်။ ၉၀၀–တည်၊ ၈၉–ခုမြှောက်။ စားမြဲစား။ လဒ်ကား ဇယားတစ်ဆင့်။(၃)။ ။ မဟာ နာရီတည်၊ ၅၀–မြှောက်။ ၉၀၀–တည်၊ ၁၈၃–ခုမြှောက်။ စားမြဲစား။ လဒ်ကား ဇယားတစ်ဆင့်။ (၄)။ မဟာနာရီတည်၊ ၆၀–မြှောက်။ ၉၀၀–တည်၊ ၂၅၃– ခုမြှောက်။ စားမြဲစား။လဒ်ကားဇယားတစ်ဆင့်။ (၅)။ ။မဟာနာရီတည်၊ ၇၀–မြှောက်။ ၉၀၀–တည်၊ ၃၀၄–ခုမြှောက်။ စားမြဲစား။ လဒ်ကား ဇယားတစ်ဆင့်ဖြစ်၏။ (၆)။ ။ အင်္ဂါမကရ ဇယားပြီး၏။

အင်္ဂါမန်း အစကိန်းကား–မဟာနာရီတည်၊ ၇–ခုမြှောက်။၉၀၀–တည်၊ ၅– ခုမြှောက်။ စားမြဲစား။ လဒ်ကားဇယားတစ်ဆင့်။(၁)။ ။မဟာနာရီတည်၊ ၁၀–မြှောက်။ ၉၀၀–တည်၊ ၉၄–ခုမြှောက်။ ဇယားတစ်ဆင့်။(၂)။ ။ မဟာနာရီတည်၊ ၁၀–ခုမြှောက်။ ၉၀၀–တည်၊ ၂၃၃–ခုမြှောက်။ ဇယားတစ်ဆင့်။(၃)။ ။မဟာနာရီတည်၊ ၂၀–မြှောက်။ ၉၀၀–တည်၊ ၁၂–ခုမြှောက်။ ဇယားတစ်ဆင့်။ (၄)။ ။မဟာနာရီတည်၊ ၂၀–ခုမြှောက်။ ၉၀၀–တည်၊ ၁၆၉– မြှောက်။ ဇယားတစ်ဆင့်။ (၅)။ ။ မဟာနာရီတည်၊ ၂၀– မြှောက်၊ ၉၀၀–တည်၊ ၁၉၂–ခုမြှောက်။ ဇယားတစ်ဆင့်။ (၆)။ ။အင်္ဂါမန်း ဇယားပြီး၏။

အင်္ဂါကြကင်း အစကိန်းကား– မဟာနာရီတည်၊ ၅၀–မြှောက်။ ၉၀၀–တည်၊ ၂၆–ခုမြှောက်။ ဇယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၇၀–မြှောက်၊ ၉၀၀– တည်၊ ၅၁၈–ခုမြှောက်၊ ဇယားတစ်ဆင့်။(၂)။ ။ မဟာနာရီတည်၊ ၈၀–မြှောက်။ ၉၀၀–တည်၊ ၅၅–ခုမြှောက်။ ဇယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၈၀–မြှောက်။ ၉၀၀–တည်၊ ၄၇၂–ခုမြှောက်။ ဇယားတစ်ဆင့်။(၄)။ ။မဟာနာရီတည်၊ ၇၀–မြှောက်။ ၉၀၀–တည်၊ ၅၄၃–ခုမြှောက်။ ဇယားတစ်ဆင့် ။ (၅)။ ။ မဟာနာရီတည်၊ ၅၀– မြှောက်၊ ၉၀၀–တည်၊ ၇၈၃–ခုမြှောက်။ ဇယားတစ်ဆင့်။(၆)။ ။ အင်္ဂါကြကင်း ဇယားပြီး၏။

**အင်္ဂါမကရ၊ မန်း၊ ကြကင်းဇယား သုံးပါး ပြီး၏။**

❖❖❖❖❖

ဗုဒ္ဓဟူးမကရ အစကိန်းကား– မဟာနာရီတည်၊ ၉–ခုမြှောက်။ ၉၀၀– တည်၊ ၃၁–ခုမြှောက်။ ဇယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၉–ခုမြှောက်။ ၉၀၀–တည်၊ ၂၅၈–ခုမြှောက်။ ဇယားတစ်ဆင့်။(၂)။ ။မဟာနာရီတည်၊ ၉–ခုမြှောက်။ ၉၀၀ တည်၊ ၄၁၈–ခုမြှောက်။ ဇယားတစ်ဆင့်။(၃)။ ။မဟာနာရီတည်၊ ၉–ခုမြှောက်။

၉၀၀–တည်၊ ၆၈၅–ခုမြှောက်။ ဗေယားတစ်ဆင့်။(၄)။ ။မဟာနာရီတည်၊ ၄၀–မြှောက်၊ ၉၀၀–တည်၊ ၁၁၆–ခုမြှောက်။ ဗေယားတစ်ဆင့်။(၅)။ ။မဟာနာရီတည်၊ ၄၀–မြှောက်။ ၉၀၀–တည်၊ ၂၄၆–ခုမြှောက်။ ဗေယားတစ်ဆင့်။(၆)။ ။ဗုဒ္ဓဟူးမကရ ဗေယားပြီး၏။ ။

ဗုဒ္ဓဟူးမန်း အစ ကိန်းကား– မဟာနာရီတည်၊ ၂–ခုမြှောက်။ ၉၀၀–တည်၊ ၂၁–ခုမြှောက်။ ဗေယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၅–ခုမြှောက်။ ၉၀၀–တည်၊ ၅၄–ခုမြှောက်။ ဗေယားတစ်ဆင့်။(၂)။ ။ မဟာနာရီတည်၊ ၅–ခုမြှောက်။ ၉၀၀–တည်၊ ၆၉–ခုမြှောက်။ ဗေယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၆–ခုမြှောက်။ ၉၀၀–တည်၊ ၈၈–ခုမြှောက်။ ဗေယားတစ်ဆင့်။(၄)။ ။ မဟာနာရီတည်၊ ၆–ခုမြှောက်၊ ၉၀၀–တည်၊ ၁၁၅–ခုမြှောက်။ ဗေယားတစ်ဆင့်။(၅)။ ။မဟာနာရီတည်၊ ၆–ခုမြှောက်။ ၉၀၀–တည်၊ ၁၂၃–ခုမြှောက်။ ဗေယားတစ်ဆင့်။(၆)။ ။ ဗုဒ္ဓဟူးမန်း ဗေယားပြီး၏။ ။

ဗုဒ္ဓဟူးကြကင်း အစကိန်းကား– မဟာနာရီတည်၊ ၂၀–မြှောက်။ ၉၀၀–တည်၊ ၂၁–ခုမြှောက်။ ဗေယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၄၀–မြှောက်။ ၉၀၀–တည်၊ ၁၉၇–ခုမြှောက်။ ဗေယားတစ်ဆင့်။(၂)။ ။မဟာနာရီတည်၊ ၄၀–မြှောက်။ ၉၀၀–တည်၊ ၃၁၆–ခုမြှောက်။ ဗေယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၄၀–မြှောက်။၉၀၀–တည်၊ ၃၁၄–ခုမြှောက်။ ဗေယားတစ်ဆင့်။(၄)။ ။မဟာနာရီတည်၊ ၇၀–မြှောက်၊ ၉၀၀–တည်၊ ၇၃၀–ခုမြှောက်။ ဗေယားတစ်ဆင့်။(၅)။ ။မဟာနာရီတည်၊ ၄၀–မြှောက်။ ၉၀၀–တည်၊ ၂၅၀–ခုမြှောက်။ ဗေယားတစ်ဆင့်။(၆)။ ။ ဗုဒ္ဓဟူးကြကင်း ဗေယားပြီး၏။

## ဗုဒ္ဓဟူးမကရမန်း၊ ကြကင်းဗေယားသုံးပါး ပြီး၏။

❖❖❖❖❖

ကြာသပတေး မကရ အစကိန်းကား–မဟာနာရီတည်၊၅–ခုမြှောက်။ ၉၀၀–တည်၊ ၂၉–ခုမြှောက်။ ဗေယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၁၀–မြှောက်။ ၉၀၀–တည်၊ ၅၂–ခုမြှောက်။ ဗေယားတစ်ဆင့်။(၂)။ ။ မဟာနာရီတည်၊ ၁၀–မြှောက်။ ၉၀၀–တည်၊ ၁၈၃–ခုမြှောက်။ ဗေယားတစ်ဆင့်။(၃)။ ။မဟာနာရီတည်၊ ၂၀–မြှောက်။ ၉၀၀–တည်၊ ၅၇–ခုမြှောက်။ ဗေယားတစ်ဆင့်။(၄)။ ။ မဟာနာရီတည်၊ ၁၀–မြှောက်၊ ၉၀၀–တည်၊ ၁၁၄–ခုမြှောက်။ ဗေယားတစ်ဆင့်။(၅)။ ။မဟာနာရီတည်၊ ၂၀–မြှောက်။ ၉၀၀–တည်၊ ၁၉၈–ခုမြှောက်။ ဗေယားတစ်ဆင့်။(၆)။ ။ ကြာသပတေး မကရ ဗေယားပြီး၏။

ကြာသပတေးမန်း အစကိန်းကား– မဟာနာရီတည်၊ ၂–ခုမြှောက်။ ၉၀၀–တည်၊ ၃၁–ခုမြှောက်။ ဗေယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၅–ခုမြှောက်။ ၉၀၀–တည်၊ ၃၃–ခုမြှောက်။ ဗေယားတစ်ဆင့်။(၂)။ ။ မဟာနာရီတည်၊ ၅–ခုမြှောက်။

၉၀၀–တည်၊ ၉၆–ခုမြှောက်။ ဇယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၁၀–ခုမြှောက်။ ၉၀၀–တည်၊ ၂၅–ခုမြှောက်။ ဇယားတစ်ဆင့်။(၄)။ ။ မဟာ နာရီတည်၊ ၅–ခုမြှောက်၊ ၉၀၀–တည်၊ ၁၇–ခုမြှောက်။ ဇယားတစ်ဆင့်။(၅)။ ။ မဟာနာရီတည်၊ ၆–ခုမြှောက်။ ၉၀၀–တည်၊ ၁၆၃–ခုမြှောက်။ ဇယားတစ်ဆင့်။(၆)။ ။ ကြာသပတေးမန်း ဇယားပြီး၏။ ။

ကြာသပတေး ကြကဋ္ဌ အစကိန်းကား–မဟာနာရီတည်၊၅–ခုမြှောက်။၉၀၀–တည်၊ ၁၀၀–ခုမြှောက်။ ဇယားတစ်ဆင့်။(၁)။ ။မဟာနာရီတည်၊ ၁၀–မြှောက်။ ၉၀၀–တည်၊ ၁၇၅–ခုမြှောက်။ ဇယားတစ်ဆင့်။(၂)။ ။မဟာနာရီတည်၊ ၁၀–မြှောက်။ ၉၀၀–တည်၊ ၃၁၂–ခုမြှောက်။ ဇယားတစ်ဆင့်။(၃)။ ။မဟာနာရီတည်၊ ၁၀–မြှောက်။ ၉၀၀–တည်၊ ၃၈၄–ခုမြှောက်။ ဇယားတစ်ဆင့်။(၄)။ ။မဟာနာရီတည်၊ ၂၀–မြှောက်၊ ၉၀၀–တည်၊ ၂၁၀–ခုမြှောက်။ ဇယားတစ်ဆင့်။(၅)။ ။မဟာနာရီတည်၊ ၂၀–မြှောက်။ ၉၀၀–တည်၊ ၁၂၉–ခုမြှောက်။ ဇယားတစ်ဆင့်။(၆)။ ။ကြာသပတေးကြကဋ္ဌ ဇယားပြီး၏။

## ကြာသပတေး မကရမန်း၊ ကြကဋ္ဌ ဇယားသုံးပါး ပြီး၏။

❖❖❖❖❖

သောကြာ မကရ အစကိန်းကား– မဟာနာရီတည်၊ ၁၀–မြှောက်။ ၉၀၀–တည်၊ ၁၃၈–ခုမြှောက်။ ဇယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၂၀–မြှောက်။ ၉၀၀–တည်၊ ၇၁–ခုမြှောက်။ ဇယားတစ်ဆင့်။(၂)။ ။ မဟာနာရီတည်၊ ၄၀–မြှောက်။ ၉၀၀–တည်၊ ၁၆၁–ခုမြှောက်။ ဇယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၄၀–မြှောက်။၉၀၀–တည်၊ ၅၂၃–ခုမြှောက်။ ဇယားတစ်ဆင့်။(၄)။ ။ မဟာနာရီတည်၊ ၄၀–မြှောက်၊ ၉၀၀–တည်၊ ၈၆၇–ခုမြှောက်။ ဇယားတစ်ဆင့်။(၅)။ ။ မဟာနာရီတည်၊ ၅၀–မြှောက်။ ၉၀၀–တည်၊ ၉၅၂–ခုမြှောက်။ ဇယား တစ်ဆင့်။(၆)။ ။ သောကြာမကရ ဇယားပြီး၏။

သောကြာမန်း အစကိန်းကား– ၉၀၀–တည်၊ ၁၁–ခုမြှောက်။ မဟာနာရီနှော။ ဇယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၂–ခုမြှောက်။ ၉၀၀–တည်၊ ၁၉–ခု မြှောက်။ ဇယားတစ်ဆင့်။(၂)။ ။ မဟာနာရီတည်၊ ၃–ခုမြှောက်။ ၉၀၀–တည်၊ ၂၂–ခုမြှောက်။ ဇယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၄–ခုမြှောက်။၉၀၀–တည်၊ ၂၀–မြှောက်။ ဇယားတစ်ဆင့်။(၄)။ ။ မဟာနာရီတည်၊ ၅–ခုမြှောက်၊ ၉၀၀–တည်၊ ၉– ခုမြှောက်။ ဇယားတစ်ဆင့်။(၅)။ ။ မဟာနာရီတည်၊ ၅–ခုမြှောက်။ ၉၀၀–တည်၊ ၁၄–ခုမြှောက်။ ဇယားတစ်ဆင့်။(၆)။ ။ သောကြာမန်း ဇယားပြီး၏။ ။

သောကြာ ကြကဋ္ဋ အစကိန်းကား-မဟာနာရီတည်၊ ၅၀-မြှောက်။ ၉၀၀-တည်၊ ၄၆-ခုမြှောက်။ ဖယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၈၀-မြှောက်။ ၉၀၀-တည်၊ ၇၁၆-ခုမြှောက်။ ဖယားတစ်ဆင့်။(၂)။ ။မဟာနာရီတည်၊ ၈၀-မြှောက်။ ၉၀၀-တည်၊ ၈၅၅-ခုမြှောက်။ ဖယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၈၀-မြှောက်။၉၀၀-တည်၊ ၇၄၆-ခုမြှောက်။ ဖယားတစ်ဆင့်။(၄)။ ။မဟာနာရီတည်၊ ၈၀-မြှောက်၊ ၉၀၀-တည်၊ ၅၀၈-ခုမြှောက်။ ဖယားတစ်ဆင့်။(၅)။ ။မဟာနာရီတည်၊ ၈၀-မြှောက်။ ၉၀၀-တည်၊ ၃၂၃-ခုမြှောက်။ ဖယားတစ်ဆင့်။(၆)။ ။ သောကြာ ကြကဋ္ဋ ဖယားပြီး၏။ ။

သောကြာ မကရ၊ မန်း၊ ကြကဋ္ဋ ဖယားသုံးပါး ပြီး၏။

❖❖❖❖❖

စနေ မကရ အစကိန်းကား- မဟာနာရီတည်၊ ၃-ခုမြှောက်။ ၉၀၀-တည်၊ ၁၇-ခုမြှောက်။ ဖယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၅-ခုမြှောက်။ ၉၀၀-တည်၊ ၅၄-ခုမြှောက်။ ဖယားတစ်ဆင့်။(၂)။ ။ မဟာနာရီတည်၊ ၁၀-မြှောက်။ ၉၀၀-တည်၊ ၁၀-မြှောက်။ ဖယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၁၀-မြှောက်။ ၉၀၀-တည်၊ ၇၂-ခုမြှောက်။ ဖယားတစ်ဆင့်။(၄)။ ။ မဟာနာရီတည်၊ ၁၀-မြှောက်၊ ၉၀၀-တည်၊ ၁၁၇-ခုမြှောက်။ ဖယားတစ်ဆင့်။(၅)။ ။ မဟာနာရီတည်၊ ၁၀-မြှောက်။ ၉၀၀-တည်၊ ၁၄၀-မြှောက်။ ဖယားတတစ်ဆင့်။(၆)။ ။ စနေမကရ ဖယားပြီး၏။ ။

စနေ မန်း အစ ကိန်းကား- မဟာနာရီတည်၊ ၅-ခုမြှောက်။ ၉၀၀-တည်၊ ၂၀-မြှောက်။ ဖယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၁၀-မြှောက်။ ၉၀၀-တည်၊ ၄၆-ခုမြှောက်။ ဖယားတစ်ဆင့်။(၂)။ ။ မဟာနာရီတည်၊ ၁၀-မြှောက်။ ၉၀၀-တည်၊ ၁၆၉-ခုမြှောက်။ ဖယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၉-ခုမြှောက်။ ၉၀၀-တည်၊ ၂၈၂-ခုမြှောက်။ ဖယားတစ်ဆင့်။(၄)။ ။မဟာနာရီတည်၊ ၁၀-မြှောက်၊ ၉၀၀-တည်၊ ၃၁၅-ခုမြှောက်။ ဖယားတစ်ဆင့်။(၅)။ ။မဟာနာရီတည်၊ ၁၀-မြှောက်။ ၉၀၀-တည်၊ ၃၃၆-ခုမြှောက်။ ဖယားတစ်ဆင့်။(၆)။ ။ စနေ မန်း ဖယားပြီး၏။ ။

စနေ ကြကဋ္ဋ အစကိန်းကား- မဟာနာရီတည်၊ ၄-ခုမြှောက်။ ၉၀၀-တည်၊ ၁၅-ခုမြှောက်။ ဖယားတစ်ဆင့်။(၁)။ ။ မဟာနာရီတည်၊ ၄-ခုမြှောက်။ ၉၀၀-တည်၊ ၁၁၅-ခုမြှောက်။ ဖယားတစ်ဆင့်။(၂)။ ။မဟာနာရီတည်၊ ၄-ခုမြှောက်။ ၉၀၀-တည်၊ ၁၉၆-ခုမြှောက်။ ဖယားတစ်ဆင့်။(၃)။ ။ မဟာနာရီတည်၊ ၄-ခုမြှောက်။ ၉၀၀-တည်၊ ၂၅၃-ခုမြှောက်။ ဖယားတစ်ဆင့်။(၄)။ ။မဟာနာရီတည်၊ ၄-ခုမြှောက်၊

l4
B

၉၀၀-တည်၊ ၂၈၂-ခုမြှောက်။ ဇယားတစ်ဆင့်။(၅)။ ။မဟာနာရီတည်၊ ၄-ခုမြှောက်။
၉၀၀-တည်၊ ၂၇၄-ခုမြှောက်။ ဇယားတစ်ဆင့်။(၆)။ ။ စနေကြကဋ္ဌဇယားပြီး၏။ ။

**စနေမကရ၊ မန်း၊ ကြကဋ္ဌ ဇယားသုံးပါး ပြီး၏။**

❖❖❖❖❖

ဤသို့ မဟာနာရီကို အသီးသီးသောမြှောက်ကိန်းဖြင့် မြှောက်ပြီးလျှင် ၉၀၀ ကို လည်း ယထာရဟကိန်းနှင့် မြှောက်၍ နှစ်ပါးကိုရောပြီးမှ ၉၀၀ လည်းကောင်းစား။ လဒ်ကို ဇယားတန့်ဟူ၍ ထားရသည်။ ၉၀၀ စားကြွင်း ဟူသမျှကား သုဉ်းသည် သာတည်း။ မသုဉ်းလျှင်မမှန်။ ။ မဟာနာရီ ၂၁၆၀၀ ဟူသော အနန္တပူရကိန်းသည် ဘယ်မှ လာသနည်း ဟူငြားအံ့။ တစ်နှစ်လုံး၌ ရထိုက်သော နာရီပေါင်းပင်တည်း။ ထို့ကြောင့် မဟာနာရီခေါ်သည်ဟု ဖြေ။ ဘယ်သို့ ပေါင်းသနည်း ဟူမူကား တစ်နှစ်၏ အံသာ ရက်ပေါင်း ၃၆၀ ကိုတည်၊ တစ်နေ့၏ လိတ္တာနာရီ ၆၀နှင့်မြှောက်၊ ၂၁၆၀၀ ဖြစ်၏။ ထိုကိန်းသည် တစ်ရက်၌ ရအပ်သော လူတို့၏ သက်ရှူပေါင်းဖြစ်ရကား ပြန်ပုံဟူ၍လည်း ခေါ်၏။ အဘယ်သို့ ရအပ်သနည်းဟူမူ ရှေ့သန်းခေါင်မှစ၍ နောက်သန်းခေါင် ကျအောင် နေ့ည နှစ်ပါးသည် တစ်ရက်မည်၏။ ထိုတစ်ရက်၌ နာရီအားဖြင့် ၆၀ ရှိသည်။ ထို ၆၀ ကို ၄ ပါဒ်ဖြင့်မြှောက်၊ ပါဒ်ပေါင်း ၂၄၀ ဖြစ်၏။ ထိုကို ၁၅ ဗီဇနာ မြှောက်၊ ၃၆၀၀ ဖြစ်၏။ ထိုကို ၆ ပြန်နှင့် မြှောက်ပြန်။ အနန္တပူရဟု ဆိုအပ်သော ပြန်ပုံဖြစ်၏။ တစ်ဗီဇနာလျှင် သက်ရှူ ၆ ကြိမ်ဖြစ်သည်။ ။ ယင်းသို့ တစ်နေ့၏ ပြန်ပုံ ၂၁၆၀၀သည် တစ်နှစ်၏ နာရီပုံနှင့်လည်း ထပ်တူ ဖြစ်ရကား တစ်နှစ်လုံး နာရီပုံ ၂၁၆၀၀ ကိုလည်း ပြန်ပုံဟူ၍ပင် ခေါ်သတည်း။ ၎င်းပြန်ပုံ ၂၁၆၀၀ကို ၂၇ ခုစား၊ လဒ်ကားတစ်နေ့၌ နက္ခတ်တစ်လုံးတက်သော ပြန်ပုံ ၈၀၀ ဖြစ်၏။ ထို ၈၀၀ ကို ကြမတ်ဟုခေါ်သည်။ ။ ၉၀၀ ဟူသော အနဋ္ဌကိန်းသည် ဘယ်မှလာသနည်း ဟူမူကား-တစ်နှစ်လျှင် ၁၂ ရာသီ ရှိသည်။ တစ်ရာသီလျှင် ၂ ပက္ခရှိသည်။ တစ်ပက္ခ၏ နာရီ ၉၀၀ ရသည်ဖြစ်၍ ပက္ခနာရီမှ လာသည်ဟူပေ။ ။ ယခု တွက်ရိုးကျမ်း၌ ဇယားပုံတို့ကား- တစ်ပက္ခ တစ်ပက္ခတွင် ရပ်တန့်သော ဂြိုဟ်တို့၏ နာရီကို သိလိုသောကြောင့် တစ်ပက္ခ၏ နာရီနှင့် စားကိန်း ထား၍ ပြုသည်။ မြှောက်ကိန်း အသီးသီးကိုကား ထိုဂြိုဟ်တို့၏ သမစရိယာ ဝက္က စရိယာ သွားလေသောရက်ကို ရည်၍ပြုရသည်။ (၎င်းအကျယ်ကို သိလိုသော် နာဋိကဝိနိစ္ဆယ ကျမ်းတို့၌ ယူလေကုန်)။ ။ ရာဟုဂြိုဟ်မှာ ဇယားပြုရန် ကိစ္စမရှိ၊ နိယတသာ သွားမြဲဖြစ်သည်။ ယင်းသို့ မရှိဘဲလျက် ပုစ္ဆာတွင် ဂြိုဟ် ၆-သွယ် ဆိုလေသည်ကား ပဉ္စတားဂြိုဟ်ငါးလုံးကို တွက်သော ကာလ ရာဟုဂြိုဟ်ကိုလည်း တွက်ရသောကြောင့် ''သောတပတိတဝသေန ဒဋ္ဌဗ္ဗံ'' ဟူသော ဋီကာကျော်နှင့်အညီ သောတပတိတ နည်းအားဖြင့် ဆိုလေသည်ဟု မှတ်အပ်၏။

❖❖❖❖❖

၁၃။ နိဗ္ဗာန်ရောက်ဖွယ်၊ ကြွေးကိုးဆယ်၊ ပါးဘယ်ခန့်မျှ ပွင့်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အပါးသုံးဆယ်ခန့်ဖြင့် ပွင့်၏ဟူပေ၏ ။ နိဗ္ဗာန်ရောက်ကြောင်း ကြွေးကိုးဆယ် ဆိုသည်မှာကား ပါဏာတိပါတ၊ အဒိန္နာဒါန၊ ကာမေသုမိစ္ဆာစာရ ဟူ၍ကာယ ဒုစရိုက်သုံးပါး။ မုသာဝါဒ၊ ပိသုဏဝါစာ၊ ဖရုသဝါစာ၊ သမ္ဖပ္ပလာပ ဟူ၍ ဝစီဒုစရိုက် လေးပါ၊ အဘိဇ္ဈာ ဗျာပါဒ မိစ္ဆာဒိဋ္ဌိ ဟူ၍ မနောဒုစရိုက်သုံးပါး။ ဤဆယ်ပါးသော ဒုစရိုက်တို့တွင် တစ်ပါးပါးကို ကြဉ်ရှောင်ခြင်းသည် ဝိရတီမည်၏။ ထိုဝိရတီသည် ရောက်ဆဲ တွေ့ဆဲသော ဝတ္ထုကို မပြုမူ၍ ကြဉ်ရှောင်ခြင်း တည်းဟူသော သမ္ပတ္တဝိရတီ၊ မရောက်မတွေ့မီကပင် ပါဏာတိပါတာ ဝေရမဏီ စသည်ဖြင့် ဆောက်တည်၍ ကြဉ်ရှောင် ခြင်းတည်းဟူသော သမာဒါန ဝိရတီ၊ အရင်းကိုဖြတ်၍ ကြဉ်ရှောင်ခြင်းတည်း ဟူသော သမုစ္ဆေဒ ဝိရတီအားဖြင့် သုံးပါးပြားသောကြောင့် သုစရိုက် ၃၀–ဖြစ်၏။ ။ ဒါန၊သီလ၊ ဘာဝနာ၊ အပစာယန၊ ဝေယျာဝစ္စ၊ ပတ္တိ ဒါန၊ ပတ္တာနုမောဒနာ၊ ဓမ္မဿဝန၊ ဓမ္မဒေသနာ၊ ဒိဋ္ဌိဇုကမ္မ– ဟူ၍ ပုညကိရိယဆယ်ပါးတွင် တစ်ပါးပါး၌ ကမ္မဒွါရအားဖြင့် ကာယကံ၊ ဝစီကံ၊ မနောကံ ဟူ၍သုံးပါးစီပွားသောကြောင့် ပုညကိရိယာ ဝတ္ထုလည်း ၃၀–ဖြစ်၏။

ဒါန၊ သီလ၊ နိက္ခမ၊ ပညာ၊ ဝီရိယ၊ ခန္တီ၊ သစ္စာ၊ အဓိဋ္ဌာန၊ မေတ္တာ၊ ဥပေက္ခာဟူ၍ ပါရမီဆယ်ပါးရှိသည်တွင် တစ်ပါးသော ပါရမီကိုဖြည့်ရာ၌ ဟီန၊ မဇ္ဈိမ၊ ပဏီတအားဖြင့် သုံးပါးစီပြားရကား ပါရမီ ၃၀ ဖြစ်၏။ ဤသုစရိုက် ၃၀။ ပုညကိရိယဝတ္ထု ၃၀။ ပါရမီ ၃၀ အားဖြင့် ကိုးဆယ်အတိုင်းအရှည်ရှိသော တရား တို့သည် နိဗ္ဗာန်ရောက်ကြောင်း ကြွေးချသည်နှင့်တူသောကြောင့် နိဗ္ဗာန်ရောက်ဖွယ် ကြွေးကိုးဆယ်မည်၏။ ထိုကိုးဆယ် တို့တွင် ပါရမီသုံးဆယ်သည်လျှင် သဗ္ဗညုတ ဉာဏ်ကို ရင့်စေတတ်သော ဗောဓိသမ္ဘာရ ဖြစ်သောကြောင့် ပါရမီသုံးဆယ် ခန့်ဖြင့် ဉာဏ်ပွင့်၏ ဟုဆိုသည်။ ထို့ကြောင့် ကေနိပါတ် ဇာတ်ဋ္ဌကထာ၌ '' သမတိံသ သမတိံ သာနိ သုစရိတ ဓမ္မပုညကိရိယ ဝတ္ထု ပါရမိယောတိ က္လမေနဝုတိဓမ္မာ နိဗ္ဗာနတ္ထာယ ဥပနိဓိဘဏ္ဍာနာမ'' ဟု မိန့်တော်မူ၏။ ထိုတရားတို့တွင် သုစရိုက် ၃၀–ပြားရာ၌ သမုစ္ဆေဒဝိရတီသည် သောတာပန်စသော အရိယာတို့၌သာ ဖြစ်ကောင်း ပါသည် မဟုတ်လော။ သာမညပုထုဇဉ်တို့အား အဘယ်သို့ဖြစ်နိုင်အံ့နည်းဟု ဆိုငြားအံ့။ ရသေ့ရဟန်းပြု၍ ဒုစရိုက်ကို ကြဉ်ရှောင်ပေကုန်သော သူတို့အား မူလအရင်း ဖြစ်သော ရွာသူတို့၏အကျင့်ကို ကြဉ်ရှောင်သဖြင့် ဒုစရိုက်တို့၏ စင်ကြယ်ခြင်းဖြစ်ရကား ထိုသမုစ္ဆေဒဝိရတီ ဖြစ်ကောင်း၏။

ပုညကိရိယဆယ်ပါးတို့၌ ကံသုံးပါးတို့ဖြင့် ဝေဖန်ဟန်ကို အဋ္ဌသာလိနီ၌ ပြသည်ကား–

အကြင်သူသည် လှူဖွယ်ဝတ္ထုရလတ်သော် မိမိကိုယ်တိုင်သွား၍ ရတနာသုံးပါးအား ပူဇော်ခြင်းကိုပြု၏။ ထိုသူအား ကာယကံ ဒါနဖြစ်၏။ သားမယား ကျေးကျွန်တို့ကို စေ၍ လှူသည် ဖြစ်အံ့၊ ဝစီကံဒါနဖြစ်၏။ လှူဖွယ်ဝတ္ထု ရသောအခါ ငါသည် ဤဝတ္ထုဖြင့် ဤမည်သော အရှင်အား လှူအံ့ဟု ကြံမိအံ့၊ မနောကံဒါနဖြစ်၏။ ဤသို့ ဒါနတရား၌ ကံသုံးပါးကို ဝေဖန်အပ်၏။

အကြင်သူသည် အသက်အရှယ်ကိုလည်းကောင်း၊ အမျိုးတို့၏ အကျင့်ကိုလည်းကောင်း ဆင်ခြင်လျက် အမြင်နည်းသောသူတို့၏ အလေ့အလာဖြစ်သော ပါဏာတိပါတ စသည်တို့မှ ငါကြဉ်ရှောင်အံ့ဟု နှလုံးပြုလျက် လက်ချိုးကာ မှတ်သား၍ ရှောင်ရှား၏။ ထိုသူ့အား ကာယကံ သီလဖြစ်၏။ ပါဏာတိပါတာ ဝေရမဏီ အစရှိသည်ကို နှုတ်ဖြင့်ရွတ်ဆို၍ ကြဉ်ရှောင်အံ့၊ ထိုသူ့အား ဝစီကံသီလဖြစ်၏။ ကိုယ်နှုတ်ဖြင့် မလှုပ်ရှားဘဲ စိတ်ဖြင့်မှတ်သား၍ ကြဉ်ရှောင်အံ့၊ ထိုသူ့အား မနောကံ သီလဖြစ်၏။ ဤသို့ သီလတရား၌ ကံသုံးပါးကို ဝေဖန်အပ်၏။

အကြင်သူသည် ကွေးခြင်း၊ ဆန့်ခြင်း၊ သွားလာ ရပ်ထိုင်ခြင်းကို ပြုသောအခါ ငါ၏ ဣရိယာပုတ်ကား ချုပ်တတ် ပျောက်တတ်သည်ဖြစ်၍ မမြဲသော အနိစ္စသဘော ဒုက္ခသဘော အနတ္တသဘောတည်းဟုဆင်ခြင်၏။ ထိုသူအား ကာယကံဘာဝနာဖြစ်၏။ ခယဝယသဘောကို ဆင်ခြင်လျက် ပဉ္စက္ခန္ဓာ အနိစ္စာ စသည်ကို မြွက်ဆိုသောသူအား ဝစီကံဘာဝနာဖြစ်၏။ စိတ်ဖြင့်သာ ဆင်ခြင်သောသူအား မနောကံဘာဝနာဖြစ်၏။ ဤသို့ ဘာဝနာတရား၌ ကံသုံးပါးကို ဝေဖန်အပ်၏။

အပစာယန၌ ရတနာသုံးပါး ဘိုးဘွား မိဘတို့ကိုမြင်သော် ဦးတင်၍ ရှိခိုးခြင်း၊ ခရီးဦးကြိုဆိုခြင်း၊ နေရာခင်းခြင်း၊ သောက်ရေ သုံးဆောင်ရေ တည်ခြင်း အမှုတို့ကို ကိုယ်တိုင်ပြုသောသူ့အား ကာယကံအပစာယနဖြစ်၏။ တပည့်သားတို့ကိုစေ၍ ပြုစေသော သူ့အား ဝစီကံအပစာယန ဖြစ်၏။ စိတ်ဖြင့်ပြုလိုသောသူအား မနောကံအပစာယနဖြစ်၏။

ရဟန်းသံဃာတို့၏ကိစ္စ မိဘတို့၏ကိစ္စ ရှိသောအခါ ကိုယ်တိုင်ညီညာ၍ ပြုသော သူ့အား ကာယကံဝေယျာဝစ္စဖြစ်၏။ တပည့်သားတို့ကို စေ၍ပြုစေသောသူ့အား ဝစီကံ ဝေယျာဝစ္စဖြစ်၏။ စိတ်ဖြင့်ပြုလိုသောသူ့အား မနောကံဝေယျာဝစ္စဖြစ်၏။

မိမိပြုသော ကုသိုလ်ကို လက်ဖြင့်ညွှန်ပြ၍ သူတစ်ပါးကို ဝမ်းမြောက် စေသော သူ့အား ကာယကံပတ္တိဒါနဖြစ်၏။ နှုတ်ဖြင့်မြွက်ဟ အမျှပေးဝေသော သူ့အား ဝစီကံ ပတ္တိဒါနဖြစ်၏။ စိတ်ဖြင့်အမျှပေးဝေလိုသောသူ့အားမနောကံ ပတ္တိဒါနဖြစ်၏။

သူတစ်ပါးကုသိုလ်ပြုသည်ကို မြင်ရာကြားရာတို့၌ ဝမ်းမြောက် ဝမ်းသာ၍ ကခုန်သောသူ့အား ကာယကံ ပတ္တာနုမောဒနာဖြစ်၏။ နှုတ်ဖြင့်ကောင်းချီး ပေးသော သူ့အား ဝစီကံပတ္တာနုမောဒနာ ဖြစ်၏။ စိတ်ဖြင့်ဝမ်းမြောက်သော သူ့အား မနောကံ ပတ္တာနုမောဒနာဖြစ်၏။

ကိုယ်တိုင်ညွတ်၍ တရားနာသောသူအား ကာယကံ ဓမ္မသာဝနဖြစ်၏။ နှုတ်ဖြင့် မေးမြန်းကာ တရားနာသော သူ့အား ဝစီကံ ဓမ္မသာဝနဖြစ်၏။ စိတ်ဖြင့် မှတ်၍သာ တရားနာသော သူ့အား မနောကံ ဓမ္မသာဝနဖြစ်၏။

ဓမ္မဒေသနာ၌ ကိုယ်တိုင် ရှိသေစွာထိုင်၍ တရားဟောသောသူ့အား ကာယကံ ဓမ္မဒေသနာ ဖြစ်၏။ သူတစ်ပါးကို တိုက်တွန်း၍ ဟောစေသောသူ့အား ဝစီကံဓမ္မ ဒေသနာဖြစ်၏။ စိတ်ဖြင့်ဟောလိုသောသူ့အား မနောကံဓမ္မဒေသနာ ဖြစ်၏။

ဒိဋ္ဌိဇုကမ္မကား ဤကိုးပါးလုံး၏ အကြောင်းဖြစ်၍ ဖလူပစာရ အားဖြင့် ကံသုံးပါး ယူအပ်၏။

ပါရမီဆယ်ပါး၌ အဘယ်သို့ သုံးဆယ် ပြားသနည်း။ ရွှေ၊ ငွေ၊ ဥစ္စာ ပြည်ရွာ တိုင်းကား သားမယားတို့ကို စွန့်၍ပေးလှူသောဒါန၊ ဖြည့်ကျင့်သော သီလ၊ တောထွက်သော နိက္ခမ အစရှိသည်တို့သည် ဒသပါရမီသာဖြစ်၍ ဟီနမည်၏။ ခြေ၊ လက်၊ အင်္ဂါ၊ နား၊ နှာခေါင်းစသော ကိုယ်အင်္ဂါကိုစွန့်၍ လှူအပ်သော ဒါန၊ ဖြည့်ကျင့်သော သီလ၊ တောထွက်ခြင်း နိက္ခမ စသည်တို့သည် ဒသဥပပါရမီ ဖြစ်၍ မဇ္ဈိမ မည်၏။ အသက်ကိုစွန့်၍ ပေးလှူအပ်သော ဒါန၊ ဖြည့်ကျင့်သော သီလ၊ တောထွက်သော နိက္ခမ စသည်တို့သည် ဒသပရမတ္ထ ပါရမီဖြစ်၍ ပဏီတ မည်၏။ ဤသို့အားဖြင့် ပါရမီ သုံးဆယ်ပြား၏ဟု မှတ်ရမည်။ ဇာတ်သက်သေနှင့်တကွ လိုမူ စရိယပိဋ္ဋက အဋ္ဌကထာ၌ ယူရမည်။

❖❖❖❖❖

## ၁၄။ နေတ္တိကျမ်းဝယ်၊ ဆယ့်ခြောက်သွယ်၊ အဘယ်ဟာရကျယ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အရှင်မဟာကစ္စည်း ထေရ်မြတ်သည် ပိဋ္ဋကတ်သုံးပုံ၏ အတ္ထနယကို သိစေခြင်းငှာ အထူးထူးသော နည်းနာကိုပြု၍ စီရင်တော်မူအပ်သော နေတ္တိကျမ်း၌–

| | |
|---|---|
| ၁။ ဒေသနာဟာရ | ၉။ ပရိဝတ္တနဟာရ |
| ၂။ ဝိစယဟာရ | ၁၀။ ဝေဝစနဟာရ |
| ၃။ ယုတ္တိဟာရ | ၁၁။ ပညတ္တိဟာရ |
| ၄။ ပဒဋ္ဌာနဟာရ | ၁၂။ ဩတရဏဟာရ |
| ၅။ လက္ခဏဟာရ | ၁၃။ သောဓနဟာရ |
| ၆။ စတုဗျူဟဟာရ | ၁၄။ အဓိဋ္ဌာနဟာရ |
| ၇။ အာဝတ္တဟာရ | ၁၅။ ပရိက္ခာရဟာရ |
| ၈။ ဝိဘတ္တိဟာရ | ၁၆။ သမာရောပနဟာရ |

အားဖြင့် (၁၆) ပါးရှိသည်တွင် ဝိစယဟာရသည် တစ်ပါးသော ဟာရနည်းတို့ထက် ကျယ်ဝန်း၏။ ထို့ကြောင့် ပါဠိတော်၏ အဋ္ဌကထာ၌ လည်းကောင်း၊ ဋီကာ၌ လည်းကောင်း ကျယ်ဝန်းစွာ ဖွင့်တော်မူသည်။

❖❖❖❖❖

## ၁၅။ နည်းကား ငါးသွယ်၊ နေတ္တိဝယ်၊ ဘယ့်နှယ် နယ ခဲသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နန္ဒိယာဝတ္တနည်း၊ တိပုက္ခလနည်း၊ သီဟဝိက္ကီဠိတနည်း၊ အင်္ကုသနည်း၊ ဒိသာလောစန နည်းအားဖြင့် ငါးပါးအပြားရှိ၏။ ထိုငါးပါးတို့တွင် တိပုက္ခလနည်းသည် ပရမတ္ထ ဓမ္မကို အနုမာနတ္ထ အားဖြင့်လည်းကောင်း၊ ပရိကပ္ပတ္ထ အားဖြင့်လည်းကောင်း၊ ပစ္စက္ခတ္ထ အားဖြင့် လည်းကောင်း ယူအပ်သော နည်းဖြစ်၍ အလွန်ခဲ၏ဟု မှတ်ရာသည်။

❖❖❖❖❖

## ၁၆။ နေတ္တိကျမ်းဝယ်၊ မင်းကိုးနွယ်၊ ဘယ်သည့်ဘယ်သည့် မင်းတို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သလောကပါလော ဟူသော ပုဒ်၏အရ၌ အဋ္ဌကထာ ဆရာ ဖွင့်ပြသော မင်းတို့ကို ပေါင်း၍ ''မင်းကိုးနွယ်''ဟု ပုစ္ဆာပြုမည်ထင်သည်။ ထိုကိုရည်၍ မေးမူ–ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရဟူသော လောကပါလ လေးပါး။ ဣန္ဒနတ်၊ ယမနတ်၊ ဝရုဏနတ်၊ ကုဝေရ နတ်ဟူသော လောကပါလ လေးပါး။ လူမင်းနှင့် တကွ ကိုးပါးတည်း ဟု ဖြေသင့်၏။ ။ တစ်နည်းလည်း–လူမင်း၊ စတုမဟာရာဇ်၊ သိကြား၊ သုယာမ၊ သန္တုသိတ၊ သုနိမ္မိတ၊ ဝသဝတ္တီ၊ ရူပဗြဟ္မာ၊ သုဒ္ဓါဝါသဗြဟ္မာမင်း ဟူ၍လည်း ဖြေသင့်၏။

❖❖❖❖❖

## ၁၇။ ငါတို့မင်းဝယ်၊ သက်ရှစ်ဆယ်၊ ဘယ်သိုက်ထွက်ဟု ဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ငါတို့မင်းဟူသည်မှာ ငါတို့ဂေါတမ ဘုရားရှင်ကို ဆိုလိုသည်။ သက်တော် ရှစ်ဆယ် နေရမည်ဟု အဘယ်သိုက်က ထွက်သနည်း ဟူရာ၌ ဘုရားရှင်တို့၏ ဓမ္မတာသည် ပွင့်တော်မူသောအခါ၌ လူတို့၏ အသက်တမ်းကို ငါးစုပြု၍ လေးစုသာ နေမြဲဖြစ်သောကြောင့် တစ်ရာတမ်း၌ ပွင့်တော်မူသော ဂေါတမ ဘုရားသည်လည်း ရှစ်ဆယ်သာ နေရမည်ဟု ဓမ္မတာသုံးဆယ် သိုက်က ထွက်၏ဟုဖြေ။

❖❖❖❖❖

## ၁၈။ အတုလံသွယ်၊သဂြိုဟ်ဝယ်၊ ဘယ့်နှယ် ပဋိသေဓနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–မြစ်သောပဋိသေဓမျိုးသည် ပသဇ္ဇပဋိသေဓ၊ ပရိယုဒါသဝါစီအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုနှစ်ပါးတို့တွင် အကတ္တာ ကဲ့သို့ မြစ်အပ်သော ဝတ္ထုတစ်ပါးမရှိ၊ အဘာဝမျှကိုသာ ဟောသည်ကား ပသဇ္ဇပဋိသေဓ မည်၏။ မြစ်အပ်သော ဝတ္ထုရှိလျက် ထိုမှ တစ်ပါးသော အနက်ကို ဟောသည်ကား ပရိယုဒါသ ဝါစီမည်၏။ ဤအတုလံ သဒ္ဒါသည် သီလ၊ ပညာ၊ သမာဓိအားဖြင့် တစ်စိတ် တူသော သူတစ်ပါးကိုမြစ်၍ မတူနိုင်သော ဘုရားဒြဗ်ကို ဟောသောကြောင့် ပရိယုဒါသ ဝါစီမည်၏။ ထို့ကြောင့် မဏိမဥ္ဇူသာဋီကာ၌ 'ဣဒ ပန ပရိယုဒါသဝါစီ အဓိပ္ပေတာ'' ဟူ၍ မိန့်ဆိုအပ်၏။

❖❖❖❖❖

## ၁၉။ နောပေတိဝယ်၊ သိသာလွယ်၊ အဘယ် သန္ဓိဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သန္ဓိသည် ပဒသန္ဓိ၊ ဝဏ္ဏ သန္ဓိ အားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုနှစ်ပါးတို့တွင် ပဒသန္ဓိသင့်သတည်း။ လောပသန္ဓိ၊ အာဒေသ သန္ဓိ၊ အာဂမသန္ဓိ၊ ဝိကာရသန္ဓိ၊ ပကတိသန္ဓိ၊ ဒီဃသန္ဓိ၊ ရဿသန္ဓိအားဖြင့် ခုနစ်ပါးတို့တွင် အက္ခရာဖောက်ပြန်၍ စပ်သောကြောင့် ဝိကာရသန္ဓိမည်၏။ သရဝိကာရ သန္ဓိ ဗျဥ္ဇနဝိကာရသန္ဓိအားဖြင့် နှစ်ပါးတို့တွင် သရချင်းဖောက်ပြန်သောကြောင့် သရဝိကာရ သန္ဓိမည်၏ဟူပေ။

❖❖❖❖❖

## ၂၀။ ဂေါသဒ္ဒါဝယ်၊ ကြံစဖွယ်၊ အဘယ် ရုဋ္ဌီပေတို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရုဋ္ဌီသည် ပသိဒ္ဓရုဋ္ဌီ၊ အနုဘူတ ရုဋ္ဌီအားဖြင့် နှစ်ပါးတို့တွင် နွားကို ဂေါဟုခေါ်ခြင်းသည် တစ်ပါးသော သတ္တဝါတို့ သွားတတ် ကြသည်ချည်း ဖြစ်ပါလျက် ထင်ရာသို့ လိုက်၍ ခေါ်ခြင်းကြောင့် ပသိဒ္ဓရုဋ္ဌီမည်၏။

❖❖❖❖❖

## ၂၁။ မြောက်ကိုသိဖွယ်၊မြစ်ကြီးငယ်၊ဘယ်မှာသည်က ရှိသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သလ္လဝတီမည်သော ချင်းတွင်း မြစ်သည် အစိရဝတီမည်သော မြစ်နှင့်ပေါင်း၍ စီးလာကြောင်းကို ရှေးဆရာတို့ ဆိုသောကြောင့် ''မြောက်ကိုသိဖွယ်ရာ သလ္လဝတီမြစ်ရှိ၏''ဟူပေ။ ။ ရှေးဆရာတို့ ဘယ်သို့ဆိုသနည်းဟူမူကား–သက္ကရာဇ်၁၀၃၈–ခုနှစ်၊ အင်းဝပြည်တွင် မင်းရဲကျော်ထင် မင်းပြုသောအခါ အနောမဒဿီ အမည်ရှိသော ရဟန်းသည် အစိရဝတီ အမည်ရှိသော ချင်းတွင်းမြစ်နား ကြံ့ကူးနိဂုံး၌ ဇမ္ဗူလ အမည်ရှိသော စေတီတော်၏ ခြေရင်း အနောက်

တောင်မျက်နှာ .ဝါဆိုကျောင်း၌ နေ၍ ဇာတ် တစ်ရာ့ငါးဆယ် ရှိသော ကေနိပါတ်၏ နိဿယကို စီရင်ရာ နိဂုံးတွင်''အစိရဝတိနဒီတီရေ၊ ခဂ္ဂေါတိဏ္ဏာဝေရမဒ္ဒေ'' စသည်ဖြင့် ဆိုသည်။ ။ **အနက်ကား**။ ။ အစိရဝတိနဒီတီရေ၊ ဟိမဝါမှ, စီးလာအမှန်, လူ၏ အဟန်, သဏ္ဍာန်ပီစွာ, ကိန္နရာလျှင်, မျောလှာသည်ဖြစ်, ကြောင်းရင်းစစ်၍, မြစ်အစိ ရဝတီ, သလ္လဝတီချင်းတွင်း, မြစ်မင်းနှစ်ဖြာ, ရောကာတစ်ဖန်, ပေါင်းပြန် လှာသား, မြစ်ကမ်း နား၌။ ခဂ္ဂေါတိဏ္ဏာ ဝေရမဒ္ဒေ၊ ကြံမင်းကူးမြောက်, ချမ်းသာ ရောက်၍, ကြံကူး အမည်ရသော နိဂုံး၌–ဟူ၍ ဆိုသည်။

အစိရဝတီမြစ်သည်လည်း ဟိမဝန္တာမှစ၍စီးသည်။ အဘယ်သို့ စီးသနည်း ဟူမူကား–ဟိမဝန္တာတောင်မင်းကို ရံသောအိုင်ကြီး ခုနစ်အိုင်တို့တွင် အနဝတတ်အိုင်၏ တောင်မျက်နှာ နွားဥသဘ ခံတွင်းပြွန်မှ ထွက်သောရေ အလျဉ်သည် အိုင်ကို လက်ယာရစ် သုံးပတ်လှည့်၍ စီးပြီးမှ တောင်မျက်နှာ ကျောက်ဖျာအပြင်ထက် ယူဇနာ ၅၀ တိုင်တိုင် စီး၏။ သုံးပတ်လည်၍ စီးရာအရပ်သည် အာဝဋ္ဋ ဂင်္ဂါမည်၏။ ကျောက်ဖျာအပြင်သို့ စီးရာအရပ်သည် ကဏှာဂင်္ဂါမည်၏။ ထိုမှသည် ရေအဟုန် တောင်ကို ခတ်မိရာတွင် ကောင်းကင်သို့ အဝန်းသုံးဂါဝုတ်ခန့်၊ အလျားယူဇနာ ၆၀ တိုင်တိုင် စီးလေသော မြစ်သည် အာကာသဂင်္ဂါမည်၏။ ထိုရေအလျဉ်သည် တိယဂ်လ မည်သော ကျောက်ဖျာထက် ကျရာတွင် ယူဇနာ ၅၀ ခန့်ရှိသော ရေကန်သည်ဖြစ်၏။ ထိုကန်သည် တိယဂ်လရေကန် မည်၏။ ထိုကျောက်ဖျာကို ဖောက်ထွင်း၍ အောက် မြေ၏ အတွင်းသို့ ဝင်ဆင်းစီးလေသော ယူဇနာ ၆၀ တိုင်တိုင်သောမြစ်သည် ဗဟလ ဂင်္ဂါမည်၏။ ထိုကျသောရေသည် မြေ၏ အတွင်းဖြင့် ယူဇနာ ၆၀ တိုင်တိုင် စီးလေသော မြစ်သည် ဥမင်္ဂဂင်္ဂါမည်၏။ ထို့နောင် ဝိဥ္ဈမည်သော ဗီလာစီးသောတောင်ကို ရေအဟုန် ခတ်မိ၍ လက်ငါးချောင်းကဲ့သို့ကွဲ၍ ငါးသွယ်သော ရေအလျဉ်တို့သည် စီးကုန်၏။ ထိုမြစ်တို့သည် ဂင်္ဂါ၊ယမုနာ၊ အစိရဝတီ၊ မဟီ၊ သရဘူ ဟူ၍ အမည်ငါးပါးတို့သည် ဖြစ်ကုန်၏။ ဤသို့ ကျမ်းဂန်၌လာသောကြောင့် အစိရဝတီမြစ်သည် မြောက်အရပ် ဖြစ်သော ဟိမဝန္တာမှ စီးလာကြောင်း၊ ချင်းတွင်း သလ္လဝတီမြစ်နှင့် ပေါင်းမိကြောင်း၊ သုပ္ပါရကမည်သော သင်္ဘောဆိပ်အရပ်မှ မြောက်စူးစူး ယူဇနာ ၁၂၀–ကွာတွင် သာဝတ္ထိ ပြည်ရှိကြောင်း၊ အစိရဝတီမြစ်နား၌ သာဝတ္ထိပြည် ရှိကြောင်းများကို သုတ္တနိပါတ်စသော ကျမ်းဂန်တို့၌ လာသည်ကိုထောက်၍ မြောက်ကို သိလွယ်ကြောင်း ဖြစ်သောမြစ်သည် သလ္လဝတီမြစ်မည်သော ချင်းတွင်းမြစ်ပင် ဖြစ်သည် ဟုဖြေဆိုရာ၏။ အနဝတတ်အိုင်၏ တောင်မျက်နှာပြွန်သည် ဆင်ခံတွင်း ဖြစ်သည်ဟု သုတ္တနိပါတ် အဋ္ဌကထာ၌လာသည်။ သာရတ္ထဒီပနီဋီကာ၊ ဇိနာလင်္ကာရဋီကာတို့၌ကား ''ဒက္ခိဏာ ပဿေဥသဘ မုခတော နိက္ခန္တ ဥဒက ဓာရာ တထေဝ ပဒက္ခိဏံ ကတွာ'' စသည်ဖြင့် လာသည်။

❖❖❖❖❖

၂၂။ ဖြဟ္မာရှေးဝယ်၊ လှူရှစ်သွယ်၊ ကြီးငယ်နံလျား ဘယ်မျှနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား—

''အထ ကဿပဗုဒ္ဓကာလေ ပေါရာဏသဟာယကော ဃဋီကာရော မဟာဖြဟ္မာ ဇော် ဗုဒ္ဓန္တရံ ဝိနာဘာဝပတ္တေန မိတ္တဘာဝေန စိန္တေသိ ''အဇ္ဇ မေ သဟာယော မဟာဘိနိက္ခမနံ နိက္ခန္တော၊ သမဏ ပရိက္ခာရမဿ ဂဟေတွာ ဂစ္ဆာမိ''တိ။

တိစီဝရဉ္စ ပတ္တော စ၊ ဝါသိသူစိ စ ဗန္ဓနံ။
ပရိဿာဝနေန အဋ္ဌေတေ၊ ယုတ္တာ ယောဂဿ ဘိက္ခုနောတိ။
ဣမေ အဋ္ဌ သမဏ ပရိက္ခာရေ အာဟရိတွာ အဒါသိ။

ဟူ၍ ဇိနာလင်္ကာရဋီကာ၌ လာသည်။

အထ၊ ထိုသို့ ဆံတော်ပယ်ပြီးသောအခါ၌။ ကဿပဗုဒ္ဓကာလေ၊ ကဿပ ဘုရား၏ လက်ထက်တော်၌။ ပေါရာဏသဟာယကော၊ အဆွေခင်ပွန်းဟောင်း ဖြစ်ဖူးသော။ ဃဋီကာရောမဟာဖြဟ္မာ၊ ဃဋီကာရ အမည်ရှိသော ဖြဟ္မာကြီးသည်။ ဇော် ဗုဒ္ဓန္တရံ၊ ဘုရားတစ်ဖြစ်နှင့်တစ်ဖြစ် အကြားပတ်လုံး။ ဝိနာဘာဝပတ္တေန၊ ကွေကွင်းသော အဖြစ်သို့ ရောက်ခြင်းရှိသော။ မိတ္တဘာဝေန၊ အဆွေခင်ပွန်း၏ အဖြစ်ဖြင့်။ စိန္တေသိ၊ ကြံ၏။ ကိံစိန္တေသိ၊ အဘယ်သို့ ကြံသနည်းဟူမူကား အဇ္ဇ၊ ယနေ့။ မေ၊ ငါ၏။ သဟာယော၊ အဆွေသည်။ မဟာဘိနိက္ခမနံ၊ မြတ်သော တောထွက်ခြင်းကို။ နိက္ခန္တော၊ ထွက်၏။ အဿ၊ ထိုငါ့အဆွေအား။ သမဏ ပရိက္ခာရံ၊ ရဟန်းတို့၏ သုံးဆောင်ရာ ဖြစ်သော ပရိက္ခရာရှစ်ပါးကို။ ဂဟေတွာ၊ ယူ၍။ အဟံ၊ ငါသည်။ ဂစ္ဆာမိ၊ သွားအံ့။ ဣတိ၊ ဤသို့။ စိန္တေသိ၊ ကြံ၏။ စိန္တေတွာ၊ ကြံပြီး၍။

တိစီဝရဉ္စ၊ သုံးထည်သော သင်္ကန်းလည်းကောင်း။ ပတ္တော စ၊ သပိတ် လည်းကောင်း။ ဝါသိ စ၊ ပဲခွပ်ခေါ်အပ် ဆံဖြတ်သင်တုန်းလည်းကောင်း။ သူစိ စ၊ အပ်လည်းကောင်း။ ဗန္ဓနံ၊ ခါးပန်းလည်းကောင်း။ ပရိဿာဝနေန၊ ရေစစ်နှင့် တကွ။ ဧတေ အဋ္ဌ၊ ဤရှစ်ပါးသော ပရိက္ခရာတို့သည်။ ယောဂဿ၊ ကမ္မဋ္ဌာန်းစီးဖြန်းခြင်းနှင့် ယှဉ်သော။ ဘိက္ခုနော၊ ရဟန်းအား။ ယုတ္တာ၊ လျောက်ပတ်ကုန်၏။ ဣတိ မနသိ ကတွာ၊ ဤသို့ နှလုံးပြု၍။ ဣမေ အဋ္ဌသမဏပရိက္ခာရေ၊ ဤ ရှစ်ပါးသော ရဟန်း ပရိက္ခရာတို့ကို။ အာဟရိတွာ၊ ဆောင်၍။ အဒါသိ၊ ကပ်လှူပြီ။ ဤသို့ ဖြဟ္မာမင်း ပရိက္ခရာရှစ်ပါး လှူသည်ကိုရည်၍ ''ဖြဟ္မာရှေးဝယ်၊ လှူရှစ်သွယ်'' ဟူ၍ ဆိုလေသည်။

ကြီး၊ ငယ်၊ နံလျား ဘယ်မျှနည်း—ဟူရာ၌ သပိတ်၊ ပဲခွပ်၊ အပ်၊ ခါးပန်း၊ ရေစစ်တို့၏ အကြီး အငယ် အနံ အလျား ပမာဏကို မည်မျှရှိသည်ဟူ၍ ကျမ်းဂန်၌ မလာ။ သင်္ကန်းတော်၏ ပမာဏကိုကား ဝိနည်းပါဠိတော်၌—

''တတြိဒံ သုဂတဿ သုဂတစီဝရပ္ပမာဏံ။ ဒီဃသော နဝဝိဒတ္ထိယော သုဂတဝိဒတ္ထိယာ။ တိရိယံ ဆဝိဒတ္ထိယော။ ဣဒံ သုဂတဿ သုဂတ စီဝရပ္ပမာဏန္တိ'' ဟူ၍လာသည်။

တတြ ဝစနေ၊ ထိုဘုရားသင်္ကန်းတော်ကို ဆိုရာ၌။ ဣဒံ၊ ဆိုလတ္တံ့ သည်ကား။ သုဂတဿ၊ မြတ်စွာဘုရား၏။ သုဂတစီဝရပ္ပမာဏံ၊ ဘုရားသင်္ကန်းတော်ပမာဏတည်း။ သုဂတဝိဒတ္ထိယာ၊ ဘုရားရှင့်အထွာတော်ဖြင့်။ ဒီဃသော၊ အလျားမှ။ နဝ ဝိဒတ္ထိယော၊ ကိုးထွာ။ တိရိယံ၊ အနံကား။ ဆဝိဒတ္ထိယော၊ ခြောက်ထွာ။ ဣဒံ၊ ဤသည်လျှင်။ သုဂတဿ၊ ဘုရားသခင်၏။ သုဂတစီဝရပ္ပမာဏံ၊ ဘုရားသင်္ကန်းတော် ပမာဏတည်း။

ဘုရားရှင့် တစ်ထွာသည် မဇ္ဈိမပုရိသ၏ တစ်တောင့်ထွာ။ ယခုလူတို့၏ နှစ်တောင့်ခြောက်သစ် ရှိရကား ဘုရားရှင့် ကိုးထွာသည် မဇ္ဈိမပုရိသ တစ်ဆယ့် သုံးတောင်ထွာ။ ပကတိပုရိသ အတောင်နှစ်ဆယ်နှင့် ခြောက်သစ်ရှိ၏။ အနံအားဖြင့် ဘုရားခြောက်ထွာသည် မဇ္ဈိမပုရိသ၏ ကိုးတောင်။ ပကတိပုရိသ၏ တစ်ဆယ့် သုံးတောင့်ထွာရှိ၏။ ဒုကုဋ္ဌတော်နှင့် ကိုယ်ဝတ်တော်သည် အလျား အနံ ပမာဏ အတူတူပင် ဖြစ်သင့်သည်။ သင်းပိုင်တော်၏ ပမာဏကိုကား တိုက်ရိုက်မလာ။ မလာ သော်လည်း ဝိနည်းပါဠိတော် အဋ္ဌကထာတို့ကို ထောက်လျှင် ဘုရားအတောင်တော်နှင့် အလျား ငါးတောင်၊ အနံ နှစ်တောင့်ထွာ ဖြစ်သင့်၏ဟု ဖြေအပ်သည်။

❖❖❖❖❖

## ၂၃။ စို့သက်တံနွယ်၊ ကောင်းကင်လယ်၊ ဘယ်အကြောင်းကြောင့်ဖြစ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**''သူရိယရံသိယော စ မေဃဝလာဟကမာဂမ္မ သုဝဏ္ဏာ ဟုတွာ အာလောကာ ပညာယန္တိ၊ တံ ဣန္ဒစာပေါတိ ဝဒန္တိ။ တထာဟိသော ပုဗ္ဗဏှေ ပညာယမာနေ ပစ္ဆိမ ဒိသာယံ ပညာယတိ၊ သာယန္ဟေ ပုရတ္ထိမဒိသာယံ''**

ဟူ၍ သာရတ္ထသင်္ဂဟ၌ လာသည်။

**အနက်ကား။** ။ သူရိယရံသိယော စ၊ နေ၏အရောင်တို့သည်လည်း။ မေဃဝလာ ဟကံ၊ မိုးမှုံ တိမ်တိုက်ကို။ အာဂမ္မ၊ စွဲ၍။ သုဝဏ္ဏာ၊ ကောင်းစွာလုံးသည်။ ဟုတွာ၊ ဖြစ်၍။ အာလောကာ၊ နီ, ပြာ, ဝါ အရောင်တို့သည်။ ပညာယန္တိ၊ ထင်ကုန်၏။ တံ၊ ထိုမိုးတိမ် တောင်၌ နေရောင်ဟပ်၍ ထင်လတ်သော အရောင်ကို။ ဣန္ဒစာပေါတိ၊ နတ်လေး သက်တင်ဟူ၍။ ဝဒန္တိ၊ ဆိုကုန်၏။ တထာဟိ၊ ထို့ကြောင့်လျှင်။ သော၊ ထိုအရောင်သည်။ ပုဗ္ဗဏှေ၊ နံနက်အခါ၌။ ပညာယမာနေ၊ ထင်လတ်သော်။ ပစ္ဆိမဒိသာယံ၊ အနောက် မျက်နှာ၌။ ပညာယတိ၊ ထင်၏။ သာယန္ဟေ၊ ညချမ်းအခါ၌။ ပညာယမာနေ၊ ထင်လတ်သော်။ ပုရတ္ထိမဒိသာယံ၊ အရှေ့မျက်နှာ၌။ ပညာယတိ၊ ထင်၏။

ယခု လူတို့ပညတ်ကြသည်ကား နံနက်အခါ နေအရှေ့မှာရှိ၍ အနောက်အရပ်မှာ ထင်သော သက်တံ့ကို ''စို့ပေါက်သည်''ဟု ဆိုသည်။ ညချမ်းအခါ နေအနောက်မှာရှိ၍ အရှေ့၌ထင်သည်ကို ''သက်တံပေါက်သည်'' ဟုဆိုသည်။ မွန်းတည့်သကဲ့သို့ အလယ်၌ ထင်သည်ကို ''ကျိတ်ထွက်သည်'' ဟုဆိုသည်။ အကြောင်းကား မိုးတိမ် နေရောင် နှစ်ပါးပင်ဖြစ်သည်။

❖❖❖❖❖

## ၂၄။ ရှေ့နောက်သွယ်သွယ်၊ တန်း၍နွယ်၊ နေစွယ်ထွက်ကြောင်းဘယ်မျှနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''ဥတုတော သမုဋ္ဌိတံ သုဒ္ဓဋ္ဌကံ ဥတုသမုဋ္ဌာနံ နာမ၊ တမ္ပိ ဥတု အညံ အဋ္ဌကံ သမုဋ္ဌာပေတိ၊ ဣဒံ ဥတုပစ္စယံ နာမ။ တသ္မိမ္ပိ ဥတု အညံ အဋ္ဌကံ သမုဋ္ဌာပေတိ၊ ဣဒံ ဥတုပစ္စယဥတုသမုဋ္ဌာနံ နာမ။ ဧဝံ တိဿောယေဝ သန္တတိယော ဃဋ္ဋေတုံ သက္ကောန္တိ၊ နတတောပရံ။ ဣမမတ္ထံ မနုပါဒိန္နကေပိ ဒီပေတုံ ဝဋ္ဋတိတိ''**

စသည်ဖြင့် အဋ္ဌသာလိနီ အဋ္ဌကထာ၌ လာသည်။

**အနက်ကား။** ။ ဥတုတော၊ ဥတုကြောင့်။ သမုဋ္ဌိတံ၊ ဖြစ်သော၊ သုဒ္ဓဋ္ဌကံ၊ သက်သက်သော အဋ္ဌကလာပ်သည်။ ဥတုသမုဋ္ဌာနံ နာမ၊ ဥတုလျှင်ဖြစ်ကြောင်း ရှိသည်မည်၏။ တမ္ပိ ဥတု၊ ထိုဥတု သမုဋ္ဌာန်ရုပ်သည်လည်း။ အညံ၊ တစ်ပါးသော။ အဋ္ဌကံ၊ ရှစ်ပါးသောရုပ်ကို။ သမုဋ္ဌာပေတိ၊ ဖြစ်စေ၏။ ဣဒံ၊ ဤနှစ်ဆင့်မြောက်ဖြစ်သော ရုပ်သည်ကား။ ဥတုပစ္စယံ နာမ၊ ဥတုသမုဋ္ဌာန်လျှင် အကြောင်းပြုသည်မည်၏။ တသ္မိမ္ပိ၊ ထိုနှစ်ဆင့်မြောက်သော ရုပ်၌လည်း။ ပဝတ္တံ၊ ဖြစ်သော။ ဥတု၊ ဥတုသည်။ အညံ၊ တစ်ပါးသော။ အဋ္ဌကံ၊ ရှစ်ပါးသောရုပ်ကို။ သမုဋ္ဌာပေတိ၊ တစ်ဖန်ဖြစ်စေပြန်၏။ ဣဒံ၊ ဤသုံးဆင့် မြောက်သောရုပ်သည်။ ဥတုပစ္စယ ဥတုသမုဋ္ဌာနံ နာမ၊ ဥတု ကြောင့်ဖြစ်သော ရုပ်လျှင် အကြောင်းရှိသောရုပ် မည်၏။ ဧဝံ၊ ဤသို့။ တိဿောယေဝ သန္တတိယော၊ သုံးပါးသော ဖြစ်စဉ်တို့သည်သာလျှင်။ ဃဋ္ဋေတုံ၊ စပ်ခြင်းငှာ။ သက္ကောန္တိ၊ တတ်နိုင်ကုန်၏။ တတော ပရံ၊ ထို့ထက်အလွန်။ န သက္ကောန္တိ၊ မတတ်နိုင်ကုန်။ ဣမမတ္ထံ၊ ဤသို့သော အနက်ကို။ အနုပါဒိန္နကေပိ၊ ကံကြောင့် မဖြစ်သော ရုပ်၌လည်း။ ဒီပေတုံ၊ ပြခြင်းငှာ။ ဝဋ္ဋတိ၊ သင့်၏။ ဥတုသမုဋ္ဌာနော နာမ၊ ဥတုသမုဋ္ဌာန် မည်သည်ကား။ ဝလာဟကော၊ မိုးတိမ်တိုက်တည်း။ ဥတုပစ္စယော နာမ၊ ဥတုကြောင့် ဖြစ်သော ရုပ်လျှင် အကြောင်းရှိသော ရုပ်မည်သည်ကား။ ဝုဋ္ဌိဓာရာ၊ မိုးရေအလျဉ်တည်း။ ဒေဝေ၊ မိုးသည်။ ဝုဋ္ဌေ ပန၊ ရွာသည်ရှိသော်ကား။ ဗီဇာနိ၊ မြက်မျိုး သစ်ပင်မျိုးတို့သည်။ ဝိရူဟန္တိ၊ ပေါက်ရောက်ကုန်၏။ ပထဝီဂန္ဓံ၊ မြေအနံ့သည်။ မုဉ္စတိ၊ လွတ်၏။ ပဗ္ဗတာ၊ တောင်တို့သည်။ နီလာ၊ စိမ်းညိုကုန်လျက်။ ခါယန္တိ၊ ထင်ကုန်၏။ သမုဒ္ဒေါ၊ သမုဒ္ဒရာသည်။ ဝဍ္ဎတိ၊ ကြီးပွား၏။ ဧဝံ၊ ဤသို့။ ဥတုပစ္စယ ဥတုသမုဋ္ဌာနံ၊

ဥတုကြောင့်ဖြစ်သော ရုပ်လျှင်အကြောင်းရှိသောရုပ်သည်။ နာနတ္တတော၊ အထူးထူးသော အဖြစ်အားဖြင့်။ သမုဋ္ဌိတံ၊ ဖြစ်၏။ ပ။ အာကာသေ။ ကောင်းကင်၌။ အန္တလိက္ခေ၊ မြေမိုး အကြား၌။ ဟတ္ထိမ္ပိ၊ ဆင်ရုပ်ကိုလည်း။ ဒဿေတိ၊ ပြ၏။ အဿမ္ပိ၊ မြင်းရုပ်ကိုလည်း။ ဒဿေတိ၊ ပြ၏။ ရထမ္ပိ၊ ရထားကိုလည်း။ ဒဿေတိ၊ ပြ၏။ ဝိဝိဓံ၊ အထူးထူးအပြားပြားရှိသော။ သေနာဗျူဟမ္ပိ၊ စစ်သည်ကိုလည်း။ ဒဿေတိ၊ ပြ၏။ ဣဒံ၊ ဤသို့ ထင်ပြခြင်းသည်။ စိတ္တပစ္စယဥတုသမုဋ္ဌာနံ နာမ၊ စိတ်ကြောင့် ဖြစ်သော ဥတုသမုဋ္ဌာန်မည်၏။

ဤသို့လာသော အဋ္ဌကထာကိုထောက်၍ ဥတုကြောင့်ဖြစ်သော တိမ်တောင်၊ တိမ်ပုပ်၌ ဥတုဇဖြစ်သော နေရောင်ခြည်ဟပ်သောကြောင့် အညို၊ အဝါ၊ အပြာ၊ အနက်စသော အထူးထူးသော ဥတုသမုဋ္ဌာန်သည် ထင်ရကား သုံးဆင့်သော အကြောင်းဖြင့် နေစွယ်ထွက်၏ ဟူပေ။

❖❖❖❖❖

## ၂၅။ ချမ်းအေးစဖွယ်၊ လေညှင်းသွယ်၊ လေဝယ်ဓာတ်ပေါင်းမည်မျှနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''ဥဏှသမယေ ဝါတပါနံ ဝိဝရာပေတွာ ဝါတေန သရီရံ ပဟာရာပေတွာ ဌိတော။ မန္ဒမန္ဒေ ဝါ ပဟရန္တေ၊ ကိဉ္စာပိ တတ္ထ ပထဝီပိ အတ္ထိ၊ တေဇောပိ အတ္ထိ၊ ဝါတမေဝ အာဘုဇတိ။ ဧဝံ အာဘုဇနဝသေန အာရမ္မဏံ ကရောတိ နာမ''။** (အဋ္ဌသာလိနီ)

ဥဏှသမယေ၊ ပူသောအခါ၌။ ဝါတပါနံ၊ လေသွန်တံခါးကို။ ဝိဝရာပေတွာ၊ ဖွင့်လှစ်စေ၍။ ဝါတေန၊ လေဖြင့်။ သရီရံ၊ ကိုယ်ကို။ ပဟာရာ ပေတွာ၊ ခတ်စေ၍။ ဌိတော၊ တည်၏။ မန္ဒမန္ဒေဝါ၊ ညှင်းညှင်းသော ယပ်လေတို့ကိုလည်း။ ပဟရန္တေ၊ ခတ်စေလျက်။ ဌိတော၊ တည်၏။ တတ္ထ၊ ထိုလေ၌။ ပထဝီပိ၊ ပထဝီဓာတ်သည်လည်း။ ကိဉ္စာပိ အတ္ထိ၊ အကယ်၍ရှိ၏။ တေဇောပိ၊ တေဇောဓာတ်သည်လည်း။ ကိဉ္စာပိ အတ္ထိ၊ အကယ်၍ရှိ၏။ ပန၊ ထိုသို့ရှိ သော်လည်း။ ဝါတမေဝ၊ လေဟူ၍သာလျှင်။ အာဘုဇတိ၊ နှလုံးသွင်း၏။ဧဝံ၊ ဤသို့။ အာဘုဇနဝသေန၊ နှလုံးသွင်းခြင်း၏ အစွမ်းဖြင့်။ အာရမ္မဏံ၊ အာရုံကို။ ကရောတိ နာမ၊ ပြုသည်မည်၏။

ဤအဋ္ဌကထာ၌ တိုက်ရိုက်ကား ပထဝီ၊ တေဇော၊ ဝါယော ဓာတ် သုံးပါးသာ လာသည်။ ကြွင်းသောရုပ်မလာ။ ယင်းသို့ မလာသော်လည်း အဝိနိဗ္ဘောဂရုပ်သည် သီးခြား၍ တစ်ပါးစီမဖြစ်ဟု ဟောတော်မူသည်ကို ထောက်လျှင် ''အဝိနိဗ္ဘောဂရုပ် ရှစ်ပါးလုံးရှိသည်''ဟု ဆိုသင့်၏။ ဋီကာတို့၌ကား အထူးမဖွင့်ကြ။

**ဝိဓုရပျို့၌ကား**– ရုပ်မရှိ၍ စိစိလက်စမ်း၊ ဖမ်းမရသား၊ ချမ်းမြအေးထွေ၊ ရစ်လည်ခွေသည် လေကို တောင့်တပါဘိလော့ဟူ၍ စပ်သည်။ ထိုစကားသည် အဋ္ဌကထာကို လွန်ရာကျ၏။

❖❖❖❖❖

## ၂၆။ ကမျဉ်းနီငယ်၊ ဆင်ကြီးကျယ်၊ ဘယ်သူစိတ်ရများသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''စတူသု အပါယေသု ဧကေကသ္မိံ ဧကောတိ တ္တေကောတိ ဒုဂ္ဂတိ အဟေတုက ပုဂ္ဂလော၊ တသ္မိံ သတ္တတိံသ စိတ္တာနိ ဘဝန္တိ။ တံ ယထာ။ ဒွါဒသာကုသလာနိ သတ္တရသ ဟာသနဝဇ္ဇိတာ ဟေတုက စိတ္တာနိ၊ အဋ္ဌ ကာမာဝစရကုသလစိတ္တာနိ''**

ဟု သုစိတ္တာလင်္ကာရ၌ ဆိုသည်။

ထိုကိုထောက်လျှင် ရူပက္ခန္ဓာသာ အငယ်၊ အကြီး ကွဲ၍ရှိသည်။ စိတ်ရမှုကား ဆင်လည်းဒုဂ္ဂတိအဟိတ်၊ ကမျဉ်းနီလည်း ဒုဂ္ဂတိအဟိတ်ဖြစ်သောကြောင့် အတူအမျှ သတ္တတိံသချည်း ဖြစ်သည်ဟူ၍ ဆိုဖွယ်ရှိ၏။ ယင်းသို့ရှိသော်လည်း မဆိုအပ်။ အဘယ်ကြောင့်နည်းဟူမူ– ဒုဂ္ဂတိပုဂ္ဂိုလ်တို့၌ သတ္တတိံသစိတ်ရ၏ ဟူသည်မှာ အလွန် အားဖြင့် ရသင့်သည်ကိုသာ ရေတွက်၍ပြသည်။ ပုဂ္ဂိုလ်တိုင်းမှာ ရသည်ဟုမပြ။ အရပ် တိုင်းမှာ ရသည်ဟုမပြ။ ဣဋ္ဌဖြစ်သော ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံကို မမြင်၊ မကြား၊ မနမ်း၊ မလျက်၊ မတွေ့ရသော ငရဲကြီးရှစ်ထပ်သားတို့မှာ ကုသလဝိပါက်၊ စက္ခု ဝိညာဉ် စသည်တို့ ဖြစ်နိုင်ရာမည်မဟုတ်။ ကုသိုလ် ဉာဏသမ္ပယုတ်တို့လည်း ထို့နည်းတူ ဖြစ်နိုင်ရာမည် မဟုတ်။ အကုသိုလ်ဒွါဒသ၊ အကုသလ ဝိပါက်ခုနစ်ခု၊ ဉာဏဝိပ္ပယုတ် ကုသိုလ်လေးခုတို့သာ ဖြစ်သည်။ ထို့အတူ ပြိတ္တာ၊ တိရစ္ဆာန်ဘုံ တွင်လည်း ဣဋ္ဌာရုံကိုမျှ မခံရသော သတ္တဝါ၌ ကုသလဝိပါက်ကို လွှတ်ရာသည်။ အသိဉာဏ်မရှိသော သတ္တဝါ၌ ဉာဏသမ္ပယုတ်ကို လွှတ်ရာသည်။ ဆရာ့သဘောနှင့် ပွားဆ၍သာ ဆိုသလော ဟူငြားအံ့။ မဟုတ်။ မိလိန္ဒပဉှာတွင် အရှင်နာဂသိန်ဖြေသော ဝိသဇ္ဇနာကို နယဂ္ဂါဟ ပြု၍ ဆိုသတည်း။

အဘယ်သို့ ရှင်နာဂသိန် ဖြေသနည်းဟူမူကား– မိလိန္ဒမင်းက ''အရှင်ဘုရား၊ ပညာနှင့် မနသိကာရသည် အဘယ်သို့ ထူးကြသနည်း''ဟု မေးရာ၌– ''မင်းကြီး မြည်း ကုလားအုတ်၊ ဆိတ်၊ ဝက်၊ ကြက်၊ ငှက် အစရှိသော သတ္တဝါတို့၌ ပညာကားမရှိ၊ သညာနှင့် မနသိကာရသာ ရှိသတည်း'' ဟု ဖြေ၏။ ''အရှင်ဘုရား၊ ကုသလဝိပါက် စက္ခုဝိညာဉ်စသော စိတ်သည် ဘုံတိုင်း ဖြစ်ပါ၏လော'' ဟု မေးရာ၌ ''မင်းကြီး ဣဋ္ဌာရုံ ကိုမျှမမြင်ရ၊ မကြားရ၊ မနမ်းရ၊ မတွေ့ရသော ငရဲဘုံပြိတ္တာဘုံတို့၌ ကုသလ ဝိပါက် တို့သည် မဖြစ်ကုန်''ဟု ဖြေ၏။ ဤအရာတို့ကိုဆ၍ လူတို့၏ စကားကို မှတ်သားနိုင်သော ဆင်နှင့်၊ မမှတ်သားနိုင်သော ကမျဉ်းနီကို စိတ်ရအတူ မယူသင့်။ ကမျဉ်းနီမှာ လွန်စွာသော အပိုင်းအခြားမှ အကုသိုလ်စိတ် တစ်ဆယ့်နှစ်ခု၊ အကုသလ ဝိပါက်ခုနစ်ခု၊ မဟာကုသိုလ် ဉာဏဝိပ္ပယုတ်စိတ် ၄လေးခုအားဖြင့် ''နှစ်ဆယ့်သုံးခု''သာ ရသင့်သည်။ ဆင်မှာ ''သတ္တတိံသ'' ရသင့်သည် ဟူပေ၊

"သဗ္ဗထာပိ ကာမလောကေ ရူပလောကေ ယထာရဟံ ဝိပစ္စတိ"

ဟူသော သင်္ဂြိုဟ်ပါဠိကို ဖွင့်ရာ ဋီကာကျော်၌–

သဗ္ဗထာပိ ကာမလောကေတိ သုဂတိ ဒုဂ္ဂတိ ဝသေန သဗ္ဗသ္မိံပိ ကာမလောကေ။ ယထာရဟန္တိ ဒွါရာလမ္ဗဏာနုရူပံ။ အပါယေသု ဟိ ယံ နာဂသုပဏ္ဏာဒီနံ မဟာသမ္ပတ္တိ ဝိသယံ ဝိပါက ဝိညာဏံ၊ ယဥ္စ နိရယ ပါလီနံ မောဂ္ဂလ္လာနတ္ထေရ ဒဿနာဒီသု ဥပပဇ္ဇတိ ဝိပါက ဝိညာဏံ။ တံ ကုသလကမ္မဿေဝ ဖလံ။ န ဟိ အကုသလဿ ဣဋ္ဌဝိပါကော သမ္ဘဝတိ"

ဟူသော ပါဌ်ဖြင့် "အပါယ်ဘုံတို့၌ နဂါးဂဠုန်အစရှိသည်တို့အား ကြီးစွာသော စည်းစိမ်လျှင် အာရုံရှိသော အကြင်ဝိပါက် ဝိညာဉ်သည်ဖြစ်၏။ ငရဲပြည်၌နေသော သူတို့အား အရှင်မောဂ္ဂလာန်ထေရ်ကို ဖူးမြင်ရခြင်း၊ နေမိမင်း မာတလိ နတ်သားကို မြင်ခြင်း စသည်တို့၌ အကြင်ဝိပါက် ဝိညာဉ်သည်ဖြစ်၏။ ထိုဝိညာဉ်ကား ကုသိုလ်ကံ၏ အကျိုးသာတည်း၊ အဘယ်ကြောင့်နည်းဟူမူကား အကုသိုလ်ကံသည် ဣဋ္ဌဝိပါက်ကို မဖြစ်စေတတ်သောကြောင့်တည်း" ဤသို့ ဋီကာဆိုသည် မဟုတ်လော။ အဘယ့်ကြောင့် ငရဲသူတို့အား ကုသလဝိပါက် စက္ခုဝိညာဉ်စသည်ကို လွှတ်၍ နှစ်ဆယ့်သုံးပါးသာ ရေတွက်သနည်းဟု ဆိုငြားအံ့၊ ထိုဋီကာဆရာကား အလုံးစုံသော ငရဲသားတို့အား ရသည်ဟူ၍လည်းကောင်း၊ ခပ်သိမ်းသောအခါ၌ ရသည်ဟူ၍လည်းကောင်း မဆို။ ဖြစ်သင့်သော သတ္တဝါအား ဖြစ်ထိုက်သောအခါ၌ ဖြစ်သည်ဟူ၍သာ ဆိုသည်။ ထို့ကြောင့် အရှင်နာဂသိန်၏ အယူတော်သည် ကျမ်းဂန်တို့နှင့် မဆန့်ကျင်ရကား ထိုအယူသို့ လိုက်၍ "နှစ်ဆယ့်သုံးပါး"သာ ရထိုက်၏ဟု ဆိုသည်။

❖❖❖❖❖

## ၂၇။ လူ့နတ်ကိုးကွယ်၊သီဟိုဠ်ဝယ်၊ ဘယ်သို့စက်ဦး ရှိသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–သုမနကုဋ်တောင်၌ သုမန နတ်မင်းကြီး တောင်းပန်သောကြောင့် ဘုရားသခင်သည် ပထမကြွသွားစဉ်က ချထားခဲ့သော ခြေတော်ရာရှိကြောင်းကို မဟာဝင်၌လာသည်။ ထိုပါဒ စေတီတော်သည် တောင်နှာမောင်း ပေါ်၌ စိမ်းညိုသော ကျောက်ဖျာကြီးထက်တွင် အနောက်သို့ စက်တော်ဦး ပြု၍ လက်ဝဲစက်တော်ရာ ရှိသည်ဟူ၍ သီဟိုဠ်ရောက် စာငယ်များတွင် လာသည်။

❖❖❖❖❖

## ၂၈။ နေ့,မိုး, လ,ကြယ်၊ရောင်ခြည်သွယ်၊ ဘယ်သည့်ရုပ်ဟု ဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နီလံ၊ ပီတကံ၊ လောဟိတကံ၊ ဩဒါတံ၊ ကာလကံ၊ မဉ္ဇိဋ္ဌကံ၊ ဟရိ၊ ဟရိဝဏ္ဏံ၊ အမ္ဗင်္ကုရဝဏ္ဏံ၊ ဒီဃံ၊ ရဿံ၊ အဏုံ၊ ထူလံ၊ ဝဋ္ဋံ၊ ပရိမဏ္ဍလံ၊ စတုရံသံ၊ ဆဠံသံ၊ အဋ္ဌံသံ၊ သောဠသံသံ၊ နိန္နံ၊ထလံ၊ ဆာယာ၊ အာတပေါ၊

**အာလောကော၊ အန္ဓကာရော၊ အဗ္ဘာ၊ မဟိကာ၊ ဓူမော၊ ရဇော၊ စန္ဒမဏ္ဍလဿဝဏ္ဏနိဘာ၊ သူရိယ မဏ္ဍလဿဝဏ္ဏနိဘာ၊ တာရကရူပါနံ ဝဏ္ဏနိဘာ၊ အာဒါသမဏ္ဍလဿ ဝဏ္ဏနိဘာ၊ မဏိသင်္ခမုတ္တဝေဠုရိယဿ ဝဏ္ဏနိဘာ။**

ဟူ၍ ဓမ္မသင်္ဂဏီပါဠိတော်၌ အညို၊ အရွှေ၊ အနီ၊ အဖြူ၊ အနက်၊ အမောင်း၊ အစိမ်း၊အနုမ်း သရက်ညွန့်အဆင်း၊ အရှည်၊ အတို၊ အငယ်၊ အကြီး၊ အလုံး အဝန်း၊ လေးမြှောင့်၊ ခြောက်မြှောင့်၊ ရှစ်မြှောင့်၊ တစ်ဆယ့်ခြောက်မြှောင့်၊ ကုန်း၊ ကျင်း၊ အရိပ်၊ နေပူ၊ အလင်း၊ အမိုက်၊ တိမ်တိုက်၊ ဆီးနှင်း၊ အခိုးမြူ၊ လဝန်း၏အရောင်၊ နေဝန်း၏ အရောင်၊ နက္ခတ်တို့၏ အရောင်၊ ကြေးမုံဝန်း၏ အရောင်၊ မြ၊ ခရုသင်း၊ ပုလဲ၊ ကြောင် မျက်ရွဲ၏ အရောင်တို့သည် ရူပါယတနချည်း ဖြစ်သည်ဟူ၍ ဟောတော်မူသောကြောင့် မီးရောင်ကိုလည်း တိုက်ရိုက်မပါသော်လည်း တူရာသွင်းသဖြင့် ရူပါယတန၊ ရူပ ဓာတ်ပင်ဟု ဆိုအပ်သတည်း။

❖❖❖❖❖

## ၂၉။ ဆီမီးတောက်ငယ်၊စေတီလယ်၊ ဘယ်မျှ ကလာပ်ရှိသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဆီမီးတောက်၏အရောင်ဖြင့် ဟပ်၍ ရွှေစေတီ၏ အရောင်တောက်ပသည်။ ထိုတောက်ပသော အလျှံအရောင်၌ ဘယ်မျှ ကလာပ်ရှိသနည်းဟု မေးလိုသည်။ စေတီ၏အရောင်ဖြစ်သော ရူပါယတန၌ သုဒ္ဓဋ္ဌ ကကလာပ်၊ မီးရောင်ဖြစ်သော ရူပါယတန၌လည်း သုဒ္ဓဋ္ဌကကလာပ် ဤနှစ်ပါး ရောစပ် ခြင်းကြောင့် အရောင်ဖြစ်ရကား ၈-ပါးကိုတည်၊ ၈-ခုဖြင့်မြှောက်။ ၆၄-ခုဖြစ်၏။ထို ၆၄-ပါးသော ရုပ်အစုသည် တစ်ခုသော ဝဏ္ဏာယတနရုပ်ကလာပ် ဖြစ်ပြန်၏။ ထိုကလာပ်သည် စို့သက်တံရေးကဲ့သို့ အသီးအခြားမရအပ်။ မူလ ကလာပ်ကိုသာ စွဲ၍ဖြစ်၏။ ထို့ကြောင့် ဥတုဇဝတ္ထုနှစ်ရပ် စပ်၍ဖြစ်သောအရောင်၌ ရုပ်ပေါင်း ၆၄-ပါးရှိ၏။ ထို့ကြောင့် အဘိဓမ္မာဂဏ္ဌိ၌-

**"ဒွိန္နံ တိဏ္ဏံ ဗဟူနံ ဝါ ဝဏ္ဏနိဘာနံ မိဿေတွာ နိစ္စရဏောဘာသေ ဟေဋ္ဌိမန္တေန စတုသဋ္ဌိရူပါနိ ပါဠိကင်္ခိ တဗ္ဗာနိ"**ဟု မိန့်၏။

**အနက်ကား-** ဒွိန္နံ ဝါ၊ နှစ်ပါးလည်းဖြစ်ကုန်သော။ တိဏ္ဏံ ဝါ၊ သုံးပါးလည်း ဖြစ်ကုန်သော။ ဗဟူနံ ဝါ၊ များစွာလည်း ဖြစ်ကုန်သော။ ဝဏ္ဏနိဘာနံ၊ အရောင်တို့ကို။ မိဿေတွာ၊ ရော၍။ နိစ္စရဏောဘာသေ၊ ပြိုးပြိုးပြက်ထွက်သော အရောင်၌။ ဟေဋ္ဌိမန္တေန၊ အောက်ဆုံးအဖို့အားဖြင့်။ စတုသဋ္ဌိရူပါနိ၊ ၆၄-ပါးသောရုပ်တို့ကို။ ပါဠိကင်္ခိ တဗ္ဗာနိ၊ အလိုရှိအပ်ကုန်၏။ သုံးပါးဟပ်မူ အဋ္ဌကလာပ်တစ်ခုကိုတည်၊ ၈-ခု နှစ်ကြိမ်မြှောက်။ အများဟပ်မူ ဝတ္ထုအရေအတွက်နှင့် မြှောက်၍ရုပ်ပေါင်းကို ယူရမည်။

❖❖❖❖❖

## ၃၀။ လက္ခဏာယာဉ်ဝယ်၊ မဝင်ဖွယ်၊ဘယ်ဒေသနာ ကြွင်းသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဗုဒ္ဓါနံ ဓမ္မဒေသနာ နာမ တိလက္ခဏ မုတ္တာ နာမ နတ္ထိ။ ဗုဒ္ဓါနံ၊ ဘုရားသခင်တို့၏။ ဓမ္မဒေသနာ နာမ၊ တရားဒေသနာ မည်သည်ကား။ တိလက္ခဏမုတ္တာ နာမ၊ လက္ခဏာယာဉ် သုံးပါးမှ လွတ်သောမည်သည်။ နတ္ထိ၊ မရှိ၊ ဤသို့ဗုဒ္ဓဝင်အဋ္ဌကထာ သုတ်မဟာဝါ အဋ္ဌကထာတို့၌ လာသောကြောင့် လက္ခဏာယာဉ် သုံးပါးသို့မဝင်သော ဒေသနာမည်သည် မရှိဟု ဆိုအပ်၏။

❖❖❖❖❖

## ၃၁။ မိဂဒါလယ်၊တောရပ်ဝယ်၊ ဘယ်သူဆောက်သည့် ကျောင်းပေနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**''ဗာရာဏသိယံ ကောေ နန္ဒိယော နာမ ဥပါသကော အဟောသိ သဒ္ဓေါ ပသန္နော။ သောသတ္ထု အာဝါသာနိသံသကထံ သုတွာ ဣသိပတန မဟာဝနေ စတုဂဗ္ဘပ္ပဋိမဏ္ဍိတံ စတုဿာလံ ကာရေတွာ မဉ္စပီဌာဒီနိ အတ္ထရာပေတွာ တံ အာဝါသံ နိယျာတေန္တော ဗုဒ္ဓပ္ပမုခဿ သံဃဿ ဘောဇနေဒါနံ ဒတွာ သတ္ထု ဟတ္ထေ ဥဒကံ ပါတေတွာ နိယျာတေတိ''**

ဟူ၍ ဝိမာနဝတ္ထု အဋ္ဌကထာ ၂၀၄။ မင်္ဂလတ္ထ ဒီပနီဋီကာတို့၌လာသည်။

**အဓိပ္ပါယ်ကား**-ဗာရာဏသီပြည်၌ သဒ္ဓါတရားနှင့် ပြည့်စုံစွာသော ရတနာ သုံးပါးကို ကြည်ညိုသော နန္ဒိယအမည်ရှိသော ဥပါသကာတစ်ယောက်သည်ရှိ၏။ ထိုနန္ဒိယသည် ဘုရားသခင်ဟောသော ကျောင်း၏အကျိုးစကားကို ကြားနာရ၍ ဣသိပတနမည်သော တောအုပ်ကြီး၌ တိုက်လေးခုတို့ဖြင့် တန်ဆာဆင်အပ်သော ကျောင်းလေးဆင့်ကိုဆောက်၍ ညောင်စောင်း အင်းပျဉ်စသည်တို့ကို ခင်းစေ၍ ထိုကျောင်းကို ဘုရားအမှူးရှိသော သံဃာတော်အား ဆွမ်းကျွေးပြီးမှ ဘုရားလက်၌ ရေစက်ချ၍ လှူဒါန်းသတည်း။

❖❖❖❖❖

## ၃၂။ ယောက်ျားဝမ်းဝယ်၊သန္ဓေလွယ်၊ဘယ်ပြု မီးမနေသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ယောက်ျားတို့၌ ကိုယ်ဝန်တည်ရာ သားအိမ်မပါခြင်း၊ ဥတုမလာခြင်း၊ သုက်သွေးမကပ်ငြိခြင်းဟူသော အကြောင်း သုံးပါးကြောင့် ကိုယ်ဝန်မတည် မီးမနေဟူပေ။ မိန်းမတို့၌ကား ဤအကြောင်းသုံးပါး ပြည့်စုံလေသောကြောင့် မီးနေရသတည်း။ အဘယ်ကိုထောက်၍ သိရသနည်းဟူမူကား- သဠာယတနသံယုတ်၌ ဟောတော်မူအပ်သော အာဝေဏိက ဒုက္ခ ငါးပါးကို ထောက်၍ သိအပ်၏။

6
A

ပါဠိတော်ကား–

ပဉ္စိမာနိဘိက္ခဝေ မာတုဂါမဿ အာဝေဏိကာနိ ဒုက္ခာနိ၊ ယာနိ မာတုဂါမော ပစ္စနုဘောတိ အညတြေဝ ပုရိသေဟိ။ ကတမာနိ ပဉ္စ ။ဣဓ ဘိက္ခဝေ မာတုဂါမော ဒဟရောဝ သမာနော ပတိကုလံ ဂစ္ဆတိ၊ ဉာတကေဟိ ဝိနာ ဟောတိ။ ဣဒံ ဘိက္ခဝေ မာတုဂါမဿ ပဌမံ အာဝေဏိကံ ဒုက္ခံ၊ ယံ မာတုဂါမော ပစ္စနုဘောတိ အညတြေဝ ပုရိသေဟိ။ ပုနစ ပရံ ဘိက္ခဝေ မာတုဂါမော ဥတုနီ ဟောတိ။ ဣဒံ ဘိက္ခဝေ မာတုဂါမဿ ဒုတိယံ အာဝေဏိကံ ဒုက္ခံ၊ ယံ မာတုဂါမော ပစ္စနုဘောတိ အညတြေဝ ပုရိသေဟိ ပုနစ ပရံ ဘိက္ခဝေ မာတုဂါမော ဂဗ္ဘိနီ ဟောတိ၊ ဣဒံ ဘိက္ခဝေ မာတုဂါမဿ တတိယံ အာဝေဏိကံ ဒုက္ခံ၊ ယံ မာတုဂါမော ပစ္စနုဘောတိ အညတြေဝ ပုရိသေဟိ။ ပုန စ ပရံ ဘိက္ခဝေ မာတုဂါမော ဝိဇာယတိ။ ဣဒံ ဘိက္ခဝေ မာတုဂါမဿ စတုတ္ထံ အာဝေဏိကံ ဒုက္ခံ၊ ယံ မာတုဂါမော ပစ္စနုဘောတိ အညတြေဝ ပုရိသေဟိ။ ပုန စ ပရံ ဘိက္ခဝေ၊ မာတုဂါမော ပုရိသဿ ပါရိစရိယံ ဥပေတိ၊ ဣဒံ ဘိက္ခဝေ မာတုဂါမဿ ပဉ္စမံ အာဝေဏိကံ ဒုက္ခံ ယံ မာတုဂါမော ပစ္စနုဘောတိ အညတြေဝ ပုရိသေဟိ။ ဣမာနိ ခေါ ဘိက္ခဝေ ပဉ္စ မာတုဂါမဿ အာဝေဏိကာနိ ဒုက္ခာနိ၊ ယာနိ မာတုဂါမော ပစ္စနုဘောတိ အညတြေဝ ပုရိသေဟီတိ။ (သံ၊ ၂၊၄၃၆)

**အနက်ကား**– ဘိက္ခဝေ၊ ရဟန်းတို့။ မာတုဂါမဿ၊ မိန်းမအား။ အာဝေဏိကာနိ၊ အသီးဖြစ်ကုန်သော။ ဒုက္ခာနိ၊ ဆင်းရဲတို့သည်။ ဣမာနိ ပဉ္စ၊ ဤငါးပါးတို့တည်း။ ယာနိ၊ အကြင်ငါးပါးသော ဆင်းရဲတို့ကို။ ပုရိသေဟိ၊ ယောကျာ်းတို့ကို။ အညတြေဝ၊ ကြဉ်၍ သာလျှင်။ မာတုဂါမော၊ မိန်းမသည်။ ပစ္စနုဘောတိ၊ ခံစားရ၏။ ကတမာနိ ပဉ္စ၊ အဘယ်ငါးပါးတို့နည်း ဟူမူကား။ ဘိက္ခဝေ၊ ရဟန်းတို့။ ဣဓ၊ ဤလောက၌။ မာတုဂါမော၊ မိန်းမသည်။ ဒဟရောဝ သမာနော၊ စည်းစိမ်ချမ်းသာရှိသူ ဖြစ်သော်လည်း။ ပတိကုလံ၊ လင်၏အိမ်သို့။ ဂစ္ဆတိ၊ လိုက်ရ၏။ ဉာတကေဟိ၊ မိမိ၏ ဆွေမျိုး မိဘတို့နှင့်။ ဝိနာ၊ ကွေကွင်းရ ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ဘိက္ခဝေ၊ ရဟန်းတို့။ ဣဒံ၊ ဤလင်၏ အိမ်သို့ လိုက်ရခြင်းသည်။ မာတုဂါမဿ၊ မိန်းမ၏။ ပဌမံ၊ ရှေးဦးစွာသော။ အာဝေဏိကံ ဒုက္ခံ၊ အသီးဖြစ်သော ဆင်းရဲတည်း။ ယံ ဒုက္ခံ၊ အကြင်ဆင်းရဲကို။ ပုရိသေဟိ၊ ယောကျာ်း တို့ကို။ အညတြ၊ ကြဉ်၍။ မာတုဂါမောဝ၊ မိန်းမသည် သာလျှင်။ ပစ္စနုဘောတိ၊ ခံစားရ၏။ ဘိက္ခဝေ၊ ရဟန်းတို့။ ပုန စ၊ တစ်ဖန်လည်း။ အပရံ၊ တစ်းပါးတုံ။ မာတုဂါမော၊ မိန်းမသည်။ ဥတုနီ၊ အရွယ်သင့်ခါ ဥတုလာခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ဘိက္ခဝေ၊ ရဟန်းတို့။ ဣဒံ၊ ဤဥတုလာခြင်း ဆင်းရဲခြင်းသည်။ 16

B

မာတုဂါမဿ၊ မိန်းမ၏။ ဒုတိယံ၊ နှစ်ခုမြောက်သော။ အာပေတ္တိကံ ဒုက္ကဋံ။ အသီးဖြစ်သော ဆင်းရဲတည်း။ ။ပ။ ဘိက္ခဝေ၊ ရဟန်းတို့။ ပုန စ ပရံ၊ ထိုမှ တစ်ပါးလည်း။ မာတုဂါမော၊ မိန်းမသည်။ ဂဗ္ဘိနီ၊ သားသူငယ်ကို လွယ်ပိုက်ရသည်။ ဟောတိ၊ ဖြစ်၏။ ဘိက္ခဝေ၊ ရဟန်းတို့။ ဣဒံ၊ ဤကိုယ်ဝန် ဆောင်ရခြင်းသည်။ မာတုဂါမဿ၊ မိန်းမ၏။ တတိယံ၊ သုံးခုမြောက်သော။ အာပေတ္တိကံ ဒုက္ကဋံ၊ အသီးဖြစ်သော ဆင်းရဲတည်း။ ပ။ ဘိက္ခဝေ၊ ရဟန်းတို့။ ပုန စ ပရံ၊ ထိုမှ တစ်ပါးလည်း။ မာတုဂါမော၊ မိန်းမသည်။ ဝိဇာယတိ၊ မိန်းမောတွေဝေ သေလုနီးမျှ သားဖွားရ၏။ ဘိက္ခဝေ၊ ရဟန်းတို့။ ဣဒံ၊ ဤသားဖွား ရခြင်းသည်။ မာတုဂါမဿ၊ မိန်းမ၏။ စတုတ္ထံ၊ လေးခုမြောက်သော။ အာပေတ္တိကံ ဒုက္ကဋံ၊ အသီးဖြစ်သော ဆင်းရဲတည်း။ ။ပ။ ဘိက္ခဝေ၊ ရဟန်းတို့။ ပုန စ ပရံ၊ ထိုမှ တစ်ပါးလည်း။ မာတုဂါမော၊ မိန်းမသည်။ ပုရိသဿ၊ ယောကျ်ားအား။ ပါရိစရိယံ၊ ရှိသေ မြှတ်လေး လုပ်ကျွေးပြုစုရခြင်းသို့။ ဥပေတိ၊ ကပ်ရောက်ရ၏။ ဘိက္ခဝေ၊ ရဟန်းတို့။ ဣဒံ၊ ဤသို့ လုပ်ကျွေးရခြင်းသည်။ မာတုဂါမဿ၊ မိန်းမ၏။ ပဉ္စမံ၊ ငါးခုမြောက်သော။ အာပေတ္တိကံ ဒုက္ကဋံ၊ အသီးဖြစ်သော ဆင်းရဲတည်း။ ပ။ ဤသို့ ဟောတော်မူသည်ကို ထောက်၍ သိရာ၏။

ထိုပါဠ်၌ ဒုက္ခငါးပါးသည် ယောကျ်ားတို့၌မဖြစ် မိန်းမတို့၌ သာလျှင် ဖြစ်၏ဟု ဟောတော်မူသည်။

ယောကျ်ား သန္ဓေမနေခြင်းအကြောင်းကို မဟောတကားဟု ဆိုငြားအံ့- မိန်းမတို့၌ ဥတုလာကြောင်းကိုဆိုသဖြင့် ထိုဥတု၏ဖြစ်ရာ သန္ဓေအိမ်ရှိကြောင်းကိုလည်း ပြသည် မည်၏။ ထိုအကြောင်းနှစ်ပါးသည် သန္ဓေယူနိုင်ကြောင်း ဖြစ်ရကား ထိုနှစ်ပါး၏ မရှိခြင်းသည် သန္ဓေမယူနိုင်ခြင်း၏အကြောင်း ဖြစ်သည်ဟု ဗျတိရေက နည်းအားဖြင့် သိအပ်သတည်း။

❖❖❖❖❖

## ၃၃။ နှစ်ရာကျော်ကယ်၊ စွန်းလေးဆယ်၊ ဘယ့်နှယ်နို့ထိန်းတိုက်လိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- တစ်နေ့နှင့်တစ်ညဉ့်သော် နာရီ ၆၀ ရှိသည်။ တစ်နာရီသော် နို့ထိန်း ၄ ယောက်စီ အလှည့်အလည် စောင့်ရှောက် ထိန်းသိမ်းရသည် ဖြစ်ရကား ၆၀-ကိုတည်၍ ၄ယောက်နှင့်မြှောက် သဖြင့် နှစ်ရာ့ လေးကျိပ်ဖြစ်၏။

ဤကိုရည်၍-တေမိဇာတ်၌''စတုသဋ္ဌိဓာတိယော''ဟုဆိုသတည်း။ စတုသဋ္ဌိ ဓာတိယော၊ နှစ်ရာ့လေးကျိပ်သော နို့ထိန်းတို့ကို။ အဒါသိ၊ ပေး၏။ ''စတူဟိ ဂုဏိတာ သဋ္ဌိ စတုသဋ္ဌိ''ဟု ဝိဂြိုဟ်ပြုလေ။

❖❖❖❖❖

## ၃၄။ တခြားကျွန်းဝယ်၊ တို့ကျွန်းနှယ်၊ အိုင်ကျယ်နောတတ်ရှိလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ငါတို့ကျွန်း၌ အနောတတ် အိုင်ရှိသကဲ့သို့ အခြားကျွန်း၌ရှိကြောင်းကို ကျမ်းဂန်မလာ။

❖❖❖❖❖

## ၃၅။ ဘုရားဘုန်းကြွယ်၊ ကိုယ်တော်ဝယ်၊ ရှစ်ဆယ်ပိုးမျိုးရှိလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဘုရားဖြစ်ခါနီး ဆင်ခြင်တော်မူသော မူလကမ္မဋ္ဌာန်း၌ ကိုယ်တော်တွင် ရှိသမျှ ကောဋ္ဌာသကို ဆင်ခြင်ရာ ပိုးမျိုး ရှစ်ဆယ်ကို အမည် နေရပ်နှင့်တကွ ဆင်ခြင်တော်မူသည်ဟု လာသောကြောင့် လည်းကောင်း၊ ပါရာဇိကဏ်ပါဠိတော်၌ အင်္ဂဇာတ် ခိုင်မာခြင်း၏ အကြောင်းငါးပါးကို ဟောရာဝယ်–ရာဂူပတ္ထမ္ဘ၊ ရာဂကြောင့် ခိုင်မာခြင်း။ ပဿာဝူပတ္ထမ္ဘ၊ ကျင်ငယ် သွားလို သောကြောင့် ခိုင်မာခြင်း။ ဝစ္စူပတ္ထမ္ဘ၊ ကျင်ကြီးသွားလိုသောကြောင့် ခိုင်မာခြင်း။ ဝါတူပတ္ထမ္ဘ၊ လေခတ်သောကြောင့် ခိုင်မာခြင်း။ ဥစ္စလိင်္ဂပါဏက ဒဋ္ဌူပတ္ထမ္ဘ၊ အမွေးများစွာသော ပိုးခဲသောကြောင့် ခိုင်မာခြင်း။ ဤငါးပါးတွင် ရှေးဦးစွာသော ရာဂူပတ္ထမ္ဘတစ်ပါးသာ ရဟန္တာတို့၌ မရှိသည်။ အကြွင်းလေးပါးကားရှိ၏ဟူ၍ လာသောကြောင့်လည်းကောင်း ဘုရားရဟန္တာတို့၌ ပိုးမျိုးရှစ်ဆယ်ရှိသေး၏ဟုသိရာ၏။

❖❖❖❖❖

## ၃၆။ ကိရိယာခြောက်ဆယ်၊ အသွယ်သွယ်၊ အဘယ်ကျမ်းကထွက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကိရိယာ ၆ဝ ဆိုသည်မှာ ပိဋကတ်၌လာသော ''ဂစ္ဆတိ၊ ဂစ္ဆန္တိ'' အစရှိသော အာချာတ်ကိရိယာ။ ''ကတံ၊ ပြုအပ်၏။ ဂတော၊ သွား၏။ ဘုတ္တော၊ စား၏'' ဤသို့အစရှိသော ကိတ်ကိရိယာ တို့ကို ရည်၍မဆို။ မြန်မာ့အမူ ရတု ကဗျာတို့၌ အဆုံးသတ်ရာ ချရာသည်ကိုသာ ရည်၍ ဆိုသည်။

ထိုကိရိယာ ၆ဝ–သည် အဘယ်ကျမ်းက ထွက်သနည်း–ဟုမေးရာ၌ လင်္ကာ ကဗျာတို့၌ ဂိုဏ်းရွေးရာ သည်ကိုပြသော ကဝိကဏ္ဌပါသကျမ်းက ထွက်၏ဟူပေ။ ၎င်းကျမ်း၌ ကိရိယာကို ၆၄–လုံးဟုဆိုသည်။ ဤ၌ လင်္ကာဖြစ်၍ စကားပြေဖြစ် စိမ့်သောငှာ အစွန်း၄–လုံးကို မယူဘဲ ကိရိယာ ၆ဝ–ဟူ၍သာ စပ်လေသည်။

သာသနာတော် ၂၂၉၅–ခု၊ သက္ကရာဇ် ၁၁၁၃–ခု၊ ဟံသာဝတီရောက် မင်းတရားကြီး လက်ထက်တော်၌ ရွှေတောင် ရာဇကျော်ဆိုသော သတ်ပုံတွင်လည်း ''ရတုချဖွယ်၊ အသွယ်သွယ်၊ ခြောက်ဆယ်ကိရိယာ''ဟူ၍ စပ်ဆိုသည်။ ၆၄–လုံး

ဖြစ်ဟန်ကား–အကာရန္တာဒိ ၃–လုံး။ ဣကာရန္တာဒိ ၃–လုံး။ ဥကာရန္တာဒိ ၃–လုံး။ ဧကာရန္တာဒိ ၃–လုံး။ အဲကာရန္တာဒိ ၃–လုံး။ ဩကာရန္တာဒိ ၃–လုံး။ အက်ကာရန္တာဒိ ၃–လုံး။ အင်ကာရန္တာဒိ ၉–လုံး။ အစ်ကာရန္တာဒိ –၁လုံး။ ဖွင့်၍ ရွတ်အပ်သော ညသတ် အည်ကာရန္တာဒိ ၃–လုံး။ ပိတ်၍ရွတ်အပ်သော ဉ သတ် အဉ်ကာရန္တာဒိ ၃–လုံး။ တသတ်အတ်ကာရန္တာဒိ ၃–လုံး။ နသတ် အန်ကာရန္တာဒိ ၉–လုံး။ ပသတ် အပ်ကာရန္တာဒိ ၃–လုံး။ မသတ် အမ်ကာရန္တာဒိ ၉–လုံး။ အိုကာရန္တာဒိ ၃–လုံးအားဖြင့် ဤအလုံးစုံသော ကာရန် ၁၆–ရပ်ကို ပေါင်းသော် ၆၄–လုံး ရသတည်း။ သေးသေးတင်နှင့် မသတ်သည် သဘောတူဖြစ်သောကြောင့် အံကာရန္တာဒိ ၉–လုံးကို အသီး မယူသည်။ ယသတ်နှင့်နောက်ပစ်လည်း သဘောတူဖြစ်၍ အယ်ကာရန္တာဒိ ၃–လုံးကို မယူသည်။

ထိုကာရန် ၁၆–ရပ်တို့တွင် အကာရန္တာဒိ ၃–လုံး ဟူသည်ကား။ အ၊ အာ၊ အား။ ဟူသည်တည်း။ ဣကာရန္တာဒိ ၃–လုံးဟူသည်ကား အိ၊ အီ၊ အီး။ ဟူသည်တည်း။ ဥကာရန္တာဒိ ၃–လုံးဟူသည်ကား။ ဥ ၊ ဦ၊ ဦး။ ဟူသည်တည်း။ ။ ဧကာရန္တာဒိ ၃–လုံးဟူသည်ကား။ အေ့၊ အေ၊ အေး။ ဟူသည်တည်း။ အဲကာရန္တာဒိ ၃–လုံးဟူသည်ကား။ အဲ့၊ အဲ၊အဲး။ ဟူသည်တည်း။ ဩကာရန္တာဒိ ၃–လုံးဟူသည်ကား။ အော့၊ အော်၊အော။ ဟူသည်တည်း။ အက် ကာရန္တာဒိ ၃–လုံးဟူသည်ကား။ အက်၊ အောက်၊ အိုက် ဟူသည်တည်း။ အင်ကာရန္တာဒိ ၉–လုံးဟူသည်ကား။ အင့်၊အင်၊ အင်း။ အောင့်၊ အောင်၊အောင်း။ အိုင့်၊အိုင်၊ အိုင်း။ ဟူသည်တည်း။ အစ်ကာရာန္တာဒိ ၁–လုံးဟူသည်ကား။ စသတ်တစ်လုံးသာတည်း။ ဖွင့်၍ ရွတ်အပ်သော အည် ကာရန္တာဒိ ၃–လုံးဟူသည်ကား။ အည့်၊ အည်၊အည်း။ ဟူသည်တည်း။ ပိတ်၍ရွတ်အပ်သော အဉ်ကာရန္တာဒိ ၃–လုံးဟူသည်ကား။ အဉ့်၊ အဉ်၊ အဉ်း။ ဟူသည်တည်း။ တသတ် အတ်ကာရန္တာဒိ ၃–လုံးဟူသည်ကား။ အတ်၊ အိတ်၊ အုတ်။ ဟူသည်တည်း။ နသတ် အန်ကာရန္တာဒိ ၉–လုံးဟူသည်ကား။ အန့်၊အန်၊အန်း။ အိန့်၊ အိန်၊အိန်း။ အုန့်၊ အုန်၊ အုန်း။ ဟူသည်တည်း။ ပသတ် အပ် ကာရန္တာဒိ ၃–လုံးဟူသည်ကား။ အပ်၊ အိပ်၊ အု ၂။ ဟူသည်တည်း။ မသတ် အမ်ကာရန္တာဒိ ၉–လုံး ဟူသည်ကား။ အမ့်၊ အမ်၊ အမ်း။ အိမ့်၊ အိမ်၊ အိမ်း။ အုမ့်၊ အုမ်၊ အုမ်း။ ဟူသည်တည်း။ အိုကာရန္တာဒိ ၃–လုံးဟူသည်ကား။ အို့၊ အို၊ အိုး။ ဟူသည်တည်း။

ဤ ၁၆–ရပ်သော ကာရန်တို့တွင် အ ကာရန်ဖြင့် ရတု ချနည်းကား။ စိတ်ဇော ကြည်ဝမ်း၊ မြတ်ရာလှမ်းသည်၊ ရေချမ်းသွန်းကြ သည်ကာလ။ ဗျာပါ လည်းကောင်း၊ ထပ်ပြန်လောင်းသည်၊ ချမ်းဆောင်းဟေမ ရှည်ကြာရ။ မှတ်ရည် လျက်ပေ၊ လွမ်းလျက် နေသည်၊ သရေခေတ္တ ပြည်သာက။ ဤကား အ ကာရန်နှင့် ယှဉ်၍ ချသောကိရိယာ။ **မင်းနဝဒေးဆို။**

သံချို့ထွေပြား၊ ပေးလိုက်ကြားသည်၊ ဆောင်းပါးလင်္ကာ ဘမင်းစာ။ ။ ပုံချ နည်းညွှန်း၊ နှုတ်ရောင်ထွန်းသည်၊ တက်ဆန်းပမာ လနှယ်သာ။ ။ ထိုဟန်မယွက်၊ စီးပွားတက်သည်၊ တောင်ထက်အသာ ဆမြင့်ရာ။ ။ ဤကား အာကာရန်နှင့် ယှဉ်၍ ချသော ကိရိယာ။ **ဘိုးခေါင်မင်းစာ။**

ကျစ်လျစ်စေ့စုံ၊ စေမှုကုံသည်၊ ကျွန်ယုံကျေးသား။ တင့်လေ့နား။ ။ နောင့်ချည်း စုံမက်၊ မခေါ်ရက်သည်၊ သည့်ထက်ဆပွား ကြင်သောအား။ ။ မည်သူမပေါ်၊ ပြည့်တတ် ကျော်သည်၊ ရှင်တော်တကား ရှင်တော်စား။ ။ ဤကား အား–အက္ခရာနှင့် ယှဉ်၍ ချသော ကိရိယာ။ **ထောင်သင်းမှူးစာ။**

**ဤကိုမှီး၍ ကြွင်းသော ကိရိယာတို့ကိုလည်း သိအပ်သတည်း။**

ထိုကာရန် ကိရိယာတို့နှင့်ယှဉ်၍ ချရာသော ဗျည်းကား အ–အက္ခရာကို လုပ်၍ ၃၂–လုံးတည်း။ ထိုတွင် ယယှဉ်သင့်သော ဗျည်း ၁၀–လုံး။ ဝ–ယှဉ်သင့်သော ဗျည်း –၃၁ လုံး၊ ယ–ဝ အစုံယှဉ်သင့်သော ဗျည်း ၁၀–လုံး။ ဟ ယှဉ်သင့်သော ဗျည်း –၉လုံး။ ယ ဟ ယှဉ်သင့်သော ဗျည်း ၂–လုံးအားဖြင့် ဤအပြားကိုပင် ယထာရဟ ယှဉ်ဖက်ရာ၏။

❖❖❖❖❖

## ၃၇။ သာသနာဝယ်၊ စိုးဆက်နွယ်၊ ဘယ်မျှ မင်းပေါင်းရှိပြီနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မဇ္ဈိမဒေသတိုက်တွင် သာသနာတော် တည်သည်မှစ၍ ပြုကြသော မင်းဆက်ကို ရှေးဦးစ၍ပြဆိုပေအံ့–။

**"ပရိနိဗ္ဗုတေ စ သမ္ဗုဒ္ဓေ အဇာတသတ္တု**

**စတုဝီသတိဝဿာနိ ရဇ္ဇံ ကာရေသိ"**

အစရှိသည်ဖြင့် ပါရာဇိကဏ် အဋ္ဌကထာ နိဒါန်း၌လာသော အဓိပ္ပါယ်ကား– သဗ္ဗညုဘုရား ပရိနိဗ္ဗာန်စံယူတော်မူသည့်နောက် ရာဇဂြိုဟ်ပြည်၌ အဇာတသတ် မင်းသည် ၂၄–နှစ်၊ ၎င်းသား ဥဒ္ဒယဘဒ္ဒမင်းသည် ၁၆–နှစ်၊ ၎င်းသား အနုရုဒ္ဓါမင်းနှင့် ၎င်းသား မုဏ္ဍမင်း ၄–နှစ်စီ၊ ၎င်းသား နာဂဒါသမင်း ၂၄–နှစ်၊ ၎င်းနောက် လိစ္ဆဝီမင်းရိုးဖြစ်သော သုသုနာဂမင်း ၁၈–နှစ်၊ ၎င်းသား ကာလာသောကမင်း ၂၈–နှစ်၊ ထို့နောက် ညီနောင် တစ်ကျိပ်တို့ ၂၂–နှစ်၊ ထို့နောက် နန္ဒာ ၉–ယောက်တို့ ၂၂–နှစ်၊ ထို့နောက် စန္ဒဂုတ္တမင်း ၂၄–နှစ်၊ ၎င်းသား ဗိန္ဒုသာရမင်း ၂၈–နှစ်၊ ၎င်းသား သီရိဓမ္မာသောကမင်း အဘိသိက်မခံမီ ၄–နှစ်၊ အဘိသိက်ခံပြီးနောက် ၁၈–နှစ်၊ ဤ ၂၃၆–နှစ်ကား မဇ္ဈိမဒေသ၌ လာသော သာသနာစောင့်မင်းတို့တည်း။

မြန်မာတို့တိုင်း၌ကား– ဘုရား ပရိနိဗ္ဗာန်စံယူတော်မူပြီးနောက် သာသနာတော် သက္ကရာဇ် အနှစ် ၆၀–ရှိသောအခါ တကောင်းမင်းကြီး၏ သားတော် မဟာသမ္ဘဝ

မင်းသည် သရေခေတ္တရာပြည် တည်ရာအရပ်နှင့် အနီးဖြစ်သော သကျအင်းတွင် ပျူအပေါင်းကို အုပ်စိုး၍ ၆–နှစ် မင်းပြုသည်။ ၎င်းနောက် စူဠသမ္ဘဝ ၃၅–နှစ် မင်းပြုသည်။

သာသနာတော်သက္ကရာဇ် ၁၀၁–ခုသို့ရောက်သောအခါ– မင်းနှစ်ပါး၏ သားဖြစ်သော ဒွတ္တပေါင်မင်းသည် တန်ခူးလဆန်း ၁၀–ရက်၊ တနင်္ဂနွေနေ့တွင် သရေခေတ္တရာမြို့ကို တည်၍ မင်းပြုသည်။ နှစ်ပေါင်း ၇၀။ ၎င်းသား ဒွတ္တရန်မင်း ၂၂–နှစ်။ ၎င်းသား ရန်ဘောင်မင်း အနှစ် ၅၀။ ၎င်းသား ရန်မန်မင်း အနှစ် ၅၀။ ၎င်းသား ရက္ခန်မင်း ၃၁–နှစ်။ ၎င်းသား ခန်လောင်းမင်း ၃၈–နှစ်။ ၎င်းညီ လက်ခိုင်မင်း ၃၄–နှစ်။ ၎င်းနောက် သီရိခန်မင်း ၂၈–နှစ်။ ၎င်းသား သီရိရာဇ်မင်း ၉–နှစ် မင်းပြု၏။ ။ ထိုသီရိရာဇ်မင်း လက်ထက် သက္ကရာဇ် ၄၃၃–ခု ရောက်ပြီဖြစ်၍ သက္ကရာဇ်ကိုဖြိုသည်။ မပြိုလေ။ ဤ ၉–ဆက်ကား တစ်ရိုးတစ်မျိုးတည်း။

သာသနာ သက္ကရာဇ် ၄၃၃–တွင် သီရိရာဇ်မင်း၏သမက် တေပါး မင်းပြု၏။ စည်းစိမ် ၅၁–နှစ်။ ထို့နောင် သားတော် ပါပိရန်မင်း ၆၆–နှစ်။ ၎င်းသား ရန်မုက္ခမင်း ၁၅–နှစ်။ ၎င်းသား ရန်သိခ်မင်း–၃နှစ်။ ၎င်းသား ရန်မုဋ္ဌလိန္ဒမင်း ၁၅–နှစ်။ ၎င်းညီ ဘေရိန္ဒမင်း ၁၁–နှစ်။ ၎င်းသား မုဋ္ဌလမင်း ၅–နှစ်။ ၎င်းညီ ပုဏ္ဏာမင်း ၃–နှစ်။ ၎င်းနောက် သာခမင်း ၃–နှစ်။ ၎င်းနောက် သာသိမင်း ၃–နှစ်။ ၎င်းနောက် ကန္ဒုမင်း ၁–နှစ်။ ၎င်းနောက် ကံတက်မင်း ၃–နှစ်။ ၎င်းနောက် ဘိဇ္ဇမင်း ၄–နှစ်။ ၎င်းနောက် သုမုန္ဒြီမင်း ၇–နှစ်။ ။ ဤသို့ သုမုန္ဒြီမင်း လက်ထက် သက္ကရာဇ် ၆၂၄–ခု ရောက်ပြီဖြစ်၍ အစွန်း ၂–ခုကိုထားလျက် ၆၂၂–ခုသော သက္ကရာဇ်ကို ဒေါဒေါရသ ကိန်းပြု၍ ဖြိုသည်။ ဖြိုးကြွင်းသက္ကရာဇ် ၂–ခုတွင် အတိတျာမင်း ဖြစ်၏။ စည်းစိမ် ၃–နှစ်။ ၎င်းနောက် ညီတော် သုပညာနဂရဆိန္နမင်း–၁၁နှစ်။ ဤအလုံးစုံကို တွက်စစ်၍ သာသနာတော်နှစ် ၆၃၈–တွင် သရေ ခေတ္တရာပြည် ပျက်စီးသည်။ ဤမြို့၌ မင်းဆက် သတ္တာဗီသ။ သာသနာတော် ၆၃၈–ရှိသည်။ သရေခေတ္တရာမြို့ပျက်သည်တွင် ပျူ၊ ကမ်းယံ၊ မြန်မာ ၃–စုကွဲ၍ တစ်စုကို ကျပင်း သူကြီးက ယူလေသည်။ တစ်စုကို သက်တို့ကယူလေသည်။ တစ်စုကိုကား သုပညာနဂရ ဆိန္နမင်း၏ တူတော် သမုဒ္ဒရာဇ် မင်းယူ၍ တောင်ညိုတွင် ၃–နှစ်။ ပန်းတောင်းမြို့တွင် ၆–နှစ်။ မင်းတုန်းမြို့တွင် ၃–နှစ် နေပြီးမှ ဖြိုးကြွင်း သက္ကရာဇ်၂၉–ခု ရောက်သောအခါ ညောင်ဦးနဂါးဘိုစသော ၁၉ ရွာကို ခြံပြီးလျှင် ယုန်လွှတ်ကျွန်း၌ အရိမဒ္ဒနာပေါက္ကာရာမဟု သမိုက်၍ ၄၅–နှစ် မင်းပြု၏။ ၎င်းနောက် ရသေ့ကြောင်မင်း ၁၅–နှစ်။ ၎င်းနောက် ပျူမင်းထီး ၇၅–နှစ်၊ ထီးမင်းယဉ် ၅၇–နှစ်။ ယဉ်မင်းပိုက် ၂၅–နှစ်။ ပိုက်သေလဉ်မင်း ၂၀။ ဤအရိမဒ္ဒနာမြို့၌ မင်း ၆–ဆက်။ နှစ်ပေါင်း ၂၃၇–နှစ်။

သာသနာတော် ၈၈၈–နှစ် သက္ကရာဇ် ၂၆၆–ခုနှစ်တွင်– သေဉ်လည်ကြောင် မင်းဖြစ်၏။ ထိုအခါတည်ရင်း ၁၉–ရွာကိုဖျက်၍ လောကနန္ဒာအရပ်၌ သီရိပစ္စယာ

မည်သောမြို့ကို တည်ထောင်၍ နေ၏။ ရတနာမိုး သုံးကြိမ်ရွာ၏။ မဟာဂီရိနတ်မောင်နှမရောက်၍ ပုပ္ပါးတောင်တွင် ထားလေ၏။ မင်းစည်းစိမ် ၄၄-နှစ်။ ထို့နောင်ကြောင်ဒူရစ်မင်း ၂၅-နှစ်။ သည့်ထန်မင်း ၂၆-နှစ်။ မုက္ခမာန်မင်း ၃-လ။ သူရဲမင်း ၅၅-နှစ်။သာရမွန်မင်း ၁၇-နှစ်။သီရိပစ္စယာမြို့တွင် မင်း ၆-ဆက်၊မြို့သက်၁၆၇-နှစ်။

သာသနာတော် ၁၀၅၅-နှစ်။ သက္ကရာဇ် ၄၃၃-ခုတွင် သိုက်တိုင် မင်းပြု၏။ ဤမင်းသည် သီရိပစ္စယာမြို့မှ ပြောင်း၍ သမထီးအရပ်၍ တမ္ပဝတီမြို့ကို တည်ထောင်၍ နေ၏။ စည်းစိမ် ၇-နှစ်။ ထို့နောင် သေဥ်လည်ကြောင်မင်း ၁၅-နှစ်။ သေဥ်လည်ပိုက်မင်း ၁၅-နှစ်။ ခဲလောင်းမင်း ၁၀-နှစ်။ ခဲလတ်မင်း ၁၂-နှစ်။ ထွန်တိုက်မင်း ၁၃-နှစ်။ ထွန်ပစ်မင်း ၁၆-နှစ်။ ထွန်ခြစ်မင်း ၁၅-နှစ်။ ထို့နောင် ပုပ္ပါးစောရဟန်းမင်း ၂၅-နှစ်။ တမ္ပဝတီမြို့၌ မင်း ၉-ဆက်။ မြို့သက် ၁၂၉-နှစ်တည်း။ ထိုကာလ သာသနာတော် ၁၁၈၄-နှစ်။ ဖြိုးကြွင်းသက္ကရာဇ် ၅၆၂-နှစ် ရှိသည်ဖြစ်၍ အထက်ကိန်းမရောက်ဘဲ ဖြိုခဲ့သော ၁၄၈-သက္ကရာဇ်တစ်ရပ်။ ၆၂၂-သက္ကရာဇ်တစ်ရပ်။ ၅၆၀-သက္ကရာဇ်တစ်ရပ်။ ဤသုံးရပ်ကို စပ်၍ စီမံသော် အလမ္ဗိကကိန်းကျ၍ အစွန်း ၂-ခု ထားလျက် ၅၆၀-သော သက္ကရာဇ်ကို ခဆပဥ္စကိန်းပြု၍ ဖြိုသည်။

၎င်းနောက် သာသနာတော် ၁၁၈၂-ခု။ ဖြိုကြွင်းသက္ကရာဇ် ၂-ခုတွင် ထိုမင်းသမက် ရွှေအုန်းသီး မင်းဖြစ်၏။ နန်းစံ ၁၁-နှစ်။ ၎င်းနောက် ပိသုံမင်း ၈-နှစ်။ ပိတ်တောင်မင်း အနှစ်-၅၀။ မင်းခွေး ၆-နှစ်။ မြင်းကျွေးမင်း ၁၀-နှစ်။ သိခ်မင်း ၈-နှစ်။ သိန်းခွန်မင်း ၁၀-နှစ်။ ရွှေလောင်းမင်း ၉-နှစ်။ ထွန်တွင်းမင်း ၉-နှစ်။ ရွှေမှောက်မင်း ၂၃-နှစ်။ ထွန်လွတ်မင်း ၁၇-နှစ်။ စောခင်နစ်မင်း ၂၇-နှစ်။ ခဲလူးမင်း ၁၂-နှစ်။

သာသနာတော် ၁၃၈၄။ ဖြိုကြွင်း သက္ကရာဇ် ၂၀၂-ခုတွင် ပျဉ်ပြားမင်းဖြစ်၏။ ထိုမင်းသည် တမ္ပဝတီမြို့၌ ၃-နှစ်မျှနေခဲ့၍ သက္ကရာဇ် ၂၀၅-ခုတွင် ယခုပုဂံမြို့ကိုတည်၍ မင်းပြု၏။ နန်းစံ ၉-နှစ်။ ထို့နောက် တန္နက်မင်း ၁၈-နှစ်။ စလေငခွေး ၂၅-နှစ်။ သိန်းခိုမင်း ၁၆-နှစ်။ တောင်သူကြီး ၃၃-နှစ်။ ထို့နောင် ကြောင်ဖြူမင်း ၂၁-နှစ်။ ကြည်စိုးမင်း ၆-နှစ်။ စုက္ကတေးမင်း ၂၅-နှစ်။ ထို့နောင် အနော်ရထာမင်း ၃၃-နှစ်။ ဤအနော်ရထာ မင်းသည် သာသနာတော်နှစ် ၁၀၆၁-နှစ်၊ သက္ကရာဇ် ၄၁၉-ခုတွင် ရာမညတိုင်း မွန်သုံးရပ်ကို အောင်မြင်၍ ပိဋကတ်သုံးပုံနှင့် တကွရဟန်းသံဃာတို့ကို ဆောင်ယူ၍ အရိမဒ္ဒနာမည်သော ပုဂံပြည်ကြီး၌ သာသနာတော်မြတ်ကို တည်စေသည်။

ထို့နောက် သားတော် စောလူး ၂၆-နှစ်။ ကျန်စစ်သားမင်း ၂၅-နှစ်။ မြေးတော်အလောင်းစည်သူမင်း နှစ်ပေါင်း ၇၀။ ထို့နောင် မင်းရှင်စော ၁-ရက်။ နရသူ အမည်

ရှိသော ကုလားကျမင်း ၃နှစ်။ မင်းယဉ်နရသိင်္ခ ၃–နှစ်။ ညီတော် နရပတိစည်သူ ၃၃–နှစ် မင်းပြုသည်။ ဤမင်းလက်ထက် သက္ကရာဇ် ၅၄၃–ခုတွင် သီဟိုဠ်ကျွန်းမှ တာမလိတ္တိသား သီဝလိထေရ်၊ ကမ္ဘောဇသား တာမလိန္ဒထေရ်၊ ကိဉ္စိပူရသား အာနန္ဒာထေရ်၊ လင်္ကာဒီပသား ရာဟုလထေရ်၊ ကုသိနာမြို့ ကျေးလက်သား ဆပဒ ထေရ်တို့ ရောက်လာ၍ သာသနာတော်ကို ပြုစုသည်။ ထို့နောင် သားတော် ဇေယျသိင်္ခ ၂၂–နှစ်။ ကျစွာမင်း ၁၅–နှစ်။ ဥဇနာမင်း ၆–နှစ်။ နရသီဟပတေ့မည်သော တရုတ်ပြေးမင်း ၄၄–နှစ်။ ၎င်းသား ကျော်စွာမင်း ၁၆–နှစ်။ ထို့နောက် စောနစ်မင်း ၃၈–နှစ်။ စောမွန်နစ်မင်း ၃၀–နှစ်။ ဤသို့လျှင် ပုဂံမြို့၌ မင်းပျဉ်ပြားမှစ၍ စောမွန်နစ်တိုင်အောင် ၂၃–ဆက်။မြို့သက် ၅၂၅–နှစ်။ သမုဒ္ဒရာဇ်မင်းမူသည်မှ စ၍ ပေါင်းသော် မင်းဆက် ၅၈။ မြို့သက် ၁၂၆၁–နှစ်ရှိသတည်း။

သာသနာတော် ၁၈၄၄–နှစ်။ သက္ကရာဇ် ၆၆၂–ခုတွင် ပုဂံမင်းကျော်စွာကို နန်းက ချ၍ ပြော့သိင်္ခဘိုသား ရာဇသင်္ကြံ၊ အသင်္ခယာ၊ သီဟသူ ဟူသော အမတ် ၃ ဦးတို့သည် မင်းပြိုင်ပြုကြ၏။ ထိုအခါ မြင်စိုင်းမြို့၌ ရာဇသင်္ကြံနေ၏။ မက္ခရာမြို့၌ အသင်္ခယာနေ၏။ ပင်လယ်၌ သီဟသူနေ၏။ ပုဂံတွင်လည်း နန်းရိုးအတိုင်းပင် ရှိစေသည်။ ထို့ကြောင့် ပုဂံတစ်နန်း၊ မြင်စိုင်းတစ်နန်း၊ မက္ခရာတစ်နန်း၊ ပင်လယ် တစ်နန်းအားဖြင့် ၄–နန်း ၄–ပြည်ထောင်ရှိ၏။ ၁၂–နှစ်ကြာသောအခါ ပင်လယ်မင်း သီဟသူ သည် နောင်တော် နှစ်ပါးကို ဆေးခတ်၍ အန္တရာယ်ပြု၏။ နောင်တော်တို့ မရှိလျှင် အလုံးအရင်းကို သိမ်းယူ၍ မြင်စိုင်းကို မင်းပြု၏။ ထိုကနေ၍ အင်းဝမြို့ကို ၄–ကြိမ်တိုင်အောင် တည်ထောင်သည်။ မဖြစ်လေ။ တစ်ကြိမ်ကား ဘီလူးဖျက်၏။ တစ်ကြိမ်ကား ရေလိပ်ဖျက်၏။ တစ်ကြိမ်ကား ငါကြီးအိမ်ကို တက်၍ နေသောကြောင့် ပျက်၏။ တစ်ကြိမ်ကား ရေဖျက်၏။ ထို့နောက် သာသနာတော် ၁၈၅၆–နှစ်။ သက္ကရာဇ် ၆၇၄ ခု။ တပေါင်းလဆန်း ဂရက်၊ ကြာသ ပတေးနေ့၊ ညဥ့်တစ်ချက် တီးကျော် ၅နာရီ၊ အဿလိဿ မွန်းတည့်အချိန်တွင် ဝိဇယပုရ မည်သော ပန်းယမြို့ကိုတည်၍ မင်းပြု၏။ နန်းစည်းစိမ် ၁၀–နှစ်။ ၎င်းသား ဥဇနာ ၂၀။ ၎င်းညီ ငါးစီးရှင်ကျော်စွာ ၉–နှစ်။ ၎င်းသား ကျော်စွာ ၁၀–နှစ်။ ၎င်းညီ နရသု ၃–နှစ်။ ၎င်းနောင်တော် ဥဇနာ ၃ လ မင်းပြု၏။

ပန်းယမြို့တည် သီဟသူမင်း သားတော်အငယ် အသခယာစောယွမ်းသည် သာသနာတော် ၁၈၆၆–နှစ်။ သက္ကရာဇ် ၆၄၈–ခု။ တပေါင်းလဆန်း ၆–ရက်၊ ကြာသပတေးနေ့၊ အဿလိဿ မွန်းတည့်အချိန်တွင် ဇေယပုရမည်သော စစ်ကိုင်းမြို့ကို တည်၍ မင်းသီးပြု၏။ စည်းစိမ် ၈–နှစ်။ ၎င်းနောင်တော် တရဖျားကြီး ၃–နှစ်။ သား ရွှေတောင်တက် ၃–နှစ်။ စောယွမ်းသား ကျစွာမင်း ၅–နှစ်။ ညီတော် မင်းရဲကြီး ၈–နှစ်။ ဆင်ဖြူရှင် တရဖျားငယ် ၅–နှစ်။ ယောက်ဖတော် မင်းပြောက် ၁၀–နှစ်။

7

စစ်ကိုင်း မြို့၌ မင်း ၇–ဆက်။ မြို့သက် ၄၂။ ပန်းယမြို့၌ နရသူမင်း စည်းစိမ် ၃–နှစ်။ စစ်ကိုင်းမြို့၌ မင်းပြောက် ၁၀–နှစ်ရှိသောအခါ မောရှမ်းတို့ဖျက်၍ နှစ်ပြည်ထောင်လုံး ပျက်စီးသည်။

သာသနာတော် ၁၉၀၈–ခုနှစ်။ သက္ကရာဇ် ၇၂၆–ခုတွင် တကောင်းမင်းရိုး သတိုးမင်းဖျားကို မင်းမြှောက်၍ တပေါင်းလဆန်း ၆–ရက်၊ အင်္ဂါနေ့ နက္ခတ် ၂၆–လုံးတွင် ရတနာပုရအဝမြို့ကို တည်ထောင်၍ သတိုးမင်းဖျား မင်းပြု၏။ မင်းစည်းစိမ် ၃–နှစ်။ ထို့နောက် ယောက်ဖတော် မင်းကြီးစွာစော်ကဲ ၃၃–နှစ်။ ၎င်းသား ဆင်ဖြူရှင်တရဖျား ၅–လ။ ထို့နောက် ညီတော်ပထမမင်းခေါင်ကြီး ၂၁–နှစ်။ ၎င်းသား ဆင်ဖြူရှင်သီဟသူ ၃–နှစ်။ ၎င်းသားမင်းလှငယ် ၃–လ။ တရဖျားသား ကျေးတောင်ညို ၇–လ။ မိုးညှင်းမင်းတရား ၁၃–နှစ်။ ထိုအခါ သက္ကရာဇ် ၈၀၀–ပြည့်၍ အစွန်း၂–ခု ထားလျက် ၇၉၈ ကို ပသျှူးဆိဒြမုနိကိန်းပြု၍ ဖြိုသည်။ မင်းအာဏာငယ်သောကြောင့် မပြိုဘဲ အရှည်အတိုင် ကွဲ၍ ဖြစ်လေ၏။

ထို့နောက် သာသနာတော် ၁၉၈၃–ခုနှစ်။ သက္ကရာဇ် ၈၀၁–ခုတွင် သားမင်းရဲကျော်စွာ မင်းဖြစ်၏။ စည်းစိမ် ၃–နှစ်။ ၎င်းနောက် ညီတော် ထူပါရုံဒါယကာ နရပတိ ၂၆–နှစ်။ ၎င်းသား ပြည်စုန်မင်း ၁၂–နှစ်။ ၎င်းသား ဒုတိယမင်းခေါင် ၂၂–နှစ်။ သားရွှေနန်းကျော့ရှင် ၂၅–နှစ်။ ထိုမင်းလက်ထက် သက္ကရာဇ် ၈၈၈–ခုတွင် မိုးညှင်းရှမ်းတို့ တိုက်ဖျက်၍ အင်းဝမြို့ပျက်စီးချေသည်။ မင်းညီမင်းသား မင်းဆွေစိုးမျိုး တို့သည် တောင်ငူအရပ်သို့ ရောက်ကြလေကုန်သည်။ အင်းဝမြို့တွင် မိုးညှင်းရှမ်း သိုဟန်ပွားသည် သက္ကရာဇ်ရှည် ၈၈၈–ခုကစ၍ မင်းပြုသည်။ စည်းစိမ် ၁၅–နှစ်။ ၎င်းနောက် အုန်းဘောင် ခံမှိုင်းစော်ဘွား ၆–နှစ်။ ၎င်းသား ပိုဗြဲနရပတိ ၄–နှစ် မင်းပြုသည်။ သက္ကရာဇ် ၉၁၃–သို့ ရောက်သောအခါ စောဘွားကို စလင်းမင်း စည်သူကျော်ထင် တိုက်ဖျက်၍ နိုင်ရာတွင် နရပတိ အမည်ခံ၍ မင်းပြု၏။ စည်းစိမ် ၃–နှစ် ရှိသော်အခါ ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရားကြီးတိုက်၍ အောင်တော်မူလျှင် ညီတော် သတိုးမင်းစောကို ဘုရင်ခံနှင့် ထားတော်မူသည်။ စည်းစိမ် ၃၂–နှစ်။ ထို့နောက် မင်းရဲကျော်စွာ ၇–နှစ်။ ထို့နောက် သာသနာတော် ၂၁၄၂–ခုနှစ် သက္ကရာဇ် ၉၆၀ ပြည့်သောအခါ ညောင်ရမ်းမင်းတရား အင်းဝမြို့ကို သိမ်းယူ၍ မင်းပြုတော်မူ၏။ စည်းစိမ် ၈–နှစ်။ ထို့နောက် သားတော် အနောက်ဖက်လွန်မင်း ၂၄–နှစ်။ ၎င်းညီ သာလွန်မင်း ၁၈–နှစ်။ ၎င်းသား မင်းရဲရန္တမိတ် ၁၃–နှစ်၊ ညီတော် ပြည်မင်း ၁၁–နှစ်။၎င်းသားအိမ်ရှေ့မင်း ၆–လ။ ညီတော်မင်းရဲကျော်ထင် ၂၆–နှစ်။ မာရ်အောင်ရတနာ ဒါယကာ ၁၆–နှစ်။ မှန်နန်းရှင် ၁၉–နှစ်။ ထို့နောက် ထိပ်မိုး ထိပ်ပန်း ဘုရားဒါယကာ ၁၈–နှစ်။ ဤမင်းလက်ထက် သက္ကရာဇ် ၁၁၁၃–ခုတွင် အောက်ပြည် မွန်တို့တိုက်၍ ၎င်းသက္ကရာဇ် တန်ခူးလဆန်း ၇–ရက်။ အင်္ဂါနေ့။ အဝမြို့ ပျက်သည်။ ၉ ရက်။ ကြာသပတေးနေ့ ဘုရင်နှင့်တကွ ဟံသာဝတီက ရလေသည်။

ရတနာပုရ ပျက်စီးသည့်နောက် သာသနာတော် ၂၂၉၇–ခုနှစ်။ သက္ကရာဇ်ရှည် ၁၁၁၅–ခုသို့ရောက်သောအခါ အလောင်းမင်းတရားကြီးသည် မုဆိုးဘိုအရပ်တွင် ရတနာသိခ်မည်သော ကုန်းဘောင်မြို့ကို တည်၍ မင်းပြုသည်။ စည်းစိမ် ၇–နှစ်။ ထို့နောက် သားတော်အိမ်ရှေ့မင်း ၃–နှစ်။ ထို့နောက် ညီတော်ဆင်ဖြူရှင် ၁၃–နှစ်။ ဤဆင်ဖြူရှင်မင်းသည် ကုန်းဘောင်မြို့မှပြောင်း၍ အင်းဝမြို့မှာနေသည်။ ထို့နောက် သားတော် စဉ့်ကူးစားမင်း ၅–နှစ်။ ထို့နောက် အိမ်ရှေ့မင်းသား ဖောင်းကားစား ၇–ရက်။ ထို့နောက် အလောင်းမင်းတရားကြီး သားတော်ဗဒုံမင်းသား မင်းဖြစ်၏။ ထိုမင်း သားသည် မန္တလေးအရပ်သို့ပြောင်း၍ သာသနာတော် ၂၃၂၆–ခု၊ သက္ကရာဇ်ရှည် ၁၁၄၄–ခု၊ တန်ဆောင်မုန်းလတွင် အမရပုရမြို့ကိုတည်၍ မင်းပြုသည်။ ဗဒုံမင်း နန်းစည်းစိမ် ၁၅–နှစ်ရှိ၍ သာသနာတော် ၂၃၄၀–စေ့သောအခါ အနောက် ဖက်တိုက်၊ ကြည့်ကန်ရွာ ဘုံသာထွန်းကျောင်းနေ ''ရှင်နန္ဒာဘိဓဇ''သည် ဤစွယ်စုံ ကျော်ထင် ပုစ္ဆာကိုရေး၏ဟု ဖြေ။

သာသနာတော်၌ မင်းပြုခဲ့သော မင်းဆက်ကို ပေါင်းသော် မဇ္ဈိမဒေသ၌ ၂၉ ဆက်။ ငါတို့မြန်မာတိုင်း၌ မဟာသမ္မတမင်းမှစ၍ ဗဒုံမင်းတိုင်အောင် ၁၃၃ ဆက် ရှိပြီဟု ဖြေဆိုအပ်၏။

ဤအကျဉ်းချုပ်ကိုဖြေလျှင် ပြီးသင့်လျက် မင်းစဉ်ကိုသွယ်၍ အကျယ် ဖြေခဲ့ သည်ကား ရာဇဝင်နှင့်စပ်၍မေးသော နောက်နောက် ပုစ္ဆာဟူသမျှ၌ သခေ်ပဖြေလျှင် သိစေလိုသောကြောင့် တစ်သတ်တည်း ရေးဖြေလိုက်သည်။

❖❖❖❖❖

## ၃၈။ ကသစ်သဖွယ်၊ ဥစ်တို့ဝယ်၊ ဘယ်ကြောင့် ခွင်စေ့မထားသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ထိုထိုသောဂြိုဟ်သည် ထိုထိုရာသီ၌ အားရှိသည်ကို ရွေးကောက်၍ ကသစ်၊ တြိဂုဏ်း၊ ဥစ်၊ ပြ ဟူ၍ ထားသည်တွင် မိဿ၌အင်္ဂါ၊ ပြိဿ၌ သောကြာ၊ မေထုန်၌ ဗုဒ္ဓဟူး၊ ကြကဋ်၌ တနင်္လာ၊ သိဟ်၌ တနင်္ဂနွေ၊ ကန်၌ ဗုဒ္ဓဟူး၊ တူ၌သောကြာ၊ ဗြိစ္ဆာ၌ အင်္ဂါ၊ ဓနု၌ ကြာသပတေး၊ မကရ၌ စနေ၊ ကုံ၌ စနေ၊ မိန်၌ ကြာသပတေး ဤဂြိုဟ်တို့ကို ''ကသစ်''ဟု ခေါ်၍ထားခြင်းသည် အား ၇–ပါးတွင် ၂–စိတ် အားရှိသောကြောင့် ဌာန ဗလကို စွဲ၍ထားသည်။

ထိုဂြိုဟ်တို့တွင်လည်း မိဿ၌အင်္ဂါ၊ ပြိဿ၌ တနင်္လာ၊ သိဟ်၌ တနင်္ဂနွေ၊ ကန်၌ ဗုဒ္ဓဟူး၊ တူ၌သောကြာ၊ ဗြိစ္ဆာ၌ ကြာသပတေး၊ မကရ၌ ရာဟု၊ ကုံ၌စနေ၊ ဤဂြိုဟ်တို့ကို ''တြိဂုဏ်း'' ဟုခေါ်ခြင်းသည် ၃–စိတ်အားရှိသည်ကိုစွဲ၍ ဌာနဗလ အားဖြင့် ခေါ်ဝေါ်သည်။

မိဿ၌ တနင်္ဂနွေ၊ ပြိဿ၌ တနင်္လာ၊ ကြကင်း၌ ကြာသပတေး၊ ကန်၌ ဗုဒ္ဓဟူး၊ တူ၌ စနေ၊ ဗြိစ္ဆာ၌ ရာဟု၊ မကရ၌ အင်္ဂါ၊ မိန်၌ သောကြာ၊ ဤဂြိုဟ်တို့ကို ''ဥစ်'' ဟုခေါ်ဝေါ်ခြင်းသည် အလွန်မြင့်သော ၄–စိတ်အားရှိသောကြောင့် စေဋ္ဌဗလကို စွဲ၍ ခေါ်ဝေါ်လေသည်။ ထို့ကြောင့် ကသစ်မှာ ၁၂–ရာသီ အစေ့ထားရာသကဲ့သို့ ဥစ်မှာ ရာသီခွင်စေ့အောင် မထားရ၊ ၄–စိတ်အားရှိသင့်သော ဌာန၌သာ ထားရသည် ဟုဖြေ။

မိဿ၌ သောကြာ၊ ပြိဿ၌ အင်္ဂါ၊ မေထုန်၌ တနင်္လာ၊ ကြကင်း၌ ဗုဒ္ဓဟူး။ သိဟ်၌ ကြာသပတေး၊ ကန်၌ တနင်္လာ၊ တူ၌ အင်္ဂါ၊ ဗြိစ္ဆာ၌ သောကြာ၊ ဓနု၌ တနင်္ဂနွေ၊ မကရ၌ လည်းကောင်း၊ ကုံ၌လည်းကောင်း ရာဟု၊ မိန်၌ တနင်္ဂနွေ၊ ဤသို့ မိတ်အိမ် နေသောဂြိုဟ်တို့သည် တစ်စိတ်အားရှိသော ဒိဋ္ဌဗလကိုစွဲ၍ ထားလေသည်။

မိတ်အိမ်ကေ၊ ဒွယကသစ်၊ သုံးဆစ်တြိဂုဏ်း၊ မြင့်ဆုံးဗလ၊ ဥစ်အိမ်ကျသည်၊ လေးဆ ကောင်းကျိုးပေးသတည်း။ ။

❖❖❖❖❖

## ၃၉။ ဆယ့်နှစ်ခွင်ဝယ်၊ ကသစ်ရွယ်၊ ဘယ်အကြောင်းရင်း ဖြစ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တစ်ဆယ့်နှစ်ရာသီ၌ ရှိသော နက္ခတ် ၂၇လုံးတို့ကို ပါဒ်အားဖြင့်စိတ်သော် ၁၀၈–ပါဒ်ရှိသည်။ ၎င်းပါဒ်အစုတို့တွင် မည်သည့် နက္ခတ်၏ ပါဒ်သည် ကောင်းကျိုးကို ပေးသည်၊ မည်သည့်နက္ခတ်၏ ပါဒ်သည် မကောင်းကျိုးကိုပေးသည်ဟု အကျိုး အပြစ်ကို သိစိမ့်သောငှာ တစ်ရာသီ တစ်ရာသီ၌ ၉–ခု ၉–ခုစီ နဝင်းစောင့်ဂြိုဟ်ပြု၍ ပြသည်။ ယင်းသို့ဖြစ်၍ ၁၀၈ ပါဒ်စေ့အောင် ပြသင့်သော်လည်း တစ်ရာသီ တစ်ရာသီ၌ တစ်လုံးတစ်လုံးထားလျှင် ရာသီ၏ အရှင်ဟု မှတ်သား၍ သိနိုင်လောက်ပြီ ဖြစ်သောကြောင့် တစ်ဆယ့်နှစ်ခုပင် ထားသည် ။

ထို့ကြောင့် ဗြို့ဟတ်ကျမ်း၌–

> ခိတိဇ သိတာ ညစန္ဒြရဝိ သောမျ သိတာ ဝနိဇာ။
> သုရဂုရု မန္ဒ သောရိ ဂုရုဝါစ ဂဟာသကပါ။
>
> အဇ မိဂတော လိစန္ဒြဘဝနာဒိ နဝင်္ဂဝိဓိ။
> ဘဝန သမံ သကာဓိပတယော သဂဟာ ကမသော။ ဟုမိန့်၏။

၌ဂါထာကား ၁၇–လုံးဘွဲ့။ န။ ဇ။ ဘ။ ဇ။ ဇ ဂိုဏ်း၊ လဟု ဂရု အစဉ်ရှိသော သသ်ကရိုက် ဆန်းကျမ်း၌လာသော အဒ္ဒဌကဂါထာ။

**အနက်ကား။** ။ ဒိတိဇ၊ အင်္ဂါ။ သိတ၊ သောကြာ။ အညု၊ ဗုဒ္ဓဟူး။ စန္ဒြ၊ တနင်္လာ။ ရဝိ၊ တနင်္ဂနွေ။ သောမျ၊ ဗုဒ္ဓဟူး။ သိတ၊ သောကြာ။ အဝနိဇာ၊ အင်္ဂါ။ သုရဂုရု၊ ကြာသပတေး။ မန္ဒ၊ စနေ။ သောရိ၊ စနေ။ ဂုရုဝါစ၊ ကြာသပတေး။ က္လမေ၊ ဤဂြိုဟ်တို့ကား။ ဂဟံသကပါ။ နဝင်းအဓိပတိတို့တည်း။ အဇမိဂတောလိ စန္ဒြဘဝနာဒိ။ မိဿ၊ မကရ၊ တူ၊ ကြကဋ္ဋစသည်တို့ကား။ နဝင်္ဂဝိဓိ၊ နဝင်း အစီအရင်တို့တည်း။ သဂဟာ၊ မိမိဒွါရခွင်မှ။ ကမသော၊ အစဉ်သဖြင့်။ ဘဝနသမံ သကာဓိပတယော၊ ရာသီနှင့်တူသော နဝင်းအဖို့ကို အစိုးရကုန်၏။

ဤဂါထာတွင်– ပထမပါဒ, ဒုတိယပါဒ၌ အဓိပ္ပါယ်ကား– ကသစ်လျှင် ရာသီ၏အရှင်ဟု ဆိုအပ်သော နဝင်းအဓိပတိဟူလိုသော်။

တတိယပါဒ၌ အဓိပ္ပါယ်ကား–မိဿ ကသည် ဓနုတိုင်အောင်သော အိမ့်သခင် ကသစ်ကိုချသော နဝင်းတစ်ချက်, မကရ ကသည် ကန်တိုင်အောင်သော အိမ့်သခင် ကသစ်ကိုချသော နဝင်းတစ်ချက်, တူ ကသည် မေထုန်တိုင်အောင်သော အိမ့်သခင် ကသစ်ကိုချသော နဝင်းတစ်ချက်, ကြကဋ္ဋ ကသည် မိန်တိုင်အောင်သော အိမ့်သခင် ကသစ်ကိုချသော နဝင်းတစ်ချက်. ဤသို့ဒွါရလေးခွင်ကစ၍ ချသော နဝင်းလေးချက် ပြီးရကား ဒွါရလေးခွင်သည် နဝင်္ဂဝိဓိမည်၏ ဟူလိုသော်။

စတုတ္ထပါဒ၌ အဓိပ္ပါယ်ကား– မိဿ, သိဟ်, ဓနု သုံးရာသီမှာ လက်ရှိသော် မိဿက။ မကရ, ပြိဿ, ကန် သုံးရာသီမှာ လက်ရှိသော် မကရက။ တူ, ကုံ, မေထုန် သုံးရာသီမှာ လက်ရှိသော် တူက။ ကြကဋ္ဋ, ဗြိစ္ဆာ, မိန် သုံးရာသီမှာ လက်ရှိသော် ကြကဋ္ဋက စ၍ အစဉ်သဖြင့် လဒ်အတိုင်း နဝင်းသွားသော် ရောက်သော ရာသီနှင့် တူသော နဝင်း အဖို့ကို ထိုရာသီ၌ရှိသော ကသစ်ဂြိုဟ်လျှင် အစိုးရ၏ ဟူလိုသော်။

ထိုသုံးရာသီစီ လက်ရှိသော ယထာရဟ ဒွါရလေးခွင်မှစ၍ နဝင်းသွားရာ သည်ကို သိစေခြင်းငှာ ဇာတိဒီပိကာကျမ်း၌–

"စရာနံ သတြိကောဏာနံ၊ တစ္စရာချာ နဝံသကာ"ဟူ၍ ဆိုသတည်း။

သတြိကောဏာနံ၊ ဒွါရလေးခွင်မှ ငါးတန့် ကိုးတန့်သော ရာသီနှင့် တကွကုန်သော။ စရာနံ၊ စရရာသီမည်ကုန်သော ဒွါရလေးခွင်တို့၏။ တစ္စရာချာ၊ ထိုဒွါရလေးခွင်လျှင် အစအဦး ရှိကုန်သော။ နဝံသကာ၊ နဝင်းအဖို့တို့သည်။ ဘဝန္တိ၊ ဖြစ်ကုန်၏။ ဤကား အနက်။

အဓိပ္ပါယ်စကားကျကား– မိဿရာသီ၌ ၉ နဝင်းတွင် ပထမနဝင်းကို 'အင်္ဂါအစိုးရ၏။ ဒုတိယနဝင်းကို သောကြာ။ တတိယနဝင်းကို ဗုဒ္ဓဟူး၊ စတုတ္ထနဝင်းကို တနင်္လာ၊ ပဥ္စမ နဝင်းကို တနင်္ဂနွေ၊ ဆဋ္ဌနဝင်းကို ဗုဒ္ဓဟူး၊ သတ္တမနဝင်းကို သောကြာ၊ အဋ္ဌမနဝင်းကို အင်္ဂါ၊ နဝမနဝင်းကို ကြာသပတေး အစိုးရ၏။ သိဟ်၊ ဓနုရာသီတို့ ၌လည်း ဤနည်း ယူလေ။ သတိရှိခဲ့စွ။ "စ၊ သာ၊ ရွှေ၊ ကူ၊ အင်း၊ ဝ၊ သူ၊ ဆန်၊

**ဖြူ၊ တ၊ တင်း၊ ပေး''** ဟူ၍ ဆိုအပ်သော ဂြိုဟ်တို့သည် ရာသီစဉ်အတိုင်း အစိုးရသော ကသစ်ဂြိုဟ်နက္ခတ် ပါဒ်စဉ်အတိုင်း အကျိုးကိုပြကြောင်းဖြစ်သော နဝင်းရှင်ဖြစ်ကုန်၏ ဟူလိုသည်။

ကသတ သဒ္ဒါ၊ ကစ္စ သဒ္ဒါတို့သည် ထွန်းပခြင်းအနက်ကို ဟောသည်။ တ-ကို၊ စ-ပြု၍ ''ကသစ်''ဟု ခေါ်သည်။ မြန်မာဘာသာမှာ ဤရာသီ၌ ထွန်းပသော ဂြိုဟ်ဟူလိုသည်။ စကားသဘောတူချင်း နီးအောင်စု၍ ဖြေသည်။ အစဉ်မမှန် မဟူသင့်။

❖❖❖❖❖

## ၄၀။ ပရိသတ်ဝယ်၊ နားခြောက်သွယ်၊ ကြီးငယ် ဘယ်မျှစီတို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- တရားနာသောသူ၏ နားသည် နှလုံးသွင်းကွဲပြားသောကြံအားဖြင့် ခြောက်ပါး ပြားသည်။ ခြောက်ပါးဟူသော်ကား-

၁။ မိမိသန္တာန်၌ ရှိသော ရာဂ ဒေါသ မောဟ ခေါင်းပါးစိမ့်သောငှာ နာသည်လည်း တစ်ပါး။

၂။ သဒ္ဓါ ပညာ သမာဓိ ပွါးစိမ့်သောငှာ နာသည်လည်း တစ်ပါး။

၃။ သောက ပရိဒေဝကို လွန်မြောက်နိုင်ခြင်းငှာ နာသည်လည်း တစ်ပါး။

၄။ ဒုက္ခဒေါမနဿတို့ ချုပ်ငြိမ်းစိမ့်သောငှာ နာသည်လည်း တစ်ပါး။

၅။ မဂ်ဖိုလ်နှင့်လျော်သော ကျင့်ဝတ် ပဋိပတ်ကို သိစိမ့်သောငှာ နာသည်လည်း တစ်ပါး။

၆။ သူတစ်ပါးတို့၏ ချီးမွမ်းထောမနာကို ရစိမ့်သောငှာ နာသည်လည်း တစ်ပါး။

ဤသို့အားဖြင့် ခြောက်ပါးတည်း။

ထိုခြောက်ပါးတို့တွင် ရှေ့ငါးပါးသော အကြောင်းဖြင့် နာသောသူ၏နားကို ကြီးသည်ဟု ဆိုအပ်၏။ နောက်ဆုံးအကြောင်းဖြင့် နာသောသူ၏နားကို ငယ်သည်ဟု ဆိုအပ်၏။ ပါဠိပါဋ္ဌကိုလိုမူ ဆက္ကအဂ်ုတ္တိုရ် ပါဠိတော်, ၎င်းအဋ္ဌကထာ စသည်တို့၌ ယူပါလေ။ ကျယ်လှသောကြောင့် အကျဉ်းမျှ ရေးလိုက်သည်။

❖❖❖❖❖

## ၄၁။ ပါရမီဝယ်၊ ပေါင်းသုံးဆယ်၊ ဘယ်ကို ဖြည့်နိုင်ခဲ့သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဥစ္စာ၊ ပြည်ရွာ၊ တိုင်းကား၊ သား၊ မယားကို စွန့်၍ ဖြည့်ခြင်းတည်းဟူသော ဒသပါရမီကိုမျှလည်း ဖြည့်နိုင်ခဲ့၏။ ထိုထက်ကား ခြေ,လက်, မျက်စိ, အင်္ဂါကိုစွန့်၍ဖြည့်ခြင်း တည်းဟူသော ဒသဥပ

ပါရမီကို ဖြည့်နိုင်ခဲ၏။ ထိုထက် အသက်ကိုစွန့်၍ ဖြည့်ခြင်းတည်းဟူသော ဒသပရမတ္ထ ပါရမီကို သာလျှင် အလွန်ဖြည့်နိုင်ခဲ၏ဟု သိရာ၏။

❖❖❖❖❖

## ၄၂။ စွန့်ခြင်းငါးသွယ်၊ ဘုရားဝယ်၊သားငယ် ဘယ်မျှစွန့်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဝေဿန္တရာမင်းကြီးသည် သားတော် ဇာလီနှင့် သမီးတော် ကဏှာဇိန်ကို ဇူဇကာ ပုဏ္ဏားအားစွန့်ကြောင်းကိုသာ ဇာတ်နိပါတ် တို့တွင် အထင်အရှားလာသည် ဤမှ တစ်ပါးသော ဇာတ်တော်တို့၌ကား သား သမီးကို စွန့်ကြောင်းကို လာသည်မရှိ။ အဋ္ဌုပ္ပတ္တိပေါ်ရာ အကြောင်းသင့်ရာကိုသာ ဟောတော်မူသော ဇာတ်ပေါင်း ၅၄၇–ဇာတ်တွင်သာ စိစစ်ဖွေရှာ၍ ဆိုရသည်။ အဋ္ဌုပ္ပတ္တိမပေါ်၍ ဟောတော်မမူသော ဇာတ်ကားအတိုင်းမသိ မရေမတွက်နိုင် ဖြစ်သည်။ ထိုဇာတ်တော်တို့၌ စွန့်သည့်အရာကိုမူကား ဘုရားကိုယ်တော်မှသာ ဟောတော်မူ နိုင်ရာချေသည်။ ဤနေရာ၌ ပုစ္ဆာ ၂–ရပ်ကို စကားသဘောတူရာစပ်၍ ဖြေခဲ့သည်။

❖❖❖❖❖

## ၄၃။ ကျွန်းသီဟိုဠ်ဝယ်၊ ရာ့ရှစ်သွယ်၊ ဘယ်သူတောင်းပန်လေသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

> **''သမ္ဗောဓိတော အဋ္ဌမေ ဝဿေ ကလျာဏိယံ မဏိအက္ခိကနာဂရာဇေန နိမန္တိတော ဘဂဝါ ပဉ္စဟိ ဘိက္ခုသတေဟိ သဒ္ဓိံ ပရိဝုတော လင်္ကာဒီပမာဂမ္မ ကလျာဏိစေတိယဋ္ဌာနေ ကတေ ရတနမဏ္ဍပေ နိသိန္နော ဘတ္တကိစ္စံ ကတွာ သမန္တကူဋေ ပါဒံ ဒဿေတွာ အဂမာသိ''**

ဟူ၍ ဝိနည်းအဋ္ဌကထာ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ ဘုရားသခင်သည် ဘုရားဖြစ်တော်မူသည့်နောက် ရှစ်ဝါမြောက်၌ ကလျာဏီမြစ်၌နေသော မဏိအက္ခိက နဂါးမင်းသည် တောင်းပန် ပင့်ဖိတ်အပ်သည်ဖြစ်၍ ရဟန်းငါးရာနှင့်တကွ လင်္ကာဒီပသို့ ကြွရောက်တော်မူလျက် ကလျာဏီစေတီ တည်ရာဝယ် ကောင်းစွာပြုလုပ်အပ်သော ရတနာမဏ္ဍပ်၌ နေတော်မူ၍ ဆွမ်းသုံးဆောင်ပြီးသော် သမန္တကူဋတောင်သို့တက်၍ ထိုတောင်ထက်၌ ခြေတော်ရာကို ချပြီးမှ ဇမ္ဗူဒိပ်ကျွန်းသို့ ကြွတော်မူလာ၏ဟူလိုသည်။ ဤ၌ မည်သူတောင်းပန်၍ ခြေတော်ရာချသည်ဟုမလာ။ ၎င်းအဖွင့်ဖြစ်သော သာရတ္ထဒီပနီဋီကာ၌လည်း အထူး မဖွင့်။ မဟာဝင်စာကိုယ်၌လည်း ''ဒဿေသိ သုမနကူဋေ ပါဒံ''ဟူ၍သာလာသည်။ မဟာဝင် ဋီကာ၌ကား သုမန နတ်မင်းနေသော တောင်ဖြစ်၍ သုမန နတ်မင်းပင် တောင်းပန်ကြောင်းကိုလာသည်။ ထို့ကြောင့် ''သုမနနတ်၊ တောင်းပန်လတ်၍ စက်မြတ် နှံ့ခဲ့ပေသတည်း''ဟု ဖြေအပ်၏။

❖❖❖❖❖

## ၄၄။ ဒဟရောဝယ်၊ လူသူငယ်၊ ဘယ်နာမ် ဆိုထိုက်ပါလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အခိုက်အတန့်ကို စွဲ၍ဖြစ်သော နာမ်သည် အာဝတ္ထိကနာမ်မည်၏။ ပြယုဂ်ကား 'ဝစ္ဆော' စသည်တည်း။ ဝစ္ဆော၊ နွားငယ်။ ဒမ္မော၊ ဆုံးမ,သင့်သောနွား။ ဗလိဗဒ္ဒေါ၊ နွားပိုက်။ ဤနာမ်တို့သည် ငယ်သော အခိုက် အတန့်, အလတ်သော အခိုက်အတန့်, ပျိုသော အခိုက်အတန့်ကို စွဲ၍ ဖြစ်သောကြောင့် အာဝတ္ထိကနာမ် မည်သကဲ့သို့ ဒဟရောလည်း သူငယ် အခိုက် အတန့်ကို စွဲ၍ ဖြစ်ရကား အာဝတ္ထိက နာမ် မည်၏ဟု ဆိုထိုက်သည်။

❖❖❖❖❖

## ၄၅။ ကာရကဝယ်၊ ပေါင်းခြောက်သွယ်၊ အဘယ်တရားကိုယ် တို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– 'သတ္တိမုချေန ကာရကံ'ဟု ကျမ်းဂန် ဆရာတို့ မိန့်ပေရကား သတ္တိသည် ကာရကမည်၏။ ထိုသတ္တိကား ပရမတ္ထ တရားကို ရှာသော် ကတ္တုကာရကမှာ သွားခြင်းစသော ကိရိယာကို ပြီးစေတတ်သော စေတနာနှင့် တကွသော ဝီရိယစေတသိက်တည်း။ ကမ္မကာရက စသည်၌ကား ဉပစာဖြင့် ယူရာသည်။

❖❖❖❖❖

## ၄၆။ အိုအမိငယ်၊နတ်၏နွယ်၊ အဘယ်အာလုပ်ဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရိုသေသဖြင့် ခေါ်ဝေါ်အပ်သော သာဒရအာလုပ်, မရိုသေသဖြင့် ခေါ်ဝေါ်အပ်သော အနာဒရ အာလုပ် ဟူ၍ နှစ်ပါး ရှိသည်တွင် အိုအမိငယ်ဟု ခေါ်ဝေါ်ခြင်းသည် သာဒရ အာလုပ်တည်း။ ထို့ကြောင့်

**''ဘောဘောတိ သာဒရံ ဥေယျံ၊ ဟေဟေတိ နာဒရံ မတံ''**

ဟုမိန့်ဆိုအပ်၏။

**အနက်ကား။** ။ဘောဘောတိ၊ အို အို ဟုခေါ်သည်ကို။ သာဒရံ၊ သာဒ အာလုပ်ဟူ၍။ ဥေယျံ၊ သိအပ်၏။ ဟေဟေတိ၊ ဟေဟေဟု ခေါ်သည်ကို။ အန... အနာဒရ အာလုပ်ဟူ၍။ မတံ၊ သိအပ်၏။

အသက်ရှိသည်ကို ခေါ်ဝေါ်သော သဇီဝ အာလုပ်, အသက်မ... ခေါ်ဝေါ်သော နိဇ္ဇီဝ အာလုပ်ဟူ၍ နှစ်ပါးရှိသည်တွင် သဇီဝအာလုပ်ဟု သ... အသက်မရှိသည်ကို ခေါ်ဝေါ်သော နိဇ္ဇီဝအာလုပ်သည် အဘယ်၌ ဖြစ်... ဟူငြားအံ့။ ဒုကနိပါတ်မျောက်မင်းဇာတ်၌ ရေဆိပ်ကျောက်ဆောင်ပေါ်က ဓော... မိကျောင်းကို စုံစမ်းလို၍ **''ဘော သေလ၊ အို–ကျောက်ဆောင်''**ဟု မျော...

ခေါ်သည်ကို လာ၏။ ဘုရားဖြစ်ဦးစဉ် တဏှာကိုပင် ''ဘော ဂဟကာရက။ အို၊ တဏှာယောက်ျား ပဲခွပ်သမား''ဟု ခေါ်တော်မူသော အာလုပ်တို့ကို ပြရာသည်။

❖❖❖❖❖

## ၄၇။ မြှောက်၍သွယ်သွယ်၊ယူစဖွယ်၊ အဘယ်သင်္ချာပေတို့နည်း။

❖❖❖❖❖

## ၄၈။ သင်္ချာတို့ဝယ်၊ မှတ်စဖွယ်၊ဘယ်မျှအပြားရှိသနည်း။

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေ ဝိသဇ္ဇနာကား– ရေတွက်အပ်သော ဝတ္ထုကို ရေတွက်ခြင်းသည် သင်္ချာမည်၏။ ထိုသင်္ချာသည် မိဿကသင်္ချာ, ဂုဏိတသင်္ချာ, သမ္ဗန္ဓသင်္ချာ, သင်္ကေတသင်္ချာ, အနေကသင်္ချာ အားဖြင့် ငါးပါးအပြားရှိ၏။ ထိုငါးပါး တို့တွင် ရော၍ ယူအပ်သော သင်္ချာသည် မိဿက သင်္ချာမည်၏။ ပုံကား စတုဒ္ဒသ၊ ပန္နရသ၊ သောဠသ စသည်တည်း။ ဤ၌ စတုစသည်နှင့် ဒသကိုရော၍ ယူအပ် သောကြောင့် မိဿက သင်္ချာမည်၏။

မြှောက်၍ယူအပ်သောသင်္ချာသည် ဂုဏိတသင်္ချာမည်၏။ ပုံကား သတသဿ ဒွိကံ ဒွိသတံ၊ စတုသဋ္ဌိ ဓာတိယော စသည်တည်း။ ဤ၌ သတကို ဒွိနှင့်မြှောက်၍ ယူအပ်သော ကြောင့်လည်းကောင်း၊ သဋ္ဌိကို စတုနှင့်မြှောက်၍ ယူအပ်သောကြောင့် လည်းကောင်း ဂုဏိတသင်္ချာမည်၏။

စပ်၍ယူအပ်သောသင်္ချာသည် သမ္ဗန္ဓသင်္ချာမည်၏။ ပုံကား အဍ္ဎသဋ္ဌိသတ သဟဿုဗ္ဗေဓောဂိရိရာဇာ စသည်တည်း။ ။ ဂိရိရာဇာ၊ မြင်းမိုရ်တောင်မင်းသည်။ အဍ္ဎသဋ္ဌိသတသဟဿုဗ္ဗေဓော၊ တစ်သိန်း ခြောက်သောင်း ရှစ်ထောင် အစောက်ရှိ၏။ ဤပြယုဂ်၌ အဍ္ဎ ဟူသောသင်္ချာ၊ သဋ္ဌိဟူသောသင်္ချာ၊ သတဟူသောသင်္ချာကို သဟဿဟူသောသင်္ချာနှင့် စပ်၍ယူအပ်သောကြောင့် သမ္ဗန္ဓသင်္ချာမည်။

(မိဿကမှာ သင်္ချာနှစ်ပါးလည်းကောင်း၊ သုံးပါးလည်းကောင်း ရော၍ ယူရသည်။ သမ္ဗန္ဓမှာ တစ်ခုသော သင်္ချာပုဒ်ကို အများနှင့် အသီးသီး စပ်ရသည်။ ဤကားအထူး)

လောကအမှတ်အားဖြင့် ခေါ်ဆိုအပ်သော သင်္ချာသည် သင်္ကေတ သင်္ချာမည်၏။ ပုံကား ကာသိ၊ နဟုတံ၊ လက္ခံ စသည်တည်း။ ။ ကာသိ၊ တစ်ထောင်။ နဟုတံ၊ တစ်သောင်း။ လက္ခံ၊တစ်သိန်း။ ။ ဆန်းဆရာအလိုအားဖြင့်။ မေရု၊ တစ်ခု။ ပါဒ၊ နှစ်ခု။ ယာမ၊ သုံးခု။ သမုဒ္ဒေါ၊ လေးခု။ ပါဏ၊ ငါးခု။ ဥတု၊ ခြောက်ခု။ ရသ၊ ခြောက်ခု။ သဝရ၊ ခုနစ်ခု။ ပသူ၊ ရှစ်ခု။ ဆိဒြ၊ ကိုးခု။ ဤသို့စသည်တည်း။ ဤ၌ လောက အမှတ်အားဖြင့် ဆိုအပ်သောကြောင့် သင်္ကေတသင်္ချာမည်၏။

များသောအားဖြင့် ဆိုအပ်သောသင်္ချာသည် အနေကသင်္ချာမည်၏။ ပုံကား သတတေဇော၊ သဟဿ ရံသီ စသည်တည်း။ ။ သတတေဇော၊ အရာမကသော

တန်ခိုး၊ သဟာသရဲသီ၊ အထောင်မကသောရောင်ခြည်။ ဤ၌ များသောအားဖြင့် ဆိုအပ်သော ကြောင့် အနေကသချာမည်၏။

ဤသို့ ကစ္စည်းကျမ်း, ဆန်းကျမ်းတို့၌ လာသည်ကို ထောက်သဖြင့် မြှောက်၍ ယူအပ်သော သင်္ချာသည် ဂုဏိတ သင်္ချာမည်၏။ သင်္ချာအပြားကား ငါးပါးရှိ၏ ဟူ၍ ဤပုစ္ဆာနှစ်ရပ်၌ ယူအပ်၏။

❖❖❖❖❖

## ၄၉။ ဝိရတီသုံးသွယ်၊ မဂ်စိတ်ဝယ်၊ ဘယ်ကိုအာရုံပြု၍ ဖြစ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–''မဂ္ဂသမ္ပယုတ္တ ဝိရတီ သမုစ္ဆေဒဝိရတီ နာမ'' ဟူသော အဋ္ဌသာလိနီနှင့်အညီ မဂ်စိတ်ကိုရသည်နှင့် တစ်ပြိုင် နက်ဖြစ်သော ဒုစရိုက်ကို ကြဉ်ခြင်းဟူသော ဝိရတီသည် တရားအရင်းမှ အကြွင်းမဲ့ ဖြတ်သည်ဖြစ်၍ သမုစ္ဆေဒဝိရတီမည်၏။ ထိုဝိရတီသည် လောကီစိတ်၌ ယှဉ်သော အခါကဲ့သို့ ရှောင်ကြဉ် အပ်သော ဝီရမိတဗ္ဗဝတ္ထုကို အာရုံပြု၍ ကြဉ်ရသည် မဟုတ်၊ အပင်ကိုခုတ်သဖြင့် အရွက် အသီး ပျက်စီးခြင်းဖြစ်သကဲ့သို့ အရင်းဖြစ်သော အကု သိုလ်ကို ပယ်သဖြင့် ဒုစရိုက် ကင်းခြင်းဖြစ်ရကား မဂ်လေးပါး၏ အာရုံဖြစ်သော နိဗ္ဗာန်ကိုအာရုံပြု၍ ဖြစ်၏ဟုဖြေ။

❖❖❖❖❖

## ၅၀။ နှာခေါင်းအလယ်၊ လေနှစ်သွယ်၊ ဘယ်ခဏတွင် ဖြစ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''ကာယသင်္ခါရောတိ စိတ္တသမုဋ္ဌာနော အဿာသ ပဿာသ ဝါတော။ သော စိတ္တဿဥပ္ပါဒက္ခဏေယေဝ ဥပ္ပဇ္ဇတိ။ န ဌိတိက္ခဏေ ဝါ ဘင်္ဂက္ခဏေ ဝါ သော စိတ္တသမုဋ္ဌာနရူပဿ ဓမ္မတာတိ''**

စသည်ဖြင့် သင်္ခေပဝဏ္ဏနာ၌ မိန့်ဆိုသည်။

**အနက်ကား။** ။ကာယသင်္ခါရောတိ။ ကာယသင်္ခါရ ဟူသည်ကား။ စိတ္တသမုဋ္ဌာနော၊ စိတ်ကြောင့်ဖြစ်သော။ အဿာသ ပဿာသဝါတော၊ ထွက်သက် ဝင်သက်ဖြစ်သော လေတည်း။ သော၊ ထို ထွက်သက် ဝင်သက်ဖြစ်သောလေသည်။ စိတ္တဿ၊ စိတ်၏။ ဥပ္ပါဒက္ခဏေယေဝ၊ ဥပ္ပါဒက္ခဏ၌သာလျှင်။ ဥပ္ပဇ္ဇတိ၊ ဖြစ်၏။ ဌိတိက္ခဏေဝါ၊ ဌီခဏ၌ လည်းကောင်း။ ဘင်္ဂက္ခဏေ ဝါ၊ ဘင်ခဏ၌ လည်းကောင်း။ န ဥပ္ပဇ္ဇတိ၊ မဖြစ်။ သော၊ ထိုသို့ စိတ်၏ ဥပါဒ်ခဏ၌သာ ဖြစ်ခြင်းသဘောသည်။ စိတ္တသမုဋ္ဌာနရူပဿ၊ စိတ်ကြောင့်ဖြစ်သောရုပ်၏။ ဓမ္မတာ၊ သဘောတည်း။ ဣတိ၊ ဤသို့။ ဒဋ္ဌဗ္ဗံ၊ မှတ်အပ်၏။

**အဓိပ္ပါယ်ကား။** ။ ကာယသင်္ခါရဟူသည်ကား စိတ္တသမုဋ္ဌာန်ဖြစ်သော ထွက်သက် ဝင်သက်လေတည်း။ ထိုလေသည် စိတ်၏ ဥပါဒ်ခဏ၌သာလျှင် ဖြစ်၏။

18
B

ဋီခဏ, ဘင်ခဏ၌ မဖြစ်။ ဤသို့ ဥပါဒ်၌သာဖြစ်ခြင်းသည် စိတ္တဇရုပ်တို့၏ ဓမ္မတာ သဘောပင် တည်းဟူလို။

❖❖❖❖❖

## ၅၁။ ထက်နတ်ပြည်လယ်၊ စုတေ့လွယ်၊ဘယ့်နှယ် သင်္ဂြိုဟ်ကြသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''စဝမာနာနံ ပန ဒေဝတာနံ အတ္တဘာဝဿ ဂတာဂတဋ္ဌာနံ နာမ န ပညာယတိ။ ဒီပသိခါဂမနံ ဝိယ ဟောတိ''

**အနက်ကား။** ။စဝမာနာနံ၊ စုတေရွေ့လျောကုန်သော။ ဒေဝတာနံ ပန၊ နတ်တို့အားကား။ အတ္တဘာဝဿ၊အတ္တဘောဆို ခန္ဓာကိုယ်၏။ ဂတာဂတဋ္ဌာနံ နာမ၊ သေရာအကောင်, ထားရာအရုပ်မည်သည်။ န ပညာယတိ၊ မထင်။ ဒီပသိခါဂမနံဝိယ၊ ဆီမီးလျှံသွားသကဲ့သို့။ ဟောတိ၊ ဖြစ်၏။

ဤသို့ သက္ကပဥှာသုတ် အဋ္ဌကထာ လာသည်ကိုထောက်၍ သိရာ၏ဟုဖြေ။

❖❖❖❖❖

## ၅၂။ စိတ္တကျမ်းဝယ်၊ မဟောဖွယ်၊ဘယ်ပြုဋီကို ထားသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဤပုစ္ဆာဝယ် အချို့စာ၌ ''ဘယ်ပြု ဘင်ကိုထားသနည်း'' ဟုရှိကြ၏။ စိတ္တယမိုက် ပါဠိတော်တွင် ဥပါဒ်နှင့် ဘင်ကိုသာ ဟော၍ ဋီကိုမဟောခဲ့သောကြောင့် ထိုအကြောင်းကိုသာ ပုစ္ဆာပြုရကား ''ဘင်ကို'' ဟု မဆိုသင့်။ အဖြေကား–

**''တတ္ထ ဝုစ္စတေ၊ ယထေဝ ဟိ ကေဝမ္ဗာ ဓာရဘာဝေပိ ဥပ္ပါဒဘင်္ဂါနံ အညော ဥပ္ပါဒက္ခဏော၊ အညော ဘင်္ဂက္ခဏောတိ။ ပ။ဒေသိတော''**

ဟု ဋီကာကျော်၌လာ၏။

**အနက်ကား။** ။တတ္ထ၊ ထိုဋီခဏကို မဟောရာ၌။ ပရိဟာရော၊ အဖြေကို။ ဝုစ္စတေ၊ ငါဆိုဦးအံ့။ ဥပ္ပါဒဘင်္ဂါနံ၊ ဥပါဒ် ဘင်တို့၏။ ကေဝမ္ဗာဓာရဘာဝေ၊ တစ်ခုသော တရားလျှင် တည်ရာရှိသောအဖြစ်သည်။ သန္တေပိ၊ ရှိသော်လည်း။ ဥပ္ပါဒဘင်္ဂါနံ၊ ဥပါဒ် ဘင် တို့တွင်။ ဥပ္ပါဒက္ခဏော၊ ဥပါဒ်ခဏသည်။ အညော၊ တစ်ပါးတည်း။ ဘင်္ဂက္ခဏော၊ ဘင်ခဏသည်။ အညော၊ တစ်ပါးတည်း။ က္လတိ၊ ဤသို့။ ဥပ္ပါဒါဝတ္ထာယ၊ ဥပါဒ်အနိုက် အတန့်မှ။ ဘိန္နာ၊ ပြားသော။ ဘင်္ဂါဝတ္ထာ၊ ဘင်အနိုက်အတန့်ကို။ က္လစ္ဆိတာ ယထာ၊ အလိုရှိအပ်သကဲ့သို့။ ဝေမေဝ၊ ဤအတူလျှင်။ ဥပ္ပါဒဘင်္ဂါဝတ္ထာဟိ၊ ဥပါဒ်ဘင် အနိုက် အတန့်တို့မှ။ ဘိန္နာ၊ ပြားသော။ ဘိင်္ဂါဘိမုခါဝတ္ထာပိ၊ ဘင်သို့ ရှေးရှုဖြစ်သော အနိုက်အတန့် ကိုလည်း။ က္လစ္ဆိတဗ္ဗာ၊ အလိုရှိအပ်၏။ သာ၊ ထိုဘင်သို့ ရှေးရှုဖြစ်သော အနိုက်အတန့် သည်။ ဌိတိ နာမ၊ ဋီမည်၏။ ပန၊ ယင်းသို့ ဋီရှိသော်လည်း။ ပါဠိယံ၊

ယမိုက်ပါဠိတော်၌။ ဝေနေယျဇ္ဈာ သယာနုရောဓတော၊ ဝေနေယျတို့၏ အလိုအား မဆန့်ကျင်သောအားဖြင့်။ နယဒဿနဝသေန၊ မိဂပဒဝလဉ္ဇနနည်းကို ပြသည်၏ အစွမ်းဖြင့်။ သာ၊ ထိုဠီကို။ န ဝုတ္တာ၊ မဟောအပ်။ ဟိသစ္စံ၊ မှန်၏။ အဘိဝမ္မဒေသနာပိ၊ အဘိဝမ္မာ ဒေသနာ သည်လည်း။ ကဒါစိ၊ ရံခါ။ ဝေနေယျဇ္ဈာသယာနုရောဓေန၊ ဝေနေယျတို့၏ အလိုအား မဆန့်ကျင် သဖြင့်၊ ပဝတ္တတိ၊ ဖြစ်၏။ ယထာ၊ အဘယ် ကဲ့သို့နည်း ဟူမူကား။ ရူပဿ၊ ရုပ်၏။ ဥပ္ပါဒေါ၊ ဖြစ်ခြင်းတစ်ခုကို။ ဥပစယသန္တတီတိ၊ ဥပစယ, သန္တတိ ဟူ၍။ ဒွိဓာ၊ နှစ်ပါး အပြားဖြင့်။ ဘိန္ဒိတွာ၊ ခွဲ၍။ ဒေသိတော ယထာ၊ ဟောအပ်သကဲ့သို့တည်း။ ဤပါဠိ အနက်ဖြင့် သိရသည်ဟူပေ။

❖❖❖❖❖

## ၅၃။ မုတ်ဆိတ်ကျင်စွယ်၊ လူတို့နှယ်၊ နတ်ဝယ်ပေါက်ရောက်လေလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နတ်ဟူသည်ကား ဘုမ္မစိုးနတ် အာကာသစိုးနတ်ဟူ၍ နှစ်ပါးအပြားရှိ၏။ ထိုနှစ်ပါးတို့တွင် လူတို့၏တည်ရာမြေ၌ ဗိမာန်ဖြင့်သော်လည်းကောင်း၊ သစ်ပင် တောင် လိုဏ် စသည်၌သော်လည်းကောင်း နေသော သာတာဂိရိနတ်၊ ဟေမဝတနတ်၊ ပရမေသုရာနတ်၊ အာဠဝကနတ် စသည် တို့သည် ဘုမ္မစိုးနတ်မည်ကုန်၏။ ထိုနတ်မျိုးကိုပင် သစ်ပင်ဗိမာန်၌ နေသည်ကိုစွဲ၍ ရုက္ခစိုးနတ် ဟူ၍လည်း ခေါ်ဝေါ်ကုန်၏။ အထက်နတ်ပြည်ခြောက်ထပ်၌ နေသော နတ်တို့သည် အာကာသစိုးနတ် မည်ကုန်၏။ ထို အာကာသစိုး နတ်တို့တွင် စာတု မဟာရာဇ်နှင့် တာဝတိံသာသည် ပဗ္ဗတဋ္ဌကနတ်, အာကာသဋ္ဌနတ်အားဖြင့် နှစ်မျိုး ပြား၏။ မြင်းမိုရ်တောင် ပဋ္ဌမအာလိန်အပြင်၌နေသော စာတုမဟာရာဇ်နတ်သည် လည်းကောင်း၊ မြင်းမိုရ်တောင်ထိပ်၌နေသော တာဝတိံသာနတ်သည်လည်းကောင်း ပဗ္ဗတဋ္ဌက နတ်မည်၏။ ထိုနတ်တို့နှင့် တစ်ပြင်တည်း ဝန်းသော ကောင်းကင်၌ ထက်ဝန်းကျင်မှ စကြဝဠာ တောင်ခိုက်အောင် တည်နေသော နတ်တို့သည် အာကာ သဋ္ဌနတ် မည်ကုန်၏။ ယာမာစသော အထက်နတ်ဘုံ တို့၌ကား အာကာသဋ္ဌ နတ်သာ ဖြစ်သည်။

ထိုနတ်တို့တွင် မြေကိုမှီ၍နေသော ဘုမ္မစိုး ရုက္ခစိုးနတ်တို့မှာ သန္ဓေအားဖြင့် အချို့လည်း ဂဗ္ဘသေယျက, အချို့လည်းသံသေဒဇ, အချို့လည်း ဥပပတ်ဖြစ်၍ လူတို့၏ အသွင်သဏ္ဌာန်နှင့်မခြား ဆံ၊ အမွေး၊ ခြေသည်း၊ လက်သည်း၊ သွားရှိကြကုန်သည်။ မုန်ဆိတ်ကျင်စွယ်လည်း ရှိကြကုန်သည်။ အဆင်းလည်း အချို့နတ် လှ၏။ အချို့နတ် မလှ။ အချို့နတ် ကြောက်မက်ဖွယ်ရှိ၏။ လုံးရပ်သဏ္ဌာန်လည်း အချို့ကြီးသည်။ အချို့လည်း လူပမာဏလောက် ရှိသည်။ ကမ္မဇိဒ္ဓိတန်ခိုးရှိသောကြောင့် မိမိတို့၏ကိုယ်ကို မြင်စေလိုမှ သူတစ်ပါးတို့မြင်ရသည်။ မမြင်စေလိုသော် ကွယ်ဝှက်နိုင်သည်။

အထက် စာတုမဟာရာဇ် တာဝတိံသာစသော နတ်တို့ကား ဥပပတ် ပဋိသန္ဓေသာ နေကြသည်။ အလွန်နူးညံ့ သိမ်မွေ့သော ကိုယ်ခန္ဓာရှိသည်။ ကိုယ်သဏ္ဌာန်ကား တစ်ဂါဝုတ်၊ နှစ်ဂါဝုတ်၊ သုံးဂါဝုတ် ခန့်ပင်ရှိသည်။ ရှုချင်စဖွယ် တင့်တယ်သော အဆင်းရှိသည်။ ထွန်းလင်း တောက်ပသော ကိုယ်ရောင်၊ တန်ဆာရောင်၊ ဗိမာန် ရောင်ရှိသည်။ လူတို့၏ အသွင်သဏ္ဌာန်ကဲ့သို့ ဆံ၊ အမွေး၊ ခြေသည်း၊ လက်သည်း၊ သွားရှိကုန်သည်၊ အချို့လည်း ဖြူသော အဆင်း၊ အချို့လည်း ရွှေသောအဆင်း၊ အချို့လည်း ပြာလဲ့ အဆင်း၊ အချို့လည်း နီခြေအဆင်းကဲ့သို့ ရှိကုန်၏။ နတ်ယောကျ်ား တို့မှာလည်း မုတ်ဆိတ်ကျင်စွယ် ရောက်ခြင်းစသော ပုရိသလိင်၊ ပုရိသ နိမိတ္တ၊ ပုရိသ ကုတ္တ၊ ပုရိသ အာကပ္ပနှင့် ပြည့်စုံကုန်သည်။ နတ်မိန်းမတို့မှာလည်း ဆံထိုး၊ ဆံစည်း၊ စုလည်း၊ မြိတ်လွှတ်ထားခြင်း စသော ဣတ္ထိလိင်။ ဣတ္ထိနိမိတ္တ။ ဣတ္ထိကုတ္တ။ ဣတ္ထိအာကပ္ပနှင့် ပြည့်စုံကုန်သည်။ ထိုနတ်တို့သည် သားသမီးကို တောင့်တလျှင် ရင်ခွင်ထက်၌ ဥပပတ်ဖြစ်လာ၏။ ကြင်ဖက် ဇနီးကိုတောင့်တလျှင် အိပ်ရာပလ္လင်ထက်၌ ဖြစ်လာ၏။ တန်ဆာ ဆင်ယင် ပြုပြင်အပ်သော အလုပ်အကျွေးနတ်သမီး နတ်သားတို့သည် အိပ်ရာအနား၌ ဖြစ်လာကုန်၏။ ကျွန်အမှုလုပ် အခြံအရံ တို့သည် ဗိမာန်၏အတွင်း၌ ဖြစ်လာကုန်၏။ အကြင်နတ်တို့သည် ဗိမာန်နှစ်ခုသုံးခုတို့၏ အကြား၌ ဖြစ်လာသည်ကို မြင်၍ ဗိမာန်ရှင်တို့က သူရသင့် ငါရသင့်ဟု အငြင်းအခုံ ဖြစ်ကြသဖြင့် သိကြားမင်းအထံ၌ အယူခံလေသော် သိကြားမင်းက ''အကြင်သူ၏ ဗိမာန်နှင့်နီး၏။ ထိုနီးသော ဗိမာန်ရှင်က ရစေ''ဟု ဆုံးဖြတ်၏။ ဘယ်ဗိမာန်နှင့်မျှ မနီးဘဲ အလယ်ကြား၌ ဖြစ်ကုန်အံ့။ အကြင်သူ၏ ဗိမာန်ကို မျက်နှာမူအံ့ ထိုသူကရစေဟု ဆုံးဖြတ်၏။ နှစ်ဦးလုံး၏ ဗိမာန်ကို မျက်နှာမမူဘဲ နေအံ့။ ထိုနှစ်ဦးတို့ အငြင်းအခုံ မဖြစ်စိမ့်သောငှာ သိကြားမင်း ယူလေသည်။ အဘယ်ကဲ့သို့နည်း ဟူမူကား အရှင်အနုရုဒ္ဓါ၏ နှမတော် ရောဟိနီသည် နတ်သားလေးဦးတို့၏ ဗိမာန်ပြင်နားအကြား ပန်းပင်၌ဖြစ်၍ နတ်လေးယောက်တို့ လုယူကြရာတွင် သိကြားမင်း သိမ်းယူသကဲ့သို့တည်း။

ဤအကြောင်းအရာကို သက္ကပဉှာသုတ်၊ အာဋ္ဋာနာဋိယသုတ် ပါဠိတော်၊ အဋ္ဌကထာ၊ ဇိနာလင်္ကာရ ဋီကာတို့၌ လာသည်ဖြစ်၍ အထက်နတ်တို့၌လည်း လူတို့ကဲ့သို့ပင် မုတ်ဆိတ် ကျင်စွယ် ပေါက်၏ဟု သိရာသည်။ ။အချို့ဆရာတို့ကား–

''တွေကစ္စ ကာလံ တေသံ သရီရေ ခဏ္ဍိစ္စ ပါလိစ္စာဒိဝသေန ဝိဝဏ္ဏတာ န ပညာယတိ၊ ဒေဝဓီတာ သောဠသဝဿုဒ္ဒေသိကာ ဝိယ ဒေဝပုတ္တာ ဝီသတိ ဝဿုဒ္ဒေသိကာ ဝိယ''

တွေကစ္စ ကာလံ၊ ဤမျှ နတ်သက် အတိုင်းအရှည်ရှိသော ကာလပတ်လုံး။ တေသံ၊ ထိုနတ်တို့၏။ သရီရေ၊ ကိုယ်၌။ ခဏ္ဍိစ္စပါလိစ္စာဒိဝသေန၊ သွားကျိုးခြင်း,

ဆံဖြူခြင်း အရေတွန့်ခြင်းစသည်တို့၏ အစွမ်းဖြင့်။ ဝိဝဏ္ဏတာ၊ အဆင်း၏ဖောက်ပြန်ခြင်းသည်။ န ပညာယတိ၊ မထင်။ ဒေဝဓီတာ၊ နတ်သမီးတို့သည်။ သောဠသ ဝဿုဒ္ဒေသိကာ ဝိယ၊ တစ်ဆယ့်ခြောက်နှစ် အရွယ်ကဲ့သို့။ ခါယန္တိ၊ ထင်ကုန်၏။ ဒေဝပုတ္တာ၊ နတ်သားတို့သည်။ ဝီသတိ ဝဿုဒ္ဒေသိကာဝိယ၊ နှစ်ဆယ်ရွယ်ကဲ့သို့။ ခါယန္တိ၊ ထင်ကုန်၏။

ဤသို့လာသော သက္ကပဥှာသုတ် အဋ္ဌကထာ၌ ခဏ္ဍိစ္စ ပါလိစ္စာဒိဝသေန ပုဒ်တွင် အာဒိဝန်ဖြင့်သင်္ဂြိုဟ်၍ နတ်တို့၌ မုတ်ဆိတ် ကျင်စွယ်မရှိဟု ဆိုကုန်၏။ ထိုစကားသည် ဋီကာ ဂဏ္ဌိတို့၌ မပြသောကြောင့်လည်းကောင်း၊ မုတ်ဆိတ်ကျင်စွယ် စသည်တို့သည် ဝိဝဏ္ဏမဟုတ် ပုရိသလိင် ပုရိသနိမိတ္တ ဖြစ်သောကြောင့်လည်းကောင်း အာဒိဝန်တွင် မဝင်သင့်ဟု ဆိုရမည်။

စာတစ်စောင်၌ ဖြေသော အဖြေကား– ''မနုဿာနံ ဝိယ ကေသ မဿူ နိပိဒိဿန္တိ'' ဟူ၍ အဋ္ဌကထာလာသောကြောင့် လူတို့ကဲ့သို့ ဆံမုတ်ဆိတ်တို့သည် ပေါက်ရောက်ထင်ရှားသည်သာတည်းဟု သိရသည်။

ဤကိုရည်၍ နေမိပျို့ သောနဒိန်ခန်းတွင် '' ရှုတင့်စဖွယ်၊ ကျင်စွယ်ဖားဖား၊ မုတ်နားမုတ်ဆိတ်၊ ငြိတ်ရရိတ်သား'' ဟူ၍ စပ်တော်မူလေသည်။

❖❖❖❖❖

## ၅၄။ အဘယ်ဘုံဝယ်၊ လူတို့နှယ်၊ စံဖွယ် စည်းစိမ်ရှိလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

> **''ဆန္နမ္ပိ ကာမာဝစရဒေဝါနံ ကာမာ ပါကတိကာယေဝ။ မနုဿာ ဝိယ တေ ဒွယံဒွယသမာပတ္တိဝသေနေဝ မေထုနံ ပဋိသေဝန္တိ။ ကေဝလံ ပန နိဿန္ဒာဘာဝေါ တေသံ ဝတ္တဗ္ဗော''**

ဟူ၍ တေရသကဏ်ဋီကာ၌ လာသည်။

**အနက်ကား။** ။ ဆန္နမ္ပိ၊ ခြောက်ထပ်လည်းဖြစ်ကုန်သော။ ကာမာဝစရဒေဝါနံ၊ ကာမာဝစရနတ်တို့အား။ ကာမာ၊ ကာမဂုဏ်ငါးပါး ခံစားခြင်းတို့သည်။ ပါကတိကာယေဝ၊ လူတို့အလေ့ ပြကတေ့ အတိုင်းပင်တည်း။ တေ၊ ထိုနတ်တို့သည်။ မနုဿာ ဝိယ၊ လူတို့ကဲ့သို့။ ဒွယံဒွယသမာပတ္တိဝသေန၊ နှစ်ဦးနှစ်ဦး ပျော်မြူးခြင်းသို့ ရောက်သည်၏ အစွမ်းဖြင့်။ မေထုနံ၊ မေထုန်ကို။ ပဋိသေဝန္တိ၊ မှီဝဲကုန်၏။ ကေဝလံ ပန၊ သက်သက်ကား။ တေသံ၊ ထိုနတ်တို့အား။ နိဿန္ဒာဘာဝေါ၊ သုက်သွေးဖြစ်ခြင်း, သားရခြင်း အကျိုးမရှိသော အဖြစ်ကို။ ဝတ္တဗ္ဗော၊ ဆိုအပ်၏။

အစုံအစုံ မေထုန်မှီဝဲလျက် ဘယ်ကြောင့် သား, သမီး မရသနည်း ဟူမူကား ထိုနတ်တို့၏သုက်သွေးသည် ပြင်သို့ထွက်ခြင်းမရှိ ကိုယ်တွင်း၌သာ ငြိမ်းလေသောကြောင့် သား, သမီးမရ။ ဂဗ္ဘသေယျက သန္ဓေမဖြစ်ဟူပေ။

ထို့ကြောင့် ၎င်းတေရသကဏ္ဍဋီကာ၌–

**''ကထာဝတ္ထုအဋ္ဌကထာယံ တာသံ ဒေဝတာနံ သုက္ကဝိဿဋ္ဌိ နာမ နတ္ထီတိ တမှာ ဌာနာ စဝနံ သန္ဓာယ ဝုတ္တန္တိ ဂဟေတဗ္ဗံ''။**

**အနက်ကား။** ။ကထာဝတ္ထုအဋ္ဌကထာယံ၊ ကထာဝတ္ထုအဋ္ဌကထာ၌။ တာသံ ဒေဝတာနံ၊ ထိုနတ်တို့အား။ သုက္ကဝိဿဋ္ဌိ နာမ၊ သုက်သွေးလွတ်ခြင်းမည်သည်။ နတ္ထိ၊ မရှိ။ ဣတိ၊ ဤသို့။ တံ၊ ထိုစကားကို။ တမှာ ဌာနာ၊ ထိုတည်ရာအရပ်မှ။ စဝနံ၊ ရွေ့ သည်ကို။ သန္ဓာယ၊ ရည်၍။ ဝုတ္တံ၊ မိန့်အပ်၏။ ဣတိ၊ ဤသို့။ ဂဟေတဗ္ဗံ၊ ယူအပ်၏ ဟူ၍မိန့်၏။

ရဟန္တာပုဂ္ဂိုလ်တို့အား လည်းကောင်း, ဗြဟ္မာတို့အားလည်းကောင်း သုက်သွေးပင် မရှိပြီ။ ထို့ကြောင့် ၎င်းဋီကာ၌–

**''ခီဏာသဝါနံ ပန ဗြဟ္မာနဉ္စ သမ္ဘဝေါ နတ္ထီတိ အာစရိယ ဓမ္မပါလတ္ထေရေနဝုတ္တံ''**ဟု မိန့်အပ်၏။

**အနက်ကား။** ။ပန၊ ဝါဒအထူးကို ဆိုဦးအံ့။ ခီဏာသဝါနဉ္စ၊ ရဟန္တာတို့အား လည်းကောင်း။ ဗြဟ္မာနဉ္စ၊ ဗြဟ္မာတို့အားလည်းကောင်း။ သမ္ဘဝေါ၊ သုက်သွေးသည်။ နတ္ထိ၊ မရှိ။ ဣတိ၊ ဤသို့။ အာစရိယဓမ္မပါလတ္ထေရေန၊ ဆရာအရှင် ဓမ္မပါလ ထေရ်သည်။ ဝုတ္တံ၊ မိန့်အပ်၏။

❖❖❖❖❖

## ၅၅။ ကျွန်းကြီးကျွန်းငယ်၊ အသွယ်သွယ်၊ဘယ့်နှယ် အသက်နေလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''ဇမ္ဗုဒီပဝါသီနံအာယုပ္ပမာဏံနတ္ထိ။ ပုဗ္ဗဝိဒေဟာနံ သတ္တဝဿ– သတာယုကာ။ အပရဂေါယာနဝါသီနံ ပဉ္စဝဿ သတာယုကာ။ ဥတ္တရ ကုရုဝါသီနံ ဝဿသဟဿာယုကာ။ တေသံ တေသံ ပရိတ္တဒီပဝါသီနမ္ပိ တဒနုဂတိကာဝ''။**

ဟူ၍ သံယုတ္တနိကာယ် အဋ္ဌကထာ လာသည်နှင့်အညီ ဇမ္ဗူဒီပါကျွန်းသူတို့၏ အသက် အတိုင်းအရှည်သည် အမြဲမရှိ။ ရံခါလည်း အနှစ် အသင်္ချေရှည်သည်။ ရံခါလည်း ဆယ်နှစ်သာရှည်သည်။ ပုဗ္ဗဝိဒေဟကျွန်းသူတို့၏ အသက်တမ်းကား အနှစ် ခုနစ်ရာ အမြဲရှည်သည်။ အပရဂေါယာဉ်ကျွန်းသူတို့၏ အသက်တမ်းကား အနှစ်ငါးရာ အမြဲရှည်သည်။ ဥတ္တရကုရု ကျွန်းသူတို့၏ အသက်တမ်းကား အနှစ်တစ်ထောင်

အမြဲရှည်သည်။ ထိုထိုကျွန်းကြီးတို့၏ အရံဖြစ်သော ကျွန်းငယ်တို့၌နေသော သူတို့၏ အသက်တမ်းသည်လည်း ထိုထိုကျွန်းကြီးတို့ကဲ့သို့ပင် ဖြစ်ကုန်သည်။

ဤကား သံယုတ္တနိကာယ် အဋ္ဌကထာပါဠိ၌ အနက်အဓိပ္ပါယ်တည်း။

❖❖❖❖❖

## ၅၆။ တုသိတာလယ်၊ တစ်နေ့ငယ်၊ လူ့ဝယ်နှစ်ပေါင်းဘယ်မျှနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ''မနုဿာနံ ပညာသဝဿာနိ စာတုမဟာရာဇိကာနံ ဧကံ ဒိနံ'' စသည်ဖြင့် ဓမ္မဟဒယ ဝိဘင်းပါဠိတော်၌ လာသောကြောင့် လူတို့၏အနှစ်၅၀-သည် စာတုမဟာရာဇ်နတ်တို့၏ တစ်နေ့ဖြစ်၏။ ထိုရက်ကို ၂-ခုမြှောက်၍ စာတုမဟာရာဇ် နတ်တို့၏ ၂-ရက်၊ လူတို့၏ အနှစ် တစ်ရာသည် တာဝတိံသာနတ်တို့၏ တစ်ရက်ဖြစ်၏။ ထိုရက်ကို ၂-ခုမြှောက်ပြန်၍ တာဝတိံသာနတ်တို့၏ ၂-ရက်၊ လူတို့၏ အနှစ် ၂၀၀-သည် ယာမာနတ်တို့၏ တစ်ရက်ဖြစ်၏။ ထိုကို ၂-ခုမြှောက်ပြန်၍ ယာမာနတ်တို့၏ ၂-ရက်၊ လူတို့၏ အနှစ် ၄၀၀-သည် တုသိတာနတ်တို့၏ တစ်ရက်ဖြစ်ရကား တုသိတာ၌ တစ်နေ့ကို လူတို့၏ အနှစ် ၄၀၀ ရှိ၏ဟု သိရာသည်။

❖❖❖❖❖

## ၅၇။ ကတ္တားနှစ်သွယ်၊ ဝုစ်လိုက်ဖွယ်၊ သဒ္ဒါငယ်ကျမ်းမြဲလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**''ပကတိဝိကတိ စာပိ၊ ယတြ ဝုတ္တံ ဒွယံပိ စ။**
**ဝါစကော ပကတိသချံ။ ဂဏှာတိဿာ ပမာနတော။**

ဟူသော ကစ္စာယနသာရပါဠိနှင့်အညီ အကြင်ဝါကျ၌ ပကတိကတ္တား ဝိကတိကတ္တား နှစ်ပါးရှိအံ့။ ဝါစကဖြစ်သော ကိရိယာသည် ပကတိကတ္တား၏ သချာသို့လိုက်၍ ဧကဝုစ် ဗဟုဝုစ်ထားရာ၏ ဟူသောစကားသည် အမြဲပင်လောဟု မေးသည်။ အဖြေကား-အမြဲမဟုတ်၊ ယေဘုယျသို့လိုက်၍သာဆိုသည် ''ပရိတ္တာဘာနံ ဒွေကပ္ပါနိ'' အစရှိသော ဝါကျတို့၌ ဝိကတိကတ္တား၏သချာသို့ လိုက်၍ထားသော ကိရိယာလည်း အပ္ပကအားဖြင့် ရှိသေး၏ဟု ဖြေရာ၏။

❖❖❖❖❖

## ၁၈။ လေညှင်းသွယ်သွယ်၊ ပြဟ္မာဝယ်၊ အကယ်လာတို့လေလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- စက္ကဝါဠေသု အဗ္ဘန္တရေဃဝ ဝါတာ ဝါယန္တိ'' ဟူ၍လည်းကောင်း။ ''ဝေရမ္ဘဝါတာတိ ယောဇနတော ဥပရိ ဝါယန ဝါတာ'' ဟူ၍လည်းကောင်း ဝိဘင်းအဋ္ဌကထာလာသည်နှင့်အညီ စကြဝဠာတောင်၏ အတွင်း၌ သာလျှင် လေပြင်းတို့လာကုန်သည်။ ထိုအတွင်းတွင်မှလည်း လူတို့နေရာမှ တစ်ယူဇနာ၏အတွင်း၌ လာသောလေ ဟူသမျှတို့သည် ဝါတမည်သည်။ တစ်ယူဇနာ၏ အထက်၌ လာသောလေတို့သည် ရန်သူကို မှုန့်မှုန့်ညက်အောင် ဖျက်ဆီးတတ် သောကြောင့်လည်းကောင်း, ပြင်းထန်စွာ လာသောကြောင့်လည်းကောင်း အထူးသဖြင့် မွှေ့လျော်ဖွယ်ရာဖြစ်သောကြောင့်လည်းကောင်း ဝေရမ္ဘလေမည်သည်။ ဘုသဝါတလည်း မည်သည်။ စကြဝဠာတောင်၏ အထက်၌ကား လေပြင်းမလာ။ ထိုစကြဝဠာတောင် သည်လည်း တာဝတိံသာဘုံနားသို့ ရောက်ရုံမျှသာမြင့်သည်။ ပြဟ္မာ့ဘုံသို့ မရောက်ချေ။ ထို့ကြောင့် ပြဟ္မာ့ပြည်၌ လေပြင်းမလာဟု သိအပ်၏။

ဋီကာကျော်၌လည်း သတ္တဝါတို့အား ညှဉ်းဆဲတတ်သော သီတ ဥဏှတို့မရှိ။ ချီးမြှောက်ကာမျှဖြစ်သော သီတ ဥဏှတို့သာ ရှိ၏ဟု ပြတော်မူခြင်းငှာ-

**''န ဟိ တတ္ထ ဥပဃာတကာ သီတာဒယော အတ္ထိ။**
**ကိဉ္စာပိ ဥပဃာတကာ နတ္ထိ။ အနုဂ္ဂါဟကာ ပန အတ္ထိ''**

ဟူ၍ မိန့်သည်ကို ထောက်၍လည်း လေပြင်းမလာကြောင်းကို သိရာသည်။

**အနက်ကား။** ။ ဟိ၊ ထင်စွာပြဦးအံ့။ တတ္ထ၊ ထိုပြဟ္မာ့ပြည်၌။ ဥပဃာတကာ၊ ကပ်၍ နှိပ်စက်တတ်ကုန်သော။ သီတာဒယော၊ အချမ်း အပူဓာတ်တို့သည်။ န အတ္ထိ၊ မရှိကုန်။ ဥပဃာတကာ၊ ကပ်၍ နှိပ်စက်တတ်ကုန်သော အချမ်း အပူဓာတ် တို့သည်။ ကိဉ္စာပိ နတ္ထိ၊ အကယ်၍ကား မရှိကုန်၏ရှင့်။ ပန၊ ယင်းသို့ ဥပဃာတက မရှိသော်လည်း။ အနုဂ္ဂါဟကာ၊ ထောက်ပင့်တတ်ကုန်သော လေညှင်း လေနု ဥတုသမ သိတုဏှတို့သည်။ အတ္ထိ၊ ရှိကုန်၏။

❖❖❖❖❖

## ၁၉။ ဘင်ခဏာဝယ်၊ မဖြစ်ဖွယ်၊ အဘယ်ရုပ်ဟု ဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**''ပဉ္စသတ္တတိဝိဓမ္ပိ စိတ္တံ စိတ္တသမုဋ္ဌာနရူပံ ဇာယန္တမေဝ သမုဋ္ဌာပေတိ''**

ဟူသော သင်္ဂြိုဟ်နှင့်အညီ စိတ္တဇရုပ်တို့သည် ဥပါဒ်၌သာဖြစ်၏။ ဘင်ခဏ၌ မဖြစ်ဟူပေ။

❖❖❖❖❖

19
A

၆၀။ ခဏတိုင်းဝယ်၊ ဖြစ်စဖွယ်၊ ဘယ်မျှ ရုပ်ပေါင်းရှိသနည်း။

ဟူသော အမေးပုဒ်စ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''ပဥ္စဝီသတိဝိဓမ္ပိ ကုသလာကုသလကမ္မ မဘိသင်္ခတံ အဇ္ဈတ္တိက သန္တာနေ ကမ္မသမုဋ္ဌာနရူပံ ပဋိသန္ဓိမုပါဒါယ ခဏေ ခဏေ သမုဋ္ဌာပေတိ''**

ဟူသော သင်္ဂြိုဟ်ပါဠိနှင့်အညီ ကာမကုသိုလ် အကုသိုလ် ရူပကုသိုလ်အားဖြင့် ၂၅ ပါးသောစိတ်၌ ယှဉ်သောကံသည် ကမ္မဇရုပ် ၁၈ ခုကို ပဋိသန္ဓေစိတ်၏ ဥပါဒ်မှစ၍ ခဏတိုင်းခဏတိုင်းဖြစ်စေ၏ဟု ဆိုသောကြောင့် ခဏတိုင်းခဏတိုင်းဖြစ်သောရုပ် ၁၈ပါး ရှိ၏ ဟူ၍လည်းကောင်း ၂၀–ရှိ၏ဟူ၍လည်းကောင်း သိအပ်၏။

❖❖❖❖❖

၆၁။ သားငါးရာကြွယ်၊ တို့မိမယ်၊ မျိုးနွယ် ဘယ်ကပေတို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဥပ္ပလဝဏ်၏အလောင်းဖြစ်သော ပဒုမဝတီမိဖုရားသည် မဟာပဒုမ မင်းသားကို အစပြု၍ ငါးရာသော မင်းသားတို့ကို ဖွား၏။ ထိုမင်းသား ငါးရာတို့လည်း အရွယ်သို့ ရောက်သောအခါ ပစ္စေကဗုဒ္ဓါချည်း ဖြစ်ကြလေကုန်၏။ ထိုမိဖုရားကား ပဒုမ္မာ ကြာတိုက်၌ သံသေဒဇ ပဋိသန္ဓေဖြင့် ဖွားသောသူတည်း။

❖❖❖❖❖

၆၂။ အာသဝေါဝယ်၊ အာ–ကြံဖွယ်၊ အဘယ် အဝဓိ တို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အဝဓိအတ္ထော စေတ္ထ အာကာရော။အဝဓိ စ မရိယာဒါဘိဝိဓိဝသေန ဒုဝိဓော။ တတ္ထ အာပါဠိလိပုတ္တံ ဝုဋ္ဌော ဒေဝေါတိအာဒီသု ဝိယ ကိရိယံ ဗဟိကတွာ ပဝတ္တောမရိယာဒေါ။ အာဘဝဂ္ဂံ သဒ္ဒေါ အဗ္ဘုဂ္ဂတောတိ အာဒီသု ဝိယ ကိရိယံ ဗျာပေတွာပဝတ္တော အဘိဝိဓိ။ ဣဓ ပန အဘိဝိဓိမှိ ဒဋ္ဌဗ္ဗော။**

ဟူ၍ ဋီကာကျော်၌မိန့်သည်။

**အဓိပ္ပါယ်ကား။** ။အာသဝေါဟူသော ပါဌ်၌ အာ, အက္ခရာသည် ကိရိယာကို ပိုင်းခြားခြင်း လက္ခဏာရှိသောကြောင့် အဝဓိမည်၏။ ထို အဝဓိသည် မရိယာဒအဝဓိ, အဘိဝိဓိ အဝဓိအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုတွင် ''အာပါဋ္ဌလိပုတ္တံ၊ ပါဋ္ဌလိပုတ် ပြည်တိုင်အောင်။ ဒေဝေါ၊ မိုးသည်။ ဝုဋ္ဌော၊ ရွာ၏''ဟူသော ပြယုဂ်၌ကဲ့သို့ ကိရိယာကို

အပပြု၍ဖြစ်သောအဝိသည် ''မရိယာဒအဝိ''မည်၏။ အာဘဝဂ္ဂ၊ ဘဝဂ်တိုင်အောင်။ သဒ္ဒေါ၊ ကျော်စောသောအသံသည်။ အဗ္ဘုဂ္ဂတော၊ နှံ့၍တက်၏။ ဤပြယုဂ်၌ကဲ့သို့ ကိရိယာကို နှံ့၍ဖြစ်သော အဝိသည် ''အဘိဝိဓိအဝိ''မည်၏။ ဤအာဘဝဂ္ဂ ဂေါတြဘုံဟူသော အဖွင့်ပါဌ်၌ အာ, သဒ္ဒါသည် ဘဝဂ်ပါနှံ့၍ ဂေါတြဘူပါနှံ့၍ ဖြစ်ရကား အဘိဝိဓိအဝိ၌ ဖြစ်သည်ဟူ၍ မှတ်အပ်၏။

❖❖❖❖❖

## ၆၃။ သဘော်ပင်လယ်၊ ကူးသည့်ဝယ်၊ အဘယ်နည်းဟု ဆိုပိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–မဉ္စာ၊ ညောင်စောင်းတို့သည်။ ဃောသန္တိ၊ ကြွေးကြော်ကုန်၏။ ဤပြယုဂ်၌ ဌာနဖြစ်သော ညောင်စောင်းဒြဗ်၏ မဉ္စ ဟူသော အမည်ကို ဌာနီဖြစ်သော လူဒြဗ်၌ တင်စားသောအားဖြင့် လူဒြဗ်၏ ကြွေးကြော်ခြင်းကိုပင် ညောင်စောင်းကြွေးကြော်၏ဟူ၍ ဌာနူပစာရအားဖြင့် ဆိုသကဲ့သို့ ထို့အတူ လူနှင့် သဘော်မှာလည်း လူသာကူးသည်ကို သဘော်ပင်လယ်သို့ ကူး၏ဟု ဆိုခြင်းသည် ''ဌာနူပစာရနည်း''ဟု သိရာ၏။

**တစ်နည်းကား။** ။ယတဏ္ဍိကာသာ၊ ထောပတ်ကို အလိုရှိသောသူအား။ ဃဋံ၊ အိုးကို။ အာနယ၊ ဆောင်ခဲ့လော့။ ဤပြယုဂ်၌ အိုးတည်းဟူသော မကင်းရာသည်ကို ဆိုသဖြင့် ထောပတ်တည်းဟူသော မကင်းတတ်သည်ကိုလည်း ရသောကြောင့် နာနန္တရိကနည်း မည်သကဲ့သို့ ထို့အတူ လူနှင့်သဘော်မှာလည်း သဘော်တည်းဟူသော မကင်းရာ သည်ကို ဆိုလိုသဖြင့် လူတည်းဟူသော မကင်းတတ်သည်ကို ရသောကြောင့် ''နာနန္တရိက နည်းမည်၏''ဟု သိရာ၏။

❖❖❖❖❖

## ၆၄။ အဟိတ်စိတ်ဝယ်၊ ပိတ်ဆီးကွယ်၊ ဘယ်ကြောင့်မဂ္ဂင် မရသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''အဋ္ဌာရသာဟေတုကေသု စ ဟေတုဝိရဟတော မဂ္ဂင်္ဂါနိ န လဗ္ဘန္တိ''**

ဟု ဋီကာကျော်မိန့်သည်နှင့်အညီ အဟိတ်စိတ်တို့၌ ဟိတ်ကင်းသည်၏ အဖြစ်ကြောင့် မဂ္ဂင်တို့ကို မရဟူပေ။

**အနက်ကား။** ။အဋ္ဌာရသာဟေတုကေသု စ၊ တစ်ဆယ့်ရှစ်ပါးကုန်သော အဟိတ် စိတ်တို့၌လည်း။ ဟေတုဝိရဟတော၊ ဟိတ်ခြောက်ပါး ကင်းသည်၏ အဖြစ်ကြောင့်။ မဂ္ဂင်္ဂါနိ၊ မဂ္ဂင်ရှစ်ပါးတို့ကို။ န လဗ္ဘန္တိ၊ မရအပ်ကုန်။

ဤ ဋီကာကျော် စကားသည် မထင်ရှားပါ။ ထင်ရှားစွာ ဆိုဦးလော့ဟူအံ့– အလောဘအစရှိသော ဟိတ်တရားတို့မှ သဟဇာတပစ္စည်းကိုရသော်သာလျှင် မဂ္ဂင်

ကိစ္စတပ်၏။ မရသော်မတပ်။ ဤအဟိတ်စိတ်၌ အလောဘ အစရှိသော ဟိတ်တရားသည် မရှိခဲ့ရကား မဂ္ဂင်ကို မရဟုလိုသည်။

ဝေဖန်၍ပြသော်–သမ္မာဒိဋ္ဌိ, သမ္မာဝါစာ,သမ္မာကမ္မန္တ, သမ္မာအာဇီဝ, သမ္မာသတိတို့သည် သောဘနတရား သက်သက်ဖြစ်၍ ပဋိပက္ခဖြစ်သောကြောင့်မရ။ သမာဓိ, ဝိတက်, ဝီရိယတို့ကိုကား ''ဟေတုပတိဋ္ဌာ မဂ္ဂင်'' ဟူ၍ အဋ္ဌကထာ မိန့်သည်နှင့် အညီ–ဟိတ်တည်းဟူသော မှီရာ တည်ရာကို မရသောကြောင့် မဂ္ဂင်ကိစ္စကို မရဟုဖြေ။

❖❖❖❖❖

### ၆၅။ မဒ္ဒွေတိုက်ဝယ်၊ အံ့ဩဖွယ်၊ ဘယ်မျှဗောဓိ မြင့်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''ဗောဓိသတ္တော စုဒ္ဒသ ဟတ္ထေ တိဏ္ဏသန္ထာရေ တိသန္ဓိ ပလ္လင်္ကံ အာဘုဇိတွာ စတုရင်္ဂဝီရိယံ အဓိဋ္ဌဟိတွာ သုဝဏ္ဏပီဌေ ဌပိတသုဝဏ္ဏက္ခန္ဓံ ဝိယ ပဉ္စာသဟတ္ထံ ဗောဓိက္ခန္ဓံ ပိဋ္ဌိတော ကတွာ ဥပရိ မဏိဆတ္တေန ဓာရိယမာနာ ဝိယ ဗောဓိသာခါယ ဓာရိယမာနာ နိသီဒိ''**

ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကာထာ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ဘုရားလောင်းသည် တစ်ဆယ့်လေးတောင်ရှိသော မြက်အခင်း ပလ္လင်၌ သုံးပါးသော အစပ်ရှိသော ထက်ဝယ်ကို ခွေတော်မူလျက် အင်္ဂါလေးပါးရှိသော ဝီရိယကိုဆောက်တည်၍ ရွှေအင်းပျဉ်၌ တင်ထားသော ရွှေတုံးကဲ့သို့ အတောင်ငါးဆယ် ရှိသော ဗောဓိပင်စည်ကို နောက်မှီတံကဲပြု၍ အထက်၌ မြထီးဝန်းဖြန့်သကဲ့သို့ ဗောဓိအခက်ကို ဆောင်းလျက်နေတော်မူ၏ ဟူလိုသည်။

ဤစကား၌ ပင်စည်အတောင်ငါးဆယ်ရှိလျှင် အထက်ခက်မတို့လည်း အတောင်ငါးဆယ်ရှိရာသည်။ ထို့ကြောင့် ''အတောင်တစ်ရာမြင့်၏''ဟု ယူရာသည်။

> ဗောဓိရုက္ခသာ၊ ဗောဓိပင်၏။ ဩတရဏဟီရော၊ အောက်သို့သက်သော အမြစ်သည်။ ပဉ္စာသဟတ္ထော၊ သံတောင် ငါးဆယ်ရှိ၏။ ခန္ဓော စ၊ ပင်စည်သည် လည်းကောင်း။ သာခါဌာနဥ္စ၊ အခက်ရှိရာ အရပ်သည် လည်းကောင်း။ ပဉ္စာ သဟတ္ထော၊ သံတောင်ငါးဆယ်စီ ရှိ၏။ သဒေါ၊ လုံးပတ်သည်။ တိံသဟတ္ထော၊ သံတောင်သုံးဆယ် ရှိ၏။

ဤသို့ စသည်ဖြင့် ဗောဓိဝိဘာဝနီမည်သော စာငယ်တို့၌ ဆိုသည်။ ထို့ကြောင့် ဗောဓိပင်သည် မြေမှ ''သံတောင်တစ်ရာမြင့်၏'' ဟူပေ။

❖❖❖❖❖

## ၆၆။ သုံးရာ့ခုနစ်ဆယ်၊ သာသနာဝယ်၊ ကြီးကျယ် ဘယ်စေတီတို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- သီဟိုဠ်ကျွန်း၌ ကာကဝဏ္ဏ မင်းကြီး၏ သားတော်ဖြစ်သော အဘယ ဒုဋ္ဌဂါမဏိမင်းသည် ငါ၏သာသနာ သုံးရာ ခုနစ်ဆယ် ပြည့်သောအခါ၌ များစွာသော ဓာတ်တော်အပေါင်းကို ဌာပနာ၍ ပုထိုးကြီးစွာ တည်လိမ့်မည်-ဟု သဗ္ဗညုဘုရား ဗျာဒိတ် ကြားကြောင်းကို အရှင်မဟိန္ဒ ရေးခဲ့သော ကျောက်စာကိုတွေ့၍ ၁၈-မင်းပယ်စားသော မြေအရပ်၌ ဟေမမာလာ မည်သော စေတီကို တည်လုပ်သည်။ ထို့ကြောင့် သုံးရာ့ခုနစ်ဆယ်သော သာသနာ၌ တည်သည်ကား ''သီဟိုဠ် မဟာစေတီတည်း'' ဟု သိအပ်၏။

❖❖❖❖❖

## ၆၇။ သက်တော်ရှစ်ဆယ်၊ နောက်ကိုသွယ်၊ အဘယ်အင်းက ထွက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- မဏိဇောတိရသ် အမည်ရသော အာယုခက်အင်းက ထွက်၏ဟူ၏၊ အကျယ်အဖြေကား နောက်၌ လာလတ္တံ့။

❖❖❖❖❖

## ၆၈။ မိဝမ်းထဲလွယ်၊ သားသူငယ်၊ ကျဖွယ် ဝီထိ ဘယ်မျှနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**''အန္တောကုစ္ဆိဂတာ မာတုပက္ကာသယံ အတ္ထရိတွာ အာမာသယံ ဥက္ခိပိတွာ ဥဒရပဋလံ ပိဋ္ဌိတော ကတွာ ပိဋ္ဌိကဏ္ဋကံ နိဿာယ ဒွိသုမုဋ္ဌီ သု ဟနုကံ ဌပေတွာ ဒေဝေ ဝဿန္တေ ရုက္ခသုသိရေ မက္ကဋာ ဝိယ ဥက္ကုဋိကံ နိသီဒန္တိ''-**

အစရှိသည်ဖြင့် သာရတ္ထသင်္ဂဟ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။အမိဝမ်း၌ သန္ဓေယူကုန်သော သူငယ်တို့သည် အမိ၏ အစာဟောင်းအိမ်ကို ခင်းလျက် အစာသစ်အိမ်ကို ထိပ်၌ရွက်၍ အမိဝမ်းရေးပြာကို နောက်မှီပြုလျက် အမိ၏ ကျောက်ကုန်းရိုးကို မျက်နှာမူ၍ မိုးသည်းထန်စွာရွာသောအခါ သစ်ခေါင်း၌ ဆောင့်ကြောင့်ထိုင်လျက် လက်ဆုပ်နှစ်ခုဖျား၌ မေးထား၍ ကုပ်ခွေကာ နေသော မျောက်ငယ်၏ အသွင်ကဲ့သို့ မိခင်ဝမ်း၌ နေရကုန်၏ ဟူလိုသည်။

ဝီထိစိတ်ဖြစ်ဟန်ကိုကား ''န ဟိ အန္တောကုစ္ဆိယံ စက္ခုဝိညာဏံ ဥပ္ပဇ္ဇတိ'' စသည်ဖြင့် အမိဝမ်းတွင်း၌ စက္ခုဝိညာဉ်စိတ် မဖြစ်ကြောင်းကိုဆိုသည်။ အမိဝမ်း၌ ကိန်းရသော သတ္တဝါအား ''အဿာသ ပဿာသ'' ဟူသော ကာယ သင်္ခါရ မရှိ ကြောင်းကို သင်္ခါရယမိုက် ပါဠိတော်, ၎င်းအဋ္ဌကထာတို့၌ လာသည်။ ထွက်သက်,

ဝင်သက်ရှိမှ သဒ္ဒါရုံကို နားတွင်းသို့ရောက်အောင်ဆောင်၍ ကြားစေနိုင်သည်။ ထွက်သက်, ဝင်သက်ရှိမှ ဂန္ဓာရုံကို နှာခေါင်းတွင်းသို့ ရောက်အောင်ဆောင်၍ အနံ့ကို သိစေနိုင်သည်။ ထွက်သက်, ဝင်သက်ရှိမှ ရသာရုံကို ဇိဝှာသို့ဆောင်၍ အချို အခါး စသော အရသာကိုသိနိုင်သည်။ ထွက်သက်, ဝင်သက်မရှိခဲ့သော် ထိုသို့သော ကိစ္စကို မဆောင်နိုင်။ မဆောင်နိုင်သော် ထိုဝိညာဉ်သည် မဖြစ်။ မဖြစ်ရှိသော် ထိုဝိညာဉ်လျှင် ပုဗ္ဗင်္ဂမရှိသော တစ်ဆယ့်ငါးဝီထိတို့သည် မကျပေရာ။ အပ္ပနာဝီထိ စသည်တို့မှုကား အလွန်ဝေးစွ။

ထွက်သက်, ဝင်သက်ရှိလျက် နားမကြားသောသူ။ အနံ့ကိုမသိသောသူတို့ကား အသို့နည်း မေးငြားအံ့– ထို ပသာဒရုပ် ပျက်စီးအောင် ဝါယောဓာတ် လွန်ခြင်းစသည်ဖြင့် နှိပ်စက်၍သာ ဖြစ်လေသည်ဟု မှတ်ရမည်။

ကာယဒွါရ၌ဖြစ်သော တစ်ဆယ့်ငါးဝီထိ။ တဒနုဝတ္တက မနောဒွါရဝီထိ၊ ဝိဘူတာ ရုံငါးဝီထိ၊ အဝိဘူတာရုံနှစ်ဝီထိအားဖြင့် ခုနစ်ပါးသော သုဒ္ဓ မနောဒွါရဝီထိတို့မှုကား ယထာရဟ ကျထိုက်၏။ ဘုရားအလောင်း, ပစ္စေကဗုဒ္ဓါတို့၏ အလောင်း, အဂ္ဂသာဝက တို့၏ အလောင်းတော်များလည်း ဝမ်းတွင်း၌နေသောအဖြစ်၊ ဆင်းရဲစွာ နေရသော အဖြစ်များကို သိကြောင်းနှင့် ကျမ်းဂန်၌လာသည်။ ထိုသို့သိသော ပုဂ္ဂိုလ်အား ယခင်ဆိုခဲ့ ပြီးသော ကာယဒွါရဝီတို့သည် ဖြစ်သင့်၏ဟု သိရာသည်။

❖❖❖❖❖

## ၆၉။ တစ်နာရီဝယ်၊ နေ–လ–ကြယ်၊ ဘယ်မျှခရီးရောက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နေမင်း၏အသွားကို လောကဒီပနီ၌–

**"အထ ဣမသ္မိံ ဒီပဝရေ အမုရတ္တိံ အာဒိံကတွာ သူရိယဿ စရဏံ လိတ္တာဝသေန ဝုစ္စတေ။ အမုရတ္တိတော ပဋ္ဌာယ သူရိယော နက္ခတ္တရာ သိမဏ္ဍလေန သဟေဝ စရမာနော ဧကေကနာဠိကေ ပရိပုဏ္ဏကာလေ ပဥ္စနဟုတယောဇနေ မဒ္ဒါနံ ဂတော"** ဟူ၍ မိန့်အပ်၏။

**အဓိပ္ပါယ်ကား။** ။ဤဇမ္ဗူဒိပ်ကျွန်းမြတ်၌ သန်းခေါင်အခါကို အစပြု၍ နေမင်း၏ အရောက်ခရီးကို လိတ္တာ၏ အစွမ်းအားဖြင့် ပြဆိုလိုက်အံ့။ သန်းခေါင်အခါမှစ၍ နေမင်းသည် နက္ခတ်ရောက်ရာသီစက်ဝန်းနှင့်တကွ လှည့်လည်လေသော် တစ်နာရီပြည့် ကာလ၌ပင် ခရီးယူဇနာ ငါးသောင်း ငါးသောင်းခန့် ရောက်၏။

**တွက်ပုံကား။** ။ရာသီစက်ဝန်း သုံးသန်းကိုတည်၊ နာရီ ၆၀ စား၊ လဒ်ကား တစ်နာရီရောက် ခရီးယူဇနာဖြစ်၏။

(လသွားနှင့် ကြယ်သွားကို ကျမ်းဂန်၌မဆို။ ထိုသို့ မဆိုသော်လည်း နေသွားတွက်ပုံကိုမှီ၍ တွက်သဖြင့် သိသင့်သည်သာတည်း)။

ကြယ်သွားကို အသို့တွက်အံ့နည်း ဟူမူကား–နေမင်းသည် ရာသီစက်ကိုမမှီ၍ တစ်နေ့ တစ်နေ့၌ ယူဇနာ ၈၂၁၉ ယူဇနာနှင့် ၃ ဂါဝုတ် ၇၅ ဥသဘ ကျန်ရစ်သည်။ တစ်နာရီသော် ၁၃၆ ယူဇနာနှင့် ၃ ဂါဝုတ် ၇၅–ဥသဘ ကျန်ရစ်သည်။ ထို့ကြောင့် နေမင်းရောက်သော ယူဇနာ ငါးသောင်းတွင် ၁၃၆–ယူဇနာနှင့် ၃–ဂါဝုတ် ၇၅–ဥသဘ ကိုရော၊ တစ်နာရီ၌ ကြယ်ရောက်သောခရီး ၅၀၁၃၆–ယူဇနာ ၃–ဂါဝုတ် ၇၅–ဥသဘ ဖြစ်၏။

လသွားကို အသို့တွက်အံ့နည်းဟူမူကား လသည်နေကိုမမှီ၍ တစ်နေ့တစ်နေ့လျှင် ယူဇနာတစ်သိန်း ကျန်ရစ်သည်။ တစ်နာရီလျှင် ၁၆၆၆–ယူဇနာ ၂–ဂါဝုတ် ၅၃–ဥသဘ ကျန်ရစ်သည်။ ထို့ကြောင့် ၎င်းအကျန်နှင့် နေတစ်နာရီသွား ယူဇနာ ငါးသောင်းတွင် နုတ်၊ အကြွင်း ၄၈၃၃၃–ယူဇနာ တစ်ဂါဝုတ် ၂၇–ဥသဘသည် တစ်နာရီ၌ လရောက်သောခရီး အဝွန့်ဖြစ်၏။ ဤသို့တွက်၍ သိရမည်။

❖❖❖❖❖

## ၇၀။ ဂြိုဟ်–နက္ခတ်–ကြယ်၊ တာရာဝယ်၊ ရောက်ဖွယ်တစ်နေ့ ဘယ်မျှနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တနင်္ဂနွေမှ တစ်ပါးသော ဂြိုဟ်နက္ခတ်တို့၏ အသွားအရောက်ကို ကျမ်းဂန်၌မလာ။ တနင်္ဂနွေဂြိုဟ်၏ အသွား အရောက်ကိုသာ–

**''ဣမိနာ နယေန သိနေရုံ ပရိဝဋ္ဋေတွာ သဋ္ဌိနာဋိကာသု သံပုဏ္ဏာသု တိသတ သဟဿ– ယောဇနမဒ္ဓါနံ ဂန္တွာ''**

ဟူ၍ လောကဒီပနီ၌ လာသည်။

**အဓိပ္ပါယ်ကား–** ဤဆိုအပ်ပြီးသောနည်းဖြင့် တစ်နာရီလျှင် ယူဇနာငါးသောင်းစီ သွားလျက် မြင်းမိုရ်တောင်ကို လှည့်လည်၍ နာရီ ၆၀–ပြည့်လတ်သော် ယူဇနာ ၃သန်း မျှလောက်သော ခရီးအဝွန့်သို့ ရောက်လေ၏ ဟူလိုသည်။

ထိုတနင်္ဂနွေဂြိုဟ်၏ နည်းကိုမှီ၍ တစ်ပါးသောဂြိုဟ်တာရာတို့၏ အရောက်ကို တွက်သော် သိနိုင်ရာ၏။ တွက်ပုံကိုပြရလျှင် ဂန္ထဂရု ဖြစ်ရာသည် အကျိုးလည်းများစွာ မရှိသည်ဖြစ်၍ မပြလိုက်ပြီ။

❖❖❖❖❖

## ၇၁။ နေ့ဖွယ် လျှင်ဖွယ်၊ ထိုထိုကြယ်၊ဘယ်ကြယ် လျှင် နေ့သွားသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''နက္ခတ္တာနိ အတ္တနော ဝီထိယာ ဂစ္ဆန္တော ကိဉ္စိ သီဃံ ကိဉ္စိ ဒန္ဓံ။ တတ္ထ စ ဒန္ဓာ နာမ နက္ခတ္တာနံ သမ္ဗာဓတ္တာ ကေပါဒဥ္စ ကေနဝင်္သော၀ ဘူတံ။ ကတမာနိ တာနိ။ ကတ္တိကာ ရောဟိနီ, မိဂသိရော, အဒြော,**

ပုနဗ္ဗသု, ဖုဿော, အဿလိဿော, မာဃော, ပုဗ္ဗဖဂ္ဂုနီ, မူလော, ပုဗ္ဗာသာဠ္ဍံ, ဥတ္တရာသာဠ္ဍန္တိ ဣမာနိ ဒွါဒသ သီဃာ နာမ။

နက္ခတ္တာနံ အန္တရာ အန္တရာ ဝိသာလတ္တာ ကေပါဒမေဝ ကေနဝဂ်ဿ စ ဘူတံ။ ကတမာနိ တာနိ။ စိတြော, သွာတိ, ဝိသာခါ, အနုရာဓော, ဇေဋ္ဌော, သတ္တာဘိသ္သော, ပုဗ္ဗဘဒ္ဒပဒံ, ဥတ္တရဘဒ္ဒပဒံ ရေဝတီ စာတိ ဣမာနိ နဝ နက္ခတ္တာနိ။

အဿ ယုဇော, ဘရဏီ, ဥတ္တရဖဂ္ဂုနီ, ဟဿတော, သရဝဏော ဓနသိဋ္ဌော စာတိ ဣမာနိ ဆ နက္ခတ္တာနိ ပန နာတိဒန္တာနိ စေဝ နာတိ သီဃာနိ စ ဟောန္တိ။ နက္ခတ္တဿ ကေနဝဂ်ဘူတတ္တာတိ ဝေဒိတဗ္ဗော''

ဟူ၍ လောကဒီပနီ၌ မိန့်၏။

**အဓိပ္ပါယ်ကား။** ။နက္ခတ်တို့သည် မိမိ၏ခရီးဖြင့်သာ သွားကုန်လျက် အချို့ကား လျင်သည်။ အချို့ကား နှေးသည်။ ဤအရာ၌ နှေးခြင်းမည်သည်ကား နက္ခတ်တို့၏ ကျဉ်းမြောင်းသည်၏ အဖြစ်ကြောင့် တစ်ပါဒ်ခန့် နှစ်ပါဒ်ခန့် ၎င်းတစ် နဝင်း၏ အစိတ် သာလျှင် ပမာဏဖြစ်၏။ ထိုနက္ခတ်တို့သည် အဘယ်သည်တို့နည်း ဟူမူကား– ကတ္တိကာ၊ ရောဟိနီ၊မိဂသီ၊ အဒြ၊ပုနဗ္ဗသု၊ ဖုသျှ၊အဿလိဿ၊ မာဃ၊ဖဂ္ဂုနီ၊ မူလ၊ ပြုဗ္ဗာသာဠ်၊ ဥတ္တရာသာဠ် ဤ ၁၂–လုံးတို့သည် လျင်သော နက္ခတ်မည်ကုန်၏။

နက္ခတ်တို့၏ အကြားကျယ်သောကြောင့် တစ်ပါဒ်သာလျှင်လည်းကောင်း, တစ်နဝင်း နှစ်နဝင်းလည်းကောင်း, နှေးသော ပမာဏဖြစ်သော နက္ခတ်ကား–စိတြ၊ သွာတိ၊ ဝိသာခါ၊ အနုရာဓ၊ ဇေဋ္ဌ၊ သတ္တာဘိသျှ ၊ ပုဗ္ဗဘဒြ၊ ဥတ္တရာဘဒြ၊ ရေဝတီ၊ ဤ ၉–လုံးသော နက္ခတ်တို့သည် နှေးသောနက္ခတ် မည်ကုန်၏။

အဿဝဏီ၊ ဘရဏီ၊ ဥတ္တရာဖဂ္ဂုနီ၊ ဟဿတ၊ သရဝဏ၊ ဓနသိဋ္ဌ။ ဤ ၆–လုံးသော နက္ခတ်တို့သည် မနှေးလွန်း, မလျင်လွန်းသော နက္ခတ် မည်ကုန်၏။ အဘယ် ကြောင့်နည်း ဟူမူကား– နက္ခတ်တစ်ပါဒ်နှင့် တစ်နဝင်းပမာဏ မျှသည်၏ အဖြစ် ကြောင့်တည်း။ အလွန်သိမ်မွေ့သော ဤနည်းအမြွက်ကို ဉာဏ်ထက်သော ပုဂ္ဂိုလ်တို့ ကြံလေကုန်။ ဤသို့ လာသော လောကဒီပနီကိုမှီ၍ သိရာ၏ဟူပေ။

❖❖❖❖❖

## ၇၂။ နေ,လနှင့်ကြယ်၊ကောင်းကင်လယ်၊ဘယ်သူထက်အောက်သွားသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–''**တေသု ပန စန္ဒမဏ္ဍလံ ဟေဋ္ဌာ၊ သူရိယမဏ္ဍလံ ဥပရိ၊ အန္တရာ နေသံ ယောဇနံ ဟောတိ**'' ဟူ၍ လာသော လောကဒီပနီ။ ၎င်းနည်းတူလာသော သာရတ္ထဒီပနီဋီကာပါဠ်တို့နှင့်အညီ လဝန်းကား

အောက်။ နေဝန်းသည်အထက်။ ထိုနှစ်ခုတို့၏ အကြား၌ တစ်ယူဇနာခြားလျက် ကောင်းကင်ပြင်၌ သွားလေသည်။

ကြယ် နက္ခတ်တို့မူကား– လဗိမာန်၏ လက်ဝဲလက်ယာ ရှေ့နောက်မှာ ခြံရံကာ လိုက်ကြရကား လနှင့်တမျှတည်း သွားၐ်ဟု သိရာ၏။

မဂ္ဂဂမန နည်းကဲ့သို့ ခရီးအလျင်, အနေး အထက်အောက်ကို ယူဆသော်–

**အတိတ္ဟာ ကေမာသာ စ၊ ဗုဒ္ဓ သောကြာ တထေဝ စ။**
**ဒွိ မာသံ ကုဇံ ဥဇု ယျာဝ၊ စန္ဒော ဒိယမုဒိဝသာ။**

**ဂုရု စ ဒွါဒသမာသာ၊ ရာဟုမာသာ အဋ္ဌာရသာ။**
**သောရီတိံသ ဘဝေ မာသာ၊ ဂြဟဋ္ဌာနာ ဝိဇာနိယာ။**

ဟူ၍ လောကဒီပနီ၌ လာသည့်အတိုင်း– တနင်္ဂနွေ, ဗုဒ္ဓဟူး, သောကြာ ဂြိုဟ်တို့သည် တစ်ရာသီ၌ တစ်လစီနေသည်။ အင်္ဂါဂြိုဟ်နှစ်လနေသည်။ တနင်္လာ ဂြိုဟ်သည် နှစ်ရက်ခွဲနေသည်။ ကြာသပတေးဂြိုဟ်သည် ၁၂–လ နေသည်။ ရာဟု ဂြိုဟ်သည် ၁၈–လနေသည်။ စနေဂြိုဟ်လပေါင်း ၃၀ နေသည်ဟူ၍ ဂြိုဟ်နေ ရက်ကို သိရာသည်။

ဇောတိသတ္တ စသော လောကီကျမ်းကြီးတို့၌ကား– အင်္ဂါဂြိုဟ် ၃–ပက္ခ။ ဗုဒ္ဓဟူး ဂြိုဟ် ၁၈ရက်။ သောကြာဂြိုဟ် ၂၂ ရက်နေသည်။ ကြာသပတေးဂြိုဟ် ၃၅၄ ရက် နေသည်ဟု ဆို၏။ ဤစကားသည် မကရန္တ လက်ရိုး, သိဒ္ဓန္တလက်ရိုးတို့နှင့်လည်း ညီပေသည်။

❖❖❖❖❖

## ၇၃။ ကောင်းကင်အလယ်၊ လိပ်သူငယ်၊ ဘယ်ပြုမြေသို့ကျသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရေကန်သောအိုင်မှ လိပ်ကို ဟင်္သာညီနောင်တို့ ယူဆောင်လေရာ တစ်ခုသော မြေခွေးသည် လိပ်သားကို စားလို သောကြောင့် ''အဆွေဟင်္သာတို့ ဤလိပ်ပုပ်ကို အဘယ်ကြောင့် ကောင်းကင်ခရီးဖြင့် ဆောင်သနည်း''ဟု ဟစ်အော်လေသော်–လိပ်က မတွေးတောဘဲ ဒေါသစိတ်ဖြင့်သာ ''မြေခွေးအို ငါ့ကိုလိပ်ပုပ်ဆိုရာသလော''ဟု ခံတွင်းကိုဟ၍ အသံပြုလျှင် မိမိခဲ၍ လိုက်သော နှင်တံမှ လွတ်၍ မြေသို့ကျလေသဖြင့် မြေခွေးစာဖြစ်လေ၏။ ထိုသို့ဖြစ်ရကား လိပ်သူငယ်သည် မဆင်မခြင်စကားကို ဆိုသောကြောင့် မြေသို့ကျ၏ဟုဖြေ။

အချို့စာတို့၌ ''ကောင်းကင်အလယ်၊ ဆိတ်သူငယ်၊ ဘယ်ပြုမြေသို့ကျသနည်း'' ဟူ၍ ပုစ္ဆာရှိ၏။ ဤသို့ရှိသော်–

**နိယပ္ပေ ကတ္တိကော မဇ္ဈံ၊ အလက္ခေ သောဝ နိပန္နော။**
**ဥတ္တရံ သုစိနော ဝဿံ၊ အဂ္ဂဂ္ဂံ ဝရကာ သယေ။**

နိဃပ္ပေ၊ ရက်ပေါင်း ၁၄၀–၌။ ကတ္တိကော, ကတ္တိကာငယ်, ဖျောက်ဆိပ်ကြယ်သည်။ မဇ္ဈံ၊ မိုးသောက်သောအခါ, အရုဏ်လာ၌, မွန်းတည့်၏။ အလက္ခေ၊ ရက်ပေါင်း ၂၃၀–၌။ သော၀၊ ထိုဖျောက်ဆိပ်ကြယ်သည်လျှင်။ နိပန္နော၊ မြေလူး၏။ ဥတ္တရံ၊ ရက်ပေါင်း ၂၆၀–၌။ ၀သံ၊ မိုးကို။ သုစိနော၊ ကောင်းစွာသွန်း၏။ အဂ္ဂဂုံ၊ ရက်ပေါင်း ၃၃၀–၌။ ၀ရကာ၊ ပုဗ္ဗကြယ်နတ်သမီးသည်။ သယေ၊ အိပ်၏ ဤဂါထာဖြင့် ၀ိသဇ္ဇနာပြု၍ ဖြေဆိုအပ်၏။

❖❖❖❖❖

## ၅၄။ သျှတြ၀ယ်၊ အရပ်သွယ်၊ ဘယ်မျှအကြိမ်ဆိုမည်နည်း။

## ၅၅။ ခြောက်ကျိပ်လေးသွယ်၊ မိန်းမ၀ယ်၊ ဘယ့်နှယ်မိန်းမ ညွှံ့သနည်း။

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေ၀ိသဇ္ဇနာကား–ရဟန်းတို့၏ အရာမဟုတ်သကဲ့သို့ ရှိ၏။ ယင်းသို့ရှိသောကြောင့် မရေးမဖြေဘဲ ရှောင်လွှဲချန်ခြွင်းပြန်လျှင်လည်း ဖြေအံ့ဟု ၀န်ခံသော ပဋိညာဉ်နှင့် ပဋိညာတဗ္ဗ မညီ။ လောကီကျမ်းအရာ၌ ပညာပွားစေလို၍ မေးဆိုသော ကျမ်းဆရာ၏ ကရုဏာ စိတ်ကိုလည်း ပိတ်ပင်သကဲ့သို့ ဖြစ်ရာသည်။ ရှေးထုံးကိုရှာသော် သူတော်ကောင်း တကာတို့၏ မကိုင်းဖြစ်တော်မူသော ရှင်စောဘုရား မှလည်း မြွက်ကြားသင့်သောအရာ၌ ရှောင်ရှားရပါမည့် မဟုတ်။ ပထမသိက္ခာပုဒ်တို့၌ သရုပ်ကို ထင်ရှားစွာပြ၍ ''ပ၀ေသန, ပ၀ိဋ္ဌ, ဌိတ, ဥဒ္ဓရဏ'' စသည်ဖြင့် အာပတ်ကို ပညတ်တော်မူရသည်။ ဘိက္ခုနီမတို့အားလည်း ''ဒွင်္ဂုလပဗ္ဗ၊ တလဃာတက'' အစရှိသော သိက္ခာပုဒ်များကို မိန့်ကြားတော်မူရသည်။ ထိုနှင့်လျော်စွာ အဋ္ဌကထာ, ဋီကာဆရာ ဟူသမျှလည်း မေထုနသေ၀န စသော ဒုဋ္ဌုလ္လ စကားကို ထင်ရှားစွာဖွင့်ဆိုကြကုန်သည်။ ဤဆရာမြတ်တို့၏ စံပုံကို အလုံးစုံမြော်ထောက်သဖြင့် နောက်နောက်သော အပ္ပသုတ တို့အား လောကီ လောကုတ္တရာ ပညာစီးပွား ကြီးမားစေခြင်းငှာ များလှသော ကရုဏာဖြင့် ဤ၀ိသဇ္ဇနာကျမ်းကို ကြိုးပမ်း စီရင်သည် ဖြစ်ရကား မလျော်လှငြားသော်လည်း ရှား၍ မချန်ပြီ။ လောကီကျမ်းအရာ၌ လိမ္မာလိုသော သူတို့၏ ဆန္ဒကိုပြည့်၀အောင် ဖြေဆိုလိုက်အံ့–

မဇ္ဈိမ တိုင်းကြီး ပြည်ကြီးတို့ကို အစိုးရသော ဟရိဟရာယန အမည်ရှိသော မင်းသည် အထူးထူးသော ဆေးအတတ်၊ မန္တန်အတတ်၊ ဗေဒင်အတတ်၊ ၀ိဇ္ဇာမယ အတတ်တို့၌ ကျွမ်းကျင်လိမ္မာသော မဟာနာရာယန အမည်ရှိသောဆရာကို မေးလျှောက်တောင်းပန် အပ်သည်ဖြစ်၍ ထိုဆရာသည် မိနာထရှင်ရသေ့ ဟောပြသောနည်းအားဖြင့် ရေးသားစီရင်အပ်သော မနုဿသျှတြကျမ်း၌ မိန်းမမျိုးလေးပါး, ယောက်ျားမျိုးလေးပါး, အကျယ်အားဖြင့် ၆၄–ပါးပြားဟန်ကို ဝေဖန်ခြင်းငှာ–

20
B

ပဒုမိနီ စိတ္တရဏီ၊ သင်္ခနီ ဟတ္ထိနီ ပိစ။
စတုနာရီ တထာ ဝိညာ၊ အဿဂံ မြိဂံ ပြိဿဘံ။
အသ္သနရဘေဒါ မတာ။

သာမာရတ္တာ သေတံကာလာ၊ ဥတ္တာတနု ကိသာထူလာ။
ပေတေနာရီ စတုသဋ္ဌိ၊ ပေါသနရာ တထာဥေယျာ။

ဟူသော ဂါထာကို ဆိုသတည်း။

**ထိုဂါထာ၏ မြန်မာဘာသာကား။** ။မိန်းမမျိုးတို့၏အပြားသည် ပဒုမိနီ, စိတ္တရဏီ, သင်္ခနီ, ဟတ္ထိနီအားဖြင့် လေးပါးအပြားရှိ၏။ ထိုတွင် တစ်ပါးတစ်ပါး၌လည်း အသားရွှေ၊ အသားနီ၊ အသားဖြူ၊ အသားမည်းအားဖြင့် လေးပါးစီပြားရကား ၁၆–ပါးရှိ၏။ ထိုတွင် တစ်ပါးတစ်ပါး၌လည်း မြင့်သည်၊ နိမ့်သည်၊ ဆူသည်၊ ကြုံသည်အားဖြင့် လေးပါးစီ ပြားရကား ပေါင်း ၆၄–ပါးရှိ၏။

ယောက်ျားမျိုးတို့၏ အပြားသည်လည်း အဿဂယောက်ျား၊ မြိဂယောက်ျား၊ ပြိဿဘယောက်ျား၊ အသ္သယောက်ျားအားဖြင့် လေးပါးအပြားရှိ၏။ ထိုတွင် တစ်ပါးတစ်ပါး၌ အသားရွှေ၊ အသားနီ၊ အသားဖြူ၊ အသားမည်းအားဖြင့် လေးပါးစီပြားရကား ၁၆–ပါးပင် ရှိ၏။ ထိုတွင် တစ်ပါးတစ်ပါး၌ အမြင့်၊ အနိမ့်၊ အဆူ၊ အကြုံအားဖြင့် လေးပါးစီ ပြားပြန်ရကား ၆၄–ပါးပင်ရှိသတည်း။

## ခွဲ၍သိရာသော လက္ခဏာကား–

၁။ အဿဂမည်သောယောက်ျားမျိုးသည် ပန်းယင်းနံ့ကဲ့သို့ ကိုယ်ရနံ့ရှိ၏။ လက်ဝါး ဖဝါးနူးညံ့၏။ လက်ချောင်း, ခြေချောင်းရှည်၏။ ရင်ကျယ်၏။ ချက်နက်၏။ အအိမ်၌ ကိန်းသော လိင်ရှိ၏။ အရေသားဆိမ့်၏။ မွေးတွင်း တစ်ခုတစ်ခု၌ မွေးညင်း တစ်ပင်စီ ရောက်၏။ ရွှင်သောမျက်နှာရှိ၏။ ကောင်းမှုကိုပြုလို၏။ သူ့ကို သနား တတ်၏။ သီလစောင့်၏။ အားတန်ရုံရှိ၏။ ဆံမုတ်ဆိတ်ရှည်၏။ လက်ကတီးမွေး ကျွန်ုပ်မွေးရှည်၏။ နိမိတ်သည် ရှည်စွာအဆုံး မိမိ၏ လက်လေးသစ်မျှသာရှိ၏။ ဤကား အဿဂ ယောက်ျားမျိုး၏ လက္ခဏာတည်း။

၂။ မြိဂ ယောက်ျားမျိုးကား– မှန်သောစကားကို ဆိုလေ့ရှိ၏။ သည်းခံ၏။ သူ့ကို သနားတတ်၏။ နတ်,ပုဏ္ဏား,မိဘ, ဆရာတို့ကို ရိုသေတတ်၏။ သူ့ကို မကဲ့ရဲ့ တတ်။ ပြေပြစ်ချစ်ဖွယ်သော စကားကို ဆိုတတ်၏။ သားငါးကို အတန်ငယ်သာ စားတတ်၏။ ပညာကို ခင်မင်၏။ ကိုယ်နံ့ကား သေနံ့ကဲ့သို့ရှိ၏။ ကိုယ်အရေသာ ဖန်၏။ ကျွန်ုပ်ကား ရှည်စွာအဆုံး လက်ရှစ်သစ်သာ ရှိ၏။ ဤကား မြိဂယောက်ျားမျိုး၏ လက္ခဏာတည်း။

၃။ ပြိဿဘ အမည်ရှိသော ယောက်ျားမျိုးကား– ကိုယ်အသား တင်းမာ၏။ ဆူသောအရသာကို စားတတ်၏။ ကခြင်း, သီခြင်းကို အလိုရှိ၏။ လောဘကြီး၏။ သူ၏မယားကို ပြစ်မှားတတ်၏။ အသံကောင်း၏။ မေထုန်ကြူး၏။ သူတစ်ထူးအား ကဲ့ရဲ့ပြုံးစူတတ်၏။ ကိုယ်အနံ့ကား ပျားနံ့ကဲ့သို့ ရှိ၏။ ကိုယ်အရသာချို၏။ ဣန္ဒြေရှည်စွ အဆုံး လက်ဆယ်သစ်သာရှိ၏။ ဤကား ပြိဿဘ ယောက်ျားမျိုး၏ လက္ခဏာတည်း။

၄။ အသ္သ မည်သော ယောက်ျားမျိုးကား– ကိုယ့်ပစ္စည်းကို ချစ်ခင်၏။ သူ့ပစ္စည်းကိုလည်း လိုချင်တတ်၏။ များစွာမကောင်းမှုကို ကျင့်တတ်၏။ သူ၏မယားကို ပြစ်မှားတတ်၏။ သစ္စာလည်းမရှိ။ ကျေးဇူးကိုလည်း မသိတတ်။ ကိုယ်လက်ဆူဖြိုး၏။ လက်ကတီးမွေး ဣန္ဒြေမွေးရှည်၏။ အရက်အကြောက်နည်း၏။ အထူးထူးသော အရသာကို ကြိုက်တတ်၏။ ယောက်ျားကိုယ်ကြီး၏။ ကိုယ်အနံ့ညှီ၏။ ဝမ်းပူ၏။ အကြောတင်း၏။ ကိုယ်အရသာခါး၏။ ဣန္ဒြေကား တစ်ဆယ့်နှစ်သစ်, တစ်ဆယ့်လေးသစ်ရှည်၏။ ဤကား အသ္သ ယောက်ျားမျိုး၏ လက္ခဏာတည်း။

ဤလက္ခဏာတို့တွင် ဣန္ဒြေ၏အရှည်, အတို ပမာဏသာလျှင် ဇာတိဘေဒကို မှချသိရာသော အလားတည်း။

## မိန်းမမျိုး(၄)ပါးတွင်

၁။ ပဒုမိနီကား– လပြည့်ဝန်းနှင့်တူသော မျက်နှာရှိ၏။ အသားညက်၏။ သွားရောင် တောက်၏။ လက်ဖဝါး, ခြေဖဝါး ပြည့်တင်း၏။ ဆံကောင်း၏။ လည်ရေး သုံးတန့်ရှိ၏။ သားမြတ်ကြီး၏။ ဟင်္သာသွားခြင်းနှင့်တူသော သွားခြင်းရှိ၏။ အသံသာ၏။ သူကြီး မိဘတို့ကို ရိုသေတတ်၏။ လင်ကိုလည်း ရိုသေခစားတတ်၏။ မကောင်းမှုကိုလည်း မပြုတတ်။ ရှက်ကြောက်တတ်၏။ ပညာအဆင်အခြင်နှင့် ပြည့်စုံ၏။ ပဒုမ္မာကြာနံ့နှင့် တူသော ကိုယ်နံ့ရှိ၏။ ကိုယ်အရသာချို၏။ မာတင်ဆင်ကဲ့သို့ ကြည့်ခြင်းရှိ၏။ ယောနိကား လိပ်ခုံးသဏ္ဌာန်ကဲ့သို့ရှိ၏။ အစောက်ကား ၆ သစ်။ အဝန်း ၁၂–သစ်ရှိ၏။ ချမ်းသောအခါ နွေး၍ ပူသောအခါ အေးသော ကိုယ်ငွေ့ရှိ၏။ ဤကား ပဒုမိနီ မိန်းမတို့၏ လက္ခဏာတည်း။

၂။ စိတ္တရဏီ မိန်းမမျိုးကား– ရယ်ရွှင်ခြင်း, မြူးတူးခြင်းများ၏။ ခိုပေါက်စ အသံနှင့် တူသောအသံရှိ၏။ လိပ်၏သွားခြင်းနှင့်တူသော သွားခြင်းရှိ၏။ မိ,ဘ ဘိုး,ဘွား လင် ယောက်ျားတို့ကို ရိုသေတတ်စုံမက်တတ်၏။ ကြာညိုပန်းနံ့နှင့် တူသော ကိုယ်အနံ့ရှိ၏။ အသားပျောင်းပျော့၏။ ယောနိကား ကြာရွက်နကဲ့သို့ရှိ၏။ အစောက်ကား လက်ဆယ်သစ်။ အဝန်းကား ၁၆–သစ်ရှိ၏။ ဤကား စိတ္တရဏီမိန်းမမျိုး၏ လက္ခဏာတည်း။

၃။ သခ်နီမိန်းမမျိုးကား– ရာဂရမ္မက်ကြီး၏။ ရသေ့ ရဟန်းကိုမြင်သော် မက်မောတတ်၏။ သားမြတ်တွဲလွဲရှိ၏။ တံလည်းသီးနှင့် တူ၏။ ဆံရှည်၏။ ပျားနံ့ကဲ့သို့

ကိုယ်နံ့ရှိ၏။ ကိုယ်အပြင်အလျာလှ၏။ ကာမဂုဏ် တစ်နေ့မရှိက နှလုံးမသာရှိ၏။ မကောင်းသော အရသာကို စားလို၏။ ယစ်မ၏ သွားခြင်းနှင့်တူသော သွားခြင်းရှိ၏။ ပန်းနံ့သာကို လွန်စွာအလိုရှိ၏။ ခါးစည်း၍ ရင်ကော့၏။ ယောနိအဆင်းကား ခရုသင်း သဏ္ဍာန် ရှိ၏။ အစောက်ကား ၁၄–သစ်၊ အဝန်းကား ၁၆–သစ်ရှိ၏။ ဤကား သင်္ခိနီ မိန်းမမျိုး၏ လက္ခဏာတည်း။

၄။ ဟတ္ထိနီ မိန်းမမျိုးကား– တင်ဆုံကြီး၏။ နားရွက်တို၏။ နှုတ်ခမ်းကြီး၏။ နှာခေါင်းပိ၏။ မျက်စိလောက်စာလုံးကဲ့သို့ ဝန်း၏။ အမျက်ကြီး၏။ ခါးကြီး၏။ ပေါင်ရင်းဖြိုး၏။ မြင်းခေါင်းကြီး၏။ ဖဝါးတို၏။ လက်ချောင်းခြေချောင်းတို၏။ လောဘကြီး၏။ ဆင်မနှင့်တူသော သွားခြင်းရှိ၏။ ယောကျ်ားကိုမြင်သော် အသက်ကဲ့သို့ ချစ်၏။ ယောကျ်ားနှင့်သာ မှီတွဲ၍ နေလို၏။ ကာမဂုဏ် အကြိမ်များသော်လည်း ရောင့်ရဲခြင်း မရှိ။ ကြီးကြမ်းသောလိင်ကို အလိုရှိ၏။ သားမြတ်ငယ်၏။ ချက်ကြီး၏။ ကိုယ်နံ့ကား ဆင်မုန်နံ့ကဲ့သို့ ရှိ၏။ ကိုယ်အရသာ ငန်၏။ ရာဂနံ့ကား စပ်ရှိန်း၏။ ယောနိကား ဆင်နားရွက်ကဲ့သို့ ရှိ၏။ အလွန်ကြီး၏။ အစောက်ကား ၁၆–သစ်၊ အဝန်းကားလက်သစ် ၂၀–ရှိ၏။ စမ်းရေကဲ့သို့ သုက်မပြတ်လာ၏။ ဤကား ဟတ္ထိနီ မိန်းမမျိုး၏ လက္ခဏာတည်း။

ထိုအမျိုးလေးပါးကို အဆင်းလေးပါး, သဏ္ဍာန်လေးပါးဖြင့် ပွား၍ ၆၄–မျိုးရှိသည်တွင် တစ်မျိုးတစ်မျိုး၌ ဥက္ကဋ္ဌ၊ ပဏီတ၊ မဇ္ဈိမ၊ ဟီနအားဖြင့် လေးပါးစီ ဖြစ်ပြန်ရကား ၂၅၆–ပါးဖြစ်၏။ ထိုသို့ဖြစ်ဟန်ကို ဝေဖန်ခြင်းငှာ–

**ဥက္ကဋ္ဌံ ဂဇကုမ္ဘံဝ၊ ပဏီတံ ဗောဓိပတ္တကံ။**
**မဇ္ဈိမံ နိဂြောဓပတ္တံဝ၊ အမ္ဗပတ္တံ တု ဟီနကံ။**
**မိဂပါဒံ ပတိဗ္ဗာဓိ၊ ဝိဓလျံ ဒုက္ခဒဿနံ။**
**ခုရန္တံ စ နေကဘယံ၊ မရဏံ ကာလကဏ္ဏိကံ။**

ဟူသော ဂါထာကို ဆို၏။

မြန်မာဘာသာကား။ ။ အင်္ဂါဇာတ် ဆင်ဦးကင်းကဲ့သို့ရှိသည်ကား ဥက္ကဋ္ဌမည်၏။ ဗောဓိညောင်ရွက်ကဲ့သို့ ရှိသည်ကား ပဏီတမည်၏။ ပညောင်ရွက်ကဲ့သို့ရှိသည်ကား မဇ္ဈိမ မည်၏။ သရက်ရွက်ကဲ့သို့ရှိသည်ကား ဟီနမည်၏။ ။ အင်္ဂါဇာတ်သည် သမင်ခွါ ကဲ့သို့ ရှိသူကား လင်ယောကျ်ား နာဖျားစိုးရိမ်ရအံ့။ အခံမရှိသူကား ဆင်းရဲ ပျက်စီးအံ့။ တစ်ဖက်နိမ့်မြင့် မညီညွတ်သူကား ဘေးရောဂါများအံ့။ အခံမရှိသောသူကား ယောကျ်ား သေပျက်အံ့။ သူယုတ်မတည်း။ ။ ဤဂါထာတို့ဖြင့် မြတ်သည်ယုတ်သည်ကို သိရာ၏။

ထို ပဒုမိနီ စသော မိန်းမမျိုးတို့၏ အထူးအပြားကို အဆင်းသဏ္ဌာန် ကြန်အင် လက္ခဏာအားဖြင့် သိနိုင်ခြင်းငှာ ခဲ၏။ အမြဲသိမှတ်ရာသော အကြောင်းကား

**ပဒုမိနီ အန္ဒမလံ၊ ဝဏ္ဏာ မလဋ္ဌ စိတ္တရဏီ။**
**သင်္ခနီ သာတမလဋ္ဌ၊ ဟတ္ထိနီ ပုဏ္ဏမာသိယံ။**

ဟူသော ဂါထာနှင့်အညီ၊ ပဒုမိနီမျိုးကား– လပြည့်ကျော် ၈–ရက်ကသည် လကွယ်နေ့တိုင်ရုံ အတွင်း၌ပန်းသွန်၏။ ။စိတ္တရဏီမျိုးကား–လပြည့်ကျော် ၁–ရက်ကသည် လပြည့်ကျော် ၈–ရက်အတွင်း ပန်းသွန်၏။ ။သင်္ခနီမျိုးကား– လဆန်း ၁–ရက်ကသည် လဆန်း ၈–ရက်အတွင်း၌ ပန်းသွန်၏။ ။ဟတ္ထိနီမျိုးကား– လဆန်း ၈–ရက်ကသည် လပြည့်အတွင်း၌ ပန်းသွန်၏။ ။ဤ လက္ခဏာ လေးပါးဖြင့် ခြားနား၍ သိရာသည်။

## တစ်နည်းကား

**ပဒုမိနီ တြိဝါရဋ္ဌ၊ စိတ္တရဏီ သတ္တမံ မတာ။**
**သင်္ခနီ ပန္နရဝါရာ၊ ဟတ္ထိနီ အဋ္ဌဝီသကာ။**

ပဒုမိနီမျိုးသည် ကာမဂုဏ်ကို တစ်နေ့၌ ၃–ကြိမ် အလိုရှိ၏။ စိတ္တရဏီကား တစ်နေ့၌ ၇–ကြိမ် အလိုရှိ၏။ သင်္ခနီကား တစ်နေ့၌ ၁၅–ကြိမ် အလိုရှိ၏။ ဟတ္ထိနီကား တစ်နေ့၌ ၂၈ ကြိမ် အလိုရှိ၏။ ဤအလိုဖြင့် သိအပ်၏။

**ဥတ္တာနာ သတ္တဝီသဋ္ဌ၊ ရဿာ ဆဗ္ဗီသ မိစ္ဆိတာ။**
**ဂမ္ဘီရနာဘီ ပဋ္ဌဝီသ၊ ထူလာ စ ပန္နရသကာ။**
**ကိသာ တု ဒသဝါရဋ္ဌ၊ ဝါမနာ ပဋ္ဌဒသကာ။**
**စတုဝီသ ထနဒီဃာ၊ သတ္တရသ သေတာနာရီ။**
**ဗာဝီသ စ ရတ္တင်္ဂနာ၊ သာမာ တု ပဋ္ဌဝါရကံ။**

အရပ်မြင့်သော မိန်းမကား တစ်နေ့၌ ၂၇–ကြိမ် အလိုရှိ၏။ တိုသော မိန်းမကား ၂၆–ကြိမ် အလိုရှိသည်။ ချက်နက်သော မိန်းမကား ၂၅–ကြိမ် အလိုရှိသည်။ ဆူသော မိန်းမကား ၁၅–ကြိမ်။ ကြုံသောမိန်းမကား ၁၀–ကြိမ်။ ကွသောမိန်းမကား ၁၅–ကြိမ်။ သားမြတ်ရှည်သော မိန်းမကား ၂၄–ကြိမ်။ အသားဖြူသော မိန်းမကား ၁၇–ကြိမ်။ အသားနီသောမိန်းမကား ၂၂–ကြိမ်။ အသားရွှေသောမိန်းမကား ၅–ကြိမ်။ အသားမည်းသော မိန်းမကား ၁၈–ကြိမ်။ အသားပြာသောမိန်းမကား ၁၆–ကြိမ်။ ကိုယ်ဖိုင့်သော မိန်းမကား ၂၈–ကြိမ် အလိုရှိ၏။

❖❖❖❖❖

၇၆။ မိစ္ဆာဖြစ်ဖွယ်၊ အိမ့်ရှင်ဝယ်၊ လေးသွယ်ရှိ၏ အဘယ်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''အကာလေ အဒေသေ အဓမ္မေန အနဂ္ဂေန သေဝန္တဿ သဒ္ဒါရေပိ မိစ္ဆာစာရော ဟောတိ''

အကာလေ၊ ရောဂါရောက်သောအခါ, ကိုဝန် အလွန်ရင့်၍ မပြုသင့်သောအခါ၌လည်းကောင်း။ အဒေသေ၊ မိဘဆရာ, သူတကာတို့ မြင်သာသဖြင့် မသင့်သောအရပ်၌လည်းကောင်း။ အဓမ္မေန၊ ကျင့်ရိုးမဟုတ် ကျင့်သဖြင့် လည်းကောင်း။ အနဂ္ဂေန၊ ဆေးဝါးမှီဝဲ ရှိမြဲအင်္ဂါထက် လွန်စေသဖြင့်လည်းကောင်း။ သေဝန္တဿ၊ မှီဝဲသောသူအား။ သဒ္ဒါရေပိ၊ မိမိမယားခ၌လည်း။ မိစ္ဆာစာရော၊ မှားသောအကျင့်သည်။ ဟောတိ၊ ဖြစ်၏။ ။ ။ဆဂတိဒီပနီ၌ လာသည်။

မနုဝဏ္ဏနာအမည်ရှိသော ဓမ္မသတ်၌ကား– ခရီးဝေးစွာ၊ လာသည်အခိုက်၊ ဝမ်း၌ကိုယ်ဝန်၊ ပြင်းထန်ပူဆာ၊ ရောဂါနှိပ်စက်၊ တစ်ချက်ရှူးသွပ်၊ ဤ ၄–ရပ်သည် မစပ်ရှက်သင့်အခါတည်း'' ဟူ၍ ဆိုသည်။

❖❖❖❖❖

၇၇။ လေးဆယ့်နှစ်သွယ်၊ ဓာတ်ပြားဖွယ်၊ လူ့ဝယ် မည်သို့ပြားသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အယဉ္စ မေ ကာယော စတုန္နံ မဟာဘူတာနံ နိဝါသော။ တာနိ စ စတုမဟာဘူတာနိ ကတမာနိ။ အဂ္ဂိ က္လမသ္မိံ ကာယေ ပထဝီဓာတု အာပေါဓာတု တေဇောဓာတု ဝါယောဓာတု။ က္လမာနိ စတုမဟာဘူတာနိ ဟောန္တိ။**

**ကတိ ပထဝီဓာတု။ ဝီသတိ ပထဝီဓာတု။ ကတမာနိ ဝီသတိ။ အတ္ထိ က္လမသ္မိံ ကာယေ ကေသာ ပထဝီဓာတု။ လောမာ ပထဝီဓာတု။ နခါ၊ ဒန္တာ၊ တစော၊ မံသံ၊ နှာရု၊ အဋ္ဌိ၊ အဋ္ဌိမိဉ္ဇံ၊ ဝက္ကံ၊ ဟဒယံ၊ ယကနံ၊ ကိလောမကံ၊ ပိဟကံ၊ ပပ္ဖါသံ၊ အန္တံ၊ အန္တဂုဏံ၊ ဥဒရိယံ၊ ကရီသံ၊ မတ္ထလုင်္ဂံ ပထဝီဓာတု၊ က္လမာနိ ဝီသတိ ပထဝီဓာတူနိ ဟောန္တိ။**

**ကတိ အာပေါဓာတု။ ဒွါဒသ အာပေါဓာတု။ ကတမာနိ ဒွါဒသ။ အတ္ထိက္လမသ္မိံကာယေ ပိတ္တံ အာပေါဓာတု။ သေမှံ အာပေါဓာတု။ ပုဗ္ဗော၊ လောဟိတံ၊ သေဒေါ၊ မေဒေါ၊ အဿု၊ ဝသာ၊ ခေဠော၊ သိင်္ဃာဏိကာ၊ လသိကာ၊ မုတ္တံ၊ အာပေါဓာတု။ က္လမာနိ ဒွါဒသ အာပေါဓာတူနိ ဟောန္တိ။**

**ကတိ တေဇောဓာတု။ စတဿော တေဇောဓာတု၊ ကတမာ စတဿော။ အတ္ထိ ဣမသ္မိံကာယေ ယေန စ သန္တပ္ပတိ။ ယေန စ ဇီရယတိ၊ ယေန စ ပရိဒယှတိ၊ ယေန စ အသိတံ ပီတံ ခါယိတံ သာယိတံ သမ္မာ ပရိဏာမံ ဂစ္ဆတိ။ ဣမာ စတဿော တေဇောဓာတူနိ နာမ ဟောန္တိ။**

**ကတိ ဝါယောဓာတု။ ဆဗ္ဗိဓာ ဝါယောဓာတု။ ကတမာနိ ဆ။အတ္ထိ ဣမသ္မိံ ကာယေ ဥဒ္ဒင်္ဂမာ ဝါတာ။ အဓောဂမာ ဝါတာ။ ကုစ္ဆိဋ္ဌာ ဝါတာ။ ကောဋ္ဌာသယာ ဝါတာ။ အင်္ဂမင်္ဂါနုသာရိနော ဝါတာ။ အဿာသပဿာ သာဝါတာ။ ဣမာနိ ဆ ဝါယောဓာတူနိ ဟောန္တိ။**

ဟူသော မူလကမ္မဋ္ဌာန်းပါဠိနှင့်အညီ ပထဝီဓာတ် ၂၀၊အာပေါဓာတ် ၁၂-ပါး။ တေဇောဓာတ် ၄-ပါး။ ဝါယောဓာတ် ၆-ပါး အားဖြင့် ၄၂ ပါးပြားသည်ကို သိရာ၏။

**အနက်ကား။** ။မေ၊ ငါ၏။ အယဥ္စ ကာယော၊ ဤခန္ဓာကိုယ်သည်ကား။ စတုန္နံ မဟာဘူတာနံ၊ လေးပါးသော မဟာဘုတ်တို့၏။ နိဝါသော၊ နေရာဖြစ်၏။ တာနိ စ စတုမဟာဘူတာနိ၊ ထိုလေးပါးသော မဟာဘုတ်တို့ဟူသည်။ ကတမာနိ၊ အဘယ် သည်တို့နည်းဟူမူကား။ ဣမသ္မိံ ကာယေ၊ ဤရူပကာယ ဖြစ်သော ခန္ဓာကိုယ်၌။ ပထဝီဓာတု၊ ခိုင်မာခြင်းလက္ခဏာရှိသော ပထဝီဓာတ်သည်။ အတ္ထိ၊ရှိ၏။ အာပေါဓာတု၊ ပျောင်းပျော့ခြင်း လက္ခဏာရှိသော အာပေါဓာတ်သည်။ အတ္ထိ၊ ရှိ၏။ တေဇောဓာတု၊ ရင့်မာခြင်း လက္ခဏာရှိသော တေဇောဓာတ်သည်။ အတ္ထိ၊ ရှိ၏။ ဝါယောဓာတု၊ လှုပ်ရှားခြင်း လက္ခဏာရှိသော ဝါယောဓာတ်သည်။ အတ္ထိ၊ ရှိ၏။ ဣမာနိ စတုမဟာဘူတာနိ၊ ဤလေးပေါးသော မဟာဘုတ်တို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။

ပထဝီဓာတု၊ ပထဝီဓာတ်သည်။ ကတိ၊ အဘယ်မျှနည်း။ ပထဝီဓာတု၊ ပထဝီဓာတ်သည်။ ဝီသတိ၊ ၂၀-တို့တည်း။ ကတမာနိ ဝီသတိ၊ ၂၀-ဟူသည် အဘယ်သည်တို့နည်း။ ဣမသ္မိံကာယေ၊ ဤခန္ဓာကိုယ်၌။ ကေသာ၊ ဆံဟူသော။ ပထဝီဓာတု၊ ပထဝီဓာတ်သည်။ အတ္ထိ၊ရှိ၏။ လောမာ၊ အမွေးတည်းဟူသော။ ပထဝီဓာတု၊ ပထဝီဓာတ်သည်။ အတ္ထိ၊ရှိ၏။ နခါ၊ ခြေသည်း, လက်သည်းတည်းဟူသော။ ဒန္တာ၊ သွားတည်းဟူသော။ တစော၊ အရေလွှာတည်း ဟူသော။ မံသံ၊ အသားတည်းဟူသော။ နှာရု၊ အကြောတည်းဟူသော။ အဋ္ဌိ၊ အရိုးတည်း ဟူသော။ အဋ္ဌိမိဥ္ဇံ၊ ရိုးတွင်းခြင်းဆီတည်းဟူသော။ ဝက္ကံ၊ အညို့တည်းဟူသော။ ဟဒယံ၊ နှလုံးသားတည်းဟူသော။ ယကနံ၊ အသည်းတည်းဟူသော။ ကိလောမကံ၊ အမြှေးတည်း ဟူသော။ ပိဟကံ၊ အဖျဉ်း တည်းဟူသော။ ပပ္ဖါသံ၊ အဆုတ် တည်းဟူသော။ အန္တံ၊ အူမတည်းဟူသော။ အန္တဂုဏံ၊ အူသိမ်တည်းဟူသော။ ဥဒရိယံ၊ အစာသစ်တည်း ဟူသော။ ကရီသံ၊ အစာဟောင်း တည်းဟူသော။ မတ္ထလုင်္ဂံ၊ ဦးနှောက် တည်းဟူသော။ ပထဝီဓာတု၊

ပထဝီဓာတ်သည်။ အတ္ထိ၊ ရှိ၏။ ဣမာနိဝီသတိ၊ ဤ ၂၀–သော ကောဋ္ဌာသတို့သည်။ ပထဝီဓာတူနိ၊ ပထဝီဓာတ်တို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။

အာပေါဓာတု၊ အာပေါဓာတ်သည်။ ကတိ၊ အဘယ်မျှနည်း။ အာပေါဓာတု၊ အာပေါဓာတ်သည်။ ဒွါဒသ၊ ၁၂–ပါးတို့တည်း။ ကတမာနိ ဒွါဒသ၊ အဘယ် ၁၂–ပါးတို့နည်းဟူမူကား။ ဣမသ္မိံ ကာယေ၊ ဤရူပကာယခန္ဓာကိုယ်၌။ ပိတ္တံ၊ သည်းခြေဟူသော။ အာပေါဓာတု၊ အာပေါဓာတ်သည်။ အတ္ထိ၊ ရှိ၏။ သေမှံ၊ သလိပ်တည်းဟူသော။ အာပေါဓာတု၊ အာပေါဓာတ်သည်။ အတ္ထိ၊ ရှိ၏။ ပုဗ္ဗော၊ ပြည်တည်းဟူသော။ လောဟိတံ၊ သွေးတည်းဟူသော။ သေဒေါ၊ ချွေး တည်းဟူသော။။ မေဒေါ၊ အဆီအခဲ တည်းဟူသော။ အဿု၊ မျက်ရည် တည်းဟူသော။ ဝသာ၊ ဆီကြည် တည်းဟူသော။ ခေဠော၊ တံတွေး တည်းဟူသော။ သိင်္ဃာဏိကာ၊ နှပ် တည်းဟူသော။ လသိကာ၊ အစေး တည်းဟူသော။ မုတ္တံ၊ ကျင်ငယ် တည်းဟူသော။ အာပေါဓာတု၊ အာပေါဓာတ်သည်။ အတ္ထိ၊ ရှိ၏။ ဣမာနိ ဒွါဒသ၊ ဤ ၁၂–ပါးတို့သည်။ အာပေါဓာတူနိ၊ အာပေါဓာတ်တို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။

တေဇောဓာတု၊ တေဇောဓာတ်သည်။ ကတိ၊ အဘယ်မျှနည်း။ တေဇောဓာတု၊ တေဇောဓာတ်သည်။ စတဿော၊ ၄–ပါးတို့တည်း။ ကတမာ စတဿော၊ အဘယ် ၄–ပါးတို့နည်းဟူမူကား။ ဣမသ္မိံကာယေ၊ ဤရူပကာယ ဖြစ်သော ခန္ဓာကိုယ်၌။ ယေန စ၊ အကြင်တေဇောဓာတ်ဖြင့်လည်း။ သန္တပ္ပတိ၊ ပူတုံ ချမ်းတုံ အဟုန်မမှန် တစ်ရက်ချန် ဖျားခြင်း၊ နှစ်ရက်ချန်ဖျားခြင်း စသည်ဖြစ်၏။ သော စ၊ ထိုသန္တပ္ပန တေဇောဓာတ် သည်လည်း။ အတ္ထိ၊ ရှိ၏။ ယေန စ၊ အကြင် တေဇောဓာတ်ဖြင့်လည်း။ ဇီရယတိ၊ တရွေ့တရွေ့ ခြောက်သွေ့ယွင်းယို အိုခြင်း ရင့်ခြင်းသို့ရောက်၏။ သောစ၊ ထိုဇီရဏ တေဇော ဓာတ်သည်လည်း။ အတ္ထိ၊ ရှိ၏။ ယေန စ၊ အကြင်တေဇော ဓာတ်ဖြင့်လည်း။ ပရိဒယှတိ၊ မီးကင်သောတူ ပူလောင်ပြင်းပြ၏။ သောစ၊ ထိုဍာဟ တေဇောဓာတ် သည်လည်း။ အတ္ထိ၊ ရှိ၏။ ယေန စ၊ အကြင် တေဇောဓာတ်ဖြင့်လည်း။ အသိတံ၊ စားအပ်သော ဘောဇဉ်သည်။ ပီတံ၊ သောက်အပ်သော အဖျော်သည်။ ခါယိတံ၊ ခဲအပ်သော ခဲဖွယ်သည်။ သာယိတံ၊ လျက်အပ်သော လျက်ဖွယ်သည်။ သမ္မာပရိဏာမံ၊ ကောင်းစွာ ကျက်ခြင်းသို့။ ဂစ္ဆတိ၊ ရောက်၏။ သော စ၊ ထိုပါစက တေဇောဓာတ်သည် လည်း။ အတ္ထိ၊ရှိ၏။ ဣမာ စတဿော၊ ဤလေးပါးတို့သည်။ တေဇောဓာတူနိနာမ၊ တေဇောဓာတ် မည်ကုန်သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။

ဝါယောဓာတု၊ ဝါယောဓာတ်သည်။ ကတိ၊ အဘယ်မျှနည်း။ ဝါယောဓာတု၊ ဝါယောဓာတ်သည်။ ဆဗ္ဗိဓာ၊ ခြောက်ပါး အပြားရှိကုန်၏။ ကတမာနိ ဆ၊ အဘယ် ခြောက်ပါးတို့နည်းဟူမူကား။ ဣသ္မိံကာယေ၊ ဤရူပကာယ ဖြစ်သော ခန္ဓာကိုယ်၌။ ဥဒ္ဒင်္ဂမာ ဝါတာ။ အထက်သို့ဆန်တက်သောလေသည်။ အတ္ထိ၊ ရှိ၏။ အဓောဂမာဝါတာ၊ အောက်သို့စုန်သော လေသည်။ အတ္ထိ၊ ရှိ၏။ ကုစ္ဆိဋ္ဌာဝါတာ၊ ဝမ်း၌တည်သော

လေသည်။ အတ္ထိ၊ ရှိ၏။ ကောဋ္ဌာသယာ ဝါတာ၊ အအူ၌ တည်သောလေသည်။ အတ္ထိ၊ ရှိ၏။ အင်္ဂမင်္ဂါနုသာရိနော ဝါတာ၊ အင်္ဂါကြီးငယ်သို့ လျှောက်၍ တည်သောလေသည်လည်း။ အတ္ထိ၊ ရှိ၏။ အဿာသ ပဿာသာ ဝါတာ၊ ထွက်သက်ဝင်သက် လေသည်လည်း။ အတ္ထိ၊ ရှိ၏။ ဣမာနိ ဆ၊ ဤခြောက်ပါးတို့သည်။ ဝါယောဓာတူနိ၊ ဝါယောဓာတ် တို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။

❖❖❖❖❖

## ၇၈။ ခြောက်ဆယ့်လေးသွယ်၊ ခြေရိုးဝယ်၊ ဘယ်သည့်ဘယ်သည့်အရိုးနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အဋ္ဌိတိ ဌပေတွာ ဒွတ္တိံသဒန္တဋ္ဌိနိ အဝသေသာနိ စတုသဋ္ဌိဟတ္ထဋ္ဌိနိ။ စတုသဋ္ဌိ ပါဒဋ္ဌိနိ။ စတုသဋ္ဌိ မံသနိဿိတာနိ မုဒုအဋ္ဌိနိ ဒွေ ပဏှိ ကဋ္ဌိနိ။ ဧကေကသ္မိံပါဒေ ဒွေဒွေဂေါပ္ဖကဋ္ဌိနိ။ ဒွေဒွေဇင်္ဃဋ္ဌိနိ။ ဒွေဇဏ္ဏုကဋ္ဌိနိ။ ဒွေ ဦရုဋ္ဌိနိ။ ဒွေ ကဋိဋ္ဌိနိ။ အဋ္ဌာရသ ပိဋ္ဌိ ကဏ္ဍကဋ္ဌိနိ။ စတုဝီသတိ ဖာသုကဋ္ဌိနိ။ စုဒ္ဒသဥရဋ္ဌိနိ။ ဧကံ ဟဒယဋ္ဌိ။ ဒွေ အက္ခကဋ္ဌိနိ။ ဒွေကောဋ္ဌဋ္ဌိနိ။ ဒွေ ဗာဟုဋ္ဌိနိ။ ဒွေဒွေအဂ္ဂဗာဟုဋ္ဌိနိ။ သတ္တဂီဝဋ္ဌိနိ။ ဒွေ ဟနုကဋ္ဌိနိ။ ဧကံ နာသိကဋ္ဌိ။ ဒွေ အက္ခိဋ္ဌိနိ။ ဒွေ ကဏ္ဏဋ္ဌိနိ။ ဧကံ နလာဋဋ္ဌိ။ ဧကံ မုဒ္ဓဋ္ဌိ။ နဝသီသ ကပါလဋ္ဌိရိတိ ဧဝံ တိမတ္တာနိအဋ္ဌိသတာနိ တာနိ သဗ္ဗာနိပိ ဝဏ္ဏတော သေတာနိ။ သဏ္ဌာနတော နာနာသဏ္ဌာနာနိ။

ဟူ၍ အရိုး ၃၀၀–ကို ရေတွက်ပြရာ သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ သတိပဋ္ဌာန ဝိဘင်းအဖွင့်၌ လာသည်။

**အဓိပ္ပာယ်ကား။** ။၃၂–ချောင်းသော သွားရိုးကိုထား၍ ထိုမှကြွင်းသော ၆၄–ချောင်းသော လက်ရိုး။ ၆၄–ချောင်းသော ခြေရိုး။ ၆၄–ချောင်းသော အသားကိုမှီသော နုငယ်သောအရိုး။ ၂–ခုသော ဖနောင့်ရိုး။ တစ်ဖက်တစ်ဖက်သောခြေ၌ ၂–ခု ၂–ခု စီသောဖမျက်ရိုး။ ၂–ခု ၂–ခုစီသော မြင်းခေါင်းရိုး။ ၂–ခု ၂–ခုသော ပုဆစ်ရိုး။ ၂–ခု သော ပေါင်ရိုး။ ၂–ခုသော ခါးရိုး။ ၁၈–ခုသော ကျောက်ကုန်းရိုး။ ၂၄–ခုသော နံရိုး။ ၁၄–ခုသော ရင်ဖုံးရိုး။ ၁–ခုသော ဟဒယဝတ္ထုရိုး။ ၂–ခုသော ညှပ်ရိုး။ ၂–ခု သော လက်ပြင်ရိုး။ ၂–ခုသော မောင်းရင်းရိုး။ ၂–ခု, ၂–ခုစီသော မောင်းဖျား လက်ဖျံရိုး။ ၇–ခုသော လည်ကုပ်ရိုး။ ၂–ခုသော မေးရိုး။ ၁–ခုသော နှာခေါင်းရိုး၊ ၂–ခုသော မျက်ကွင်းရိုး၊ ၂–ခုသော နားရိုး၊ ၁–ခုသော နဖူးရိုး၊ ၁–ခုသောထိပ်ရိုး။ ၉–ခုသော ခေါင်းခွံရိုး။ ဤသို့အဆင်းအားဖြင့် ဖြူကုန်သော သဏ္ဌာန်အားဖြင့် အထူးထူးသော သဏ္ဌာန်ရှိကုန်သော အရိုးတို့သည် ၃၀၀ မျှလောက် ရှိကုန်၏ ဟူ၍လာသည်။

ဤစကားအစဉ်၌ ခြေရိုး ၆၄–ချောင်းဟူ၍ အပေါင်းသင်္ချာကိုသာပြသည်။ ခွဲခြမ်းစိတ်ဖြာ၍ မည်သည့် မည်သည့် အရိုးဟု မပြချေ။ မူလကမ္မဋ္ဌာန်း၌လည်း

''ကတိ အင်္ဂုဠီနိ။ တီဏိ အင်္ဂုဠသတာနိ။ နဝ သီသင်္ဂုကာနိ။ ပ။ သဏ္ဌာနတော နာနာ သဏ္ဌာနာနိ ဟောန္တိ''ဟူ၍ အပေါင်းသင်္ချာကိုသာပြသည်။ အစိတ်ထုတ်၍မပြ။ ထို့ကြောင့် ခြေဖဝါးရိုး ၆၄–ချောင်းဟု အပေါင်းကိုသာ မှတ်သင့်တော့သည်။

❖❖❖❖❖

## ၇၉။ နှာခေါင်းရိုးဝယ်၊ တည်စဖွယ်၊ အဘယ်အရိုးပေတို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''နာသိကဋ္ဌိကေ နလာဋဋ္ဌိ ပတိဋ္ဌိတာ''ဟူ၍ ကမ္မဋ္ဌာန်း၌ လာသောကြောင့် နှာခေါင်းရိုး၌ နဖူးရိုးတည်သည်။

❖❖❖❖❖

## ၈၀။ နံရိုးတို့ဝယ်၊ တည်လေဖွယ်၊ ဘယ်သည့် ဘယ်သည့် အရိုးနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ဖာသုကဋ္ဌိကေသု ဥရဋ္ဌိကာနိ ပတိဋ္ဌိတာနိ'' ဟူ၍ ၎င်းမူလ ကမ္မဋ္ဌာန်း၌ပင် လာသောကြောင့် နံရိုးတို့၌ ရင်ဖုံးရိုးတို့သည် တည်ကုန်သည်။

❖❖❖❖❖

## ၈၁။ ပိုးမျိုးရှစ်ဆယ်၊ လူတို့ဝယ်၊ ဘယ့်နှယ် ဘယ်သို့ နေသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ကတိ ကိမိကုလာနိ။ အသီတိ ကိမိကုလာနိ။ ကတမာနိ အသီတိ ကိမိကုလာနိ။ စလာ စ ပိင်္ဂလာ စ ဒွေ ကိမယော ကေသံ နိဿာယ ကေသမူလံ ခါဒန္တိ။ တတ္ထ ဇာယန္တိ၊ ဝမုန္တိ၊ ကီဠန္တိ၊ ကီဠနသာလံ ကရောန္တိ၊ ဇီယန္တိ၊ မိယျန္တိ၊ ပုနပ္ပုနံ ဥပ္ပဇ္ဇန္တိ။ သုသာနံ ကရောန္တိ။ ပသူတိဃရံ ကရောန္တိ။ ဥစ္စာရပဿာဝံ ကရောန္တိ။ ဂိလာနသာလံ ကရောန္တိ''**

ဤသို့ စသည်ဖြင့် မူလကမ္မဋ္ဌာန်း၌လာသည်။

**အဓိပ္ပာယ်ကား။** ။ဤခန္ဓာကိုယ်၌ ရှစ်ဆယ်သော ပိုးမျိုးတို့သည် ရှိကုန်၏။ ပိုးမျိုးရှစ်ဆယ်တို့ဟူသည် အဘယ်သည်တို့နည်းဟူမူကား– စလမည်သောပိုး၊ ပိင်္ဂလမည်သောပိုး၊ ဤပိုး ၂–မျိုးတို့သည် ဆံကိုမှီ၍ဆံရင်းကိုစားလျက် နေကုန်၏။ ဆံရင်း၌ ဖြစ်ကုန်၏။ ကြီးပွားကုန်၏။ ကစားမြူးတူးကုန်၏။ ကစားရာဇရပ်ကို ပြုကုန်၏။ ထို၌ပင် အိုကြကုန်၏။ သေကြကုန်၏။ အဖန်တလဲလဲဖြစ်ကြကုန်၏။ သုသာန်ဇရပ် ပြုကြကုန်၏။ သားဖွားရာအိမ် ပြုကြကုန်၏။ ကျင်ကြီး, ကျင်ငယ် စွန့်ကြကုန်၏။ သူနာဇရပ် ပြုကြကုန်၏။

ဥမ္မတ္တမည်သောပိုး၊ အန္တောဥမ္မတ္တမည်သောပိုး၊ ဤပိုး ၂-မျိုးတို့သည် ဦးဏှောက်ကို စားလျက်နေကြကုန်၏။

နှာရုမုခမည်သောပိုး၊ဒန္တမုခမည်သောပိုး၊မံသတာမည်သောပိုး၊ ဤပိုး ၃-မျိုးတို့သည် မျက်စိကိုမှီလျက် မျက်စိအရင်းကိုစား၍လည်းကောင်း, သောတကိုမှီလျက် သောတအရင်းကို စား၍လည်းကောင်း, ဃာနကိုမှီလျက် ဃာနအရင်းကိုစား၍ လည်းကောင်း နေကြကုန်၏။

ကာမုခမည်သောပိုး၊ အပ္ပဋိဘာယမည်သောပိုး၊ တပေါလမည်သောပိုး၊ ဤပိုး ၃-မျိုးတို့သည် လျှာကိုမှီ၍ လျှာရင်းကိုစားလျက်နေကုန်ကြ၏။

စာရန္တ မည်သောပိုး၊ စာရဏာ မည်သောပိုး၊ ပန္နက မည်သောပိုး၊ ဤပိုး ၃-မျိုး တို့သည် သွားကိုမှီ၍ သွားရင်းကို စားလျက် နေကြကုန်၏။

လောဟမည်သောပိုး။ ဆာမည်သောပိုး၊ ဆဝဠမည်သောပိုး၊ ဤပိုး ၃-မျိုးတို့သည် ခြေသည်း, လက်သည်းကိုမှီ၍ ခြေသည်း, လက်သည်းရင်းကို စားလျက်လည်းကောင်း၊ အရေလွှာကိုမှီ၍ အရေလွှာကို စားလျက်လည်းကောင်း၊ အကြောကိုမှီ၍ အကြောကို စားလျက်လည်းကောင်း၊ အသွေးကိုမှီ၍ အသွေးကို သောက်လျက်လည်းကောင်း နေကြကုန်၏။

တုလနမည်သောပိုး၊ ရတ္တမည်သောပိုး၊ လောဟိတမည်သောပိုး၊ ဤပိုး ၃-မျိုး တို့သည် အသားစိုင်ကိုမှီ၍ အသားစိုင်ရင်းကိုစားလျက် အကြောကိုမှီ၍ အကြောရင်းကို စားလျက် နေကြကုန်၏။

ဝေရမ္ဘ မည်သောပိုး၊ မဟာဝေရမ္ဘ မည်သောပိုး၊ ဤပိုး ၂-မျိုး တို့သည် လည်ချောင်းကို မှီ၍ လည်ချောင်းရင်းကိုစားလျက် နေကြကုန်၏။

တုလနမည်သောပိုး၊ ရတ္တာမည်သောပိုး၊ လောဟိတမည်သောပိုး၊ ဤပိုး ၃-မျိုး တို့သည် ရိုးတွင်းခြင်ဆီကိုမှီ၍ ရိုးတွင်းခြင်ဆီကိုစားလျက် နေကြကုန်၏။

ဝတာမည်သောပိုး၊ ဝဂ္ဂုဝတာမည်သောပိုး၊ ဤပိုး ၂-မျိုးတို့သည် အညှို့ကိုမှီ၍ အညှို့ရင်းကိုစားလျက် နေကြကုန်၏။

ဒန္တမည်သောပိုး၊ မဟာဒန္တမည်သောပိုး၊ ရောဟိတမည်သောပိုး၊ မဟာရောဟိတ မည်သောပိုး၊ ဤပိုး ၄-မျိုးတို့သည် ဟဒယဝတ္ထုကိုမှီ၍ ဟဒယဝတ္ထုကိုစားလျက် နေကြကုန်၏။

ဝရဏာမည်သောပိုး၊ တဏှာမည်သောပိုး၊ သီလဝမည်သောပိုး၊ မဟာသီလဝ မည်သောပိုး၊ ဤပိုး ၄-မျိုးတို့သည် အသည်းကိုမှီ၍ အသည်းရင်းကိုစားလျက် နေကြကုန်၏။

အဋ္ဌိဝိဓပိုး၊ အဒဋ္ဌသဒ္ဒပိုး၊ အဋ္ဌိသီလဝပိုး၊ အဋ္ဌိသင်္ဂါပိုး၊ မုဥ္စပိုး၊ မုဥ္စသီဝရပိုး၊ ဤပိုး ၆-မျိုးတို့သည် ဝမ်းလျှာသရက်ရွက်ဟု ဆိုအပ်သော အသားဖျဉ်းကိုမှီ၍ အသားဖျဉ်းကို စားလျက်လည်းကောင်း၊ အမြေးရင်းကိုမှီ၍ အမြေးရင်းကိုစားလျက် လည်းကောင်း နေကြကုန်၏။

သေတပိုး၊ လောဟိတပိုး၊ ကာလပိုး၊ ကာဠသိရပိုး၊ စူကာပိုး၊ မဟာစူကာပိုး၊ ဤ ၆–မျိုးသောပိုးတို့သည် ကလအုံး ဆောင်းထပ်ဟု ခေါ်အပ်သော အဆုတ်ကိုမှီ၍ အဆုတ်ကိုစားလျက် နေကြကုန်၏။

စူရန္တပိုး၊ မဟာစူရန္တပိုး၊ သိပ္ပပိုး၊ မဟာသိပ္ပပိုး၊ အန္တဝရပိုး၊ ပက္ကာဝရပိုး၊ ဤ ၆–မျိုးသောပိုးတို့သည် အအူကိုမှီ၍ အအူရင်းကိုစားလျက် နေကြကုန်၏။

ဥဇ္ဈဝပိုး၊ သြဇဝပိုး၊ နေဇ္ဈဝပိုး၊ သဇ္ဈဝပိုး၊ ဤ ၄–မျိုးတို့သည် အစာသစ်ကို လည်းကောင်း၊ အစာဟောင်းကိုလည်းကောင်း၊ ကျင်ကြီးသစ်ကိုလည်းကောင်း၊ ကျင်ကြီးဟောင်းကိုလည်းကောင်း အမှီပြု၍ ထိုဝတ္ထုအရင်းကို စားလျက် နေကြကုန်၏။

နီလပိုး၊ ပီတပိုး၊ ဥဠာရပိုး၊ ဒါနဝပိုး၊ အသိမုခပိုး၊ ဝဟာနပိုး၊ ဗဟိဒ္ဓပိုး၊ ဟာနဝပိုး၊ မုဋ္ဌိခါဒပိုး၊ ဝိသာလဟလမုခိပိုး ဤ ၁၀–မျိုးသောပိုးတို့သည် သည်းခြေကိုလည်းကောင်း၊ သလိပ်ကိုလည်းကောင်း၊ ပြည်စုကိုလည်းကောင်၊ သွေးစုကိုလည်းကောင်း၊ ချွေးစုကို လည်းကောင်း၊ အဆီခဲကိုလည်းကောင်း၊ မျက်ရည်ကိုလည်းကောင်း၊ ဆီကြည်ကို လည်းကောင်း အမှီပြု၍ ထိုဝတ္ထု၏ အရင်းကို စားလျက်နေကြကုန်၏။

အတိမုခပိုး၊ ဇာလမုခပိုး၊ ဤပိုး ၂–မျိုးတို့သည် ဟဒယဝတ္ထုသွေးကိုမှီ၍ ထိုသွေးကိုသောက်လျက် နေကြကုန်၏။

ကရမည်သောပိုး၊ ကရန္တမည်သောပိုး၊ ကရဏိယပိုး၊ ကံဟကပိုး၊ ဟက္ကကပိုး၊ ဤပိုး ၅–မျိုးတို့သည် ရှေ့အဖို့ဖြစ်သော ကိုယ်ကိုမှီ၍ ထိုကိုယ်ကိုစားလျက် နေကြကုန်၏။

လောဟမုခမည်သောပိုး၊ မဟာလောဟမုခ မည်သောပိုး၊ အာလောဟမုခ မည်သောပိုး၊ မဟာအာလောဟမုခ မည်သောပိုး၊ နှာရမုခ မည်သောပိုး၊ ဤ ၅–မျိုး တို့သည် နောက်အဖို့ဖြစ်သော ကိုယ်ကိုမှီ၍ ထိုကိုယ်ကိုစားလျက် နေကြကုန်၏။

စန္ဒမည်သောပိုး၊ စဏ္ဍသိရမည်သောပိုး၊ ဝေဇိဏှာမည်သောပိုး၊ ဇိဏှာသိဝရ မည်သောပိုး၊ ပုထုလမည်သောပိုး၊ ဤ ၅–မျိုးတို့သည် အောက်အဖို့ဖြစ်သော ကိုယ်ကို မှီ၍ ထိုကိုယ်အသားကို စားလျက်နေကြကုန်၏။ ထိုထိုအရပ်၌ ကစားရာတလင်း ပြုကြကုန်၏။ အိုကြ သေကြသဖြင့် သုသာန်သင်္ချိုင်းကို ပြုကြကုန်၏။

ဤသို့ဆိုအပ်ပြီးသော နည်းအားဖြင့် ဆံရင်း၌နေသောပိုး ၂–မျိုး၊ ဦးခေါက်၌ နေသောပိုး ၂–မျိုး၊ မျက်စိ, နား, နှာခေါင်း၌ ပိုး ၃–မျိုး၊ လျှာ၌ပိုး ၃–မျိုး၊ သွား အာစောင်၌ ပိုး ၃–မျိုး၊ အရေထူ အရေပါး၌ ပိုး ၃–မျိုး၊ အသားအကြော၌ ပိုး ၃–မျိုး၊ လည်ချောင်း၌ ပိုး ၂–မျိုး၊ ရိုးတွင်းခြင်ဆီ၌ ပိုး ၃–မျိုး၊ အညှိ၌ ပိုး ၂–မျိုး၊ နှလုံးသား၌ ပိုး ၄–မျိုး၊ အသည်း၌ ပိုး ၄–မျိုး၊ အဖျဉ်းအူမြွေး၌ ပိုး ၆–မျိုး၊ အဆုတ်၌ ပိုး ၆–မျိုး၊ အူမ၌ ပိုး ၆–မျိုး၊ မကျက်သေးသောအစာ၊ ကျက်ပြီးသောအစာ၊ အစာသစ် အစာဟောင်း၌နေသော ပိုး ၄–မျိုး၊ သလိပ်၊ ပြည်၊ သွေး၊ ချွေး၊ အဆီခဲ၊ မျက်ရည် ဆီကြည်၌ နေသော ပိုး ၁၀–မျိုး၊ ဟဒယဝတ္ထုသွေး၌နေသော ပိုး ၂–မျိုး၊ ရှေ့ကိုယ်၌ နေသောပိုး

၅–မျိုး၊ နောက်ကိုယ်၌ နေသောပိုး ၅–မျိုး၊ အောက်ကိုယ်၌နေသောပိုး ၅–မျိုးအားဖြင့် လူတို့၏ကိုယ်၌ ပိုးမျိုး ရှစ်ဆယ်တို့သည် နေကြကုန်၏။

ကျမ်းကြီးတို့၌ ဤသို့စေ့ငုစွာမလာ။ မူလကမ္မဋ္ဌာန်း၌သာ လာသည်။

❖❖❖❖❖

၈၂။ နား နှာခေါင်းဝယ်၊ ပိုးသုံးသွယ်၊ အဘယ်မည်သောပိုးတို့နည်း။

၈၃။ ခြင်ဆီ၌ဝယ်၊ နေစဖွယ်၊ သုံးဆယ် ပိုးကား အဘယ်နည်း။

ဟူသော အမေးပုစ္ဆာနှစ်ပုဒ်၏ အဖြေဝိသဇ္ဇနာမှာ– အထက်ပုစ္ဆာ၌ ဖြေဆိုခဲ့သည်နှင့်ပင် သိသာလောက်ပြီ။

❖❖❖❖❖

၈၄။ မြင်းခေါင်းတင့်တယ်၊ ဇေါ်နယ်၊ ဘုန်းကြွယ်ဘယ်ကောင်းမှုကြောင့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သက္ကစ္စံ ဝါစေတာ အဟောသိ သိပ္ပံ ဝါ ဝိဇ္ဇံဝါ စရဏံ ဝါ ကမ္မံဝါ ကိန္တိ မေ ခိပ္ပံ ဝိဇာနေယျုံ ကိန္တိ မေ ခိပ္ပံ ပဋိပဇ္ဇေယျုံ၊ န စိရံ ကိလမေယျုန္တိ။ တသ္မာ ဧဏိဇင်္ဃော ဟောတိ။** ဒီဃနိကာယ် လက္ခဏသုတ် ပါဠိတော်။

**အနက်ကား။** ။သိပ္ပံဝါ၊ လယ်လုပ်ကုန်သွယ်ရောင်းဝယ်ခြင်း, ပန်းချီ ပန်းပု ရေးထုခြင်း အစရှိသော အတတ်ပညာကိုလည်းကောင်း။ ဝိဇ္ဇံ ဝါ၊ ရောဂါဖြေနှိပ် မြွေဆိပ် မန္တရားစသော ဆေးအတတ် ဗေဒင်ဟူးရား စသော အတတ်ကိုလည်းကောင်း။ စရဏံ ဝါ၊ ကြီးသောသူကို ရှိသေစေခြင်း, ပဥ္စသီ ဒသသီကို ဆောက်တည်စေခြင်း စသော ကိုယ်ကျင့်ကို လည်းကောင်း။ ကမ္မံ ဝါ၊ ကမ္မဿကတာ ဉာဏ်ပညာကို လည်းကောင်း။ သိက္ခန္တော၊ သူတစ်ပါးအား သင်ကြားစေသည်ရှိသော်၊ (ထည့်ပါ၍)။ ကိန္တိ၊ အဘယ်သို့လျှင်။ ဣမေ၊ ဤသူတို့သည်။ ခိပ္ပံ၊ လျင်စွာ။ ဝိဇာနေယျုံ၊ သိပါကုန်အံ့နည်း။ ကိန္တိ၊ အဘယ်သို့လျှင်။ ဣမေ၊ ဤသူတို့သည်။ ခိပ္ပံ၊ လျင်စွာ။ ပဋိပဇ္ဇေယျုံ၊ ကျင့်ပါကုန်အံ့နည်း။ စိရံ၊ ကြာမြင့်စွာ။ န ကိလမေယျုံ၊ မပင်ပန်း ကုန်အံ့နည်း။ ဣတိ၊ ဤသို့။ သက္ကစ္စံ၊ မဝှက်မထောင့် ဖြောင့်စင်းရိုသေစွာ။ ဝါစေတာ၊ သူတစ်ပါးအား သင်ကြားပြသသည်။ အဟောသိ၊ ဖြစ်ဖူး၏။ တသ္မာ၊ ထို့ကြောင့်။ ဧဏိဇင်္ဃော၊ ဇေါ်မည်သော သား၏ မြင်းခေါင်းကဲ့သို့ လုံးလျောင်း ညီညွတ် ပွတ်တိုင် သဖွယ် လွန်တင့်တယ်သော မြင်းခေါင်း ရှိတော်မူသော အဖြစ်သည်။ အဟောသိ၊ ဖြစ်၏။

❖❖❖❖❖

၈၅။ လေးချောင်းအစွယ်၊ ကိုယ်တော်ဝယ်၊ ဘယ်ကောင်းမှုကြောင့်ဖြစ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

> ပုဗ္ဗေ မနုဿဘူတော သမာနော မိစ္ဆာဇီဝံ ပဟာယ သမ္မာ အာဇီဝေန ဇီဝိတံ ကပ္ပေသိ၊ တုလာကူဋ ကံသကူဋ မာနကူဋ ဥက္ကောဋန ဝဉ္စန နိကတိ သာဝိယောဂ ဆေဒန ဝဓ ဗန္ဓနဝိပ္ပရာမောသ အာလောပ သာဟသာကာရာ ပဋိဝိရတော အဟောသိ။ တသ္မာ သုသုက္ကဒါဌော။

ဒီဃနိကာယ် လက္ခဏ သုတ် ပါဠိတော်။

ပုဗ္ဗေ၊ ရှေး၌။ မနုဿဘူတော သမာနော၊ လူဖြစ်၍ ဖြစ်တော်မူသည်ရှိသော်။ မိစ္ဆာဇီဝံ၊ မကောင်းသောအသက်မွေးခြင်းကို။ ပဟာယ။ ပယ်၍။ သမ္မာအာဇီဝေန၊ ကောင်းသော အသက်မွေးခြင်းဖြင့်။ ဇီဝိတံ၊ အသက်မွေးခြင်းကို။ ကပ္ပေသိ၊ ပြု၏။ တုလာကူဋ ကံသကူဋ မာနကူဋာ စ၊ ချိန် စဉ်းလဲ တင်းစဉ်းလဲ သပြာ စဉ်းလဲပြု၍ လှည့်ပတ်ခြင်းမှ လည်းကောင်း။ ဥက္ကောဋန ဝဉ္စန နိကတိ သာဝိယောဂါ စ၊ တံစိုး ယူ၍ ကောက်သော အမှုကိုပြုခြင်း, ဥပါယ်တံမျဉ်ဖြင့် လှည့်ပတ်ခြင်းတည်းဟူသော ကောက်သောအမှုကိုပြုခြင်း အတုပြု၍ လှည့်ပတ်ခြင်းတို့မှလည်းကောင်း။ ဆေဒန ဝဓ ဗန္ဓန ဝိပ္ပရာမောသ အာလောပ သာဟသာကာရာ စ၊ လက်ခြေကို ဖြတ်ခြင်း, နှောင်ဖွဲ့ခြင်း, ခရီး၌စောင့်၍ လုယက်ခြင်း, ပြည်ရွာကို ဖျက်ဆီးခြင်းစသော အနိုင်အထက် နှိပ်စက်ခြင်းတို့မှ လည်းကောင်း။ ပဋိဝိရတော၊ ကြဉ်တော်မူသည်။ အဟောသိ၊ ၏။ တသ္မာ၊ ထို့ကြောင့်။ သုသုက္ကဒါဌော။ အလွန်ဖြူစင် ရှုချင်စဖွယ် သောက်ရှူး ကြယ်သို့သော စွယ်တော်လေးချောင်းရှိသော အဖြစ်သည်။ အဟောသိ၊ ၏။

❖❖❖❖❖

၈၆။ အာချာတ်ဓာတ်ရှယ်၊ ဖွင့်သည်ဝယ်၊ ဘယ်သံဝဏ္ဏနာတို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အာချာတ်ဓာတ်ကိုဖွင့်သော သံဝဏ္ဏနာသည်''ဓာတုပဒ သံဝဏ္ဏနာ''မည်၏။ပုံကား။''ကာဟိဿတီတိ ကရိဿတိ'' စသည်တည်း။ ဤ၌ ကာဟသဒ္ဒါသည် ကရဓာတ်၏ ကာရိယတည်းဟု ဖွင့်သည်။

❖❖❖❖❖

၈၇။ ကိတ်ပစ္စည်းဝယ်၊ အဖွင့်ကျယ်၊ အဘယ်အဖွင့်ဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ကိတ်ပစ္စည်းကိုဖွင့်သော သံဝဏ္ဏနာ သည် ဒုတိယပစ္စယပဒသံဝဏ္ဏနာမည်၏။ ပုံကား။ ''အဘိဝါဒိယာတိ အဘိဝန္ဒိတွာ'' စသည်တည်း။ ဤ၌ ယ–သည် တွာ–ပစ္စည်း၏ ကာရိယတည်းဟု သိစေလို၍ ဖွင့်သည်။

❖❖❖❖❖

## ၈၈။ ကာရကခြောက်သွယ်၊ ကိရိယာဝယ်၊ စပ်ဖွယ်မြဲကောင်းလေလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ''ကတ္တုကမ္မဋ္ဌ ကိရိယံ ကရောတိ အဘိနိပ္ဖါဒေတီတိ ကာရကော'' ဟူသော ဝစနတ္ထနှင့်ညီစွာ ကတ္တားကံ၌ တည်သော သွားခြင်း, ချက်ခြင်းအစရှိသော ကိရိယာကို ပြီးစေတတ်သော သတ္တိသည် ကာရက မည်၏။ ထိုကာရကသည် ကတ္တုကာရက, ကမ္မကာရက, ကရဏ ကာရက, သမ္ပဒါန ကာရက, အပါဒါန ကာရက, ဩကာသကာရကအားဖြင့် ခြောက်ပါး အပြားရှိ၏။

ထိုခြောက်ပါးတို့တွင် ကတ္တားသည် စင်စစ်အားဖြင့် ကိရိယာကို ပြီးစေတတ်သောကြောင့် မုချကာရက မည်၏။ ကြွင်းသော ကာရကငါးပါးတို့သည် အကြောင်းအားဖြင့်လည်းကောင်း, အကျိုးအားဖြင့်လည်းကောင်း ကိရိယာကို ပြီးစေတတ်သောကြောင့် ဥပစာရ ကာရက မည်၏။

ထိုခြောက်ပါးတို့တွင် ကတ္တု, ကမ္မ, ကရဏ ကာရကတို့သည် ကိရိယာနှင့်နီးစွာ တည်တတ်သောကြောင့် အာသန္န ကာရက မည်၏။ သမ္ပဒါန်,အပါဒါန်, ဩကာသ ကာရကတို့သည် ဝေးစွာတည်တတ်သောကြောင့် ဒူရကာရက မည်၏။ ထိုကာရကတို့သည် အမတ်နှင့်တူ၏။ ကိတ်ကိရိယာသည် အိမ်ရှေ့မင်းနှင့်တူ၏။ အာချာတ် ကိရိယာသည် ပြည့်ရှင်မင်းနှင့်တူ၏။ ဟိတ်, လက္ခဏ, သမ္ဗန်, အာလုပ်, နိဒ္ဓါရဏ, အစ္စန္တသံယောဂ ဟူသော အကာရကတို့သည် ဆင်းရဲသားနှင့်တူကုန်၏။ ဆင်းရဲသားသည် အမတ်ကို၊ အမတ်သည် အိမ်ရှေ့မင်းကို၊ အိမ်ရှေ့မင်းသည် ပြည့်ရှင်မင်းကို ခစားရသကဲ့သို့ အကာရကအနက်ကို ကာရကအနက်၌ ဆိုက်၍၊ ကာရကကို ကိတ်ကိရိယာ၌ ဆိုက်၍၊ ကိတ်ကိရိယာကို အာချာတ်ကိရိယာ၌ ဆိုက်၍ အဓိပ္ပါယ်ယူအပ်သည်။

ထို့ကြောင့် ကစ္စာယနဘေဒ စသည်၌–

**ရာဇတုလျာ ကိရိယာ နာမ၊ အမစ္စာ နာမ ကာရကာ။**
**တသ္မာ ဆ ကာရကာ တတ္ထ၊ ပါပုဏန္တိ ယထာရဟံ။**

စသည်ဖြင့် မိန့်သည်။

ယင်းသို့ စပ်ဆိုက်ရာ၌ ကိရိယာသည် ကာရကတစ်ပါးသည် ပြီးစေအပ်သော ကိရိယာ၊ နှစ်ပါးပြီးစေအပ်သောကိရိယာ၊ သုံးပါး, လေးပါး, ငါးပါး, ခြောက်ပါးသည် ပြီးစေအပ်သောကိရိယာဟူ၍ များသောအပြားရှိ၏။

ထိုတွင် ကတ္တားတစ်ပါးသည် ပြီးစေအပ်သော ကိရိယာကား 'ဗီဇာယ အင်္ကုရော ဇာယတိ စသည်တည်း။ နှစ်ပါးပြီးစေအပ်သော ကိရိယာကား ''ဌိတောပါဒံ ဥက္ခိပတိ'' စသည်တည်း။ သုံးပါးပြီးစေအပ်သော ကိရိယာကား ''ပရိယင်္ကေ ရာဇာ သေတိ ဗီဇနိယာ'' စသည်တည်း။ လေးပါး ပြီးစေအပ်သော ကိရိယာကား ''အဇပါလော အဇံဂါမံ ရဇ္ဇုယာ ဒုဟတ္တာယ နေတိ'' စသည်တည်း။ ငါးပါးပြီးစေအပ်သော

ကိရိယာကား ''ဝိဟာရတော နိက္ခမိတွာ ပုဗ္ဗဏှသမယံ ဘိက္ခု ဂါမံ ပါဒေန ဂတော'' စသည်တည်း။ ကာရက ခြောက်ပါး ပြီးစေအပ်သော ကိရိယာကား ''ဒါယကော၊ ဒါယကာသည်။ ထာလိယာ၊ ထမင်းအိုးမှ။ ဘိက္ခုံ၊ ထမင်းကို။ ဟတ္ထေန၊ လက်ဖြင့်။ ဂေဟေ၊ အိမ်၌၊ ဘိက္ခုနော၊ ရဟန်းအား။ ဒဒါတိ၊ လှူ၏။ ဤသို့ ကာရကတို့သည် ပြီးစေအပ် သောကြောင့်သာ ကိရိယာမည်သည်ဖြစ်ရကား ကာရက ဟူသမျှသည် ကိရိယာ၌ စပ်ရခြင်း မြဲသင့်၏။ အချို့ဝါကျ၌ အာချာတ်ကိရိယာ မရှိခဲ့အံ့၊ ကာရက အချင်းချင်းလည်း စပ်သင့်သေး၏။ အချင်းချင်းစပ်သည်ကို တုလျတ်လိင်္ဂတ်ဟု ခေါ်အပ်၏။

ဤသို့ ကာရကတို့သည် ယေဘုယျအားဖြင့် ကိရိယာ၌ စပ်ဆိုက်၏။ အပ္ပက အားဖြင့်ကား အချင်းချင်းလည်း ဆိုက်ကောင်းသေး၏ဟု နှလုံးပိုက်စေခြင်းငှါ နိယံဆရာသည် ''ကာရကခြောက်ဖြာ၊ စပ်အပ်ရာ၊ စပ်ရာချင်းနှင့်မင်း'' ဟူ၍ မိန့်သတည်း။

ဤကိုထောက်ဆ၍ ''ကာရက ခြောက်သွယ်၊ ကိရိယာဝယ်၊ စပ်ဖွယ်မမြဲလေ သတည်း''ဟု ဖြေရာ၏။

❖❖❖❖❖

## ၈၉။ စ–နှစ်ပါးလယ်၊ ပုဒ်ကိုရွယ်၊ အဘယ်သမာသ်ဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–စ နှစ်ပါးလယ်၊ ပုဒ်ကိုရွယ်၊ ကမ္မဓာရယ်သမာသ်၊ အနေမှတ်။ (နိယံ)

❖❖❖❖❖

## ၉၀။ နာမ်ဝိဘတ်ဝယ်၊ ခုနစ်သွယ်၊ ဘယ်ပုဒ်ရှိက ကျေသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တထာဟိသဒ္ဒါ၊ ရှိလေရာကား၊ ခုနစ်ဖြာ ဝိဘတ်၊ ကျေ၏မှတ်။ (နိယံ)။ ယထာ တထာ၊ သဗ္ဗထာနှင့်၊ တထာဟိ–ကထံ၊ ဣတ္ထံ ပုဒ်ဆုံး၊ ခုနစ်လုံး၊ ကျေးဆုံးဝိဘတ်တည်း။ (ငါတို့အလို)။

❖❖❖❖❖

## ၉၁။ သာသနာအံ့ဖွယ်၊ ဘယ်ချိန်ဝယ်၊ စွယ်တော်သီဟိုဠ်ရောက်သနည်း။

## ၉၂။ ဘုရားရှင့်စွယ်၊ သီဟိုဠ်ဝယ်၊ ဘယ်မင်းလက်ထက်ရောက်သနည်း။

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား– သီဟိုဠ်ကျွန်း၌ ရှေးဦးစွာ ပြည်တည်စဖြစ်သော ဝိဇယဗာဟုမင်းမှစ၍ ၆၆–ဆက်မြောက်သော ကိတ္တိသီရိ မေဃ မင်း၏ လက်ထက်တော်၌ ကလိင်္ဂရာဇ်ပြည်မှ စွယ်တော်သည် သီဟိုဠ်သို့ ရောက်၏။ ထိုအခါ သာသနာတော် ၈၃၀–ပြည့်နှစ်တည်း။ ဤသို့ မဟာဝင်လာသည်ဟု ဖြေ။

❖❖❖❖❖

22
A

## ၉၃။ ရွှေဝမြို့လယ်၊ နန်းစံပယ်၊ ဘယ်မင်းဆက်က ဦးသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တကောင်းနွယ်ရိုး၊ တေဇော် ဖြိုးသည်၊ သတိုးမင်းဖျား အဦးတည်းဟု ဖြေ။

❖❖❖❖❖

## ၉၄။ ကုလားကျငယ်၊ ပုဂံဝယ်၊ ဘယ့်နှယ် ကံထိုက်လေသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကျန်စစ်သားမင်း၏ မြေးတော် ဖြစ်သော အလောင်းစည်သူတွင် သားနှစ်ယောက်ရှိသည်။ အကြီးကား မင်းရှင်စော၊ အငယ်ကား နရသူတည်း။ ထိုနှစ်ယောက်တို့တွင် မင်းရှင်စော တပြက်သာမြို့တွင် နေစဉ် ခမည်းတော် ကံကုန်သည်ဖြစ်၍ ညီတော်နရသူက ထီးနန်းကို သိမ်းယူပြီးလျှင် နောင်တော်ထံသွား၍ မင်းပြုလှည့်ပါဦးဟုပင့်ခေါ်၏။ မင်းရှင်စောလည်း ယုံကြည်၍ လိုက်ခဲ့ပြီးလျှင် နန်းတက်၏။ တစ်ညဥ့်မျှနေ၍ မိုးသောက်လျှင်ပင် ညီ နရသူက အဆိပ်ခတ်သော စားတော်ကိုဆက်၍ စားမိသဖြင့် သေလေ၏။ သေပြီးသော် ညီတော် နရသူသည် နန်းတက်၍ သက္ကရာဇ် ၅၂၀–တွင် မင်းပြု၏။ ဤမင်းသည် ခမည်းတော် အလောင်းစည်သူအား ပဋိက္ကရားမင်းက ဆက်လာသော မင်းသမီးကို သိမ်းမြန်း၍ အပါးတော်တွင် ခစားစေ၏။ မင်းကြီးကိုယ်လက်သန့်ရာ သံဝါသပြုရာတို့၌ သန့်သက် ရေမဆောင်သည်ကို ကုလားမငယ်သိလျှင် မချဉ်းကပ်ဘဲနေ၏။ ဘယ့်ကြောင့် မချဉ်းကပ် သနည်းဟု မေးလေသော် သန့်သက်ရေမဆောင်သောကြောင့် ရွံ့ရှာသည်ဖြစ်၍ မချဉ်း ကပ်ကြောင်းကိုဆိုလျှင် အမျက်ထွက်၍ ထိုနေရာတွင်ပင် မင်းသမီးကိုသတ်လေ၏။ ထိုအကြောင်းကို ပဋိက္ကရား မင်းကြားလျှင် ကုလားသူရဲ ရှစ်ယောက်ကို ပုဏ္ဏားယောင် ဝတ်စေ၍ ရွှေ ငွေ အသက်မွေးလောက်အောင်ပေးပြီးမှ ပုဂံသို့သွား၍ နရသူကို လုပ်ကြံ ချေဟု စေလိုက်၏။ ကုလားတို့လည်း လာခဲ့ကြ၍ မင်းကျွမ်းဝင်အောင် ပြုပြီးလျှင် နေ့တိုင်းနေ့တိုင်း ပရိတ်ပန်းဆက်၍ အဘိသိက်ပေးရ၏။ တစ်နေ့သ၌ ထက်ဝန်းကျင် ရံပြီးလျှင် အဘိသိက်ပေးဟန်ပြု၍ မင်းအားခုတ်သတ်လေ၏။ ထို့ကြောင့် နရသူကို ''ကုလားကျမင်း''ဟု တွင်သတည်း။

ဤသို့ ရာဇဝင်၌ ဆိုသောကြောင့် ဤကုလားကျမင်းသည် နောင်တော်ကို ဆေးခတ်သောအစာဖြင့် ပါဏာတိပါတကံ ထိုက်သည်။ ကုလားမင်းသမီးကို ကိုယ်တိုင် သတ်သော မနုဿဃာတကကံ ထိုက်သည်ဟူပေ၏။ သီလဘုန်းကံရှိသော သူကို သတ်သူသည် မကြာမြင့်မီ မကောင်းသော အကျိုးထူးခံရမြဲဖြစ်၏။

❖❖❖❖❖

## ၉၅။ ရသေ့ကြောင်ဝယ်၊ သားသူငယ်၊ ဆက်နွယ်ရှိတို့လေလိမ့်နည်း။

ဟူသော အံမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သမုဒ္ဒရာဇ်မင်း ကံကုန်လျှင် သမက်တော် ပျူမင်းထီးသည် ပုဂံပြည်ထီးနန်းကိုရ၏။ ရသေ့လည်း မင်းမပြုဦးသေးဘဲ မင်းဖြစ်မည်ဟု နိမိတ်ဖတ်ဖူးသော အတတ်ပညာကို သင်ပြသော ဆရာရသေ့အား လူဝတ်လဲစေ၍ မင်းစည်းစိမ်ကို ပေး၏။ ပျူမင်းထီးကား အမှုထမ်း၍သာနေ၏။ ရသေ့ကြောင်သည် အိမ်နိမ့်–၉၁၊ စည်းစိမ် –၁၅၊ အသက် ၁၀၆–နှစ်မှ ကံကုန်သည်။ သက္ကရာဇ် ၉၈–ခုတွင် ပျူမင်းထီး မင်းပြုရသည်။

ဤမျှသာ ရာဇဝင်ဆိုသည်။ ရသေ့ကြောင်မင်း၌ သားဆက်နွယ်ရှိသည်ဟုမဆို။ ရသေ့ကျောင်းဝယ်ဟု ယပင့်နှင့်ရှိမူ ငတပါးမင်းဟု ယူရန်ရှိသည်။

❖❖❖❖❖

## ၉၆။ သာသနာရောင်သွယ်၊ ရာ့တစ်ဝယ်၊ ဘယ်ပြည့်ထီးနန်းဆောက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သုံးဌာနကို၊ သတ္တရက်ကြာ၊ တည်၍သာလျှင်၊ ကောဇာတက်လု၊ ရာ့တစ်ခု
တွင်၊ ဇမ္ဗူ့တန်ဆောင်၊ ဒွတ္တပေါင်အား၊ ရန်အောင်စိမ့်ကြောင်း၊ ဘိသိက်
လောင်းပြီး၊ ရိုက်ခြောင်းထစ်ချုန်း၊ မိုးသံအုန်းသို့၊ ဒုန္ဒုဘိယန်၊ ခွန်တောင်း
ရန်က၊ ဆဒ္ဒန်ဇာနည်၊ လုံ့ရှည်ထားကြိမ်၊ ရန်ညွှန့် နိမ်နှင့်၊ တိမ်လိပ် ဘောက်လှဲ၊
သွေဖင့်နွဲ့မူ၊ သူရဲ နတ်စစ်၊ ဆယ့်ခုနစ်တို့၊ ဆော်ရစ်ကွပ်ညှပ်၊ ဆောက်နှင်း
အပ်သည်၊ အောင်ရပ်တည့် သောင်းကျေး၊ ထိန့်ရိုက်ကြွေး။ ။ (နားတော်သွင်း)

ဒွတ္တပေါင်မင်းသည် သာသနာတော် ၁၀၁-ခုနှစ်၊ ကဆုန်လဆန်း ၁၁ ရက်နေ့တွင် အချင်းတစ်ယူဇနာ။ အဝန်း သုံးယူဇနာ ရှိသော တံခါးကြီး ၃၂။ တံခါးငယ် ၃၂–တို့ဖြင့် တင့်တယ်သော သီရိခေတ္တရာ မြို့တော် နန်းတော် တန်ဆောင်း ပြအိုး ကျုံး ဤလေးဌာနကို တစ်ကာလတည်းတည်သည်။ ပြအိုးနှင့် ကျုံးကို တပေါင်း တည်းယူ၍ လက်ာ၌ သုံးဌာနဟု ဆိုသည်။

❖❖❖❖❖

## ၉၇။ ရသေ့မြို့ဝယ်၊ စိုးဆက်နွယ်၊ ဘယ်မျှမင်းပေါင်း ရှိသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဒွတ္တပေါင် မင်းကြီး။ ၎င်းသား ဒွတ္တရန်။ ၎င်းသား ရန်ဘောင်။ ၎င်းသား ရန်မန်။ ၎င်းသား ရက္ခန်။ ၎င်းသား ခဲလောင်း၊ ၎င်းသား လက္ခိုင်။ ၎င်းသား သီရိခန်။ ၎င်းသား သီရိရာဇ်။ ။ ဤသီရိရာဇ်မင်းပြု၍ သာသနာတော် ၄၃၃–ခုနှစ်တွင် တကောင်းမင်းရိုး ပြတ်သဖြင့် ရသေ့မြို့သား ငတပါးမင်း

ဖြစ်သည်။ ၎င်းမင်းသားပါပိရန်။ ၎င်းသား ရန်မုက္ခ။ ၎င်းသား ရန်သိခ်။ ၎င်းသား ရန်မုဥ္စလိန္ဒ။ ၎င်းညီ ဘေရိန္ဒ။ ၎င်းသားမုဥ္စ။ ၎င်းသား ပုဏ္ဏ။ ၎င်းညီ သာခ။ ၎င်းသား သာသိ။ ၎င်းညီ ကန္ဒု။ ၎င်းနောင်တော် ကန်တက်။ ၎င်းညီ ဘိဇ္ဇ။ ။ဤ တေပါးမင်းမျိုး ၁၃-ဆက်တွင် မင်းဆက်ပြတ်၍ သာသနာတော် ၆၁ရ-ခုတွင် တကောင်းမင်းရိုး ဖြစ်သော သုမုန္ဒြီမင်း မင်းဖြစ်၏။ ၎င်းသား အတိတျာ၊ ၎င်းညီ သုပညာနာဂရဆိန္ဒ။ ဤမင်းတွင် မြို့ပျက်လေသည်။ ။ မင်းပေါင်း ၂၅-ဆက်တည်း။

❖❖❖❖❖

## ၉၈။ ပြည်မြို့၌ဝယ်၊ စိုးစံပယ်၊ မင်းဘယ်မျှလောက်ဆက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သေဥ်ပထဗျာ၊ မြေမျက်နှာမူ၊ ကြေညာလွှံ့ညီ၊ နေမျိုးပီသား ၊ သီဟသူက၊ ညီကျစွာမင်း၊ ဘုန်းဝင်းလျှံညီး၊ မင်းကြီးစောရန်နောင်၊ စိုးဆောင်နန်းဆက်၊ မင်းမျက်နှာရှည်၊ စံတည်ညာတင်၊ ထီးလှိုင်ရှင်နှင့်၊ လွှန်ထင်ကြေညာ၊ လကျ်ာပုံချီ၊ ယုဉ်မှီမကင်း၊ မင်းစုက္ကတေး၊ နီးဝေးထင်ပေါ်၊ ကျော်စွာကျော်နှင့်၊ ညီတော်ဘုန်းထူး၊ သီဟသူဟု၊ ခံယူမုနော၊ သားစောရွှေခွက်၊ နန်းဆက်စဉ်လာ၊ မင်းမဟာက၊ အာဏာ ပြင်းဘိ၊ နရပတိကြီး၊ ဘုန်းမီးလွှန်ကဲ၊ မင်းရဲကျော်စွာ၊ ပွင့်လျှာမှန်စင်၊ ဆင်များရှင်နှင့်၊ ညီပင်ကျော်ဟိုး၊သတိုးမင်းစော၊ မြေကြော ရိုက်ဆူ၊ ဆင်ဖြူရှင်သား၊ မင်းတရားက၊ သည်းကြားနရပတိ၊ ဘုန်းရှိပီပီ၊ သည့်ညီမင်းခေါင်၊ သည့်နောင် တစ်မူ၊ သတိုးသူနှင့်၊ နတ်လူရိုကျိုး၊ သတိုး ဓမ္မရာဇာ၊ ဆက်ကာလည်းကောင်း၊ မင်းကြီးနှောင်းက၊ ကျန်းသောင်း ပုန်ကန်၊ မင်းရန်နိုင်သား၊ စိတ်ဖျားနှိုက်နဲ့၊ မင်းရဲကျော်ခေါင်၊ ဆက်မိအောင်လျှင်၊ ရန်ဘောင်ပယ်နှိပ်၊ တက်မြွေဆိပ်သို့၊ နှစ်ကျိပ်သုံးဆက်၊ ပြည်နန်းတက်သည်၊ ကနက်စိုက်ထောင်၊ ဖြန့်ဝန်းတည်း။ ဤလင်္ကာဖြင့် ပြည်မြို့ မင်းဆက်ကို သိရာ၏။

❖❖❖❖❖

## ၉၉။ တောင်ငူမြို့လယ်၊ သဝန်ငယ်၊ ဘယ်မျှ ထီးနန်းစံသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သဝန်ငယ်သည် ခုနစ်နှစ် နန်းစံ၏ဟု ဖြေ။

❖❖❖❖❖

## ၁၀၀။ နဝရတ် ၉-သွယ်၊ ဆင်စလွယ်၊ ဘယ်သူဘယ်သို့ဆင်ရန်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဗြာဟ္မဏော နဝဂုဏံ သျာဒ်၊ ခေတြေ ပဉ္စဂုဏာမေဝ စ။**

**ဗိသျဂ တြိဂုဏံ တထာ၊ သုဒြဿ နိဂ္ဂုဏံ ဘဝေတ်။**

**အနက်ကား။** ။ ဗြာဟ္မဏော၊ ဗြဟ္မဏ ပုဏ္ဏားမျိုးအား။ နဝဂုဏံ၊ ကိုးသွယ်သည်။ သျာဒ်၊ ဖြစ်ရာ၏။ ခေတြေ၊ ခေတြပုဏ္ဏားမျိုးအား။ ပဉ္စဂုဏာမေဝ စ၊ ခြောက်သွယ်သာလျှင်။ သျာဒ်၊ ဖြစ်ရာ၏။ ဗိသျဂ၊ ဗိသျပုဏ္ဏားမျိုးအား၊ တြိဂုဏံ၊ သုံးသွယ်သည်။ သျာဒ်၊ ဖြစ်ရာ၏။ တထာ၊ ထိုမြို့။ သုဒြဿ၊ သုဒြပုဏ္ဏားမျိုးအား။ နိဂ္ဂုဏံ၊ စလွယ်မရှိသည်။ ဘဝေတ်၊ ဖြစ်၏။

ဤသို့ ပုဏ္ဏားမျိုးတို့၌ စလွယ်ဆောင်ရန်ကို သုံးသွယ်စီတက်၍ ရာဇမတ္တဏ် လာသောကြောင့် မှူးတော်မတ်တော် မင်းညီမင်းသား တို့မှာလည်း သုံးသွယ်စီ တက်၍ဆောင်သင့်သည်။

အဂ္ဂမဟာသေနာပတိတို့မှာ- အမြတ်ပုဏ္ဏား ဆောင်စလွယ်တွင် သုံးသွယ် လောင်း၍ တစ်ဆယ့်နှစ်သွယ်။ ။မင်းဆွေ မင်းမျိုးတို့မှာ ၎င်းတွင် သုံးသွယ်လောင်း၍ တစ်ဆယ့် ငါးသွယ်။ ။ မင်းသားတို့မှာ- ၎င်းတွင် သုံးသွယ်လောင်း၍ တစ်ဆယ့် ရှစ်သွယ်။ ။အိမ်ရှေ့မင်းမှာ- ၎င်းတွင် သုံးသွယ်လောင်း၍ နှစ်ဆယ့်တသွယ်။ ။ မင်းကေရာဇ်မှာ- ၎င်းတွင် သုံးသွယ်လောင်း၍ နှစ်ဆယ့် လေးသွယ် ဆောင်ရွက် သင့်သည်ဟူ၍ အမေးတော် အဖြေတွင်လာသည်။

တစ်နည်းလည်း-

နဝရတ်ကိုးသွယ်။ ဆင်စလွယ်ကား။ တိုင်းကျယ်ပြည်ရေး။ မှုရှုပ်ထွေးကို။ ဆွေးနွေးတိုင်ပင်။ ပြီးကုံတွင်သည်။ ရောဝင် ကပ်မှီး။ မှူးမတ်ကြီးသည်။ ရွှေထီး ရွှေပြည်။ ဦးကင်း-မည်၏။ စင်ကြည်သီလ။ အာစာရနှင့်။ ဓမ္မပွင့်လန်း။ ထေရ် ရဟန်းကား။ ရွှေနန်း ထွက်တည်။ တမ်းခွန်မည်၏။ တိုရှည် နီးဝေး။ မှုခွင့်ရေးကို။ ထောက်တွေးမြော်မြင်။ ပေဒင်ဟူးရား။ သမားကောင်းသည်။ မျက်စိမည်၏။ တစ်ပြည်တစ်မြို့။ သူရပ်သို့လျှင်။ ဝှက်လျှို့ချောင်းမြောင်း။ သူလျှို ကောင်းသည်။ ကျိုးကြောင်းဖွေနည်း။ ပြည်နားမည်၏။ စိုက်လည် လှည့်ပတ်။ ရန်ညွှန့်ဖြတ်သား။ မင်းမတ်မင်းသား၊ မင်းညီများနှင့်၊ ဆွေဝါးမျိုးစည်၊ ပြည်စွယ်မည်၏။ ရွှေရည် စံသီး။ ရှုမငြီးသား။ သမီးလုလင်။ လှဆင်းပြင်သည်။ ပြည်တွင်စံတည်။ မျက်နှာ မည်၏။ **ပွား**စည်ငွေကြေး။ ကြွယ်သူဌေးတို့။ ဝတ်ရေးစားရာ။ ပြည့်စုံစွာနှင့်။ ရင့်မာ**ခိုင်ကျည်**။ ပြည်ဝမ်းမည်၏။ ဇာနည်ရဲစွမ်း။ မှုတော်ထမ်းသည်။ ကြိုးပမ်း အားထုံ။ သူရဲစုကား။ မြဲမှုထောက်တည်။ ပြည့်ခြေမည်၏။ နှစ်ပြည်ပိုင်ချက်။

သိကြားစက်သို့။ လက်နက်တန်ဆာ။ ကိရိယာကား။ မိုရာလုမ်းသည်။ ပြည့်လက်မည်၏။ ရွှေပြည်စိုးခြင်း။ အမင်းမင်းတို့။ ဦးကင်းမလွန်။ တမ်းခွန်မတိ။ မျက်စိမဖောက်။ နားပေါက် မဖယ်။ ပြည်စွယ်မခွါ။ မျက်နှာမလွှမ်း။ ပြည်ဝမ်းမမွေ။ ပြည်ခြေမဖျက်။ ပြည့်လက်မဖြတ်။ ကျင့်နိုင်တတ်မှ။ နဝရတ်ကိုးဖြာ။ ဆင်ရရာသည်။ တံထွာမင်းတို့ ကျင့်ထုံးတည်း။ ။ဤလင်္ကာဖြင့် မှီး၍သိအပ်၏။

❖❖❖❖❖

၁၀၁။ ပြည့်ဝမ်းပြည်စွယ်၊ သည်နှစ်သွယ်၊ ဘယ်ကို ခေါ်ကြပေသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ယခင်လင်္ကာနှင့်သိလောက်ပြီ။ အထက်ပုစ္ဆာ၏ ဝိသဇ္ဇနာနှစ်ရပ်တွင် နောက်ဆိုအပ်သော နဝရတ် ၉-သွယ်ကိုရည်၍ ပုစ္ဆာပြုသည်ထင်သည်။

အဘယ်ကြောင့်နည်းဟူမူကား- ''ပြည့်ဝမ်းပြည်စွယ်၊ သည်နှစ်သွယ်၊ ဘယ်ကို ခေါ်ကြပေသနည်း'' ဟူသောစကားကို ထပ်ပြန်သောကြောင့်တည်း။

❖❖❖❖❖

၁၀၂။ တမုတ်ဆိုးဖွယ်၊ ပညာကျယ်၊ နယ်နုဘယ်သို့ ဆိုးသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- သဖန်းခါးသီးနှင့်သံချေးရော၍စိမ်၊ ကြို၍ဆိုး၊ တမုတ်ဖြစ်၏။ ရွှံ့တွင် တစ်နေ့စိမ်။ နယ်နုဖြစ်၏ဟူ၍ စာဟောင်းရှိသည်။

❖❖❖❖❖

၁၀၃။ ဂြိုဟ်ရှစ်လုံးကြွယ်၊ စားရာဝယ်၊ ဘယ်ကျောက်လက်စွပ်ဝတ်မည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ထွေထွေအန္တရာယ်၊ စင်ပျောက်ပြယ်လျက်၊ ချမ်းကြွယ်တတ်စေ၊ ဥပဒေကား။ တနင်္ဂနွေရှေ့ဖျား၊ ဂြိုဟ်လျှင်စားမူ၊ ပတ္တမြား ရတနာ၊ ဝတ်ဆင်ရာ၏၊ တနင်္လာကား၊ ဖြူစွာပုလဲ၊ မျက်ရွဲဆင်ရာ၊ ဂြိုဟ်အင်္ဂါမူ၊ သန္တာဟူ၏။ ဆင်ဖြူဗုဓ၊ ဂြိုဟ်စားကျသော် မြသားဝတ်ရေး၊ ကြာသပတေးကား ကြောင်ဆင်ငြားလော့၊ ဂြိုဟ်စားသောကြာ၊ စိန်သာဆင်ပေ၊ စနေနီလာ၊ ရာဟုမှာမူ၊ ဂေါမုတ်ဟူသည်၊ မှတ်ယူဆင်ရန်ထုံးတမ်းတည်း။

❖❖❖❖❖

၁၀၄။ လက်ညှိုးလက်လယ်၊ လက်သူကြွယ်၊ လက်ငယ်လက်မဘယ်ကျောက်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- လက်မ စိန်မျိုး၊ လက်ညှိုး နီလာ၊ လက်လယ်မှာကား၊ မြသားဝတ်ဖွယ်၊ လက်သူကြွယ်မှာ၊ ပတ္တမြားသာတည့်၊ ငယ်စွာလက်သန်း၊ ကြောင်ဆင်မြန်းလော့၊ ဆန်းသည့်လသို့ တက်ထွန်းတည်း။

❖❖❖❖❖

## ၁၀၅။ စန်းလင်္ဂယှဉ်တွယ်၊ ပူးရာဝယ်၊ ဘယ်ခွင်ဘယ်ကျောက်ဝတ်မည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– စန္ဒရလဂ္ဂေ စန်းလင်္ဂသည်။ မိသေ၊ မိဿရာသီ၌ ရှိမူကား။ မဏိ၊ မတ္တာမြားဝတ်ရာ၏။ ပြိသေ၊ ပြိဿ၌ ရှိမူကား။ ဟရိ၊ မြဝတ်ရာ၏။ မေထုနေ၊ မေထုန်၌ ရှိမူကား။ ဗိဠာ၊ ကြောင်ဝတ်ရာ၏။ ကက္ကဋ္ဌေ၊ ကြကဋ်၌ ရှိမူကား။ မုတ္တာ၊ ပုလဲဝတ်ရာ၏။ သီဟေ၊ သိဟ်၌ ရှိမူကား။ စိနကံ၊ စိန်ဝတ်ရာ၏။ ကန္နေ၊ ကန်၌ ရှိမူကား။ ဥဿဘာ၊ ဥဿဖယားဝတ်ရာ၏။ တူလေ၊ တူ၌ ရှိမူကား။ ဂေါမုတ္တံ၊ ဂေါမုတ်ကျောက် ဝတ်ရာ၏။ ဗြိစ္ဆေ၊ ဗြိစ္ဆာ၌ ရှိမူကား။ ရတ္တာ၊ နီလာဝတ်ရာ၏။ ဓနုမှိ၊ ဓနု၌ ရှိမူကား။ ပဝါဠံ၊ သန္တာဝတ်ရာ၏။

❖❖❖❖❖

## ၁၀၆။ နက္ခတ်သွယ်သွယ်၊ ကျောက်မျိုးခြယ်၊ ဘယ်ကျောက်ဘယ်နက္ခတ်၌နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နက္ခတ်အားဖြင့် ဝတ်ဆင်ရာသည်ကား အဿဝဏီ၊ ဘရဏီ၊ ကြတ္တိကာ၊ ရောဟိနီ၊ မိဂသီ၊ အဒြ၊ ဤနက္ခတ်တို့၌ကား ပတ္တာမြားစတ်ရာ၏။ ပုနဗ္ဗသု၊ ဖုသျှ၊ အသလိဿ၊ မာဃ၊ ပုဗ္ဗဖဂ္ဂုနီ ဤနက္ခတ်တို့၌ကား နီလာဝတ်ရာ၏။ ဟဿတ၊ စိတြ၊ သွာတိ၊ ဝိသာခါ၊ အနုရာဓ၊ ဇေဋ္ဌ၊ မူလ၊ ပြုဗ္ဗာသာဠ် ဤနက္ခတ်တို့၌ကား ကြောင်ဝတ်ရာ၏။ ဥတ္တရာသာဠ်၊ သရဝဏ်၊ ဓနသိဒ္ဓ၊ သတ္တဘိသျှ၊ ပြုဗ္ဗဘဒြပိုဒ်၊ ဥတ္တရာဘဒြပိုဒ်၊ ရေဝတီ ဤနက္ခတ်တို့၌ကား ဂေါမုတ်ဝတ်ရာ၏။

ဤသို့ဆိုခဲ့သောအတိုင်း ဝတ်ဆင်ရမူကား ခပ်သိမ်းသော ဘေးအန္တရာယ် ပျောက်ရာ၏။ ကြောင့်ကြစိုးရိမ်ခြင်း ကင်းရာ၏။ နှလုံးဝမ်းသာ ဖြစ်ရာ၏။ ရန်မာန် ခပ်သိမ်းကိုလည်း အောင်အံ့။ အလိုခပ်သိမ်း ပြည့်စုံအံ့။ ဤနက္ခတ်တို့၌ စန်းယှဉ်သောနေ့ ဝတ်ရမည်ဆိုလိုသည်။

❖❖❖❖❖

## ၁၀၇။ သက်တံခုနစ်သွယ်၊ ကျောက်မျိုးဝယ်၊ ဘယ်မျှအဖိုးထိုက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဥဿဖယားတွင် နီလာ သက်တံရေး ပြက်ပြက်စွဲအံ့။ ခုနစ်သွယ်ရှစ်သွယ် ပြေးအံ့။ ကြောင်ဇာတိတည်း။ ရတနာတို့ကို ဆောင်နိုင်၏။ ဤကျောက်ကား အဖိုးအတိုင်းမသိ ထိုက်၏။ ။ မဏိသျှုတြကျမ်းလာ စကားစုတည်း။

❖❖❖❖❖

## ၁၀၈။ အာယုခက်ဝယ်၊ အင်းလေးသွယ်၊ဘယ့်နှယ်ဂဏန်းစသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အာယုခက်အင်း လေးသွယ် ဟူသည်ကား။ ယပ်စောက်အင်း၊ ပေါင်းလဲအင်းဟူ၍ နှစ်မျိုးတွင် တစ်မျိုးမျိုး၌ ဟာယန ဝဟုန သွားအားဖြင့် ၂–ပါးပြားပြန်၍ ၄–အင်းဖြစ်သတည်း။ ထိုလေးအင်းကို အလျား ၄ ကွက်၊ အနံ ၄ ကွက်ထား။ ထိုအကွက်၌ ကိန်းပုံအတိုင်း အင်းစောင့်ရမည်။

အင်းစောင့်ကား –အင်း ၄ ကွက်တွင် အစဉ်အတိုင်း ပ က ဝ တ ဟူ၍ရေး။ ပ အောက်က ပါ ပိ ပီ ဟူ၍ချ။ က အောက်က ကာ ကိ ကီ ဟူ၍ချ။ ဝ အောက်က ဝါ ဝိ ဝီ ဟူ၍ချ၊ တ အောက်က တာ တိ တီ ဟူ၍ချ၊ ကိန်းပုံဖြစ်၏။

အင်းဆန် သွတ်ရမည့်အက္ခရာကား–ကိ–တီ–ပ–ဝါ။ ဝ–ပါ–တိ–ကီ။ က–တာ–ပိ–ဝီ။ ဝိ–ပီ–တ–ကာ။ ဤကား ယပ်စောက်အင်းစောင့်ပုံ ၂–မျိုးတည်း။

ဝိ–ပီ–တ–ကာ၊ ပါ–ဝ–ကီ–တိ။ ။ ပိ–ဝီ–က–တာ၊ ဝါ–ပ–တီ–ကိ။ ။ ဤကား ပေါင်းလဲအင်းစောင့်ပုံ ၂–မျိုးတည်း။

ဎင်းအင်းစောင့် အက္ခရာ ရှစ်လုံးစီတွင် အရင်းအက္ခရာကစ၍ ၁၊၂၊ ၃၊ ၄၊ ၅၊ ၆၊ ၇၊ ၈၊ တစ်၊ နှစ်၊ သုံး၊ လေး၊ ငါး၊ ခြောက်၊ ခုနစ်၊ ရှစ်။ အစဉ်အတိုင်းချ။ အင်းစောင့် ဖြစ်၏။

ထိုအင်းစောင့်ဂဏန်းကို ''ဆံသွယ်မြတ်လေး၊ ဥဿျှောင်ကွေးနှင့်'' ဟူ၍ လည်းကောင်း ''မြတ်လေးဆံသွယ်၊ ဥဿျှောင်ကြွယ်နှင့်'' ဟူ၍လည်းကောင်း ခေါ်ကုန် သည်။ ။ ဤအရာ၌ မှတ်သားရန်ဉာဏ်မတွေဝေစိမ့်သောငှာ အက္ခရာဂဏန်း သွင်းလျက် အင်းပုံကို ချ၍ ပြထားလိုက်ဦးအံ့။

### အင်းဆန်သွတ်နိုင်ရန် ကိန်းပုံ

| | | | |
|---|---|---|---|
| ပ | က | ဝ | တ |
| ပါ | ကာ | ဝါ | တာ |
| ပိ | ကိ | ဝိ | တိ |
| ပီ | ကီ | ဝီ | တီ |

## ယပ်စောက်အင်းစောင့် ပုံ၂–မျိုး

| | | | |
|---|---|---|---|
| ပ<br>၃ | | ဝ<br>၅ | |
| ပါ<br>၆ | | ဝါ<br>၄ | |
| | ကိ<br>၁ | | တိ<br>၇ |
| | ကီ<br>၈ | | တီ<br>၂ |

| | | | |
|---|---|---|---|
| | က<br>၁ | | တ<br>၇ |
| | ကာ<br>၈ | | တာ<br>၂ |
| ပိ<br>၃ | | ဝိ<br>၅ | |
| ပီ<br>၆ | | ဝီ<br>၄ | |

## ပေါင်းလဲအင်းစောင့်ပုံ ၂–မျိုး

| | | | |
|---|---|---|---|
| | | ဝ<br>၆ | တ<br>၆ |
| ပါ<br>၅ | ကာ<br>၄ | | |
| | | ဝိ<br>၁ | တိ<br>၈ |
| ဝီ<br>၂ | ကီ<br>၇ | | |

| | | | |
|---|---|---|---|
| ပ<br>၆ | က<br>၃ | | |
| | | ဝါ<br>၅ | တာ<br>၄ |
| ဝိ<br>၁ | ကိ<br>၈ | | |
| | | ဝီ<br>၂ | ကီ<br>၇ |

အဋ္ဌာရသကိန်းတည်။ ဒွေးချိုး။ လဒ် ၉–ခုရ၏။ ၎င်းလဒ်၉–ခုကို ၁–ရှိရာက မျှော်၍ ကွက်ကျော်ထောင့်သန်းတစ်ခု ရှုတ်၍ချ။ ထို့နောင် ၂–ကမျှော်။ ထို့နောင် ၃–က မျှော်။ ထို့နောင် ၄–စသည်ကမျှော်၍ ကွက်ကျော်ထောင့်သန်း တစ်ခုစီ ရှုတ်၍ချလေ။ လျား နံ့ သချာညီစွာထွက်၏။

တ ကာ ဝိ ပီ၊ ပိ ဝီ က တာ။ ကိ တီ ပ ဝါ၊ ဝ ပါ တိ ကီ။ ။ (ဟာယနအင်းဆန် ဂါထာ)။ ။ ကိ တီ ပ ဝါ။ ဝ ပါ တိ ကီ။ က တာ ပိ ဝီ။ ဝိ ပီ တ ကာ။ ။ (ဝမုနအင်း ဆန်ဂါထာ)။ ။ အရင်းအက္ခရာကစ၍။ ၁၊ ၂၊ ၃၊ ၄၊ ၅၊ ၆၊ ၇၊ ၈၊ (တစ်၊ နှစ်၊ သုံး၊ လေး၊ ငါး၊ ခြောက်၊ ခုနစ်၊ ရှစ်) တိုင်အောင်ချရမည်။ အကွက်နေပုံသာထူး၏။ ဂဏန်းမှာ ''ဆံသွယ် မြတ်လေး၊ ဥသျှောင်ကွေးနှင့်'' ချည်း ရလတ္တံ့။

အင်းသွင်းပုံကား–ရောက်သောအသက်ကိုတည်။ ဒွေးချိုး အကြွင်းမရှိလျှင် လဒ်ကို ၁–ကစ၍ တစ်ခုစီရှုတ်၍ ရှစ်ကွက် ပြည့်အောင်သွား။ သမအင်းဖြစ်၏။

အကြွင်းတစ်ခုရှိလျှင် ၂–ကွက် တစ်ကြိမ် ဒွေးနုတ်၍ ရေးနည်းသွား။ အလျား အနံ ထောင့်သန်းရေးသော်။ တည်ရင်းအသက်ထွက်စေ။ ဤကား ဝိသမအင်းဖြစ်၏။

ဤကိန်းဖြင့် ဆန္ဒဝုတိ, ဒွတ္တိံသ, ပဉ္စဝီသ, သောဠသအင်း။ သက်တော် ၈၀– အင်း။ သာသနာ ၅၀၀၀၊ ဓမ္မက္ခန္ဓာ–၈၄၀၀၀။ ဇမ္ဗူဒီပါ–၁၀၀၀၀။ မေတ္တာ–၅၂၈။ ပစ္စည်း ၂၄။ စက်တော် ၁၀၈ အင်း အစရှိသည်တို့ကိုလည်း အင်းဆန်ပြု၍ သွားကြကုန်၏။ ဒသဒဏ္ဍာ။ အဋ္ဌဒေါသာ စသည်တို့ကိုလည်း အင်းသွတ်၍ စီရင်ကုန်၏။

ဤ ပ က ဝ တ ပြပုံဖြင့် သွားသောအင်းသည် မဏိဇောတိရသ် ပတ္တမြား ရတနာနှင့် တူသောကြောင့် ''မဏိဇောတိရသ်အင်း'' လည်း ဆိုကုန်၏။ အသက်ကို သွင်း၍ သွားသောကြောင့် ''အာယုခက်အင်း''လည်း ဆိုကုန်၏။

ဤ ''ဆံသွယ်မြတ်လေး၊ ဥသျှောင်ကွေးနှင့်'' ဟူသော အင်းစောင့်ကိန်းသည် အဘယ်ကိုစွဲ၍ ဖြစ်သနည်းဟူမူကား လူတို့ကိုယ်တွင် ဒွါရ ၉–ပေါက်ရှိသောကြောင့် ၉–ခုတည်၊ ခန္ဓာငါးပါးမြှောက်၊ ၄၅–ဖြစ်၏။ ၎င်း ၉–ခုတည်၊ ဓာတ်လေးပါးနှင့်မြှောက် ၃၆–ဖြစ်၏။ ၎င်း ၉–ခုတည်၊ ဘဝ ၃–မြှောက်၊ ၂၇–ဖြစ်၏။ ၎င်း ၉–ခုတည်၊ သုခ ဒုက္ခ နှစ်ပါးမြှောက်၊ ၁၈–ဖြစ်၏။ ဤသို့ လူတို့ကိုယ်ကိုစွဲ၍ ထွက်သည်။

ဖွား၍ တစ်နေ့သာရှိသော သူငယ်ကို အာယုခက်ပြုလိုသော်– တစ်နေ့၌ ရအပ်သော နာရီ ၆၀–ကို ဒွေးချိုး။ လဒ် ၃၀–ကို တစ်ခုရှိရာမှ ကွက်ကျော် ထောင့်သန်း တစ်ခုရှုတ်၍ချ။ ထို့နောင် ၂–ခုရှိရာ။ ၃–ခုစသည်တို့မှ ကွက်ကျော်ထောင့်သန်း တစ်ခုစီရှုတ်၍ ချလေ။

တစ်လစေ့သော သူငယ်ကို ပြုလိုမူ–ရက် ၃၀–ကိုတည်။ ဒွေးချိုး၊ လဒ်ကို ရေးနည်း တစ်ခုစီရှုတ်၍ချ။

တစ်နှစ် ပြည့်သော သူငယ်ကိုပြုလိုမူ–ရက်ပေါင်း ၃၆၀–ကိုတည်၊ ဒွေးချိုး၊ လဒ်ကိုရေးနည်းတစ်ခုစီ ရှုတ်၍ချ။ ။ဤနည်းတူ ရှစ်နှစ်သားတိုင်အောင် ရက်ပေါင်း ကိုတည်၊ ဒွေးချိုး၊ လဒ်ကို တစ်ခုရှုတ်၍ချရမည်။

ကိုးနှစ်ပြည့်သည်မှစ၍ ဆယ့်ခုနစ်နှစ်တိုင်အောင် အသက်ကိုပင် တစ်ခုရှုတ်၍ချ။ ၄-ခွင်ကို ပေါင်း၍ ၂-ခုစား။ အသက်ရပြန်၏။ ။ဆယ့်ရှစ်နှစ်မှစ၍ နှစ်ကို ဒွေးချိုး၍ လဒ်ကို အထက်နည်းအင်းသွင်းလေ။

ဥုံဇေယျသမ္ပတ္တိ မဟာဇေယျသမ္ပတ္တိ ဇေယော ဇေယျတံ လဘတိ။ ဥုံဒူရေ ဒူရေ သွာဟယျ သတ္တသွာဟ။

ဤမန္တန်ကို ခုနစ်တန်ရွတ်ပြီးမှ အင်းချရမည်။

**အကျိုးကား။** ။အသက် ရှစ်နှစ်, ကိုးနှစ်, ဆယ့်ရှစ်နှစ်ကို တည်ကိန်းပြု၍ ချသောအင်းကား- သူခပ်သိမ်းတို့ ချစ်၏။ ချမ်းသာ စည်းစိမ်ကို ပေးတတ်၏။ လယ်တွင်ထားသော် ရေမခန်း။ ၂၀-ကိုကိန်းပြု၍ ချသောအင်းကား လယ်တွင်ထားသော် ပိုးမစား။ စပါး အသီး အနှံ ကောင်း၏။ အိမ်တွင်ထားသော် မိတ်အများရောက်၏။ ၂၂-ကိန်းကား ကျွဲတွင်ထားသော် ကြွက်မစား။ ၂၄-ကိန်းကား လယ်၌လည်းကောင်း၊ အိမ်၌လည်းကောင်း ထားရသော် သူခိုးမဝင်ဝံ့။ ၂၆-ကိန်းကား အိမ်တွင်ထားသော် ရွှေငွေတိုးပွါး၏။ သားကောင်းရ၏။ မသီးသော သစ်ပင် သီး၏။ သားမရှိသော မိန်းမ သားရှိ၏။ ၂၈-ကိန်း။ ၃၀-ကိန်း။ ၃၂-ကိန်းကား ကိုယ်တွင်ထား၊ ရန်သူကြံ၍မဖြစ်။ သူမြင်တိုင်းချစ်၏။ ၃၄-ကိန်း၊ ၃၆-ကိန်းကား ကိုယ်တွင်ဆောင်။ မင်းဘေး၊ မင်းဒဏ် လွတ်၏။ အနာကင်း၏ ၃၈ကိန်း။ ၄၀ကိန်းကား အိမ်ခေါင်တွင်ထား ဆုတောင်းတိုင်း ပြည့်၏။ ၄၂-ကိန်း။ ၄၄-ကိန်းကား မိန်းမမြူလည်း သားဖွား၏။ အင်းကို ရေစိမ်၍ သောက်စေ။ ကိုယ်တွင်လည်း ဆောင်စေ။ ၄၆-ကိန်း။ ၄၈-ကိန်းကား ဆီစိမ်၍လိမ်း။ သားမဖြစ်သူ သားဖြစ်၏။ သူခပ်သိမ်းချစ်၏။ ၅၀-ကိန်း။ ၅၂-ကိန်း။ ၅၄-ကိန်းတို့ကား ရန်အောင်၏။ ကြံတိုင်းပြီး၏။၅၆-ကိန်း ၅၈-ကိန်း၊ ၆၀-ကိန်း ၆၂-ကိန်းအစရှိသော သမကိန်းတို့ကား ကျက်သရေပွားခြင်း။ စည်းစိမ်ကြီးခြင်း။ ဥစ္စာမြဲခြင်း။ အသက် ရှည်ခြင်းကို ဖြစ်စေတတ်၏။ ၂၁၊၂၃၊၂၅ အစရှိသော ဝိသမအင်းစုကား ရောဂါကင်းခြင်း၊ ရန်အောင်ခြင်းကို ဖြစ်စေ၏။

တိသမုဒိဝကန္တာရော၊ အာယုသတံ ဘဝိဿတိ။ ဟတ္ထိသေနာပတိ ရာဇာ၊ သဗ္ဗံ ရာဇာ ဘဝိဿတိ။ မင်္ဂလာအဿတရာ စ။ သုကတာနိ ဘဝိဿတိ။ ဗုဒ္ဓိ မေ သရဏံ အညံ၊ သမ္ပဒါနာ ဘဝိဿတိ။ သဗ္ဗီတိယော ဝိဝဇ္ဇန္တု။ သဗ္ဗရောဂါပိနဿန္တု။ ဟော ဟော်တိ ရာဇာနော။ ဥပဒ္ဒဝါ ဝိနဿန္တု။ ဘဂဝန္တေဒုက္ကရာ ဥာတုံ၊ ဥပဒ္ဒန္တိ သကတရာ။ ဓမန္တေမင်္ဂလာညတာ၊ ယုတ္တရာ နာမ ဂေယျတော။ ။ အဒဏ္ဍိယံ။ ဒဏ္ဍိယန္တိ၊ ဒဏ္ဍိယဥ္စ အဒဏ္ဍိယံ။ အန္ဓော၀ ဝိသမံ မဂ္ဂံ။ နဇာနာမိ သမာသမံ။ ။ဆင္ဂီရ တေဇေနော။ အမု တေတေဟိ ရက္ခန္တု။

ဗုဒ္ဓေ ဓမ္မေဟိ ရက္ခန္တု။ သံဃေ တေဇေဟိ ရက္ခန္တု။ ။ ဥုံ စက္ခုဇိဝှါယ က္လမဿ ကာယဿ သွာဟုံ သွာဟာ။ ။ ဥုံ ဗုဒ္ဓတေဇာယန္တု။ ဓမ္မတေဇာယန္တု။ သံဃတေဇာယန္တု။ ။ဥုံ ဆေစု ပုပ္ပတ္တာ သွာဟာ။ ဥုံ မဟာရာဇာ ရေတုဂုဏန္တရာဇော။ ။ဥုံဥပ္ပ ဒတ္တဒယောင်။ သက္ကကာမ ဒယောင်။ ဥုံ မာယောင်ယောင်။ ဥုံ ဆေစု ပုပ္ပတ္တာ သွာဟာ။

အာယုခက်အင်းမှာ လက်ယာရစ်ရုံ။

ဘဝါ ဘဝါ နန္တပါတာ။ အက္ခရ ပဏ္ဍုကမ္ဗလာ။ ဘဂဝန္တံ အပဝန္တိ။ ဘဂဝါ လောကသမတော။ အဝသိဋ္ဌံ ဘယာရောဂါ။ ဝိနဿန္တု မမန္တရာ။ (ရှိခိုး)

ဥုံ ဇေယျတု ဇေယျတု။ က္လမိနာ ဂရုဋ္ဌေပဒ္ဒေ။ ပစ္စယေ နေဝ ပက္ခိနော။ စောရော စောရောဝ ပန္တောဝစ။ ပေလာသပ္ပေါ သုပဏ္ဏဂေါ။ သဗ္ဗေဘောဂါ သဗ္ဗေဒေဝါ။ သဗ္ဗလာဘံ ဘဝန္တုတေ။ ။ **ဥုံ စက္ခုဇိဝှါ** ကာယဿသွာဟုံဟုံ။ (လက်ဝဲရစ်ရုံ)

ဥုံ သူရိယော ရုက္ခေတိဟုံတိဟုံ။ ပဇ္ဇလတိ **ပရမဿ။ ဥုံအသူရိန္ဒ** ရာဟု ဟုံဟုံသူရိန္ဒရာ ။ **။အာယုခက်အင်း အစိတ်အရုံ။**

ဤကား အဋ္ဌသာခါကျမ်း၌ လာသော အစီအရင်တည်း။ ။

နမန္တာကျမ်း၌ကား–နမန္တာဘက်သစ်၊ တြိယန်းသစ်တို့ကို ဘုရားရုပ်ထု၍ ၎င်း အာယုခက်အင်းကို သလွဲပြား၌ရေး၍ ဇာတာကို ထပ်ပြီးလျှင် ထိုအပေါ်၌ ဘုရားဆင်းတု တင်၍ ကိုးကွယ်ရမည် အကြောင်းဖြင့် ကျယ်ဝန်းစွာလာ၏။

ပုစ္ဆာ၌ ''အာယုခက်ဝယ်။ အင်းလေးသွယ်။ ဘယ့်နှယ်ဂဏန်း စသနည်း'' ဟု မေးသောကြောင့် ဂဏန်း စဟန်ကိုသာ ဖြေသင့်သော်လည်း ထိုမျှဖြင့် သိဿာနုသိဿ တို့အား အကျိုးမများသောကြောင့် မှတ်သားလိုသော သူတို့ သိသာခြားနား မှတ်သား ရသဖြင့် အကျိုးများစိမ့်သောငှာ ပြည့်စုံစွာ ဖြေဆိုလိုက်သည်။

❖❖❖❖❖

## ၁၀၉။ အဋ္ဌမှန်ကျဦးကျယ်၊ အင်း၉–သွယ်၊ကြီးငယ် ဘယ်ကထွက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–အဋ္ဌမှန်အင်းချလိုသော် အလျား ၉–ကွက်၊ အနံ ၉–ကွက်ထား။ ၉–ကွက် ၉–လီရ၏။ ပထမ ၉–ကွက်က စ၍ ၄၊၅၊၆၊၇၊၈၊၉၊၁၀၊၁၁၊၁၂ တစ်အင်း။ တစ်ကွက်စီ အစောင့်ထား။ ထိုကိန်းဖြင့် ထိုအလယ်

ကွက်၌ ၁၀၈–ဖြင့်သာ အောင်စေ။ ပထမအင်း၌ ဓာတ်၄–ပါးတည်၊ ၁၂–ရာသီတိုး။ ဒုတိယ အင်း၌ ၁၂–ခုတည်၊ ၁၁–ခုတိုး။ တတိယအင်း၌ ၂၀– တည်၊ ၁၀–ခုတိုး။ စတုတ္ထအင်း၌ ၂၈ခုတည်၊ ၉–ခုတိုး။ ပဥ္စမအင်း၌ ၃၆–ခု တည်၊ ၈–ခုတိုး။ဆဋ္ဌအင်း၌ ၄၄–ခုတည်၊ ၇–ခုတိုး။ သတ္တမအင်း၌ ၅၂–ခုတည်၊ ၆–ခုတိုး။ အဋ္ဌမအင်း၌ ၆၀–တည်၊ ၅–ခုတိုး။ နဝမအင်း၌ ၆၈–တည်၊ ၄–ခုတိုး၊ ဒသမအင်း၌ ၇၆–ခုတည်၊ ၃–ခုတိုး။ ကောဒသမအင်း၌ ၄၈–တည်၊ ၂–ခုတိုး။ ဒွါဒသမအင်း၌ ၉၂–တည်၊ ၁–ခုတိုး။ ။ ဤကား အင်းရင်း ဆယ့်နှစ်ရပ်တည်း။

အဋ္ဌမုန် အင်းပေါင်း ၅၄–အင်း စေ့အောင်မှာပေအံ့။ ။ ၂၆–တည်။ အိမ်တွင်ထား။ ရွှေ,ငွေ,ဥစ္စာ ပွားများ၏။ ။ ၂၈–တည်။ ဆန်းစပါးများ၏။ ။ ၃၀–ခြေမှာဝတ်။ ပေါ့ပါး မြန်ထက်၏။ ။၃၂–ခရီးသွား၍မပန်း။ ၃၄–ဘေးကင်း၏။ ၃၆–ဗောင်းထုပ်တွင်ထား။ ဆုတောင်းလိုသမျှပြီး၏။ ။၃၈–ဆောင်တိုင်းအောင်၏။၄၀–စိတ်ချမ်းသာ၏။ ။၄၂–သား မရှိသော်ရှိ၏။ ။ ၄၄–သားမဖွားသော် ဖွား၏။၄၆–သားမရသောမိန်းမ ဆီစိမ်၍ လိမ်းရ၏။ ၄၈–အိမ်မိုးခြင်တွင်ထား ရန်အပေါင်းမဝင့်။ ၅၀–ရန်မျိုးအောင်၏။၅၂–ရန်အောင်၏။၅၄–လည်တွင်ဆွဲ အသံသာ၏။ ၅၆–ဆုံတွင်ထား။ ဆီမထွက်။ ၅၈–သူချစ်များ၏။ ၆၀–အန္တရာယ်မျိုး ကင်း၏။ ၆၂–စစ်ထိုးရာ၌ဆောင် သူ့တပ်ပျက်၏။ ၆၄–လျှိုကောင်း၏။ ၆၆–အနှောင်အဖွဲ့ လွတ်၏။ ၆၈–လေးမြားလက်နက် လွတ်၏။ ၇၀ သူအချစ်ပျက်၏။ ၇၂–သားတင်၏။ ၇၄–မသီးသောသစ်ပင် သီး၏။ ၇၆– သူဝတ်လွတ်၏။ ၇၈–အခြေ အရံ များ၏။ ၈၀–လျှိုတွင် အကျော်။ ၈၂– ကြံသမျှ ပြီး၏။ ၈၄–၈၆ မီးကွင်း၏။ ၈၈–သူပြုကာ၏။ ၉၀–ဘေးမျိုးပျောက်၏။ ၉၂–မီးကွင်း၏။၉၄–ကျီ၌ထား ကြွက်မစား။ ၉၆–အန္တရာယ်မျိုးကင်း၏။ ၉၈–လျှို အကျော်။ ၁၀၀–ကြွယ်ဝ၏။ ၁၀၂–ကြံညှစ် ယန္တရား၌ထား။ မထွက်။ ၁၀၄–စည်းစိမ်ကြီး၏။ ၁၀၆–လယ်တွင်ထား စပါးများ၏။ ၁၀၈–သူငယ်လည်းပင်းတွင်ထား။ ဘေးကင်း၏။ ၁၁၀–သူငယ်လည်တွင်ဆွဲ စုန်းမဖမ်းနိုင်။ ၁၁၂–တရားတွေ့ရာဆောင်။၁၁၄–တုတ်လက်ဖွဲ့။ ၁၁၆–အကာရန်လွတ်၏။ ၁၁၈–ငင်းရန် လွတ်၏။ ၁၂၀–သူမကြံနိုင်။ ၁၂၂–ဆင်၊ ကျား ရှောင်၏။ ၁၂၄–စစ်ထိုး အောင်၏။၁၂၆–နတ်သား ထင်ရ၏။ ၁၂၈–သူချစ်၏။ ။ ဤအဋ္ဌမုန် ၅၄–အင်းကို တခုစီ ရှုတ်၍ချ။ အတက်မှာ၂–ခုစီရှုတ်၍တက်လေ။ ၎င်းအဋ္ဌမုန် အင်းကွက်တွင် သာသနာ၅၀၀၀–တည်။ ၉–ခုစီရှုတ်၍ ခရုပတ်သွား။ အလယ် ၄၉၂၀–ဖြင့် သေစေ၊ တစ်အင်းမှာ ၄၉၂၀–စ၍တည်။ ၉–ခုစီ လောင်း။ အလယ် ၅၀၀၀ဖြင့် သေစေ။ ဤအင်းကား ငွေယား၊ ကြေးယားကို နိုင်၏။ အခြောက် အလုန့်ဟူသမျှကို နိုင်၏။ နန်းစဉ် အင်းကျမ်းတွင် လာသည်။

၄-ခုတည်။ ၁၂-တိုး။ ပထမ ၉အင်း။

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၄ | ၁၆ | ၂၈ | ၅ | ၁၇ | ၂၉ | ၆ | ၁၈ | ၃၀ |
| ၈၈ | ၁၀၀ | ၄၀ | ၈၉ | ၁၀၁ | ၄၁ | ၉၀ | ၁၀၂ | ၄၂ |
| ၇၆ | ၆၄ | ၅၂ | ၇၇ | ၆၅ | ၅၃ | ၈၈ | ၆၆ | ၅၄ |
| ၁၁ | ၂၃ | ၃၅ | ၁၂ | ၂၄ | ၃၆ | ၇ | ၁၉ | ၃၁ |
| ၉၅ | ၁၀၇ | ၄၇ | ၉၆ | ၁၀၈ | ၄၈ | ၉၁ | ၁၀၃ | ၄၃ |
| ၈၃ | ၇၁ | ၅၉ | ၈၄ | ၇၂ | ၆၀ | ၇၉ | ၆၇ | ၅၅ |
| ၁၀ | ၂၂ | ၃၄ | ၉ | ၂၁ | ၃၃ | ၈ | ၂၀ | ၃၂ |
| ၉၄ | ၁၀၆ | ၄၆ | ၉၃ | ၁၀၅ | ၄၅ | ၉၂ | ၁၀၄ | ၄၄ |
| ၈၂ | ၇၀ | ၅၈ | ၈၁ | ၆၉ | ၅၇ | ၈၀ | ၆၈ | ၅၆ |

ဤနည်းကိုမှီ၍ ၁၂-ခုကိုတည်သဖြင့် ၁၁-ခုတိုးသော ဒုတိယအင်း။ ၂၀-ကို တည်သဖြင့် ၁၀-တိုးသော တတိယအင်း။ ၂၈-ခုကို တည်သဖြင့် ၉-ခု တိုးသော စတုတ္ထအင်း။ ၃၆-ခုကို တည်သဖြင့် ၈-ခုတိုးသော ပဉ္စမအင်း။ ၄၄-ခုကို တည်သဖြင့် ၇-ခုတိုးသော ဆဋ္ဌအင်း။ ၅၂-ခုကို တည်သဖြင့် ၆-ခု တိုးသော သတ္တမအင်း။ ၆၀-ခုကို တည်သဖြင့် ၅-ခုတိုးသော အဋ္ဌမအင်း။ ၆၈-ကို တည်သဖြင့် ၄ ခု တိုးသော နဝမအင်း။ ၇၆ ခုကို တည်သဖြင့် ၃-ခု တိုးသော ဒသမအင်း။ ၈၄-ခုကို တည်သဖြင့် ၂-ခုတိုးသော ကောဒသမအင်း။ ၉၂-ခုကို တည်သဖြင့် ၁-ခုတိုးသော ဒွါဒသမအင်း။ အစရှိသော အထက် အညွှန်းတွင် ပါသမျှ အဋ္ဌမှုန်အင်းတို့ကို စေ့ငုစုံလင်အောင် ချလေ။

❖❖❖❖❖

**၁၁၀။ စာစပ်ရိုးဝယ်၊ မုလေးသွယ်၊ ဘယ့်နှယ်ချရိုး ရှိသနည်း။**

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား-**မုလေးသွယ်** ဟူသည်ကား အသတ် ရော၍ ချီသည်။ ချသည်။

❖❖❖❖❖

**၁၁၁။ ဖျောက်ဆိပ်လလယ်၊ စပ်ရိုးဝယ်၊ ဘယ့်နှယ် အသတ်များသနည်း။**

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား-**ဖျောက်ဆိပ် လလယ်** အက္ခရာ ဟူသည်ကား အသတ်များ၍၊ မသတ်သောအရာ နည်းစေ၍ ချသည်။

❖❖❖❖❖

## ၁၁၂။ သုံးဆယ့်သုံးသွယ်၊ ဗျည်းကကျယ်၊ ဘယ်သူဘယ်ဗျည်းစပ်မည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

ပဌမော ခတ္တိယော ဝံသော၊ ဒုတိယော ဝံသဗြာဟ္မဏော။
တတိယော ဝေဿိယဝံသော၊ စတုတ္ထော စ ဒေဝေါ မတော။
ပဥ္စမော ဗြဟ္မဝံသော စ၊ ယရဝဟဝဏ္ဏော သုဒ္ဒေါ။
လ–သ–ဝဏ္ဏော ဟီနဝံသော။ ဆန္ဒဘေဒေါ ဝိညူ ဗြူတ္တော။ ။

ဟူ၍ ကဝိပါသဏ္ဌာဆန်းကျမ်း၌လာသည်။

**အနက်ကား။** ။ ပဌမော၊ ရှေးဦးစွာတည်သော 'က'ဝဂ်ငါးလုံးကို။ ခတ္တိယော ဝံသော၊ မင်းမျိုးဟူ၍။ မတော၊သိအပ်၏။ ဒုတိယော၊ နှစ်ခု မြောက်သော 'စ'ဝဂ်ငါးလုံးကို။ ဝံသဗြာဟ္မဏော၊ ပုဏ္ဏားမျိုးဟူ၍။ မတော၊ သိအပ်၏။ တတိယော၊ သုံးခုမြောက်သော 'ဋ'ဝဂ်ငါးလုံးကို။ ဝေဿိယဝံသော၊ ကုန်သည်မျိုးဟူ၍။ မတော၊ သိအပ်၏။ စတုတ္ထော၊ လေးခုမြောက်သော 'တ'ဝဂ်ငါးလုံးကို။ ဒေဝေါ၊စ၊ သမ္မုတိနတ်, ဥပပတ္တိနတ်တို့၏ ဝံသ ဟူ၍။ မတော၊ သိအပ်၏။ ပဥ္စမော၊ငါးခုမြောက်သော 'ပ'ဝဂ်ငါးလုံးကိုကား။ ဗြဟ္မဝံသော၊စ၊ ဗြဟ္မဝံသဟူ၍။ ဝါ၊ မြတ်သောသူဟူသမျှတို့၏ ဝံသဟူ၍။ ဝုတ္တော၊ ဆိုအပ်၏။ ယရဝဟ ဝဏ္ဏော၊ ယရဝဟဟူသော အက္ခရာလေးလုံးကို။ သုဒ္ဒေါ၊ သူဆင်းရဲ၏ ဝံသဟူ၍။ ဝုတ္တော၊ ဆိုအပ်၏။ လသဝဏ္ဏော၊ 'လသ'အက္ခရာကို။ ဟီနဝံသော၊ ယုတ်ညံ့သော အမျိုးဟူ၍။ ဆန္ဒဘေဒေါ၊ ဆန်းအပြားကို သိသော။ ဝိညူ၊ ပညာရှိသည်။ ဗြူတ္တော၊ ဆိုအပ်၏။

ဤမှတစ်ပါး အကျယ်အားဖြင့် စိတ်ဖြာ၍ ပြသည်ကား များသေး၏။ အကျယ်ကို လိုမူ ကဝိပါသဏ္ဌာမည်သော ဆန်းကျမ်း၌ ယူလေကုန်။

❖❖❖❖❖

## ၁၁၃။ သနားစဖွယ်၊ ကြာပွင့်နှယ်၊ သည်နှယ် ဘယ်အနက်ဟောသနည်း

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား– ကြာပွင့်နှင့်တူ၏ဟု အဓိပ္ပါယ် ရသောကြောင့် သဒိသအနက်ကို ဟော၏ဟူပေ။

❖❖❖❖❖

## ၁၁၄။ မမျှလူဝယ်၊ သည်သူ့နှယ်၊ သည်နှယ်မူကား မည်သို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–သည်သူသာလျှင် လူဝယ်မမျှဟု အဓိပ္ပါယ်ရသောကြောင့် ဝေတ္ထအနက်ကို ဟော၏ဟူပေ။

ရှေးဆရာတို့ကား အသဒိသ အနက်ဟူ၏။ မမျှဟူသော သဒ္ဒါကပင် **အသဒိသ အနက်ကို** ဟောပြီးဖြစ်၍ နှယ်–သဒ္ဒါက အသဒိသ အနက်ကို မဟောသင့်ပြီ။

❖❖❖❖❖

**၁၁၅။ ဟို့နှယ်သည့်နှယ်၊ ဆိုစဖွယ်၊ သည့်နှယ်မူလည်း ဘယ်နက်နည်း။**

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား– ဟိုယောင်ယောင်၊ သည်ယောင်ယောင်ဟု ဆိုလိုသော အရာဖြစ်၍ သံသယတ္ထအနက်ကို ဟော၏ဟူပေ၏။

❖❖❖❖❖

**၁၁၆။ သံတော်ခံဝယ်၊ အင်ခြောက်သွယ်၊ အဘယ်သချ်ာ ဆိုမည်နည်း**

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

**ပညဝံ ဝါကျဝံ သူရံ၊ ပရစိတ္တာနုလက္ခဏံ။**
**သဒ္ဒံ ယထောတ္တဝါဒိဥ္စ၊ တော် ဒူတေ ဝိဓီယတေ။ ။ ရာဇနီတိလာ။**

**အနက်ကား။** ။ ပညဝံ၊ ပညာလည်းရှိထသော။ဝါကျဝံ၊စကားအချိတ်အဆက် ကိုလည်း တတ်ထသော။ သူရံ၊ ရဲရင့်သော။ ပရစိတ္တာနုလက္ခဏံ၊ သူတစ်ပါး၏ စိတ်ကိုလည်း မှတ်တတ်ထသော။ သဒ္ဒံ၊ ယဉ်ကျေးသောစိတ်ရှိထသော။ ယထောတ္တ ဝါဒိဥ္စ၊ ဆိုတိုင်းလည်း ပြန်ကြားတတ်ထသော။ တော်၊ ဤ အင်္ဂါခြောက်ပါးနှင့် ပြည့်စုံသော သူကို။ ဒူတေ၊ သံတော်ခံအရာ၌။ ဝိဓီယတေ၊ ခန့်ထားအပ်၏။

❖❖❖❖❖

**၁၁၇။ စားတော်ကဲဝယ်၊ ပြည့်စုံဖွယ်၊ ငါးသွယ်အင်္ဂါ ဘယ်သို့နည်း။**

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

**ပိတုပိတာမဟော ဒက္ခော၊ ဘတ္တညော မိတပါစကော။**
**ဘောဇယုတ္တော ဝိဘတ္တော စ၊ သူပကာရော ပယံသိတော။** ။ရာဇနီတိ။

**အနက်ကား။** ။ပိတုပိတာမဟော၊ အဘ, အဘိုးမှ ဆင်းသက်၍လာသော။ ဒက္ခော၊ အချက်အပြုတ်၌ လိမ္မာထသော။ ဘတ္တညော၊ ထမင်းချက် ဟင်းချက် ကြမ်းကိုလည်းတတ်ထသော မိတပါစကော၊ နှိုင်းရှည့်တိုင်းထွာ၍လည်း ချက်တတ်ထသော။ ဘောဇယုတ္တော၊ အစာ၌လည်း လုံ့လပြုတတ်ထသော။ ဝိဘတ္တော၊ အဝေဖန်လည်း တတ်ထသော။ ယေော၊ ဤအင်္ဂါငါးပါးနှင့် ပြည့်စုံသော။ သူပကာရော၊ စာတော်ချက် စားတော်ကဲကို။ ပယံသိတော၊ ချီးမွမ်းအပ်၏။

❖❖❖❖❖

၁၁၈။ အင်ခုနစ်သွယ်၊ မှတ်စဖွယ်၊ သူငယ်တော်တို့ အဘယ်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

သုဇာနန္တံ သုစိ ဒက္ခံ၊ ဓမ္မိကံ ဗဟုသတ္တကံ။
အလောဘံ အပ္ပမတ္တဥ္စ၊ သေဝေယျ တံ ရာဇန္တိကေ။ ။ ၎င်းရာဇနီတိ။

**အနက်ကား။** ။သုဇာနန္တံ၊ အရှင်၏ အလိုကိုလည်းကောင်းစွာ သိတတ်ထသော။ သုစိံ၊ စင်ကြယ်သန့်ပြန့်ထသော။ ဒက္ခံ၊ လိမ္မာရေးခြားရှိထသော၊ ဓမ္မိကံ၊ မရမ်းမကား တရားလည်း စောင့်ထသော။ ဗဟုသတ္တကံ၊ ကျမ်း ဂန်, အကြား, အမြင်လည်း များထသော။ အလောဘံ၊ လိုချင်ခြင်းသည်လည်း နည်းထသော။ အပ္ပမတ္တဥ္စ၊ မမေ့မလျော့သော သတိလည်း ရှိထသော။ **တံ၊** ထိုအင်္ဂါခုနစ်ပါးနှင့် ပြည့်စုံသော သူကို။ ရာဇန္တိကော၊ မင်း၏အနီး၌၊ သေဝေယျ၊ ခစားစေရာ၏။ ။ သူငယ်တော် လူပျိုတော်တို့၏ အင်္ဂါခုနစ်ပါး။

❖❖❖❖❖

## ၁၁၉။ ဆီးချိုကိုပယ်၊ မြို့တည်ဖွယ်၊ ဘယ်မြို့ တိတ်တဘောင်ပေနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား– မြင်စိုင်းမင်းညီနောင် သုံးယောက် တို့တွင် တစ်စီးရှင် သီဟသူမင်းသည် အင်းဝမြို့ကို လေးကြိမ်တည်သည်။ မဖြစ်လေ။ တစ်ကြိမ်ကား ရေဖျက်၍ပျက်သည်။ တစ်ကြိမ်ကား ငါးကြီးအိမ်ကို တက်နေသောကြောင့် ပျက်သည်။ တစ်ကြိမ်ကား လိပ်ကြီးအိမ်ကို တက်နေသောကြောင့် ပျက်သည်။ တစ်ကြိမ်ကား ဘီလူးသည် နေဝင်လျှင် ပန်းနီကိုပန်၍ အနောက်တောင်မှ ဝင်လျက် အုတ်ခဲနှင့်ပစ်လျှင် လူတို့ နာဖျား သေပျောက်များ၍ ပျက်လေသည်။ ထို့ကြောင့် ကောင်း,မကောင်းကို သိသာအောင် တဘောင်နာစေသော် ထွက်လတ်သည်ကား ''တောင်းလည်း လျင်လျင်တောင်း။ ရောင်းလည်း လျင်လျင်ရောင်း။ အရေးမကောင်း။ ဒက္ခိဏာသို့ လျင်လျင်ပြောင်း''ဟူ၍ ထွက်သည်။ ထိုစကားကို ကြားသော် သာသနာ တော်စောင့် နတ်တို့. ဤအရပ်တွင် မနေစေလိုဟုသိ၍ တောင်အရပ်သို့ ပြောင်းပြီးသော် ပင်းယမြို့ တည်ရာဌာနတွင် မြေအခိုးထသောအရပ်၌ တူး၍ ကြည့်စေသော် အရိုး,အရွက်, အခက်,အသီးနှင့် တကွသော ရွှေပန်းပင်ကိုရသည်။ သီဟသူမင်းလည်း ဤ၌ မြို့တည် သင့်ပြီဟု ထင်၍ တဘောင်နာစေသော် ထွက်လတ်သည်ကား''ထိုမင်းဘုန်းတန်း၊ အရှည်ချမ်းဘို့၊ ရွှေပန်းရပေသည်''ဟု တဘောင်ထွက်၏။ ထို့ကြောင့် ထိုအရပ်၌ မြို့တည်၍ ''ပန်းယမြို့''ဟု သမုတ်လျက် မင်းနေပြည် ပြုတော်မူသည်။

သတိုးမင်းဖျားလည်း မင်းဖြစ်တော်မူလျှင် ပညာရှိနှင့် တိုင်ပင်၍ ဤပန်းယမြို့သည် အနေအထားမကောင်း။ စစ်ကိုင်းမြို့ကို တည်ထောင်ရသော် သင့်မည်လောဟု တဘောင် နာစေသော် ထွက်လတ်သည်ကား ''ထဘီတောင်းစေ၊ ခြေကောင်းစေ၊ တဘက် ခါးစည်း၊ ချွေးကြီးတဖြာ၊ ပန်းမှုသာ''ဟူ၍ တဘောင်ထွက်၏။ သတိုးမင်းဖျားလည်း ဤတဘောင်ကို ကြားသော် စစ်ကိုင်းမြို့ကို တည်၍ မသင့်ချေဟု မှတ်ပြီးမှ အင်းဝမြို့ကို တည်ရသော် သင့်မည်လောဟု တဘောင်နာပြန်စေသော် တဘောင်ထွက်လတ်သည်ကား ''ပြယာယ် သည်လော၊ သွယ်သည်လော၊ ပြယာယ် သင်တိုင်း၊

24
A

မြနှင့်နှိုင်းသည်၊ ဓေါကျိုင်း ပတ်စာနယ်သည်လော၊ အပွေးတပုံ၊ အခွဆုံကို၊ ရွှယ်သည်လော''ဟု ထွက်၏။ ဤတိဘောင်ကို ကြားမှ အင်းဝမြို့ကို တည်တော်မူသည်။

ဗဒုံမင်းတရားသည် အမရပူရမြို့ကို တည်တော်မူအံ့သောအခါ တဘောင်နာစေသော် ထွက်လတ်သည်ကား ''အသက်ရှည်လို၊ မန်းရိပ်ခို၊ မအိုမသေ၊ အမြဲနေ၊ ရန်မွေမရှိ၊ ငြိမ်းခေါင်ထိ''ဟူ၍လည်းကောင်း၊ ''ဆီးခြုံပယ်ရှင်း၊ပြည်များမင်း၊ နန်းခင်းရာလုပြီ''ဟူ၍လည်းကောင်း ထွက်သည်။ ထို့ကြောင့် အမရပူရမြို့၏ တိတ်တဘောင်ဟု သိအပ်၏။

❖❖❖❖❖

## ၁၂၀။ ပုဗ္ဗာတွင်ဖွယ်၊ ဂါထာဝယ်၊ အဘယ်ဂိုဏ်းဟု ဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

**နလဂါ အပုဗ္ဗာ။ ။သုဇုတိမရံ။ ဟိတသုခဒံ။ ဝရဂုဏဇံ။ ဇိနဘိနမေ။ ။**
**နလဂ။ နလဂ။ နလဂ။ နလဂ။ ။အပုဗ္ဗာ ဂါထာ။ သုပတိဋ္ဌာ။**

နလဂါ၊ နဂိုဏ်း လဟု ဂရုရှိသောသော ဂါထာသည်။ ဝါ၊ လေးပါဒလုံးနဂိုဏ်း နှင့်တကွ လဟုဂရုရှိသော ဂါထာသည်။ အပုဗ္ဗာ၊ အပုဗ္ဗာ ဂါထာမည်၏။ ယထာ၊ ဥဒါဟရဏ် အဘယ်နည်းဟူမူကား။သုဇုတိမရံ ဟိတသုခဒံ၊ဝရဂုဏဇ ဇိနဘိနမေတျာဒိ၊သုဇုတိမရံ။ ပ။နမေ အစရှိသည်တည်း။ ။ သုဇုတိမရံ၊ ကောင်းစွာဖြောင့်မတ်စွာသော ပညာကို ဆောင်တတ်ထသော။ ဝါ၊ကောင်းစွာ ဖြောင့်မတ်တည်ကြည်သော သမာဓိရှိထသော။ ဟိတသုခဒံ၊ စီးပွားချမ်းသာကို ပေးတတ် ထသော။ ဝရဂုဏဇံ မြတ်သောကျေးဇူးကို ဖြစ်စေတတ်ထသော။ ဇိနံ၊ မြတ်စွာ ဘုရားကို။ အဘိနမေ၊ အလွန်ရှိသေစွာ ရှိခိုးပါ၏။ နလဂ။ နလဂ။ နလဂ။ နလဂ။ ။ အပုဗ္ဗာဂါထာ၊ အပုဗ္ဗာဂါထာတည်း။ သုပတိဋ္ဌာ၊ သုပတိဋ္ဌ ဆန်းတည်း။

❖❖❖❖❖

## ၁၂၁။ ဂါယတ္တိဝယ်၊ ဂိုဏ်းနှစ်သွယ်၊ ဘယ်ဂိုဏ်းဖြစ်တို့လေသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

**တျာ စေ တနုမဇ္ဈာ။ ။ ဂါယတ္တိ။**

ယသာ၊ အကြင်ဂါထာ၏။ စတူသုပါဒေသု၊ လေးပါဒတို့၌။ (စတူသု ပါဒေသုကား၊ ပါဋ္ဌေသေသ)။ တျာ၊ တ ဂိုဏ်း, ယဂိုဏ်းတို့သည်။ ပဋ္ဌိပါဋ္ဌိ၊ အစဉ်အတိုင်း။ စေသိယုံ၊ အကယ်၍ ဖြစ်ကုန်အံ့။ သာ၊ ထိုဂါထာသည်။ တနုမဇ္ဈာ၊ တနုမဇ္ဈ ဂါထာမည်၏။ ။ ဂါယတ္တိ၊ ဂါယတ္တိဆန်းတည်း။

❖❖❖❖❖

၁၂၂။ ဝိသမဝယ်၊ ဘဂိုဏ်းသွယ်၊ အဘယ်ဂါထာဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

**ဘတ္တယတော ယဒိ ဂါ ရုတမဇ္ဈ၊ ယဒိ ပုနဒေဝ ဘဝန္တိ နဇာဇ္ဈာ။**

ယဿ၊ အကြင်ဂါထာ၏။ ဝိသမေ၊ ဝိသမဟု ဆိုအပ်သော ပဌမ တတိယ ပါဒ၌။ဘတ္တယတော၊ ဘဂိုဏ်းသုံးခုနောင်မှ။ ဂါ၊ ဂရုနှစ်ခုတို့သည်။ ပဋိပါဋိ၊ အစဉ်အတိုင်း။ ယဒိဘဝန္တိ၊ အကယ်၍ ဖြစ်ကုန်အံ့။ သမေ၊ သမဟု ဆိုအပ်သော ဒုတိယ စတုတ္ထပါဒ၌။ ပုနဒေဝ၊ တစ်ဖန်သာလျှင်။ နဇာ၊ နဂိုဏ်း,ဇဂိုဏ်းတို့သည် လည်းကောင်း။ ဇ္ဈာ၊ ဇဂိုဏ်း, ယဂိုဏ်းတို့သည် လည်းကောင်း။ ပဋိပါဋိ၊ အစဉ် အတိုင်း။ ယဒိဘဝန္တိ၊ အကယ်၍ ဖြစ်ကုန်အံ့။ သာ၊ ထိုဂါထာသည်။ ရုတမဇ္ဈ၊ ရုတမဇ္ဈ ဂါထာတည်း။

❖❖❖❖❖

၁၂၃။ ဝါရတစ်ဆယ်၊ တိကဝယ်၊ ဘယ့်နှယ် ဆန်းကျမ်းတွက်မည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား–

**ဒသတိကမူလမ္ဟိ။ မဝိဝါ။ တိ။ မဝိစိ။ တိ။ မဝိဉ။ တိ။ မဝါစိ။တိ။ မဝါဉ။ တိ။ မစိဉ။ တိ။ ဝိဝါစိ။ တိ။ ဝိဝါဉ။ တိ။ ဝိစိဉ။ တိ။ဝါစိဉ။ တိ။ ကေန္တိ။ ဒသတု တိကမလေသု ဧကေကသ္မိံ အာဒိမံ ပါဒံ အာဒိမှိ ဌာနေ ဆဝါရမေဝ ကတွာ တတော ဒုတိယံ တတိယဥ္စ ဆဋ္ဌာနကံ ဝဍ္ဎေတွာ တပ္ပမာဏမေဝ ကတွာ အယံမေဝ ဒွါဒသသု သက သက ဝိသယေသု အာဒိတော ကမေန စတုတ္ထေ တတိယေ ဒုတိယေစ ဌာနေ ပူနရပိ တိယန္တိမေ ဒွိယန္တိမေ ဒွိတတိ ယေစ ဒွိဒွိဝါရံ ကတွာ တတော သေသပါဒေ ကမောက္ကမံ ကရေ ယျာတိ ဆတ္တိံသတိ။ ဝေံသေသေသွပိ တိက္ကေသု ဆတ္တိံသ ဆတ္တိံ သာတိ သမ္ပိဏ္ဍိတာဆဠာဓိကတိသတန္တိ။**

ဟူသော ဋီကာ ကဝိသာရနှင့်အညီ၊ တိမူ ၃၆၀–ယူနည်းပုံ။

**တိကေသု ပန တိကမူလေသု ဧကေကသ္မိံ အာဒိမံပါဒံ အာဒိမှိ ဌာနေ ဆဝါရမေဝ ကတွာ တတော တမေ ဝက္ခရံ ဒွါဒသသု သကဝိသယေသု အာဒိတောကမေန စတုတ္ထေ တတိယေစ ဌာနေ ပုနစ တိယန္တိမေ ဒွိယန္တိ မေ ဒုတိယ တတိယေစ ဒွိဒွိဝါရံ ကတွာ တတော သေသပါဒေ ကမောက္ကမံ ကရေယျာတိ ဒွါဒသ။ ဝေံသေသေ သွပိ ကေနူ စတ္တာလီသ တိကေသု ဒွါဒသ ဒွါဒသာတိ သမ္ပိဏ္ဍိတာ ဆဠာဓိက တိသတန္တိ။**

ဟူသည်နှင့်အညီ၊ တိမူ ၃၆၀–ယူနည်းပုံ။

အထဝါ မူလ ဘူတံ ပါဒျက္ခရံ အာဒိတော ပဋ္ဌာယ နိရန္တရံ ဆဝါရံ ကတွာ တတောပိ တမေဝ အာဒိတော ပဋ္ဌာယစ ဋ္ဌာနေ၊ တဋ္ဌာနေ၊ ဒုဋ္ဌာနေ၊ ယထာက္ကမံ နိရန္တရံ ဒွိဒွိဝါရံ ကတွာ တတော သေသဋ္ဌာနေသု မူလီဘူတံပါဒိ အက္ခရဒွယံ အာဒိတော ပဋ္ဌာယ ဝိဝါ။ ဝါဝိ။ ဝိဝါ။ ဝါဝီတိ ကမောက္ကမံ ကရေယျာတိ။ ။ တစ်နည်းယူဟန်။

တိမူ တစ်နည်းယူဟန်ကား

ဆတ္ဘျေက မူလဘေဒေန၊ ဒသမူလတိကာ မတာ။
ပတ္ထာရ နယဘေဒေန၊ ဆတ္တိံသ အာဒိကေ ကထံ။
တိကေ အာဒိမှိ ဋ္ဌာနေဝ၊ ဆဝါရံ ပါဒမာဒိမံ။
ကတွာ အန္တေ တတိယေစ၊ ဒုတိယေစ တတောပုန။
တိယန္တိမေ ဒွိ ယန္တိမေ၊ ဒွေတတိယေစ သဗ္ဗတ္ထ။
ဒွိက္ခတ္တုံ ဒွိက္ခတ္တုံ ကတွာ၊ သေသပါဒေ ကမောက္ကမာ။
တိကေ တိကေ ယတော ဝေ၊ သိယုံ ဆတ္တိံ သ ဆတ္တိံ သ။
တတောတိကေသု သဗ္ဗေသု၊ ဆတ္တိံသ ဒသပိဏ္ဍိတာ။

ဟူသော ဂါထာနှင့်အညီ တိမူယူဟန်။

ဆတ္ဘျေက မူလဘေဒေန၊ ခြောက်ခု၊သုံးခု၊ တစ်ခုသော မူလတို့၏ အပြားအားဖြင့်။ မူလတိကာ။ မူလတိကတို့ကို။ ဒသ၊ ဆယ်ပါးတို့ဟူ၍။ မတာ၊ သိအပ်ကုန်၏။ ပတ္ထာရနယဘေဒေန၊ ပတ္ထာရ နည်း အပြားအားဖြင့်။ အာဒိကေ၊ အစဖြစ်သောတိကဉ်။ ဆတ္တိံသ၊ သုံးဆယ်ခြောက်ဂါထာတို့သည်။ သိယုံ၊ ဖြစ်ကုန် ၏။ ကထံသိယုံ၊ အဘယ်သို့ ဖြစ်ကုန်သနည်းဟူမူကား။

တိကေ၊ တိကဉ်။ အာဒိမှိဋ္ဌာနေဝ၊ အစဖြစ်သော ဋ္ဌာနဉ်သာလျှင်။ အာဒိမံ၊ အစဖြစ်သော။ ပါဒံ၊ ပါဒကို။ ဆဝါရံ။ ခြောက်ကြိမ်။ ကတွာ၊ ပြု၍။ အထပဋ္ဌာ၊ ထို့နောင်မှ၊ အန္တေစ၊ အဆုံး၌လည်းကောင်း။ တတိယေစ၊ သုံးခုမြောက်၌ လည်းကောင်း။ ဒုတိယေစ၊ နှစ်ခုမြောက်၌ လည်းကောင်း။ တတော၊ ထို့နောင်မှ။ ပုန၊ တစ်ဖန်။ တိယန္တိမေစ၊ သုံးခုမြောက် လေးခုမြောက်၌ လည်းကောင်း။ ဒွိယန္တိ မေစ။ နှစ်ခုမြောက် လေးခုမြောက်၌ လည်းကောင်း။ ဒွေတတိယေစ၊ နှစ်ခုမြောက် သုံးခုမြောက်၌ လည်းကောင်း၊ သဗ္ဗတ္ထ၊ အလုံးစုံသောဋ္ဌာနတို့၌။ ဒွိက္ခတ္တုံဒွိက္ခတ္တုံ၊ နှစ်ကြိမ်နှစ်ကြိမ်စီ။ ကတွာ၊ပြု၍။ သေသပါဒေ၊ ပဌမပါဒမှ ကြွင်းသော ဒုတိယပါဒ တတိယပါဒတို့ကို။ ကမောက္ကမာ၊ အစဉ်မညီသည်ကို။ ကရေ၊ ပြုရာ၏။

တိကေ တိကေ၊ တိကတိုင်း တိကတိုင်း။ ယတောယသ္မာကာရဏာ၊ အကြင့်ကြောင့်။ ဝေ၊ဧကန်သို့။ ဆတ္တိံသ ဆတ္တိံသ၊ သုံးဆယ့်ခြောက်ဂါထာ သုံးဆယ့်ခြောက်ဂါထာ

တို့သည်။ သိယုံ။ ဖြစ်ကုန်၏။ တတော တသ္မာကာရဏာ၊ ထို့ကြောင့်။ သဗ္ဗေသု၊ အလုံးစုံကုန်သော။ တိကေသု၊ ဆယ်ပါးသော တိကတို့၌။ ပိဏ္ဍိတာ၊ ပေါင်းအပ် ကုန်သော။ ဆတ္တိံ သဒသ၊ သုံးရာခြောက်ဆယ် တို့သည်။ သိယုံ၊ ဖြစ်ကုန်၏။ (ဤကား တိကဖို့)။

**တိကေသုပန မတ္တာသမကံ ဒွယံ ကတွာ ဝိသိလောက ဝါန ဝါသိကံ ဧကေကံ ကတွာ မိဿိတေဒွါဒသ။ တထာ မတ္တာသမကံ ဒွယံ စိတြံ ဥပစိတြဥ္စ ဧကေကံ ကတွာ မိဿိတေပိ။ တထာ မတ္တာသမကံ ဒွယံ ဝိသိလောက စိတြဥ္စ ဧကေကံ ကတွာ မိဿိ တေပိ။တထာ မတ္တာသမကံ ဒွယံ ဝါနဝါသိကံ ဥပစိတြဥ္စ ဧကေကံ ကတွာ မိဿိတေပိ။ ဧဝံ မတ္တာ-သမကမူလကေ အဋ္ဌစတ္တာလီသ။ တထာ ဝိသိလောကမူလကေပိ စိတြမူလကေပိ ဥပစိတြ မူလ ကေပီတိ ဧဝံ သဗ္ဗတိကေ သမ္ပိဏ္ဍိတေ စတ္တာလီသာဓိက ဒွိသတံ။**

မ။ ဝိ။ ဝါ။ စိ။ ဥ။ တိက ဖြစ်အံ့။ အနံ ၄-ကွက်၊ အလျား ၃၆-ကွက် သားလေ။

ပညာရှိတို့မှာ ယခင်ဋီကာပါဠ်ဖြင့် သိသာလောက်ပြီ။ ပညာငယ်သူတို့မှာကား ပတ္ထာရ ဖြန့်ပုံတွက်နည်းကို အကျယ်ပြမှ သိမည်။ ပြုပြန်ချေလျှင် အလွန် ကျယ်ပွားရာ သောကြောင့် ဥပေက္ခာရှုလိုက်တော့သည်။

❖❖❖❖❖

## ၁၂၄။ သချ်ာထုတ်ဖွယ်၊ ရှေးတစ်သွယ်၊ ဘယ်ဝိကပ်တို့ မြွောက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား- မြွောက်စရာ ဝိကပ်မရှိ။ ပေါင်း ၍သာ သချ်ာကို ထုတ်ရမည်။

❖❖❖❖❖

## ၁၂၅။ ဆယ့်တစ်နက်ဝယ်၊ သက်စဖွယ်၊ အဘယ်ဝိဘတ်တို့ပေနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား-

"ပဥ္စမေကာဒသတ္ထမ္ဘိ၊ ဆဋ္ဌီ ဧကာဒသီရိတံ၊သတ္တမေကာ ဒသတ္ထမ္ဘိ"

ဟူ၍ ဝိဘတျတ္ထ သဒ္ဒါငယ် မိန့်သည့်အတိုင်း သိရာ၏ဟူပေ။

**အနက်ကား။** ။ပဥ္စမာ၊သိ-ယော ဟူသော ပဥ္စမာ ဝိဘတ်သည်။ ဧကာ ဒသတ္ထမ္ဘိ၊ လိင်၊ဟိတ်၊ ကတ္တား၊ကံ၊ သမ္ပဒါန်၊ကရိုဏ်း၊ သာမိ၊အဝဓိ၊ ဘုမ္မ၊ဒိသာ၊

အာလုပ်–ဟူသော အနက်တစ်ဆယ့်တစ်ပါး၌။ ဘဝေ၊ ဖြစ်၏။ ဆဋ္ဌီ၊ သ–နံဟူသော ဆဋ္ဌီဝိဘတ်ကို။ ကောဒသ၊ သမ္ဗန်၊ ဟေတု၊ ကတ္တု၊ ကမ္မ၊ ကရဏ၊ အဝဓိ၊ ဓိပတိ ယုဉ်ရာ။ နိဒ္ဒါနာဒရ၊ ဘုမ္မ၊ တဒတ်၊ ဆယ့်တစ်ရပ်သော အနက်၌ ဖြစ်၏ဟူ၍။ ဤရိုတံ၊ မိန့်အပ်၏။ သတ္တမီ၊ သ္မိံ–သု ဟူသော သတ္တ မီဝိဘတ်သည်။ ကောဒသတ္တမို၊ အာဓာရာ–နာဒရ နိဒ္ဒါရဏ၊ ဘာဝ လက္ခဏ အနက်၊ ကရိဏ်း၊ ကံ၊ ဟိတ်၊ နိမိတ်အနက်၊ လိင်၊ အပါဒါန်၊ သမ္ဗန် အနက် ဟူသော တစ်ဆယ့်တစ်ပါးသော အနက်၌။ ဘဝေ၊ ဖြစ်၏။

ဉဒါဟရဏ်နှင့်တကွသော အကျယ်ကား ၎င်းသဒ္ဒါငယ်၌ရှိပြီ။

❖❖❖❖❖

## ၁၂၆။ သတ္တမီဝယ်၊ ဆယ့်တစ်သွယ်၊ သက်ဖွယ်အနက် အဘယ်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား– အထူးကြံ၍ ဖြေဆိုရန်မရှိ။ အထက် ၁၂၅–ခုမြောက် ပုစ္ဆာ၌ ဖြေဆိုခဲ့သည်နှင့်ပင် သိသာလောက်ပြီ။

❖❖❖❖❖

## ၁၂၇။ ရှစ်ဆယ့်ခုနစ်သွယ်၊ အနက်ဝယ်၊ သက်ဖွယ်ဝိဘတ် ဘယ်မျှနည်း။

ဟူသောအမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ဝိဘတ်ခုနစ်သွယ်၌ တစ်သွယ်လျှင် ကေဝုစ် ဗဟုဝုစ်အားဖြင့် နှစ်လုံးစီဖြစ်သောကြောင့် ၁၄–လုံး ရှိသည်။ ထိုတွင်–

ပဌမာ ဝိဘတ် သက်ရာသည်ကား ၁၁–နက်။
ဒုတိယာ ဝိဘတ် သက်ရာသည်ကား ၁၀–နက်။
တတိယာ ဝိဘတ် သက်ရာသည်ကား ၁၆–နက်။
စတုတ္ထီ ဝိဘတ် သက်ရာသည်ကား ၁၄–နက်။
ပဥ္စမီ ဝိဘတ် သက်ရာသည်ကား ၁၄–နက်။
ဆဋ္ဌီ ဝိဘတ် သက်ရာသည်ကား ၁၁–နက်။
သတ္တမီ ဝိဘတ် သက်ရာသည်ကား ၁၁–နက်။

အားဖြင့် အနက်ပေါင်း ၈၇–နက် ဖြစ်သည်။

ထိုကို ကေဝုစ် ဗဟုဝုစ်အားဖြင့် နှစ်ပါးဖြင့် မြှောက်သော် ဝိဘတ်ပေါင်း ၁၇၄လုံး ရသင့်၏ ဟူပေ။

''ပဌမာ ဆဋ္ဌီ၊ သတ္တမီဆယ့်တစ်၊ ဒု ဖြစ် တစ်ဆယ်၊ တဝယ်ဆယ့်ခြောက်၊ ထို့နောက် နှစ်ခု၊ စတု ပဥ္စမီ၊ ဆယ့်လေးစီ၊ ပေါင်းညီ ရှစ်ဆယ့်ခုနစ်တည်း။

❖❖❖❖❖

## ၁၂၈။ ကလာပ်ကျမ်းနယ်၊ သဒ္ဒါဝယ်၊ ဘယ့်ကြောင့် ဒွိဝုစ် မဟောသနည်း။

ဟူသော အမေးပုစ္ဆာ၌ မေးလိုရင်းကား– ကလာပ်ကျမ်း၌ ၁–ခုတည်းဖြစ်လျှင် ဧကဝုစ်။ ၂–ခုဖြစ်လျှင် ဒွိဝုစ်။ ၃–ခုမှစ၍ အများဖြစ်လျှင် ဗဟုဝုစ်သက်၍ ဝိဘတ် ၂၁–လုံး စီရင်သည်။

ကစ္စည်းကျမ်း၌ ဤကဲ့သို့ မစီရင်မူ၍ ၁–ခုတည်းဖြစ်လျှင် ဧကဝုစ်၊ ၂–ခုမှစ၍ ဗဟုဝုစ် စီရင်သည်။ အဘယ့်ကြောင့် ဒွိဝုစ်ကို ပယ်ပါသနည်းဟု မေးလိုသည်။

အဖြေကား– ဘုရားပါဠိတော်၌ ဒွိဝုစ်မရှိ၊ ဧကဝုစ် ဗဟုဝုစ် နှစ်ပါးသာ ရှိသောကြောင့် ပါဠိတော်နှင့် ညီစိမ့်သောငှာ ဒွိဝုစ်ကိုပယ်၏။

စူဠဝါပါဠိတော်ဝယ် ပရိဝါသ် ကြားရာ၌ တစ်ယောက်ကိုကြားလျှင်–မံ အာယသ္မာ ဓာရေတု၊ နှစ်ယောက်ကြားလျှင်–မံ အာယသ္မန္တာ ဓာရေန္တု၊ သုံးယောက်ကို ကြားလျှင်– မံ အာယသ္မန္တော ဓာရေန္တု၊ လေးယောက်ကိုကြားလျှင်– မံ သံဃော ဓာရေတု ဟူ၍ ကြားသင့်ကြောင်းကို ဟောသည်။ ယင်းသို့ဟောရာ၌ ဧကဝုစ်ကိုငဲ့၍ မံ အာယသ္မာ ဓာရေတု။ ဒွိဝုစ်ကိုငဲ့၍ အာယသ္မန္တာဓာရေန္တု။ ဗဟုဝုစ်ကို ငဲ့၍ အာယသ္မန္တော ဓာရေန္တု။ အပေါင်းကိုငဲ့၍ သံဃောဓာရေတု။ ဘုရားဟောတော်မူသည် မဟုတ်ပါလော။ အဘယ့်ကြောင့် အရှင်ကစ္စည်းဆရာသည် ဒွိဝုစ်ကို ချန်ပါသနည်း။ နေ,လသည် လေးကျွန်းလုံးကို ထွန်းလင်းနိုင်ပါလျက် ဝါးလုံးထဲ၌ မထွန်းလေသကဲ့သို့ ပိဋကတ်သုံးပုံ ပါဠိတော်ကို မြင်ပါလျက် ဝိနည်းပါဠိတော်တစ်စိတ်ကို မမြင်သကဲ့သို့ မရှိလောဟု စောဒနာငြားအံ့။ ဝိနည်းပါဠိတော်ကို မမြင်သည်မဟုတ်၊ မြင်သည် သာတည်း။ အကယ်၍''အာယသ္မန္တာ ဓာရေန္တု''ကို ဒွိဝုစ်၊ ''အာယသ္မန္တော ဓာရေန္တု''ကို ဗဟုဝုစ်ဖြစ်သည်ကို ရည်၍ ဟောတော်မူငြားအံ့'' ဓာရေန္တု ကြိယာ၌လည်း အထူး ဖြစ်ခဲ့ရာ၏။ ထူးကားမထူး။ ''အာယသ္မန္တာ အာယ သ္မန္တော''ဟူသော ကတ္တားပုဒ်သာ ထူး၏။ ထို့ကြောင့် ၎င်းကတ္တား၌သာ ဗာဟိရင်္ဂ အန္တရင်္ဂကာရိယ အထူးဖြင့် ဒေသနာဝိလာသကို ပြုတော် မူသည်။ ဒွိဝုစ် ဗဟုဝုစ်အထူးဖြင့် ပြုသည်မဟုတ်ဟု ဗုဒ္ဓါသယကို သိတော်မူသော ကစ္စည်းဆရာသည် လောကီသဒ္ဒါကျမ်း၌လာသော ဒွိဝုစ်ကို ပယ်ဘိ၍ ပါဠိတော်နည်းနှင့် ညီမျှအောင် ဧကဝုစ်, ဗဟုဝုစ် နှစ်ပါးသာ ထားတော်မူ သတည်း။

ထို့ကြောင့် သဒ္ဒတ္ထဘေဒစိန္တာ၌

**သင်္ချေကတ္တံ ဗဟုတ္တဉ္စ၊ သာသနေ သက္ကတေ ပန။**
**ဒွိတ္တဉ္စ ပက္ခိပိတွာန၊ သင်္ချာ ဝုစ္စတိ တညုနာ။** ။ဟု မိန့်၏။

**အနက်ကား။** ။ဧကတ္တဉ္စ၊ ဧကဝုစ်အဖြစ်လည်းကောင်း။ ဗဟုတ္တဉ္စ၊ ဗဟုဝုစ် အဖြစ်ကိုလည်းကောင်း။ က္လတိ၊ ဤသို့၊ သာသနေ၊ သာသနာတော်၌၊ သင်္ချာ၊ သင်္ချာကို၊

ဝုစ္စတေ၊ ဆိုအပ်၏။ သက္ကတေပန၊ သသ်ကရိုက်ကျမ်း၌ကား။ ဒွိတ္တဥ္စ၊ ဒွိဝုစ်ကို လည်းကောင်း။ ပက္ခိပိတွာန၊ သွင်း၍။ တညုနာ၊ ထိုသချ်ာကို သိသောပညာရှိသည်။ ဝုစ္စတိ၊ မိန့်အပ်၏။

❖❖❖❖❖

## ၁၂၉။ နာကောပုဒ်ဝယ်၊ ဆန်းတကြယ်၊ ဘယ်ကိုကကြီးဟောသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ကရုဏာကန္ဒော နာကောတိအာဒီသု သုခေ။ တတ္ထ ဟိ ကံ သုခံ ရုန္ဓတီတိ ကရုဏာ။ ကံ သုခံ ဒေတီတိ ကန္ဒော။ သာလူကော။ န ကံ သုခန္တိ အကံ ဒုက္ခံ။ တံ နတ္ထိ ဧတ္ထာတိ ဏာကော သဂ္ဂေါတိ အတ္ထော။**

ဟူ၍ ကေဂန္ဓရကောသဋီကာ မိန့်သည်နှင့်အညီ ဖြေ။

ကရုဏာ တန္ဒော နာကောတိ အာဒီသု၊ ကရုဏာ, ကန္ဒော, နာကော, ဤသို့ အစရှိသော ပုဒ်တို့၌။ သုခေ၊ ချမ်းသာဟူသော အနက်၌ဖြစ်၏။ ဟိ၊ ထင်ရှားစွာ ဆိုဦးအံ့။ တတ္ထ၊ ထိုဥဒါဟရဏ်တို့တွင်။ ယာဒယာ၊ အကြင်သနားခြင်းသည်။ ကံ သုခံ၊ ချမ်းသာကို။ ရုန္ဓတိ၊ ပိတ်ပင်တတ်၏။ ဣတိ၊ ထို့ကြောင့်။ ကရုဏာ၊ ကရုဏာမည်၏။ ယော၊ အကြင်ဝတ္ထုသည်။ ကံ သုခံ၊ ချမ်းသာကို။ ဒေတိ၊ ပေးတတ်၏။ ဣတိ၊ ထို့ကြောင့်။ ကန္ဒော၊ ကန္ဒမည်၏။ သာလူကော၊ ကြာစွယ်ကိုရ၏။ ကံသုခံ၊ ချမ်းသာသည်။ န၊ မဟုတ်။ ဣတိ၊ ထို့ကြောင့်။ အကံ၊ အကမည်၏။ ဒုက္ခံ၊ ဆင်းရဲကိုရ၏။ ။ ဧတ္ထ၊ ဤနတ်ပြည်၌။ တံ၊ ထိုဆင်းရဲသည်။ နတ္ထိ၊ မရှိ။ ဣတိ၊ ထိုသို့ ဆင်းရဲမရှိသော သတ္တိကြောင့်။ သော၊ ထိုနတ်ပြည်သည်။ နာကော၊ နာကမည်၏။ သဂ္ဂေါတိ အတ္ထော၊ နတ်ပြည်ဟူသော အနက်ကို မှတ်အပ်၏။

ဤပုစ္ဆာ၌ ''နာကော''ပုဒ်ကိုသာ မေးပါလျက် ကရုဏာပုဒ်, ကန္ဒပုဒ်တို့ကို အဘယ့်ကြောင့်သွင်း၍ ဖြေသနည်းဟူငြားအံ့–

ထီးဖြူကိုမျှ၊ အရကုပ်ကုပ်။ ပဆစ်တုပ်၍၊ သရုပ်အလျောက်၊ ငါးပါး မြောက်သား၊ မင်းမြှောက်တန်ဆာ၊ ရံကာစမြဲ၊ ပေးလွန်ကဲသည်၊ စက်ရဲ ရောင်ထင်၊ လေးကျွန်းရှင်သို့။

ဟူသကဲ့သို့ သုတပညာပွားခြင်းကို အလိုရှိကုန်သော အမျိုးကောင်းသားတို့၏ ပညာစီးပွား စည်ကားစေခြင်းအကျိုးငှာ သာဟစရိယနည်း, အဝိနာဘာဝနည်းအားဖြင့် အခြံအရံနှင့်တကွ ပြလိုက်ပါ၏ ဟူပေ။

❖❖❖❖❖

**၁၃၀။ ဥဏှုဂူဝယ်၊ ယင်းဂယ်၊ ဘယ်အနက်ကို ဟောသနည်း။**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဥဏှုဂူ သီတဂူတိ အာဒီသု ရုံသိမှိ။ တတ္ထ ဟိ ဥဏှာ ဂါဝေါ ရုံသယော တေသာတိ ဥဏှုဂူ။ သူရိယော။ သီတာ သီတလာ ဂါဝေါ ရုံသယော တေသာတိ သီတဂူ စန္ဒော။** ဟူ၍ ကေက္ခရကောသဋီကာ၌ မိန့်၏။

**အနက်ကား။** ။ ဥဏှုဂူ သီတဂူတိ အာဒီသု၊ ဥဏှုဂူ သီတဂူ အစရှိသောပုဒ်တို့၌။ ရုံသိမှိ၊ အရောင်ဟူသော အနက်၌။ ပဝတ္တတိ၊ ဖြစ်၏။ ဟိ၊ ထင်စွာဆိုဦးအံ့။ တတ္ထ၊ ထိုဥဒါဟရဏ်၌။ တေသ၊ ထိုနေမင်းအား။ ဥဏှာ၊ ပူကုန်သော။ ဂါဝေါ ရုံသယော၊ ရောင်ခြည်တို့သည်။ သန္တိ၊ ရှိကုန်၏။ဣတိ၊ ထို့ကြောင့်။ ဥဏှုဂူ၊ ဥဏှုဂူမည်၏။ သူရိယော၊ နေမင်းကိုရ၏။ တေသ၊ ထိုလမင်းအား။ သီတာသီတလာ၊ ချမ်းအေးကုန်သော။ ဂါဝေါ ရုံသယော၊ ရောင်ခြည်တို့သည်။ သန္တိ၊ ရှိကုန်၏။ ဣတိ၊ ထို့ကြောင့်၊ သီတဂူ၊ သီတဂူ မည်၏။ **စန္ဒော**၊ လမင်းကိုရ၏။

❖❖❖❖❖

**၁၃၁။ မင်းတေမိမယ်၊ စ–လုံးဝယ်၊ ဘယ့်နှယ် အနက်ဟောသနည်း။**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**စန္ဒာဒေဝီ အာဒီသု စကာရော စန္ဒေ ပဝတ္တတိ။ တတ္ထ ဟိ စော ဝိယ စန္ဒော ဝိယ ပဿန္တာနံ ဖုသန္တာနဥ္စ ပုရိသာနံ ရာဂ ပီတိသောမနဿ ယုတ္တံ မနံ ဒေတီတိ စန္ဒာတိ အတ္ထော ဟောတီတိ။**

ဟူ၍ ကေက္ခရ ကောသဋီကာ၌ မိန့်အပ်၏။

**အနက်ကား။** ။စန္ဒာဒေဝီတိ အာဒီသု၊ စန္ဒာဒေဝီ အစရှိသောပုဒ်တို့၌။ စကာရော၊စ အက္ခရာသည်။ စန္ဒေ၊လ၌။ ပဝတ္တတိ၊ဖြစ်၏။ ဟိ၊ထင်စွာ ဆိုဦးအံ့။ တတ္ထ၊ ထိုပုဒ်၌။ ယာဒေဝီ၊ အကြင်မိဖုရားသည်။ စောဝိယ စန္ဒောဝိယ၊ ပန္နရသီ ချိန်ညီ ပထွန်း ငွေလဝန်းကဲ့သို့။ ပဿန္တာနဥ္စ၊ မြင်ရသည်လည်း ဖြစ်ကုန်သော။ ဖုသန္တာနဥ္စ၊ ပိုက်နွဲပွေ့ချီ တွဲမှီတိုးဝှေ့ တွေ့ရထိရသည်လည်း ဖြစ်ကုန်သော။ ပုရိသာနံ၊ ယောကျာ်းတို့၏။ ရာဂပီတိ သောမနဿယုတ္တံ၊ တပ်ချစ်စုံမက် နှစ်သက် ဝမ်းမြောက်ခြင်းနှင့် ယှဉ်သော။ မနံ၊စိတ်ကို။ ဒေတိ၊ပေးတတ်၏။ ဣတိ၊ထို့ကြောင့်။ သာဒေဝီ၊ ထိုမိဖုရားသည်။ စန္ဒာ၊ စန္ဒာမည်၏။ ဣတိအတ္ထော၊ ဤအနက်သည်။ ဟောတိ၊ ဖြစ်၏။

တစ်နည်းလည်း''စဒိတဗ္ဗာ ဣစ္ဆိတဗ္ဗာတိ စန္ဒာ။ စန္ဒာစ သာ ဒေဝီစာတိ စန္ဒာဒေဝီ'' ဟူ၍ ဂဠုန်ပျံမိန့်ရကား စန္ဒာဒေဝီ၌ စ–သဒ္ဒါကား ''ဣစ္ဆာအနက်''ကိုဟော၏ ဟူ၍မှတ်။

စန္ဒာဒေဝီ၌ သမာသ်ပြီးသော် အာ ကျေကောင်းလျက် မကျေဘဲရှိလေသည်ကား အလုတ္တသမာသ်ဟူ၍မှတ်။

နန္ဒာဒေဝီ နရိန္ဒာဒေဝီတို့၌လည်း နည်းတူ။

❖❖❖❖❖

### ၁၃၂။ နဂရံဝယ်၊ ယင်းနငယ်၊ အဘယ်အနက်ရှိသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ''နံ သံပုဏ္ဏံ ဃရံ ဇ္ဈောတိ နဂရံ'' ဟုဝိဂြိုဟ်ပြုရကား န-ငယ် အက္ခရာသည် ပြည့်စုံခြင်း သံပုဏ္ဏအနက်ကို ဟော၏။

❖❖❖❖❖

### ၁၃၃။ နိပုဏောဝယ်၊ နိဟောဖွယ်၊ ဘယ်အနက်ဟု ဆိုမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ''နိသေသတော ကိလေသေ ပုဏာတိ သောဓေတီတိ နိပုဏော။ နိပုဗ္ဗ ပု ပဝနေ''ဟူရကား နိသဒ္ဒါသည် အကြွင်းမဲ့ ဟူသော နိသေသ အနက်ကို ဟော၏ ဟူပေ။

❖❖❖❖❖

### ၁၃၄။ ဂရုဠောဝယ်၊ ဟောစဖွယ်၊ ဘယ်ကို ဠ ကြီး ဟောသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဂရုံ ဘာရံ လာတိ အာဒဒါတီတိ ဂရုဠော။**

ယောသကုဏော၊အကြင်ငှက်သည်။ ဂရုံ၊လေးစွာသော။ ဘာရံ၊ဝန်ကို။ လာတိ အာဒဒါတိ၊ ယူတတ်၏။ တ္တတိ၊ ထို့ကြောင့်။ ဂရုဠော၊ ဂဠုန်မည်၏။

ဤသို့ အက္ခရကောသဋီကာ မိန့်ရကား ဠ ကြီးသည် အာဒါန အနက်ကို ဟော၏ဟူပေ။

ပုစ္ဆာရင်း၌ ထမင်း မဲဆား၊ ဆေးဝါးနံ့သာ၊ ပိုင်းဝါချည်စ၊ ရကစုထားသကဲ့သို့ ရှိသောကြောင့် ဆန်းရေး၊ သဒ္ဒါရေး၊ ဂန္ထန္တရရေးတို့၌ စုဝေးသီးသန့်၍ ဖြေဆိုလိုက်သည်။ အစဥ်မမှန် မဟူသင့်။

❖❖❖❖❖

### ၁၃၅။ သတ္တဝါတိုင်းဝယ်၊ စီးဖြန်းဖွယ်၊ဘယ်ဒွတ္တိံသ ရှိလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ကေသာ, လောမာ, နခါ, ဒန္တာ စသော ကောဋ္ဌာသ သုံးဆယ့်နှစ်ပါးသည် သတ္တဝါတိုင်း၌မရှိ။ အချို့သော တိရစ္ဆာန်တို့၌

ဆံအစုတို့သည်မရှိကုန်။ အချို့သော ငါး, မိကျောင်းစသည်တို့၌ အမွေးအစုတို့သည်လည်းကောင်း၊ ခြေသည်း, လက်သည်းအစုတို့သည်လည်းကောင်း မရှိကုန်။ အချို့သော တိရစ္ဆာန်တို့၌ သွားအစုတို့သည်လည်း မရှိကုန်။ ဤသို့ ရသင့်သည့်အားလျော်စွာသာ ရှိကုန်၏ဟူပေ။

◆◆◆◆◆

## ၁၃၆။ ဧကိုတစ်သွယ်၊ တသတ်ဖွယ်၊ ဘယ်သို့ကျောက်စာ ဖတ်မည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဧကို တသတ်သော် ''တော်'' ဟုဖတ်။ သ ကို ဝ သတ်လျှင် ''သောဝ်'' ဟုဖတ်။ န ကို ဝ သတ်လျှင် ''နောဝ်'' ဟု ဖတ်ဟူပေ။

◆◆◆◆◆

## ၁၃၇။ ဟေတုဒုက်ဝယ်၊ တွန်းစဖွယ်၊ ဘယ်မျှပစ္စည်း တွန်းမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဤပစ္စည်းသည် အတွန်းကား ကျယ်ဝန်း၏။ ဤတွင် ပြဆိုသော်လည်း အကျိုးမများပြီ။ ပရမတ်၌ မလေ့လာသူတို့အား နားပါးရှုပ်ထွေးရာသည် ပဋ္ဌာန်းပစ္စည်းတွန်းမှာ ထင်စွာရှိပြီ။

◆◆◆◆◆

## ၁၃၈။ ဆယ်ရက်နွားငယ်၊ စားသည်ဝယ်၊ ဘယ်သို့လျှော်ရိုး တပ်မည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ''သားရေနုနယ်။ ဆယ်ရက်ဝယ်သား၊ အငယ်မွေးလစ်၊ နွား ကျွဲဖြစ်မူ၊ အပြစ်နိုက်နဲ့၊ မဆိုစွဲလင့်'' ဟူ၍ မနုဝဏ္ဏနာတွင်ဆိုသည်။

◆◆◆◆◆

## ၁၃၉။ သူ့ကြောင် ခွေးငယ်၊ သတ်ရာဝယ်၊ ဘယ့်နှယ်လျှော်ထုံး ရှိသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ''ဆင် မြင်း ဂေါဏ၊ မဟိံသနှင့်၊ သြဋ္ဌမြည်းလား၊ ကြီးမားလုစွာ၊ သတ္တဝါကို၊ သတ်ရာချေမိ၊ ခိုးဒဏ်ထိ၏။ ထိုပြို့ငယ်စွာ၊ ကြောင် ခွေးမှာ၌၊ သပြာ ငါးကျပ်။ လျှော်စေအပ်၏'' ဟု မနုလက်ာ။

◆◆◆◆◆

## ၁၄၀။ တစ်ပါးတည်းဝယ်။ ခြသေ့်ငယ်၊ ဘယ်လက္ခဏာပေတို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မဟာကမ္ပံ ခုဒ္ဒကံ ဝါ၊ ယံကမ္ပံ ကာတုမိစ္ဆတိ။

သဗ္ဗာရမ္ဘေန ကာတဗ္ဗံ၊ သီဟာ ဧကံ တဒါ ဘဝေ။ ။ရာဇနီတိ။

**အနက်ကား။** ။မဟာကမ္ဗံဝါ၊ ကြီးသောအမှုကိုလည်းကောင်း။ ခုဒ္ဒကံဝါ၊ ငယ်သော အမှုကိုလည်းကောင်း။ ယံကမ္မံ၊ အကြင်အမှုကို။ ရာဇာ၊ မင်းသည်။ ကာတုံ၊ ပြုခြင်းငှာ။ ဣစ္ဆတိ၊ အလိုရှိ၏။ တံကမ္မံ၊ ထိုအမှုကြီးငယ်ကို။ သဗ္ဗာရမ္ဘေန၊ ခပ်သိမ်းသော အားထုတ်ခြင်းဖြင့်။ ကာတဗ္ဗံ၊ ပြုရာ၏။ တဒါ၊ ထိုအမှုကြီးငယ်ကို ပြုသောအခါ၌။ သီဟာ၊ ခြင်္သေ့မင်းမှ။ ဧကံ၊ တစ်ခုသော အကျင့်ကို။ ဂဟိတံ၊ နည်းယူအပ်သည်။ ဘဝေ၊ ဖြစ်၏။

တစ်ဦးတည်းသော သတ္တဝါကို နှိပ်စက်ညှဉ်းဆဲလိုသည် ဖြစ်စေ၊ အများ သတ္တဝါကို နှိပ်စက်ညှဉ်းဆဲလိုသည်ဖြစ်စေ၊ ခြင်္သေ့သည် အားကုန်သွန်၍ ဟောက် သကဲ့သို့ မင်းတို့ မှာလည်း အမှုကိစ္စသည် ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ အားကုန် သွန်၍သာ ပြုအပ်၏ ဟူလိုသည်။

❖❖❖❖❖

## ၁၄၁။ ကျီးတို့၌ဝယ်၊ ကျင့်ငါးသွယ်၊ အဘယ်အကျင့် ဆိုပိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဂုယှေ မေထုနာ ပေက္ခဥ္စ၊ ဘောဇနံ ဉာတိသင်္ဂ ဟော။**

**ဝိလောကာပေက္ခာနာလသျံ၊ ပဥ္စ သိက္ခေယျ ဝါယသာ။ ။ ရာဇနီတိ။**

ကာကောနာမ၊ ကျီးမည်သည်ကား။ ဂုယှေ၊ သူမမြင်သာ လျို့ဝှက်ရာ၌။ မေထုနဉ္စ၊ မေထုန်မှီဝဲခြင်းသည်လည်းကောင်း။ အပေက္ခဥ္စ၊ အကြိမ်များစွာ ရှုခြင်းသည် လည်းကောင်း။ ဘောဇနံ၊ စားအံ့သောအစာကို။ ဉာတိသင်္ဂဟော၊ ဆွေမျိုးတို့ကို ခေါ်၍ စားခြင်းသည်လည်းကောင်း။ ဝိလောကာပေက္ခဥ္စ၊ ရန်သူချောင်းမည်၊ မချောင်းမည်ကို စောင်း၍ ကြည့်ခြင်းသည် လည်းကောင်း။ အနာလသျဥ္စ၊ မပျင်းမရှိခြင်းသည် လည်းကောင်း။ ဣတိပဥ္စ၊ ဤ ငါးပါးသော အကျင့်တို့ကို။ ဝါယသာ၊ ကျီးမှ။ သိက္ခေယျ၊ သင်ရာ၏

❖❖❖❖❖

## ၁၄၂။ စာတစ်စောင်ဝယ်၊အဓိပ္ပါယ်၊ တစ်သွယ်စောင်သို့ လိုက်လိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရှေးရှေးသောကျမ်းကိုမှီ၍ နောက်နောက်သောကျမ်းကို စီရင်သည်ဖြစ်ရကား–တစ်စောင်မှ အဓိပ္ပါယ်သည် တစ်စောင်သို့ လိုက်၏ ဟူပေ။

❖❖❖❖❖

**၁၄၃။ ပညတ်၌ဝယ်၊ တသတ်ဖွယ်၊ တစ်သွယ်ပသတ် ဘယ့်ကြောင့်နည်း။**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

"တတော အဝသေသာ ပညတ္တိ ပန ပညာပိယတ္တာ ပညတ္တိ၊ ပညာပနတော ပညတ္တီတိစ ဒုဝိဓာ ဟောတိ။"

ဟူ၍ သင်္ဂြိုဟ်မိန့်သည်နှင့်အညီ အပြားအားဖြင့် သိစေအပ်သော အတ္ထပညတ်၌ ပ–သတ်သည်။ အပြားအားဖြင့် သိစေတတ်သော သဒ္ဒပညတ်၌ တ–သတ်သည် ဟူပေ။

တစ်နည်းလည်း–ဝစ္စဖြစ်သော အတ္ထပညတ်၌ ကံကိုငဲ့၍ ပ–သတ်ထားသည်။ ဝါစကဖြစ်သော သဒ္ဒပညတ်၌ ကတ္တားကိုငဲ့၍ တ–သတ်ထားသည်။

❖❖❖❖❖

**၁၄၄။ အာပေါဓာတ်ဝယ်၊ မှတ်စဖွယ်၊ ဘယ့်နယ်ရသာ ဆိုပိမ့်နည်း။**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အာပေါဓာတု၊ အာပေါဓာတ်သည်။ လဝဏော၊ ငန်သောအရသာရှိ၏။ ။ ဓာတုရသ။

❖❖❖❖❖

**၁၄၅။ ပဥ္စကူဝယ်၊ ဆေးငါးသွယ်၊ ဘယ်သည့်ဘယ်သည့် ဆေးတို့နည်း။**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပိပ္ဖလိ၊ ပိတ်ချင်းသီးသည်။ လောဟိတ သေမှ ပိတ္တံ၊ သွေး, သလိပ်, သည်းခြေကိုလည်းကောင်း။ ဝါတကာသော၊ လေ, ချောင်းဆိုး ကိုလည်းကောင်း။ ပဟာတာ၊ ပယ်နိုင်၏။ ဥဒရလောပေ၊ အစာကြေခြင်းကို။ ကရာ၊ ပြုတတ်၏။ ပိပ္ဖလိမူလံ၊ ပိတ်ချင်းမြစ်သည်။ သုက္ခဘင်္ဂံ၊ ခြောက်သောဘင်ကို။ လောပေတိ၊ ကြေနူးစေ၏။ ကုစ္ဆိဂ္ဂိ၊ ဝမ်းမီးတောက်ခြင်းကို လည်းကောင်း။ သညိမတာ၊ ပိုးတို့၏သေခြင်းကိုလည်းကောင်း။ ကရာ၊ ပြုတတ်၏။ ဆပရ၊ စရိုသည်။ ပိပ္ဖလိမူလေန၊ ပိတ်ချင်းမြစ်နှင့်။ အတ္တသဒိသော၊ အကျိုးပေးတူ၏။ စိတြံ၊ကန့်ချုပ်နီသည်။ ဝါတသေမှံ၊ လေ, သလိပ်ကိုလည်း။ ပဟာတာ၊ ပယ်နိုင်၏။ ဥဒရလောပေ၊ အစာကြေခြင်းကို။ ကရာ၊ ပြုတတ်၏။ ဝေသာ၊ ချင်းခြောက်သည်။ ဝါတသေမှ ရောဂါ၊ လေနာ သလိပ်နာတို့ကိုလည်းကောင်း။ ပဟာတာ၊ ပယ်နိုင်၏။ ဥဒရလောပေ၊ အစာကြေခြင်းကို။ ကရာ၊ ပြုတတ်၏။ ဣတိ၊ ဤသို့။ ပဥ္စဘေသဇ္ဇာ၊ ငါးပါးသောဆေးတို့သည်။ သမူဟံ၊ ပေါင်းခြင်းကို။ ကရောန္တိ၊ ပြုတတ်ကုန်၏။ တသ္မာ၊ ထို့ကြောင့်။ ပဥ္စကူတိ၊ ပဥ္စကူဟူ၍။ ဓေါဟရန္တိ၊ ခေါ်ဝေါ်ကုန်၏။ ။ ဓာတုရသကျမ်း။

ပိတ်ချင်းသီးမြစ်။ ချင်းစစ် စရို။ ကန့်ချုပ်ကို။ ခေါ်ဆိုပဥ္စကူ။

❖❖❖❖❖

### ၁၄၆။ အကင်းမျိုးပယ်၊ ငန်းမျိုးပြယ်၊ ပေးဖွယ်တစ်မြစ်ဘယ်ဆေးနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''မိုးနံ့တွင်မှန်း၊ သလိပ်ငန်းနှင့်၊ လေငန်းပြယ်ရှိး၊ အကင်းမျိုးကို၊ နိုင်ကျိုးနပ်လှ'' ဟူ၍ နရသုခိကျမ်းတွင် ဆိုသည်။

❖❖❖❖❖

### ၁၄၇။ ဓာတ်မျိုးရှင်ဖွယ်၊ အကင်းပြယ်၊ မွေးကြွယ်ဘယ်နံ့သာတို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရန့်မွေးကြူ၊ နံ့သာဖြူကား၊ ရေဟူဓာတ်ဟော၊ အာပေါမျှတ၊ ကင်းလေထ၍၊ စုန်လှဝါယော၊ အာပေါသည်းခြေ၊ သလိပ်ပွေသော်၊ နိုင်စေဓာတ်မျိုး။ ။ငင်းနရသုခီ။

❖❖❖❖❖

### ၁၄၈။ ရောဂါကပ်ဖွယ်၊ တပေါင်းဝယ်၊ ဘယ်အဓိက ပြုသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပုဿမာဃဖဂ္ဂုနေ၊ ပြာသို၊ တပို့တွဲ၊ တပေါင်းလ၌။ ပထဝီဓာတု၊ ပထဝီဓာတ်သည်။ ဗလဝါ၊ အားကြီး၏။

❖❖❖❖❖

### ၁၄၉။ တန်ခူးလဝယ်၊ ရောဂါတွယ်၊ ဆိုဖွယ်ဘယ်အဓိကနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– စိတြဝေသာခသာဝဏေ၊ တန်ခူးလ, ကဆုန်လ, ဝါခေါင်လ၌။ တေဇောဓာတုကာရကာ၊ တေဇောဓာတ်အုပ်စိုးသည်ကို ပြုတတ်၏။ ဇေဋ္ဌအာသာဠှ ဘဒြေ၊ နယုန်,ဝါဆို, တော်သလင်းလ၌။ ဝါယောဓာတု စ အဓိကာ၊ ဝါယောဓာတ် လွန်ခြင်းရှိ၏။ အဿယုဇကတ္တိက မိဂသီရေသု၊ သီတင်းကျွတ်, တန်ဆောင်မုန်း, နတ်တော်လ တို့၌။ အာပေါဓာတုကာရကာ၊ အာပေါဓာတ် အုပ်စိုး ခြင်းကို ပြုတတ်၏။ ။ ဓာတုဒီပနီ။

အချို့ဆေးကျမ်းများ၌ နတ်တော်, ပြာသိုလကား သီတလ ရတု။ တပို့တွဲ တပေါင်းလကား ဝသန္တရတု။ ဤလေးလ၌ကား သလိပ်အဓိက ပြုသည်။ တန်ခူးလ, ကဆုန်လကား ဂိမှန္တရတု။ နယုန်လ, ဝါဆိုလကား– နိဒ္ဒါဃရတု။ ဤလေးလ၌ လေအဓိကပြုသည်။ အကြွင်းလေးလ၌ သည်းခြေအဓိကပြုသည်ဟု ဆို၏။

❖❖❖❖❖

## ၁၅၀။ ဖျားခြင်းခြောက်သွယ်၊ ဆေးကျမ်းဝယ်၊ ဘယ့်နှယ်ခွဲခြမ်းပေအံ့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– လေပျတက်ဖျား။ သည်းခြေပျတက်ဖျား။ သလိပ်ပျတက်ဖျားဟူ၍ ပျတက်ဖျားသုံးပါး။

လေနှင့် သည်းခြေရောသော ဒွေးဝန်းဖျား။ လေနှင့်သလိပ်ရောသော ဒွေးဝန်းဖျား။ သည်းခြေနှင့် သလိပ်ရောသော ဒွေးဝန်းဖျားဟူ၍ ဒွေးဝန်းဖျား သုံးပါး။ ဤသို့အားဖြင့် ခြောက်ပါးခွဲခြမ်းအပ်၏ဟူပေ။

လက္ခဏာနှင့်တကွ အကျယ်သိလိုမူ ဓာတုဒီပနီ၌လည်းကောင်း, နရမာလာ၌လည်းကောင်းရှုလေ။

❖❖❖❖❖

## ၁၅၁။ ရာသီဆေးဝယ်၊ ဆယ့်နှစ်သွယ်၊ ဘယ်သို့ ရသာရှိကြသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဠေကာ၊ သက်ရင်း။ ဝသာ။ ဩလဲ။ ရဇ္ဇု၊ ဆေးပုလဲ။ အဂ္ဂိမန္ထော၊ တပဆေး။မဏိဩဃော၊ မဏိဩဃ။ ရာဇကော၊ ဖျောက်ဆိပ်။ သောမဖလံ၊ ခပေါင်း။ အနာရောဟာ။ လဲလူဖို့။ ဝါ၊ ရှင်မာကူ။ ဩဟာရ၊ ရှင်ကစွည်း။ တရိပတ္တော၊ ထောက်ရှာ။ ကဏ္ဍကကာလာ။ ဆူးခေါက်နက်၊ ကိံသုဇလာ၊ သင်းဝင်ပေါက်ဖြူ။ ။ ဤ၁၂–ပါးသည် ၁၂–ရာသီနှင့်သင့်တော်သောကြောင့် ရာသီဆေး မည်၏။

ဠေကာ၊ သက်ရင်းသည်။ လောဟိတံ၊ သွေးကို။ ဥဒ္ဒေတိ၊ ကြွစေ၏။ ဥဒရိယံ၊ အစာကိုလည်းကောင်း။ ဝါတာစ၊ လေကိုလည်းကောင်း။ လောပေတိ။ ကြေစေ၏။ ဝါတုဒ္ဒရိ၊ လေပုပ်ထုတ်ခြင်းကို။ ကရာ၊ ပြုတတ်၏။ သေမှံ၊ သလိပ်နာကို။ ပဟတာ၊ ပယ်နိုင်၏။ ဥဒရဇုံ ဝမ်းကိုလည်းဖြောင့်စေ၏။

ဝသော၊ ဩလဲသည်။ လောဟိတဝါတာ၊ သွေးလေတို့ကို။ လောပေတိ၊ ကြေစေတတ်၏။ ရဇ္ဇု၊ ဆေးပုလဲသည်။ လောဟိတံ၊ သွေးကို။ လောပေတိ၊ ကြေစေ၏။ ဝါတံ၊ လေကို။ ဥဒ္ဒေတိစ၊ ကြွလည်းကြွစေတတ်၏။ နိက္ခမတိစ၊ ထုတ်လည်း ထုတ်တတ်၏။ ဒဏ္ဍုရောဂေါ၊ ဒဏ်နာကိုလည်းကောင်း။ ဝါတခါတော၊ လေကိုက်ခဲသော အနာကိုလည်းကောင်း။ ပရမေဟရောဂေါ၊ ပရမေဟ အနာကိုလည်းကောင်း။ ကာသသေမှော၊ သလိပ် ချောင်းဆိုးနာကိုလည်းကောင်း။ ပဟတာ၊ ပယ်နိုင်၏။ အဂ္ဂိလောဟိတဘင်္ဂ၊ မီးယပ်သွေး ပျက်ကိုလည်းကောင်း။ အဂ္ဂိတတ္တာ၊ မီးယပ်ကြောင့်။ ပဝတ္တော၊ ဖြစ်သော။ အဝိမောဟော၊ မိန်းမောသော အနာကိုလည်းကောင်း။ ပဟတာ၊ ပယ်နိုင်၏။ တွေ့၊ ဤမီးယပ်ရောဂါ၌။ မုနိနာ၊ ရသေ့မြတ်တို့သည်။ ရဇ္ဇု၊ ဆေးပုလဲကို။ ပသံသန္တိ၊ ချီးမွမ်းကုန်၏။ အာယုဒီဃံ၊ အသက်ရှည်ခြင်းကို။ ကရာ၊ ပြုတတ်၏။

ဟိ၊ အထူးကို ပြဦးအံ့။ ရဇ္ဇု၊ ဆေးပုလဲလည်းကောင်း။ ပရိစ္ဆတ္တော၊ ပင်လယ် ကသစ် လည်းကောင်း။ တရေလော၊ ငစိုင်ရှင်လည်းကောင်း။ အမာဋ္ဌကော၊ ခွေးတောက် လည်းကောင်း။ ဣလမေစတ္တာရောဘေသဇ္ဇာ၊ ဤလေးပါးသော ဆေးတို့သည်။ အတ္တသဒိသာတိ၊ အကျိုးတူကုန်၏ဟူ၍။ သရပ္ပသင်္ဂဟော၊ သရုပ္ပသင်္ဂဟကျမ်း၌။ ဝုတ္တံ၊ ဟောအပ်၏။ အဂ္ဂိမန္ထော၊ တပဆေးသည်။ လောဟိတံ၊ သွေးကို။ သမေတိ၊ ငြိမ်းစေ၏။ မဏိသြဃော၊ မဏိသြဃသည်။ လောဟိတံ၊ သွေးကို။ သမေတိ၊ ငြိမ်းစေ၏။ ဝါတံ၊ လေကို။ လောပေတိ၊ ကြေစေ၏။

ရာဇကော၊ ဖျောက်ဆိပ်သည်။ လောဟိတံ၊ သွေးကို။ ဥဒ္ဓေတိ၊ ကြွစေ၏။ ဥဒ္ဓံဝါတော၊ အထက်သို့ဆန်သောလေကို။ နိက္ခာပေတိ။ ထုတ်တတ်၏။ တသ္မာ၊ ထို့ကြောင့်။ လောဟိတဒုဗ္ဗလ ကာလေစ၊ သွေးညှံ့သောအခါ၌လည်းကောင်း။ ဥဒ္ဓံဝါတကာလေစ၊ အထက်သို့ လေဆန်တက်သောအခါ၌လည်းကောင်း။ ရာဇကော၊ ဖျောက်ဆိပ်ကို။ ဝိစာရိတွာ၊ စုံစမ်းဆင်ခြင်၍။ အဝိကာ၊ တိုးတက်ရာ၏ဟူ၍။ အာစရိယာ။ ဆရာတို့သည်။ ဝဒန္တိ၊ မိန့်ကုန်၏။

သောမဖလံ၊ ခပေါင်းမြစ်သည်။ လောဟိတံ၊ သွေးကို။ သီတာပေတိ၊ ငြိမ်းအေးစေ၏။ ဝါတံ၊ လေကို။ ဥဒ္ဓေတိ၊ ကြွစေ၏။ အနာရောဟာ။ ရှင်ဗာကူသည်။ ဝါတံ၊ လေကို။ လောပေတိ၊ ကြေစေ၏။ လောဟိတံ၊ သွေးကို။ သမေတိ၊ ငြိမ်းစေ၏။

သြဟာရော၊ ရှင်ကစ္စည်းသည်။ လောဟိတံ၊ သွေးလေ ကြွသည်ကို။ လောပေတိ၊ ကြေစေ၏။ တရိပတ္တော၊ ထောက်ရှာသည်။ ဗဟိအန္တလောဟိတံ၊ အတွင်းအပ လျှံသောသွေးကို။ သမေတိ၊ ငြိမ်းစေ၏။ ကဏ္ဍုကကာလာ၊ ဆူးခေါက်နက်သည်။ ဝါတံ၊ လေကို။ လောပေတိ၊ ကြေစေ၏။

ကိံသွဇာလာ၊ သင်းဝင်ပေါက်ဖြူသည်။ လောဟိတဝါတာ၊ သွေးလေတို့ကို။ လောပေတိ၊ ကြေစေ၏။ နာဂဝိသံ၊ နဂါးဆိပ်နှင့်တူသောင်နးကို။ ပဟာတာ၊ ပယ်နိုင်၏။ မနောစ၊ နှလုံးသည်လည်း။ သမတိ၊ ငြိမ်သက်၏။

ဤသို့ ဓာတုရသဆေးကျမ်း၌ လာသောကြောင့် ရာသီဆေး ၁၂–ပါးကို အသီးခွဲဝေ၍ သိရာ၏ ဟူပေ။

❖❖❖❖❖

## ၁၅၂။ ထုပ်လျားတစ်ဆယ်၊ အိမ်ဆင်ဖွယ်၊ ဘယ်မျှမြာတိုင်ထားသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ထုပ်လျား ၇–တောင်ဖြစ်လျှင် မြာတိုင် ၇–မိုက်။ ထုပ်လျား ၉–တောင်ဖြစ်လျှင် မြာတိုင် ၉–မိုက် ထားရိုးဖြစ်ရကား ထုပ်လျား ၁၀–တောင်ဖြစ်လျှင် မြာတိုင် ၁၀–မိုက် ထားရာ၏ ဟူပေ။

❖❖❖❖❖

၁၅၃။ ဥစ္စာများကြွယ်၊ အိမ်ဆောက်ဖွယ်၊ ရှည်သွယ်တိုင်ယပ် ဘယ်မျှနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗိသုကာကျမ်း၊ ပြဆိုညွှန်း၊ တတ်စွမ်းသိပညာ။

တိုင်ယပ်ကိုမှတ်၊ မိုက်ဖွဲ့လတ်၊ စားဖြတ်သတ္တသဲ့ာ။

ဧကော ဓယ၊ ဒွေးလာဘ်ရ၊ ဒုက္ခတြိယာ။

စတုလာဘ်၊ မရဏ်၊ ပဥ္စ သိဒ္ဓိ–ဆာ။

သုည ကလဟာ၊ ငြင်းခုံရာ၊ မှန်စွာ၊ မြဲလှပါ။

တိုင်ယပ်စားနည်း၊ နိဿရည်း၊ ကမ္ဘည်းမော်ကွန်းစာ။

ဤလင်္ကာဖြင့် သိရာ၏။

❖❖❖❖❖

၁၅၄။ ရဟန်းတို့ဝယ်၊ မွေးကျင်စွယ်၊ မပယ်အာပတ် သင့်ချိမ့်နည်း။

၁၅၅။ ကျဉ်းမြောင်းရာဝယ်၊ မွေးကိုပယ်၊ အဘယ်အာပတ် သင့်သနည်း။

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား– ဆဗ္ဗဂ္ဂီ ရဟန်းတို့သည် မုတ်ဆိတ်ကို ပြုပြင်ကုန်၍၊ ပွားစေကုန်၍၊ နွားမြီးမွေးကဲ့သို့ ပြုစေကုန်၍၊ လေးထောင့်ကွက်သည်ကို ပြုစေကုန်၍၊ ရှေ့သို့ ကော့ရရော့ပြုစေကုန်၍၊ နှစ်ကွဲ နှစ်စုကိုပြုစေကုန်၍၊ ကျင်စွယ်ကို ထားကုန်၍ ကျဉ်းမြောင်းရာ၌ အမွေးကိုပယ်စေကုန်၏။ လူတို့ကဲ့ရဲ့ ကြသည်ကို ဘုရားကြားသိတော်မူသောကြောင့်–

**န ဘိက္ခဝေ မဿုံ ကပ္ပေတဗ္ဗံ။ န ဝဍ္ဎာပေတဗ္ဗံ။ န ဂေါလောမိကံ ကာရေတဗ္ဗံ။ န စတုရဿကံ ကာရေတဗ္ဗံ။ န ပရိမုခံ ကာရေတဗ္ဗံ၊ န အဍ္ဍဒုကံ ကာရေတဗ္ဗံ။ န ဒါဌိကာ ဌပေတဗ္ဗာ။ န သမ္ဗာဓေ လောမံ သံဟရာပေတဗ္ဗံ၊ ယော သံဟရာပေယျ အာပတ္တိ ဒုက္ကဋဿ။**

ဟူ၍ ပညတ်တော်မူသည်။

ဘိက္ခဝေ၊ ရဟန်းတို့။ မဿုံ။ မုတ်ဆိတ်ကို။ န ကပ္ပေတဗ္ဗံ၊ မပြုပြင်အပ်။ န ဝဍ္ဎာပေတဗ္ဗံ၊ မပွားစေအပ်။ ဝါ၊ မမွေးအပ်။ ဂေါလောမိကံ၊ နွားမြီးကဲ့သို့ အဖျားချွန်သည်ကို။ န ကာရေတဗ္ဗံ၊ မပြုစေအပ်။ စတုရဿကံ၊ လေးထောင့်ကွက်သည်ကို။ န ကာရေ တဗ္ဗံ၊ မပြုပြင်စေအပ်။ ပရိမုခံ၊ ရှေ့သို့ ကော့ရရော့ကို။ န ကာရေတဗ္ဗံ၊ မပြုပြင်အပ်။ အဍ္ဍဒုကံ၊ နှစ်စုခွဲသည်ကို။ န ကာရေတဗ္ဗံ၊ မပြုစေအပ်။ ဒါဌိကာ။ မုတ်နားကျင်စွယ်ကို။ န ဌပေတဗ္ဗာ၊ မထားအပ်။ သမ္ဗာဓေ၊ ကျဉ်းမြောင်းရာ၌။ လောမံ၊

အမွေးကို။ န သံဟရာပေတဗ္ဗံ၊ မနုတ်အပ်။ ယောဘိက္ခု၊ အကြင် ရဟန်းသည်။ သံဟရာပေယျ၊ နုတ်ပယ်ငြားအံ့။ အာပတ္တိဒုက္ကဋဿ၊ ဒုက္ကဋ်အာပတ်သို့ ရောက်၏။ ဤစူဠဝါပါဠိတော်ဖြင့် သိအပ်၏။

❖❖❖❖❖

## ၁၅၆။ ရှိမခိုးဖွယ်၊ ပေါင်းတစ်ဆယ်၊ ဘယ်သူဘယ်ကြောင့်ခွဲမည်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဒသယိမေ ဘိက္ခဝေ အဝန္ဒိယာ။ ပုရေ ဥပသမ္ပန္နေန ပစ္ဆာ ဥပသမ္ပန္နော အဝန္ဒိယော။ အနုပသမ္ပန္နော အဝန္ဒိယော။ နာနာသံဝါသကော ဝုမုတရော အဓမ္မဝါဒီ အဝန္ဒိယော။ မာတုဂါမော အဝန္ဒိယော။ ပဏ္ဍကော အဝန္ဒိယော။ ပါရိဝါသိကော အဝန္ဒိယော။ မူလာယ ပဋိကဿနာရဟော အဝန္ဒိယော။ မာနတ္တာရဟော အဝန္ဒိယော၊ မာနတ္တစာရိကော အဝန္ဒိယော၊ အဗ္ဘာနာရဟော အဝန္ဒိယော။**

ဟူ၍ စူဠဝါပါဠိတော်၌ ဟောတော်မူသောကြောင့် ရဟန်းကြီးသည် ရဟန်းငယ်အား ရှိမခိုးအပ်။ ရဟန်းဖြစ်လျက် လူသာမဏေတို့အား ရှိမခိုးအပ်။ နာနာသံဝါသကဖြစ်သော အဓမ္မဝါဒီ သတင်းကြီးကိုလည်း ရှိမခိုးအပ်။ မာတုဂါမကိုလည်း ရှိမခိုးအပ်။ ပဏ္ဍုက်ကိုလည်း ရှိမခိုးအပ်။ ပရိဝါသ် ဆောက်တည်ဆဲ ရဟန်းကိုလည်း ရှိမခိုးအပ်။ အရင်းသို့ငင်ခြင်းငှာထိုက်သော ရဟန်းကိုလည်း ရှိမခိုးအပ်။ မာနတ်ပေးခြင်းငှာ ထိုက်သောရဟန်းကိုလည်း ရှိမခိုးအပ်။ မာနတ်ကျင့်ဆဲကိုလည်း ရှိမခိုးအပ်။ အဗ္ဘာန် ထိုက်သောသူကိုလည်း ရှိမခိုးအပ်။ ဘယ့်ကြောင့်နည်းဟူမူ ဤသူတို့ကား မိမိအောက် ယုတ်ညံ့သောကြောင့်ဟူပေ။

ပရိဝါပါဠိတော်၌ကား– ရှိမခိုးထိုက်သော ပုဂ္ဂိုလ် ၂၅–ပါးဟူ၏။ ဝိနယာလင်္ကာရ၌ အကြောင်းနှင့်တကွ ဖွင့်ပြ၏။ ဤပုစ္ဆာ၌ တစ်ကျိပ်ကိုသာ မေးသောကြောင့် မေးသမျှကိုသာ ဖြေလိုက်သည်။

❖❖❖❖❖

## ၁၅၇။ သစ်ခက်ချိုးဖွယ်၊ ရဟန်းဝယ်၊ ဘယ်သည့်ဘယ်သည့်အကြောင်းနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တစ်ရံရောအခါ ရဟန်းတစ်ပါးအား မြွေခဲသည်ဖြစ်၍ မြတ်စွာဘုရားအား ကြားလျှောက်ကြသည်တွင်–

"အနုဇာနာမိ ဘိက္ခဝေ စတ္တာရော မဟာဝိကဋ္ဌာ ဒါတုံ ဂူထံ, မုတ္တံ, ဆာရိကံ, မတ္တိကန္တိ" ဟူ၍ ခွင့်ပြုတော်မူသည်။

ဘိက္ခဝေ၊ ရဟန်းတို့။ ဂူထံ၊ ကျင်ကြီးလည်းကောင်း။ မုတ္တံ၊ ကျင်ငယ်လည်းကောင်း။ ဆာရိကံ၊ သစ်စိမ်းပြာလည်းကောင်း။ မတ္တိကံ၊ ကျင်ရာမြေစိုင်လည်းကောင်း။ ဣတိ၊ ဤသို့။ စတ္တာရော မဟာဝိကဋ္ဌာ၊ လေးပါးသော ဆေးကြီးတို့ကို။ ဒါတုံ၊ ပေးစိမ့်သောငှာ။ အနုဇာနာမိ၊ ငါခွင့်ပြုတော်မူ၏။

ရဟန်းတို့လည်း ထိုဆေးကြီးတို့ကို အကပ်ခံမှအပ်သလော, အကပ်မခံဘဲပင်အပ်သလောဟု သံသယရှိ၍ ဘုရားရှင်အား လျှောက်ထားကြသည့်တွင်–

"အနုဇာနာမိ ဘိက္ခဝေ အသတိ ကပ္ပိယကာရကေ သာမံ ဂဟေတွာ ပရိဘုဉ္ဇိတုံ''ဟူ၍ ခွင့်ပြုတော်မူသည်။

**အဓိပ္ပါယ်ကား။** ။ကပ္ပိယကာရက မရှိသော် ရဟန်းကိုယ်တိုင်ယူ၍ သုံးဆောင်အပ်၏။ (ဝိနည်းမဟာဝါ ပါဠိတော်)

**ဂူထမတ္တိကာ မုတ္တာနိ၊ ဆာရိကဉ္စ တထာဝိဓေ။**

**သာမံ ဂဟေတွာ သေဝေယျ၊ အသန္တေ ကပ္ပကာရကေ။**

(ခုဒ္ဒသိက္ခာ)

**ကာလေဒိသ်ာတ္တာ ပန ဆာရိကာယ အသတိ အလ္လဒါရုံ ရုက္ခတော ဆိန္ဒိတွာ ကာတုံ။မတ္တိကာယ အသတိ ဘူမိ ခနိတွာပိ မတ္တိကံ ဂဟေတုံ ဝဋ္ဋတိ။**

ဟူ၍ သုမင်္ဂလပ္ပကာသနီဋီကာ စသည်တို့၌မိန့်ရကား– မြွေခဲသောအခါ၌ ကပ္ပိယ ကာရကမရှိ၍ သစ်စိမ်းပြာ မရခဲ့သော် ရဟန်းပင် သစ်ခက်စိမ်းချိုး၍ ပြာပြုအပ်၏။ သက်နီးကိုခိုးသူလုသော ရဟန်းသည်လည်း သစ်ခက်ချိုး၍ ဖုံးလွှမ်းအပ်၏ဟူ၍ သိရာသည်။

❖❖❖❖❖

## ၁၅၈။ ကိုယ်သေစိမ့်ရှယ်၊ အစာပယ်၊ ဘယ့်ကြောင့် အာပတ်မသင့်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**နစ ဘိက္ခဝေ အတ္တာနံ ပါတေတဗ္ဗံ။ ယော ပါတေယျ အာပတ္တိ ဒုက္ကဋဿာတိ ဝစနတော ဂိလာနေန ဘိက္ခုနာပိ ယေနကေနစိ ဥပက္ကမေန အန္တမသော အာဟာရုပစ္ဆေဒနေနပိ အတ္တာနံ န မာရေတဗ္ဗော။**

ဤသို့ အစရှိသည်ဖြင့် ဝိနည်းအဋ္ဌကထာတို့၌ လာသည်။

**အဓိပ္ပါယ်ကား။** ။မိမိကိုယ်ကို မိမိသည် ဇီဝိတိန္ဒြေမှ မချအပ်။ အကြင်ရဟန်းသည် ချငြားအံ့။ ဒုက္ကဋ်အာပတ်သင့်၏ဟူ၍ ဟောတော်မူသောကြောင့် နာသောရဟန်းသည် တစ်စုံတစ်ခုသော လုံ့လဖြင့် မိမိကိုယ်ကို မသတ်အပ်။ အယုတ်သဖြင့် အာဟာရကို ဖြတ်၍မှုလည်း မသတ်အပ်။ အကြင်ရဟန်းသည် ရောဂါကပ်ငြိသော်

ဆေး၌လည်းကောင်း, အလုပ်အကျွေး၌ လည်းကောင်း ငြီးငွေ့သည် ဖြစ်၍ အာဟာရကို ဖြတ်ငြားအံ့။ ဒုက္ကဋ် သင့်သည်သာတည်း။ အကြင်ရဟန်း၏ အနာသည် ကြာမြင့်စွာ နှိပ်စက်သည်ဖြစ်၍ လုပ်ကျွေးသူတို့လည်း ပင်ပန်းခြင်း စက်ဆုပ်ခြင်း ရှိသည်ဖြစ်၍ ''ဤ ငါ၏ ကိုယ်သည်ကား သူတစ်ပါးတို့ ပြုစုမစ ငြားသော်လည်း မချမ်းသာရာပြီ၊ လုပ်ကျွေးသူ ပင်ပန်းရုံမျှသာ ရှိတော့မည်'' ဟု နှလုံးထား၍ အာဟာရကို ဖြတ်မူကား အာပတ်မသင့်။ အကြင် ရဟန်းသည်လည်း ''ဤ ငါ၏ ရောဂါသည် ကြမ်းတမ်း၏။ ငါ့အသက် မခံနိုင်ရာပြီ။ ငါလည်း တရားထူးကို မြင်လတ္တံ့.''ဟု နှလုံးပြု၍ အာဟာရကို ဖြတ်အံ့။ အာပတ်မသင့်သည်သာတည်း။ မနာသော ရဟန်းသည်လည်း အာဟာရကို ရှာမှီးရခြင်းသည့် စသည်၌ များသောဒုက္ခဗျာပါရကို ဆင်ခြင်၍ ကမ္မဋ္ဌာန်းတရားကိုသာ များစွာအားထုတ်အံ့ဟု နှလုံးထားလျက် အစာကို ဖြတ်ခြင်းသည် အပ်သည်သာတည်း။ (ဝိနယသင်္ဂဟ)

❖❖❖❖❖

## ၁၅၉။ ဆံဖြူနုတ်ပယ်၊ ရဟန်းဝယ်၊ အဘယ်အာပတ်သင့်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဆဗ္ဗဂ္ဂီရဟန်းတို့သည် ဦးခေါင်း၌ ဆံဖြူကိုနုတ်ကြသောကြောင့် လူတို့ကဲ့ရဲ့ခြင်း ဖြစ်ရာတွင်–

**''န ဘိက္ခဝေ ပလိတံ ဂါဟာပေတဗ္ဗံ။ယောဂါဟာပေယျ အာပတ္တိ ဒုက္ကဋဿ''**

ဟူ၍ ပညတ်တော်မူသည်။

**အဓိပ္ပါယ်ကား။** ။ ရဟန်းတို့–ဆံဖြူကို မနုတ်ယူစေအပ်။ အကြင်ရဟန်းသည် နုတ်ယူစေငြားအံ့။ ဒုက္ကဋ်အာပတ်သင့်၏ ဟူလိုသည်။ (စူဠဝါ)

❖❖❖❖❖

## ၁၆၀။ တို့စောဘုန်းကြွယ်၊ အာပတ်ငယ်၊ နုတ်ပယ်ဘယ်ကြောင့်မိန့်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဤအရာ၌ အကျဉ်းအားဖြင့်သာ ဖြေမူ ဉာဏ်နုသူတို့ မထင်ရှားရာ။ မိလိန္ဒပဉှာ၌လာသော ဝိသဇ္ဇနာကို ထုတ်၍ ရေးလိုက်အံ့–

မိလိန္ဒမင်းသည် ဤသို့လျှောက်၏–

အရှင်နာဂသိန်၊ ဘုရားသခင်သည် ''ချစ်သားရဟန်းတို့ ငါသည် သဗ္ဗညုတဉာဏ်တော်ဖြင့် အကျိုးအပြစ်ကို အကြွင်းမဲ့သိတော်မူ၍သာ တရားကို ဟောတော်မူ၏။ မသိသည်ကိုငါမဟော''ဟူ၍ မိန့်တော်မူ၏။ တစ်ဖန်လည်း ''ချစ်သား အာနန္ဒာ၊ သံဃာအပေါင်းသည် အလိုရှိသည် ဖြစ်အံ့၊ ငါနိဗ္ဗာန်

လွှန်သောအခါ ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်တို့ကို နုတ်ကြ လေတော့''ဟု ဟောတော်မူပြန်၏။ အရှင်ဘုရား၊ ဘုရားသခင်သည် ခုဒ္ဒါ နုခုဒ္ဒက သိက္ခာပုဒ်တို့ကို မကောင်း သဖြင့် ပညတ်မိ၍ ''နုတ်တော့'' ဟု မိန့်လေသလော။ အရှင်ဘုရား အကယ်၍ ''ချစ်သားရဟန်းတို့ ငါဘုရားသည် သဗ္ဗညုတဉာဏ်တော်ဖြင့် အကျိုးအပြစ်ကို ပိုင်းခြား၍ သိသဖြင့် တရားကို ဟော၏။ မသိဘဲကို မဟော'' ဟူသော စကားတော်သည် ဟုတ်မှန်သည် ဖြစ်အံ့၊ ''ပညတ်ပြီးသော ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်ကို သံဃာအလိုရှိမူ နုတ်ကြလေတော့''ဟူသော စကားသည် မှားဘိရာ၏။ အကယ်၍ ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်ကို သံဃာအလိုရှိမူ နုတ်ကြလေတော့ ဟူသော စကားသည် မှန်သည်ဖြစ်အံ့၊ သဗ္ဗညုတ ဉာဏ်တော်ဖြင့် အကျိုးအပြစ်ကို ပိုင်းခြား၍ သိသဖြင့် ငါဘုရားဟော၏။ မသိဘဲကိုမဟော ဟူသော စကားသည် မှားဘိရာ၏။ အရှင်ဘုရား၊ ဤသို့ အစွန်းနှစ်ဖက်ထွက်သော ပြဿနာသည် သိမ်မွေ့၏။ နက်နဲ၏။ ကြံနိုင်ခဲ၏။ ထိုပြဿနာကို ပညာတော်ဖြင့် ရှင်းလင်းအောင် ဖြေပါလော့ဟု လျှောက်၏။

အရှင်နာဂသိန်ကလည်း– မင်းကြီး၊ ဘုရားသခင်သည် ''ချစ်သားရဟန်းတို့ ငါသည် သဗ္ဗညုတဉာဏ်တော်ဖြင့် အကျိုးအပြစ်ကို ပိုင်းခြားသိသဖြင့် တရားကို ငါဟော၏'' ဟူသော စကားတော်လည်းမှန်၏။ ဝိနည်းပညတ်၌ ''အာနန္ဒာ သံဃာတို့သည် အလိုတူကြသော် ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်ကို နုတ်လော့'' ဟူ၍ မိန့်တော်မူသည်လည်းမှန်၏။ မင်းကြီး စကားနှစ်ပြင်တွင် သိက္ခာပုဒ်ကို ''နုတ်လော့'' ဟူသော စကားတော်သည် တပည့်ရဟန်းတော်တို့အား စုံစမ်းလို၍သာ မိန့်တော်မူသည်။ စင်စစ် နုတ်စေလို၍ မိန့်တော်မမူ။

ဘယ်သို့ စုံစမ်းလိုသနည်းဟူမူကား– ''ငါ့တပည့်သား သံဃာတို့သည် ငါနိဗ္ဗာန်လွှန်ခဲ့သော် ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်တို့ကို ဆုတ်ရဲကုန်လတ္တံ့လော။ ထိုသို့မဟုတ် ငါ့အမိန့်ကို အားထုတ်၍ ကျင့်ပါကုန်အံ့လော'' ဟု စုံစမ်း လို၍သာ မိန့်တော်မူလေသည်။

မင်းကြီး ဥပမာသော်ကား– စကြဝတေးမင်းသည် သားတော်တို့ကို ''ချစ်သားတို့ ငါပိုင်သော နိုင်ငံအရပ်ကား အလွန်ကျယ်ဝန်း၏။ သမုဒ္ဒရာအဆုံးရှိ၏။ သင်တို့သည် ထိုမျှလောက်သောနိုင်ငံ ဇနပုဒ်တို့ကို အုပ်ချုပ်လှည့်ပတ်ခြင်းငှာ ခဲယဉ်း၏။ ချစ်သားတို့ ငါလွှန်သဖြင့် တိုင်းစွန် ဇနပုဒ်တို့ကို မသိမ်းဆည်း လင့်ကုန်'' ဟု ဆိုငြားအံ့ မင်းသားတို့သည် ''ဖခင် စကြာမင်း လွှန်သဖြင့် ထိုတိုင်းစွန် ဇနပုဒ်တို့ကို လွှတ်ကုန်ရာသလော''ဟု ဆိုသော်– ''အရှင်ဘုရား ထိုမင်းသား တို့သည် လက်သို့ရောက်ပြီးသော တိုင်းကား နိုင်ငံတို့ကို မစွန့်ကုန်ရာ။ ဖခင် စကြာမင်းထက်ပင် လွန်၍ ပြည်စည်းစိမ်ကို မက်သဖြင့် ဇနပုဒ်တို့ကို သိမ်းဆည်း ကုန်ရာ၏''ဟု လျှောက်သော်–

မင်းကြီး ထို့အတူ ငါတို့ဆရာဖြစ်သော ဘုရားသခင်သည်လည်း တပည့်သားတော်တို့အား စုံစမ်းခြင်းသာလျှင် ''ငါ နိဗ္ဗာန်လွန်သဖြင့် သံဃာတော်တို့ အလိုတူကြသော် ခုဒ္ဒါနုခုဒ္ဒကသိက္ခာပုဒ်ကိုနုတ်ကြလော့'' ဟုမိန့်တော်မူ၏။ စင်စစ် နုတ်စေလို၍ မိန့်တော်မမူဟုဖြေ၏။

အရှင်ဘုရား ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်ဟူသည်ကို လူအပေါင်းတို့ သိနိုင်ခဲ၏။ ယုံမှားသံသယရှိ၏။ အဘယ်သိက္ခာပုဒ်တို့နည်းဟု လျှောက်ပြန်သော်-

မင်းကြီး ဒုက္ကဋ်အာပတ်သည် ခုဒ္ဒကသိက္ခာပုဒ်မည်၏။ ဒုဗ္ဘာသီ အာပတ်သည် အနုခုဒ္ဒက သိက္ခာပုဒ်မည်၏။ မင်းကြီး ရှေးဖြစ်သော မထေရ် မြတ်တို့သည် ဤခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်တို့၌ ယုံမှားသက်ာကို ဖြစ်စေဘိ သကဲ့သို့ ပြေလည်စွာ ဝိသဇ္ဇနာမပြုဘဲ ဘုရားမိန့်တိုင်းသာ သင်္ဂါယနာ တင်ကုန်၏ဟူ၍ ဆိုသော်-

အရှင်ဘုရား လျှို့ဝှက်ခဲကတ်စွာ ထားအပ်သော စကားတော်ကို အရှင်မြတ်သည် ထုတ်ဖော်၍ ဟင်းလင်းဖွင့်တော်မူပေ၏ဟု ချီးပလျက် ဝန်ခံ၏။

ဤစကားအစဉ်ဖြင့် ''တို့စောဘုန်းကြွယ်၊ အာပတ်ငယ်။ နုတ်ပယ် ဘယ့်ကြောင့် မိန့်သနည်း'' ဟူသော ပုစ္ဆာ၏ ဝိသဇ္ဇနာကို သိရာ၏ ဟူပေ။

❖❖❖❖❖

## ၁၆၁။ ဝေတ္တရဏီလယ်၊ ကြိမ်ပိုက်ဝယ်၊ ဘယ်သို့ ကျင့်သူခံလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ယေ ဒုဗ္ဗလေ ဗလဝန္တော ဇီဝလောကေ ဟိံသန္တိ ရောသန္တိ သုပါပဓမ္မာ။ တေလုဒ္ဒကမ္မာ ပသဝေတွာန ပါပံ၊ တေ မေ ဇနာ၊ ဝေတ္တရဏိံ ပတန္တိ၊** (နေမိဇာတ်)။

မဟာရာဇ၊ မြတ်သောမင်းကြီး။ ဇီဝလောကေ၊ အသက်ရှင်သော လူ၏ပြည်၌။ ဗလဝန္တော၊ စည်းစိမ်အား, ကိုယ်အားကြီးကုန်သော။ သုပါပဓမ္မာ၊ အလွန်မကောင်းသော အကျင့်ရှိကုန်ထသော။ ယေ၊ အကြင်သူတို့သည်။ ဒုဗ္ဗလေ၊ စည်းစိမ်အား, ကိုယ်အား နည်းပါးသောသူတို့ကို။ ဟိံသန္တိ၊ အနိုင်အထက် နှိပ်စက် ညှဉ်းဆဲ ကုန်၏။ ရောသန္တိ၊ ချုပ်ချယ်ကုန်၏။ လုဒ္ဒကမ္မာ၊ ကြမ်းကြုတ်သောအမှုကို ပြုတတ်ကုန်သော။ တေ၊ ထိုသူတို့သည်။ ပါပံ၊ မကောင်းမှုကို။ ပသဝေတွာန၊ ပွားစေ၍။ တေမေဇနာ၊ ထိုသတ္တဝါတို့သည်။ ဝေတ္တရဏိံ၊ ဝေတ္တရဏီမည်သောကြိမ်ပိုက်ငရဲသို့။ ပတန္တိ၊ ကျလေကုန်၏။

❖❖❖❖❖

### ၁၆၂။ မီးကျီးတွင်းဝယ်၊ ခံစဖွယ်၊ အဘယ်မကောင်းမှုပေနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ယေကေစိ ပူဂါယ ဓနဿ ဟေတု၊ သက္ခိံ ကရိတွာန ဣဏံ ဇာပယန္တိ။ တေဇာပယိတွာ ဇနတံ ဇနိန္ဒ၊ တေ လုဒ္ဒကမ္မာ ပသဝေတွာန ပါပံ။ တေ မေ ဇနာ အင်္ဂါရကာသုံ ပုနန္တိ။ (နေမိဇာတ်)။**

ဇနိန္ဒ၊ လူတို့အဓိပတိစောနေမိ။ ယေကေစိ၊ ခပ်သိမ်းသော သူတို့သည်။ ပူဂါယ၊ ပေါင်းစု၍ထားအပ်သော။ ဓနဿ၊ ဥစ္စာကို၊ ဟေတု၊ လိုချင်သောကြောင့်။ သက္ခိံ၊ စဉ်းလဲသောသက်သေကို။ ကရိတွာန၊ ပြု၍။ ဣဏံ၊ မြီကို။ ဇာပယန္တိ၊ ဖျက်ဆီးကုန်၏။ တေ၊ ထိုသူတို့သည်။ ဇနတံ၊ လူတို့၏ ကြွေးမြီကို။ ဇာပယိတွာန၊ ဖျက်ဆီး၍။ လုဒ္ဒကမ္မာ၊ ကြမ်းကြုတ်သောအမှု ရှိကုန်သော။ တေ၊ ထိုငရဲသူတို့သည်။ ပါပံ၊ မကောင်းမှုကို။ ပသဝေတွာန၊ ပွားစေ၍။ တေမေဇနာ၊ ထိုသတ္တဝါတို့သည်။ အင်္ဂါရကာသုံ၊ မီးကျီးတွင်းသို့။ ပုနန္တိ၊ ဆင်းရကုန်၏။

◆◆◆◆◆

### ၁၆၃။ ငါးနှစ်မြင်းစွယ်၊ ဖူး၍ကယ်၊ ရက်ဘယ်မျှလောက်မွေးလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- မြင်းတို့သည် အမိဝမ်းတွင် ဆယ်လနေ၍ လစေ့သဖြင့် ဖွားလျှင်ပင် အမိလက်ဆစ်နှင့် သားငယ်လက်ဆစ်ကို တိုင်းသော် သားငယ်လက်ဆစ်ရှည်၏။ ဖွား၍ဆယ်လစေ့ရောက်လျှင် သွားပေါက်၏။ ကြီးအောင်အမွေးသုံးခါလဲရ၏။ သွားကား ဆယ့်ခြောက်ချောင်းပေါက်၏။ ဖွား၍ သုံးနှစ်လည်လျှင် အထက်ကခေါင်ကျ၏။ အောက်ကလည်းကြွေ၏။ ငါးနှစ်လည် လျှင်ပွင့်၏။ ပွင့်လျှင်အစွယ်ပေါက်၏ဟူ၍ မြင်းကြန်၌ဆိုသည်။

◆◆◆◆◆

### ၁၆၄။ နှာ-တင်-ရင်ကျယ်၊ မြင်းတို့ဝယ်၊ ငယ်ခြင်းသုံးပါး အဘယ်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-မှင်ရိုးငယ်စေ၊ နားငယ်စေ၊ လက်ဖျံရိုးငယ်စေ၊ နှာကျယ်စေ၊ တင်ရိုးတိုစေ၊ ရင်ဝကျယ်စေ၊ ဤကောင်းခြင်း သုံးပါးနှင့် ပြည့်စုံသော မြင်းတွင် ငယ်ခြင်းသုံးပါးနှင့် ပြည့်စုံစေ ဟူလိုသည်။

◆◆◆◆◆

### ၁၆၅။ မြင့်ခြင်းသုံးသွယ်၊ မြင်း၌ဝယ်၊ ကြီးဖွယ်သုံးပါး အဘယ်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- လည်မြင့်စေ၊ လက်ကွေးမြင့်စေ၊ ထိပ်မြင့်စေ၊ မျက်လုံးကြီးစေ၊ ခေါင်းကြီးစေ၊ နှာကြီးစေ။

◆◆◆◆◆

## ၁၆၆။ ကောင်းခြင်းမှတ်ဖွယ်၊ မြင်းတို့ဝယ်၊ သုံးသွယ်ရှိ၏ အဘယ်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– လည်စို့ကောင်းစေ၊ ကိုယ်ပြင်ကောင်းစေ။ အမွေးကောင်းစေ၊ မှင်ရိုး,နားရွက်၊ လက်ဖျံငယ်စွာ၊ နှာ,တင်,ရင်ဝ၊ ကျယ်လှ တသီး၊ မျက်လုံးကြီးနှင့်၊ နှာကြီးခေါင်းကြီး၊ အုံးခြီးဖွယ်သင့်၊ လည်နှင့်လက်ကွေး၊ ထိပ်သွေးမောက်မောက်၊ ကြွန်ကောင်းရောက်မူ၊ ပြောင်ပေါက်အဟန်၊ ရဲသန်မြန်သည်၊ ရာတန်မြင်းများ အမျိုးတည်း။

❖❖❖❖❖

## ၁၆၇။ ကျီးကြည့်သဖွယ်၊ နည်းကိုရှယ်၊ အဘယ်ဥဒါဟရဏ်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကျီးသည် မျက်စိတစ်ဖက်ဖြင့် အစာကိုလည်းကောင်း, ရန်သူကိုလည်းကောင်း ကြည့်သကဲ့သို့၊ နှစ်ပုဒ်ကိုငဲ့သော နည်းသည်ကား ကာကောလောကန နည်းမည်၏။

ပြယုဂ်ကား''ရညောဟံ ပဟိတော ဒူတော''စသည်တည်း။

အဟံ၊ ငါသည်ကား။ ရညော၊ မင်းသည်။ ပဟိတော။ စေခိုင်းအပ်သော။ ဒူတော။ တမန်တည်း ဟူ၍လည်းကောင်း။ ပဟိတော၊စေခိုင်းအပ်သော။ ရညော၊ မင်း၏။ ဒူတော၊ တမန်ကား။ အဟံ၊ ငါတည်း။ ဟူ၍လည်းကောင်း။ ရညော– ဟူသော ပုဒ်တစ်ခုသည်၊ ပဟိတောကိုလည်းကောင်း, ဒူတောကို လည်းကောင်း, နှစ်ပုဒ်ကို ငဲ့သောကြောင့် ကာကောလောကန နည်း မည်၏။

တစ်နည်းကား–အဟံ၊ ငါ့ကို။ ရညော၊ မင်းသည်။ ပဟိတော၊ စေအပ်၏။ ဤသို့ ယောဇနာမှု ဒူတောပုဒ်ကိုမမြင်၊ အဟံ၊ ငါသည်။ ရညော၊ မင်း၏။ ဒူတော၊ တမန်တည်း။ ဤသို့ ယောဇနာမှု ပဟိတော ပုဒ်ကိုမမြင်။ ဤနှစ်ပါးကိုမြင်စေလျက် ဆိုအပ် သောကြောင့် ကျီးသည် အစာ, ရန်သူ နှစ်ပါးကို ကြည့်သည်နှင့်တူရကား ကာကော လောကန နည်း မည်၏ ဟူလိုသည်။

❖❖❖❖❖

## ၁၆၈။ ဝိသေသနဝယ်၊ ဝိဂြိုဟ်သွယ်၊ ဘယ်ပဌာနထည့်ပိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဝိသေသနပုဒ်ကို ဝိဂြိုဟ်ပြုမူ ဝိသေသျပုဒ်ကို ပဌာနထည့်။ ဝိသေသျပုဒ်ကို ဝိဂြိုဟ်ပြုမူ ဝိသေသနပုဒ်ကို ပဌာနထည့်ရိုးတည်း။ ထို့ကြောင့် နိယံဟောင်း၌ –

''ဝိသေသနပုဒ်၊ ဝိဂြိုဟ်လုပ်၊ ထုတ်လေ ပဌာန ဝိသေသျ''ဟု မိန့်သတည်း။

❖❖❖❖❖

၁၆၉။ မည်းနက်ခြယ်လှယ်၊သပိတ်လွယ်၊ ငှက်ငယ် ဝိဂြိုဟ်မည်သို့နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ပိဋကတ်သုံးပုံ အဝင်ဖြစ်သော ပါဠိတော် အဋ္ဌကထာ ဋီကာတို့၌ ''သပိတ်လွယ်ငှက်''ဟု အနက်ပြန်ဆိုရသော ပါဌ်ကို မတွေ့မမြင်။ မာဂဓ အဘိဓာန်၊[၁] သက္ကတ အဘိဓာန်၊ မောဂ္ဂလ္လာန်၊ ရူပသိဒ္ဓိ၊ သဒ္ဒနီတိ စသော ဂန္ထန္တရမျိုးတို့၌လည်း မတွေ့မိ။ ကိုယ်မွေးဖြူလျက် ရင်မွေးနက်သော ငှက်ငယ်ကို သပိတ်လွယ်သည်နှင့် တူသောကြောင့် ''သပိတ်လွယ်''ဟု မြန်မာမှုဖြင့် ခေါ်ဝေါ်ခြင်း ဖြစ်သည်။ မြန်မာပညတ်နှင့်လျော်စွာ သဒ္ဒါပြုသော်ကား–

ပတ္တံ ဂါဟော ပတ္တဂ္ဂါဟော။ ပတ္တဂါဟော ဝိယာတိ ပတ္တဂါဟော

ဟူ၍လည်းကောင်း။

ပတ္တလဂ္ဂေါဝိယာတိ ပတ္တလဂ္ဂေါ ဟူ၍လည်းကောင်းပြုအပ်၏။ မြန်မာဘာသာကို ဝိဂြိုဟ်ဆိုပါဟူသော်–

''သပိတ်လွယ် ဝိယာတိ သပိတ်လွယ်''ဟု ဥပမာတဒ္ဓိတ် ပြုသင့်၏။

ဤကဲ့သို့ မြန်မာဘာသာကို ဆရာတို့ ဝိဂြိုဟ်ပြုရိုး ရှိပါ၏လောဟု ဆိုငြားအံ့ ''မြန်မြန်ဂစ္ဆတီတိမြင်း''ဟူ၍လည်းကောင်း၊ ''မရံ မာနေတီတိ မြန်မာ''ဟူ၍ လည်းကောင်း၊ ''ကေဥဒကေမဇ္ဇာန် သသတိ ဟိ သတီတိ ကသည်း''ဟူ၍ လည်းကောင်း၊ ''ကုစ္ဆိတံ ဝါဒံ လာတိ ဂဏှာတီတိကုလား''ဟူ၍ လည်းကောင်း၊ ''တငါပိယ ကေ ဇာလေ မဇ္ဇံ သေတီတိ တင်ကျီး''ဟူ၍ လည်းကောင်း၊ မဟာ သမုဒ္ဒတော ဥဒ္ဓရိတွာ ဣတောစိတော ဝဿတီတိ မိုး''ဟူ၍ လည်းကောင်း၊ ဝိဂြိုဟ် ပြုကြပါ၏ ဟူပေ။

ဒုကနိပါတ် သကုဏဂ္ဃိဇာတ်၌ကား–လာပေါ၊ ဘီလုံးငှက်။ ဟူ၍ရှိ၏။ အဘိဓာန် ၌လည်းလဋ္ဋုကိကော၊ ဘီလုံးငှက်။ လာပေါ ဘီလုံးငှက်ဟု ပရိယာယ်လာ၏။ ဘီလုံးငှက် ကိုလည်း သပိတ်လွယ်ဟု မခေါ်ချေ။

❖❖❖❖❖

၁၇၀။ ဝါး၌ဖြစ်ဖွယ်၊ ပုလဲဝယ်၊ဘယ်သို့ အရောင်ထွက်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဝေဠုဇာ ကရကပ္ပလသမာနဝဏ္ဏာ နဘာသုရာ တေ စ ဝေဠုအမ္ဗုနုသာ ဂေါစရေဝေ ပဒေသေ ဇာယန္တိ။ (သာရတ္ထဒီပနီဋီကာ)။**

ဝေဠုဇာ၊ ဝါး၌ဖြစ်သောပုလဲတို့သည်။ ကရကပ္ပလသမာနဝဏ္ဏာ၊ တလည်းသီး အဆင်းနှင့်တူသောအဆင်းရှိကုန်၏။ ဝါ၊ မိုးသီး အဆင်းနှင့်တူသော အဆင်းရှိကုန်၏။

---

၁။ ခဥ္ဇရီဋ္ဌောတု ခဥ္ဇနော–ဟု မာဂဓ အဘိဓာန်၊ ဒွယံ ပတ္တကဏ္ဍောန်–ဟု ယင်းဋီကာ (၆၄၃)တွင် ရှိပါသည်။

နဘာသုရာ၊ အရောင်အဝါမရှိလွန်းကုန်။ တေစ ဝေဠျ၊ ထိုဝါးတို့သည်လည်း။ အမနုဿ ဂေါစရေဝ ပဒေသေ၊ လူတို့ကျက်စားရာ မဟုတ်သော အရပ်၌သာလျှင်။ ဇာယန္တိ၊ ဖြစ်ကုန်၏။

❖❖❖❖❖

၁၇၁။ တိမ်တိုက်အလယ်၊ ဖြစ်စဖွယ်၊ ဘယ့်နှယ် ပုလဲအဆင်းနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဝလာဟကဇာ ဘာသုရာ ဒုဗ္ဘိဘာဂရူပါ ရတ္တိဘာဂေ အန္ဓကာရံ

ဝိဓမေန္တိယော တိဋ္ဌန္တိ။ ဒေဝူပဘောဂါစေဝ ဟောန္တိ။ (သာရတ္ထဒီပနီဋီကာ)

ဝလာဟကဇာ၊ တိမ်တိုက်၌ ဖြစ်သောပုလဲတို့သည်။ ဘာသုရာ၊ တင့်တယ်သော အရောင်ရှိကုန်၏။ ဒုဗ္ဘိဘာဂရူပါ၊ အထူးထူး အပြားပြားသော အဆင်းသဏ္ဌာန် ရှိကုန်၏။ ရတ္တိဘာဂေ၊ ညဉ့်အဖို့၌။ အန္ဓကာရံ အမိုက်တိုက်ကို။ ဝိဓမေန္တိယော၊ ဖျောက်ကုန်လျက်။ တိဋ္ဌန္တိ၊ တည်ကုန်၏။ ဒေဝူပဘောဂါစေဝ၊ နတ်၏ အသုံးအဆောင်သာလျှင်။ ဟောန္တိ၊ ဖြစ်ကုန်၏။

❖❖❖❖❖

၁၇၂။ မုတ်ဆိတ်ကျင်စွယ်၊ လူတို့နှယ်၊ နတ်ဝယ်ပေါက်ရောက်လေလိမ့်နည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာမှာ– ပုစ္ဆာနံပါတ် ၅၅–၌ဖြေရှုပြီးခဲ့ပြီ။

❖❖❖❖❖

၁၇၃။ လှည့်ဖြားရည်ရွယ်၊ မုသားသွယ်၊ ဘယ်ကို အာရုံပြုသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

"မုသာဝါဒေါ သတ္တာရမ္မဏော သင်္ခါရာရမ္မဏော ဝါ"

ဟူ၍ ပရမတ္ထ ဇောတိက အဋ္ဌကထာ မိန့်သောကြောင့် မုသားဆိုသောသူသည် တစ်ပါးသောသတ္တဝါတို့၏ မှောက်မှားခြင်းကို အာရုံပြုရကား သတ္တာရမ္မဏလည်း ဖြစ်၏။ အသိဉာဏ်၏ ယွင်းပါးပျက်စီးခြင်းကို အာရုံပြုသောသူအား သင်္ခါရာ ရမ္မဏလည်းဖြစ်၏ ဟူပေ။

❖❖❖❖❖

၁၇၄။ ခေါ်ပနသွယ်၊ ဟေတုဝယ်၊ ဘယ်မှ ဒုက်ပွားရသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– "နဟေတုမွော သဟေတုကာပိ အဟေတုကာပိ" ဟူ၍ ဟောတော်မူလျှင် ပြီးကောင်းပြီးလျက်၊ ခေါ်ပန ဟူသော သဒ္ဒါလွန်ဖြင့် ဟောတော်မူခြင်းသည် "သဒ္ဒါဓိကော အတ္ထာဓိကော ဟောတိ" ဟူသော ပရိဘာသာနှင့်အညီ အနက်လွန်ကို ပြခြင်းအကျိုးရှိသည်။

အဘယ်သို့ ပြသနည်းဟူမူကား– ဒုတိယဒုက်၌ ပထမဒုက်၏ ဒုတိယပုဒ်ကို ထည့်၍ ''နဟေတုကာစေမွာ သဟေတုကာပိ အဟေတုကာပိ'' ဟူသော ဆဋ္ဌဒုက်သည် ဖြစ်သကဲ့သို့၊ ထို့အတူ တတိယဒုက်၌ ပဋ္ဌမဒုက်၏ ဒုတိယပုဒ်ကို ထည့်၍ ''နဟေတူ စေမွာ ဟေတုသမ္ပယုတ္တာပိ ဟေတုဝိပ္ပယုတ္တာ ပိ'' ဟူသော ဒုက်သည်လည်း ဖြစ်သင့်၏။ ဒုတိယဒုက်၌ ပထမဒုက်၏ ပထမပုဒ်ကိုထည့်၍ ''ဟေတူစေမွာသဟေတုကာပိ အဟေတုကာပိ'' ဟူသော ဒုက်လည်းဖြစ်သင့်၏။ ဤကား အဋ္ဌကထာနည်းတည်း။

**မူလဋီကာနည်းအားဖြင့်**– တတိယဒုက်၌ ပထမပုဒ်၏ ပထမပုဒ်ကိုထည့်၍ '' ဟေတူစေမွာဟေတုသမ္ပယုတ္တာပိ ဟေတုဝိပ္ပယုတ္တာပိ'' ဟူသော ဒုက်သည်လည်း ဖြစ်သင့်၏။

**အနုဋီကာနည်းအားဖြင့်**– ပထမဒုက်၌ ဒုတိယဒုက်၏ ပထမပုဒ်ကို ထည့်၍ ''သဟေတုကာ စေမွာ ဟေတုကာပိ နဟေတုကာပိ'' ဟူသော ဒုက်လည်းဖြစ်သင့်၏။ ပထမဒုက်၌ ဒုတိယဒုက်၏ ဒုတိယပုဒ်ကို ထည့်၍''အဟေတုကာစေမွာ ဟေတူပိ နဟေတူပိ''ဟူသော ဒုက်လည်း ဖြစ်သင့်၏။ ပထမဒုက်၌ တတိယဒုက်၏ ပထမပုဒ်ကို ထည့်၍ ''ဟေတုသမ္ပယုတ္တာ စေမွာ ဟေတူပိ နဟေတူပိ'' ဟူသောဒုက်လည်း ဖြစ်သင့်၏။ ပထမဒုက်၌ တတိယဒုက်၏ ဒုတိယပုဒ်ကိုထည့်၍ ''ဟေတုဝိပ္ပယုတ္တာ စေမွာ ဟေတူပိ နဟေတူပိ'' ဟူသော ဒုက်လည်း ဖြစ်သင့်၏။

ဤသို့ ဒုက်ခုနစ်ပါး ရသင့်သတည်း။ ကြွင်းသောဂေါစ္ဆကတို့၌လည်း ဤနည်းတူ ယူရာသည်။

❖❖❖❖❖

## ၁၇၅။ စိတ္တသူကြွယ်၊ ဒကာဝယ်၊ ဘယ်တေဒဂ် ရသနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**တေဒဂ္ဂံ ဘိက္ခဝေ မမ သာဝကာနံ ဥပါသကာနံ ဓမ္မကထိကာနံ ယဒိဒံ စိတ္တော ဂဟပတိ မစ္ဆိကာဝနသဏ္ဍိကော။**

ဘိက္ခဝေ၊ ရဟန်းတို့။ မမ၊ ငါဘုရား၏။ သာဝကာနံ၊ တပည့်ဖြစ်ကုန်သော။ ဓမ္မကထိကာနံ၊ တရားဟောတတ်ကုန်သော။ ဥပါသကာနံ၊ ဒါယကာတို့တွင်။ မစ္ဆိကာဝနသဏ္ဍိကော၊ မစ္ဆိကာဝနသဏ္ဍာမြို့၌နေသော။ ယဒိဒံ–ယော အယံ စိတ္တော ဂဟပတိ၊ အကြင် စိတ္တသူကြွယ်သည်။ အတ္ထိ၊ ရှိ၏။ ဧတံ–သော၊ ဤသူကြွယ်သည်။ အဂ္ဂံ–အဂ္ဂေါ၊ ကဲလွန်၏။

စိတ္တသူကြွယ်သည် ရုပ်တရား, နာမ်တရားတို့ကိုလည်းကောင်း၊ ကံအထူး, ဝိပါက် အထူးတို့ကိုလည်းကောင်း၊ ခွဲခြမ်းစိတ်ဖြာ၍ တရားဟောသောအရာ၌ လိမ္မာလှသည် ဖြစ်၍ စိတ္တသံယုတ်ကို ဟောရာတွင် တေဒဂ် ထားတော်မူသည်။

❖❖❖❖❖

၁၇၆။ ထွက်သက်တိုင်းဝယ်၊ ထွတ်ဘုန်းကြွယ်၊ ဘယ်သမာပတ်ဝင်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဓမ္မံ ဒေသေန္တော ပန ဘဂဝါ ယသ္မိံခဏေ ပရိသာ သာဓုကာရံ ဒေတိ၊ တသ္မိံ ခဏေ ပရိစ္ဆိန္ဒိတွာ ဖလသမာပတ္တိံ သမာပဇ္ဇတိ။ သာဓုကာရ နိဃောသေ အနုပစ္ဆိန္နေယေဝ သမာပတ္တိတော ဝုဋ္ဌာယ ဌိတဋ္ဌာနတော ပဋ္ဌာယ ဓမ္မံ ဒေသေတိ။ ဗုဒ္ဓါနံ ဘဝင်္ဂ ပရိဝါသော လဟုကော ဟောတိ။ အဿာသဝါရေ ဖလသမာပတ္တိံသမာပဇ္ဇတိ–**

ဟူ၍ မဇ္ဈိမနိကာယ် သစ္စကသုတ် အဋ္ဌကထာ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ ဘုရားသခင်တို့သည် တရားဟောသည့်ရှိသော် အကြင်ခဏ၌ ပရိသတ်သည် ကောင်းချီးပေး၏။ ထိုခဏ၌ ထွက်သက်ကို အာရုံပြုလျက် ဖလ သမာပတ်ကို ဝင်တော်မူသည်။ ကောင်းချီးသံ မပြတ်မီပင် သမာပတ်မှထ၍ တန့်ရာအရပ်မှ တစ်ဖန်ထပ်မံ၍ တရားဟောပြန်၏။ ဘုရားသခင်တို့၏ ဘဝင်ကျခြင်းသည် အလွန် လျင်လျား၏။ ထွက်သက်အကြိမ်တိုင်းပင် ဖလသမာပတ်ကို ဝင်တော်မူ၏ ဟူလိုသည်။

''အယ်'' ကာရန်ပုစ္ဆာ ၁၇၆–ပုဒ်၏အဖြေ ဝိသဇ္ဇနာပြီး၏။

❖❖❖❖❖

ဤတွင် ပုစ္ဆာတစ်ရာကျော်ကို ရှေးဆရာတို့ဖြေခဲ့၏။ အချို့နေရာမကျ။ အချို့လည်း နေရာကျ၏။ စကားကျယ်လွန်းသည်။ ယင်းသို့ဖြစ်ရကား၊ သင့်ရာပါဠိ ပါဠိကိုသာ သွင်း၍ အသစ်ရေးလိုက်သည်။

သောင်းရှစ်ပြန်ထက်၊ လေးထောင်တက်သား၊ အနက်အကျယ်၊ ပင်လယ်မြစ်ထဲ၊ ရိုးရိုးရဲတည့်၊ ဖိုးကဲနဂ္ဂ၊ လက်လက်ပသား၊ သခ်မုတ္တာ၊ မသာရဂလ်၊ ရတနာမွန်ကို၊ ထုတ်သွန်ယူရှောင်း၊ လူအပေါင်းအား၊ ကျိုးကြောင်းမြော်ငဲ့၊ ငှသကဲ့သို့၊ သုံးဆယ့် တစ်တိုက်၊ ဘဝရိုက်ကို၊ စိုးပိုက်ပိုင်သီ၊ ထွတ်တိုင်ထိ၏။ သန္ဒိဋ္ဌိဂုဏ်၊ ဆယ်အင်စုံသည်၊ သုံးပုံသာဂရ၊ ပင်လယ်မမှ၊ နဂ္ဂရတနာ၊ မြိုက်ဩဇာကို၊ အသာဖိုလ်လူ၊ သောက်စိမ့်ဟူ၍၊ ထုတ်ယူ ဝေခြမ်း၊ လက်ဆင့်ကမ်းသည်။ ။ ရွှေကျမ်း ပထမကဏ္ဍတည်း။

❖❖❖❖❖

(၂) ''အဲ''ကာရန်ပုစ္ဆာ ၂၄–ပုဒ်အဖြေ၊

၁၇၇။ မြေမနင်းဘဲ၊ ကြွစမြဲ၊ စောကဲဘယ့်ကြောင့် ကြွနိုင်သနည်း။ (၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မြေမနင်းဘဲ ကြွတော်မူကြောင်းကို အနန္တဂုဏသာရမည်သော ကျမ်းငယ်၌သာ လာသည်။ အင်္ဂုတ္တိုရ် အဋ္ဌကထာစသော

ကျမ်းကြီးတို့၌ကား မြေကိုနင်း၍ ကြွကြောင်းကိုလာသောကြောင့် တစ်ခုခုကိုမှတ်၍ ဖြေရမည့်အရာ ခက်သတည်း။ ထို့ကြောင့် ကျမ်းလာနှင့်တကွ ယူမှတ်ရာသောနည်းကို စုံလင်စွာ ပြလိုက်အံ့။

**သဗ္ဗဒါ သဗ္ဗဗုဒ္ဓါနံ စတုရင်္ဂုလေယေဝ ဂမနံ။**

သဗ္ဗဗုဒ္ဓါနံ၊ ခပ်သိမ်းသော ဘုရားသခင်တို့အား။ စတုရင်္ဂုလေယေဝ၊ မြေမှ လက်လေးသစ်ရှိသော ကောင်းကင်၌သာလျှင်။ သဗ္ဗဒါ၊ အခါခပ်သိမ်း။ ဂမနံ၊ သွားတော်မူခြင်းသည်။ ဟောတိ၊ ဖြစ်၏။

ဤအနုဋ္ဌကဂုဏ္ဌသာရပါဠ်ဖြင့် ခပ်သိမ်းသော ဘုရားရှင်တို့ ကြွတော်မူသော် မြေမှလက်လေးသစ်ရှိသော ကောင်းကင်၌သာ ကြွတော်မူသည်ဟု ပြရာသည်။

အင်္ဂုတ္တရ စတုက္ကနိပါတ် အဋ္ဌကထာ၌ကား–

**ဂစ္ဆတော ပန သမ္မာသမ္ဗုဒ္ဓဿ အက္ကန္တပဒံ န ပညာယတိ။ ကသ္မာ သုခုမတ္တာ မဟာဗလဝတာ မဟာဇနာနုဂ္ဂဟေန စ။**

**ဗုဒ္ဓါနံ ဟိ သုခုမစ္ဆဝိတာယ အက္ကန္တဋ္ဌာနံ တူလပိစုနော ပတိတဋ္ဌာနံ ဝိယ ဟောတိ။ ပဒဝလဉ္ဇံ န ပညာယတိ။**

**ယထာ စ ဗလဝတော သီဟဝဿ ပဒုမိနိပတ္တေပိ အက္ကန္တမတ္တမေဝ ဟောတိ။ ဧဝံ မဟာဗလဝတော တထာဂတဿ အက္ကန္တဋ္ဌာနံ အက္ကန္တဋ္ဌာန မတ္တ မေဝ ဟောတိ။ န တတ္ထပဒဝလဉ္ဇံ ပညာယတိ။**

**ဗုဒ္ဓါနဉ္စ အနုပဒံ မဟာဇနကာယော ဂစ္ဆတိ။ တတ္ထ သတ္တာ ပဒဝလဉ္ဇံ ဒိသွာ မဒ္ဒိတုံ အဝိသဟန္တာ ဂမနဝိစ္ဆေဒေ ဘဝေယျုံ၊ တသ္မာ အက္ကန္တဋ္ဌာနေ ယော ပဒဝလဉ္ဇော ဘဝေယျ။ သော အန္တရဓာယတေဝါတိ။** ဟူ၍လာသည်။

**အနက်ကား။** ။ ဂစ္ဆတော၊ ကြွပော်မူသော။ သမ္မာသမ္ဗုဒ္ဓဿ ပန၊ မြတ်စွာ ဘုရား၏ကား။ အက္ကန္တပဒံ၊ နင်းတော်မူအပ်သော ခြေတော်ရာသည်။ န ပညာယတိ၊ မထင်။ ကသ္မာ၊ အဘယ့်ကြောင့်။ န ပညာယတိ၊ မထင်သနည်း။ သုခုမတ္တာ စ၊ သိမ်မွေ့သည်၏ အဖြစ်ကြောင့်လည်းကောင်း၊ မဟာဗလဝတာ စ။ ဆင်မည်း ကုဋေတစ်ထောင်, ယောကျ်ားမိုလ်ခြေ ကုဋေတစ်သောင်းအားကိုဆောင်သည်ဖြစ်၍ ကြီးသောအားရှိသည်၏ အဖြစ်ကြောင့်လည်းကောင်း။ မဟာဇနာနုဂ္ဂဟေန စ၊ လူများအပေါင်းကို ချီးမြှောက်သဖြင့်လည်းကောင်း။ ဣမေဟိ တီတိ ကာရဏေဟိ၊ ဤသုံးပါးသော အကြောင်းတို့ကြောင့်။ န ပညာယတိ၊ မထင်။

**ဟိ** – တပ္ပါကဋီကရောမိ၊ ရှေးဦးစွာသော အကြောင်းကို ထင်စွာပြဦးအံ့။ ဗုဒ္ဓါနံ၊ မြတ်စွာဘုရားတို့အား။ သုခုမစ္ဆဝိတာယ၊ သိမ်မွေ့သော အရေတော်ရှိသည်၏

အဖြစ်ကြောင့်။ တူလပိစုနော၊ လဲဝါဂွမ်း၏။ ပတိတဋ္ဌာနံဝိယ၊ ကျရာအရပ်ကဲ့သို့။ အက္ကန္တဋ္ဌာနံ၊ နင်းတော်မူရာ အရပ်သည်။ ယသ္မာ၊ ကြောင့်။ ဟောတိ၊ ဖြစ်၏။ တသ္မာ၊ ကြောင့်။ ပဒဝလဥ္ဇံ၊ ခြေတော်ရာသည်။ န ပညာယတိ၊ မထင်။

စ– တပ္ပါကဋ္ဌိကရောမိ၊ နှစ်ခုမြောက်သော အကြောင်းကိုပြဦးအံ့။ ဗလဝတော၊ အားရှိသော။ သိန္ဓဝဿ၊ သိန္ဓောမြင်း၏။ ပဒုမိနိပတ္တေပိ၊ ပဒုမ္မာကြာရွက်၌လည်း။ အက္ကန္တမတ္တမေဝ၊ နင်းကာမျှသာလျှင်။ ဟောတိ ယထာ၊ ဖြစ်သကဲ့သို့။ ဇေဝံတထာ၊ ထို့အတူ။ မဟာဗလဝတော၊ ကြီးသောအားရှိတော်မူသော။ တထာဂတဿ၊ မြတ်စွာ ဘုရား၏။ အက္ကန္တဋ္ဌာနံ၊ နင်းတော်မူရာ အရပ်သည်။ အက္ကန္တဋ္ဌာန မတ္တမေဝ၊ နင်းကာမျှ သည်သာလျှင်။ ဟောတိ၊ ဖြစ်၏။ တတ္ထ၊ ထိုနင်းတော်မူရာအရပ်၌။ ပဒဝလဥ္ဇံ၊ ခြေတော်ရာသည်။ န ပညာယတိ၊ မထင်။

စ–တပ္ပါကဋ္ဌိကရောမိ၊ သုံးခုမြောက်သော အကြောင်းကို ထင်ရှားစွာပြဦးအံ့။ ဗုဒ္ဓါနံ၊ မြတ်စွာဘုရားတို့၏။ အနုပဒံ၊ ခြေရာတော်သို့ အစဉ်လျှောက်၍။ မဟာဇနကာယော၊ လူများအပေါင်းသည်။ ဂစ္ဆတိ၊ သွားသည်ဖြစ်အံ့။ တတ္ထ၊ ထိုသို့သွားရာ၌။ သတ္တ၊ မြတ်စွာဘုရား၏။ ပဒဝလဥ္ဇံ၊ ခြေရာတော်ကို။ ဒိသွာ၊ မြင်၍။ မဒ္ဒိတုံ၊ နင်းအံ့သောငှာ။ အဝိသဟန္တဿ၊ မဝံ့သည်ဖြစ်၍။ ဂမနဝိစ္ဆေဒေါ၊ အသွားအလာပြတ်သည်။ ယသ္မာ။ အကြင်ကြောင့်။ ဘဝေယျ၊ ဖြစ်ခဲ့ရာ၏။ တသ္မာ၊ထို့ကြောင့်။ အက္ကန္တဋ္ဌာနေ၊ နင်းတော် မူရာအရပ်၌။ ယောပဒဝလဥ္ဇော၊ အကြင်ခြေရာတော်သည်။ ဘဝေယျ။ ဖြစ်ငြားအံ့။ သော ပဒဝလဥ္ဇော၊ ထိုခြေရာတော်သည်။ အန္တရဓာယတေဝ၊ ကွယ်ပျောက်လေ သည်သာတည်း။

သာရတ္ထဒီပနိဋ္ဌီကာ၌ကား–

ဂစ္ဆတော ဗုဒ္ဓသေဋ္ဌဿ၊ ဟေဋ္ဌာပါဒတလာမုဒု။
သမံ သမ္ဖုသတေ ဘူမိံ၊ ရဇသာနုပလိမ္ပတိ။

နိန္နဋ္ဌာနံ ဥန္နမတိ၊ ဂစ္ဆန္တေ လောကနာယကေ။
ဥန္နတဉ္စ သမံ ဟောတိ၊ ပထဝီ စ အစေတနာ။

ပါသာဏာ သက္ခရာ စေဝ၊ ကထလာ ခါဏုကဏ္ဍကာ။
သဗ္ဗေ မဂ္ဂါ ဝိဝဇ္ဇန္တိ၊ ဂစ္ဆန္တေ လောကနာယကေ။ ။ဟူ၍လာသည်။

**အနက်ကား။** ။ ဂစ္ဆတော၊ သွားတော်မူသော။ ဗုဒ္ဓသေဋ္ဌဿ၊ မြတ်စွာဘုရား၏။ မုဒု၊ နူးညံ့သော။ ဟေဋ္ဌာပါတလာ၊ အောက်ခြေဖဝါးတော် အပြင်သည်။ သမံ၊ ညီညွတ်စွာ။ ဘူမိံ၊ မြေ၌။ သမ္ဖုသတေ၊ ကောင်းစွာထိ၏။ ရဇသာ၊ မြူဖြင့်။ န ဥပလိမ္ပတိ၊ မလိမ်းကျံ။

လောကနာယကော၊ မြတ်စွာဘုရားသည်။ ဂစ္ဆန္တေ၊ ကြွတော်မူသည်ရှိသော်။ အစေတနာ၊ စိတ်စေတနာ မရှိသော။ အယံ ပထဝီ၊ ဤမြေကြီးသည်။ နိန္နဋ္ဌာနံ၊ နိမ့်သော အရပ်သည်။ ဥန္နမတိ၊ မြင့်လျက်ခံ၏။ ဥန္နတဥ္စ၊ မြင့်သော အရပ်သည်လည်း။ သမံ၊ ညီညွတ်လျက်ခံသည်။ ဟောတိ၊ ဖြစ်၏။

လောကနာယကော၊ မြတ်စွာဘုရားသည်။ ဂစ္ဆန္တေ၊ ကြွတော်မူသည်ရှိသော်။ ပါသာဏာ စ၊ ကျောက်ဖျာ ကျောက်ဆောင်တို့သည်လည်းကောင်း။ သက္ခရာ စေဝ၊ ကျောက်စရစ်တို့သည်လည်းကောင်း။ ကထလာ စ။ အိုးခြမ်းတို့သည်လည်းကောင်း။ ခါဏု စ၊ သစ်ငုတ်သည်လည်းကောင်း။ ကဏ္ဍကာ စ၊ ဆူးငြောင့်တို့သည်လည်းကောင်း။ သဗ္ဗေ၊ အလုံးစုံတို့သည်။ မဂ္ဂါ၊ ခရီးမှ၊ ဝိဝဇ္ဇန္တိ၊ ဖဲလေကုန်၏။

ဤသို့လျှင် အင်္ဂုတ္တိုရ်အဋ္ဌကထာ၌ ''ဘုရားသခင်တို့၏ နင်းရာဌာန၌ အကြောင်းသုံးပါးကြောင့် ခြေတော်ရာမထင်''ဟူ၍ ဆိုသောကြောင့်လည်းကောင်း၊ သာရတ္ထဒီပနီဋီကာ၌ ''နူးညံ့သော ခြေဖဝါးတော်အပြင်သည် မြေ၌ညီညွတ်စွာထိ၏။ ထိသော်လည်း မြေမြူမလိမ်းကျံ'' ဟူ၍ ဆိုသောကြောင့်လည်းကောင်း၊ မြေကို မနင်းဘဲကြွတော်မူသည် မဟုတ်၊ နင်း၍ပင်ကြွတော်မူသည်။ နင်းသော်လည်း များစွာသော ကပ်ကမ္ဘာပတ်လုံး ဆည်းပူးတော်မူအပ်သော ပါရမီတော်တို့၏ အာနုဘော်ကြောင့် နင်းတော်မူလေရာ၌ မြေကြီးသည် နိမ့်သောအရပ်ကိုမြင့်စေလျက်၊ မြင့်သောအရပ်ကို ညီညွတ်စေလျက် ခံရချေသည်။ ကျောက်ဖျာ, ကျောက်စရစ်, အိုးခြမ်း, သစ်ငုတ်, ဆူးငြောင့်တို့သည် ခရီးမှဖဲလေကုန်သည်။ မစင်ကြယ်သော ဝတ္ထုတို့သည်လည်း ထိုနည်းတူ ဖဲရလေကုန်သည်။ စွမ်းသန်လှသော သိန္ဓောမြင်းသည် ကြာဖက်ပေါ်၌ နင်းသကဲ့သို့ ကြီးမားသော အားတော်၏ အဟုန်ကြောင့်လည်းကောင်း၊ ဖဝါးတော် သိမ်မွေ့လှသောကြောင့် လည်းကောင်း ခြေတော်ရာမထင်ဟု မှတ်ရမည်။

ထိုကိုမှီ၍ ပါရမီတော်ခန်း၌–

အသီးအသီး၊ ဖြင့်ကြီးခတ်မျှ၊ ယမိုက်စသား၊ လှိုင်းမဟိုးကျော်၊ ကျေးဇူးတော်ကို၊ ဆိုသော်မလွယ်၊ အဝန်းကျယ်၏။ မြေဝယ်ဗိုင်းထွေး၊ အရေးကြောင်းကြောင်း၊ မထင်ကောင်းသို့၊ ဘုန်းပေါင်းစေ့ဆော်၊ ကိုတော်ဝလေ့၊ မွေ့သည်စင်စစ်၊ ဖြစ်၍လည်းကောင်း၊ တန့်ရှောင်းရေပြင်၊ ကြာဖက်တွင်၌၊ စိုင်းနှင်သိန္ဓော၊ ပေါ်ပေါ်နင်းကြွား၊ ထိကာသွားသို့၊ ယောက်ျားမိုလ်ချေ၊ ကုဋေတစ်သောင်း၊ ပေါင်းမတူနိုင်၊ အားဆုံးတိုင်သား၊ စွမ်းခိုင်လှတွန်၊ ကိုယ်တော့်အန်ဖြင့်၊ . သန်၍လည်းကောင်း၊ လမ်းတစ်ကြောင်း၌၊ ကြွရှောင်းလတ်သော်၊ ခြေတော်ဖဝါး၊ ရာထင်ရှားက၊ နောက်သွား လူသူ၊ နင်းမိမူကား၊ အပူအဆာ၊ ဖြစ်ခဲ့ရာဟု၊ တာ၍လည်းကောင်း၊ အကြောင်းသုံးပါး၊ ဤသို့အားဖြင့်၊ ဖဝါးရွှေစက်၊ ကြွစဉ်ဘက်လျှင်၊ မြေထက်နင်းရာ၊ မထင်ပါသား၊ တံထွာကိုမျှ၊ မြင်ကာဘယ်သူ၊ ဘယ်နတ် လူသည်၊ ရှေးရှုဖူးလား၊ မအံ့ပါချိမ့်၊ အနိမ့်

သာလျက်၊ အံ့ဆတက်ရှင့်၊ အထက်သော်ကား၊ ကာကထားဟု၊ သီးခြား လွယ်စေ၊ ဆိုချေစရာ၊ မရှိစွာခဲ၊ အံ့အာသို့စင်၊ ဂုဏ်များရှင်နှင့်၊ အုတ်အင်ရည်တူ၊ ဖြစ်စိမ့်ဟူလျက်၊ ရှင်ဖြူ ကျော့ကျည်း၊ လေးပါးတည်းသော်၊ လျော့လျည်း မအပ်စွ သေးတည်း။

ဟူ၍ စပ်တော်မူသည်။

ဤသို့ ကျမ်းဂန်၏ အလာနှင့် ပမာဏပြုလောက်သော ဆရာကြီးတို့၏ စကားကို ထောက်ဆ၍ ဘုရားသခင်သည် မြေကိုနင်းလျက်ပင် ကြွတော်မူ၏ဟု သိရာသည်။ အကယ်၍ မြေမနင်းဘဲ ကြွသောကြောင့် ခြေတော်ရာမထင်ဖြစ်မူ အံ့ဖွယ်ရာမရှိ ဖြစ်တော့မည်။ နင်း၍သွားလျက် ခြေရာမထင်သောကြောင့်သာလျှင် ကျမ်းဆရာတို့ အံ့ကြကုန်သည်ဟု မှတ်ရမည်။

ယင်းသို့ မြေကိုနင်း၍ သွားသည်မှန်ခဲ့သော် အနန္တဂုဏာသာရ၌ ပြဆိုအပ်သော စကားကို အမှားပြု၍ ပယ်ဖျက်ရမည်လော ဟူငြားအံ့– ပယ်လည်းမပယ်သင့်။ မပယ် သင့်သော် အဘယ်သို့ ယူရမည်နည်း–ဤ အနန္တဂုဏာသာရ စကားသည် သွားတော်မူ လေရာ၌ ဖဝါးတော်ကို ချသောကာလ မြေမှ လက်လေးသစ်ကွာရုံသော ကောင်းကင် အရပ်သို့ ချတော်မူမြဲဖြစ်သည်ကို ရည်၍သာ ''စတုရင်္ဂုလေဃေ၀ ဂမနံ'' ဟု ဆိုလေ သည်ဟူ၍ ယူရမည်။ ဤသို့ယူမှ သုံးကျမ်းလုံးသည် ဂင်္ဂါရေနှင့် ယမုနာရေကို ရောဘိသကဲ့သို့ နီးနှောညီညွတ်ကြမည်။

လက္ခဏာတော်ငယ်ရှစ်ဆယ်ကို ရေတွက်ရာ၌လည်း– သီဟသမာနဂ္ဂမတာ၊ ခြင်္သေ့မင်းနှင့်တူသော သွားခြင်းရှိတော်မူသည်အဖြစ်။ ဥသဘသမာနဂ္ဂမတာ၊ နွားလား ဥသဘနှင့် တူသောသွားခြင်း ရှိတော်မူသည်၏အဖြစ်။ ဂဇသမာနဂ္ဂမတာ၊ ဆဒ္ဒန် ဆင်မင်းနှင့် တူသောသွားခြင်း ရှိတော်မူသည်၏အဖြစ်။ ဟံသ သမာနဂ္ဂမတာ၊ ဟင်္သာ မင်းနှင့်တူသော သွားခြင်းရှိတော်မူသည်၏ အဖြစ်ဟူ၍ ဆိုသည်။

ဤအရာတို့ကို ထောက်၍လည်း မြေကိုနင်း၍ သွားခြင်းတူသောကြောင့် ဆိုလေ သည်ဟု မှတ်အပ်၏။

ယင်းသို့ဖြစ်သော် 'မြေမနင်းဘဲ၊ ကြွစမြဲ၊ စောကဲဘယ့်ကြောင့် ကြွနိုင်သနည်း'' ဟူသော ပုစ္ဆာသည် အမေးမှားသလော ဟူငြားအံ့– မှားသည်မဟုတ်၊ မြေကို နင်းသော်လည်း မြေ၌ခြေရာမထင်သောကြောင့် မနင်းသကဲ့သို့ဖြစ်၍ ပညာရှိတို့အား အထူးသဖြင့် ကြံစည်ဆင်ခြင်၍ ဉာဏ်ပွားစေခြင်းငှာ ပုစ္ဆာကို ဆန်းကြယ်အောင်ပြုခြင်း သည် သပရိယာယနည်း၊ ကေဒေသနည်း၊ ဥပစာရနည်းအားဖြင့် သင့်သည်ပင် ဖြစ်သည်။

မုချကိုသိလိုမူ ''ရာမထင်ဘဲ။ ကြွစမြဲ။ စောကဲဘယ့်ကြောင့် ကြွနိုင်သနည်း'' ဟူ၍ ပြုရမည်။

❖❖❖❖❖

၁၇၈။ ဆွမ်းဘုဉ်းပေးမြဲ၊ စောရန်ကဲ၊ ခန့်ခွဲဘယ့်လောက် ကုန်သနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ပုန စ ဘဂဝတာ ဘဏိတံ အဟံ ခေါ ပနုဒါယိ အပ္ပေကဒါ ဣမိနာ ပတ္တေန သမတိတ္တိကမ္ပိ ဘုဥ္ဇာမိ ဘိယျောပိ ဘုဥ္ဇာမီတိ၊**

ဟူ၍ မိလိန္ဒပဉှာ၌ လာသည်။

**အနက်ကား။** ။ ပုန စ၊ တစ်ဖန်လည်း။ ဘဂဝတာ၊ မြတ်စွာဘုရားသည်။ ဘဏိတံ၊ မိန့်တော်မူအပ်၏။ ဥဒါယိ၊ ချစ်သားဥဒါယီ။ အဟံ ခေါ ပန၊ ငါဘုရားသည်ကား။ အပ္ပေကဒါ၊ တရံရောအခါ၌။ ဣမိနာ ပတ္တေန၊ ဤသပိတ်တော်ဖြင့်။ သမတိတ္တိကမ္ပိ၊ အနားရေးနှင့် မျှရုံသောဆွမ်းကိုလည်း။ ဘုဥ္ဇာမိ၊ ဘုဉ်းပေးတော်မူ၏။ ဘိယျောပိ၊ လွန်စွာလည်း။ ဘုဥ္ဇာမိ၊ ဘုဉ်းပေးတော်မူ၏။ ဣတိ၊ ဤသို့။ ဘဏိတံ၊ မိန့်တော်မူအပ်၏။

ပြက်တေ့သောအခါ၌ ကိုယ်တော်ဆောင်သော သပိတ်တော်ဖြင့် အနားရေးမျှရုံသော ဆွမ်းကိုဘုဉ်းပေးတော်မူသည်။ ဒေသစာရီ ချီတော်မူသော အခါတို့၌ ထို့ထက်လွန်၍လည်း ဘုဉ်းပေးတော်မူသည်။ ဤသို့ ကျမ်းဂန်လာသောကြောင့် သပိတ်တော်ပမာဏ သာလျှင် ဆွမ်းကုန်သောအခန့် ပမာဏသာဖြစ်သည်။

ဤအရာ၌ ဘုရားသပိတ်တော်၏ ပမာဏကို မည်မျှ မည်ရွေ့ ဆံ့၏ဟု ကျမ်းဂန်မလာ။

ဆရာကြီးတို့မူကား- ''ဝိနည်းတော်၌လာသော သပိတ် ကိုးလုံးတွင် အကြီးဆုံး၏အောက်ဖြစ်သော ဥက္ကဋ္ဌသပိတ်လတ်ဖြစ်သင့်၏'' ဟူ၍ ဆိုတော်မူ၏။

သပိတ်ကိုးလုံးကား- ''ဥက္ကဋ္ဌော မဇ္ဈိမော စေဝ၊ ဩမကော စ ပမာဏတော'' ဟူသော ခုဒ္ဒသိက္ခာနှင့်အညီ၊ ဥက္ကဋ္ဌသပိတ်, မဇ္ဈိမသပိတ်, ဩမကသပိတ် ဟူ၍ သုံးလုံးရှိသည်။ ထိုသုံးလုံးတို့တွင် မဂဓတိုင်း၌ နှစ်ကွမ်းစားသောဆန်ဖြင့် ချက်အပ်သောဆွမ်း၊ ထိုဆွမ်း၏ လေးဖို့တစ်ဖို့ဖြစ်သော ပဲနောက်ဟင်း၊ ထိုမျှလောက်သော အမဲဟင်း၊ ထိုမျှလောက်သော ငါးဟင်းတို့ကို ထည့်သည်ရှိသော် သပိတ်အနားရေးနှင့်မျှရုံတည်သော သပိတ်သည် ဥက္ကဋ္ဌသပိတ်မည်၏။ ထိုမျှလောက်သော ဆွမ်းဟင်းတို့ကို ထည့်သည်ရှိသော် အောက်အနားရေးကိုမျှ မမီသောသပိတ်သည် ဥက္ကဋ္ဌ သပိတ်ထက်ကြီးသောသပိတ်မည်၏။ ဆွမ်းဟင်းတို့က မောက်လျက်နေသော သပိတ်သည် ဥက္ကဋ္ဌသပိတ်အောက် ငယ်၏။ ထိုဥက္ကဋ္ဌသပိတ်လတ်၏ ထက်ဝက်သော သပိတ်သည် မဇ္ဈိမသပိတ်မည်၏။ ဤ၌လည်း ဆွမ်းဟင်းတို့ကို ထည့်လျှင် အနားရေးကို မမီအံ့ မဇ္ဈိမုက္ကဋ္ဌသပိတ်မည်၏။ အနားရေးထက် လွန်၍မောက်လျက် တည်အံ့၊ မဇ္ဈိမောမကသပိတ်မည်၏။ ထို မဇ္ဈိမ သပိတ်လတ်၏ ထက်ဝက်ဝင်သော သပိတ်သည် ဩမကသပိတ်မည်၏။ ထိုဩမက သပိတ်၌လည်း အနားရေးကိုမမီအံ့၊ ဩမကုက္ကဋ္ဌ သပိတ်မည်၏။ အနားရေးကို လွန်အံ့၊ ဩမကောမက သပိတ်မည်၏။ ဤသို့ ကိုးလုံးဖြစ်သတည်း။

ထိုကိုးလုံးတို့တွင် ဥက္ကဋ္ဌ သပိတ်ထက်ကြီးသော သပိတ်သည်လည်းကောင်း၊ ဩမကသပိတ်အောက်ငယ်သော သပိတ်သည်လည်းကောင်း သပိတ်မမည်၊ ခွက်သာမည်၏။

မဂဓ ကွမ်းစား– ဟူရာ၌ ဆရာတို့၏ အယူများဟန်ကို အဌကထာ၌ပြ၏။ လိုရင်းကား ငါတို့မြန်မာတိုင်း၌ ဆန်တစ်ခွက်သည် လူတစ်ယောက်၏ တစ်နေ့စာဖြစ်၍ တစ်ကွမ်းစားမည်၏။ မဂဓ တိုင်း၌ကား ထို၏နှစ်ဆ ကြီးသည်ဖြစ်၍ တစ်ပြည်သည် တစ်ကွမ်းစားမည်၏။ ထို မဂဓ နှစ်ကွမ်းစားဖြစ်သော ဆန်နှစ်ပြည်ဖြင့် ချက်သော ဆွမ်းတို့၏ လေးဖို့တစ်ဖို့ဖြစ်သော ပဲနောက်ဟင်း၊ ထိုမျှလောက်သော ငါးဟင်း၊ အမဲဟင်းတို့ဝင်သော သပိတ်သည် ဥက္ကဋ္ဌသပိတ်မည်၏ ဟူ၍ ဝိနည်းနိဿယ ရေးသော ဆရာတို့ပြဆိုကုန်သည်။ ဤအလိုသော် မြန်မာတို့၏ ပြည်ဖြင့် ခြောက်ပြည်ဝင်၏။

မဟာအောင်မြေဘုံစံ အုတ်ကျောင်း ဆရာတော်ကား– ခွက်ကွမ်းစား, ပြည်ကွမ်းစား, နှစ်ပါးတွင် ခွက်ကွမ်းစားသာသင့်သည်။ ထို့ကြောင့် နှစ်ကွမ်းစားဖြစ်သော ဆန်တစ်ပြည်ချက်လျှင် ထမင်းနှစ်ပြည် ဖြစ်သည်။ ထို၏လေးဖို့ တစ်ဖို့ဖြစ်သော ပဲနောက်ဟင်းတစ်ခွက်သား၊ အမဲဟင်း တစ်ခွက်သား၊ ငါးဟင်းတစ်ခွက်သား၊ ပေါင်း–သုံးပြည်တစ်ခွက်ဝင်သော သပိတ်သည် ဥက္ကဋ္ဌ သပိတ်ဖြစ်၏ ဟူ၍ ဆိုတော် မူသည်။ ။ (ကြိုက်ရာမှတ်)။

❖❖❖❖❖

## ၁၅၉။ ရသေ့ရိပ်လွှဲ၊ ကျောက်ရဲရဲ၊ ဖြစ်မြဲမှန်တို့ လေလိမ့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရသေ့သည် သေလွန်၍ ကျောက်မျိုးဖြစ်သည်ဟု မဏိသျှတ္တရ ကျမ်းတို့၌မလာ။ ကျမ်း၌ လာသည်ကား ဤဘဒ္ဒကပ် ကမ္ဘာ၏ အစ၌ ဂဠုန်, နဂါး, ဂန္ဓဗ္ဗ နတ်တို့သည် နဝရတ်၏ အကြောင်းကို သိလို၍ အသုရာ နတ်မင်းကြီးအားကပ်၍ မေးကြကုန်သော် အသုရာ နတ်မင်းလည်း ဖြစ်ရင်းကို မသိ၍ တန်ခိုးအာနုဘော်ကြီးစွာလျက် ပညာကြီးလှသော အဂ္ဂမည်သော ရှင်ရသေ့ထံသို့ ကပ်၍ မေးလေ၏။ ထိုအခါ အဂ္ဂ ရှင်ရသေ့လည်း ဤသို့ မိန့်ပေ၏။

ဤဘဒ္ဒ ကမ္ဘာဦး၌ စောင့်နေရသော တန်ခိုးကြီးလှသော မဟာပဝရ နဝရတ် အမည်ရှိသော နတ်မင်းကြီးသည် ဘဝပြောင်းလိုလတ်သော် ဤသို့ကြံ၏။ ''ဤငါ၏ ကိုယ်ကား ဝိညာဉ်ပြောင်းသွားခဲ့သော် အကျိုးမရှိ။ မြေကြီးအစီးအပွားသာ ဖြစ်လေရာသည်။ သတ္တဝါ သုံးဆောင်ရာကိုငါပြုအံ့'' ဟုကြံ၍ အဓိဋ္ဌာန် သစ္စာပြု၏။ ''ငါသည် ရှေးကုသိုလ်ကြောင့် ဤနတ်၏ အဖြစ်ကို ရသည်မှန်မူ ဤခန္ဓာကိုယ်သည် ကုသိုလ်ရှိသောသူတို့ သုံးဆောင်ဆင်ယင်ရန် အကျိုးငှာ မွန်မြတ်သော နဝရတ် ကျောက်ရတနာ ဖြစ်စေသတည်း''ဟု အဓိဋ္ဌာန်၍ ခန္ဓာကုန်လေ၏။ ထိုအဓိဋ္ဌာန်ကြောင့် နတ်မင်းကြီး၏ တံတွေးသည် စိန်ဖြစ်၏။ သွေးသည်ကား ပတ္တမြားဖြစ်၏။ မျက်စိကား နီလာဖြစ်၏။ သည်းခြေကား မြဖြစ်၏။ အအူကား ဂေါမုတ်ဖြစ်၏။ ဦးဏှောက်ကား ဥဿဖယား ဖြစ်၏။ အသားကား သန္တာဖြစ်၏။ သွားကား ပုလဲဖြစ်၏။ အသည်းကား ကြောင်ဖြစ်၏။

ဤသို့ နတ်မင်းကြီး ဘဝလဲ၍ ကျောက်ရဲရဲဖြစ်ကြောင်းကိုသာ မဏိသျှုတ္တရကျမ်းတို့၌လာသည်။ "ဖြစ်မြဲမှန်တို့ လေလိမ့်နည်း" မေးရာမှာ ဘုရားဟော ကျမ်းဂန်မဟုတ်၊ လောကီကျမ်းဖြစ်၍ မှန်မည်၊ မမှန်မည်ကို အတတ်မဆိုပိုင်။ လောက၌ အစဉ် အဆက် မှတ်လျက် ရှိလေပြီးသည်ကို ထိုထို ဤဤဖြင့် ကျမ်းဆီညှစ်၍ မစိစစ်သာပြီ။

ယုတ္တိကိုစာနာမူ– အဝိဇ္ဇာဏာက ဖြစ်သော ကျွန်းဦး ဇမ္ဗူသပြေသီး စင်လျက် မြေသို့ သက်သောအခါ ဇမ္ဗူရဇ်ရွှေ ဖြစ်ကြောင်းကို ကျမ်းဂန်ဆိုသည်။ ကုသိုလ်ရှိသော သူတို့၏ ကံကြောင့် မြေပကတိပင် ရွှေစင်ဖြစ်ဖူးကြောင်းကို လာသည်။ နဂါးတို့ စွန့်အပ်သော ဝစ္စပင် ရွှေကျောက်၊ ငွေကျောက် ဖြစ်ကြောင်း၊ သုဝဏ္ဏ ဟသ်ာမင်း၏ အမွေးကို မီးဖုတ်လျှင်ပင် ရွှေစင်ဖြစ်ကြောင်းကို ကျမ်းဂန်လာသည်များနှင့် တိုင်းစား၍ ယူရတော့သည်။

◆◆◆◆◆

## ၁၈၀။ မြို့သောက္ကတဲ၊ မြို့သင်းတွဲ၊ မိုးထဲ ဘယ်တာရာတို့နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဗကာရော အဋ္ဌ တံယေဝ၊ သောက္ကတေယျဿ တိဋ္ဌကံ။**

ဗကာရော၊ ဗျိုင်းတာရာသည်။ အဋ္ဌ၊ ရှစ်လုံးတို့တည်း။ တံယေဝ၊ ထိုဗျိုင်းသဏ္ဌာန်ရှိ၏။ သောက္ကတေယျဿ၊ သောက္ကတဲပြည်၏။ တိဋ္ဌကံ၊ တိဋ္ဌစွဲလျှင်တည်း။

**ကာကာစ ကာက သဏ္ဌာနံ၊ တိဋ္ဌံ ဒွါဒသ သံသယံ။**

ကာကာ စ၊ ကျီးတာရာသည်ကား။ ကာကသဏ္ဌာ နံ၊ ကျီးသဏ္ဌာန်ရှိ၏။ ဒွါဒသ၊ တစ်ဆယ့်နှစ်လုံးတို့တည်း။ တိဋ္ဌံ၊ တိဋ္ဌစွဲကား။ သံသယံ၊ သင်းတွဲပြည်တည်း။

◆◆◆◆◆

## ၁၈၁။ တရုတ်ရန်–စဲ၊ ရိမဒ်–ထဲ၊ ရှဲအောင် ဘယ်သို့ကြံသနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပြော့သိခ်ဘိုသား ရာဇသင်္ကြံ၊ အသခ်ယာ၊ သီဟသူ၊ ဤမင်းညီနောင် သုံးပါးတို့သည် သက္ကရာဇ် ၆၈၁–ခုနှစ်တွင် ပုဂံ တရုတ်ပြေး နရသီဟပတေ့သား ကျော်စွာမင်းကို နန်းကချလေသည်။ ကျော်စွာမင်းသား စောခင်နစ်မင်းသည် တရုတ်သို့ အကြောင်းစကား ကြားစေ၍ တရုတ်တို့လည်း ပုဂံနန်းရိုးကျော်စွာကို နန်းတင်မည်ဟု သက္ကရာဇ် ၆၆၆–ခုနှစ်တွင် ချီလာသည်။ မြင်စိုင်းမြို့ကို ရံနေစဉ် ကျော်စွာမင်းကို လုပ်ကြံ၍ ဦးခေါင်းကိုပြလျှင် တရုတ်စစ် ပြန်လေသည်။

◆◆◆◆◆

## ၁၈၂။ လူ့သက်မမြဲ၊ ကျမ်းကခွဲ၊ မြဲသည့်ကျွန်းရှိ ဘယ်ကြောင့်နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– လူတို့၏အသက်လည်း အတိုင်းအရှည်မရှိဟု ဆိုသည်ကား အလုံးစုံသောလူပင် အမြဲမရှိသလော၊ အချို့သာလော

ဟူငြားအံ့။ ဥတ္တရကုရုကျွန်းသူတို့ကား အနှစ်တစ်ထောင် နေသည်အမြဲတည်း။ အပရဂေါယာဉ် ကျွန်းသူတို့ကား အနှစ်ငါးရာ နေသည် အမြဲတည်း။ ပုဗ္ဗဝိဒေဟ ကျွန်းသူတို့ကား အနှစ်ခုနစ်ရာ နေသည်အမြဲတည်း။ အခြံအရံ ကျွန်းငယ်တို့၌လည်း ကျွန်းကြီးနှင့်အတူတည်း ဟူရကား ဇမ္ဗူဒိပ်သားကိုသာ ရည်၍ ဆိုသည်။ ဘယ်အကြောင်းကြောင့်မည်းဟူမူကား ဇမ္ဗူဒိပ်ကျွန်းသားသာလျှင် လူစစ်ဖြစ်သည်။ အခြားကျွန်းသား တို့ကား သဒိသူပစာရဖြင့်သာ လူမည်သတည်း။

❖❖❖❖❖

၁၈၃။ ပြစ်မရှိဘဲ၊ ဆံဦးဆွဲ၊ လျော်မြဲ ဘယ့်လောက်ပေတို့နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''အပြစ်ဒဏ်ကို၊ စိတ်ဖန်ဝေခွဲ၊ ဆံဆွဲ သုံးဆယ်'' ဟူ၍ ဝိနိစ္ဆယပကာသနီတွင်ဆိုသည်။

❖❖❖❖❖

၁၈၄။ မနံ့ပါဘဲ၊ နံ့၏စွဲ၊ ခွဲခြမ်းစီရင်မည်သို့နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ဥစ္စာရှင်မွဲ၊ မနံ့ဘဲကို၊ နံ့သည်ဆိုလည်း၊ ထိုစွဲတိုင်းဘက်၊ လျော်ကြေးထွက်၏'' ဟူ၍ မနုဝဏ္ဏနာတွင် ဆိုသည်။

❖❖❖❖❖

၁၈၅။ မနာလိုဘဲ၊ လိင်ဆုတ်ဆွဲ၊ မိညဲလျော်ရိုး ဘယ်မျှနည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မိန်းမစင်လျက်၊ လွန်ရောင့်တက်၍၊ အရှက်မဲ့နိုင်၊ သူ့လိင်ကိုင်သော်။ ဖီးဆိုင်ငှက်ပျော၊ ကောင်းမော ရသာ၊ ပန်းနံ့သာနှင့်၊ ပန်ထွာရှိသေ၊ ပူဖော်လေလော့။ (ဖြတ်ထုံး)။

❖❖❖❖❖

၁၈၆။ လက်ယာ လက်ဝဲ၊သည်နှစ်ကွဲ၊ဝတ်မြဲကျောက်မျိုးဘယ်မျှနည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပတ္တမြား၊ ကြောင်နီလာ၊ မြတို့ကို လက်ယာ ဝတ်ရာ၏။ ပုလဲ၊ ဂေါ်မုတ်၊ စိန်တို့ကို လက်ဝဲဝတ်ရာ၏။

❖❖❖❖❖

၁၈၇။ ဆက်စာမြင့်မြဲ၊ ရောက်လာခဲ၊ သည်–ခဲ ဘယ်အနက်ပေနည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကာလအားဖြင့် ရှည်ကြာခြင်း၊ အနက်ကိုဟောသည်။

❖❖❖❖❖

၁၈၈။ ရောက်ခေါင့်ရောက်ခဲ၊ မြေတာလွဲ၊ သည်ခဲမည်သို့ ဆိုပိမ့်နည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- အစွန်းအားဖြင့် ရှည်ဝေးခြင်း အနက်ကိုဟောသည်။

❖❖❖❖❖

၁၈၉။ **မခေါ်မကျဲ၊ စီသည့်ရွဲ၊ စောကဲသွားတော် ဘယ့်ကြောင့်နည်း။(၁၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ပိသုဏံ ဝါစံ ပဟာယ ပိသုဏာယ ဝါစာယ ပဋိဝိရတော အဟောသိ။ ဣတော သုတွာန အမုတြ အက္ခာတာ ဣမေသံ ဘေဒါယ၊ အမုတြာ ဝါ သုတွာန ဣမေသံ အက္ခာတာ အမူသံ ဘေဒါယ၊ ဣတိ ဘိန္နာနံ ဝါ သန္ဓာတာ သဟိတာနံ ဝါ အနုပ္ပဒါတာ သမဂ္ဂရာမော သမဂ္ဂ ရတော နန္ဒီ သမဂ္ဂ ကရဏိံ ဝါစံ ဘာသိတာ အဟောသိ။**

ပိသုဏံ၊ တစ်ယောက်သည် တစ်ယောက်နှင့် အချစ်ပျက်ခြင်းကို ပြုတတ်သော။ ဝါစံ၊ စကားကို။ ပဟာယ၊ ပယ်စွန့်၍။ ပိသုဏာယ ဝါစာယ၊ တစ်ယောက်သည် တစ်ယောက်နှင့် အချစ်ပျက်ခြင်းကို ပြုတတ်သောစကားမှ။ ပဋိဝိရတော၊ ကြဉ်တော်မူသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူးသည်။ ဣတော၊ ဤသူတစ်ယောက်ထံမှ။ သုတွာန၊ ကြား၍။ ဣမေသံ၊ ဤသူနှစ်ယောက်တို့ကို။ ဘေဒါယ၊ ကွဲစေခြင်းငှာ။ အမုတြ၊ ဤသူတစ်ယောက်ထံ၌။ န အက္ခာတာ၊ မကြားတတ်။ အမုတြ ဝါ၊ ဤသူတစ်ယောက် အထံ၌လည်း။ သုတွာန၊ ကြား၍။ အမူသံ၊ ဤမည်သော သူတို့ကို။ ဘေဒါယ၊ ကွဲစေ ခြင်းငှာ။ ဣမေသံ၊ ဤသူတို့အား။ န အက္ခာတာ၊ မကြားတတ်။ ဣတိ ဣမိနာ ကာရဏေန၊ ဤသို့ ကုန်းတိုက်ခြင်းကြောင့်။ ဘိန္နာနံ ဝါ၊ ကွဲကုန်သော သူတို့အားလည်း။ သန္ဓာတာ၊ စေ့စပ်တတ်သည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ သဟိတာနံ ဝါ၊ ညီညွတ်ကုန်သော သူတို့အားလည်း။ အနုပ္ပဒါတာ၊ တစ်ဖန်အားကို ပေးတတ်သည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ သမဂ္ဂ ရာမော၊ ညီညွတ်ခြင်း၌ မွေ့လျော်သော စိတ်ရှိသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ သမဂ္ဂရတော၊ ညီညွတ်ခြင်း၌ မွေ့လျော်တတ်၏။ သမဂ္ဂ နန္ဒီ၊ ညီညွတ်ခြင်း၌ နှစ်သက်တတ်၏။ သမဂ္ဂ ကရဏိံ၊ ညီညွတ်ခြင်းကို ပြုတတ်သော။ ဝါစံ၊ စကားကို။ ဘာသိတာ၊ ဆိုတတ်သည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။

ဤသို့ ဆိုအပ်ခဲ့ပြီးသော ကောင်းမှုတို့ကြောင့် မကျဲသော သွားတော်ဟု ဆိုအပ်သော အဝိရဠဒန္တ လက္ခဏာကို ရတော်မူသည်။

လေးဆယ်စေ့သော သွားတော်ဟု ဆိုအပ်သော စတ္တာလီသ ဒန္တလက္ခဏာတော် ကိုလည်း ဆိုအပ်ခဲ့ပြီးသော ကောင်းမှုတော်တို့ကြောင့်ပင် ရတော်မူသည်။

❖❖❖❖❖

**၁၉၀။ တတ္တအစွဲ၊ စိတ်မရဲ၊ မြော်မြဲရှေ့နောက် ဘယ်ကိုနည်း။(၁၄)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တသို့ တတ္တ၊ တသ အစွဲ၊ စိတ်မရဲသော်၊နောက်အစိတ်ကိုမြော်၊ အပေါင်း ရော်၍စွဲ။ (နိယံ)။

❖❖❖❖❖

**၁၉၁။ မ–ဣတင်မြဲ၊ ရ–မဆွဲ၊ ခက်ခဲကျောက်စာ မည်သို့နည်း။(၁၅)**

ဟူသော အမေးပုစ္ဆာ၌ အဖြေ ဝိသဇ္ဇနာကား– ဣ၌ ဤသို့ မ–ပေါ်– ဣတင်လျက်၊ ရ–မဆွဲ၍ ရေးလျှင်''မြည်းမ''ဖတ်ရမည်။ ရှေးသူဟောင်းတို့လည်း ဂဒြဘ ပုဒ်၏ အနက်ကို ''မြည်း''ဟု ရေးထုံးရှိသည်။

❖❖❖❖❖

**၁၉၂။ က–ကြီး ဝ–ဆွဲ၊ ပင့်စမြဲ၊ နောက်တွဲယသတ် မည်သို့နည်း။(၁၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ကျွယ်–ဟုဖတ်။

❖❖❖❖❖

**၁၉၃။ ခ–ကွေး ဝ–ဆွဲ၊ ဝ–သတ်မြဲ၊ မလွဲဖတ်ရိုး ဘယ့်နှယ်နည်း။(၁၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ခွဝ်၊ ခ–တွင်–ဝ–ဆွဲ၍ ဝ–သတ်သော် ''ခေါ်''ဟု ဖတ်ရမည်။

ဂူကျောင်းဘုရား၊ တည်ထားကျောက်စာ၊ ကမ္ပည်းမှာကို၊ ဖတ်ခါလွယ်ကူ၊ သိစိမ့်ဟူ၍၊ ထုတ်ယူဘော်ငင်၊ လင်္ကာဆင်အံ့၊ –၊ ချလျှင် ၁–စီး၊ လုံးကြီး–၂တင်၊ ၃–လျှင်ဆံခတ်၊ ထက်ရပ်စီးတင်၊ တစ်ချောင်းငင်မူ၊ ၄–လျှင်အမြဲ၊ အောက်ကဆွဲလော့။ တကွဲ ၂–ချောင်း၊ ငင်ပြန်ရှောင်းမူ၊ ၅–လျှင်ဟူ၏။ ၆–မူသဝေ၊ သတ်လေသမျှ၊ အောက်ကအမြဲ၊ ရ–ဆွဲတည့်၊ ပင့်မြဲမုချ၊ ရစ်ထ လိမ်ကွေး၊ အောက်ပင့် တေည်း၊ ရေးလေအမြဲ၊ ဝဆွဲလုံးကြီး၊ တင်တုံပြီးမှ၊ လုံးကြီးဝဆွဲ၊ ကဆွဲ လဆွဲ၊ နောက်ပစ်ကဲလော့၊ ပစ်မြဲနောက်ထိုး၊ ခေါ်ရိုးစဉ်ပင်၊ ကျောက်တွင်ရေးနည်း၊ ဤနည်းပုံယူ၊ နှလုံးမူ၍၊ ဖတ်သူပညာ၊ ရေးထည့်မှာသည်။ နောင်လာလူများ မှတ်ဖို့ထား။

ဤကျောက်စာရေးနည်း လက္ခဏာနှင့် ညီညွတ်၍ ကျောက်စာတွင် အဓိပ္ပါယ် စကား အသွားအလာ ဆင်ခြင်ရမည်။

❖❖❖❖❖

**၁၉၄။ ဆင် မြင်း နွား ကျွဲ၊ဖွားစဆဲ၊လျော်မြဲသတ်သော် ဘယ်မျှနည်း။(၁၈)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တိရစ္ဆာန်၌၊ ချိန်တန်ကာလ၊ ဖွားသစ်စသတ်။ မြတ်လုယာဉ်ညင်၊
ဆင်ကားငါးဆယ်၊ မြင်းဝယ်ငါးကျပ်၊ စေအပ်ထွန်မြဲ၊ ကျွဲမူမှတ်သား၊

ငါးမတ်ထားလျက်၊ နွားကားဖိုးမှန်၊ တစ်ကျပ်တန်ဟု၊ ဈာန်အဘိညာဉ်၊
ကျေးဖူးယှဉ်သား၊ ကျင့်ယာဉ်ပြုဆွတ်၊ ရသေ့မြတ်လျှင်၊ နှုတ်လွတ်ရှေကြာ။
မိန့်ခဲ့မှာသည်၊ ချိုသာပျံ့ပျံ့၊ ပျူးပျူးတည်း။

ဟူ၍ မနုဝဏ္ဏနာတွင်ဆိုသည်။

❖❖❖❖❖

## ၁၉၅။ လျှာသံချိတ်တွဲ၊ ငင်၍ဆွဲ၊ ခက်ခဲခံရ ဘယ့်ကြောင့်နည်း။(၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ယေကေစိ သန္ဓာနဂတာ မနုဿာ၊ အဋ္ဌေန အဋ္ဌကလံ ဟာပယန္တိ၊**
**ကူဋ္ဋေန ကူဋံ့ ဓနလောဘဟေတု၊ ဆန္နံယထာ ဝါရိစရံ ဝဓာယ။**
**န ဟိ ကူဋ္ဋကာရိဿ ဘဝန္တိ တာဏာ၊ သကေဟိ ကမ္မေဟိ ပုရေက္ခိတ္တဿ။**
**တေ လုဒ္ဒကမ္မာ ပသဝေတွာန ပါပံ၊ တေမေ ဇနာ ဝက်ဃသ္တာ သယန္တိ။**

**(နေမိဇာတ်တော်)**

မဟာရာဇ မြတ်သောမင်းကြီး။ ယေကေစိ၊ ခပ်သိမ်းကုန်သော။ မနုဿာ၊ လူတို့သည်။ ဝါရိစရံ၊ ရေ၌သွားသောငါးကို။ ဝဓာယ၊ သတ်အံ့သောငှာ။ ဆန္နံယထာ၊ ဖုံးလွှမ်းသကဲ့သို့။ ဓနလောဘဟေတု၊ ဥစ္စာကိုလိုချင်သောကြောင့်။ သန္ဓာနဂတာ၊ အဖိုးဆုံးဖြတ်ရာအရပ်သို့ သွားကုန်သည်ဖြစ်၍။ အဋ္ဌေန၊ အဖိုးဖြင့်။ အဋ္ဌကလံ၊ ထိုက်သော အဖိုး၏ အဖို့ကို။ ဟာပယန္တိ၊ ယုတ်စေကုန်၏။ ကူဋ္ဋေန၊ ချိန်စဉ်းလဲဖြင့်။ ကူဋံ့၊ စဉ်းလဲသော အမှုကို။ ကရောန္တိ၊ ပြုကုန်၏။

ဟိ၊ သင့်စွ၊ ကူဋ္ဋကာရိဿ၊ စဉ်းလဲသောအမှုကို ပြုတတ်သော။ သကေဟိ ကမ္မေဟိ၊ မိမိပြုသော မကောင်းမှုတို့ဖြင့်။ ပုရေက္ခိတ္တဿ၊ ခြံရံအပ်သောသူ့အား။ တာဏာ၊ ကိုးကွယ်ရာတို့သည်။ န ဘဝန္တိ၊ မဖြစ်ကုန်။ လုဒ္ဒကမ္မာ၊ ကြမ်းကြုတ်သော အမှုရှိ ကုန်သော။ တေ၊ ထို ဧရဲတို့သည်။ ပါပံ၊ မကောင်းမှုကို။ ပသဝေတွာန၊ ပွားစေ၍။ တေမေ ဇနာ၊ ထို ဧရဲသူ သတ္တဝါတို့သည်။ ဝက်ဃသ္တာ၊ သံမျှားကောက်ဖြင့် ချိတ်ကုန် သည်ဖြစ်၍။ သယန္တိ၊ အိပ်ရကုန်၏။

❖❖❖❖❖

## ၁၉၆။ ပြာပူငရဲ၊ အောက်အထဲ၊ ခံမြဲဘယ်မကောင်းကျိုးနည်း။(၂၀)

## ၁၉၇။ ပြောင်ပြောင်တောက်ဖွဲ၊ စားတော်မြဲ၊ ကွဲလွဲဘယ်အပြစ်ကြောင့်နည်း။(၂၁)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား–

**ယေ သုဒ္ဓဓည ပလာလေန မိဿံ၊ အသုဒ္ဓကမ္မာ ကယိနော ဒဒန္တိ။**
**ဃမ္မာဘိတတ္တာနံ ပိပါသိတာနံ၊ ပီတဉ္စ တေသံ ထုသံ ဟောတိ ပါနီနိတိ။**

**(နေမိဇာတ် ပါဠိတော်)**

မဟာရာဇ၊ မြတ်သောမင်းကြီး၊ ယေ၊ အကြင်သူတို့သည်။ သုဒ္ဓဓေည၊ စင်သော စပါးကို။ ပလာလေန၊ စပါးဖျင်းနှင့်။ မိဿံ၊ ရောသည်ကိုပြု၍။ အသုဒ္ဓကမ္မာ၊ မစင်ကြယ်သော အမှု ရှိကုန်သည်ဖြစ်၍။ ကယိနော၊ ဝယ်သောသူအား။ ဒဒန္တိ၊ ပေးကုန်၏။ ဃမ္မာဘိတတ္တာနံ၊ ပူဆာခြင်းဖြင့် နှိပ်စက်သောကိုယ် ရှိကုန်ထသော။ ပိပါသိတာနံ၊ ရေ မွတ်သိပ်ခြင်းရှိကုန်သော။ တေသံ၊ ထိုငရဲသူ သတ္တဝါတို့အား။ ပိတဥ္စ၊ သောက်အပ်သည်လည်းဖြစ်သော။ ပါနီ၊ ရေသည်။ ထုသံ၊ စပါးဖျင်း ဖွဲပြာသည်။ ဟောတိ၊ ဖြစ်၏။

**ဓမ္မမစ္ဆရိယေန ကုက္ကုလနိရယေ နိဗ္ဗတ္တိ ။** (သာရတ္ထသင်္ဂဟ)

ဓမ္မမစ္ဆရိယေန၊ တရား၌ ဝန်တိုခြင်းကြောင့်။ ကုက္ကုလနိရယေ၊ ပြာပူငရဲ၌။ နိဗ္ဗတ္တိ၊ ဖြစ်၏။

❖❖❖❖❖

**၁၉၈။ ဆင်ဦးကင်းထဲ၊ မြတ်ပုလဲ၊ ထွန်းမြဲအရောင် ဘယ်သို့နည်း။(၂၂)**

**၁၉၉။ မြွေဦးခေါင်းစွဲ၊ ကျောက်ပုလဲ၊ ကွဲလွဲရောင်ခြည် ဘယ်သို့နည်း။(၂၃)**

**၂၀၀။ ယောက်သွားဖြစ်မြဲ၊ မျိုးပုလဲ၊ ထူးကဲရောင်လျှံဘယ့်သို့နည်း။(၂၄)**

ဟူသော အမေးပုစ္ဆာ သုံးခု၌ အဖြေဝိသဇ္ဇနာကား– နောက်သားတို့ ဆောင်ရွက် မှတ်သားလွယ်စိမ့်သောငှာ ပုလဲမျိုးရှစ်ပါးကို တစ်စုတည်းဆိုလိုက်အံ့။ ဆိုင်ရာယူ၍ ဖြေ။

**ဟတ္ထိကုမ္ဘံ၊ ဝရာဟဒါဌံ၊ ဘုဇဂ သီသံ၊ ဝလာဟကံ၊ ဝေဠု၊**
**မစ္ဆသိရော၊ သင်္ခေါ၊ သိပ္ပိတိ အဋ္ဌမုတ္တ ယောနိယော။**

ဟူ၍ သာရတ္ထဒီပနီ ဋီကာ၌လာသည်။

**အနက်ကား။** ။ဟတ္ထိကုမ္ဘံ၊ ဆင်ဦးကင်း၌ဖြစ်သော ပုလဲလည်းကောင်း။ ဝရာဟဒါဌံ၊ ဝက်စွယ်၌ဖြစ်သော ပုလဲလည်းကောင်း။ ဘုဇဂသီသံ၊ မြွေဦးခေါင်း၌ ဖြစ်သော ပုလဲလည်းကောင်း။ ဝလာဟကံ၊ တိမ်တိုက်၌ဖြစ်သော ပုလဲလည်းကောင်း။ ဝေဠု၊ ဝါး၌ဖြစ်သော ပုလဲလည်းကောင်း။ မစ္ဆသိရော၊ ငါးဦးခေါင်း၌ဖြစ်သော ပုလဲလည်းကောင်း။ သင်္ခေါ၊ ခရုသင်း၌ဖြစ်သော ပုလဲလည်းကောင်း။ သိပ္ပိ၊ ယောက်သွား၌ ဖြစ်သော ပုလဲ လည်းကောင်း။ ဣတိ၊ ဤသို့။ မုတ္တယောနိယော၊ ပုလဲမျိုးတို့သည်။ အဋ္ဌ၊ ရှစ်ပါးတို့တည်း။

တတ္ထ၊ ထို ပုလဲမျိုးရှစ်ပါးတို့တွင်။ ဟတ္ထိကုမ္ဘဇာ၊ ဆင်ဦးကင်း၌ဖြစ်သော ပုလဲတို့သည်။ ပီတဝဏ္ဏာ၊ ရွှေသောအဆင်းရှိကုန်၏။ ပဘာဝိဟီနာ၊ အရောင်အဝါမရှိ လွန်းကုန်။ ဝရာဟဒါဌဇာ၊ ဝက်စွယ်၌ဖြစ်သော ပုလဲတို့သည်။ ဝရာဟ ဒါဌ ဝဏ္ဏာဝ၊ ဝက်စွယ် အဆင်းသာလျှင် ရှိကုန်၏။ ဘုဇဂ သီသဇာ၊ မြွေဦးခေါင်း၌ဖြစ်သော

ပုလဲတို့သည်။ နီလာဒိဝဏ္ဏာဝ၊ အစိမ်းအညိုစသော အဆင်းရှိကုန်၏။ သုဝိသုဒ္ဓါ စ၊ အလွန်လည်း သန့်ရှင်းစင်ကြယ်ကုန်၏။ဝဋ္ဋလာ စ၊ လုံးလုံးလျောင်းလျောင်းလည်း ရှိကုန်၏။ ဝလာဟကဇာ၊ တိမ်တိုက်၌ဖြစ်သော ပုလဲတို့သည်။ ဘာသုရာ၊ အရောင် အဝါ ရှိကုန်၏။ ဒုဗ္ဗိဘာဂရူပါ၊ အထူးထူးအပြားပြား အဆင်းရှိကုန်၏။ ရတ္တိဘာဂေ၊ ညဥ့် အဖို့၌။ အန္ဓကာရံ၊ အမိုက်တိုက်ကို။ ဝိဓမေန္တိယော၊ ဖျောက်ကုန်လျက်။ တိဋ္ဌန္တိ၊ တည်ကုန်၏။ ဒေဝူပဘောဂါဝေ စ၊ နတ်၏ အသုံးအဆောင်တို့သည်သာလျှင်။ ဟောန္တိ၊ ဖြစ်ကုန်၏။ ဝေဠုဇာ၊ ဝါး၌ဖြစ်သော ပုလဲတို့သည်။ ကရကမ္ဗလသမာနဝဏ္ဏာ၊ တလည်းသီး အဆင်းနှင့်တူသော အဆင်းရှိကုန်၏။ န ဘာသုရာ၊ အရောင်အဝါမရှိ လွှန်းကုန်။ တေစ ဝေဠုု ထိုဝါးတို့သည်လည်း။ အမနုဿ ဂေါစရေဝေ ပဒေသေ၊ လူတို့ မကျက်စားရာ အရပ်၌သာလျှင်။ ဇာယန္တိ၊ ပေါက်ရောက်ကုန်၏။ မစ္ဆသီသဇာ၊ ငါးဦးခေါင်း၌ဖြစ်သော ပုလဲတို့သည်။ ပါဋီနပိဋ္ဌိသမာန ဝဏ္ဏာ၊ ငါးဖယ် ကျောက်ကုန်းနှင့် တူသော အဆင်းရှိကုန်၏။ ဝဋ္ဋလာ စ၊ လုံးလည်း လုံးကုန်၏။ လဃဝေါ စ၊ ပေါ့ကုန် သည်လည်းကောင်း။ ပဘာဟီနာ စ၊ အရောင်အဝါ မရှိကုန်သည် လည်းကောင်း။ ဟောန္တိ၊ ဖြစ်ကုန်၏။ တေ စ မစ္ဆာ၊ ထိုငါးတို့သည်လည်း။ သမုဒ္ဒ မဇ္ဈေ ယေဝ၊ သမုဒ္ဒရာ၏ အလယ်၌သာလျှင်။ ဇာယန္တိ၊ ဖြစ်ကုန်၏။ သင်္ခဇာ၊ ခရုသင်း၌ ဖြစ်ကုန်သော ပုလဲတို့သည်။ သင်္ခဥဒရစ္ဆဝိဝဏ္ဏာ၊ ခရုသင်း ဝမ်းရေ အဆင်းရှိကုန်၏။ ကောလပ္ပ မာဏာပိ၊ ဆီးသီးခန့် ပမာဏ ရှိကုန်သည်လည်း။ ဟောန္တိ၊ ဖြစ်ကုန်၏။ ပဘာဝိဟီနာ စ။ အရောင်အဝါလည်း မရှိလွှန်းကုန်။ သိပ္ပိဇာ။ ယောက်သွား၌ဖြစ်သော ပုလဲတို့သည်။ ပဘာဝိသေသယုတ္တာ၊ အရောင်အဝါ အထူးနှင့် ယှဥ်ကုန်၏။ နာနာသဏ္ဌာနာ၊ အထူးထူးသော သဏ္ဌာန်ရှိကုန်သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။

**အဲကာရန်ပုစ္ဆာ ၂၄–ပုဒ် အဖြေပြီး၏**

❖❖❖❖❖

## (၃) 'အဲ့' ကာရန်ပုစ္ဆာ ၁၁–ပုဒ်အဖြေ။

## ၂၀၁။ ခြေမတော်တဲ့၊ ကွဲပြန်ခဲ့၊ ဘဲ့ဝိပါက်တော်ပါသနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

> ဒေဝဒတ်သည် ကျောက်ဖြင့်ချ၍ ခြေမတော်၌ ထိပါးခြင်းကို ခံတော်မူရသည် လည်းတစ်ပါး။
>
> ခြေမတော်၌ သွေးစိမ်းတည်ခြင်းကို ခံတော်မူရသည်လည်းတစ်ပါး။
>
> ဇီဝကဓားဖြင့် ခွဲခြင်းကို ခံတော်မူရသည်လည်းတစ်ပါး။
>
> ဤဝိပါက်တော် သုံးပါးကို သိမ်းရုံး၍ ပုစ္ဆာထားလေသည်။

အဘယ့်ကြောင့် သိသနည်းဟူမူကား–အကြောင်းဖြစ်သော ကံက တစ်ဦးစီ တစ်ဦးစီ ဖြစ်သောကြောင့် သိသတည်း။

ပုစ္ဆာ၌ အကျိုးဝိပါက်ကိုမေးသဖြင့် အကြောင်းကံလည်း မကင်းရာသောကြောင့် အဝိနာဘာဝနည်းအားဖြင့် သိမ်းရုံးမိလေသတည်း။

ထိုသုံးပါးတို့တွင်–

## ဒေဝဒတ် ကျောက်ဖြင့်ချ၍ ခြေမတော်ကို ထိသောဝိပါက်ကား အဘယ်မကောင်းမှုကြောင့်နည်းဟူမူ။

လွန်လေပြီးသောအခါ ဘုရားအလောင်းတော်သည် သူကြွယ်အမျိုး၌ ဖြစ်၍ တစ်ဖသားချင်းဖြစ်သော ညီအငယ်နှင့် စည်းစိမ်ဥစ္စာကြောင့် ခိုက်ရန်ဖြစ်ကြရာ ညီအငယ်ကို လှည့်ပတ်ကာခေါ်၍ တောင်ချောက်ကြား၌ ကျောက်ဖြင့် ထုခတ်၍ သတ်လေဖူးသော ကံကြောင့် အပါယ်ငရဲ၌ ခံရပြီးသော် အဆုံးစွန်သော ကိုယ်တော်၏အဖြစ်သို့ ရောက်သောအခါ ဝေဘာရတောင်ခြေရင်း၌ သီတင်းသုံးနေတော်မူစဉ် ဒေဝဒတ်သည် သတ်လိုသော အကြံဖြင့် တောင်ထိပ်ထက်မှ ကြီးစွာသော ကျောက်ဖြင့် လိမ့်ချလိုက်သော်၊ ဘုရားဘုန်းတော်ကြောင့် တောင်ခုလတ်တွင် ကျောက်တစ်လုံးဆီး၍ ခံလင့်သဖြင့် ထိုကျောက်ကို ခတ်မိရာတွင် တစ်ခုသော ကျောက်လွှာသည် စဉ်ထွက်လေ၍ ခြေမ တော်ကို ထိခိုက်သဖြင့် ဆင်းရဲဝေဒနာကို ခံရလေသတည်း။

## သွေးစိမ်းတည်သော ဝိပါက်ကား အဘယ်မကောင်းမှုကြောင့် နည်းဟူမူ

လွန်လေပြီးသောအခါ ဘုရားအလောင်းတော်သည် မထင်ရှားသောအမျိုး၌ ဖြစ်၍ ငယ်သောကာလ ကစား၍နေစဉ် အရှင်ပစ္စေကဗုဒ္ဓါ ဆွမ်းခံဝင်လာသည်ကို မြင်လျက် ရွှင်မြူးလိုသောစိတ်နှင့် ကျောက်ဖြင့်ပစ်လေ၍ ခြေတော်ကိုကျောက်ထိရကား ထိုပစ္စေက ဗုဒ္ဓါ အရှင်သည် နာကျင်စွာသော ဒုက္ခကိုခံရလေသတည်း။ ယင်းသို့သော မကောင်းမှု ကံကြောင့် ငရဲ၌ခံပြီးမှ အဆုံးစွန်သော ကိုယ်တော်၏ အဖြစ်၌လည်း သွေးစိမ်းတည်၍ မြင့်ရှည်စွာ ဆင်းရဲဝေဒနာကို ခံတော်မူရသတည်း။

## ဆရာဇီဝကသည် ခြေမတော်ကို ဓားငယ်နှင့်အခွဲခံရသော ဝိပါက်ကား အဘယ်မကောင်းမှုကြောင့် နည်းဟူမူ

လွန်လေပြီးသောအခါ ဘုရားအလောင်းတော်သည် ပဒေသရာဇ်မင်း ဖြစ်သောအခါ ယုတ်မာသောသူနှင့် ပေါင်းမိသဖြင့် သေအရက်ကို ယစ်မူးစွာ သောက်စား၍ သေယစ်သောအခါ အပြစ်မရှိသော သူအား ဓားနှင့်ခွမ်းခဲ့ဖူး၏။ ထိုမကောင်းမှုကြောင့် အပါယ်၌ခံရပြီးမှ အဆုံးစွန်သောကိုယ်၏ အဖြစ်ဝယ် ခြေမတော် သွေးစိမ်းတည်သည်ကို ဇီဝကဆေးသမား ဓားငယ်ဖြင့်ခွဲ၍ သွေးခဲကို အမွှမ်းအထုတ် ခံတော်မူရသည်။

ဘုရားသခင် ခံတော်မူရသော ဝိပါက်တော်ကား ဤ ၃–ပါးသာ မဟုတ်၊ ၁၂–ပါးပင် ဖြစ်သည်။

၁၂–ပါးဟူသော်ကား–

(၁) ခြောက်နှစ်ပတ်လုံး ဒုက္ကရစရိယာကျင့်တော်မူရခြင်း။
(၂) စိဥ္စမာဏဝိကာ၏ အစွပ်အစွဲကို ခံရခြင်း။
(၃) သုန္ဒရီပရိဗိုဇ်မ၏ စွပ်စွဲခြင်းကို ခံရခြင်း။
(၄) ထိုမိန်းမ သေလေသောကြောင့် မင်းနှင့်တကွသော ပြည်သူတို့ယုံမှားစွပ်စွဲ
 သည်ကို ခံရခြင်း။
(၅) ဒေဝဒတ် ကျောက်ဖြင့်ချသည်ကို ခံရခြင်း။
(၆) ကျောက်ချပ်ကွာ၍ ခြေမတော်၌ ကြိတ်မိသည်ကို ခံရခြင်း။
(၇) သွေးစိမ်းတည်သောကြောင့် ဇီဝကသည် ဓားဖြင့်ခွဲသည်ကို ခံရခြင်း။
(၈) နာဠာဂီရိဆင်ဖြင့် တိုက်သည်ကို ခံရခြင်း။
(၉) ခေါင်းတော် ရုံခါရုံခါ ခဲသည်ကို ခံရခြင်း။
(၁၀) ဝါတွင်းသုံးလပတ်လုံး မုယောဆွမ်းကိုသာ ဘုဉ်းပေးတော်မူရခြင်း။
(၁၁) ကျောက်ကုန်းတော်နာရခြင်း။
(၁၂) နိဗ္ဗာန်ယူတော်မူခါနီးသော ကာလ၌ ဝမ်းတော်လားရခြင်း။

ဤ ၁၂–ပါးတို့တည်း။

ထို့ကြောင့် အပဒါန်အဋ္ဌကထာ၌–

**ဒုက္ကရဉ္စ အဗ္ဘက္ခာနံ၊ အဗ္ဘက္ခာနံ ပုနာပရံ။**
**အဗ္ဘက္ခာနံ သီလာဝေဓော၊ သကလိကဝေဓော တထော။**
**နာဠာဂီရိသတ္ထစ္ဆေဒေါ၊ သီသံ ဒုက္ခံ ယဝက္ခာဒနံ။**
**ပိဋ္ဌိဒုက္ခ မတိသာရော၊ ဣမေ အကုသလကာရဏာ။**

ဟူ၍ မိန့်တော်မူသည်။

ထိုဥဒ္ဒေသ၏ အကျယ်ကား–

ကဿပဘုရား ပွင့်တော်မူသောအခါ ငါတို့ဘုရားအလောင်းတော်သည် ဗြဟ္မဝဓနမြို့၌ ဇောတိပါလမည်သော ပုဏ္ဏားလုလင် ဖြစ်တော်မူ၏။ ထိုဇောတိပါလသည် အများရှိသေရသော ဗြဟ္မဏမျိုးတည်းဟူသော ဇာတိမာန်ဖြင့် ယစ်ဘိရကား မြတ်စွာဘုရား၌ မသဒ္ဓါမကြည်ညို၊ မိမိကိုယ်ကိုသာ ချီးပလေ့ပြု၏။ တစ်ပါးသော သူတို့က ''ငါတို့ဘုရားသည် ခြောက်ရက် ဒုက္ကရစရိယာကျင့်သဖြင့် သဗ္ဗညုတအဖြစ်သို့ ရောက်တော်မူသည်''ဟု ချီးမွမ်းပြောဆိုကြသည်ကို ကြားလျှင် ''သင်တို့၏ဘုရားသည် ခြောက်ရက်မျှကျင့်သဖြင့် ဘုရားမဖြစ်နိုင်ရာ။ သင်တို့မလိမ်မာ၍သာ ယုံလေသည်။ ဤဦးပြည်းအား အဘယ်မှာ သဗ္ဗညုတဉာဏ်ရှိအံ့နည်း။ ငါမူကား ဘုရားဖြစ်မည်မှန်လျှင်

ခြောက်နှစ်ပင် ဒုက္ကရစရိယာ ကျင့်ဝံ့သေး၏'' ဤသို့ စသည်ဖြင့် ရှုတ်ချ၍ဆိုလေ့ပြု၏။ ထို့နောက်မှ သတိသံဝေဂ ရသောအခါ ဘုရားသာသနာတော်၌ လွန်စွာကြည်ညိုသည် ဖြစ်၍ ဘုရားသခင်နှင့်တကွ သံဃာတော်တို့အား လှူဒါန်းပူဇော်ခြင်း အစရှိသော ဒါနပါရမီ, သီလပါရမီ တရားတို့ကို အားထုတ်သဖြင့် ထိုဘုရားဗျာဒိတ်တော်ကို ခံလျက် သံသရာ၌ ကျင်လည်ခဲ့ပြီးမှ သိဒ္ဓတ္ထမင်းအဖြစ်သို့ရောက်၍ နှစ်ဆယ့်ကိုးနှစ် မြောက်၌ တောထွက်၍ ရဟန်းပြုပြီးသော် ဥရုဝေလတောအုပ်၌ တစ်လုတ်သောဆွမ်းဖြင့် နေ့ကို လွန်စေခြင်း သစ်သီးတစ်လုံးဖြင့် နေ့ကိုလွန်စေခြင်း။ အာဟာရနည်းပါး ခြင်းကြောင့် အသားမရှိဘဲ အရိုးအရေမျှသာ ကြွင်းခြင်းအစရှိသော ဒုက္ကရစရိယာ အကျင့်ကို ခြောက်နှစ်တိုင်ကျင့်ရလေသည်။ ခြောက်နှစ်မြောက်သောကာလ ''ဤအကျင့် ကား ဘုရားဖြစ်ကြောင်း မဟုတ်ချေ။ ဣန္ဒြေကိုမျှအောင် ပြုဦးအံ့''ဟု ကြံ၍ မြို့ရွာ ရပ်ဌာန၌ ဆွမ်းခံကာ ဘုဉ်းပေးပြီးလျှင် ဣန္ဒြေမျှသောအခါ၊ သတိ၊ ပညာ၊ သမာဓိတို့၏ ရင့်ခြင်းသို့ရောက်ရကား ငါဘုရားဖြစ်တော့အံ့''ဟု သိ၍ ဗောဓိပင်ရင်းသို့ ကပ်လေလျှင် မာရ်ငါးအင်ကို အောင်မြင်တော်မူ၍ သဗ္ဗညုတ ဘုရားအဖြစ်သို့ ရောက်တော်မူလေ၏။

တစ်ပါးသော ဘုရားရှင်တို့မှာ ဒုက္ကရစရိယာ ခြောက်ရက်လည်းကောင်း, ခုနစ်ရက် လည်းကောင်း, တစ်ပက္ခသော် လည်းကောင်း, တစ်လသော် လည်းကောင်း ကျင့်ရကုန်သည်။ ငါတို့ဘုရားမှာ မြင့်ရှည်စွာ ကျင့်ရခြင်းသည် ရှေးကဿပ ဘုရား သခင်၏ အကျင့်ကို ကဲ့ရဲ့ဖူးသော မကောင်းမှုကံ၏ အကျိုးဆက် ဝိပါက်ဖြစ်သည်။

**ဒုတိယဝိပါက်၏ အတ္ထုပ္ပတ္တိကား–** ရှေးသောအခါ ငါတို့ ဘုရားအလောင်း တော်သည် ဗာရာဏသီပြည်ဝယ် သူဆင်းရဲအမျိုး၌ဖြစ်၍ အတတ်ပညာမရှိရကား သောက်စားပျော်မြူးသော အမူ၌သာ လေ့လာတတ်သော ''မုနာဠိ'' အမည်ရှိသော သေသောက်ကြူးသည်ဖြစ်၏။ တစ်ရံသောအခါ ကြီးစွာသော တန်ခိုးအာနုဘော်ရှိသော ''သုရဘိ''မည်သော ပစ္စေကဗုဒ္ဓါအရှင်သည် ဆွမ်းခံဝင်တော်မူသည်ကို မြင်လျှင် ''ဤအရှင်ဦးပြည်းတို့ကား သူတစ်ပါးကဲ့သို့လုပ်ခြင်း ကြံခြင်းကိုမပြု၊ အမှုမဲ့နေပြီးလျှင် သူ့အိမ်တွင် ကျက်ပြီးသားအစာကို အသင့်သာ တောင်းစားလေ့ပြု၏။ ဤအရှင်တို့အား အဘယ်မှာ မြတ်သော ကိုယ်ကျင့်တရား ရှိအံ့နည်း''ဟု ကဲ့ရဲ့စွပ်စွဲ ဆဲရေးပြောဆို၏။' ထိုသေသောက်ကြူးသည် ထိုမကောင်းမှုကြောင့် စုတေသောအခါ အပါယ်လေးဘုံ၌ များစွာသော ဒုက္ခကိုခံခဲ့ပြီးမှ ယခုဂေါတမဘုရား ဖြစ်တော်မူသောအခါ ပါရမီတော် အဟုန်ကြောင့် အလုံးစုံသော ဘုရားဂုဏ်ကျေးဇူးကိုရ၍ သတ္တမဝါ၌ တာဝတိံသာမှ သက်၍ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ ကိန်းအောင်းတော်မူသောကာလ၊ ယမိုက်ပြာဋိဟာ ပြသည်ကိုမြင်ရသော သူအပေါင်းတို့သည် သောင်းသောင်းဖြာမျှ ပူဇော်ကြသောကြောင့် ဆွမ်း, သင်္ကန်းစသော လာဘသက္ကာရတို့သည် အနန္တအတိုင်း မသိ ဖြစ်ကုန်ရကား တိတ္ထိဆရာများတို့သည် မစားသောက်၊ မဝတ်လောက်ပျောက်ပျက် တိမ်ငုပ်လေလျှင် ဘုရားသခင်ကို ငြူစူ၍ မသူတော်ထင်မှတ်စိမ့်သောငှာ ''စိဥ္စမာဏ

ဝိကာ'' အမည်ရှိသော မိန်းမငယ်ကို ပရိသတ်လေးပါး အလယ်၌ မဖွယ်ရာသော စကားဖြင့် တင်စားစွပ်စွဲ စေသည်ကို ခံရလေသတည်း။

**တတိယဝိပါက်၏ အတ္ထုပ္ပတ္တိကား–** ငါတို့ဘုရားအလောင်းတော်သည် ဤ ''မုနာဠိ'' သေသောက်ကြူးဖြစ်သောအခါ ''သုရဘိ'' မည်သော ပစ္စေကဗုဒ္ဓအား တစ်ခါ တစ်ကြိမ်သာ စွပ်စွဲ ကဲ့ရဲ့မိသည်မဟုတ်။ ခင်ပွန်းယုံတ်နှင့် ပေါင်းမိ၍ ခရီးလမ်းကြောင်း၏ အနီး၌ နေပြီးလျှင် ''ငါ့ရှင် ဒုဿီလ ကာမချမ်းသာကို ဆိတ်ကွယ်ရာ တောအုပ်၌ ခံစားပြီးလျှင် သူတော်စင်ယောင်ဆောင်၍ လူ့ဘောင်သို့ ဝင်သလော'' ဤသို့ စသည်ဖြင့် ပါပဓမ္မနှင့် စပ်လျက် အထပ်ထပ်ဆဲရေးဖူး၏။ ထိုမကောင်းမှုကြောင့် စုတေသောအခါ အပါယ်လေး ဘုံ၌ များစွာသောဆင်းရဲကို ခံပြီးမှ၊ ယခုဂေါတမဘုရားဖြစ်၍ ဝါတော် နှစ်ဆယ်ကျော်သောအခါ သာဝတ္ထိပြည်၌ နေတော်မူစဉ် မြို့ဝန်းကျင်၌နေသော တိတ္ထိ တို့သည် လာဘ်ပူဇော်သကာ ခေါင်းပါးလှရကား ဘုရားသခင်ကို လူတို့အကြည်ညို ပျက်စေ လိုသောကြောင့် ''သုန္ဒရီ''မည်သော ပရိဗိုဇ်မကို စွပ်စွဲစေသတည်း။

စွပ်စွဲဟန်ကား– နိဂဏ္ဌမည်သော တိတ္ထိဆရာသည် မိမိတို့ထံ ဆည်းကပ်လေ့ ရှိသော အလွန်အဆင်းလှသော ''သုန္ဒရီ''မည်သော ပရိဗိုဇ်မကို ဤသို့ဆို၏။ ''နှမ– ရှင်ဂေါတမ ရောက်လာသည်မှစ၍ ငါတို့မှာ ရေခန်းသောကြာကဲ့သို့ တစ်နေ့ထက်တစ်နေ့ ခြောက်သွေ့သည်သာဖြစ်၍ စားရာဖို့ ဝတ်ရာဖို့မျှ မရှိကြသည်ကို နှမဘယ့်ကြောင့် ကြည့်၍ နေနိုင်ပါသနည်း''ဟု ဆို၏။

ထိုစကားကို ကြားသော် သုန္ဒရီမကလည်း ''အရှင်ဘုရား–ဤအရာဝယ် ဘယ်သို့ ကျွန်မ ပြုရအံ့နည်း''ဟု မေး၏။

''နှမ–သင်ကဲ့သို့ လှပတင့်တယ်သောမိန်းမကို ယောကျာ်းဟူသမျှ မစုံမက် ကြသော သူမည်သည်မရှိ၊ အရှင်ဂေါတမ၏နေရာ ကျောင်းပါးသို့သွားပြီးလျှင် အရှင် ဂေါတမအား ဖျော်ဖြေရသည်ဟု ပြောကြားလျှင် လူအများ သံသယရှိ၍ မိမိတို့၏ သီလဂုဏ်သည် တိမ်ဖုံးသော လကဲ့သို့ဖြစ်လတ္တံ့။ ယင်းသို့ဖြစ်မှ ငါတို့နေနိုင် တော့မည်''ဟု ဆို၏။

ထိုအခါ သုန္ဒရီမကလည်း ''အရှင်ဘုရား–ဤအမှုကို မစိုးရိမ်ပါလင့်၊ မကြာမြင့်မီ ဖြစ်စေအံ့''ဟု ဝန်ခံပြီးလျှင် ထိုနေ့ပင် ဇေတဝန်ကျောင်းတော်သို့ ညချမ်းအခါသွား၍ သင့်ရာအိပ်ပြီးလျှင် မလင်းခင်ပြန်လာ၏။ ခရီးမှာတွေ့သော သူတို့က ''ဘယ်မှ လာသနည်း''ဟု မေးလျှင် ''အရှင်ဂေါတမကို တစ်ညလုံး ဖျော်ဖြေ၍ အိပ်စေပြီးမှ ပြန်ခဲ့ရသည်''ဟု ပြော၏။

ဤနည်းဖြင့် ဆယ်ရက်၊ ဆယ့်ငါးရက်ရှိသောအခါ တိတ္ထိဆရာတို့လည်း ပြည်သူ ရွာသားတို့အား ဤသို့ပြောကြား၏ ''အမောင်တို့၊ ဘုရားဂေါတမ၏ အမှုအရာကို

ရှုပါ ချေဦးလော့ ငါတို့သုန္ဒရီနှင့် ဆက်ဆံကြချေပြီတကား–''ဟု ပြောဆို၏။ ယင်းသို့ သတင်းလွှင့် ပြီးလျှင် သေသောက်ကြူးတို့ကို တံစိုးပေး၍ သုန္ဒရီမကို သတ်စေပြီးသော် ဇေတဝန် ကျောင်းတော်၏အပါး ပန်းချုံကြား၌ အလောင်းကိုထားစေ၏။ နံနက်အခါ တိတ္ထိဆရာတို့လည်း ''ငါတို့တပည့် ဖြစ်သော သုန္ဒရီမသည် ရှာဖွေမရ ပျောက်သည်'' ဟု အုတ်အုတ် ကျက်ကျက်ပြုကြပြီးမှ ကောသလမင်းကြီးအား သိစိမ့်သောငှာ ဇေတဝန် ကျောင်းတော်၏အပါး ပန်းချုံကြားမှထုတ်၍ အလောင်းကို ညောင်စောင်းဖြင့် တင်ယူ ပြီးလျှင် မင်းကြီး အားပြ၏။ ''အရှင်ဂေါတမ၏ လည်းကောင်း, တပည့်သံဃာတော်တို့၏ လည်းကောင်း, ပြုသောအမှုကို ရှုကြပါကုန်လော့၊ သုန္ဒရီမအား ပြစ်မှားပြီးလျှင် လူရှင် အများ မထင်ရှားစိမ့်သောငှာ သတ်လေသလော''ဟု ပြည်တွင်း ပြည်ပ၌ ကြွေးကြော်၏။

ထိုအခါ ပြည်သားတို့တွင် ပညာပါးသောသူတို့သည်''ဘုရားသခင့် အမှု ပင်လော, သံဃာတို့ အမှုပင်လော''ဟု တွေးတောယုံမှား ရှိကြကုန်၏။

ကောသလမင်းသည်လည်း သတ်သောသူတို့ကို စုံစမ်းသော်–သေသောက် ကြူးတို့သည် သေသောက်၍ ဥစ္စာဝေရာ ငြင်းခုံခြင်းဖြစ်၍ 'သင်သည် သုန္ဒရီမကို ဆွဲငင်ရုံသာ၊ ငါမူကား သတ်ရသည်၊ ငါပို၍ယူမည် ဤသို့ စသည်ဖြင့် ဆိုကြသော စကားကို မင်းချင်းတို့ကြား၍ ဖမ်းယူပြီးလျှင် မင်းကြီးအားပြလေ၏။ မင်းကြီးကလည်း ''သင်တို့သည်သုန္ဒရီမကို သတ်သလော''ဟု မေး၏။ သတ်ကြောင်းကို လျှောက်လျှင် ''သင်တို့အား ဘယ်သူ တိုက်တွန်းသနည်း''ဟု မေး၏။ တိတ္ထိဆရာတို့ တံစိုးပေး၍ တိုက်တွန်းကြောင်းကို လျှောက်လျှင် ထိုဆရာတို့ကို မင်းအာဏာဖြင့်ခေါ်စေ၍ နှောင်ဖွဲ့ ပြီးသော် အသီးသီးသော ရာဇဝတ် မင်းဒဏ်ထား၍ ဘုရားသခင်၌ လည်းကောင်း, သံဃာတော်တို့၌လည်းကောင်း စိုးစဉ်မျှ အပြစ်မရှိကြောင်းကို စည်မောင်းခတ် ကြော်ငြာ ရလေ၏။

ဤသို့ သုန္ဒရီမ စွပ်စွဲပြောဆိုပြီးသည့်နောက် တိတ္ထိဆရာတို့သည် သုန္ဒရီမကို သတ်၍ တစ်ထပ်ပြောဆိုသည်ကို ခံရခြင်း **စတုတ္ထဝိပါက်တော်ကား–**

ငါတို့ဘုရားအလောင်းတော်သည် ရှေးသောအခါ ပညာဥစ္စာများစွာသော ပုဏ္ဏား အမျိုး၌ဖြစ်၍ ပြည်သူတို့ ပူဇော်ချီးမြှောက်ခြင်းကို ခံလျက်နေသတည်း။ တစ်ရံသော အခါ လူတို့၏ ချမ်းသာ၌ သံဝေဂရသဖြင့် ရသေ့ရဟန်းပြုပြီးသော်၊ တောကြီးသို့ဝင်၍ ဈာန်အဘိညာဉ် တရားကို အားထုတ်ပါသော်လည်း မရသောကြောင့် တစ်ဖန်မြို့အနီးသို့ ပြန်လာ၍ များစွာသော အမျိုးသားတို့ကို သင်ကြားပြသကာနေ၏။ ထိုအခါ ဟိမဝန္တာမှ ဈာန် သမာပတ်ရသော ရသေ့တစ်ဦးသည် ထိုမြို့အရပ်၌ ဝါကပ်လာသဖြင့် ပြည်သူ ပြည်သားတို့သည် များစွာပူဇော်ကြကုန်သော် အလောင်းတော် ရသေ့သည် ငြူစူ စောင်းမြောင်းခြင်း ရှိရကား တစ်ဦးသော မိန်းမကို ထိုရသေ့နှင့် အရောဝင်စေပြီးလျှင် ကာမဂုဏ် ယှက်တင်ကြောင်း၊ သီလမရှင်ကြောင်းဖြင့် မကောင်းသော သတင်းသံကို

ဖြစ်စေ၍ မိမိ၏ တပည့်တို့ကိုလည်း ထိုရသေ့အား များစွာရှုတ်ချ ဆဲရေးစေ၏။ ထိုမကောင်းမှုကြောင့် စုတေသောအခါ အပါယ်လေးဘုံ၌ များစွာသော ဆင်းရဲခံရပြီးမှ ဘုရားဖြစ်သော ကာလလည်း သုန္ဒရီမ၏ သေခြင်းကို အရင်းပြု၍ တိတ္ထိတို့ စွပ်စွဲခြင်းကို ခံတော်မူရသတည်း။

(ဒေဝဒတ်ကျောက်ဖြင့် ချသည်ကို ခံရခြင်း, ခြေမတော်၌ သွေးခဲတည်ခြင်း ဓားခွဲသည်ကို ခံရခြင်းဟူသော ဝိပါက်သုံးပါးမှာ ရှေးကပြခဲ့ပြီ)

## နာဠာဂိရိဆင်နှင့်အတိုက်ခံရသော အဋ္ဌမဝိပါက်တော်ကား–

ငါတို့ဘုရားအလောင်းတော်သည် ရှေးသောအခါ ဗာရာဏသီပြည်တွင် မင်းဆင်ထိန်း အမျိုး၌ဖြစ်၍ ဆင်စီးကာ လှည့်လည်ရာတွင် ခရီးမဖြင့် ဆွမ်းခံဝင်လာသော ပစ္စေကဗုဒ္ဓါတစ်ဦးကို မြင်၍ ''အရှင်ဘုရား ရှောင်လော့ ရှောင်လော့''ဟု ဆို၏။ ထိုပစ္စေက ဗုဒ္ဓါလည်း ရွာလယ်၌ ဆွမ်းခံခိုက်ဖြစ်၍ ဖြည်းဖြည်းသာသာ သွားသည်ကို ''ငါ့အား မလေးမစား ပြုရာသလော''ဟု ဒေါသစိတ်ဖြစ်၍ ဆင်ကိုထိုးစိမ့်သောငှာ ချွန်းကိုဖွင့်ကာလိုက်၏။ ပစ္စေကဗုဒ္ဓါလည်း လျင်စွာကောင်းကင်သို့ ပျံ၍ရလေသော် သက်န်းတော် လျှောကျရစ်၏။ ထိုသက်န်းကို ဆင်နှင့်နင်း၍ အမြှင်းမြှင်း ကွဲပြတ်စေ၏။ ထိုမကောင်းမှုကြောင့် စုတေသောအခါ အပါယ်လေးဘုံ၌ များစွာဆင်းရဲကို ခံခဲ့ရ၍ ပစ္ဆိမဘဝ၌ ဘုရားအဖြစ်သို့ ရောက်သောအခါ အဇာတသတ်မင်းနှင့် ဒေဝဒတ်တို့ နာဠာဂိရိဆင်နှင့် တိုက်လွှတ်သည်ကို ခံတော်မူရသတည်း။

## ရံဖန်ခေါင်းခဲတော်မူရသော နဝမဝိပါက်တော်ကား–

ငါတို့ဘုရားအလောင်းသည် ရှေးသောအခါ တံငါတို့ရွာ၌ ဆင်းရဲစွာသော အမျိုးသားတစ်ဦးဖြစ်၍ တံငါများတို့လုပ်ကိုင်ရာသို့ သွားပြီးလျှင် ''ငါးမိ၍ရိုက်သတ်သော အခါ ဦးခေါင်းကိုရိုက်မှ သေလွယ်သည်''ဟု နည်းပေး၍ ဝမ်းမြောက်ဝမ်းသာ ရှိခဲ့ဖူး၏။ ထိုမကောင်းမှုကြောင့် သဗ္ဗညုတအဖြစ်သို့ ရောက်သည်တိုင်အောင် ရံဖန် ခေါင်းတော် ခဲခြင်း တည်းဟူသော ဒုက္ခဝိပါက်ကို ခံရလေသတည်း။

## မုယောဆွမ်းဘုဉ်းပေးရသော ဒသမဝိပါက်တော်ကား–

ငါတို့ဘုရားအလောင်းသည် ရှေးဖုဿဘုရားပွင့်တော်မူသောအခါ မသဒ္ဓါသော သူ၏ အမျိုး၌ဖြစ်၍ ဘုရားသခင်နှင့်တကွသော သံဃာတော်တို့အား ပြည်သား ပြည်သူ တို့သည် ကြည်ဖြူလေးမြတ်စွာ ကောင်းမွန်သော အရသာနှင့် ဃနာနို့ဆွမ်း လှူဒါန်း ပူဇော် ကြသည်ကိုမြင်လျှင် ငြိုငြင်ငြူစူသောစိတ် ရှိသည်ဖြစ်၍ ''ဤဦးပြည်း ရဟန်း တို့အား ကောင်းမွန်စွာ လှူဒါန်းသဖြင့် အဘယ်အကျိုးရှိအံ့နည်း''ဟု ဆိုလေ့ပြု၏။ သံဃာတော်တို့ ဃနာနို့ဆွမ်း စားရသည်ကိုမြင်လျှင် ''ငါ့အရှင်တို့ကား, အလုပ်မရှိသော လူပျင်းတို့တည်း။ မုယောထမင်းနှင့်သာလျော်၏'' ဤသို့စသည်ဖြင့် ဆို၍ ဆဲရေး၏။ ဤမကောင်းမှုကြောင့် စုတေသောအခါ အပါယ်လေးဘုံ၌ များစွာသော ဆင်းရဲကို

ခံခဲ့ရပြီးမှ ဘုရားဖြစ်တော်မူသောကာလ ဝေရဉ္ဇတိုင်းတွင် ဝါကပ်တော်မူသောအခါ အလွန်ရှားပါးလှ၍ မုယောဆွမ်းကိုသာ ဘုဉ်းပေးရသော ဒုက္ခဝိပါက်ကို ခံရလေသတည်း။

**ကျောက်ကုန်းတော်နာရခြင်း ကောဒသမ ဝိပါက်တော်ကား-**

ငါတို့ ဘုရားအလောင်းတော်သည် ရှေးသောအခါ ဗာရာဏသီပြည်ဝယ် တစ်ဦးသော သူကြွယ်အမျိုး၌ဖြစ်၍ အတန်ငယ်ကွသောကြောင့် ''ဝါမန'' ဟူသော အမည်ကိုရ၏။ ကိုယ်၏ အစွမ်းအားမူကား အလွန်ကြီး၏။ ဆင်ငါးစီးအားကို ဆောင်နိုင်၏။ ''မလ္လက'' အမည်ရသော မင်းကြီး၏ လက်ပမ်းသည် တစ်ယောက်သည် လက်ပမ်း သဘင်၌ မည်သူမျှ မယှဉ်ဝံ့အောင် ကျော်စောခြင်း ရှိသည်ဖြစ်၍ ထိုထို အရပ်သို့ လှည့်ပတ်ကာ ယောကျ်ားတကာတို့၏ ပူဇော်ခြင်းကို ခံလျက် ဘုရားအလောင်းရှိရာ အရပ်ဌာနသို့ ရောက်လာ၏။ ဝါမနလည်း ''ငါ့အစွမ်းကို ပြလိုက်အံ့'' ဟု ကြံလျက် ''ဤမလ္လက လက်ပမ်းသည်နှင့် ငါလက်ပမ်းကစားလိုသည်၊ မြို့သားရွာသားတို့ ကြည့်လိုလျှင် သဘင်ပြုကြလော့''ဟု ဆို၏။ ထိုစကားကိုကြားသော် မြို့သူရွာသားတို့လည်း များစွာစည်းဝေးကြကုန်၏။

ထိုအခါ လက်ပမ်းသည် မလ္လကလည်း ''အမြို့မြို့ဌာန၌ ငါ့ကို ဖက်ဝံ့သူ မပေါ်ဘဲလျက် ဤဝါမန ထွက်၍ ဖက်သည်ကား ငါ့ဂုဏ် တက်လို၍သာဖြစ်သည်။ ဤကွေးကိုကား လက်တစ်ဖက်မျှဖြင့် မညှဉ်းပန်းလောက်''ဟု ဝမ်းမြောက်ဝမ်းသာ သဘင်သို့ လာပြီးလျှင် ကြော်ငြာခြင်း ခုန်လွှားခြင်း စသည်ဖြင့် ဟန်ရေးပြ၏။

ဝါမနလည်း ထိုနည်းပြုပြီးလျှင် မလ္လက၏ လက်ကိုဆွဲငင်၍ ကောင်းကင်သို့ မြှောက်ပြီးသော် လက်တစ်ဖက်ပေါ်၌ ဂျင်ကဲ့သို့ လည်စေပြီးမှ မြေကြီးတွင် ခြေကို ကိုင်၍ ရိုက်၏။ ကျောရိုးဆက်တို့သည် ပြုတ်ကုန်သဖြင့် မသေရုံကြွင်းလေ၏။ မြို့သူရွာသားတို့သည်လည်း ဝမ်းမြောက်ဝမ်းသာ ကြော်ငြာကြွေးဟစ်လျက် ဦးရစ်မြှောက်ခြင်း, ပန်းပေါက်ပေါက်ကြဲခြင်း စသည်ဖြင့် ဝါမနကို ချီးပပူဇော်ကုန်၏။ ဝါမနလည်း ထိုမလ္လက လက်ပမ်းသည်အား ဆေးဝါးကုသ၍ ဆုံးမပြောဆိုပြီးမှ လွှတ်လိုက်၏။

ဤသို့ ပြုဖူးသော အကုသိုလ်ကြောင့် သံသရာဝဋ်၌ ကိုယ်လုံးနာရခြင်း၊ ဦးခေါင်းနာရခြင်းစသော ဒုက္ခကိုခံစားလျက်၊ ဘုရားဖြစ်သော အခါလည်း ကျောက်ကုန်းတော်နာခြင်း တည်းဟူသော ဝိပါက်တော်ကို ခံရလေသတည်း။

**ဝမ်းတော်လားရခြင်းတည်းဟူသော ဒွါဒသမ ဝိပါက်ကား-**

ရှေးသောအခါ ငါတို့ဘုရားအလောင်းတော်သည် သူကြွယ်မျိုး၌ဖြစ်၍ အရွယ်ရောက်သောကာလ ဆေးအတတ်ကိုသင်ပြီးလျှင် လူတို့အားဆေးကု၍ အသက်မွေး၏။ တစ်ဦးသော သူဌေးသား၌ ရောဂါကပ်ဆိုက်၍ ကုသပါ တောင်းပန်သောကြောင့် ကုသလျှင် မကြာခင် ချမ်းသာ၏။ သူဌေးသား ဆေးခ ပေးရမည်ကို ကြောက်သော

ကြောင့် ကောက်ကျစ်သောစကားဖြင့် ''ရောဂါမချမ်းသာ''ဟု ပြောဆိုကာ နေ၏။ ထိုအခါ ဆေးဆရာသမားလည်း ''ဤသူကား ဆေးခမပေးရုံသာမက ငါ၏ ပညာဂုဏ် ပျက်အောင် ပြောသည်''ဟု ဒေါသရှိရကား ဝမ်းလားဆေးကို သောက်စေ၍ သေဆုံး ခြင်းသို့ ရောက်လေ၏။ ထိုမကောင်းမှုကြောင့် ငရဲ၌ခံပြီးသော် သံသရာဘဝ၌ ဝမ်းလား၍ သေရခြင်းသာ များစွာဖြစ်ပြီးမှ ပစ္ဆိမဘဝ နိဗ္ဗာန်ဝင်အံ့သော ကာလ၌လည်း ဝမ်းလား ခြင်းဟူသော ဒုက္ခဝိပါက်ကို ခံတော်မူရသတည်း။

ဤဝိပါက်တော်တို့၏ အကြောင်းကို အပဒါန်အဋ္ဌကထာ၌မိန့်သည်။

❖❖❖❖❖

## ၂၀၂။ ထွန်တုံးရှိတဲ့၊ ရွှေတွေ့ခဲ့၊ ဖဲ့၍ထမ်းသော် နိုင်လိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– လွန်လေပြီးသောအခါ ဗာရာဏသီ ပြည်၌ ဗြဟ္မဒတ်မင်းကြီး မင်းပြုလတ်သော် ငါတို့ဘုရားအလောင်းတော်သည် တစ်ခုသောရွာ၌ လယ်လုပ်သော အမျိုးသားသည်ဖြစ်၏။ တစ်နေ့သ၌ လူတစ်ယောက်သည် မလုပ်နိုင်၍ စွန့်ပစ်အပ်သောရွာဟောင်းရာတွင် တည်သောလယ်၌ ထွန်ခြင်းကို ပြု၏။ ထိုရွာ၌လည်း ရှေးက သူဌေးတစ်ဦးသည် အလျားလေးတောင် အလုံး ပေါင်လုံးခန့်မျှလောက်ရှိသော ရွှေတုံးကို မြှုပ်ထားပြီးလျှင် သားသမီးတို့အား မပြောဘဲ သေလွန်လေ၍ ထိုရွှေတုံးသည် မြေ၌ကျန်ရစ်လေ၏။ ဘုရားလောင်းသည် လယ်ထွန်လတ်သော် ထိုရွှေတုံးသည် ထွန်သွား၌ငြိလေ၏။ ဘုရားလောင်းလည်း သစ်မြစ်ငြိသည်ထင်၍ မြေကို ယက်လတ်သော် ရွှေတုံးကိုမြင်၍ နေ့အခါ၌ ထွန်ချေးစာဖြင့် ဖုံးထားပြီးမှ နေဝင်ကာလသို့ ရောက်သော် ထွန်ထမ်းပိုးတို့ကို သင့်ရာထား၍ ရွှေတုံးကို အိမ်သို့ယူအံ့သောငှာ ထမ်းပါသော်လည်း မချီမကြွနိုင်ရှိ၏။ ထိုအခါ အနီး၌ထိုင်၍ ဤသို့ကြံ၏ ''ဤရွှေတုံးကို ဤတွင်ထားပြီးလျှင် အိမ်သို့ငါပြန်၍ လူခေါ်ချေက ထိုအခိုက်တွင် သူတစ်ပါးတို့ တွေ့ခဲ့မူ ယူဘိရာသည်။ ငါပါအောင်ဆောင်မှသင့်မည်။ ဤမျှလောက်သောအစုကို သုံးစားအံ့။ ဤမျှလောက်သောအစုကို သိုမှီး၍ထားအံ့။ ဤမျှလောက်သောအစုကို စီးပွားပြုအံ့။ ဤမျှလောက်သော အစုကို အလှူပေးအံ့'' ဤသို့လေးပုံပြု၍ဝေဖန်၏။ ဤသို့ ဝေဖန်ပြီးမှ ထမ်းဆောင်သော် ပေါ့သကဲ့သို့ဖြစ်၍ ဆောင်နိုင်လေ၏။ အလောင်းတော် ယောက်ျားလည်း အိမ်သို့ ရောက်လေသော် စိတ်က ဝေဖန်ခဲ့ရင်းအတိုင်း လေးဖို့ ဝေဖန်လျက် အသက် မွေးခြင်း အလှူပေးခြင်းကိုပြု၍ သေလွန်သောအခါ ကံအားလျော်စွာဖြစ်လေ၏။ ။ ကေနိပါတ် ကဉ္စနက္ခန္ဓ ဇာတ်၌ လာသည်။

ဤ၌ ရွှေတုံး၏ပမာဏကို ''ဥရုမတ္တပရိမာဏံ''ဟူ၍သာ လာသည့် ထွန်တုံးလည်း ပေါင်လုံးခန့်ပင် ရှိသောကြောင့် ပုစ္ဆာ၌ ''ထွန်တုံး ရှိတဲ့၊ ရွှေ တွေ့ခဲ့''ဟု အမေးပြု လေသည်။

❖❖❖❖❖

## ၂၀၃။ ကျယ်လျှင်ကားချဲ့၊ ပဲ့လျှင်ဖဲ့၊ နွဲ့လျှင်ကားသတ် ဘယ်ကြောင့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကြေးသံအိုးငယ်၊ လှေဝယ်ပေါက်ခဲ့၊ ဖာလိုတဲ့၊ ချဲ့၍အသားသွင်း။
အစွန်း အဖျား၊ ပဲ့တုံငြား၊ များစွာဖဲ့၍ ထဲ့ကာပြင်လေမင်း။
ယိမ်းယိုင် ပျောင်းနွဲ့၊ ရှိတုံခဲ့၊ နှံ့၍သပ်လျှင်ပင်း။

အဘယ့်ကြောင့် ဤသို့ပြုရသနည်းဟူမူကား– ပြကတေ့ ခိုင်ခံ့စေလိုသောကြောင့် ပင်တည်း။

❖❖❖❖❖

## ၂၀၄။ ပြဟ္မာမင်းတဲ့၊ စုတေခဲ့၊ တိမ်းငဲ့ တိရစ္ဆာန်ဖြစ်လိမ့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အာရုပ္ပစုတိယာ ဟောန္တိ၊ ဟေဋ္ဌိမာရုပ္ပဝဇ္ဇိတာ။
ပရမာ ရုပ္ပသန္ဓိစ၊ တထာကာမတိဟေတုကာ။
ရူပါဝစရစုတိယာ၊ အဟေတု ရဟိတာ သိယုံ၊

ဟူ၍ အဘိဓမ္မတ္ထ သင်္ဂြိုဟ်ကျမ်း၌ မိန့်သည်နှင့်အညီ၊ အရူပါဝစရလေးဘုံမှ စုတေကုန်သော ပြဟ္မာတို့အား အောက်အောက်သော အရူပါဝစရ ပဋိသန္ဓေသည် ကြဉ်အပ်သော အရူပပဋိသန္ဓေလေးခု၊ ကာမတိဟိတ် ပဋိသန္ဓေလေးခုအားဖြင့် ရှစ်ပါးသော ပဋိသန္ဓေတို့နောင်းသည်။ ရူပါဝစရ စုတိ ခြောက်ခုနောင် အဟိတ် ပဋိသန္ဓေ နှစ်ခုသည် ကြဉ်အပ်သော သဟိတ် ပဋိသန္ဓေ သတ္တရသသာ နောင်းသည်ဖြစ် သောကြောင့် အဟိတ် ပဋိသန္ဓေ နေသော တိရစ္ဆာန် မဖြစ်ဟု မှတ်။

ဓမ္မပဒ အစရှိသော သုတ္တန်အဋ္ဌကထာတို့၌ ပြဟ္မာ့ဘုံမှ သက်၍ ကြက်ဖြစ်ကြောင်း များကို ဆိုသည်မဟုတ်လော၊ အဘယ့်ကြောင့် ပြဟ္မာ စုတေလျှင် တိရစ္ဆာန် မဖြစ်သနည်းဟု ဆိုငြားအံ့။ ထိုသုတ် အဋ္ဌကထာတို့၌ အကြားဘဝကို မပြဘဲ မိဂ ပဒ ဝလဉ္ဇန နည်းအားဖြင့်သာ ဆိုသည်။ ဘဝမခြားဘဲ ဖြစ်ကောင်းသောကြောင့် ဆိုသည်မဟုတ်။ မုချတ္ထကိုကား ထိုအဘိဓမ္မတ္ထ အဋ္ဌကထာ ဆိုတိုင်းသာ မှတ်ရာ၏။

❖❖❖❖❖

30
B

## ၂၀၅။ ကြက်ဆူပင်တဲ့၊ ရိုးရွက်ဖဲ့၊ ဘဲ့ကြောင့် ခားလုံဖြစ်သနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– လူသတ္တဝါတို့ အသက်တိုလှသော အခါဖြစ်၍ အားအင် နည်းလှသောကြောင့် ကြက်ဆူရိုး, ကြက်ဆူရွက်နှင့် ရိုက်ပုတ် လျှင်ပင် သေရတော့သည်။ ယင်းသို့ ခား, လှံ ကိစ္စကို ပြီးစေသောကြောင့် ''ခား, လှံ ဖြစ်၏'' ဟုဆိုသည်။

အကျယ်ကား– ဤသို့တည်း။ ကမ္ဘာဦးအစ၌ လူတို့ အသက်အသင်္ချေ နေသည်မှ စ၍ တရွေ့တရွေ့ အစဉ်အတိုင်း ဆုတ်ယုတ်သဖြင့် ဆယ်နှစ်သာနေ၍ သေရသောအခါ လူတို့သည် လောဘစရိုက်များသည် ဖြစ်အံ့၊ ဝေ်မွတ်ခြင်းတည်းဟူသော ဒုဗ္ဘိက္ခန္တရ ကပ်သည် ဖြစ်၍ သေကြကုန်၏။ ထိုသေသော သူတို့၏အရိုးကို မျောစိမ့်သောငှာ မိုးကြီးသည် သည်းထန်စွာရွာ၍ ရေအလျဉ်တို့သည် ဖျင်ဖျင်စီးသဖြင့် အရိုးတို့သည် မျောပါး၍ သန့်ရှင်းစင်ကြယ်ကုန်၏။ ထိုအခါ နံ့သာမိုးတို့သည် မြေပြင်အလုံးကို ဖုံးလွှမ်းသဖြင့် ရွာ၏။ ထို့နောင်မှ ခြေချင်းလက်ကောက် အစရှိသော တန်ဆာမိုး, ရတနာမိုးတို့သည် ရွာလတ်၍ မြေပြင်တို့သည် တင့်တယ်စွာ ဖြစ်ကုန်၏။ ထိုအခါ ပညာအမြင်နှင့် ပြည့်စုံသော သူတို့သည် ပုန်းအောင်း၍ နေရာအရပ်မှ ထွက်ကြ၍ ထိုတန်ဆာရတနာမိုး တို့ကို ကောက်ယူကာ သုံးဆောင်ကြလျက် မေတ္တာ,ကရုဏာ, သဒ္ဓါ, သီလနှင့်ယှဉ်၍ ကောင်းစွာ ကျင့်ကုန်သဖြင့် ထိုသူတို့၏ သား, မြေး, မြစ်တို့သည် တစ်ဆယ်,နှစ်ဆယ်, လေးဆယ်, ရှစ်ဆယ် အစရှိသဖြင့် အစဉ်အတိုင်း ပွားတက်၍ အသက် အသင်္ချေ နေရပြန်၏။ ရှည်လျားလတ်သော် ထိုအသင်္ချေ နေသောသူတို့သည် သဒ္ဓါ သီလမှ မေ့လျော့ပြန်ကုန်သည်ဖြစ်၍ တရားမစောင့်ကုန်လတ်သည်ရှိသော် ငြင်းခုံ လုယက်ခြင်း တို့သည် ဖြစ်ပြန်သဖြင့် ကျွန်းသူ လူအပေါင်းတို့သည် တိုင်ပင်၍ သဒ္ဓါ သီလနှင့် ပြည့်စုံသော သူတစ်ယောက်အား မင်းမြှောက်ကြကုန်၏။ ဒုတိယ မဟာသမ္မတမင်း၏ အဆက်ဖြစ်သော မင်းအပေါင်းကား ၆၃၀၀၀–ဖြစ်သည်။

ထိုမင်းမှ တရွေ့ တရွေ့ ဆုတ်သဖြင့် လူတို့အသက် ဆယ်နှစ် နေရပြန်သောအခါ လူတို့သည် ဒေါသစရိုက်များသည်ဖြစ်၍ တစ်ဦးသည် တစ်ဦးအား သနားစုံမက်ခြင်း မရှိကြဘဲ တွေ့မြင်လျှင်ကိုက်ခဲ စားသောက်အံ့သကဲ့သို့ ဖြစ်၍ ဖောင်ရိုး, ပြိတ်မြက်ကို လည်းကောင်း ကြက်ဆူပင်၊ ပဒိုင်းပင် တို့ကိုသော်လည်းကောင်း ဆွဲ၍ကိုင်လတ်သော် အဆူး အသွားရှိသော ခား လှံ သန်လျက်ဖြစ်ကုန်၍ အချင်းချင်း ထိုခုတ် သတ်ဖြတ်သဖြင့် သေလေကုန်၏။ ထိုသတ္တန္တရကပ်ဖြင့် သေသော သူတို့၏ အရိုးကို မျောစေခြင်းငှာ မိုးကြီး သည်းထန်စွာ ရွာပေ၏။ ထို့နောက် ရှေးနည်းကဲ့သို့ ပန်းမိုး နံ့သာမိုး တန်ဆာမိုး ရတနာမိုးတို့သည် ရွာကုန်၍ ရှေးနည်းအတူ ပုန်းအောင်နေသူတို့ ထွက်ခဲ့၍ ထိုရတနာတို့ကို ဆင်ယင်ဝတ်စားလျက် တရားကျင့်ပြန်ကုန်သဖြင့် ထိုသူတို့၏ သားမြေးမြစ် တီကျွတ်တို့သည် အသက်ရှည်လတ်၍ အသက် အသင်္ချေတိုင်အောင် နေရပြန်၏။ ရှည်လျားလတ်သော် တရားမေ့လျော့ ပြန်သည်ဖြစ်၍ ရမ္မက်လောဘ

ပြောသဖြင့် လုယက် ငြင်းခုံခြင်းတို့သည် ဖြစ်ပြန်ရကား ကျွန်းသူ ကျွန်းသားတို့သည် ရှေးကဲ့သို့ စုရုံးတိုင်ပင်၍ သီလ သမာဓိရှိသော သူတစ်ယောက်အား မင်းမြှောက်ကြပြန်သတည်း။ ထိုတတိယ မဟာသမ္မတမင်း၏ နောက်ထီးဆောင်းမင်း အပေါင်းတို့လည်း ၆၃၀၀၀-ပင် ဖြစ်၏။

ထိုမင်းမှစ၍ လူအပေါင်းတို့သည် တရားမှ တရွေ့ တရွေ့ ဆုတ်ကုန်ရကား အသက်လည်း အစဉ်အတိုင်းဆုတ်၍ ဆယ်နှစ်သာ နေရပြန်ကုန်၏။ ထိုအခါ လူတို့သည် မောဟစရိုက် ပြောကုန်အံ့၊ ရောဂန္တရကပ်ဖြစ်၍ အနာရောဂါဖြင့် သေကုန်၏။ ။ ဤကဲ့သို့ လူတို့အသက် ယုတ်တုံ တက်တုံဖြစ်သဖြင့် ဆယ်နှစ်တမ်း တစ်ခါ တစ်ခါတိုင်သည်ကို ''အန္တရကပ်တစ်ကပ်'' ခေါ်သည်။ အန္တရကပ်ပေါင်း ၆၄-ကြိမ်မှ ဝိဝဋ္ဋဋ္ဌာယီမည်သော ''အသင်္ချေယျကပ်တစ်ကပ်'' ဖြစ်၏။ ဤအတူ အသင်္ချေယျလေးကပ်သော် မဟာကပ်ဟု ဆိုအပ်သော''တစ်ကမ္ဘာ'' ဖြစ်၏။ ယင်းသို့ ကပ်လေးပါးတို့၏ ဖြစ်ပုံကိုပြရာ ဝိသုဒ္ဓိမဂ် အဋ္ဌကထာ ဋီကာ စသော ကျမ်းကြီးတို့၌ လည်းကောင်း၊ မဟာရာဇဝင် စသော လောကီကျမ်းတို့၌ လည်းကောင်း ပြဆိုသည်ကို ထောက်၍ ကြက်ဆူပင်တို့၏ ဓား လှံ ဖြစ်ကြောင်းကို သိရာ၏။

❖❖❖❖❖

## ၂၀၆။ ဝါယောဓာတ်နွဲ့၊ ပျက်တုံခဲ့၊ ဘယ်တဲ့ ချိန်၌ သေလိမ့်နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ယဿ၊ အကြင်သူနားအား။ ပစ္ဆျေသေ၊ မိုးသောက်ထ၌။ ဝါယောနဿနံ၊ ဝါယောဓာတ်၏ ပျက်ပြိုခြင်း လက္ခဏာကို။ စေပဿံ၊ အကယ်၍မြင်ငြားအံ့။ တတိယပ္ပဟာရေ၊ ညဥ့်သုံးပဟိုရ်အချိန်၌။ မတံ၊ သေအံ့။ အတ္တင်္ဂတေ၊ နေဝင်စဉ်၌ မြင်လတ်သော်။ ပစ္ဆိမေ၊ ပစ္ဆိမယံအစဉ်၌။ မတံ၊ သေအံ့။ ။ **ဓာတုဝိဘာဂဒီပနီ။**

❖❖❖❖❖

## ၂၀၇။ ဆီးပညောင်တဲ့၊ ဆေးဘိန်းနွဲ့၊ ဘဲ့နှယ်ရာသီပေးမည့်နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဆေးဘိန်းနွဲ့ကို မည်သည့်ရာသီ၌ ပေးရမည်ဟု ဆေးကျမ်းတို့၌မတွေ့မိ၊ ရောဂါအလျောက်ပေးသည့်ဆေးကိုသာ တွေ့မိ၏။

လဲလူအော်လဲ၊ အိမ်ဒန့်ကျွဲ၊ ဘိန်းနွဲ့သနပ်ခါး။
သွေးသားမညီ၊ နေမဤ၊ ရာသီတိုင်း၌စား။ ဟူ၍လည်းကောင်း။

ရှင်ဗာကူလ၊ ဘိန်းနွဲ့စသား၊ ပွင့်လှရွှေဝါ၊ မွှေးစွာကြိုင်ပေါက်၊ ပိတောက်အိုးပွတ်၊ ဆေးမြတ်ပိန္နဲ၊ သစ်ဆွဲလွှဲကာ၊ အော်လဲတသီး၊ သပွတ်ကြီး၊ သပွတ်သိမ်၊ နံ့ရှိန်တောက်မွဲ၊ ဟင်းဆန်ကွဲကာ၊ တစွက်မနှင့်၊ ထည့်ထ တပဆေးဖိုး ခွဲညိုဖွားဖက်၊ ဆူးခေါက်နက်စင်၊

ငပြေရှင်နှင့်၊ သင်းဝင်ပေါက်ဖြူ၊ မအူထောက်ရှာ၊ မှန်စွသပြေ၊ မှည့်ပေ ငဖြူကြီး၊ တစ်သီး ထုံးနန္ဒင်း၊ ဆားလှော်သွင်းမှ၊ ခပင်းဆေးသား၊ နှစ်ဆယ့်ငါးကို၊ စုငြားမျှသာ၊ ကြိတ်ပြီးခါမှ၊ ငါးဖြာငန်းမျိုး၊ မန်းမျိုးဆယ့်နှစ်၊ တွက်စစ်ထွေပြား၊ အနာများနှင့်၊ သည်းဖျားရင်ခေါင်း၊ ထောင်းထောင်းလည်တတ်၊ အသက်ပင့်ရှူ၊ အပူလည်းဝင်၊ ဆို့နင်အစာ၊ သို့နာတုံမြောက်၊ သုံးစွဲသောက်က၊ ပျောက်လေဆောစွာ၊ ရက်မကြာသည်၊ ဆရာအစဉ်ထားသတည်း။ **ဘေသဇ္ဇဒီပနီ။**

လူတို့၌တွင်၊ ခဲအင်လှငြား၊ ငါးပါးငန်းတက်၊ ကုစားခက်၏။ ငန်းသက် ငန်းနီ၊ အညီ ငန်းနက်၊ တစ်ချက်ငန်းပေါက်၊ အနာရောက်မူ၊ ငန်းဟူမှန်ဘိ၊ လက်မထိရ၊ နာကျင်လှ၏။ ခြေကတက်ငြား၊ ရင်ဘတ်ကားမူ၊ ငန်းတက်ဟူလော့၊ ခေါင်းမူလည်းခဲ၊ မေးကဆွဲလျက်၊ ငန်းသက်အနာ၊ ရှိတို့ရာ၏၊ အနာငန်းနီ၊ ဝေသီမူးမိုင်၊ နေထိုင်တိမ်းဘိ၊ မျက်စိကြက်တက်၊ ခြေလက်ရွှေ့လူပ်၊ လေးဘက်ကုပ်၏၊ အဟုတ်ငန်းနက်၊ တကျည်းတက်သို့၊ ဝမ်းပက်ပြူငြား၊ ငန်းငါးပါးကို။ ကုစားမည်ကြောင်း၊ လက်နက် ကောင်းကား၊ မြင်းခေါင်း နွာယောင်၊ ရအောင်ယူမှ၊ ဘင်္ဂသစ်ဆွဲလွဲ။ ရှင်ကစွဲနှင့်၊ တကွဲရှင်ဗာကူ၊ နည်းတူခွေးတောက်၊ ပိတောက်နှစ်ယူ၊ မအူထောက်ရှာ၊ နိုင်းရာမဲ့ဘဲ၊ ဘိန်းနွဲ့အိုးပွတ်၊ သပွတ်သိမ်က၊ ခင်ပုတ်စသည်။ တပဆေးဖီး၊ သက်ရင်းကြီးကို၊ သွေးပြီးသောထွေ၊ ပုံးရေနှင့်ပင်၊ ပြင်ကလိမ်းမြောက်၊ အတွင်းသောက်ရ၊ အေးကျင်လှမူ၊ ကြပ်ကြပ်ရှူလော့၊ နာသူငန်းတက်၊ ဖက်တုံတပဆေး၊ မထွေး ငန်းပေါက်၊ တစွက်လှောက်လျက်၊ သောက်တည့်လိမ်းလျှင်၊ ကိုယ်တွင်ရောဂါ၊ ကင်းပျောက်ကွာသည်၊ ဆရာဇော်ဂျီ လက်သုံးတည်း။ ၎င်းဘေသဇ္ဇဒီပနီ။

❖❖❖❖❖

## ၂၀၈။ မစင်ပြဲ့ပြဲ့၊ စားရခဲ့၊ ငရဲ့ပြည်၌ ဘယ်ပြစ်နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သူတစ်ထူးအား၊ လွန်ကျူးစော်ကား၊ ပြစ်မှားမိရှာ၊ သူတကာကို၊ စားပါမိစေ၊ ထည့်လေမစင်၊ သံဃာတို့အား၊ လှည့်ဖြားသမှု၊ ဤသုံးခုကြောင့်၊ ဘင်စု ငရဲ ရောက်သတည်း။

ထို့ကြောင့် နေမိဇာတ်၌–

ယေကေစိမေ ကာရဏိကာ ဝိရောသကာ၊ ပရေသံဟိံသာယ သဒါနိ ဝိဋ္ဌာ။

တေ လုဒ္ဒကမ္မာ ပသဝေတွာန ပါပံ၊ မိတ္တဒ္ဒုနော မိဠ္ဟမဒန္တိ ဗာလာတိ။

ဟူ၍ ဟောတော်မူ၏။

**အနက်ကား။** ။ မဟာရာဇ၊ နေမိမင်းမြတ်။ ယေ ကေစိ၊ ခပ်သိမ်းကုန်သော။ ဣမေ၊ ဤ ဘင်စုငရဲ၌ ခံရကုန်သော သတ္တဝါတို့သည်။ ကာရဏိကာ၊ မကောင်းမှုကို ပြုကုန်သည်ဖြစ်၍။ ဝိရောသကာ၊ ရှုန့်ရင်းကြမ်းတမ်းကုန်သည်ဖြစ်၍။ ဝါ၊ သူ့ကို နိုင်လို ကုန်သည်ဖြစ်၍။ ပရေသံ၊ သူတစ်ပါးတို့အား၊ ဟိံသာယ၊ ဆဲရေးမောင်းမဲညှဉ်းဆဲ ခြင်းငှာ။ သဒါ၊ အခါခပ်သိမ်း။ နိဝိဋ္ဌာ၊ ဆောက်တည်ကုန်၏။ လုဒ္ဒကမ္မာ၊ ကြမ်းကြုတ်သော အမှုရှိကုန်သော။ မိတ္တဒ္ဒုနော၊ ခင်ပွန်းကို ပြစ်မှားတတ်ကုန်သော။ ဗာလာ၊ မိုက်ကုန်သော။ တေ၊ ထိုသတ္တဝါတို့သည်။ လောကေ၊ လူ့ပြည်၌။ ပါပံ၊ မကောင်းမှုကို။ ပသဝေတွာန၊ ပွားစေ၍။ မိဠ္ဍ၊ မစင်ကို။ အဒန္တိ၊ စားရလေကုန်၏။

ကဿပဘုရား ပွင့်တော်မူသောအခါ ဤရာဇဂြိုဟ်ပြည်၌ မိစ္ဆာအယူရှိသော ပုဏ္ဏားတစ်ဦးသည် ဘုရားသခင်အားလည်းကောင်း, သံဃာတော်တို့အားလည်းကောင်း ငြူစူစောင်းမြောင်းလျက် မကောင်းပြုလိုသော စိတ်ရှိသည်ဖြစ်၍ တစ်နေ့သ၌ မိမိအိမ်တွင် တစ်ခုသောကျင်း၌ မစင်ကို အပြည့်ထည့်ထားပြီးသော် သံဃာတော်တို့ထံသို့ သွား၍ ''နက်ဖြန် အကျွန်ုပ်အိမ်၌ ဆွမ်းစားကြွပါ''ဟု ပင့်၏။ နံနက် သံဃာတော်တို့ ကြွလာသောအခါ ထိုမစင်ကျင်းကိုဖွင့်၍ ''ငါ့အရှင်တို့ အလိုရှိတိုင်း သုံးဆောင်ကုန်လော့၊ ဘုဉ်းပေး ကုန်လော့''ဟု ဆို၏။ ထိုပုဏ္ဏားသည် ဤသို့ပြုဖူးသော မကောင်းမှုကြောင့် ကဿပ ဘုရားမှသည် ငါတို့ဘုရား လက်ထက်တိုင်အောင် ဤရာဇဂြိုဟ်ပြည်၏ အနီးဖြစ်သော ဂိဇ္ဈကုဋ်တောင်၌ မစင်တွင်းဝယ်နစ်သော ဦးခေါင်းရှိလျက် ခံရလေ၏။ ထိုသတ္တဝါတို့ကို ငါတို့ဘုရား လက်ထက်တော်၌ အရှင်မောဂ္ဂလာန်နှင့် အရှင်လက္ခဏ ထေရ် ဆွမ်းခံကြွရာမြင်၍ ဘုရားသခင်ကိုလျှောက်ရာတွင် ဘုရားသခင်က ရှေးအကြောင်းကို ဖော်၍ ဟောတော်မူ၏။

ဤအကြောင်းသည် ပါရာဇိကဏ် ပါဠိတော်, ၎င်း အဋ္ဌကထာတို့၌လာသည်။

❖❖❖❖❖

## ၂၀၉။ ဘီလူးစေးတဲ့၊ တွေ့တုံခဲ့၊ ဘဲ့ကြောင့်လောင်းတော်လွတ်သနည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ''ဉာဏ်တော်ကိုရွယ်၊ ပရိယာယ်၊ ယိုးမယ်ဆို၍လွတ်သတည်း''–ဟု ဖြေ။

**အကျယ်ကား။** ။ငါတို့ဘုရားအလောင်းတော်သည် ဗာရာဏသီပြည်၌ ဗြဟ္မဒတ် မင်းကြီးသားဖြစ်၍ အမည်မှည့်အံ့သောနေ့၌ တရာ့ရှစ်ယောက်သော ပုဏ္ဏားတို့ကို ခေါ်၍ လက္ခဏာကို ဖတ်စေသော် ဘုန်းပညာလက္ခဏာနှင့်ပြည့်စုံအံ့သော အကြောင်း၊ လေး, လှံ, တုတ်, ဓား, ခက်ရင်းအားဖြင့် ငါးပါးသော လက်နက်တို့၌ အတုမဲ့ တတ်အံ့သော အကြောင်းကို ဆိုကြသောကြောင့် ''ပဥ္စာဝုဓမင်းသား''ဟု အမည် မှည့်ကုန်၏။ ထိုမင်းသားသည် တစ်ဆယ့်ခြောက်နှစ် အရွယ်ရောက်သောအခါ ဖခင် မင်းကြီးက ခေါ်၍ ''ချစ်သား ဂန္ဓာရတိုင်း တက္ကသိုလ်ပြည်သို့သွား၍ ဒိသာပါမောက္ခ

ဆရာ့ထံ၌ အတတ် သင်ချေ''ဟု စေလိုက်၏။ မင်းသားလည်း ဖခင်ဆိုသော အတိုင်း သွား၍ ဆရာအား အသပြာတစ်ထောင်ပေး၍ အတတ်သင်လေသော် သုံးနှစ်မြောက်လျှင် လက်နက်ငါးပါး အရေး၌ အပြီးတိုင်တတ်မြောက်၏။ တတ်မြောက်သောအခါ ဆရာအားပူဇော်ခဲ့၍ မိမိစွဲသော လေး, လှံ, တုတ်, ဓား, ခက်ရင်း အားဖြင့် ငါးပါးသော လက်နက်ကို ဆောင်လျက် ဗာရာဏသီပြည်သို့ပြန်ခဲ့သော် ခရီးအကြား၌ သိလေသ လောမမည်သော ဘီလူးသည် စောင့်နေသော တောအုပ်သို့ ရောက်လေ၏။ တောအုပ်သို့ ဝင်အံ့သော အခါကပင် တောအဝ၌နေသော လူတို့သည် မင်းသားကိုမြင်၍ ''မောင်လုလင်–ဤတောသို့ မဝင်လင့်၊ ဤတောခွင်၌ မြင်မြင်သမျှသော သတ္တဝါတို့ကို မိမိအမွေး၌သာ ငြိစေ၍ ဖမ်းစားတတ်သော သိလေသလောမမည်သော ဘီလူးသည် ရှိ၏။ အကယ်၍ဝင်မူကား ဤဘီလူးမလက်မှ အမောင်မလွတ်နိုင်ရာ။ ဤလမ်းကွေ့ ဖြင့်သာ သွားလော''ဟု ဆိုကြ၏။ ပဥ္စာဝုဓ မင်းသားသည် ထိုစကားကိုမနာဘဲ၊ ကေသရာခြင်္သေ့မင်းကဲ့သို့ ရဲတင်းသော စိတ်မာန်ဖြင့် မြန်စွာ တောသို့ဝင်လေ၏။ တောလယ်သို့ရောက်၍ သိလေသလောမ ဘီလူးက မြင်လေလျှင် ထန်းပင်မျှ လောက်သော ကိုယ်ယပ်၌ တောင်ထွတ်နှင့်တူသော ဦးခေါင်းကို ညိတ်လျက်၊ သပိတ်လုံးမျှလောက်သော မျက်လုံးကို ပြူးရရူးထွက်စေလျက်၊ ငှက်ပျောညှောက်နှင့် တူသော အစွယ်ဖြင့် ကျယ်စွာသောခံတွင်းကိုဖြလျက်၊ မည်းနက်သော ကိုယ်မွေးအမှင်, ဖြူစင်သောမျက်ကွင်း, မျက်တောင်၊ ညိုမှောင် ပြောက်ကျားသော လက်ရုံးမွေးတို့ဖြင့် ဖားရရားကျစေလျက် အပါး၌ရပ်၍ ''ဟယ်– လူသား၊ သင် ဘယ်ကို သွားအံ့နည်း၊ ရပ်လော့၊ ရပ်လော့၊ သင်ကား ငါ့အစာဖြစ်ပြီ၊ ဤဝမ်းဗိုက်၌သာ ကောင်းစွာအောင်းဘိ လော''ဟု ဆို၏။

ထိုအခါ ပဥ္စာဝုဓမင်းသားကလည်း ''ဟယ်–ဘီလူး၊ သင်မျှကို ငါကြောက်မူ ဤတောအုပ်သို့ ငါမလာ၊ သတ္တဝါတို့ကို ညှဥ်းဆဲတတ်သော သင့်ကို ငါသတ်လို၍သာ လာသတည်း''ဟု ဆို၍ အဆိပ်လူးသောမြားဖြင့် ပစ်လေ၏။ ပစ်သမျှသော မြားသည် ဘီလူးအသားသို့မရောက်၊ အမွေး၌ ကပ်ငြိ၍သာ နေလေ၏။ မြားငါးဆယ် ကုန်၍မျှ အန္တရာယ်မရှိ၊ အမွေး၌ငြိ၍သာ နေလေလျှင် အသွားရှည်သောလှံဖြင့် ထိုးပြန်၏။ လှံလည်း အမွေး၌သာ ငြိလေ၏။ ဘီလူးလည်း မင်းသား၏ လက်နက်သည် မိမိအားမထိ မရှသည်ကိုသိ၍ စားအံ့သောငှာ အနီးသို့ ချဥ်းကပ်သောအခါ မင်းသားလည်း ဖြက် လက်သစ် ၃၀၊ အလျား လက်သစ်–၆၀ ရှည်သော သန်လျက်ဖြင့် ခုတ်ပြန်၏။ ထိုသန်လျက်လည်း အမွေး၌သာ ငြိ၍နေလေလျှင် ကိုယ်တွင်လွယ်သော မြားတောင့်ဖြင့် ရိုက်ပြန်၏။ ထိုမြားတောင့်လည်း အမွေး၌ငြိလျက် နေလေလျှင်၊ လေးညှို့ဖြင့် ရိုက်ပြန်၏။ လေးညှို့လည်း အမွေး၌ငြိလျက် နေလေလျှင်၊ ပဥ္စာဝုဓမင်းသားသည် အားကုန်သွန်လျက် လက်ပမ်းပေါက်ခတ်၍ ''ဟယ်–ဘီလူး၊ ငါ့ကို ပဥ္စာဝုဓမင်းသားလို့ သင်မကြားဖူးသလော၊ သင်မျှသော ဘီလူးကို လက်သီးဖြင့် ကြေစေအံ့''ဟု

ကြုံးဝါးလျက် လက်နှစ်ဖက်ဖြင့် ရင်ဝကို ထိုးသတ်၏။ လက်လည်း အမွေး၌သာ ကပ်ငြိပြန်ခဲ့၏။ ထိုအခါ ပုဆစ်ဒူးဖြင့် လည်းကောင်း, ဦးခေါင်းဖြင့်လည်းကောင်း, ရိုက်ခတ်၏။ ဒူး ဦးခေါင်းတို့သည် ပင့်ကူ မျှင်၌ ကပ်သော ယင်ကဲ့သို့ အမွေး၌ငြိ၍ မလှုပ်နိုင်ရှိ၏။ ယင်းသို့ ရှိသော်လည်း ပဉ္စာဝုဓမင်းသားသည် ကြောက်ရွံ့ခြင်းမရှိ ပကတိရဲတင်းသော မျက်နှာဖြင့်သာနေ၏။ ထိုအခါ ဘီလူးက ဤသို့ကြံ၏။ 'ဤသူကား ယောကျ်ားမည်ကာ မဟုတ်။ ကေသရာ ခြင်္သေ့ မင်းနှင့်တူသော ပုရိသ အာဇာနည် ပေတည်း၊ ငါသည် ဤတောအုပ်၌နေ၍ အထောင် မကသော လူကိုဖမ်းစားသော်၊ ဤသူကဲ့သို့ ရဲရင့်သော လူကိုမမြင်ဖူးချေ။ မကြောက်ခြင်းကို ငါးမေးဦးအံ့''ဟု ကြံ၍ ''မောင်လုလင်၊ ငါ့ခံတွင်းသို့ ဝင်အံ့သည်ကို စင်စစ်သိလျက် အဘယ့်ကြောင့် မကြောက် မရွံ့ ရဲဝံ့တင်းမာဘိသနည်း''ဟု မေး၏။ မင်းသားကလည်း ''ဟယ် ဘီလူး သတ္တဝါ ဟူသမျှကား– တစ်ဘဝတွင် တစ်ခါသေမြဲ ဖြစ်၍ ငါမကြောက်သတည်း။ သို့ရာတွင် မှုကား–သင်သည် တစ်ပါးသတ္တဝါကို စားကာနေပေသော ဘီလူး တန်ခိုး ကြီးဖြစ်သည်။ ငါ့ကိုစားလျှင် ငါ့ဝမ်းတွင်ရှိသော ဝဇိရစိန်လက်နက် ခွဲကာထွက်၍ သင် သေရ လေတော့မည်။ သို့ဖြစ်၍ ငါတစ်ယောက်ကို စားကာနှင့် မသေပါစေနှင့်ဦးဟု သင့်ကို သနား၍သာ ငါ အားထုတ်ပါသတည်း''ဟု ဆို၏။ ထိုစကားကို ကြားလျှင် ဘီလူးလည်း ယုံကြည်၍ ဤသူသည် ဟုတ်မှန်သည်ကို ဆိုပေလတ္တံ့။ ဤသူကို ငါစားသော် ပဲနောက်ခန့်မျှသော ဤသူ၏ အသားသည် မကျေနိုင်ရာ အောက်မေ့၍ ''မောင်လုလင်၊ သင့်အား ငါမစားလိုပြီ။ သင် အလိုရှိရာသို့ သွားလေတော့''ဟု ဆို၍ လွှတ်၏။ ထိုအခါ ပဉ္စာဝုဓမင်းသားလည်း ''ဘီလူး–သင်သည် ရှေးဘဝ၌လည်း မကောင်းမှုကို ပြုခဲ့ဖူး၍ ဤဘဝတွင် အမြင်မကောင်းသော ရုန့်ရင်းကြမ်းကြုတ်သော ဘီလူးအဖြစ်၌ ဖြစ်၍ တစ်ယောက်တည်း ဆင်းရဲခံနေရသည်။ ယခုတစ်ဖန် မကောင်းမှု ထပ်ပြန်လျှင် တမလွန်ဘဝ၌ ငရဲကြီးရှစ်ထပ်သို့ကျ၍ အဆုံးမရှိသော ငရဲဘေးကို ခံရလတ္တံ့။ ထို့ကြောင့် ဤအခါမှစ၍ သတ္တဝါတို့၏ အသားကို သင် မစားလင့်။ ငါးပါးသော ဒုဿီလဓမ္မကို ရှောင်ကြဉ်၍ လူခပ်သိမ်းတို့၏ ပူဇော်သည်ကိုခံ၍ ကောင်းမွန်သောအစာကို သင်စားရလတ္တံ့''ဟု တရားပြသ ဆုံးမ ဟောကြား၍ ဘီလူးအား ပဉ္စသီလ တည်စေ၏။ မင်းသားလည်း တောအုပ်မှ ထွက်၍လာသဖြင့် ဗာရာဏသီပြည်သို့ ရောက်သော် ခမည်းတော်က ရွှေထီး, ရွှေနန်းကို အပ်၍ မင်းပြုလေ၏။

ဤကား ဘီလူးစေးနှင့် တွေ့ကြုံသောအခါ ပညာတည်းဟူသော ဝဇိရစိန် လက်နက်ကိုရည်၍ ပရိယာယ်ဆိုသဖြင့် လွတ်သော အကြောင်းတည်း။ ကေနိပါတ် ပဉ္စာဝုဓဇာတ်၌ လာသည်။

❖❖❖❖❖

## ၂၁၀။ သရဖူတဲ့၊ တက်တူငဲ့၊ တောက်တဲ့ဝိဂြိုဟ် မည်သို့နည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ''သရတိ ပါဏေ ဟိံသတီတိ သရဖူ၊ ခုဒ္ဒကဇန္တုဝိသေသော'' ဟူ၍ မောဂ္ဂလ္လာန်၌ မိန့်၏။

ယော သတ္တော၊ အကြင်သတ္တဝါသည်။ ပါဏေ၊ တစ်ပါးသော သတ္တဝါတို့ကို။ သရတိ ဟိံသတိ၊ ညှဉ်းဆဲ သတ်စားတတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ သောသတ္တော၊ ထိုသတ္တဝါသည်။ သရဖူ၊ သရဖူမည်၏။ ခုဒ္ဒကဇန္တုဝိသေသော၊ တက်တူ, တောက်တဲ့, ဟူသော ငယ်သောသတ္တဝါ အထူးကို။ လဘတိ၊ ရ၏။

ဤသရဖူသဒ္ဒါသည် ယခုလူတို့ ''တောက်တဲ့''ဟူ၍ ခေါ်အပ်သော သတ္တဝါကို ဟော၏။ မြေကိုမှီ၍ နေသော ''တက်တူ''ကို မဟော။

ဘယ့်ကြောင့်နည်းဟူမူကား–ဤတောက်တဲ့သာလျှင် တစ်ပါးသော သတ္တဝါတို့ကို ညှဉ်းဆဲတတ်သောကြောင့်တည်း။

အချို့ဆရာတို့ကား နှစ်ပါးစုံကိုပင် ဟော၏။ ဘယ့်ကြောင့်နည်းဟူမူ– တက်တူနှင့် တောက်တဲ့သည် အမျိုးအားဖြင့် မကွဲ။ အဆင်းသဏ္ဌာန်မျှသာ ကွဲသောကြောင့်တည်းဟု ဆိုကုန်၏။ ခန္ဓပရိတ်၌ ဥဏ္ဏနာဘိ, သရဖူ, မူသိကာ'' ပုဒ်တို့ကို ထောက်လျှင် နောက်ဝါဒ လည်း သင့်သည်ပင်။

''တက်တူ'' ဟူသော အမည်, ''တောက်တဲ့''ဟူသော အမည်ကို ဝိဂြိုဟ်ပြုပါ ဟူသော်–

''တက်တက်သဒ္ဒံ တုဒတီတိ တက်တူ''

''တောက်တောက်သဒ္ဒံ တာယတီတိ တောက်တဲ့'' ဟူ၍ ပြုအပ်၏။

တက်တက်သဒ္ဒံ၊ တက်တက် ဟူသော အသံကို။ တုဒတိ၊ တွန်ထူး ကျူးရင့် တတ်၏။ ဣတိ၊ ထို့ကြောင့်။ တက်တူ၊ တက်တူမည်၏။ တောက်တောက်သဒ္ဒံ၊ တောက်တောက်ဟူသော အသံကို။ တာယတိ၊ မြည်တတ်၏။ ဣတိ၊ ထို့ကြောင့်။ တောက်တဲ့၊ တောက်တဲ့မည်၏။

ဤကဲ့သို့ မြန်မာဘာသာကို ဝိဂြိုဟ်ပြုထုံး ရှိပါ၏လော ဟူငြားအံ့–

''လာဘာ လာဘံ ဇာနာတီတိ ဇီ၊ ဂွက်တိသဒ္ဒံ ကရောတီတိ ဂွက်။ ဇီ စသော ဂွက်စာတိ ဇီဂွက်''ဟူ၍ လည်းကောင်း

ဒွိန္နံ ကုလာနံ သမံ ကရောတီတိ သမက်'' ဟူ၍လည်းကောင်း ပြုထုံးရှိပါ၏။

ကျမ်းလာစကား မဟုတ်ငြားသော်လည်း တပည့်သားတို့ ဉာဏ်ပွားကြောင်းဖြစ်၍ ဆိုလိုက်သည်။

❖❖❖❖❖

31
A

## ၂၁၁။ သုတ်ခုန်၍တွဲ၊ လိုက်တုံခဲ့၊ ဘဲ့နှယ် ဂတိကပေနည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ခုန်၍ လိုက်သောသုတ်သည် ''မဏ္ဍူကဂတိက အဓိကာရသုတ်'' မည်၏။ ပြယုဂ်ကား ''သရာပကတိ ဗျဉ္ဇနေ'' ဟူသောသုတ်၌ ဗျဉ္ဇနေသဒ္ဒါအစရှိသည်တည်း။ ဤဗျဉ္ဇနေ သဒ္ဒါသည် ''သရေကွစိ'' ဟူသောသုတ်ကို ခုန်၍ လိုက်သောကြောင့် ''မဏ္ဍူက ဂတိက အဓိကာရသုတ်'' မည်၏။

''အဲ့'' ကာရန် ပုစ္ဆာ ၁၁–ပုဒ် အဖြေ ပြီး၏။

◆◆◆◆◆

## (၄) ''အံ'' ကာရန်ပုစ္ဆာ ၂၉–ပုဒ် အဖြေ။

## ၂၁၂။ အစိန္တေယျံ၊ ဂုဏ်ဂုဏ်၊ ဆက်ဆံနေ့ချင်းရလိမ့်နည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ဘုရားသခင်သည် အစိန္တေယျ ဂုဏ်ကို ဘုရားဖြစ်ဦးစ နေ့၌မရ။ နောက်နောက်သောအခါတို့မှ ရ၏ဟု ဖြေ။

အဘယ်အခါတို့မှ ရသနည်းဟူမူကား– ဘုရားဖြစ်တော်မူသည်မှ နောက်ခုနစ်ဝါ မြောက်၌ တာဝတိံသာ နတ်ရွာဝယ် ဝါကပ်အံ့ဟု ကြွတော်မူ၍ ပဏ္ဍုကမ္ဗလာ ကျောက်ဖျာ၏ အနီး၌ ရပ်တော်မူသောအခါ သိကြားမင်းသည် ဤသို့ကြံ၏။ ''ဘုရားသခင်သည် ငါတို့ နတ်ရွာ၌ ဤကျောက်ဖျာထက် ဝါကပ်တော်မူလိုယောင် ရှိသည်။ အကယ်၍ စံနေတော်မူခဲ့သော် ဤကျောက်ဖျာသည် ဗုဒ္ဓါသနဖြစ်၍ နတ်အများ တို့သည် လက်ဖျားမျှ မတင်ဝံ့ကုန်ရာ။ မြတ်စွာဘုရား၏ ကိုယ်တော်ကား ဆယ့်ရှစ်တောင် ဩသာဖြစ်၍ ငယ်သည်။ ကျောက်ဖျာကား အလျား ယူဇနာ–၆၀၊ အနံ ယူဇနာ–၅၀၊ အထု ၁၅–ယူဇနာ ရှိသည်ဖြစ်၍ အလွန်ကျယ်သည်။ အနည်းငယ် ဩသာ နေသဖြင့် တစ်ပြင်လုံး သုဉ်းလေတော့မည်။ ဘုရားသခင်သည် တောင်ကြီး ထက်တွင် နားသော ငှက်ငယ်ကဲ့သို့ မတင့်တယ်ရှိလေတော့မည်''ဟု ကြံ၏။

ထိုအကြံကို ဘုရားသခင် သိမြင်တော်မူ၍ ဒုကုဋ်သင်္ကန်းဖြင့် ကျောက်ဖျာကို လွှမ်းလျက် ထိုင်တော်မူသည်။ သင်္ကန်းတော်စသည် အရပ်လေးမျက်နှာ၌ ကျောက်ဖျာကို လွှန်၍ကျ၏။ ကိုယ်တော်မြတ်လည်း ရှစ်ရပ် မျက်နှာဝယ် ကျောက်ဖျာ တစ်ပြင်လုံးကို ပြည့်စေလျက် ထက်ဝယ်ဖွဲ့ခွေ၍ စံနေတော်မူ၏။

ဤသို့သောအခါ သိကြားမင်းသည် ''ဘုရားသခင်တို့၏ တန်ခိုးတော်ကား– မကြံအပ် မကြံရာသော အစိန္တေယျပေတည်း''ဟု ချီးမွမ်းပူဇော်၏။ ဤသို့ ပူဇော်သော အခါမှ ''အစိန္တေယျ ဂုဏ်ကိုရ၏'' ဟူပေ။

ရူပအစိန္တေယျ, ဝါစာအစိန္တေယျ, ဉာဏအစိန္တေယျ, ဣဒ္ဓိအစိန္တေယျအားဖြင့် လေးပါးတို့တွင် သဗ္ဗညုတဉာဏ်သည် ဉာဏသာဂရလည်း မည်သည်။ ဉာဏအစိန္တေယျ လည်း မည်သည်။ ထိုဉာဏအစိန္တေယျကို ဘုရားဖြစ်ဦးစနေ့ကပင် ရပါမည်မဟုတ်လော။ ဘယ့်ကြောင့် နောက်အခါတို့မှ ရ၏ ဟုဆိုပါသနည်း–ဟု မေးအံ့၊ ဉာဏအစိန္တေယျဂုဏ်ကို နေ့ချင်းရသော်လည်း လောကဌမထင်ရှား၊ ဣဒ္ဓိအစိန္တေယျဂုဏ်သာလျှင် ထင်ရှားစွာ ဖြစ်သော ကြောင့် လူ, နတ်,ဗြဟ္မာတို့သည် ထိုအခါမှ ထောမနာကြသည်ကိုစွဲ၍ နတ်ရွာသို့ရောက်မှ အစိန္တေယျဂုဏ်ကိုရ၏ဟု ဆိုအပ်သတည်း။

အရှင်သီလဝံသ မထေရ်မြတ်သည် ပါရမီခန်းကဗျာ၌–''ဗောဓိမဏ္ဍိုင်၊ ခန်းဝါ ပိုင်က၊ ချက်ရိုင်ပြည့်စုံ၊ သဗ္ဗဂုဏ်တည့်၊ ဆန်စုံအောက်ထက်။ ကျော်ဝှန်တက်သား–'' ဟူ၍ စပ်တော်မူရင်းကို ဆရာဖြစ်သော နတ်မိုပုဂ္ဂိုလ်က ''ဗောဓိမဏ္ဍိုင်၌ ခန်းဝါပိုင်စ ကာလက အလုံးစုံသောဘုရားဂုဏ်နှင့် မပြည့်စုံသေး၊ ကိုးပါးသောဂုဏ်နှင့် ပြည့်စုံ ကြောင်းကိုသာ နတ်ဗြဟ္မာတို့ ချီးမွမ်းကြသည်။ ဘုရားဟောသောအခါမှ ဝါစာ အစိန္တေယျဂုဏ်၊ တန်ခိုးပြသောအခါမှ ဣဒ္ဓိအစိန္တေယျဂုဏ်တို့ကို ရသည်။ ထိုကြောင့် ငါ့ရှင် စကားလွန်သည်။ နဝဂုဏ်သာ စပ်ဆိုရမည်''ဟု နည်းပေးသောကြောင့် ''ချက်ရိုင် ပြည့်စုံ၊ နဝဂုဏ်တည့်''ဟု လင်္ကာတော် ပြင်ရကြောင်းများကို ထုံးဟောင်းစာတမ်း ရှိသည်။ ထိုအကြောင်းကို ထောက်၍လည်း နောက်နောင်အခါတို့မှ အစိန္တေယျဂုဏ်ကို ရ၏ဟု သိရသည်။

စောဒနာ၊ သောဓနာ၊ ဆိုသင့်ရာသမျှ ဖွင့်ဆိုပြမူ။ ဂန္ထဘာရ ဖြစ်လေရာသော ကြောင့် ပညာရှိတို့ သိလောက်ရုံမျှသာ ဖြေဆိုလိုက်သည်။

◆◆◆◆◆

## ၂၁၃။ ဗုဒ္ဓကိစ္စ၊ နိဋ္ဌိတံ၊ ဝေသာန်ဘယ့်ကြောင့် ဖြစ်ပြန်သနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကိစ္စံ၊ နိဋ္ဌိတံ–ဟူသော ပုဒ်နှစ်ပါးကား သေးသေးတင်၊ ဝေသာန်ကား နသတ်ဖြစ်၍ ကာရန်မပြုသင့်သကဲ့သို့ ရှိ၏။ သို့သော်လည်း အဓိပ္ပါယ်ကိုသာ ပဌာနပြု၍မေးသည်။ အသတ်ကို ဤနေရာတွင် ပမာဏမပြုဟု မှတ်သင့်၏။

ဘယ့်ကြောင့်နည်းဟူမူကား–ဝေသာန္တရာဇာတ်၌ နကာရန္တ ရှိသောကြောင့် မြန်မာမူ ၌လည်း နသတ်သာ ဖြစ်ထိုက်သည်။ သေးသေးတင် မဖြစ်ထိုက်။ မဖြစ်ထိုက်လျှင် သတ်အင် မစပ်သင့်သောကြောင့်တည်း။

**အဓိပ္ပါယ်ကား–** ပါရမီဆယ်ပါးတွင် ဒါနပါရမီတရားကို အရင်းထား၍ ဖြည့်အပ် ကြောင်းဖြင့် ဟောတော်မူသည်။ ဘုရားလောင်းသည် အပဏ္ဏက ဇာတ်မှစ၍ ငါးရာ လေးဆယ့်ခြောက်ဖြစ်သော ဇာတ်တော်တို့တွင် အချို့ဇာတ်တို့၌ ဒါနပါရမီကို ဖြည့်ခဲ့ သည်။ အချို့ဇာတ်တို့၌ သီလပါရမီကို ဖြည့်ခဲ့သည်။ အချို့ဇာတ်တို့၌ နိက္ခမ ပါရမီကို

ဖြည့်ခဲ့သည်။ အချို့ဇာတ်တို့၌ ပါရမီသုံးပါး လည်းကောင်း, လေးပါး လည်းကောင်း, ဆယ်ပါးလုံးလည်းကောင်း ဖြည့်ခဲ့သည်။ ပါရမီဆယ်ပါးလုံး ပြည့်စုံပြီး အဆုံးဖြစ်သော ကာလမှ အရင်းဖြစ်သော ဒါနပါရမီကို ဖြည့်ခြင်းငှာ ဝေဿန္တရာ ဘယ့်ကြောင့် ဖြစ်ပြန်သနည်းဟု မေးလိုသည်။

**အဖြေကား–** အမှာကံ ဝိယ ဒါနပါရမိယော အဘိက္ကမ္မ အဓိကံ ပုရေဟိတိ သတ္တာနံ ဥယျောဇေန္တော ပဝတ္တတိ။

ဟူသော ဇာတ်ငှိကာနှင့်အညီ 'ငါကဲ့သို့ ဒါနပါရမီတရားကို ဝံ့စားသဖြင့် လွန်စွာ ဖြည့်ကျင့်ကြလော့''ဟု သတ္တဝါအပေါင်းတို့အား နည်းပေးသောအားဖြင့် တိုက်တွန်းခြင်းငှာ အဆုံးမှာမှ ဝေဿန္တရာဖြစ်၍ အလှူကြီးကို ပေးတော်မူ၏ဟု ဖြေ။

❖❖❖❖❖

## ၂၁၄။ အကုသိုလ်ကံ၊ ကုသိုလ်ကံ၊ ဘယ်ကံအားကြီးကြသနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ကံနှစ်ပါးတွင် အကုသိုလ်ကံအား နည်း၏။ ကုသိုလ်ကံအားကြီး၏ ဟူပေ။

ဘယ့်ကြောင့်နည်း–ဤလောက၌ သူ၏အသက်ကိုသတ်ခြင်း, သူ၏ဥစ္စာကို ခိုးခြင်း စသော မကောင်းမှုကံကို ပြုခဲ့သော် မျက်မှောက်၌ပင် မင်းပြစ်စိုးဒဏ်ကို ခံရခြင်းစသော အပြစ်သည် ဖြစ်ပါသည်မဟုတ်ပါလော။ ကုသိုလ်ကံကိုပြု၍ ဤကဲ့သို့ အမြန်မစံရတကား ဟူငြားအံ့၊ အကုသိုလ်ကံသည် အာနုဘော်နည်းသောကြောင့် မြန်စွာအကျိုးပေး၏။ ကုသိုလ်ကံကား အာနုဘော်ကြီးသောကြောင့် နှေးနှေးမှ အကျိုးပေး၏ ဟူပေ။

**ဥပမာကား။** ။ကောက်ပဲ စပါးစသော သစ်ပင်သည် တစ်ကြိမ်သာစားရ၍ အာနုဘော် ငယ်သောကြောင့် မြန်စွာကြီးသဖြင့် မြန်စွာသီး၏။ အုန်း, ထန်း စသော သစ်ပင်သည် ရှည်ကြာစွာစားရ၍ အာနုဘော်ကြီးသောကြောင့် တဖြည်းဖြည်းကြီးသဖြင့် နှေးနှေးသီးသကဲ့သို့တည်း။ ကြာမကြာအားဖြင့် ထောက်ထားသော် အကုသိုလ်ကံသည် ဂရုကံသို့ရောက်သော အနန္တရိယကံပင် ဖြစ်သော်လည်း တစ်ကမ္ဘာခံလျှင် လွတ်၏။ ကုသိုလ်ကံမူကား ကမ္ဘာအရာ အထောင်ဖြင့်လည်း အဆုံးမရှိ သတ္တိအားလျော်စွာ ခံစံရသည်သာဖြစ်၏။

ဒုဿီလရဟန်းတစ်ဦးအား သံဃာတော်ဟု အမှတ်ထား၍ လှူအပ်သော ဒါနသည်လည်း အသင်္ချေယျ ကာလပတ်လုံး အကျိုးပေးကြောင်းကို ဒက္ခိဏာဝိဘင်္ဂသုတ်၊ အင်္ဂုတ္တိုရ်ပါဠိတော်တို့၌ ဟောတော်မူသည်။

ထို့ကြောင့် ကုသိုလ်ကံ အားကြီးကြောင်းကို သိအပ်၏။ အားကြီးသောကြောင့် လည်း အကုသိုလ်ကံကို တားမြစ်နိုင်၏။ တားမြစ်နိုင်ကြောင်းကိုကား ရှင်နာဂသိန်၏ စကားဖြင့်သိအပ်၏။

မိလိန္ဒမင်းသည် ဤသို့မေး၏။ ''အရှင်နာဂသိန်၊ အကြင်သူသည် အနှစ်တစ်ရာ မျှလောက်မကောင်းမှုကိုပြု၍ သေခါနီးကာလ၌ ဘုရားဂုဏ်ကျေးဇူးကို အောက်မေ့ခြင်း စသော ကုသိုလ်ကံကိုပြု၏။ ထိုသူသည် ထိုအာသန္နကံကြောင့် နတ်ပြည်၌ဖြစ်ရ၏ ဟူသော စကားကိုလည်း အကျွန်ုပ်မယုံနိုင်။ သတ္တဝါတစ်ခုကို သတ်မိသောကြောင့် ငရဲခံရ၏ ဟူသော စကားကိုလည်းကောင်း, အဖန်ငါးရာလည်းကောင်း, တစ်ထောင် လည်းကောင်း, အသတ်ခံရ၏ဟူသော စကားကိုလည်းကောင်း, အကျွန်ုပ်မယုံနိုင်။ ဤအရာကို သိသာအောင် မိန့်တော်မူပါ''ဟု လျှောက်၏။ ''မင်းကြီး အနည်းငယ်သော ကျောက်ခဲ, သံခဲသည် ရေ၌ပေါ်၏လော''ဟု မေး၏။

''အရှင်ဘုရား၊ လှေနှင့်ကင်း၍ မပေါ်ချေ''ဟု လျှောက်သော် ''မင်းကြီး များစွာသော ကျောက်ခဲ, သံခဲတို့သည်လည်း လှေနှင့်ကင်း၍ ရေဝ၌ပေါ်၏လော''ဟု မေးပြန်၏။ ''အရှင်ဘုရားမပေါ်နိုင်ချေ''ဟု လျှောက်သော် ''မင်းကြီး လှေနှင့်ကား ကုသိုလ်ကံနှင့် တူ၏၊ ကျောက်ခဲနှင့်ကား အကုသိုလ်ကံနှင့်တူ၏။ တစ်စင်းတည်းသော လှေသည် ကျောက်အများကို ဆောင်နိုင်သကဲ့သို့ အားကြီးသော ကုသိုလ်ကံ တစ်ခုသည် များစွာသော အကုသိုလ်ကံကို တားနိုင်၏။ ထို့ကြောင့် ကြာမြင့်စွာပြုသော အကုသိုလ်ကို သေခါနီး၌ဖြစ်သော ကုသိုလ်ကံသည် ဆောင်နိုင်လေသတည်း။ တစ်ခုသော အကုသိုလ်ကို ပြုသောသူအား ဇောအကြိမ်များစွာကျ၏။ တစ်ကြိမ် တစ်ကြိမ်သော ဇောသည် တစ်ကြိမ် တစ်ကြိမ်သော ပဋိသန္ဓေကိုသာ ပေးသည်ဖြစ်၍ ငါးရာလည်းကောင်း, တစ်ထောင် လည်းကောင်း အကျိုးခံရသည် ဖြစ်၏''ဟု ဖြေတော်မူ၏။

❖❖❖❖❖

## ၂၁၅။ ကောင်းကင်တိမ်ယံ၊ ရျာန်ဖြင့်ပျံ၊ ပါဒံ ခြေလှမ်းလေလိမ့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-ရျာန်ဖြင့် ပျံသည် ဟူရာ၌ ရူပါဝစရ ရျာန်ကိုလည်းကောင်း, အရူပါဝစရရျာန်ကိုလည်းကောင်း ရကာမျှနှင့် ပျံနိုင်သည်မဟုတ်။ သမာပတ်ရှစ်ပါးနှင့် ပြည့်စုံ၍ အဘိညာဉ်ကို ရသောအခါမှ ပျံနိုင်သည်။ သို့သော်လည်း ရျာန်သည်အကြောင်းရင်းဖြစ်၍ မူလဂ္ဂါဟနည်းအားဖြင့်သာ ရျာန်ဖြင့်ပျံသည်ဟု ဆိုရသည်။

ထိုအဘိညာဉ်သည်လည်း ဣဒ္ဓိဝိဓ, ဒိဗ္ဗစက္ခု, ဒိဗ္ဗသောတ စေတောပရိယ, ပုဗ္ဗေနိဝါသာနုဿတိ, ယထာကမ္မူပဂ, အနာဂတံသ အဘိညာဉ်အားဖြင့် ခုနစ်ပါး အပြားရှိ၏။

ထိုခုနစ်ပါးတို့တွင် ကောင်းကင်ပျံခြင်း, မြေလျှိုးခြင်း, အထူးထူးသော ရူပကာယကို ဖန်ဆင်းခြင်း တည်းဟူသော ကိစ္စတို့သည် ဣဒ္ဓိဝိဓ အဘိညာဉ်ဖြင့် ပြီးသည်။ ဤ အဘိညာဉ်သည်လည်း စေတောဝသိပတ္တ မနောမယဣဒ္ဓိမျိုးဖြစ်၍ စိတ်ရောက်တိုင်းသာ ကိုယ်ပါလေသည် ''ခြေလှမ်း၍ပျံရသည်မဟုတ်''ဟု ဖြေအပ်၏။

**ဒသက္ကန္ဓယော အဓိဋ္ဌာနာက္ခန္ဓော၊ ဝိကုဗ္ဗနာက္ခန္ဓော၊ မနောမယာက္ခန္ဓော၊ ဉာဏဝိပ္ဖါရာက္ခန္ဓော၊ သမာဓိဝိပ္ဖါရာက္ခန္ဓော၊ အရိယာက္ခန္ဓော၊ ကမ္မဝိပါကဇာက္ခန္ဓော၊ ပုညဝတောက္ခန္ဓော၊ ဝိဇ္ဇာမယာက္ခန္ဓော၊ ဘာဝနာမယာက္ခန္ဓော။**

ဟူ၍ လာသော တန်ခိုးဆယ်ပါးတွင် ဤက္ခန္ဓိဝိဓ အဘိညာဉ်ဟူရာ၌ အဘယ်ကို ဆိုသနည်းဟူမူ–

**က္ခမာသု ဒသသု က္ခန္ဓီသု က္ခန္ဓိဝိဓာယာတိ က္ခမသ္မိံ ပဒေသေ အဓိဋ္ဌာနာ က္ခန္ဓိယေဝအာဂတာ။ က္ခမသ္မိံ ပနေတ္ထ ဝိကုဗ္ဗနာ မနောမယာ က္ခန္ဓိယောပိ က္ခစ္ဆိတဗ္ဗာ။**

ဟူသော ဝိသုဒ္ဓိမဂ်ပါဠိနှင့်အညီ ဤက္ခန္ဓိဝိဓ အဘိညာဉ်အရာ၌ အဓိဋ္ဌာန်ဖြင့် ပြီးသော တန်ခိုးသည်သာလျှင် လာ၏။ အထူးစီရင်၍ဖြစ်သော ဝိကုဗ္ဗနက္ခန္ဓိ, စိတ်အလို ရှိတိုင်း ပြီးသော မနောမယက္ခန္ဓိ တို့ကိုလည်း ယူအပ်၏ ဟူလိုသည်။

အဘိဓမ္မတ္ထဝိဘာဝနီ၌လည်း ''ကတ္ထစိ မနောမယ ဉာဏန္တိပိ ဝိသုံ အဘိညာဏံ အာဂတံ။ အတ္ထတော က္ခန္ဓိဝိဓဉာဏမေဝ'' ဟူ၍ မိန့်၏။

ကတ္ထစိ၊ အချို့သော အရာ၌။ မနောမယဉာဏန္တိပိ၊ နှလုံးအလိုဖြင့် ပြီးသော ဉာဏ်ဟူ၍လည်း။အဘိညာဏံ၊ အဘိညာဉ်သည်။ ဝိသုံ၊ အသီး။ အာဂတံ၊ လာ၏၊ အတ္ထတော၊ အနက်သဘောအားဖြင့်။ က္ခန္ဓိဝိဓဉာဏမေဝ၊ က္ခန္ဓိဝိဓအဘိညာဉ်ပင်တည်း။

ဤသို့လာသော အဋ္ဌကထာ ဋီကာတို့ကို ထောက်သဖြင့် ''ခြေလှမ်း၍မပျံ စိတ်ကြံတိုင်း ရောက်နိုင်သည်ကိုသာ ဈာန်ဖြင့်ပျံ၏ ဆိုသည်''ဟု သိရမည်။

''ဘုရားသခင်သည် တာဝတိံသာသို့ ကြွသောအခါ နှစ်လှမ်း သုံးဖဝါးဖြင့် ကြွသည်''ဟု ဓမ္မပဒအဋ္ဌကထာတို့၌ လာသည်မဟုတ်လော ဟူငြားအံ့။ ကျမ်းလာသည် မှန်၏။ ထိုစကားသည် နှစ်ကြိမ် တန့်နားသည်ကို ရည်၍သာ နှစ်လှမ်း ဆိုပိုင်သောကြောင့် ဆိုသည်။ ခြေလှမ်း၍ ပျံသောကြောင့် ဆိုသည်မဟုတ်ဟု မှတ်ရသည်။

◆◆◆◆◆

## ၂၁၆။ အဂ္ဂါဂါရံ၊ တာသာဟံ၊ ဘယ်လိုင်္ဂသို့သွင်းမည်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အဂ္ဂါဂါရံ ပုဒ်ကို အဂ္ဂိ + အာဂါရံ–ဟု ပုဒ်ဖြတ်၊ အဂ္ဂိသဒ္ဒါကား က္ခဝဏ္ဏုဝဏ္ဏာစျလာ သုတ်ဖြင့် စီရင်ရသော ဥဒါဟရုဏ် ဖြစ်ရကား ပုလ္လိင်, နပုလ္လိင် နှစ်ပါးသင့်။ ဂါရံ–ကား နပုလ္လိင်။ တာသာဟံကို တာသံ + အဟံ=ဟု ပုဒ်ဖြတ်၊ တာသံ–ကား က္ခတ္ထိလိင်။ အဟံ–ကား အလိင်။ ဤသို့ တင်သွင်းရမည်ဟု ဖြေ။

◆◆◆◆◆

## ၂၁၇။ ငွေရောင်ခြည်လျှံ၊ လစန္ဒံ၊ ကြံလော့ဘယ်နာမ်ပေတို့နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရှေးကမ္ဘာ၌ လ၏ စန္ဒ–ဟူသော အမည်သည် ဤကမ္ဘာ၌လည်း စန္ဒ–ဟူသော အမည်ဖြင့် ကျသောကြောင့် ''ဩပပါတိက နာမ်မည်၏''ဟု ဖြေ။

❖❖❖❖❖

## ၂၁၈။ နီဝရဏာ၊ ဝတ္ထုကာ၊ အရူပ၌ ရှိလိမ့်နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ရူပါဝစရ ဈာန်ကပင် ကာမစ္ဆန္ဒ စသော နီဝရဏာခြောက်ပါးကို ပယ်ခဲ့ပြီးဖြစ်သောကြောင့် အရူပဘုံ၌ နီဝရဏာဝတ္ထု မရှိဟုဖြေ။

အရူပဘုံ၌ ပုထုဇဉ် သောတာပန် ပုဂ္ဂိုလ်တို့အား လောဘမူစိတ်, မောဟမူ စိတ်တို့ကို ရပါသည်မဟုတ်လော၊ ထိုစိတ်တို့၌ရှိသော လောဘ, မောဟ, ထိန, မိဒ္ဓ, ဥဒ္ဓစ္စတို့သည် နီဝရဏာ မဟုတ်လော၊ ဘယ့်ကြောင့်မရှိ ဆိုသနည်း ဟူငြားအံ့။ ထိုဘုံ၌ရှိသော လောဘ, မောဟ တို့သည် ဈာန်စိတ်ကို ပိတ်ပင်မြှေးယှက်တတ်သော သတ္တိမရှိ၍ နီဝရဏာကိစ္စမတပ် ဟူပေ။

ဈာန်စိတ်ကို မပိတ်ပင်တတ်သော် အဘယ်ကို ဖုံးလွှမ်းပိတ်ပင်တတ်သောကြောင့် မောဟမည်ပြန်သနည်း ဟူငြားအံ့။ သစ္စာလေးပါးကို ဖုံးလွှမ်းပိတ်ပင်တတ်သေး၏။ ထို့ကြောင့်သာ မောဟလည်းမည်၏။ အဝိဇ္ဇာလည်းမည်၏ ဟူပေ။

❖❖❖❖❖

## ၂၁၉။ မြင်းမိုရ်အောက်ယံ၊ တလျှံလျှံ၊ ခံသည့်ခုံလောက် ဘယ်မျှနည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ပံသုမြေအောက်၊ သိလာကျောက်ကို၊ ထွင်းဖောက်ယှက်သွယ်၊ အမြစ် တွယ်၍၊ မြှော့မယ်န–ရုပ်၊ သံညွှန့်ကုတ်ဖြင့်၊ ချုပ်မြုပ်သောလား၊ ယှဉ်ပြိုင်ထားသို့၊ ပတ္တမြားမျက်ကျောက်၊ ပြောင်ပြောင်တောက်သား၊ ခုံလောက်ခန့်ခိုင်၊ သုံးလုံး တိုင်ထက်၊ မြေစိုင်ပံသု၊ ဏုမြူဆန်ခြမ်း၊ မသမ်းမနော၊ သဘောအတိ၊ ရွှေလျှံ အိသား၊ အညိုစိုစို၊ ညိုရရှိနှင့်၊ မြင်းမိုရ်သာခေါင်၊ မြတ်သည့်တောင်၌–''

ဟူ၍ သာဓိနပျို့၌ စပ်သောကြောင့် လည်းကောင်း။

ပတ္တမြား ခုံလောက်၊ ဆောက်သည့်သုံးတိုင်၊ ကြံ့ကြံ့ခိုင်လျက်၊ ဘုံမဏ္ဍိုင်ဆင့်၊ ရွှေရွှေမြင့်သား၊ ရေနှင့်တောင်ချိန်၊ ဝင်းပြောင်ထိန်သည်၊ အာလိန်ငါးခု၊ သုမေရုနှင့်–

ဟူ၍ ဝိလာသနီမော်ကွန်း၌ စပ်ဆိုသောကြောင့်လည်းကောင်း၊

မြင်းမိုရ်တောင်ကို ခံသော ခုံလောက် သုံးလုံးဟူ၍ သိရာသည်။ ပမာဏမူ လောက်သော ပါဠိအဋ္ဌကထာကို သာဓကမပြ။ လင်္ကာမျှကို သာဓကပြု၍ ဘယ့်ကြောင့် ဆရာဖြေပါသနည်း။ ပါဠိအဋ္ဌကထာ ကျမ်းလာကို မပြနိုင်သလောဟု စောဒနာငြားအံ့။ ပါဠိကျမ်းလာကား များလှစွာသောကြောင့် ပညာရှိဟူသမျှ သိကြသည်ချည်း ဖြစ်ကုန်၍ ပါဠိမတင်သင့်ပြီ။ ခေါနှင့်ခုတ်မှသာ ပြတ်သည်မဟုတ်။ တုတ်စောင်းနှင့်သော်လည်း ပြတ်သင့်၏ဟု နှလုံးထား၍ လင်္ကာစကားကို သာဓကပြု၍ ပြလိုက်သည်။ ပါဠိ မတင်သမျှ ပြသနာ၌ ဤနည်းသာမှတ်လေ။

❖❖❖❖❖

## ၂၂၀။ သမုသစ္စံ၊ နိရုဒ္ဓံ၊ ဒုက္ခံသစ္စာ ဖြစ်လိမ့်နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ယဿ ဝါ ပန သမုဒယသစ္စံ နိရုဇ္ဈတိ။**
**တဿ ဒုက္ခသစ္စံ ဥပ္ပဇ္ဇတီတိ၊ နော။**

ယဿ ဝါ ပန။ အကြင်ပုဂ္ဂိုလ်အားကား။ သမုဒယသစ္စံ၊ သမုဒယသစ္စာသည်။ နိရုဇ္ဈတိ၊ ချုပ်ဆဲ။ တဿ၊ ထိုပုဂ္ဂိုလ်အား။ ဒုက္ခသစ္စံ၊ သည်။ ဥပ္ပဇ္ဇတိ၊ ဖြစ်ဆဲလော။ ဣတိပုစ္ဆာယံ၊ ဤသို့သော အမေးတော်သည်။ သတိ၊ ရှိသော်။ နော၊ ဖြစ်ဆဲမဟုတ်။

ဤသို့ သစ္စယမိုက် ဥပ္ပါဒ နိရောဓဝါရ၌ ဟောတော်မူသောကြောင့် သမုဒယသစ္စာ ချုပ်ဆဲဖြစ်သော ပုဂ္ဂိုလ်အား ဒုက္ခသစ္စာ ဖြစ်ဆဲ မဟုတ်ဟု သိအပ်သတည်း။

❖❖❖❖❖

## ၂၂၁။ စက္ကဝဠ်၊ အနန္တ၊ ဈာန်ပျံရသေ့ ရှိလိမ့်နည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အနန္တစကြဝဠာတို့၌ ဈာန်ရသော ရသေ့မုနိတို့ ရှိကြသည်ချည်းဟု ဖြေ။

အဘယ်ကိုထောက်၍ သိသနည်းဟူငြားအံ့ ''စာတုမဟာရာဇိကာနံ သဟဿံ၊ တာဝတိံသာနံ သဟဿံ'' အစရှိသော အင်္ဂုတ္တိုရ်ပါဠိတော်, အဋ္ဌကထာ, ဋီကာတို့၌ ဤစကြာဝဠာမှတစ်ပါး အခြားသော စကြဝဠာတို့၌ စတုမဟာရာဇ်, တာဝတိံသာစသော နတ်ရွာခြောက်ထပ်၊ ရူပါဝစရဗြဟ္မာတစ်ဆယ့်ခြောက်ရပ်ရှိကြောင်းကို လာသောကြောင့် ဗြဟ္မာ့ဘုံရှိလျှင် ထိုဘုံသို့ရောက်ကြောင်း ကောင်းမှုကိုပြုသော ဈာနလာဘီပုဂ္ဂိုလ်လည်း ရှိရာသည်။ နတ်ပြည်ရှိလျှင် ထိုနတ်ပြည်သို့ ရောက်ကြောင်း ကောင်းမှုကိုပြုသော သူရှိရာသည်။

**ဥပမာကား။** ။ အကြေ၌ ရေကြီးလာသည်ကို မြင်သဖြင့် မြစ်ညာတွင် မိုးရွာသည်ဟု သိရသော ဖလာနုမာနနည်း, အဝုတ္တသိဒ္ဓိနည်း ကဲ့သို့တည်း။

ယင်းသို့ တစ်ပါးစကြဝဠာ၌ ဖြဟ္မာ့ဘုံရှိကြသည့်တွင် ''သုဒ္ဓါဝါသဘုံကား ဇာတိခေတ်အတွင်း၌သာ ရှိသည်။ ပြင်ပ၌မရှိ'' ဟူ၍ အဘိဓမ္မာ ဋီကာတို့၌လာသည်။

ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာ, ၎င်းဂဏ္ဌိတို့၌ကား ''တစ်ပါးသော စကြဝဠာတို့၌ သုဒ္ဓါဝါသဘုံကားရှိ၏'' ပုဂ္ဂိုလ်သာမရှိဟု မိန့်၏။ ပါဠ်ကား–

**သုဒ္ဓါဝါသေ ပန ဇာတိက္ခေတ္တတော ပရဘာဂေ သတိပိ အနာဂါမီနံ တတ္ထုပ္ပတ္တိ န ယုတ္တာ။ တတ္ထ နိကန္တိ သိဒ္ဓိတော။ ဣဓ ဇာတာနံ ပန တတ္ထဝါသော ယုတ္တော။ အနာဂါမိဏ္ဍာတာယ ဖာသုဝိဟာရ ဟေတုတ္တာ'' ဟူ၍လာ၏။**

**အဓိပ္ပါယ်ကား။** ။ ကမ္ဘာအသင်္ချေ ပတ်လုံးလည်းကောင်း, ကမ္ဘာတစ်သိန်း ပတ်လုံးလည်းကောင်း ဘုရားမဖြစ်သော် သုဒ္ဓါဝါသဘုံ၌ ပုဂ္ဂိုလ်ဆိတ်၏။ ကမ္ဘာ တစ်သောင်းခြောက်ထောင်အတွင်း ဘုရားဖြစ်သော်သာ သုဒ္ဓါဝါသဘုံ၌ ပုဂ္ဂိုလ်မဆိတ်။ ထို့ကြောင့် ဇာတိခေတ်၏ ပြင်ဖြစ်သောစကြဝဠာတို့၌ သုဒ္ဓါဝါသဘုံရှိသော်လည်း ထိုဘုံတို့၌ အနာဂါမ်တို့၏ ဖြစ်ခြင်းငှာ မသင့်ရကား ''ပုဂ္ဂိုလ်မရှိ''ဟူသော အနက်သည် ပြီး၏။ မရောပြွမ်းခြင်းငှာလည်းကောင်း, ဖာသုဝိဟာရအကျိုးငှာလည်းကောင်း ဤဇာတိခေတ်သား ဖြစ်သော ဖြဟ္မာတို့ ရုံခါသွား၍ ထိုဘုံ၌နေ၏ဟု မှတ်ရမည်။ ဤကား အဖြေနှင့် စကားစပ်လျဉ်း၍ ပြဆိုလိုက်သည်။

❖❖❖❖❖

## ၂၂၂။ ပလ္လင်တော်ရုံ၊ သတ်ဌာနံ၊ အလံဘယ်မျှ ခြားသနည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

> မဟာဗောဓိပင်၏ အရှေ့မျက်နှာ ၄–တောင်ကွာတွင် အပရာဇိတ ပလ္လင်ပေါက်သည် ထိုပလ္လင်မှ ၁၄–လံကွာ အရှေ့မြောက်မျက်နှာ၌ အနိမိသ နေရာတော်တည်သည်။

ပလ္လင်တော်နှင့်လည်းကောင်း, အနိမိသနှင့်လည်ကောင်း ၇–လံကွာတွင် စင်္ကြံသွားရာဖြစ်သော စင်္ကမ စေတီတော် တည်သည်။

ဗောဓိပင်မှ အတောင်၄၀–ကွာ၊ အနောက်မြောက်မျက်နှာ၌ ,ရတနာဃရ ရွှေအိမ်တည်သည်။

ဗောဓိပင်မှ အရှေ့မျက်နှာ ၃၂–လံကွာတွင် အဇပါလမည်သော ပညောင် ပင်တည်သည်။

ဗောဓိပင်မှ တောင်မျက်နှာ ၂၉–တာကွာတွင် မုစလိန္ဒမည်သော ကျည်းပင် တည်သည်။

ဗောဓိပင်မှ အရှေ့တောင်မျက်နှာ အလံ ၄၀-ကွာတွင် လင်းလွန်းပင်ဟူသော ရာဇာယတန စေတီတည်သည်။

ဤသို့အဝေးအကွာကို သိရာ၏ဟုဖြေ။ ဤအဝေးအကွာကို "ဗောဓိဝိဘာဝနီ" စသော စာငယ်တို့၌ ဆိုသည်။ မညီညွတ်ကြ။ စေ့စုံစွာမှတ်လိုမူ ဇိနတ္ထပကာသနီ၌ ယူလေကုန်။

◆◆◆◆◆

**၂၂၃။ သကြားအောက်ခံ၊ ကမ္ဗလံ၊ လျားနံ့အထုဘယ်မျှနည်း။ (၁၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**"အယဉ္စ သိလာသနံ အာယာမတော သဋ္ဌိယောဇနံ။**
**ဝိတ္ထာရတော ပဏ္ဏာသ ယောဇနံ။**
**ဗဟာလတော ပန္နရသ ယောဇနံ"**

ဟူ၍ ဓမ္မပဒ အဋ္ဌကထာလာရကား အလျားယူဇနာ ၆၀၊ အနံယူဇနာ ၅၀၊ အထု ၁၅-ယူဇနာ ရှိ၏ဟု ဖြေ။

◆◆◆◆◆

**၂၂၄။ သစ်ပင်လက်ပံ၊ အကိုင်းလံ၊ အောက်ခံ ဘယ်နေ့သားဖို့နည်း။(၁၃)**

**၂၂၅။ စနေခူစံ၊ နေဖို့ကြံ၊ စိမံဘယ်ကောင်းကျိုးတို့နည်း။(၁၄)**

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား-

> ဂဠုန်နံ့သား၊ စောင်းလျား, ဆူးရစ်၊ ကျားနံ့ဖြစ်မူ၊ လံဘူလက်ပံ၊ ခြသေ့်နံကား၊ ပန်းသွန်, ဖက်သန်း၊ ဆင်ခန်းအမှတ်၊ သနပ်, သတ္တတ်၊ ကြွက်မြတ် ထနောင်း၊ ထအောင်းတဖြာ၊ ပူးမှာ အင်ကြင်း၊ နဂါးသင်းအကျော်၊ မြွေနံ့သော်မူ၊ ခူစံ, ငုစပ်၊ ဤသစ်မြတ်ကို၊ ခင်းလတ် ထိုင်ဖွယ်၊ နေရာငယ်ဖြင့်၊ တင့်တယ်စွာလှ၊ ပြုနေရမူ၊ သဗ္ဗရောဂါ၊ ဘေးမျိုးကွာ၍၊ ချမ်းသာသက်ရှည်၊ စည်းစိမ်တည်အံ့။ ဘုန်းစည်ရသေ့ အမြွက်တည်း။

ဤနမ္ဗန္ဓာကျမ်းလာ လင်္ကာဖြင့် သိသာလှပြီ။

◆◆◆◆◆

**၂၂၆။ ပေါဓိမိတ္တံ၊ ဂါထာရံ၊ အင်းဆံအဋ္ဌမှန် ဘယ်သို့နည်း။(၁၅)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- အဋ္ဌမှန် စတုတ္ထအင်းတွင် "ပေါဓိမိတ္တံ ဟိတံ ပုညံ၊ ယထာ ယာစိတကံ ဖလံ" အစရှိသော ဂါထာကိုရံ၍ဆောင်၊ သူမြင်တိုင်း ချစ်၏။ ပိယသိဒ္ဓိတွင် အတုမရှိဟု အင်းကျမ်းတွင်ဆိုသည်။

ထိုစတုတ္ထအင်းကို အဘယ်သို့ ချအပ်သနည်းဟူမူ အလျား အနံ ၉–ကွက်စီသား။ ၉–ကွက် ၉–လီဖြစ်၏။ ပဌမ ၉–ကွက်အင်း၌ နံ ၇–ပါး အက္ခရာပေါင်းသဖြင့် ရသော ၂၈–ခုတည်၊ ဒုတိယ ၉–ကွက်အင်း စသည်၌ တစ်ခုတစ်ခုစီ တိုးသဖြင့် ၂၉၊ ၃၀၊ ၃၁၊ ၃၂၊ ၃၃၊ ၃၄၊ ၃၅၊ ၃၆၊ အဆုံးအလယ်ကွက် တိုင်အောင် အစ အစ၌တည်။ ၎င်းတွင် ၉–နဝင်းချည်းလောင်း။ အဆုံး အလယ်ကွက်၌ ၁၀၈–သေစေ။

**ဟေမိ မိတ္တံ ဟိတံ ပုညံ၊ ယထာ ယာစိတကံ ဖလံ။**
**ဟေမိ နန္ဒာ ပိယာ ပုတ္တာ၊ ပိယာ သိရိ ပိယာ ပိယာ။**

**သုဝဏ္ဏမာဟ ဒွေဖလံ၊ အြဂ်ကာယ မမတ္တိ မမတ္တာယ။**
**သဟသ ပရိဝါရာယ၊ ပိသာဃာယ ဗောဓိသတ္တာယ။**

**သဗ္ဗနဂရေ သဗ္ဗဇနာနံ၊ စိတ္တံ ဘဝတိ မမသန္တိကေ။ ဟေမိ ဟေမိ၊အြဂ် ပုဒ္ဓံ ဝါ ဓမ္မံ ဝါ သံဃံ ဝါ ရာဇီ ရာဇသ ကုမာရီ ကုမာရသ အြဂ် သဗ္ဗယုတ္တံ သွာဟ ယျ ကပ်။**

**အဃောရံ ဃောရ ရှုပေန၊ သီရသာ ပုဒ္ဓဝန္ဒနာ။**
**သဗ္ဗဒုက္ခာ အပဟံမုဥ္စာ၊ အဃောရာဇာ အနုမောဒနာ။**

ဤကား အင်းရံ ဂါထာတည်း။ ၎င်းဂါထာနှင့်ပင် တတ်အားသမျှ စုပ်ရမည်။ ဤဂါထာနှင့် နံ့သာဆီ ဖယောင်းကို မန်း၍ချက်၊ အိုးမှာ စတုတ္ထအင်းချ။ ခုနစ်ကြိမ်ချလျှင် ဖယောင်းတွင် အင်းပေါ်၏။

(၂၈–ခုကိုတည်၍ ၉–နဝင်းတိုးသော အဋ္ဌမှန် စတုတ္ထအင်း)

❖❖❖❖❖

(၂၈–ခုကိုတည်၍ ၉–နဝင်းတိုးသော အဋ္ဌမှန် စတုတ္ထအင်း)

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၂၈ | ၃၇ | ၄၆ | ၂၉ | ၃၈ | ၄၇ | ၃၀ | ၃၉ | ၄၈ |
| ၉၁ | ၁၀၀ | ၅၅ | ၉၂ | ၁၀၁ | ၅၆ | ၉၃ | ၁၀၂ | ၅၇ |
| ၈၂ | ၇၃ | ၆၁ | ၈၃ | ၇၄ | ၆၅ | ၈၄ | ၇၅ | ၆၆ |
| ၃၅ | ၄၄ | ၅၃ | ၃၆ | ၄၅ | ၅၄ | ၃၁ | ၄၀ | ၄၉ |
| ၉၈ | ၁၀၇ | ၆၂ | ၉၉ | ၁၀၈ | ၆၃ | ၉၄ | ၁၀၃ | ၅၈ |
| ၈၉ | ၈၀ | ၇၁ | ၉၀ | ၈၀ | ၇၂ | ၈၅ | ၇၆ | ၆၇ |
| ၃၄ | ၄၃ | ၅၂ | ၃၃ | ၄၂ | ၅၁ | ၃၂ | ၄၁ | ၅၀ |
| ၉၇ | ၁၀၆ | ၆၁ | ၉၆ | ၁၀၅ | ၆၀ | ၉၅ | ၁၀၄ | ၅၉ |
| ၈၈ | ၇၉ | ၇၀ | ၈၇ | ၇၈ | ၆၉ | ၈၆ | ၇၇ | ၆၈ |

## ၂၂၇။ ပြဟ္မာမင်းသံ၊ စောဘုန်းလျှံ၊ ချေငံဘယ် ကောင်းမှုကြောင့်နည်း။(၁၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပြဟ္မာမင်း၏အသံကဲ့သို့ သန့်ရှင်း သာယာ သီသော နာဖွယ် လုံး ကျယ် နက်နဲ၊ မကွဲ မဖြ၊ ပေါက်ပြန့်စပ်၊ ပဲ့တင်ထပ်သော အင်္ဂါရှစ်ပါးနှင့်ပြည့်စုံသော အသံတော်ကိုရခြင်းသည် ရှေးရှေးသော ဘဝတို့၌ ကြမ်းကြုတ် ခက်ထန်သော ဖရုသဝါစာမှကြဉ်၍ နူးညံ့ပြေပြစ် ချစ်ဖွယ်သောစကားကိုသာ ဆိုတော်မူသော ကောင်းမှုကြောင့် ဖြစ်သည်။ ထို့ကြောင့် သုတ်မဟာဝါ ပါဠိတော်၌ ''အဖရုသ ဝါစာ အာဒေယျဝစနတာ ဒိန္န'' ဟူ၍ မိန့်အပ်၏။

◆◆◆◆◆

## ၂၂၈။ ထက်အောင်ကျော်ညံ၊ ပြည်ပေါက်ကံ၊နိုင်ငံမင်းဆုံးဘယ်နှစ်နည်း။(၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တရုတ်ပြေးမင်း၏သား ကျော်စွာသည် ၆၄၈–ခုနှစ်တွင် မင်းပြုသည်။ နန်းစံ၍ ၁၄–နှစ်ရှိသောအခါ သိင်္ခသိုသား ညီနောင်သုံးပါးတို့ ကျော်စွာကို နန်းချ၍ မြင်စိုင်းတွင် မင်းပြုသည်။ ထို့ကြောင့် သက္ကရာဇ် ၆၆၂–ခုတွင် ပေါက်ကံမင်းဆက်ဆုံး၏ဟူပေ။ ထို့ကြောင့် နားတော်သွင်း၌–

> မဆိတ်အာဏာ၊ သားကျော်စွာလျှင်၊ ရာနှင့်–ခု–ဆ။ ဆယ်– ဖယဝယ်၊ လောင်းထနှစ်ထွေ၊ နှစ်ရောက်လေက၊ ဖ မွေ ထိန်းကျောင်း၊ ရိပ်ဖြူဆောင်း၍၊ ရှေးကြောင်းခံလစ်၊ ဆယ့်လေးနှစ်တွင်၊ ရှင်ချစ်ဘုန်းခေါင်၊ သံပြွက် တောင်ထက်၊ ဉာဏ်ရောင်မြွက်ပြီး၊ စိုင်သုံးစီးတို့၊ ပွင့်နီးချိန်ထောက်၊ ထိုခါရောက်၍၊ သုံးယောက်နောင်ညီ၊ ပြောင်းခဲ့ချီသည်–မထီတည့်ရန်ဘေး၊ ဦးမလေး''ဟူ၍ စပ်လေသည်။

◆◆◆◆◆

## ၂၂၉။ သီဟသူခံ၊ ပင်းယစံ၊ ပုဂံမင်းဆက်၊ ကုန်ပြီနည်း။(၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မင်းဆက် မကုန်သေး၊ ကျော်စွာ၏ သား စောနစ်, စောမွန်နစ်တို့ကို ပုဂံတွင် မြို့စားထားသေး၏ဟူပေ။

◆◆◆◆◆

## ၂၃၀။ တောင်ငူမြို့ရံ၊ ထီးနန်းစံ၊ ပုံ့ချီနှစ်ပါး ဘယ်မျှနည်း။(၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား ။ ပုံ့ချီ–၁၅–နှစ်၊ ပုံ့ချီငယ် ၁၇–နှစ် မင်းပြုသည်။

◆◆◆◆◆

## ၂၃၁။ နိဒဿနံ၊ နိဒါနံ၊ နိဋ္ဌိတံ 'နိ' တူလိမ့်နည်း။(၂၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

နိဒါနန္တိအာဒီသု အာဒေသော။
နိဒဿနန္တိအာဒီသု ဥပမာယံ။
နိဋ္ဌိတန္တိအာဒီသု သြသာနေ။

ဟူ၍ ကေကစ္စရကောသဋီကာ မိန့်သောကြောင့် နိဒါနံ-အစရှိသော ဥဒါဟရုဏ်တို့၌ နိ သဒ္ဒါသည် ညွှန်ပြခြင်းအနက်။ နိဒဿနံ အစရှိသည်တို့၌ နိ သဒ္ဒါသည် ဥပမာအနက်။ နိဋ္ဌိတံ အစရှိသည်တို့၌။ နိ သဒ္ဒါသည် ပြီးဆုံးခြင်းအနက်ကို ဟောသည်ဖြစ်၍ အနက်မတူကြဟူပေ။ ။

◆◆◆◆◆

## ၂၃၂။ နိယျာနိကံ၊ နိဂ္ဂတံ၊ နိဗ္ဗာနံ 'နိ' ဘယ်ဟောနည်း။(၂၁)
## ၂၃၃။နိသာမိတံ၊ နိပုဏံ၊ နိဿယံ၌ ဘယ်သို့နည်း။(၂၂)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား-

''နိယျာနိကော နိဂ္ဂတောတိ အာဒီသု နိဂ္ဂဟိတေ။
နိဗ္ဗာနန္တိ အာဒီသု နိက္ခန္တေ။
နိသာမိတန္တိအာဒီသု အန္တောဘာဂေ။
နိပုဏန္တိအာဒီသု ဆေကေ။
နိဿယန္တိအာဒီသု သမီပေ'' ဟူသော ၎င်းဋီကာဖြင့်ဖြေ။

◆◆◆◆◆

## ၂၃၄။ နဒီပါရံ၊ ပုဒ်ရင်းခံ၊ ကြံလော့ 'ပါ'ကား ဘယ်ဟောနည်း။(၂၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''နဒီပါရန္တိ အာဒီသု ပတ္တော။ ပတ္တ ဟိ ပါယတိ နာဝါဒီဟိ ပါပုဏီယတီတိ ပါရန္တိအတ္ထော ဟောတိ။ ပါ-ဓာတု၊ ဏ-ပစ္စယော၊ ရာဂမော''

နဒီပါရန္တိအာဒီသု၊ နဒီပါရံ အစရှိသည်တို့၌။ ပတ္တော၊ ရောက်ခြင်းအနက်၌။ ပဝတ္တတိ၊ ဖြစ်၏။ ဟိ၊ ထင်စွာဆိုဦးအံ့။ တတ္ထ၊ ထို ''နဒီပါရံ''ဟူသော ဥဒါဟရုဏ်၌။ နာဝါဒီဟိ၊ လှေ, ဖောင်, သင်္ဘော, ပိန်းကော, သမ္ဗန်,သင်္ကာဒါန်, လွန်းကျင်, ဇလာ ကပင်, လက်ငင်းလှော်ကား, ဝါးစည်း, သစ်တုံးတို့ဖြင့်။ ပါယတိ ပါပုဏီယတိ၊ ရောက်အပ်၏။ ဣတိ၊ ထို့ကြောင့်။ ပါရံ၊ ပါရမည်၏။ ဣတိအတ္ထော၊ ဤသို့သော အနက်သည်။ ဟောတိ၊ ဖြစ်၏။ ပါ-ဓာတု၊ ပါဓာတ်တည်း။ ဏ-ပစ္စယော၊ ဏ ပစ္စည်းသက်။ ရာဂမော၊ ရအာဂုံရာ လာ၍ ရုပ်ပြီး၏။

◆◆◆◆◆

## ၂၃၅။ မိစ္ဆာစာရ၊ ပြစ်မှားကာ၊ ဆက်ဆံ ဘယ်ဝေဒနာနည်း။(၂၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ပါဏာတိပါတော ဒုက္ခဝေဒနာ သမ္ပယုတ္တော၀။ အဒိန္နာဒါနာ တီသု ဝေဒနာသု အညတြ ဝေဒနာသမ္ပယုတ္တံ၊ တထာ မုသာဝါဒေါ။ ဣတရာနိ ဒွေ သုခါယ အဒုက္ခ မသုခါယ ဝေဒနာယ ဝါ သမ္ပယုတ္တာနိ''

ဟူ၍ ခုဒ္ဒကပါဌ အဋ္ဌကထာ မိန့်သောကြောင့် မိစ္ဆာစာရကံသည် သုခ ဥပေက္ခာအားဖြင့် ဝေဒနာနှစ်ပါးတွင် တစ်ပါးပါးနှင့် ယှဉ်၏။

❖❖❖❖❖

## ၂၃၆။ ထန်းရွက်ရှည်လံ၊ သူ့ဘုန်းကံ၊ သန်လျက်ဖြစ်၏ မည်သူနည်း။(၂၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သီဟိုဠ်ကျွန်း၌ ဥမ္မာဒစိတ္တာ၏ သားဖြစ်သော ''ပဏ္ဍုကာဘယမင်း''တည်း။ ထိုမင်းသားသည် ဦးရီးတော်တို့ကို စစ်ပြုမည်ဟု ရဲမက်ခုနစ်ရာနှင့်တကွ ဒေါလတောင်၏အနီး၌ မြို့ကြီးဖွဲ့လျက် နေ၏။ ဂင်္ဂါကိုကူး၍ စစ်ထိုးလာသော ဦးရီးတော် ကိုးယောက်တို့အား လိုက်၍တိုက်သဖြင့် မြစ်တစ်ဖက်သို့ချည်း ပြေးရကုန်၏။ တစ်ရံသောအခါ ဥဒုမ္ဗရတောင်၏အနီး၌ သစ်တပ်ပြု၍ နှစ်နှစ်တိုင်တိုင်နေ၏။ ထိုအခါ ဥဒုမ္ဗရတောင်၌ စောင့်နေသော ဗလဝါမုခီမည်သော ဘီလူးမသည် ဥဒုမ္ဗရအပြင် ရေကန်နား၌ ကိုယ်လုံးဖြူသော မြည်းမ၏အသွင်ကို ဖန်ဆင်း လျက်စား၏။ မင်းသား၏ကျွန်တို့မြင်၍ အရှင်မင်းသားအား လျှောက်ကြလေ၏။ ပဏ္ဍုကာ ဘယမင်းသားလည်း မြည်းမကို ဖမ်းခြင်းငှာ ကြိုးကိုကိုင်ကာ လာပြီးသော် အနီးသို့ ချဉ်းကပ်၏။ မြည်းမလည်း မင်းသား၏တန်ခိုးကြောင့် ကြောက်လန့်ရကား ထိုအသွင်ကို မကွယ်ဖျောက်ဘဲ ရေကန်ကို ခုနစ်ပတ် လည်၍ ပြေး၏။ မင်းသားလည်း ထက်ကြပ်ပင် ပြေး၍လိုက်၏။ မြည်းမလည်း မဟာဂင်္ဂါမြစ်သို့ သက်ဆင်း၍ ပြေးပြီးမှ ဥဒုမ္ဗရတောင်ကို ခုနစ်ပတ်ရစ်၍ ပြေး၏။ မင်းသားလည်း ပြေးတိုင်း၌ နောက်ထပ်ပင်လိုက်၏။ ထိုမှတစ်ဖန် ရေကန်သို့ သက်ဆင်း၍ သုံးပတ်ရစ်ပြီးသော် ဂင်္ဂါမြစ်ဆိပ်သို့ ဆင်းလာ၏။

ထိုအခါ ပဏ္ဍုကာဘယမင်းသားလည်း မြည်းမ၏ အမြီးကို ဆွဲမိ၏။ မြစ်ထဲ၌ မျောလာသော ထန်းရွက် တစ်လံခန့်ကို ဆွဲလိုက်သော် မင်းသား၏ ဘုန်းတော်ကြောင့် ထိုထန်းရွက်သည် သန်လျက်ဖြစ်လေ၏။ မင်းသားကား ထိုသန်လျက်ဖြင့် ခုတ်မည်ဟု ရွယ်သောအခါ မြည်းမက ဤသို့ဆို၏။ ''အရှင့်သား– အံကျွန်ုပ်ကို မသတ်ပါလင့် အကျွန်ုပ်ကား တိရစ္ဆာန်မြည်းမ မဟုတ်၊ ဤဥဒုမ္ဗရတောင်ကို စောင့်နေသော စေတိယာ မည်သော နတ်သမီးတည်း။ အပျော်အပါး ကစားလို၍သာ မြည်းမအဟန် ဖန်ဆင်း၍

နေပါသည်။ အသက်ကို ချမ်းသာပေးပါမူကား အရှင့်သားအား မင်းဖြစ်အောင် ပြုပါအံ့'' ဟု လျှောက်၏။ ထိုစကားကိုကြားသော် မင်းသားလည်းမသတ်ဘဲ မြည်းမကို စီး၍ ဥဒုမ္ဗရ တောင်သို့လာခဲ့ပြီးလျှင် ထိုဘီလူးမ ဗိမာန်သို့ ဝင်၍ ခုနစ်ရက်ပတ်လုံး မွေ့လျော်ပြီးမှ ထွက်ခဲ့၍ လူအများအားပြ၍ ရွှင်ပျစေ၏။ ဤမင်းသားအကြောင်းကား ရှည်လျားစွာလာ၏။ အကျယ်ကိုလိုသော် မဟာဝင်၌ ယူလေ။

❖❖❖❖❖

## ၂၃၇။ သူ့ရန်သူကြံ၊ မိုးသို့ပျံ၊ နာမံဘယ်မြို့ဘယ့်ကြောင့်နည်း။(၂၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဒွါရာဝတီပြည် သံတွဲမြို့ဟူပေ။

**အကြောင်းအမြွက်ကား။** ။ **အသိတဥ္စနမြို့၌ မဟာကံသမင်း၏ သမီးတော်** ဒေဝ ဂဗ္ဘာနှင့် ဥပသာဂရမင်းသား သင့်မြတ်ရာတွင် ဖွားမြင်သော ဝါသုဒေဝ, ဗလဒေဝ, စန္ဒဒေဝ,သူရိယဒေဝ, အဂ္ဂိဒေဝ, ဝရုဏဒေဝ, အဇ္ဇုန, သဇ္ဇန, ဃဋပဏ္ဍိတ, အင်္ကုရ ဟူသော မင်းညီနောင် တစ်ကျိပ်တို့သည် ဦးရီးတော်တို့၏ နေရာဖြစ်သော အသိတဥ္စနမြို့ကိုရလျှင် ဇမ္ဗူဒိပ်ကျွန်း၌ အလုံးစုံသောပြည်ကို ယူအံ့ ဟူ၍ စစ်အင်္ဂါလေးပါး ရုံးစုပြီးသော် မြို့မှထွက်၍ ယောနကတိုင်း အယုဇ္ဈ ပုရပြည်ကို တိုက်၏။ ထိုပြည်ကို ရလျှင် ဗိုလ်ပါကို သိမ်းရုံး၍ ဒွါရာဝတီပြည်ကို တိုက်၏။ ထိုပြည်ကား တစ်ဖက်က သမုဒ္ဒရာ၊ တစ်ဖက်က တောင်စဉ်ရှိသည်ဖြစ်၍ အလွန်လုံခြုံသည်။ မြေသြဇာရှိသည်။ ရန်သူလာလျှင် မြို့စောင့်နတ်တို့သည် မြည်းယောင်ဖန်ဆင်း၍ အသံပြုလျှင် မြို့အလုံးသည် ကောင်းကင်သို့ ပျံတက်၍ သမုဒ္ဒရာအလယ် ကျွန်းငယ်တစ်ခု၌ တည်လေသည်။ ရန်သူတို့သွားမှ တည်မြဲ တည်ပြန်သတည်း။

ထိုဒွါရာဝတီပြည်ကို ဗိုလ်ပါဖြင့် ဝန်းရံ၍ သုံးကြိမ်တိုင်အောင်လုပ်ကြသော်လည်း မြို့သည် ကောင်းကင်သို့ပျံလေ၍ မတွေ့သဖြင့် မရနိုင်ရကား တောင်ထက်၌နေသော ကဏှဒီပါယန ရသေ့ကိုကပ်၍ နိုင်အံ့သော အကြောင်းကိုမေး၏။ ရသေ့လည်း မင်းသားတို့ လူတစ်ယောက်ကိုမျှ မသတ်ရအောင် သစ္စာပြုစေပြီးမှ ဤသို့ပြော၏ ''မင်းသားတို့အား မြို့ကိုဝန်းရံမိသောအခါ မြည်းတစ်ကောင် မြည်လိမ့်မည်။ ထိုအသံကို မကြားလော့''ဟု မေး၏။ ကြားပါကြောင်းကို လျှောက်လျှင် ''ဤမြည်းကား မြို့စောင့်နတ်ဘီလူးတည်း။ သူမြည်လျှင် ကောင်းကင်သို့မြို့ပျံ၍ အလယ်ကျွန်းသို့ ကျလေသည်း။ ဤမြည်းကို ဖမ်း၍မမြည်အောင် တောင်းပန်ရမည်။ ဤသည်လျှင် နိုင်အံ့သော အကြောင်းတည်း''ဟု ဆိုပေ၏။ မင်းသားလည်း ရသေ့ပြောတိုင်း မြည်းကိုဖမ်း၍ သင်မမြည်ပါနှင့်ဟု တောင်းပန်သော် ''ငါသည် ပြည်သူတို့၏ ပူဇော်သက္ကာကို ရှည်စွာ ခံရပေသည်။ မမြည်ဘဲ မနေသာ။ မြည်သော်လည်း မြို့မပျံစေလိုလျှင် သင်တို့

ရှေးဦးလာ၍ မြို့တံခါးလေးမျက်နှာ၌ လည်းကောင်း, လေးထောင့်၌ လည်းကောင်း, သံချောင်းဖြင့် မယ်နနက်၍ သံကြိုး ဆိုင်းလေလော့''ဟု ဆို၏။ မင်းသားတို့လည်း ထို နတ်ဘီလူးတို့ဆိုတိုင်း သံကြိုးဆိုင်းပြီးမှ လုပ်ကြံကြလေလျှင် မင်းနှင့်တကွ ဒွါရာဝတီ ပြည်ကိုရ၏။ ဝါသဒေဝမင်းလည်း ဤပြည်ကား ဘူမိနက်သန် မှန်လှပေသည်ဟု ထီးနန်းစိုက်၍နေ၏။ ဇမ္ဗူဒိပ်ကျွန်းအပြင်၌ထင်ရှားသော ခြောက်သောင်းသုံးထောင်သော မြို့တို့ကိုလည်း သိမ်းယူ၍ ကေရာဇ် အဖြစ်သို့ ရောက်တော်မူ၏။ ယင်းသို့ သံတွဲ၍ ယူရဖူးသောကြောင့် ယခုတိုင် ''သံတွဲ'' ဟုတွင်သည်။ သမုဒ္ဒရာပြင်၌ မြို့ကျရာ ဖြစ်သောကျွန်းသည်လည်း 'မာန်အောင်ကျွန်း'ဟု ခေါ်တွင်သည်။ ဤအကြောင်းကိုကား ဘုရားဟောတော်မူသော ဇာတ်၌လာသည်။ ဒသနိပါတ်၌ သင်္ဂါယနာတင်သည်။ မင်းညီနောင် တစ်ကျိပ်တွင် ဃဋပဏ္ဍိတကား ဘုရားလောင်းပင်တည်း။

❖❖❖❖❖

## ၂၃၈။ ရာဇသင်္ကြန်၊ စိတ်စက်ခံ၊ မနွံဘယ် မင်းသားကိုနည်း။ (၂၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တရုတ်ပြေး တွင်သော နရသီဟပတေ့မင်းကို မနွံသည်ဟု ဖြေ။ အကြောင်းကား။ ကျော်စွာမင်း ကံကုန်ခဲ့သော် သားတော် ကြီးဖြစ်သော သီဟသူသည် ပုဂံပြည် ထီးနန်းကိုယူ၍ မင်းမူ၏။ ထိုအခါ ညီတော် နရ သီဟပတေ့သည် အမတ်ကြီး ရာဇသင်္ကြန် အိမ်သို့သွား၍ ''အဘိုး– အကျွန်ုပ်ကို မစပါ''ဟု ဆို၏။ အမတ်ကြီးကလည်း ''မင်းသားငိုလိုရာတွင် လက်တို့၏ ဟူသကဲ့သို့ ဖြစ်သည်။ မစိုးရိမ်နှင့်''ဟု ဆို၍ သီဟသူကို ပယ်ပြီးမှ နရသီဟပတေ့ကို မင်းမြှောက် လေ၏။ မင်းဖြစ်လျှင် အမတ်ကြီးရာဇသင်္ကြန်ကို မပြုမစု နေဘိ၏။ အမတ်ကြီးလည်း နှလုံးမကြည် ရှိသည်နှင့် ကွမ်းကလပ်ပွဲကိုဆောင်၍ နန်းတော်သို့ တက်၏။ မင်းကြီးက ''အဘိုး–ဘယ့်ကြောင့် ကလပ်ပွဲနှင့် ကွမ်းစားသနည်း''ဟု မေးသော်။ အမတ်ကြီးကလည်း ''အရှင့်သား ပန်းပွတ်သည်တို့ ပွတ်မည့်သူ မရှိပါ၍ ကလပ်ပွဲနှင့် စားရပါသည်''ဟု ထိခိုက်လျက် လျှောက်၏။ မင်းကြီးလည်း ထိုစကားကို နှလုံးနာသည် ဖြစ်၍ ''အဘိုး ရာဇသင်္ကြန် ဂူထွတ်ကို ထီးတင်သောအခါ ဘယ့်နှယ့် တင်သနည်း''ဟု မေး၏။ ''အရှင့်သား ငြမ်းလုပ်၍ တင်ရပါသည်''ဟု လျှောက်၏ ''ထီးအထက်သို့ ရောက်သော် ငြမ်းကို ဘယ်သို့ပြုသနည်း''ဟု မေးပြန်၏။ ''ထီး အထက်သို့ ရောက်သော် ငြမ်းကိုဖျက်ပါသည်''ဟု လျှောက်သော် ''မင်းကြီး ငါကား ဂူထွတ်၌ တင်သော ထီးနှင့်တူ၏။ ရာဇသင်္ကြန်ကား ငြမ်းနှင့်တူ၏။ ထီးအထက်သို့ ရောက်သကဲ့သို့ ငါမင်းအဖြစ်သို့ ရောက်ပြီ။ ငြမ်းနှင့်တူသော ရာဇသင်္ကြန်ကိုဖျက်မှ

ငါတင့်တယ်မည်'' ဆိုလျက် စည်းစိမ် ဥစ္စာကိုသိမ်း၍ 'ဒလမြို့သို့ ပို့လေ''ဟု မိန့်တော်မူ၏။ ဤအကြောင်းကို ထောက်၍ မှူးမတ်တို့သည် မင်းတို့အား မိမိကျေးဇူး ရှိဖူးသည် ဟူ၍ မထီမဲ့မြင်မပြုရာ။ ပြုသော် ရာဇသကြန်ကဲ့သို့ အပြစ်တင် ခံရတတ်သည် ဟူလို။

❖❖❖❖❖

## ၂၃၉။ ဒသဗလ၊ မြတ်ဉာဏ်၊ ဓမ္မ ဘယ်တရားတို့နည်း။(၂၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အရာဟုတ်သည် မဟုတ်သည်ကို သိတတ်သော ဌာနာဌာန ကောသလ္လ ဉာဏ်။

ကံအထူး ဝိပါက်အထူးကို သိတတ်သော ကမ္မဝိပါကန္တရဉာဏ်။

ကံ၏အပိုင်းအခြားကို သိတတ်သော သဗ္ဗတ္ထဂါမိနီဉာဏ်။

ဓာတ်တို့၏ အထူးအပြားကို သိတတ်သော နာနာဓာတုဉာဏ်။

သတ္တဝါတို့၏ အလိုနှလုံးသွင်းကို သိတတ်သော အဓိမုတ္တိဉာဏ်။

ဣန္ဒြေ ရင့်–မရင့်ကို သိတတ်သော ဣန္ဒြိယ ပရောပရိယတ္တိဉာဏ်။

ဈာန် စသည်တို့၏ ညစ်ညူးခြင်းကို သိတတ်သော ဈာနာဒိ သံကိလေသ ဉာဏ်။

ရှေးနေဖူးသော ခန္ဓာအစဉ်ကို သိတတ်သော ပုဗ္ဗေနိဝါသာနုဿတိဉာဏ်။

သတ္တဝါတို့၏ စုတိ ပဋိသန္ဓေကို သိတတ်သော ဒိဗ္ဗစက္ခုဉာဏ်။

သစ္စာလေးပါးကို ထိုးထွင်း၍ သိတတ်သော အာသဝက္ခယဉာဏ်။

ဤဉာဏ်ဆယ်ပါးကို ''ဒသဗလဉာဏ်''ဟူ၍ ဆိုသည်။

ထိုဆယ်ပါးတို့တွင် ရှေ့ဖြစ်သောဉာဏ် ခုနစ်ပါးသည်ကား ကာမာဝစရ ဖြစ်သော မဟာကိရိယာ ဉာဏ်တော်တည်း။ ပုဗ္ဗေနိဝါသနှင့် ဒိဗ္ဗစက္ခုဉာဏ်နှစ်ပါးသည် ရူပါဝစရ ဈာန်စိတ်နှင့်ယှဉ်သော ဉာဏ်တည်း။ အာသဝက္ခယဉာဏ်ကား လောကုတ္တရာ ဖြစ်သော အရဟတ္တမဂ်ဉာဏ်တော်တည်း။

ထို့ကြောင့် သာရတ္ထသင်္ဂဟ၌ ''ဧတေသု ဟိ ပဋိပါဋိယာ သတ္တ ကာမာဝစရာနိ။ တတော ဒွေ ရူပါဝစရာနိ။ အဝသေသံ ဧကံ လောကုတ္တရံ'' ဟူ၍ မိန့်၏။ ။ အနက်ကား အဓိပ္ပါယ် အတိုင်းပင်။

❖❖❖❖❖

33
A

## ၂၄၀။ ရွှေတောင်မခံ၊ ဟင်္သာပျံ၊ စိတ်ခံမည်သို့ရှိသနည်း။(၂၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရှေးသောအခါ ငါတို့ဘုရားအလောင်းတော်သည် အာနန္ဒာ အလောင်းနှင့် အတူတကွ ဟိမဝန္တာ၏အနီးဖြစ်သော စိတ္တကူဋ တောင်တွင် ရွှေဟင်္သာမျိုး၌ ဟင်္သာညီနောင် ဖြစ်တော်မူ၏။ ထိုညီနောင်တို့သည် ကိုယ်လုံး၌ ရွှေအတိပြီး၏။ အထူးထူးသော သတ္တဝါတို့၏ ကျင့်ဝတ်စရိုက်ကို သိသည်ဖြစ်၍ သားငှက်တို့အား ဩဝါဒပေးနိုင်သော ပညာလည်းရှိ၏။ ရွှေကဲ့သို့ အဆင်းလှခြင်းကြောင့် လည်းကောင်း, တရားစကားကို ပြောကြားတတ်သောကြောင့်လည်းကောင်း တစ်ပါးသော ငှက်အပေါင်းတို့သည် ဟင်္သာညီနောင်တို့၏အထံ၌ ခစားပျပ်ဝပ်လာကုန်၏။

တစ်ရံသောအခါ ဟိမဝန္တာတောသို့သွား၍ ကျက်စားပြီးသော မိမိတို့၏နေရာ စိတ္တကူဋ တောင်သို့ ပျံလာကြရာ ရွှေအဆင်းနှင့်တူသော နေရုတောင်ကိုတွေ့၍ ထိုတောင်သို့ ဝင်လျက် နားနေကြကုန်၏။ ထိုတောင်ကို မှီ၍နေသော သမင်, ဒရယ်, ချေငယ်, စိုင်, ဆတ်စသော သတ္တဝါတို့သည်လည်းကောင်း၊ ကျေးငှက်အပေါင်းတို့သည် လည်းကောင်း၊ တောင်၏အရောင်ဖြင့် ဟပ်မိရကား၊ အလုံးစုံ ရွှေအဆင်းနှင့်သာတူကုန်၏။ ဟင်္သာညီနောင်တို့ ရောက်သော်လည်း တစ်စုံတစ်ခုသော သားငှက်မျှ ခစား ပျပ်ဝပ်ခြင်းငှာ မကပ်လာကြကုန်။

ထိုအခါ ညီဟင်္သာက နောင်တော် ဟင်္သာမင်းအား ဤသို့မေး၏။ "နောင်တော်– တစ်ပါးသော ဌာနသို့ ကျွန်ုပ်တို့ရောက်သည်ရှိသော် သားငှက်တို့သည် ကျွန်ုပ်တို့ထံသို့ ရောက်လာကြကုန်၏။ ဤတောင်၌ရှိသော သားငှက်တို့ကား မရောက်လာကုန်။ ဘယ့်ကြောင့် ဖြစ်လေသနည်း၊ ဤတောင်ကား အဘယ်မည်သော တောင်နည်း"ဟု မေး၏။

နောင်တော် ဟင်္သာမင်းကလည်း "ငါ့ညီ–ဤတောင်ကို နေရုတောင်ဟူ၍ လူတို့ သမုတ်ကြကုန်၏။ ဤတောင်ကား မိမိကိုမှီသော သားငှက်ဟူသမျှကို အဆင်းအားဖြင့် ထူးခြား ကွဲလွဲအောင် မပြု။ မိမိအရောင်ဖြင့်သာ ဖုံးလွှမ်း၍ အညီအမျှ ဖြစ်အောင် ပြုတတ်၏။ ဤသို့သော အရပ်ကို အဆင်းလှသော ငါတို့သည် မမှီနိုရာ။ ညီတော်–ဤလူ့ရွာတွင် အကြင်အရပ်သည် ဂုဏ်ကျေးဇူးနှင့် ပြည့်စုံသောသူကို လည်းကောင်း, ဂုဏ်ကျေးဇူး မရှိသောသူကို လည်းကောင်း, အတူအမျှသာ ပြုတတ်၏။ ထူးခြားကွဲလွဲအောင်မပြုတတ်။ ထိုအရပ်ကို ဂုဏ်ကျေးဇူးရှိသောသူသည် မခိုရာ။ ။ အကြင်မင်း သူကြီးတို့သည် ယုတ်သောသူကို မြတ်နိုးခြင်းရှိ၏။ မြတ်သောသူကို မြတ်နိုးခြင်းမရှိ။ ယုတ်သောသူ မြတ်သောသူဟူ၍ အထူးအခြားမရှိ။ အတူအမျှသာ ပြုတတ်၏။ ရဲရင့်နိုင်ခန့်သောသူနှင့် ကြောက်ထိတ်လန့်တတ်သော သူကိုလည်း အတူ အမျှသာ ပြုတတ်၏။ ထိုသို့သော မင်းသူကြီးတို့ကို မမှီဝဲရာ။ အကြင်မြို့ရွာ ဒေသ၌

ပညာရှိသော သူကိုလည်း ပညာမဲ့သော သူနှင့်အတူတူသာ ပြုတတ်၏။ ထိုသို့သော အရပ်ဒေသ၌ ပညာရှိသူတို့သည် မနေရာဟူ၍, ရှေးပညာရှိတို့ ဆိုကြကုန်၏။ ဤနေရာ တောင်သည်လည်း အယုတ်, အလတ်, အမြတ်သုံးပါးကို ခြားနား၍ မချီးမြှောက်တတ်။ ဂုဏ်ရှိ သောသူ၊ ဂုဏ်မရှိသောသူကိုလည်း ခွဲခြမ်း၍မပြု၊ သူမြတ်ကို သိမ်ဖျင်းအောင် ပြုတတ်၏။ ထို့ကြောင့် ဤတောင်၌ နေသဖြင့် အဘယ်အကျိုးမျှ မရှိချေ။ ငါတို့ မြန်စွာသွားမှ သင့်မည်''ဟု ဆို၍ ထိုနေရုတောင်မှသည် မိမိတို့နေသော စိတ္တကူဋ် တောင်သို့ ပြန်လေကုန်၏ ဟူ၍ ကေနိပါတ်ဇာတ် ကျမ်း၌လာသည်။ ဤသို့ ဂုဏ်ကျေးဇူး ရှိသောသူကို အထူးအကွဲ မပြုသောကြောင့် နေရုတောင်ကို ဟင်္သာညီနောင်တို့ မစံဘဲ ရှောင်၏ဟူပေ။

## ''အံ'' ကာရန်ပုစ္ဆာ ၂၉–ပုဒ်တို့၏ အဖြေ ပြီး၏။

(ဤ ၂၉–ပုဒ်တို့တွင်။ အဂ္ဂါဂါရံပုဒ်။ ပလ္လင်တော်ရံပုဒ်။ သစ်ပင်လက်ပံပုဒ်။ ရွှေတောင်မစံပုဒ်တို့ကိုသာ ရှေ့ဆရာတို့ ဖြေခဲ့သည်။ အကြွင်းပုဒ်တို့ကို မဖြေခဲ့။ ဖြေပါသမျှလည်း နေရာမကျ။ ထို့ကြောင့် အသစ်ဖြေဆို လိုက်သည်)။

❖❖❖❖❖

## (၅) ''အံ့'' ကာရန်ပုစ္ဆာ ၉–ပုဒ်အဖြေ။

### ၂၄၁။ ဘီလူးစားအံ့၊ မကြောက်ရွံ့၊ ရဲဝံ့လောင်းလျာ ဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပဥ္စာဝုဓမင်းသား၊ သုတနလုလင်, သုတသောမမင်း, ဇယဒိသ, အယောဃရ ဤ ငါးဇာတ်တို့၌ ဘုရားလောင်းသည် ဘီလူး စားအံ့သည်မှ မကြောက်ရွံ့ကြောင်းကို လာသည်။ ထိုတွင် ပဥ္စာဝုဓဇာတ်ကို နောက်ပစ် အံ့မြစ်ကာရန်ပုစ္ဆာတွင်ဖြေဆိုခဲ့ပြီ။

**သုတနဇာတ်ကား ဤသို့တည်း။** ။ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်း မင်းပြုသောအခါ ဘုရားအလောင်းတော်သည် သူဆင်းရဲ၏ အမျိုး၌ဖြစ်၍ ''သုတန လုလင်'' အမည်ရှိ၏။ ဖခင်လွန်ခဲ့သော် မယ်တော်ကို လုပ်ကျွေးလျက်နေ၏။

မင်းကြီးသည် သမင်သား၌ မက်မောခြင်းရှိသည်ဖြစ်၍ တောကစား သွား လေသော် တစ်ခုသော ဇေယျသားကိုတွေ့၍ မင်းချင်းအများတို့နှင့် ဝန်းဝိုင်း၍ ဖမ်းကြ ရာတွင် မင်း၏တာမှ သမင်သည်ထွက်ပြေး၏။ မင်းလည်း အတန်ကွာလိုက်၍ မမီလျှင် သမင်ကို လေးနှင့်ပစ်သတ်၏။ ထိုသမင်ကို ဓားနှင့်ပိုင်းဖြတ်ပြီးမှ မှူးမတ်တို့ကို ပြရန် အလို့ငှာ ထမ်းဆောင်၍ လာသည်တွင် ခရီးအကြား၌ ပညောင်ပင်ကို မြင်သဖြင့် အပန်းဖြေခြင်းငှာ ညောင်ရိပ်သို့ ဝင်၍ အိပ်လေ၏။

ထိုညောင်ပင်၌ မဃဒေဝမည်သော ဘီလူးသည် ဝေဿဝဏ္ဏနတ်မင်းအား ခစားရသဖြင့် အခွင့်ရသောကြောင့် ဤ ညောင်ပင်ရိပ် နှံ့သမျှဌာနသို့ ဝင်ရောက်သော သတ္တဝါတို့ကို စားသောက်ကာနေ၏။ မင်းကြီးနိုး၍ သွားမည်ပြင်ဆင်သော် ဘီလူးသည် ကိုယ်ထင်ပြ၍ ''လူသား၊ အသင် မသွားလင့်၊ သင်ကား ငါ့အစာဖြစ်ပြီ''ဟု ဆို၍ လက်ကိုကိုင်၏။ မင်းလည်းကြောက်လန့်ကာ ''ဘီလူး–သင်သည် ယနေ့တစ်ကြိမ်သာ စားလိုသလော။ နေ့တိုင်းပင် စားလိုသလော'' ဟုမေး၏။ ''နေ့တိုင်းပင်စားလို၏''ဟု ဆိုသော် ''ငါကား လူ သာမညမဟုတ်၊ ဤဗာရာဏသီပြည်ကို အစိုးရသောမင်းတည်း။ ယနေ့ သမင်သားကိုစား၍ ငါ့အား လွှတ်ဘိလော့။ နေ့တိုင်း ထမင်းတစ်အိုး လူတစ်ယောက်ကို သင့်အထံသို့ ငါလွှတ်အံ့''ဟု ဆို၏။ ဘီလူးလည်း ''ဤစကား အတိုင်းမှန်စေ။ မမှန်မူ သင်မင်းကြီးကို စားအံ့''ဟု သစ္စာပြုစေ၍ လွှတ်လိုက်၏။

မင်းလည်းပြန်ခဲ့၍ ပြည်သို့ရောက်သောအခါ မြို့ဝန်နှင့်တိုင်ပင်၍ နှောင်အိမ်၌ ထားသော သူတို့ကို တစ်နေ့တစ်ယောက်စီထုတ်၍ ''ထမင်းတစ်အိုးကို ညောင်စောင့် နတ်မင်းထံပို့ချေ''ဟု စေလိုက်၏။ ဘီလူးလည်း လာတိုင်းသော သူတို့ကိုစား၍ နေ့ရက် များသဖြင့် ရာဇဝတ်သားတို့ ကုန်လေသော် မင်းသည်သေဘေးမှ ကြောက်သည်ဖြစ်၍ ဆင် ကျောက်ကုန်း ထက်၌ အသပြာ တစ်ထောင်ထုပ်ကိုတင်၍ ''အကြင်သူသည် ညောင်စောင့်နတ်အား ထမင်းပို့ဝံ့သည်ဖြစ်အံ့၊ ဤအသပြာထုပ်ကို ယူစေသတည်း'' ဟု စည်လည်စေ၏။

ထိုအခါ သုတနုလုလင်သည် အသပြာထောင်ထုပ်ကိုယူ၍ မိခင်အား ပေးပြီးသော် မင်းကြီးထံသို့လာ၍ ''အရှင်မင်းကြီး–အကျွန်ုပ် ညောင်စောင့်နတ်ကို ထမင်းပို့ပါမည်။ သို့ရာတွင် ထီးတစ်လက်, သန်လျက်တစ်စင်း, ခြေနင်းတစ်ခုကိုသာ, အကျွန်ုပ်အား ပေးပါ''ဟု လျှောက်၏။ မင်းကြီးက ဘယ်အကြောင်းကြောင့်နည်း''ဟု မေးလျှင် ''အရှင် မင်းကြီး–လက်နက်စွဲကုန်သော သူတို့အား ဘီလူးတို့ ကြောက်မြဲ ဖြစ်ပါသည်။ ချင်း နေသော ညောင်ရိပ်ကိုမခိုဘဲ ထီးရိပ်ကိုသာ ခိုလိုပါသည်။ ချင်းမြေကို မနင်းဘဲ ခြေနင်းကိုသာ နင်းလိုပါသည်။ ဤကဲ့သို့ မြေမနင်း၊ အရိပ်မခိုလျှင် ထို ဘီလူးမစားနိုင်ပါ'' ဟုလျှောက်၏။ မင်းကြီးလည်း သုတနုလုလင်အား လိုချင်တိုင်းကိုပင် ပေးစေ၏။

သုတနုလုလင်လည်း မင်းကြီး၏ စားတော်ထမင်းကို ရွှေလင်ပန်းဖြင့် ထည့်၍ သန်လျက်လက်စွဲလျက် ခြေနင်းစီး၍ ထီးကိုဆောင်းလျက် ပြည်မှ ထွက်ခဲ့၍ ဘီလူး နေသော ညောင်ပင်၏ အနီးသို့ ရောက်သောအခါ မိမိနှင့်ပါသော လူပရိသတ်တို့ကို မြင်သာရုံ အရပ်ကနေစေ၍ သုတနုလုလင်ကား သစ်ပင်အရိပ်အပြင်ကနေ၍ သန်လျက် ဦးတွင် ထမင်းခွက်ကို တင်ပြီးသော် ''မဃဒေဝ ဘီလူး–ထမင်းယူလှည့်''ဟု ခေါ်၏။ ဘီလူးလည်း ဤသူကို လှည့်ပတ်၍ စားအံ့ဟု ကြံလျက် ''လုလင် ဤညောင်ပင် အရိပ်ကို ဝင်ခဲ့လော့''ဟု ဆို၏။ ဘုရားလောင်းလည်း ''သင် အခွင့်ပေးမူ ငါဝင်အံ့''ဟု

ဆို၍ ခြေနင်းစီးလျက် ထီးကိုဆောင်း၍ ဝင်၏။ ဘီလူးက သင်သည် ငါ့အစာဖြစ်ပြီ၊ ငါစားတော့အံ့''ဟု ဆိုလေသော် ''ငါ့ကို သင်မစားသင့် ၊ ဘယ့်ကြောင့်နည်းဟူမူ၊ ငါသည် သင်၏ ညှောင်ပင်အရိပ်ကိုမခို၊ ထီးရိပ်ကိုသာခိုသည်။ သင်၏မြေကိုငါမနင်း၊ ဤခြေနင်း ကိုသာနင်းသည်။ ထိုထီးနှင့် ဖိနပ်ကိုသာ သင်စားသင့်သည်။ အကယ်၍ ငါ့ကိုဆွဲငင် မူကား ဤသန်လျက်ဖြင့် သင့်ကို ဖြတ်မည်။ ငါသည် လူသာမည မဟုတ် မိခင်ကို လုပ်ကျွေး၍နေသော တစ်ပြည်လုံး ထင်ရှားသော သုတနုမည်သော ယောက်ျားတည်း၊ ငါ့ကို သင်စားမူ ပြည်သူပြည်သားတို့ အများသိကြ၍ ထမင်းကိုမျှ သင့်ထံသို့ ပို့လာဝံ့သူ မရှိရာ။ မပို့လာသော် လွန်စွာ သင် ငတ်မွတ်လတ္တံ့။ ငါတို့ မင်းကြီးလည်း သင်ပိုင်ရပ်ဌာန၏ ပြင်၌ဖြစ်သောကြောင့် သင်မစားထိုက်ပြီ''ဟု ဆို၏။ ထိုစကားကို ဘီလူး ကြားသော် ဤသူကား အကြောင်းဟုတ်သည်၊ မဟုတ်သည်ကိုပင် ဆိုပေသတည်းဟု နှလုံးပြု၍ ထမင်းခွက်ကိုသာ ယူ၍စား၏။

ထိုအခါ ဘုရားလောင်း သုတနုလုလင်ကလည်း ''အချင်း မဃဒေဝ–သင်သည် ရှေးမကောင်းမှုကြီးလှသောကြောင့် ရုန့်ရင်းကြမ်းကြုတ်သော ဘီလူးဘဝ၌ ဖြစ်ရပြီ။ ယခုတစ်ဖန် ထပ်မံပြုန်လျှင် အလွန်ယုတ်ရာသို့ ရောက်ပြန်တော့မည်။ ဤပါဏာတိပါတမှ ကြဉ်ရှောင်လော့။ ငါသည် မင်းကြီးအား လျှောက်ထား၍ မသတ်ဘဲစားရသော သားစိမ်း အရသာကိုမြို့ဈေးမှာ ကောက်၍ အမြဲပေးစေအံ့'' ဤသို့စသည်ဖြင့် တရားဟောပြော ဆုံးမ၍ ဘီလူးကို မာန်စောင်ကျစေပြီးလျှင် မိမိ၏ ထီး, သန်လျက်, ခြေနင်း, ထမင်းခွက် တို့ကို ယူစေ၍ နောက်ပါခေါ်၍ ပြည်သို့လာခဲ့၏။ ဗာရာဏသီမင်းလည်း အလွန် ဝမ်းမြောက်သည်ဖြစ်၍ ဘုရားလောင်းအား စစ်သူကြီးအရာ၌ထား၏။ ဘီလူးကိုလည်း မြို့ပြင်တံခါးဝ၌ နေစေ၏။

ဤဇာတ်ကား ကေနိပါတ်၌လာသည်။ သုတသောမ မင်းသည် လူသား စားတတ် သော ပေါရိသာဒ၏ အထံသို့သွားကြောင်းများမှာ ထင်ရှားစွာ၏။

**ဇယဒိသဇာတ်ကား–** ရှေးလွန်လေပြီးသောအခါ ကပိလတိုင်း၊ ဥတ္တရပဉ္စာလ မြို့၌ ''ပဉ္စာလ''မည်သော မင်းသည် မင်းပြု၏။ ထိုမင်း၏ မိဖုရားကြီးသည် ကိုယ်ဝန်ရ၍ သားဖွားလတ်သော် ရှေးဘဝ၌လင်တူ ရန်ဘက်ဖြစ်ကြ၍ ''သင်၏သားကို စားနိုင် စေသား''ဟု ဆုတောင်းရှိသောမိန်းမသည် ဘီလူးမ ဖြစ်၍နေသည်နှင့် မိဖုရား သားဖွား ရာသို့ မိတ်ဆွေသဏ္ဍာန်ဖြင့်လာပြီးလျှင် ဖွားစေသောသားကို ကြွပ်ကြွပ်ဝါး၍ စားလေ၏။ နှစ်ကြိမ်မြောက် သားဖွားရာ၌လည်း ဤနည်းတူလာ၍ စား၏။ သုံးကြိမ်မြောက် သွားဖွားခါနီး၍ မီးနေအိမ်သို့ ဝင်သောအခါ ပဉ္စာလမင်းကြီးသည် လက်နက်စွဲသော ယောက်ျားတို့ကို များစွာစောင့်ရှောက်စေ၏။ မိဖုရား သားဖွားသော ကာလ ဘီလူးမသည် ရှေးနည်းတူ ယူလာပြန်လျှင် မိဖုရားသည် အလန့်တကြား ဟစ်အော်သည်နှင့် အစောင့် သူတို့ သိ၍ ဖြဖြလိုက်ကြလေသော် ဘီလူးမလည်း စားခွင့်မရသောကြောင့် သားငယ်ကို ရင်ဝယ်ပိုက်လျက် ရေပြွန်မှ ထွက်ပြေးလေ၏။ သားငယ်သည် မိခင်ဟူသော အမှတ်ဖြင့်

သားမြတ်၌ နှိုစို့လေသော် ဘီလူးမလည်း သားရင်းကဲ့သို့ ချစ်ခြင်းဖြစ်ရကား မစားဘဲ မိမိနေရာသုသာန်သို့ ဆောင်ယူ၍ ကျောက်ဂူ၌ ထားပြီးလျှင် သားပြု၍ မွေးမြူ၏။ မင်းသားလည်း ဘီလူးမ ကျွေးသော လူသားကိုစား၍ ကြီးလေရကား မိမိ၏ လူဇာတ်ဖြစ်ကြောင်းကို မသိဘဲ ဘီလူးမ သားဟူသော အမှတ်ဖြင့်သာနေ၏။ လူပျိုဖြစ်၍ ကိုယ်ကို မကွယ်ပျောက် နိုင်ရကား တစ်ခုသော ဆေးမြစ်ကို အမိကပေး၍ ထိုဆေးကို ဆောင်သဖြင့် ကွယ်ပျောက်ရလေ၏။ ကာလရှည်လတ်သော် အမိဘီလူးမသည် ဝေဿဝဏ္ဏ နတ်မင်းထံသို့ အမှုထမ်းသွားရာ၌ သေရကား၊ မိမိချည်းသာ ကျောက်ဂူ၌ နေ၏။

မိဖုရားလည်း လေးကြိမ်မြောက် သားဖွားပြန်သော် ဘီလူးအန္တရာယ်မရှိ၊ ပကတိ ချမ်းမြေ့စွာ ရှိရကား မင်းသားကို ''ဇယဒိသ''ဟူသော အမည်ကို မှည့်၏။ ထိုမင်းသားသည် အရွယ်သို့ရောက်သောအခါ ပြည့်စုံစွာ အတတ်သင်ပြီး၍ ထီးနန်း တိုင်းပြည်ကို အုပ်ချုပ်လျက် မင်းလုပ်လေ၏။

ဇယဒိသမင်း၏ မိဖုရား၌ ဘုရားအလောင်းတော်ဖြစ်သော သားကိုရ၍ ''အလီန သတ္တု''ဟူသော အမည်ကို မှည့်၏။ ထိုမင်းသား အရွယ်သို့ရောက်၍ အတတ်ပညာ တတ်မြောက်သော ကာလ အိမ်ရှေ့မင်းအရာကို ရ၏။

ထိုအခါ သုသာန် ကျောက်ဂူမှာနေသော ဘီလူးမသားလည်း ကိုယ်ကို ကွယ်ပျောက် စေတတ်သော ဆေးမြစ်ပျောက်လေသည်နှင့် မကွယ်ဝှက်နိုင်ဘဲ ပြကတေ့သော ကိုယ်ဖြင့်သာလျှင် သုသာန်၌ပစ်လာသော လူကောင်ကိုဖော်၍ စား၏။ ပြည်သားတို့ မြင်သော် ကြောက်လန့်သဖြင့် ဇယဒိသမင်းကြီးအား လျှောက်ကြားလေ၏။ ''အရှင်မင်းကြီး၊ ဘီလူးတစ်ယောက်သည် သုသာန်ပြင်၌ ကိုယ်ထင်ပြ၍ လူကောင်ကို စား၏။ အကယ်၍ လူကောင်မရလျှင် မြို့ရွာသို့ဝင်၍ လူရှင်ကို သတ်စားလတ္တံ့။ ထို့ကြောင့် ထိုဘီလူးကို နှင်တော်မူပါလော့''ဟု လျှောက်ကြ၏။ မင်းကြီးလည်း ကောင်းပြီဟု ဝန်ခံပြီးလျှင် သူရဲတို့ကိုလွှတ်၍ ဝန်းရံစေသော် ဘီလူးမ သားလည်း ဖွားတိုင်းသော ကိုယ်ဖြင့် ကြောက်မက်ဖွယ် မြည်တမ်းလျက် ဝန်းရံသောလူတို့လက်မှ ထွက်ပြေးလေ၏။ ထွက်ခဲ့ပြီးသော် တောအုပ်ကြီး၏အတွင်း တစ်ခုသော ညောင်ပင်ရင်း၌ နေ၍ ခရီးသွားလူတို့ကို ဖမ်းယူသတ်စားလေ၏။

တစ်ရံသောအခါ လှည်းမှူးပုဏ္ဏားတစ်ဦးသည် ထိုတောအုပ်ဖြင့် ခရီးသွားလိုသောကြောင့် တောစောင့်သော လူတို့ကို အသပြာတစ်ထောင်ဖြင့်ငှား၍ လှည်းငါးရာနှင့် သွားလေသော် ဘီလူးမ သားလည်း လန့်ကြောက်ဖွယ် ဟစ်ကြော်၍ လိုက်သော် လူအပေါင်းတို့ ဦးခေါင်းမြေထိ ဝပ်ကြသောအခါ ပုဏ္ဏားကိုယူ၍ ပြေးလေ၏။ တောစောင့်သော လူတို့သည် အခယူပြီးဖြစ်၍ မနေသာသောကြောင့် ဝန်းရံကာ လိုက်ကြလျှင် ပုဏ္ဏားကို ထမ်းလျက် ပြေးရသောကြောင့် ခြေကို ရှားငုပ်စူးလေ၏။ ဘီလူးလည်း ပုဏ္ဏားကို ပစ်ခဲ့၍ မိမိနေရာ ညောင်ပင်ရင်းသို့ ဝင်လျက် ပုန်းနေ၏။

ထို့နောက် ခုနစ်ရက်မြောက်သောကာလ ဇယဒိသမင်းသည် သင်းပင်း ခြွေရံနှင့်တကွ တောကစားလာ၍ တစ်ကောင်သော ချေကိုမြင်လျှင် ''ဤချေကို အရှင်ဖမ်းကြအံ့။ အကြင်သူ၏ အနီးမှထွက်မူ ထိုသူ၏ တာဝန်ဖြစ်စေ''ဟု ကတိကဝတ်ပြု၍ ဝန်းရံကြသော် မင်းကြီး၏တာက ထွက်ပြေးရကား အမတ်ကြီးတို့ ပြက်ရယ်စကား ဆိုကြမည်ကို မခံလိုသောကြောင့် မင်းကြီးကိုယ်တိုင် လက်နက်ကိုင်၍ လိုက်သော် ယူဇနာဝက်ရှိမှ မီသဖြင့် ထိုချေကို နှစ်ပိုင်းဖြတ်၍ ထမ်းလာခဲ့၏။ ဘီလူးမ သားနေရာ ညောင်ရိပ်သို့ရောက်လျှင် ပင်ပန်းဖြေခြင်းငှာ ဝင်၍အိပ်နေ၏။ နိုး၍သွားမည်ဟု ပြင်သော အခါ ဘီလူးမသားသည် ပုန်းနေရာမှ ထွက်ခဲ့၍ လက်ကိုကိုင်ပြီးလျှင် ''သင် ဘယ်ကို သွားအံ့နည်း။ ငါ့အစာ ဖြစ်ပြီတကား''ဟု ဆို၏။ ထိုအခါ ဇယဒိသမင်းလည်း အလွန် ကြောက်လန့်လှလျက် ပြေးထွက်ခြင်းငှာ မဝံ့ရကား၊ သမာဓိတရားကို ဖြစ်စေလျက် ''အသင်ဘီလူး ငါကား လူသာမညမဟုတ်။ ဤ ပဥ္စာလတိုင်းကို အစိုးရသော မင်းတည်း။ သင် ဤချေသားကိုသာ စား၍ ငါ့အားလွှတ်ပါ''ဟု ဆို၏။ ထိုအခါ ဘီလူးကလည်း ''မင်းကြီး၊ သင်သည် ဈေးသည်၏ ဥစ္စာဖြင့် ဈေးဝယ်ရာသကဲ့သို့ ငါပိုင်သော ချေသားကို ငါ့အားဝယ်လော့ဟု ဆိုဘိ၏။ အဘယ်မှာ လွှတ်တော့အံ့နည်း၊ ယနေ့ သည်ချေသားကိုစား၍ နက်ဖြန် သင့်ကိုငါစားအံ့''ဟု ဆို၏။ ''ဘီလူး–သင်သည် ငါ့ကို မလွှတ်ဘဲစားလိုမူ စားပါလော့။ သို့ရာတွင် ငါတောသို့ ဝင်မည်ဟု ပြည်မှ ထွက်သောအခါ၌ တက္ကသိုလ်ပြည်မှ နန္ဒအမည်ရှိသော ပုဏ္ဏားသည် ရောက်လာ၍ သဟဿာရဟ ဂါထာကို ဟောမည်ပြုသော် ယခု ကျွန်ုပ် မနာအားသေး၊ တောမှ ပြန်သောအခါ တရားနာမည်ဟု ချိန်းချက်ခဲ့သော သစ္စာစကားသည် ငါ့အား ရှိပါသတည်း။ ထိုသစ္စာကို စောင့်သောအားဖြင့် ယနေ့ ပြန်သွား၍ ထိုတရားကို နာပါရစေ။ နက်ဖြန် သင်၏ထံသို့ ငါပြန်လာပါအံ့။ ထိုအခါမှ သင်လိုရာပြုပါလော့''ဟု ခွင့်တောင်း၏။ ထိုအခါ ဘီလူးမ သားကလည်း ''မင်းကြီး၊ နန္ဒပုဏ္ဏားထံ ဝန်ခံခဲ့သော သစ္စာကိုကား စောင့်လိုပေပြီ။ ငါ့ကို ဝန်ခံသော သစ္စာကိုကား စောင့်ပါအံ့လော''ဟု မေးပြန်၏။ မင်းလည်း မစိုးရိမ်လင့်၊ ငါ၏အသက်ကို မနှမြော၊ စကားပျက်အံ့သည် ကိုသာ ငါနှမြောသည်''ဟုဆိုလျှင် ''ထိုသို့မှန်တပြီးကား သွားဦးတော့''ဟု အခွင့်ပေး၏။

မင်းကြီးလည်း ထိုမှ ပြန်လာခဲ့၍ စောင့်နေသော ဗိုလ်ပါအစည်းအဝေးသို့ ရောက်လျှင် အတ္တုပ္ပတ္တိကို မပြောဘဲ ပြည်သို့ မြန်စွာဝင်ခဲ့၍ နန်းတော်သို့ ရောက်သော ကာလ နန္ဒပုဏ္ဏားကို ပင့်ခေါ်၍ မြတ်သောနေရာ၌ ထားလျက် တရားကိုနာပြီးသော် လေးဂါထာ၌ အသပြာလေးထောင် ပူဇော်ပြီးမှ နန္ဒပုဏ္ဏားအား မိမိနေရာတက္ကသိုလ်ပြည်သို့ ပို့စေ၏။ နောက်နေ့ မိုးသောက်လတ်သော် သားတော် အိမ်ရှေ့မင်းကို ခေါ်၍ ''ချစ်သား၊ တရားနှင့်လျော်စွာ မင်းမူရစ်လော့။ ငါမူကား ဘီလူးထံ အစားခံသွားအံ့'' ဟုဆို၏။ ထိုအခါ သားတော်အိမ်ရှေ့မင်းကလည်း ''ခမည်းတော် အဘယ်သို့ အကြောင်း ရှိ၍ ဘီလူးအစားခံ သွားအံ့နည်း''ဟု လျှောက်လျှင် ''တောကစားသွားစဉ် အခါ

သူ၏ ညောင်ရိပ်သို့ ဝင်၍အိပ်နေမိသောကြောင့် သူစားပိုင်သည်ဖြစ်၍ ငါ့အား စားမည်ဟု ပြုရာတွင် တစ်ရက်မျှ ငံ့ပါ။ တရားကိုနာပါရစေဟု ခွင့်တောင်း၍ သစ္စာခံပြီးလျှင် ပြန်လာသည်။ ထို့ကြောင့် ၎င်းသစ္စာကို စောင့်သောအားဖြင့် အစားခံသွားမည်''ဟု စေ့စုံစွာ ပြောလျှင် ''ဖခင်မင်းကြီး၊ ယင်းသို့ ဖြစ်တပြီးကာ ဖခင်ကိုယ်စား ကျွန်ုပ်သွား၍ ဘီလူးစားခံပါအံ့။ ဤလောက၌ မိဖကျေးဇူးကို သိတတ်သော သားမြတ်သားကောင်း ဟူသမျှတို့သည် မိဖကျေးဇူးတို့ကို ဆပ်၏ဟူသော်လည်း စည်းစိမ်ဥစ္စာကိုပေးခြင်း၊ ဝေယျာဝစ္စကို ဆောင်ခြင်းဖြင့်သာ ဆပ်ကြကုန်၏။ အသက်ကိုစွန့်၍ ဆပ်ရသူကား အလွန်ရှားသည်။ ကျွန်ုပ်မူကား ဘုရားသဗ္ဗညုတို့ ဆုကို ဖြည့်အံ့သူဖြစ်၍ စင်စစ် အခွင့်ကြုံလေသည်။ ထို့ကြောင့် ကျေးဇူးတော်မြတ်ကို အသက်စွန့်၍ဆပ်ပါရစေဟု ခွင့်တောင်း၏။ မင်းကြီးလည်း ငါ့သားသည် မင်း၏စည်းစိမ်ကို မခံစားရဖူးသေး။ ငါမူကား ရှည်ဝေးစွာ ခံခဲ့ပြီ။ ထို့ကြောင့်သေသော်လည်း သင့်လျော်ပြီဖြစ်၍ ငါသာ သွား၍ ဘီလူးစားခံမည်''ဟု ဆို၏။ ထိုအခါ သားတော် အိမ်ရှေ့မင်းလည်း ထပ်ကာ ထပ်ကာ တောင်းပန်သဖြင့် အခွင့်ရလေသော် ခမည်းတော်မယ်တော်တို့အား ပူဇော်ကန်တော့၍ အိမ်တော်တွင်ရှိသော သားမယား ကျေးကျွန်တို့အား လည်းကောင်း၊ ပြည်သူပြည်သား တို့အားလည်းကောင်း မှာထားပြောဆိုပြီးမှ မြို့မှထွက်၍ ဘီလူးရှိရာ တောရပ်သို့ အစားခံ ထွက်လေ၏။

မယ်တော် ခမည်းတော်တို့နှင့်တကွ ပြည်အလုံးသည် အုန်းအင်းခတ်မျှ ငိုကြွေးကြလျက် ‧ တောဝသို့ ရောက်အောင် ပို့လိုက်၏။ ထိပ်ထက် လက်တင်ကာ ဖခင်၏ ကျေးဇူးကို အထူး သိတတ်သော သားမြတ်သားထူးကို ဘီလူး မစားရက်ဘဲ လွတ်ထွက်ပါစေဟု မြို့စောင့် ရွာစောင့် ကောင်းကင်စောင့် နတ်တို့အား တိုင်ကြား၍ ဆုတောင်းကြ၏။

အလီနသတ္တု မင်းသားလည်း မြူးစားအံ့သောငှာ ရတနာဂူမှ ထွက်သော ခြင်္သေ့ ကဲ့သို့ သိမ်မွေ့ရဲတင်းစွာ တောသို့ဝင်လာ၏။ ဘီလူးမ သားလည်း ''မင်းတို့ မည်သည်ကား များစွာသော မာယာရှိ၏။ ဘယ်သို့ ပြုမည်မသိနိုင်''ဟု ကြံပြီးလျှင် စောစွာကပင် ညောင်ပင်ထက်က ကြည့်လျက် မြော်တမ်းကာနေသည်နှင့် ဖခင် ပြန်သွား၍ သားကိုသာ လွှတ်သည်ကိုမြင်လျှင် ''ငါ့တွင် အန္တရာယ်မရှိ''ဟု သိ၍ သစ်ပင်မှ ဆင်းပြီးလျှင် မင်းသား လာရာကို ကျောခိုင်းကာ နေလင့်၏။

ညောင်ရိပ်သို့ ရောက်သောကာလ ''ဗြဟာ ဥဇူ စာရုမုခေါ''စသော ဂါထာကို ဆို၏။ ထိုဂါထာ၏ အဓိပ္ပါယ်ကား– ''အဆွေ လူသား– လူသားကို စားတတ်သော ငါသည် ဤညောင်ရိပ်မှာနေသော အဖြစ်ကိုမသိ၍ လာသလော၊ သင် အဘယ်မည်သော သူနည်း''ဟု ဆိုလိုသည်။

မင်းသားကလည်း– ''ဇာနာမိ ပုတ္တော ဘသိ'' အစရှိသော ဂါထာဖြင့် ''အဆွေ ဘီလူး–ငါကား ပဉ္စာလတိုင်းကို အစိုးရသော ဇယဒိသမင်း၏ သားတည်း။ သင်

ဤညောင်ရိပ်မှာ နေသောအဖြစ်ကို ငါသိ၏။ ငါ့ဖခင်အား သင်စားအံ့သည်ကို ဖခင်ကိုယ်စား ငါ ခံလို၍ လာသတည်း။ ငါ၏ ကိုယ်ကို စဉ်းလိုစဉ်း ခုတ်လိုခုတ်၊ ပြုတ်လိုပြုတ်၊ ကင်လိုကင်၊ သင်အလိုရှိသမျှ ပြုလော့''ဟု မိန့်၏။

ထိုစကားကို ကြားသော ဘီလူးကလည်း ''မင်းသား- ဤလောက၌ လူဟူသမျှကား သေဘေးမှ ကြောက်ကြသည်ချည်းဖြစ်လျက် သင်ဘယ့်ကြောင့် မကြောက်သနည်း''ဟု မေး၏။

မင်းသားကလည်း ''အသင်ဘီလူး၊ ငါ့အား မျက်မှောက်၌ပြုအပ်သော အပါယ်လား ကြောင်း မကောင်းမှုသည် တစ်စုံတစ်ခုမျှ မရှိ။ ကုသိုလ်သုစရိုက်သာလျှင်များစွာ ငါ့၌ရှိ၏။ ဤဘဝမှ စုတေသော် ငါလိုသော ဂတိသို့ စင်စစ်ရောက်မည်သာဖြစ်၍ သေခြင်းကို ငါမကြောက်သတည်း။ အလုံးစုံမြင်သမျှသော သတ္တဝါတို့သည် တစ်ဘဝ၌ တစ်ခါသေမြဲ ဓမ္မတာ ဖြစ်ကြ၏။ သင်မစားဘဲ ငါ့အလိုလိုသေရမှုကား အကျိုးမရှိ။ သင်အစားကိုခံ၍ သေရမှုကား ငါ့ဖခင်ကိုလည်း ကျေးဇူးဆပ်သည် မည်သည်။ သင့်အားလည်း ဤကိုယ်နှင့် အသက်ကို လှူရသည်မည်သည်ဖြစ်၍ ငါ၌အလွန် မြတ်လှစွာသော ဒါန ပရမတ္ထပါရမီ ပြည့်တော့သည်။ ထို့ကြောင့် သေရမည်ကို ငါမကြောက် သတည်း''ဟု ဆို၏။

ထိုစကားကြားသော် ဘီလူးလည်း နူးညံ့သောစိတ်ရှိသည်ဖြစ်၍ ပြေးလိုလျှင် ပြေးပါစေဟု နှလုံးထားလျက် ''မင်းသား-ဖခင်၏ကိုယ်စား ခံလိုမှုကား သင့်အသားကို ချက်ခြင်းငှာ ထင်းခြောက်ရှာ၍ မီးပုံလော့''ဟု ဆို၏။ မင်းသားလည်း ဆိုတိုင်းမီးပုံလေလျှင် ''ရေကို ဆောင်ချေဦးလော့၊ ခုံလောက် တည်ဦးလော့'' စသည်ဖြင့် စီရင်၏။ မင်းသားလည်း စီရင်တိုင်းပြု၍ အနီး၌နေလေလျှင် ဘီလူးလည်း မင်းသားကိုစိန်းစိန်းကြည့်၍ ''ဤသူကား လူသာမညမဟုတ် မနုဿအာဇာနည် စစ်စစ်တည်း။ ဤသူ၏ အသားကို စားသဖြင့် မုန်ညင်းခန့်မျှ မကျေနိုင်ရာ။ လွှတ်မှသာ သင့်မည်ဟု ကြံပြီးလျှင် ''မင်းသား- သင်ကဲ့သို့ မကြောက်မရွံ့ ရဲဝံ့သောသူ သစ္စာစကား စောင့်ကြားမှန်ကန်သောသူကို တစ်စုံတစ်ယောက်မျှ ငါမမြင်ဖူးပေ။ သင်၏ မျိုးဆွေမိဘတို့၏ ထံသို့ ပြန်၍ တင့်တယ်စွာ စံနေလော့''ဟု ဆို၏။ ထိုအခါ မင်းသားကလည်း ''အသင်သည် မျက်တောင်လည်း ခတ်သည်။ အရိပ်လည်းထွက်သည်။ ဘီလူးအစစ်မဟုတ်။ ဘီလူးအစစ်ကား မျက်တောင်လည်းမခတ်။ ကိုယ်ရိပ်လည်းမထွက်။ သင်ကား ငါ့ဖခင်၏ အစ်ကိုဖြစ်၍ ငါ၏ ဘကြီးပင်တော်သည်။ ဤတော၌ တစ်ယောက်တည်း ဆင်းရဲစွာ မနေလင့်။ တိုင်းပြည်သို့လိုက်၍ ချမ်းသာစွာ နေလှည့်လော့''ဟုခေါ်၏။

ဘီလူးမသားကလည်း ထိုစကားကို မယုံရကား ဤတောအုပ်၌ နေသော ဒိဗ္ဗစက္ခုရသေ့ကို မေးကြကုန်အံ့ဟု နှစ်ဦးသွားကြလေလျှင် ရှင်ရသေ့လည်း မြင်စကပင် ''သား, ဘကြီးတို့သည် အဘယ်အကြောင်းကြောင့် လာကြသနည်း''ဟု မေး၏။

34
A

အကြောင်းမျိုးကို လျှောက်သော် အစ်ကိုနှစ်ဦးတို့ကို ဘီလူးမ စားကြောင်း၊ မိမိကို မွေးထားကြောင်း ညီဇယဒိသမင်း ယခုမင်းပြု၍နေကြောင်း။ ဤသူငယ်သည် ညီတော် သားဖြစ်ကြောင်းကို ပြောလျှင် ယုံကြည်စွာသိ၍ ''ချစ်သား-သင်သွားလေတော့။ ငါ ဤတွင် နေရစ်တော့မည်''ဆို၍ လွှတ်လိုက်၏။

မင်းသားလည်း ပြန်လာခဲ့၍ ပြည်သို့ရောက်သော် ခမည်းတော်အား အကြောင်း မျိုးစုံကိုလျှောက်ထား၏။ မင်းကြီးလည်း အားရတော်မူလှ၍ ဗိုလ်ပါ မှူးမတ်တို့နှင့်တကွ ရသေ့ထံသို့ သွားပြီးလျှင် ရသေ့အား မေးလျှောက်ကြသည်။ ရသေ့လည်း အတ္တုပ္ပတ္တိကို ပြန်ကြားပေးသော် ငါ၏နောင်တော်ပင်ဖြစ်သည်ဟု သိ၍ ပြည်သို့လိုက်၍ မင်းပြုပါမည့် အကြောင်းနှင့် တောင်းပန်၏။ ဘီလူးမ သားလည်း ''ငါကား မင်းမပြုလိုပြီ၊ ဤဘဝ၌ ရှေးအကုသိုလ်ကြီးလှ၍ ဘီလူးမ သား ဖြစ်ရလေသည်။ ရသေ့ ရဟန်းပြု၍ နေတော့မည် ဟု ဆို၍ ရသေ့ပြုလျက်နေလေ၏။ မင်းကြီးလည်း ထိုရသေ့နှစ်ဦးတို့အား အလုပ် အကျွေး အလို့ငှာ မြို့ရွာတည်ထား၍ လေးပါးသော ပစ္စည်းဖြင့် ချီးမြှောက်၏။

ဤသူတို့သည် အသက်အတိုင်းနေ၍ စုတေလေသော် ကံအားလျော်စွာ လားရ ကုန်၏ဟု အတ္တုပ္ပတ္တိ ဖေါ်၍ ဇာတ်ပေါင်းတော်မူသည်။ ''ထိုအခါ လူသားစား တတ်သော ငါ၏ ဘကြီးသည် အင်္ဂုလိမာလဖြစ်၏။ နမတော် အငယ်သည် ဥပ္ပလဝဏ် ဖြစ်၏။ အိမ်ရှေ့မိဖုရားသည် ရာဟုလာမယ်တော် ဖြစ်၏။ အလီနသတ္တုမင်းသားသည် ငါဘုရား ဖြစ်တော်မူ၏။ ဘီလူးမသားကို တရားပြသ၍ ဆုံးမရာဌာနသည် ''စူဠကမ္မာသဒမ္မနိဂုံး'' ဖြစ်၏။ မယ်တော် ခမည်းတော်တို့ကား မယ်တော် ခမည်းတော် ဖြစ်လာကုန်၏။ မင်း၏ ပရိသတ်တို့သည် ငါဘုရားပရိသတ်ဖြစ်လာ၏''ဟူ၍ ဇာတ်ကိုပေါင်းတော်မူသည်။ ။ ဤဇာတ်ကား တိံသနိပါတ်၌ လာ၏။

❖❖❖❖❖

## ၂၄၂။ကက္ကာရနံ့၊ မွှေးပျံ့ပျံ့၊ နံ့သည်ဘယ့်လောက် တိုင်အောင်နည်း။ (၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''ဒိဗ္ဗကက္ကာရဂန္ဓော ဒွါဒသယောဇနိကံ၊
ဗာရာဏသိနဂရံ အဇ္ဈောတ္ထရိ''

ဟူ၍ စတုက္ကနိပါတ် ကက္ကာရဇာတ် အဋ္ဌကထာ၌ လာသောကြောင့် ကက္ကာရ မည်သော နတ်ပန်း၏ ရနံ့သည် တစ်ဆယ့်နှစ်ယူဇနာရှိသော ဗာရာဏသီပြည်ကို လွှမ်းမိုးနိုင်၏။

**ဤ၌ဝတ္ထုအမြွက်ကား**- လွန်လေပြီးသောအခါ ဗာရာဏသီပြည်တွင် မင်း ရင်ပြင်၌ ကြီးစွာသော ပွဲသဘင်ကိုပြု၏။ ထိုအခါ များစွာကုန်သော ဘုမ္မဋ္ဌနတ်သမီး, နတ်သား, နဂါး, ဂဠုန်တို့သည် လည်းကောင်း၊ အာကာသဋ္ဌနတ်တို့သည် လည်းကောင်း၊

ထက်ဝန်း ကျင်မှလာ၍ သဘင်ကို ရှုကြကုန်၏။ တာဝတိံသာမှ လေးဦးသော နတ်သားတို့သည်လည်း ကဏ္ဏာရမည်သော ပန်းကိုဆင်လျက် ကောင်းကင်မှရပ်၍ သဘင်ရှုလာ၏။ ထိုပန်း၏ရနံ့သည် တစ်ဆယ့်နှစ်ယူဇနာရှိသော ဗာရာဏသီပြည်အလုံးကို လွှမ်းဖုံး၍ တည်၏။ များစွာသော မင်း, အမတ်, ပရိသတ်တို့သည် ထိုပန်းကို ရလိုကြောင်းဖြင့် တောင်းကြ၏။ နတ်သားတို့လည်း ဂါထာအသီးသီးရွတ်၍ ''အမောင်တို့-ဤပန်းကား အလွန်ထူးဆန်း ကောင်းမြတ်၏။ သူ့အသက်ကိုသတ်ခြင်း, သူ့ဥစ္စာကိုခိုးခြင်း, သူ၏ အကြင်ဘက်ကို နှောင့်ယှက်ခြင်း, မဟုတ်မမှန်သော စကားကို ဆိုခြင်း, သေရက်ကို သောက်ခြင်းတည်း ဟူသော မကောင်းမှု ကင်းလွတ်သော သူသာလျှင် ပန်ဆင်နိုင်၏။ သင်တို့တွင် သီလ မရှိမူကား များစွာသော ဒုက္ခကို ရစေတတ်၏။ ထို့ကြောင့် ဤပန်းကို မဆင်လိုကြလင့် ဟုဆိုပေ၏။

ထိုအခါ သီလမဲ့စွာသော ပုရောဟိတ် ပုဏ္ဏားသည် လှည့်စား၍ ဤသို့ တောင်း၏။ ''အရှင်နတ်သားတို့ အကျွန်ုပ်ကား ဒုစရိုက်ကိုပယ်ရှား၍ သီလမြတ်ငါးပါး၌တည်သော သူပါတည်း။ အကျွန်ုပ်အားပေးပါ''ဟု ဆို၏။ ဤစကားကိုကြားလျှင် နတ်သားတို့လည်း ပုဏ္ဏား၏ ဒုဿီလအဖြစ်ကို သိလျက် ပန်း၏ သတ္တိကို ပြခြင်းငှာ ထိုဆရာပုဏ္ဏားအား ပေး၍ နတ်ပြည်သို့ပြန်လေ၏။

ပုဏ္ဏားလည်း ထိုပန်းကို ဦးခေါင်း၌ဆင်လျက်ပင် ထက်ဝန်းကျင်မှ လှံငယ်ဖြင့် ထိုးဆွဘိသကဲ့သို့ ဒုက္ခဝေဒနာဖြစ်ရကား၊ သည်းစွာဟစ်အော်၊ ငိုကြွေးလျက် ''ငါသည် မှသားဆို၍ ပန်းကို ယူမိသောကြောင့် သေလုနီးမျှ ကြီးစွာသော ဒုက္ခကို ခံရချေပြီ။ ဘယ်သူသည် ကယ်ယူပါအံ့နည်း''ဟု ဆို၍ ငိုကြွေးလျက် ခုနစ်ရက်နေ၏။ မင်းကြီးသည် ခုနစ်ရက်တိုင်၍ တစ်ဖန် ပွဲသဘင်ခံပြန်မှ ယခင်နတ်တို့လာ၍ ယူမြဲယူပြန်သဖြင့် ချမ်းသာရသတည်း။

❖❖❖❖❖

၂၄၃။ရှည်ကြာမင့်၊ ကျောင်းဆောက်အံ့၊ နံ့သာဘယ်က ဆောင်ခဲ့သနည်း။(၃)

၂၄၄။ကျောင်းတိုင်ပျံ့ပျံ့၊ မွှေးမျိုးနံ့၊ နံ့သာအဖြူဖြစ်လိမ့်နည်း။(၄)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား-

ပရသမုဒ္ဒံ ဂစ္ဆန္တော ဇေကံ ဒီပံ ပါပုဏိ။ ပ။ အထေကော
ဝါသိယာ ကောဋ္ဋေတွာလောဟိတ စန္ဒနဘဝံ ဉ တွာ။

စသည်ဖြင့် ပုဏ္ဏောဝါဒသုတ် အဋ္ဌကထာ၌ ဆိုသောကြောင့် မဟာပုဏ္ဏထေရ်၏ ညီတော် စူဠပုဏ်သည် သမုဒ္ဒရာ၏ အလယ်ဖြစ်သော မာလာယုကျွန်းမှ တင်ယူခဲ့သော လေးသစ်ခန့်မျှကိုပင် အဖိုးများစွာ ထိုက်သော စန္ဒကူးနီသစ်ဖြင့် ဂန္ဓာရုံကျောင်းတော်ကို ဆောက်၏ဟူပေ။

❖❖❖❖❖

## ၂၄၅။ဩဇာမဆုံ၊ ရသာပျံ့၊ အနံ့ဗြဟ္မာရှိလိမ့်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ရူပဗြဟ္မာဘုံ၌ ဃာန, ဇိဝှာ, ကာယ ဟူသော ပသာဒရုပ်သုံးပါး။ ဣတ္ထိန္ဒြေ, ပုရိသိန္ဒြေ ဟူသော ဘာဝရုပ်နှစ်ပါး အားဖြင့် ငါးပါးသောရုပ်ကို ချန်၍ အကြွင်းနှစ်ဆယ့်သုံးပါးကို ရသည်ဖြစ်ရကား ကမ္မဇရုပ် စိတ္တဇရုပ် ဥတုဇရုပ်တို့၌ပါသော ဩဇာသည်လည်းကောင်း, ဂန္ဓသည် လည်းကောင်း ရှိသည်ဖြစ်၍ ဗြဟ္မာတို့အား အနံ့ရှိ၏ဟူပေ။ အနံ့ကို ယူတတ်သော ဃာနပသာဒ၊ အရသာကို ယူတတ်သော ဇိဝှါပသာဒ၊ အတွေ့ကို သာယာတတ်သော ကာယပသာဒတို့၏ မရှိကြောင်းကို သင်္ဂြိုဟ်စသော အဋ္ဌကထာတို့၌ ပြပါသည် မဟုတ်လော။ ယူတတ် သာယာတတ်သော ပသာဒမျှ မရှိလျှင် ဘယ်သို့ အနံ့အရာသာ ရှိနိုင်အံ့နည်း ဟူငြားအံ့။ ကိလေသာကုန်သော ရဟန္တာဖြစ်သော မိန်းမယောက်ျားတို့အား ကာမဂုဏ်ကို ခံစား တတ်သော တဏှာ၊ ထိုတဏှာနှင့် သဟဇာတ်ဖြစ်သော ပသာဒ မရှိငြားသော်လည်း ထိုတဏှာ ပသာဒတို့၏ တည်ရာဖြစ်သော ရုပ်အစုံသည် ရှေးပုံမပျက် ရှိသကဲ့သို့ ထို့အတူ ရူပဗြဟ္မာတို့၌လည်း သာယာတတ်သော ပသာဒပင် မရှိငြားသော်လည်း သာယာ အပ်သော ဂန္ဓာရုံတို့သည် ရှိကုန်သည်သာ ဖြစ်၏ဟူပေ။

မူလဋီကာဆရာလည်း- ''အသညသတ်ဗြဟ္မာတို့၏ ရုပ်ကိုသာလျှင် ဂန္ဓာ ယတန, ရသာယတနအဖြစ်ဖြင့် ဘုရားမဟောသောကြောင့် ဇီဝိတနဝကတွင် ဂန္ဓ, ရသ ဩဇ ဤသုံးပါးကိုချန်၍ ဇီဝိတဆက္က ရသင့်သည်''ဟု ဆို၏။ ကြွင်းသော ဗြဟ္မာ တို့၏ ရုပ်ကိုမဆို။ ထို့ကြောင့်လည်း အသညသတ်မှ ကြွင်းသော ရူပဗြဟ္မာ ဟူသမျှ၌ ဂန္ဓ,ရသရှိ၏ဟု မှတ်သင့်သတည်း။ ပါဠိကိုလိုမူ ဓာတုကထာ ရူပဘာဝအရတွင်ယူ။

ထိုဗြဟ္မာတို့အား ဃာနပသာဒ စသည်တို့ ဘယ့်ကြောင့် မရှိသနည်းဟူမူ-

''ဗြဟ္မာနံ ကာမဝိရာဂဘာဝနာဝသေန ဂန္ဓရသဖောဋ္ဌဗ္ဗေသု ဝိရတ္တ တာယ တဗ္ဗိသယပသာဒေသုပိ ဝိရာဂသမ္ဘဝတော''

ဟူသော ဋီကာပါဌ်နှင့်အညီ ဗြဟ္မာတို့အား ကာမဂုဏ်၌ တပ်ခြင်းကင်းသော ဘာဝနာ၏အစွမ်းဖြင့် ဂန္ဓာရုံ, ရသာရုံ, ဖောဋ္ဌဗ္ဗာရုံတို့၌လည်း ခုံမင်ခြင်း မရှိသည်၏ အဖြစ်ကြောင့် ထိုအာရုံ၌ သာယာတတ်သော ပသာဒ စသည်တို့၌လည်း မကပ်ငြိသဖြင့် ဖြစ်ရကား ဃာန-စသော ပသာဒ သုံးပါး မရှိဟူပေ။

❖❖❖❖❖

## ၂၄၆။ နိုင်ငံလုံးနှံ့၊ ဘုန်းတော်ပျံ့၊ အံ့ဖွယ် ဘယ်အာဏာရနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- အလုံးစုံနှံ့၍ တည်ရာဖြစ်သော ကြောင့် ''ဗျာပိကာဏာ''ဟု ဆိုအပ်၏။

❖❖❖❖❖

၂၄၇။ သိမ်မွေ့နူးညံ့၊ ကြီးရှည်ပျံ့၊ အံ့ဖွယ်လျှာတော် ဘယ့်ကြောင့်နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အဖရုသဝါစတာယ၊ မကြမ်းတမ်းသော သိမ်မွေ့ပြေပြစ်သော ချစ်ဖွယ်ရှိသော စကားကို ဆိုတော်မူတတ်သည်၏ အဖြစ်ကြောင့်။ ပဟုတဇိဝှတာ၊ ကြီးပြန့်ရှည်လျားသော လျှာတော်ရှိသည်၏ အဖြစ်သည်။ ဘဝေ၊ ဖြစ်၏။ (အနုတ္တရဂုဏာသာရ)

❖❖❖❖❖

၂၄၈။ ရွှေနန်းသိမ်းအံ့၊ စားတော်ခွံ့၊ နူးညံ့ဆုပ်ပေါင်း ဘယ်မျှနည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရတနာသုံးပါးကိုရည်၍ သုံးဆုပ်။ မိခင်, ဖခင်, အဘိုး, အဘွားကို ရည်၍ လေးဆုပ်။ ကိုယ်စောင့်နတ် တစ်ကျိပ်ကိုရည်၍ ဆယ်ဆုပ်အားဖြင့် တစ်ဆယ့်ခုနစ်ဆုပ်စားရာသည်။ (အဘိသေကကျမ်း)

❖❖❖❖❖

၂၄၉။ သုံးပါးအညံ့။ မြင်း၌အံ့၊ သိစုံဘယ်သုံးပါးတို့နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သဒါပြန်၊ ငိုသံကြား၊ ပါးတီး၊ ဤသုံးပါးတည်း။

(ဤ၌လည်း ကျောင်းတိုင်ပျံ့ပျံ့။ အမေးတစ်ခု၏ အဖြေကိုသာ ရေးအဖြေစာ၌ တွေ့သည်)

"အံ့" ကာရန်ပုစ္ဆာ ၉–ပုဒ် အဖြေ ပြီး၏။

❖❖❖❖❖

(၆) "အုံ" ကာရန်ပုစ္ဆာ ၃၃–ပုဒ်အဖြေ

၂၅၀။ မွေးရှင်တော်စုံ၊ ဥဏ္ဏာလုံ၊ ဆန့်တုံဘယ့်လောက် ရှည်သနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဥဏ္ဏာဘမုကန္တရေ ဇာတာတိ သုဝဏ္ဏာပွလကေ ဌပိတရဇတပုဗ္ဗုလံ ဝိယ ဥဘော ဘမုကမဇ္ဈေ ဥပ္ပဇ္ဇိတွာ ဥဂ္ဂန္တွာ နလာဋမဇ္ဈေ ဌော ဒက္ခိဏာဝဋ္ဋ တိဋ္ဌတိ။ အာကမိယမာနာ အမုဗာဟုပ္ပမာဏာ ဟောတိ။ မုဉ္စိတကွဏေ ကုဏ္ဍလာဝဋ္ဋ ဥဒ္ဓဂ္ဂ တိဋ္ဌတိ။

ဟူ၍ သုတ်မဟာဝါ အဋ္ဌကထာ၌ လာသည်နှင့်အညီ၊ ရွှေသား အင်းပျဉ်၌ တင်ထားသော ငွေမြုပ်စုကဲ့သို့ မျက်မှောင်တော် နှစ်ဖက်တို့၏ အလယ်၌ ပေါက်ထွက်၍ အထက်နဖူးသို့ ကွန့်မြူးလျက် လက်ယာရစ်လည်ကာ တည်သော အမွေးတော်သည် "ဥဏ္ဏာလုံမွေးရှင်"

မည်၏။ ထိုဥဏ္ဏာလုံမွေးရှင်သည် ငင်၍ဆွဲသော် လံခွဲမျှလောက်ရှိ၏။ လွှတ်သောခဏ၌ ခြူးနားတောင်းကဲ့သို့ ရစ်ခွေလျက် အထက်သို့ အညွန့်မြော်၍ တည်ပြန်၏။ ။ ဤစကားဖြင့် အရှည်ကို သိအပ်၏ဟူပေ။

အမှဗာဟု သဒ္ဒါသည် မောင်းဝက်ကိုလည်းဟော၏။ ဤအရာ၌ကား လံခွဲကိုသာ ဟော၏ဟု ဋီကာဆို၏။

❖❖❖❖❖

## ၂၅၁။ ကျားစားခိုက်တုံ၊ မင်ဖိုလ်ကြုံ၊ လူ့ဘုံဘယ်ပုဂ္ဂိုလ်ပေနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တစ်ရံသောအခါ ရဟန်းသုံးကျိပ်တို့သည် ဘုရားရှင်ထံ၌ ကမ္မဋ္ဌာန်းကို ယူပြီးသော် တောအုပ်ကြီးတစ်ခုသို့ကပ်၍ ညဥ့်သုံးယံပတ်လုံး တစ်ပါး၏ထံသို့ တစ်ပါးမကပ်ရသော ကတိကဝတ်ဖြင့် ရဟန်းတရားကို အားထုတ်ကာ နေကြကုန်၏။ နံနက်မိုးသောက်၍ ထကြသောအခါ ကျားတစ်ကောင်သည် လာလတ်၍ တစ်နေ့လျှင် ရဟန်းတစ်ပါးတစ်ပါး ချီဆောင်၍ စား၏။ ရဟန်းတစ်ကျိပ်ငါး ကုန်၍ ဥပုသ်နေ့ စည်းဝေးသောအခါ ''ငါ့ရှင်တို့ ငါတို့၏ သီတင်းသုံးဖော်ဖြစ်သော ရဟန်းသည် တစ်ဝက်တိုင်အောင် ကုန်ချေပြီ၊ အကြောင်းဘယ်သို့ ရှိပါလိမ့်နည်း''ဟု ပြောဆို မေးမြန်းကြ၍ ခြေရာနိမိတ်ဖြင့် ကျားယူဆောင်ကြောင်းကို သိလျှင် ''ငါ့ရှင်တို့-ဤနေ့မှ နောက်နောက်သောအခါတို့၌ ရန်သူလာ၍တွေ့မြင်ခဲ့လျှင် အသံပြုကြလော့''ဟု မှာဆို၍ထား၏။

နောက်နေ့၌ ရဟန်းငယ်တစ်ပါးကို ကျားလာ၍ချီပြန်လေသော် ''အရှင်ဘုရားတို့ ကျားလာသည်''ဟု ဟစ်၏။ ရဟန်းတို့သည်လည်း တောင်ဝှေးကိုင်ကာ လိုက်လေသော် ကျားသည် ရဟန်းတို့ မလိုက်စိမ့်သောငှာ တစ်ခုသော ကမ်းပါးပြတ်သို့ တက်၍ ချီခဲ့သော ရဟန်းကို ခြေဖျားမှ စ၍စား၏။ ထိုအခါ လိုက်သော ရဟန်းတို့က ဤသို့ဆို၏ ''သူတော် ကောင်း-ငါတို့ကား ကူပံ့နိုင်ရာသော အကြောင်းမရှိပြီ။ လိမ္မာသော ရဟန်းတို့၏ သတ္တိ ထူးမည်သည်ကား ဤသို့သော အရာ၌ထင်ရှား၏။ တရားကို နှလုံးသွင်းလေ''ဟု ဆို၏။

ထိုအခါ ရဟန်းငယ်လည်း သတိရ၍ ကျားခဲသော ဒုက္ခဝေဒနာကို ခွါလျက် ဝိပဿနာကို ပွားစေသဖြင့် ဖမျက်ကုန်သောအခါ သောတာပန်ဖြစ်၏။ မြင်းခေါင်းကို စားသောအခါ သကဒါဂါမ်ဖြစ်၏။ ပေါင်ကိုစားသောအခါ အနာဂါမ်ဖြစ်၏။ ချက်အောက်သို့ ကျသောအခါ ပဋိသမ္ဘိဒါလေးပါးနှင့်တကွ အရဟတ္တဖိုလ်သို့ ရောက်၏ဟူ၍ မူလပဏ္ဏာသ အဋ္ဌကထာ သတိပဋ္ဌာနသုတ် အဖွင့်၌လာသည်။ အမည်ကား မထင်ရှားလှ၊ အညတရ ဘိက္ခုပင်တည်း။

❖❖❖❖❖

## ၂၅၂။ ကမ္ဘလာခြုံ၊ ငှက်ချီတုံ၊ နှုတ်ငုံ၀မ်းကဘယ်သူနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကောသမ္ဗီပြည့်ရှင်မင်းကြီး၏ မိဖုရားသည် ကမ္ဘလာခြုံ၍ နေဆာလှုံရာ ''ဟတ္ထိလိင်္ဂမည်သောငှက်ဆင် ချီလေ၍ ဟိမဝန္တာတော၏ အစပ် အလ္လကပ္ပရသေ့၏နေရာအနီး သစ်ပင်ကြီးထက်၌ ထိုငှက်၏ အသိုက်သို့ ရောက်ရာတွင် ဖွားမြင်သော ဥတေနမင်းတည်း။ ။ ဤ၀တ္ထုကား ဓမ္မပဒတွင် ထင်ရှားလှ ပြီးဖြစ်၍ အကျယ်မဆိုပြီ။

❖❖❖❖❖

## ၂၅၃။ ခွေးတောက်မြစ်ဆုံ၊ ရှက်၍ရုံ၊ အချို့မြို့၏ ဘယ်တွင်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဗာရာဏသီပြည်၌ ''ဒဓိဝါဟနမင်း''၏ သရက်ပင်သည် မြို့၏ ဟူပေ။

**အကြောင်းကား။** ။ လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ''ဒဓိဝါဟန'' မည်သောမင်းသည် မင်းပြု၏။ ထိုအခါ ငါတို့ ဘုရားလောင်းသည် ထိုမင်းအား အကြောင်းအကျိုးကို ပြည့္စုန်းတတ်သောဆရာဖြစ်၏။ ထို 'ဒဓိဝါဟန''မင်းသည် မြစ်၌ ရေကစားခြင်းအကျိုးငှာ ထက်ဝန်းကျင်မှ ပိုက်ကွန်တို့ကို ရုံစေလျက် မင်း, မိဖုရားတို့နှင့် တကွ ကစားမြူးတူးလေ့ပြု၍ တစ်ရုံသောအခါ ဟိမဝန္တာတော ကဏ္ဏမုဏ္ဏအိုင်၏ အနီး၌တည်သော နတ်တို့သုံးဆောင်ခြင်းငှာထိုက်သော အလွန် မွန်မြတ်သော အရသာ ရှိသော အမ္ဗန္တရသရက်ပင်မှ အသီးမှည့်တစ်လုံးသည် ကြွေမျောလာ၍ ရုံသောပိုက်ကွန်၌ ငြိလာ၏။ လူတို့ရ၍ မင်းအား ဆက်ကြလေသော် မင်းလည်း တောကျွမ်းသော သူတို့အား မေးမြန်းစုံစမ်းသဖြင့် သရက်သီးမှန်း သိလေသော် သုံးဆောင်တော်မူ၏။

ယင်းသို့ သုံးဆောင်သောအခါ အလွန်မြိန်မြတ်သော အရသာရှိရကား ထိုအစေ့ကို ဥယျာဉ်၌ စိုက်ပျိုးစေ၍ နို့ ရေ, သကာရေ, နံ့သာရေတို့ဖြင့် သွန်းလောင်း ပြုစု၏။ သရက်ပင်သည် ကောင်းစွာကြီးပွား၍ သုံးနှစ်မြောက်လျှင် အပွင့်အသီး ဖြစ်သတည်း။ ထိုအသီးကို သုံးဆောင်သောအခါ ပျားသကာ အရသာအပေါင်းတို့ထက် ကောင်းမွန် ထူးမြတ်သည်ဖြစ်၍ တစ်ထောင်သော အကြောကို စိမ့်လျက်တည်၏။ မင်းကြီးလည်း အလွန်၀မ်းမြောက်ရကား သရက်ပင်ကို သံကွန်ရက်ရုံကာလျက် နံ့သာ ဆိုင်း၊ ပန်းဆိုင်းတို့ဖြင့် ဆွဲထား၍ လူအမျာတို့ကို စောင့်စေ၏။ များစွာသီးသော အခါ မဟာမိတ်ဖြစ်သော မင်းတို့ထံသို့လည်း အဟန်ငယ် အတန်ငယ်သော သရက်သီး တို့ကို ပို့စေ၏။ ပို့သမျှ၌ မျိုးစေ့ဖြစ်ရာဌာနကို လိပ်ကျောက်ဆူးဖြင့် ထိုး၍သာ ပို့စေ၏။

ထိုအခါ သာမန္တရာဇ် မင်းတစ်ဦးသည် ဤဒဓိဝါဟနမင်းကား အားကြီးသော မစ္ဆေရရှိ၏။ ငါတို့နိုင်ငံ၌ မစိုက်ပျိုးရအောင် မျိုးကိုဖျက်၍ သရက်သီးဖြင့် ဂုဏ်ပြုလာ၏။

ဤမင်းသရက်ကို ဖျက်ဆီးစေအံ့-ဟု ကြံပြီးလျှင် တစ်ယောက်သော ဥယျာဉ်မှူးကို အသပြာတစ်ထောင်ပေး၍ ထိုသရက်ကို အရသာပျက်အောင် ပြုချေ-ဟု စေ၏။

ထိုယောက်ျားလည်း ဒဓိဝါဟနမင်းထံ လာ၍ ဥယျာဉ်အမှု၌ လိမ္မာကြောင်း၊ ပန်း သစ်ပင်တို့ကို အခါမဲ့ ပွင့်စေနိုင်ကြောင်း၊ သီးစေနိုင်ကြောင်းကို လျှောက်ထား၏။ မင်းလည်း စုံစမ်းခြင်းအကျိုးငှာ တစ်ခုသောဥယျာဉ်ကို ရှေးရှိရင်းဖြစ်သော ဥယျာဉ်မှူးနှင့် ဖက်၍ ပြုစုစေ၏။

ထိုလူသစ်သည် ထိုအခါမှစ၍ ထိုဥယျာဉ်၌ သုတ်သင်ပြုစုရ၏။ နွေကာလ သီးပွင့် မြဲကို မိုးအခါကိုပင် နွေနှင့်တူအောင်ပြု၍ မိုးကာလ သီးပွင့်မြဲသစ်ပင်ကို နွေကိုပင် မိုးဥတုနှင့် တူအောင်ပြု၍ ပွင့်စေသီးစေ၏။

ဤသို့သော အာနုဘော်ကိုမြင်လျှင် ဥယျာဉ်မှူးသစ်အား အလွန်စုံမက်၍ ရှေးဥယျာဉ်မှူးဟောင်းကို ပယ်လျက် ထိုသရက်ပင်နှင့်တကွ ဥယျာဉ်အလုံးကို ထိုဥယျာဉ်မှူးသစ်အား အပ်၏။

ဥယျာဉ်မှူးသစ်လည်း မိမိချည်း ပြုစုရသောအခါ ချိုမြိန်လှစွာသော ထိုသရက်ပင် ကိုရံလျက် တမာ, ခွေးတောက်ပင်တို့ကို စိုက်၏။ ခါးစပ်သော အရသာ ရှိသော ရေတို့ ဖြင့်လည်း အမြစ်ကိုလောင်း၏။ ထို မကောင်းသော အရသာရှိသော သစ်ပင်တို့၏ အမြစ်, အရွက်, အခက်တို့နှင့် ရောယှက်မိသောအခါ ချိုမြိန်စွာသော ထိုသရက်သည် အရသာပျက်၍ ခါး, စပ်, ချဉ်ဖန်ခြင်းသို့ ရောက်၏။ ယင်းသို့ အရသာပျက်ကြောင်းကို သိလျှင် ဥယျာဉ်မှူးလည်း မိမိနိုင်ငံသို့ ပြန်ပြေးလေ၏။

ဒဓိဝါဟန မင်းလည်း မိမိသရက်မှည့်၍ စားသောအခါ ရှေးအရသာနှင့်မတူဘဲ ကွဲလွဲ ခါးစပ်သည်ကို သိလျှင် ပညာရှိအမတ်ကိုခေါ်၍ ''အချင်းအမတ်၊ ငါ၏ သရက်သည် ဘယ့်ကြောင့် အရသာပျက်သနည်း''ဟုမေး၏။ အမတ်ကြီး တမာ, ခွေးတောက်တို့၏ အမြစ်ဖြင့် ရောစပ်မိသောကြောင့် ပျက်ကြောင်းကို လျှောက်လျှင် ရှေးဥယျာဉ်မှူးဟောင်းကို အပ်မြဲအပ်၍ ထိုတမာ, ခွေးတောက်မြစ်တို့ကို ပယ်ပြီးမှ ကောင်းမွန်သော မြေတို့ကို သွတ်သွင်းစေ၍ ပျား, သကာ, နို့သာရေတို့ဖြင့် လောင်းမြဲ လောင်းစေမှ ကောင်းသောအရသာ ဖြစ်ပြန်သတည်း။ **(ဒုကနိပါတ် ဒဓိဝါဟနဇာတ်)။**

အချို မြို၏ ဟူသည်ကား-ချိုသော အရသာမရှိ၊ အချိုကင်း၏။ အချိုပျက်၏ ဟူလိုသည်။

ဤကိုရည်၍ ရှင်ရဋ္ဌသာရ-သူမြတ်သည် ဟတ္ထိပါလပျို့၌

''ခွေးတောက်မြစ်ရှက်၊ စိုက်ရောဖက်က၊ သရက်ပင်မင်း၊ သီးချိုကင်းသို့''

ဟူ၍ စပ်လေသည်။

❖❖❖❖❖

## ၂၅၄။ ဇောတဒါရုံ၊ ပြဟ္မာဘုံ၊ စုံလင်ဖြစ်ကောင်းလေလိမ့်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဗီဇဿာ ဘာဝတော နတ္ထိ၊ ပြဟ္မာနံပိ ဣမဿ ဟိ။**
**ပဋိသန္ဓိ မနောဗီဇံ၊ ကာမာဝစရ သညိတံ။**

ဟူသော ဋီကာကျော်ဖြင့်ဖြေ။

**အနက်ကား။** ။ ဗီဇဿ၊ ကာမာဝစရ ပဋိသန္ဓေ စိတ်တည်းဟူသော မျိုးစေ့၏။ အဘာဝတော၊ မရှိခြင်းကြောင့်။ ပြဟ္မာနံပိ၊ ပြဟ္မာတို့အားလည်း။ တဒါလမ္ဗန်၊ တဒါရုံသည်။ နတ္ထိ၊ မရှိ။ ဟိ၊ သင့်စွ။ ဣမဿ၊ ဤတဒါရုံအား။ ကာမာဝစရသညိတံ၊ ကာမာဝစရဟု သမုတ်အပ်သော။ ပဋိသန္ဓိမနော၊ ပဋိသန္ဓေစိတ်သည်။ ဗီဇံ မျိုးစေ့သည်။ ဝါ။ အကြောင်းသည်။ ဟောတိ၊ ဖြစ်၏။

ကာမ ပဋိသန္ဓေတည်းဟူသော အကြောင်းမျိုးစေ့ မရှိသည်၏အဖြစ်ကြောင့် ပြဟ္မာတို့အား တဒါရုံမဖြစ်။ ဇောစိတ်မူကား ဒေါသဇောနှစ်ခုသာ မရှိ၊ ကြွင်းသော ဇောစိတ်တို့ဖြစ်၏ဟူပေ။

❖❖❖❖❖

## ၂၅၅။ ထက်ရူပဘုံ၊ တဒါရုံ၊ မကြုံဘယ့်ကြောင့် ကင်းသနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–
အထက်ပုစ္ဆာနံပါတ် ၅–အတိုင်းပင် မှတ်ရမည်။

❖❖❖❖❖

## ၂၅၆။ သညသတ်ဘုံ၊ စုတေတုံ၊ တွေ့ကြုံ ဘယ်စိတ် စ သနည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**"ရူပါဝစရ စုတိယာ၊ အဟေတု ရဟိတာ သိယုံ"**

ဟူသောပါဌ်ဖြင့် ရူပါဝစရ စုတိခြောက်ခုနောင် အဟိတ်ပဋိသန္ဓေနှစ်ခုကြဉ်သော သဟိတ် ပဋိသန္ဓေ သတ္တရသ နောင်း၏–ဟူ၍ သင်္ဂြိုဟ်ဆိုသည်ကို ထောက်လျှင် အသညသတ် စုတိလည်း ရူပါဝစရစုတိပင်ဖြစ်သောကြောင့် ထို့နောင် သဟိတ်ဝိပါတ် သတ္တရသတွင် တစ်ခုခုဖြစ်သည်ဟုဆိုဖွယ်ရှိ၏။ သို့သော်လည်း ထိုသင်္ဂြိုဟ်စကားသည် သာမညသာဓာရဏသာဖြစ်၍ ထိုအတိုင်း မဆိုထိုက်သေး။

**"ဒွိဟေတုကာဟေတုကစုတိတော အနန္တရံ ကာမပဋိသန္ဓိယေဝ ဇာယတေ"**

ဟူသော ပဋ္ဌာန်းဋီကာနှင့်အညီ အဟိတ်ဖြစ်သော ရုပ်စုတိသည် ကာမဖြစ်သော ပဋိသန္ဓေရှစ်ခုကိုသာ အနန္တရပစ္စည်း တပ်ခြင်းကြောင့် မဟာဝိပါက်ရှစ်ခုတွင် တစ်ခုခု သာလျှင် အစဖြစ်သည်ဟု ဖြေအပ်၏။

အင်္ဂုတ္တိုရ် အဋ္ဌကထာ၌လည်း–

**သုဒ္ဓါဝါသစုတိယာဝါ၊ သုဒ္ဓါဝါသေသု ဇာယရေ။**
**အသညီတော စုတာကာမ၊ သုဂတိယူပဇာယရေ။**

ဟု မိန့်အပ်၏။

**အဓိပ္ပါယ်ကား။** ။ သုဒ္ဓါဝါသဘုံမှ စုတေ့သောပုဂ္ဂိုလ်တို့သည် သုဒ္ဓါဝါသဘုံ၌သာလျှင်ဖြစ်ကုန်၏။ အသညသတ်ဘုံမှ စုတေသော ပုဂ္ဂိုလ်သည် ကာမသုဂတိဘုံ၌သာလျှင်ဖြစ်၏။ စိတ်ကိုပဋ္ဌာနပြု၍ မပြ။

နိပုဏသာရတ္ထ ဒီပနီ၌ကား ''အသညသတ်မှ စုတေ့သော ပုဂ္ဂိုလ်သည် ကာမဘုံ၌ ဒွိဟိတ်ပဋိသန္ဓေသာ နေ၏။ တိဟိတ် ပဋိသန္ဓေ မနေ''ဟု ဆို၏။

ဤအလိုဖြင့်ကား ''မဟာဝိပါက် ဉာဏဝိပ္ပယုတ် လေးခုသာ အစဖြစ်သည်''ဟု ဖြေအပ်၏။

❖❖❖❖❖

## ၂၅၇။ ဗြဟ္မာတို့ဘုံ၊ ဂန္ဓာရုံ၊ သင်းထုံပျံ့ပျံ့ မွှေးလိမ့်နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗြဟ္မာ့ဘုံ၌ ဥယျာဉ်ဗိမာန်စသော ဗဟိဒ္ဓရုပ်၌လည်း ဇာဟိရဇဖြစ်သော အဋ္ဌကလာပ်ကို ရကောင်းသည်ပင် ဖြစ်ရကား ဂန္ဓာရုံရှိ၏။ သင်းထုံ ပျံ့ပျံ့မွှေး၏။ ဗြဟ္မာတို့၌သာလျှင် ထိုအနံ့ကို သာယာတတ်သော တဏှာကင်းရကား ဃာနပသာဒမရှိဟူပေ။

အထက်ပုစ္ဆာ၌ သတ္တဝါသန္တာန်၌ ရန့်ရှိ–မရှိကို မေးသည်။ ဤပုစ္ဆာ၌ကား အပဖြစ်သော ဘုံဗိမာန်တို့၌ ရန့်ရှိ–မရှိကို မေးသည်။

❖❖❖❖❖

## ၂၅၈။ နား, မျက်စိတုံ၊ ဤနှစ်ခုံ၊ အာရုံရောက်ကောင်း လေလိမ့်နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– စက္ခု, သောတ ရှိရာသို့ ရူပါရုံ, သဒ္ဒါရုံတို့ရောက်လာ၍ ထင်သလော။ မရောက်ဘဲ ထင်သလော–ဟု မေးလိုသည်။

**''ရူပသဒ္ဒါလမ္ဗနာနိ သကသကဌာနေ ဌတွာဝ ဂေါစရဘာဝံ ဂစ္ဆန္တိ။**
**အာဘောဂါနုရူပံ အနေက ကလာပဂတာနိပိ''**

ဟူသော ဋီကာကျော်နှင့်အညီ၊ ရူပါရုံ, သဒ္ဒါရုံတို့သည် စက္ခု, သောတ ရှိရာသို့ မရောက်မသွား။ မိမိတို့တည်ရင်းဌာန၌ တည်၍သာလျှင် ကျက်စားရာ အာရုံအဖြစ်သို့ ရောက်၏။ ယင်းသို့ရောက်ရာ၌လည်း ပုဂ္ဂိုလ်၏နှလုံးသွင်းအားလျော်စွာ များစွာသော ရုပ်ကလာပ်၌ တည်သော အာရုံတို့သည်လည်းကောင်း, တစ်ခုခုသော

ရုပ်ကလာပ်၌ တည်သော အာရုံတို့သည်လည်းကောင်း ထင်ခြင်းသို့ ရောက်ကုန်၏ ဟူပေ။

❖❖❖❖❖

## ၂၅၉။ ဖောဋ္ဌဗ္ဗာရုံ၊ တွေ့ကြိုက်ကြုံ၊ အာရုံလာကောင်းလေလိမ့်နည်း။(၁၀)

ဟူသောအမေးပုစ္ဆာ၌အဖြေဝိသဇ္ဇနာကား–ဖောဋ္ဌဗ္ဗာရုံကိုတွေ့သောကာလကား ကြာမြင့်၏။ ခံစားလိုသော ကာယဝိညာဉ်စိတ်ကား သတ္တရသာယုကဖြစ်၍ အကြိမ်များစွာ ချုပ်၏။ ထို၏အကြား၌ တစ်ပါးအသစ်ကို အာရုံပြုသော ဝိညာဉ်စိတ် တို့လည်း အများပင်ဖြစ်ရကား တွေ့သောအခိုက်ပင် အာရုံအသစ် လာကောင်းသေး၏ ဟူပေ။

❖❖❖❖❖

## ၂၆၀။ ကုသိနာရုံ၊ အင်ကြင်းစုံ၊ ရဂုံဘယ်မျှ ကျယ်သနည်း။(၁၁)

ဟူသောအမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကုသိနာရုံမလ္လာမင်းတို့၏ ပျော်ခင်း အလို့ငှာ မြို့၏ အနောက်တောင်မျက်နှာ တာငါးရာခန့် ကွာသော အရပ်၌ သုတ်သင် ပြုပြင်၍ ထားအပ်သော အင်ကြင်းဥယျာဉ်သည် ''လယ် လေးမင်းပယ်ခန့် ကျယ်၏'' ဟူပေ။

❖❖❖❖❖

## ၂၆၁။ သုံးလူ့ပန်းငုံ၊ သဂြိုဟ်တုံ၊ ထင်းပုံနံ့လျားဘယ်မျှနည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''စန္ဒနဒါရု စိတကော ပန ဝီသသတရတနပ္ပမာဏော''

ဟူ၍ ပရိနိဗ္ဗာနသုတ် အဋ္ဌကထာဆိုရကား ဘုရားရှင်ကို သဂြိုဟ်သော စန္ဒကူး ထင်းပုံသည် လူတို့၏အတောင်ဖြင့် တစ်ရာ့နှစ်ဆယ်မြင့်၏။ အနံ့, အလျားကို ကျမ်းဂန်မတွေ့။ သို့သော်လည်း ထိုထိုသို့သော စေတီ ပြာသာဒ်,ဂူယပ်ပုထိုးသည် အစောက်သုံးချိုး တစ်ချိုးသာ ထားမြဲဖြစ်ရကား အဟောင် ၄၀–နံ့လျား ကျယ်သင့်၏ ဟူပေ။

❖❖❖❖❖

## ၂၆၂။ ဖြဟ္မာလုံးခြုံ၊ ဆယ့်ခြောက်စုံ၊ ဘယ်ဘုံစေတီရှိသနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အနောမနဒီတီရေ ဌတွာ ပဗ္ဗဇန္တသ္သသုဒ္ဓါဝါသဖြဟ္မလောကေ ဃဋိကာရေနာမ မဟာဖြဟ္မာ အဋ္ဌပရိက္ခာရေ ဂဟေတွာ အာဂတော။ ပ။ ဃဋိကာရော မဟာပုရိသေန ဆဋ္ဋိတသာဋ္ဋကံ ဂဟေတွာ ဖြဟ္မာ လောကေ ဒွါဒသ ယောဇနိကံ ဒုဿထူပံ အကာသိ။

ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကထာ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ဘုရားအလောင်း တောထွက်၍ အနောမာမြစ်နားသို့ ရောက်သောအခါ သုဒ္ဓါဝါသဘုံမှ ဃဋိကာရမည်သော ဗြဟ္မာသည် ကြာသင်္ကန်းနှင့်တကွသော ပရိက္ခရာရှစ်ပါးတို့ကို ကပ်လှာ၍ ထိုပရိက္ခရာတို့ဖြင့် ရဟန်းပြုတော်မူသည်။ လဲချွတ်တော်မူသော အဝတ်တန်ဆာကိုလည်း ယူဆောင်၍ မိမိနေရာ ဗြဟ္မာ့ဘုံ၌ တစ်ဆယ့်နှစ်ယူဇနာရှိသော ဒုဿစေတီကိုပြု၍ ကိုးကွယ်လေ၏ ဟူ၍သာ ဆိုသည်။ မည်သည့်ဘုံ၌ စေတီတည်၏ဟူ၍ မဆို။

အင်္ဂုတ္တိုရ်ဋီကာ စသည်တို့၌ကား သုဒ္ဓါဝါသငါးရပ်တွင် အထက်ဆုံးသော အကနိဋ္ဌဘုံ၌ စေတီရှိကြောင်းကို ဆိုသည်။

ထို့ကြောင့် ရှေးပညာရှိတို့သည်–

"သူရိန်စန္ဒာ၊ ယင်းကဖြာသား။ ချာချာလှည့်ပတ်၊ ရှစ်ဂြိုဟ်မြတ်တွင်၊ ရေနတ်သုံးဦး၊ ယှဉ်ပြိုင်မြူး၍၊ ပူးနှင့်ဂဠုန်၊ ဆွေ့ဆွေ့ခုန်လျက်၊ သည်းအုံငြိမ့်ငြိမ့်၊ ကပ်ကြီးသိမ့်မှု၊ စည်းစိမ်ရှင်တို့၊ ပျော်ရာမြို့၌၊ မက်, ဖိုလ် သင်းကျစ်၊ ဦးကိုင်ဖြစ်သည်၊ တက်သစ်နေဝါ ဘုန်းများချာ"

ဟူ၍ ဘုရားတိုင်လင်္ကာ စပ်ဆိုကြသည်။

ကမ္ဘာပေါင်း တစ်သောင်းခြောက်ထောင် အသက်ရှည်သော အကနိဋ္ဌ ဗြဟ္မာ့ဘုံ၌ တည်သော စေတီတော်ဟူလိုသည်။

❖❖❖❖❖

### ၂၆၃။ပရိက္ခရာစုံ၊ ကြာပေါက်တုံ၊ မြေခုံဘယ်ဌာနတွင်နည်း။ (၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**တတ္ထ ပန မဟာဗောဓိပလ္လင်္ကဋ္ဌာနံ ဝိနဿမာနေ လောကေ ပစ္ဆာ ဝိနဿတိ။ သဏ္ဌဟမာနေ ပဌမံ သဏ္ဌဟတိ။ တတ္ထ ပုဗ္ဗနိမိတ္တံ ဟုတွာ ဧကော ပဒုမိနိဂစ္ဆော ဥပ္ပဇ္ဇတိ။**

အစရှိသည်ဖြင့် အဂ္ဂညသုတ် အဋ္ဌကထာ မိန့်ဆိုသည်နှင့်အညီ ဇမ္ဗူဒိပ်ကျွန်း၏ အချက်အချာမဟာဗောဓိပင် ပေါက်မြဲဖြစ်သော မြေအရပ်သည် ကမ္ဘာတည်သောအခါ ရှေးဦးစွာပေါ်ထွက်၍ ကမ္ဘာပျက်သောအခါလည်း နောက်ဆုံးသာ ပျက်သည်ဖြစ်၍ ဇေဋ္ဌဘူမိမည်သည်။ ထိုမြေအရပ်၌ ပုဗ္ဗနိမိတ် အဖြစ်ဖြင့် တစ်ခုသော ကြာရုံသည် ပေါက်၏။ ဘုရားပွင့်လတ္တံ့သော ကမ္ဘာဖြစ်အံ့၊ ထိုကြာရုံ၌ အပွင့်သည်ပါ၏။ ဘုရား မဖြစ်လတ္တံ့သော ကမ္ဘာဖြစ်အံ့၊ ကြာပွင့်တို့သည် မပါကုန်၊ အကြင်ကမ္ဘာ၌ ဘုရား တစ်ဆူသာ ဖြစ်လတ္တံ့မူကား ကြာပွင့်တစ်ပွင့်သာပါ၏။ ဘုရားနှစ်ဆူဖြစ်အံ့မူကား ကြာနှစ်ပွင့်၊ သုံးဆူဖြစ်အံ့မူကား ကြာသုံးပွင့်၊ လေးဆူဖြစ်အံ့မူကား ကြာလေးပွင့်၊

ငါးဆူဖြစ်အံ့မူကား ကြာငါးပွင့်ပါလာ၏။ ထိုကြာပွင့်၌ သက်န်းသပိတ်စသော ပရိက္ခရာရှစ်ပါးသည် အစုံပင်ပါလာ၏။

ကြာလေးပွင့်, ငါးပွင့်, ပါ၏-ဟူရာ၌ ငါးပင်ပေါက်၍ ငါးပွင့်ပါသလော, တစ်ပင်တည်း၌ ငါးပွင့်ပွင့်၍ ပါသလောဟူငြားအံ့-

''တာနိ ခေါပန ကေသ္မိံယေဝ နာဠေကဏ္ဏိကာနိ ဟုတွာ နိဗ္ဗတ္တာနီတိ ဝေဒိတဗ္ဗာ''

ဟု အဋ္ဌကထာ၌ မိန့်သောကြောင့် ငါးပင်ပေါက်၍ ငါးပွင့်ပါသည်မဟုတ်၊ တစ်ခု တည်းသော ကြာရိုး၌ အညှာငါးမွှာထွက်၍ ငါးပွင့်ပါသည်ဟု ဖြေ။

❖❖❖❖❖

## ၂၆၄။ ရိုးရှက်ပွင့်ငုံ၊ ထိုကြာတုံ၊ လုံးစုံတိုင်းထွာဘယ်မျှနည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဤကြာရိုး ကြာရှက်၏ပမာဏကို ကျမ်းကြီးတို့၌ပြသည်ကို မတွေ့မိချေ။

ကဗျာဆရာတို့ကား- ''လူ့ယပ်မသာ၊ သုံးထွာရှည့်ရှည့်၊ လုံးပတ်ပြည့်သား၊ မြေ၏မင်္ဂလာ၊ နိမိတ်ကြာ၌၊ ပရိက္ခရာရှစ်စုံ၊ ကိုယ်တော်ရုံလျှင်''

ဟူ၍ စပ်သည်ကို တွေ့ပါ၏ဟူပေ။

❖❖❖❖❖

## ၂၆၅။ လေးထောင့်ဝန်းတုံ၊ ရွှေစက်စုံ၊ ဘယ်ပုံကျမ်းနှင့် ညီသနည်း။(၁၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဒွီသုပါဒတလေသု ဒွေစက္ကာနိ၊ ကေကသ္မိံ သဟဿမတ္တာ အရာ ဟောန္တိ။ ။ပ။ စက္ကပရိယန္တေ နေမိတော ဗဟိဒ္ဓါ အနေကာ-ဝဋ္ဋေဗာယန္တိ။ တံ သမ္ပရိဝါရေတွာ အနေကာနိမင်္ဂလာနိ နိဗ္ဗတ္တိ သန္တိ။**

အစရှိသည်ဖြင့် သုတ်မဟာဝါ အဋ္ဌကထာ၌ လာသောကြောင့် ဘုရား ခြေတော်ကို လေးဖို့ပြု၍ သုံးဖို့မြောက် ဖမျက်တော်အောက်တွင် အကန့်တစ်ထောင်တို့ဖြင့် တန်ဆာဆင်အပ်သော စကြဝတေးမင်းတို့၏ စကြာရတနာနှင့်တူသော ရတနာခုနစ်ပါး အတိပြီးသော ရွှဲသေးရွှဲကြီး အကွက်အကန့်တို့ဖြင့် တင့်တယ်သော စက်တော်သည် တည်၏။ ထိုစက်လက္ခဏာကို ရံ၍သာလျှင် လုံ့မ အိမ်မွန်စသော တစ်ရာ့ရှစ်ကွက် စက်အရေးတို့သည် တည်ကုန်၏ ဟူ၍ ကျမ်းဆိုရကား အဝန်းအဝိုင်းဖြစ်သော စက်တော် ပုံသည် ကျမ်းနှင့်ညီ၏ ဟူပေ။

❖❖❖❖❖

## ၂၆၆။ သူဌေးမိတ်စုံ၊ ကျွတ်ထောက်ကြုံ၊ မဂ်တုံဘယ့်ကြောင့်မရသနည်း။(၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဓနဥ္စယ သူဌေးနှင့် သုမနဒေဝီ သူဌေးကတော်တို့ကို ရည်၍မေးဟန်ရှိသည်။

ဘယ့်ကြောင့်နည်းဟူမူကား ဤသူဌေးမောင်နှံသည် ဘုရားကိုလည်း အလွန်ကြည်ညိုဏ်၍။ တရားကိုလည်း အထိုက်အလျောက် ကျင့်၏။ သမီးဝိသာခါမူကား ခုနစ်နှစ်အရွယ်ကပင် မဂ်ဖိုလ်ရသည်။ အဖ အမိတို့ကား မဂ်ဖိုလ်ရကြောင်းကို ကျမ်းဂန်မလာ။ ထို့ကြောင့် ဤသူတို့ကို ရည်၍ ပုစ္ဆာပြုဟန် ရှိသည်။

အဖြေမှာ ထိုသူဌေးတို့၏ ရှေးရှေးသောဘဝက မဂ် ဖိုလ်ရထိုက်သော အဆောက် အဦကို မပြုဖူး၍ မရသည်ဟု ဆိုဖွယ်ရှိ၏။

''မဂ္ဂဖလနိဿယဿ ရဟိတတ္တာ''ဟု ကျမ်းဆရာတို့ ဟိတ်ခတ်ကြ၏။

❖❖❖❖❖

## ၂၆၇။ တုံးလုံးမှောက်ခုံ၊ စားမကုန်၊ ပုံလုံဘယ့်နှယ် ကျွေးသနည်း။(၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပေါက္ကံပြည် အရှင်အဇ္ဇဂေါဏ၏ ခေတ်ကျွေးလမ်းဟု ပြောစဉ်ရှိ၏။ ထိုခေတ်ကျွေးလမ်းကား အထူးထူးအပြားပြား ယူဆကြသည်များ၏။

အမြွက်မျှ ပြလိုက်ဦးအံ့–''သံသေလျှင်ပြားပြား၊ ပြးဒါးသေလျှင် လုံးလုံး'' ဆိုရိုး ရှိသည်နှင့် အညီ ပြဒါးမီးနေ၍ ခြေသိမ်းလျှင် တုံးလုံးဖြစ်၏။ ထို တုံးလုံးကို မှောက်ခုံ သေသော သံနှင့်ရှက်၊ ပြဒါးလေး တင်စေ၊ ၎င်းတွင် ပြဒါးထပ်၍ သွင်းပြန်။ ငါးဆင့်ဝင်၍ မီးနေလျှင် မှောက်ခုံဖြစ်၏။ ၎င်းကို ခေတ်ကိုးပုံနှင့် လုံတွင် ခန်းအောင် ကျွေး၊ စား၍ မကုန်ဟူလိုသည်။ များစွာဆို၍ အကျိုးမနပ်သောကြောင့် မဖြေဆို လိုက်သည်။

❖❖❖❖❖

## ၂၆၈။ ရှင်ဘုံ ရှင်လုံ၊ ရှင်နှင်းငုံ၊ ရှင်စုံဘယ်ပညတ်တို့နည်း။(၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဝိဇ္ဇမာနပညတ်, အဝိဇ္ဇမာနပညတ်နှစ်ပါးတွင် ပရမတ္ထအားဖြင့် ထင်ရှားမရကောင်းသောကြောင့် အဝိဇ္ဇမာနပညတ်။

အန္ဝတ္ထပညတ်, ရုဠှီပညတ် နှစ်ပါးတွင် ရုဠှီပညတ်။

ဥပါဒါပညတ်, တဇ္ဇာပညတ် စသော ခြောက်ပါးတွင် သင်္ကေတပညတ် ဟူပေ။

❖❖❖❖❖

၂၆၉။ ကျမ်းထွက်လျာစုံ။ ကာမဘုံ၊ ငါးတုံဘယ့်ကြောင့်ချို့သနည်း။ (၂၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အရသာကို ခံစားတတ်သော ဇိဝှါဝိညာဉ်ရှိသော ကာမဘုံသား သတ္တဝါမျိုးဖြစ်လျက် ဇိဝှါပသာဒ ဇိဝှါရုပ်အစုံတို့သည် ငါး၌ ဘယ့်ကြောင့်ချို့လေသနည်းဟု မေးလိုသည်။ စက္ခု၏ချို့ခြင်း, သောတ၏ချို့ခြင်း, ဃာန၏ချို့ခြင်း, ဇိဝှါ၏ချို့ခြင်းတို့သည် ရှေးမိမိပြုသော မကောင်းမှုကံကြောင့် ဖြစ်သည်ဟု သုတ် အဘိဓမ္မာ အဋ္ဌကထာတို့၌ လာသောကြောင့် ငါး မိကျောင်း သတ္တဝါတို့၌ ဇိဝှါ၏ ချို့ခြင်းသည်လည်း ရှေးက ဇိဝှါမရထိုက်အောင် ပြုခဲ့ဖူးသော မကောင်းမှုကံကြောင့် ဖြစ်သည်ဟု မှတ်အပ်၏။

မကောင်းမှုကံကြောင့် ချို့လျှင် တစ်ဦးနှစ်ဦးသော သတ္တဝါ၌သော်လည်းကောင်း, အချို့အချို့သော သတ္တဝါတို့၌ သော်လည်းကောင်း ချို့ရာ၏။ အလုံးစုံသော ငါး, မိကျောင်းတို့ မချို့သင့်တကား ဟူငြားအံ့။ အကြောင်းဖြစ်သော ဒုစရိုက်ကံပင် မတူငြားသော်လည်း အကျိုးခံတူထိုက်သော ဂတိဖြစ်၍ အလုံးစုံ ချို့သင့်၏ ဟူပေ။

❖❖❖❖❖

၂၇၀။ အရူပဘုံ၊ ရုပ်မစုံ၊ နာမ်တုံဘယ်သို့ တည်သနည်း။(၂၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အရူပဘုံ၌ မနာယတန, ဓမ္မာယတန၌ အကျုံးဝင်သော စိတ်, စေတသိက် တရားအစုမျှ တည်ကြောင်းကိုသာ ဟောတော်မူသည်။ မည်ကဲ့သို့တည်သည်ဟူ၍ ပမာ ပမည်းဖြင့် ဟောတော်မူသော ဒေသနာတော်မရှိ။ အနုမာနသိဒ္ဓိဖြင့် သိရာသည်ကား ''ကောင်းကင်ပြင်၌ လေဓာတ် တည်သကဲ့သို့ တည်၏'' ဟူ၍ ဆိုသင့်ပါ၏။

❖❖❖❖❖

၂၇၁။ ကုသိုလ်ချင်းတုံ၊ တပ်ခြင်းကြုံ၊ အာရုံပစ္စည်း ဘယ်သို့နည်း။(၂၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကုသလော ဓမ္မော ကုသလဿ ဓမ္မဿ အာရမ္မဏပစ္စယေန **ပစ္စယော။ ဒါနံ ဒတွာ သီလံ သမာဒိယိတွာ ဥပေါသထကမ္မံ ကတွာ တံ ပစ္စဝေက္ခတိ။ ပုဗ္ဗေ သုစိဏ္ဏာနိ ပစ္စဝေက္ခတိ**–

အစရှိသည်ဖြင့် ဟောတော်မူအပ်သော ပဋ္ဌာန်းပါဠိတော်သည် ရေပေါ်၌ တောက်သောမီးကဲ့သို့ တညီးညီး ထင်ရှားရကား ကျယ်ပွားစွာ မပြေသင့်ပြီ။

အလှူပေးပြီး၍၊ သီလကို ဆောက်တည်ပြီး၍၊ ဥပုသ်သုံးခြင်းကို ပြုပြီး၍၊ ထိုဒါန,သီလ, ဥပေါသထကို ဖြစ်စေသော ကုသိုလ်စေတနာကို အာရုံပြု၍ ဆင်ခြင်သော ပုဂ္ဂိုလ်အား နောက်နောက်၌ ကုသိုလ်စိတ်သည် ယင်းသို့ဖြစ်ရာ၌ ရှေးကုသိုလ် စိတ်ကား အာရမ္မဏပစ္စည်း၊ နောက် ကုသိုလ်စိတ်ကား ပစ္စယုပ္ပန်။ ရှေးကုသိုလ်စိတ်ကား ဓမ္မာရုံ၊ နောက်ကုသိုလ်စိတ်ကား အာရမ္မဏိက၊ မနောဒွါရ ဝိဘူတာရုံ,အဝိဘူတာရုံ ဖြစ်၏ ဟူပေ။

❖❖❖❖❖

## ၂၇၂။ မြောက်ထူပါရုံ၊တောင်စည်းခုံ၊တည်တုံဘယ့်လောက်ကြာပြီနည်း။(၂၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- သာသနာတော် ၁၉၈-ခု၊ သက္ကရာဇ် ၈၀၅-ခုတွင် မင်းပြုသော နရပတိကြီးသည် မင်းဖြစ်၍ ၅-နှစ်မြောက်တွင် ထူပါရုံဘုရားကို တည်ရကား ၎င်းတည် သက္ကရာဇ်ဖြင့် ရောက်ဆဲ သက္ကရာဇ်တွင် နုတ်၍ အကြာကို သိအပ်၏။ တောင်ဘက် စည်းခုံကား ၎င်းသားတော် ပြည့်စုံမင်း တည်သည်။

❖❖❖❖❖

## ၂၇၃။ တရားခုံတုံ၊ အင်္ဂါစုံ၊ မှတ်ယုံဘယ်အင်္ဂါဘယ်သို့နည်း။(၂၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ကုလသီလ ဂုဏောပေတံ၊ ၎ မ္မ ပရာယနံ။**
**သုပညံ ပေသလံ ဒက္ခံ၊ ဓမ္မမေဂ္ဂ ဝိဝီယတေ။** ။ ရာဇနီတိ။

ကုလသီလ ဂုဏောပေတံ၊ အမျိုး အကျင့် သီလနှင့်လည်း ပြည့်စုံထသော။ သစ္စဓမ္မပရာယနံ၊ ဂတိလေးဖြာ မလိုက်နာဘဲ မှန်ကန်စွာ သုံးစွဲလေ့ရှိထသော။ သုပညံ၊ အဆင်အခြင် ပညာလည်း ကောင်းထသော။ ပေသလံ၊ ချစ်ဖွယ်သော စကားကို ဆိုတတ်ထသော။ ဒက္ခံ၊ ဓမ္မသတ်, ရာဇသတ်, ဖြတ်ထုံးတံထွာ၌လည်း လိမ္မာထသော။ တံ၊ ဤအင်္ဂါငါးပါးနှင့် ပြည့်စုံသောသူကို၊ ဓမ္မမေဂ္ဂေ၊ တရားသူကြီးအရာ၌။ ဝိဝီယတေ၊ တည်စေရာ၏။

❖❖❖❖❖

## ၂၇၄။ ဝါ-တစ်နည်းတုံ၊ ခုံတွင်ကြုံ၊ သုံးစုံအင်္ဂါ ဘယ်သို့နည်း။(၂၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**အသာဟသေန ဓမ္မေန၊ သမေန နိယျတိ ပရေ။**
**ဓမ္မဿ ဂုတ္တော မေဓာဝီ၊ ဓမ္မဋ္ဌောတိ ပဝုစ္စတိ။**

ယော၊ အကြင်သူသည်။ အသာဟသေန၊ အနိုင်အထက် မပြုသဖြင့်။ ဓမ္မေန၊ အဂတိသို့ မလိုက်သောအား တရားသဖြင့်။ သမေန၊ ဓမ္မသတ် ထုံးစံနှင့် ညီသဖြင့်။

ပရော သူတစ်ပါးတို့ကို။ နိယျတိ၊ ဆုံးဖြတ်တတ်၏။ ဓမ္မဿ၊ ကိုယ်ကျင့်တရားကို။ ဂုတ္တော ၊ စောင့်သော။ မေဓာဝီ၊ ပညာရှိသော အင်္ဂါသုံးပါးနှင့် ပြည့်စုံသောသူကို။ ဓမ္မဋ္ဌောတိ၊ တရားသူကြီးဟူ၍။ ပဝုစ္စတိ၊ ဆိုအပ်၏။ ဓမ္မပဒကျမ်းလာ။

❖❖❖❖❖

၂၇၅။ ကိဋ္ဌာပိုင်၊ ပါဠ်တိုင်ရုံ၊ တင်တုံဘယ်သူ့ အပြစ်နည်း။(၂၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

"ကိဋ္ဌာပိုင်၊ ပါဠ်တိုင်ရုံကား၊ တင်တုံအပြစ်၊ စိစစ်စောဒက၊ ဆရာ ပြသည့် အာဘော်တည်း"

ဟူ၍ နိယံဆရာမိန့်ရကား ကျမ်းဆရာ၏ အပြစ်ကိုတင်လိုသော စောဒက၏ အာဘော်ဖြစ်သော စကားတည်း။

❖❖❖❖❖

၂၇၆။ ရွှေအုန်းသီးတုံ၊ မင်းပိသုံ၊ နန်းဘုံဘယ်မျှ စည်းစိမ်နည်း။(၂၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရွှေအုန်းသီးမင်းဆယ့်တစ်နှစ်၊ ပိသုံမင်းရှစ်နှစ် နန်းစံ၏ ဟူပေ။

❖❖❖❖❖

၂၇၇။ စင်ခြင်းသုံးစုံ၊ မြင်း၌ကြုံ၊ ဆိုတုံသုံးပါး အဘယ်နည်း။(၂၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မြင်းကြန်စာတွင် ရှိပြီ။

❖❖❖❖❖

၂၇၈။ ဝဥ္စ္ဆာကြိုက်ကြဲ၊ မိန်းမမြဲ၊ ဝ–တုံဘယ်အနက်ဟောသနည်း။(၂၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

"ဝန–ယာစနေ၊ ဝနောတိ အတ္တာနမနုဘဝိတုံ ယာစတီတိ ဝဥ္စ္ဆာ။ အပ္ပသဝါ ဣတ္ထီ"

ဟူ၍ မောဂ္ဂလာန်၌ မိန့်သောကြောင့် ဝဥ္စ္ဆာ၌ 'ဝ' သည် တောင့်တခြင်း အနက်ကို ဟော၏။

**အနက်ကား။** ။ ဝန၊ ဝန–ဓာတ်သည်။ ယာစနေ၊ တောင့်တခြင်းအနက်၌ ဖြစ်၏။ အတ္တာနံ၊ မိမိကိုယ်ကို။ အနုဘဝိတုံ၊ အစဉ်ဖြစ်ခြင်းငှာ။ ဝနတိ–ယာစတိ၊

တောင့်တတတ်၏။ ဣတိ၊ ထို့ကြောင့်။ ဝဥ္စ၁၊ဝဥ္စ မည်၏။ အပ္ပသဝါ၊ သားမမွေးသော။ ဣတ္ထီ၊ မိန်းမကို။ လဗ္ဘတိ၊ ရအပ်၏။

ဝဉ္ဈော–ဟု ပုလ္လိင်ရှိမူ အသီး မသီးသော သစ်ပင်ကို ဟော၏။

ဤ ဝဥ္စ၁–သဒ္ဒါကို တာလုဇ စတုတ္ထက္ခရာ ‑ဈ နှင့် ရေးရမည်။ ထို့ကြောင့် မောဂ္ဂလာန်၌ ''ဝဥ္စ၁အာဒယော ဈန္တာ နိပ္ပဇ္ဇန္တေ''ဟူ၍ မိန့်အပ်သတည်း။

❖❖❖❖❖

## ၂၇၉။ ပရိတ္တာရုံ၊ ပေါင်း၍ဆုံ၊ ကြိုက်ကြုံဝီထိဘယ်မျှနည်း။ (၃၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဝုဋ္ဌော နှစ်ကြိမ်ကျသော ပရိတ္တာရုံ ခြောက်ဝီထိ။ ဝုဋ္ဌော သုံးကြိမ်ကျသော ပရိတ္တာရုံ ငါးဝီထိကျသည်ဖြစ်၍ တစ်ခုသော ဒွါရ၌ ဆယ့်တစ်ဝီထိ ဖြစ်သင့်၏။ ငါးဒွါရကို ပေါင်းသော် ၅၅–ဝီထိ ဖြစ်၏။

ထိုအနက် အဓိပ္ပါယ်ကိုကား– ''ဒွတ္တိက္ခတ္တုံဝေါဋ္ဌဗ္ဗနမေဝ ပဝတ္တတိ'' ဟူသော သင်္ဂြိုဟ်ပါဠိ၏ အဖွင့်ဋီကာကျော်ဖြင့် သိအပ်၏။

❖❖❖❖❖

## ၂၈၀။ ဇစ္စန္ဓတို့၊ ပဥ္စာရုံ၊ စုံလင်ဝီထိ ကျချိမ့်နည်း။ (၃၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''ဇစ္စန္ဓာဒီနန္တိ ဧတ္ထ အာဒိဂ္ဂဟဏေန ဇစ္စဗဓိရ ဇစ္စမူဂ၊ ဇစ္စဇဠ ဇစ္စုမ္မတ္တက ပဏ္ဍက ဥဘတောဗျဉ္စနက နပုံသက မမ္မာဒီနံ သင်္ဂဟော''**

ဟူ၍ ဋီကာ မိန့်သည်နှင့်အညီ ပဋိသန္ဓေအားဖြင့် ကန်းသောသူ၊ ပဋိသန္ဓေအားဖြင့် နားပင်းသောသူ၊ ပဋိသန္ဓေအားဖြင့် အ–သောသူ၊ ပဋိသန္ဓေအားဖြင့် အရိယိုသောသူ၊ ပဋိသန္ဓေအားဖြင့် ရူးသွပ်သောသူ၊ ပဏ္ဍုက်၊ ဥဘတောဗျည်း၊ နပုံး၊ မန်းစွဲသောသူတို့သည် ဇစ္စန္ဓအဝင် အဟိတ် ပဋိသန္ဓေ နေသောသူချည်း ဖြစ်သည်။

ထိုသူတို့တွင် စက္ခုပသာဒ ချို့သောပုဂ္ဂိုလ်၌ စက္ခုဝိညာဉ်စိတ် မဖြစ်။ ပသာဒ, ဝိညာဉ်မဖြစ်သော် ရူပါရုံကို မြင်ခြင်းကိစ္စ မရှိရကား စက္ခုဒွါရဝီထိ မဖြစ်။ ဘယ့်ကြောင့် နည်းဟူမူ– ရူပါရုံ, စက္ခုပသာဒ, အာလောက, မနသိကာရ တည်း ဟူသော အကြောင်းလေးပါး စုံညီမှ စက္ခုဒွါရ ဝီထိ ဖြစ်မြဲသဘော ဖြစ်သော ကြောင့်တည်း။ ထို့အတူ သောတချို့သော ပုဂ္ဂိုလ်တို့၌လည်း သောတဒွါရဝီထိ မဖြစ်။ စက္ခု, သောတ နှစ်ပါးစုံ ချို့သော သူ၌နှစ်ပါးသော ဒွါရဝီထိပင်မဖြစ်။ ဃိုဏ်ချို့သော သူ၌လည်း ဃာနဒွါရဝီထိ မဖြစ်။ ကြွင်းသော ဇစ္စန္ဓတို့၌ကား ပဥ္စဒွါရဝီထိ ဖြစ်သင့်၏ ဟူပေ။

နပုံပဏ္ဍုက်သည် ယောကျ်ားလည်းမဟုတ်၊ မိန်းမလည်းမဟုတ်ဖြစ်၍ အဘယ်သို့ ကာယဒွါရဝီထိ ဖြစ်နိုင်အံ့နည်း ဟူငြားအံ့။ မေထုနသေဝန ဖြစ်သော ကာယဒွါရဝီထိသာ မဖြစ်။ လက်ဖြင့် ကိုင်ခြင်း, တို့ခြင်း, အထက်သို့ သုံးသပ်ခြင်း, အောက်သို့ သုံးသပ်ခြင်း, အထက်အောက် သုံးသပ်ခြင်း, ရှေ့သို့ ဆွဲခြင်း, နောက်သို့ တွန်းခြင်းအစရှိသော ကာယသံသဂ္ဂဖြင့် ကာယဒွါရဝီထိ ဖြစ်၏ ဟူပေ။

❖❖❖❖❖

## ၂၈၁။ သူ့သက်သတ်ကြံ၊ ထိုကံတုံ၊ အာရုံဘယ်သို့ပြုသနည်း။(၃၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

"ပါဏာတိပါတော စေတ္တ ဇီဝိတိန္ဒြိယာရမ္မဏော"

ဟူ၍ ခုဒ္ဒကပါဌ အဋ္ဌကထာ မိန့်ရကား သူ၏အသက်ကို သတ်သောသူသည် သူတစ်ပါး၏ ဇီဝိတိန္ဒြေကို အာရုံပြု၏။ ထို့ကြောင့် ပါဏာတိပါတကို ပြီးစေသော စေတနာဟူသော ကံသည် ဇီဝိတိန္ဒြေ ဟူသော သင်္ခါရသာလျှင် အာရုံရှိ၏ ဟူပေ။

❖❖❖❖❖

## ၂၈၂။ ချမ်းသာရိပ်မြုံ၊ ပြဟ္မာ့ဘုံ၊ ရှုတုံဝါယော ရှိလိမ့်နည်း။(၃၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– "အဿာသ ပဿာသာ ကာယသင်္ခါရော" ဟူသော ယမိုက်ပါဠိတော်နှင့်အညီ၊ ထွက်သက် ဝင်သက် လေသည် ကာယသင်္ခါရ မည်၏။ ထိုကာယသင်္ခါရသည် ပုဂ္ဂိုလ်အားဖြင့်

အမိဝမ်း၌ ကိန်းသောပုဂ္ဂိုလ်၊ ရေမွန်းသောပုဂ္ဂိုလ်၊ နိရောဓ သမာပတ်ကို ဝင်စားနိုက်သောပုဂ္ဂိုလ်၊ မုစ္ဆာကာလ၌ ဖြစ်သောပုဂ္ဂိုလ်၊ စတုတ္ထစျာန်ကို ဝင်စားနိုက်သော ကာမပုဂ္ဂိုလ်၊ ရူပါဝစရ တစ်ဆယ့်ခြောက်ဘုံ၌ ဖြစ်သော ပုဂ္ဂိုလ် တို့၌မရှိ။ ဗလဝါရမ္မဏဖြစ်သော ကာမပုဂ္ဂိုလ်တို့၌သာ ဖြစ်၏။

ဟူ၍ ၎င်းယမိုက် အဋ္ဌကထာ၌ လာရကား "ပြဟ္မာ့ဘုံ၌ ထွက်သက် ဝင်သက် ရှုသော ဝါယောဓာတ်မရှိ"ဟု ဖြေ။

### "အံ့" ကာရန်ပုစ္ဆာ ၃၃–ပုဒ် အဖြေ ပြီး၏။

ဤ၌လည်း –"လေးထောင့်ဝန်းတုံ၊ ရွှေစက်စုံ" စသော ၄–ပုဒ်မျှသာ ရေးအဖြေစာ တွင် တွေ့သည်။

❖❖❖❖❖

## (၄) ''အုံ့''ကာရန်ပုစ္ဆာ ၈–ပုဒ်အဖြေ

**၂၈၃။ လောင်းလျာတမုံ့၊ လက်ရသုံ့၊ ကျဉ်းကြုံ့ဖြစ်ဖူးလေသနည်း။ (၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပြည်ရွာကို ဖျက်ဆီးသော ခိုးသူကြီးတို့သည် လည်းကောင်း, စစ်သည် သူရဲတို့သည်လည်းကောင်း, အနိုင်အထက် လုယက်သိမ်းယူ၍ ကျွန်ပြုလေသော်သူသည် သုံ့ရကျွန် မည်ကုန်၏။

ငါတို့ ဘုရားလောင်းသည် ဗျာဒိတ်ခံပြီးသောနောက် ထိုသုံ့ရကျွန်ဖြစ်ဖူး၏ လောဟု မေးသည်။

**န ဇစ္စန္ဓော၊ န ဇစ္စဗဓိရော၊ န ဥမ္မတ္တကော၊ န ဧဠမူဂေါ၊ န ပီဋ္ဌ သပ္ပီ၊ န မိလက္ခေသု ဥပ္ပဇ္ဇတိ၊ န ဒါသိကုစ္ဆိယာ နိဗ္ဗတ္တတိ။**

အစရှိသည်ဖြင့် သုတ္တနိပါတ် အဋ္ဌကထာ၌လာသည်နှင့်အညီ၊ ဗျာဒိတ်ခံပြီးသော ဘုရားအလောင်းတို့သည်–

ပဋိသန္ဓေအားဖြင့် ကန်းသည်လည်း ဖြစ်တော်မမူ။
နားပင်းသည်လည်း ဖြစ်တော်မမူ။
ရူးသွပ်သည်လည်း ဖြစ်တော်မမူ။
အရိယိသည်လည်း ဖြစ်တော်မမူ။
ဆွံ့–အ သည်လည်း ဖြစ်တော်မမူ။
အရိုင်း တောင်သူမျိုး၌လည်း ဖြစ်တော်မမူ။
ကျွန်မ ဝမ်း၌ ပဋိသန္ဓေ နေသည်လည်း ဖြစ်တော်မမူ။
နိယတမိစ္ဆာဒိဋ္ဌိ အယူရှိသည်လည်း ဖြစ်တော်မမူ။
လိင်ပြန်သည်လည်း ဖြစ်တော်မမူ။
အနန္တရိယကံ ထိုက်သည်လည်း ဖြစ်တော်မမူ။
နူနာစွဲသည်လည်း ဖြစ်တော်မမူ။
တိရစ္ဆာန်မျိုး၌ ငုံးအောက် အငယ်၊ ဆင်ပြောင်ထက် အကြီးသည်လည်း ဖြစ်တော်မမူ။
ခုပ္ပိပါသိကပြိတ္တာ, နိဇ္ဈာမတဏှိကပြိတ္တာ, ကာလကဉ္ဇိက အသုရာတို့၌လည်း ဖြစ်တော်မမူ။
အဝီစိငရဲ, လောကန္တရိက် ငရဲ၌လည်း ဖြစ်တော်မမူ။
ကာမာဝစရနတ်တွင် မာရ်နတ်လည်း ဖြစ်တော်မမူ။
ရူပ ၁၆–ဘုံတွင် အသညသတ်ဘုံ၌လည်း ဖြစ်တော်မမူ။
သုဒ္ဓါဝါသဘုံ၌လည်း ဖြစ်တော်မမူ။
တစ်ပါးစကြဝဠာသို့ ပြောင်း၍လည်း ဖြစ်တော်မမူ။

ဟူ၍ တစ်ဆယ့်ရှစ်ရပ်သော အဘဗ္ဗဋ္ဌာနကို ပြသည်။

ယင်းသို့ပြရာတွင် ကျွန်မဝမ်းတွင် ပဋိသန္ဓေ မနေကြောင်းကိုသာ လာသည်။ လက်ရ အသိမ်းခံရသောကျွန် မဖြစ်ဟူ၍ မလာသောကြောင့် သုံ့ရကျွန်ကား ဖြစ်၏ဟု ဆိုအပ်၏။ ။ အဋ္ဌာပတ္တိ နှင့်သာ ဖြေသည်။

သက်သေကို ပြဦးလော့ ဟူငြားအံ့–မဟာသီလဝ ဇာတ်၌လည်းကောင်း, ကေရာဇဇာတ်၌လည်းကောင်း, ဥဇ္ဇေနီမင်း လက်ရသိမ်းသည်ကို ခံရဖူး၏။ ဝိဓုရဇာတ်၌ အမတ်ကြီးဖြစ်၍ ပုဏ္ဏကဘီလူး လက်ရသိမ်းသည်ကို ခံရဖူး၏ ဟူပေ။

❖❖❖❖❖

## ၂၈၄။ တစ်ယောက်စာမှံ့၊ ငါးရာမြို့၊ပုံ့ပုံ့ကျန်ကြွင်း ဘယ့်ကြောင့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အရှင်မောဂ္ဂလာန် ဖန်ဆင်းအပ်သော တန်ခိုးတော်ကြောင့် ကျန်ကြွင်း၏ ဟူပေ။

အကြောင်းကား– ဘုရားသခင်သည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ စံနေတော်မူသောအခါ ရာဇဂြိုဟ်ပြည်၏ အနီး သက္ကာရနိဂုံး၌ မစ္ဆရိယကောသိယ မည်သောသူဌေးသည် ရှိ၏။

ထိုသူဌေးသည် ကုဋေရှစ်ဆယ် စည်းစိမ်ကြွယ်လျက် မြက်ရွက်ဖျားဖြင့် ကော်အပ်သော ဆီတစ်ပေါက်ကိုမျှ သူတစ်ပါးအား မပေးရက်၊ သက်သက်လည်း မိမိမသုံး၊ အလုံးစုံသော ဥစ္စာကိုစောင့်လျက်သာနေ၏။

ထိုသူဌေးသည် တစ်နေ့သ၌ မင်းအား ခစားခြင်းငှာ သွားလေသော် ခရီးအကြား၌ တစ်ဦးသောဇနပုဒ်သား မိတ်ဆွေသည်ရှိသည်ဖြစ်၍ ထိုမိတ်ဆွေ၏အိမ်သို့ ဝင်ရာ၊ ထိုသူမှာလည်း ချိုမြိန်ကောင်းမြတ်စွာသော မုန့်အိုးကင်းကပ် စား၍နေသည်နှင့် သူဌေး လာသည်ကိုမြင်လျှင် ''အရှင် သူဌေးမုန့်စားလှည့်ပါ''ဟု ခေါ်၏။ သူဌေးလည်း မုန့်၏ ရနံ့သင်းပျံ့စကာပင် စားချင်သော အာသာ လွန်စွာရှိငြားသော်လည်း သူ့မုန့်ကို ငါစားသော် သူ့အား ငါကျွေးတုံ့ ကျွေးရချိမ့်မည်။ ကျွေးရက ငါ့ဥစ္စာ ကုန်ချိမ့်မည်ဟု ဥစ္စာကုန်ချိမ့်မည်မှ စိုးရိမ်လှရကား မုန့်ကိုမစားဘဲ ကျိတ်ခဲသိမျို၍သာ နေ၏။

အိမ်သို့ ပြန်ရောက်သောအခါ စားမြဲတိုင်း အစာကို စားသုံးပါသော်လည်း ထိုမုန့်၌သာလျှင် အာသာကပ်ငြိရကား စား၍မဝင်နိုင်ဖြစ်၏။ ယင်းသို့ အစားမဝင်ပါလျက် ဥစ္စာကုန်မည် နှမြောရကား မယား, သားကိုမျှ မပြောကြားဘဲ အောင့်အည်း၍သာ နေသဖြင့် ခနစ်ရက်ကြာမြင့်လတ်သော် ညှိုးရော်ကြုံလှီစွာဖြစ်ရကား မယား သူဌေးမက ''အရှင် သူဌေး–အဘယ်သို့ မချမ်းသာသနည်း၊ ရောဂါဝေဒနာ ရှိသလော၊ မင်း၏အမျက်သော်လည်း ရှိသလော''ဟု ကျောကို ဆုပ်နယ်လျက် မေး၏။

ထိုအခါ သူဌေးကလည်း 'ရှင်မ–ငါ့အား မုန့်အိုးကင်းကပ်၌ တပ်ငြိသော အာသာသည် ရှိ၏။ ထိုအာသာကြောင့် ဘယ်အစာကိုမျှ မစားချင်ဖြစ်၏''ဟု ပြောလျှင် ''အရှင်သူဌေး–ဘယ့်ကြောင့်ကျွန်ုပ်ကို မပြောပါသနည်း။ ဤမြို့ရွာ လူအားလုံးသည် ကျုံး၍ စားလောက်အောင် ကျွန်ုပ် မုန့်လုပ်ပါအံ့''ဟု သူဌေးမက ဆိုလျှင် ''ရှင်မ ဥစ္စာ ရတတ်ကြောင်းကို ကျွန်ုပ်သိပါ၏။ မတိုင်းမထွာ ငါ့ဥစ္စာကို ပြုန်းမည်စိုး၍ပင် မပြောဘဲ ခဲ၍နေရပါသည်''ဟု ဆိုလျှင် ''အရှင်သူဌေး–ကျွန်ုပ်တို့ အိမ်သား စားလောက်ရုံပင် လုပ်ပါအံ့''ဟု သူဌေးမက ဆိုပြန်၏။ သူဌေးကလည်း ''သင့်သားသမီး ကျေးကျွန်တို့အား ပေးသဖြင့် အဘယ်အကျိုး ရှိအံ့နည်း''ဟု ဆိုပြန်လျှင် ''အရှင်သူဌေး–သုံးဆောင် ရုံလောက်သာ လုပ်ပါအံ့''ဟု ဆိုရ၏။ ထိုအခါမှ ''လုပ်ပါတော့''ဟု ခွင့်ပေး၏။

သူဌေးကတော်လည်း သင့်လျော်ကောင်းမြတ်သော ဆန်, ထောပတ်, ပျား, သကာတို့ဖြင့် တစ်ယောက်စာမျှ မုန့်လုပ်ခြင်းငှာ အားထုတ်သော် သူဌေးလည်း ဤအိမ်ပေါ်တွင် မုန့်လုပ်ချေက  သားသမီး ကျေးကျွန်တို့မြင်၍ ငါ့ကဲ့သို့ပင် စားချင်သော အာသာဖြစ်လေရာသည်။ ချင်းတို့မမြင်ရအောင် ပြာသာဒ်၏ သတ္တမဘုံသို့ တက်၍ လျှို့ဝှက်ကာ လုပ်ကြအံ့ဟု ဆို၍ မောင်နှံနှစ်ပါးပင် ပြာသာဒ်ဖျားသို့ တက်၍ တံခါးကို ပိတ်လျက် မုန့်ချက်ကြော်လေ၏။

ထိုသည့်နေ့၌ ဘုရားမြတ်စွာသည် မဟာကရုဏာသမာပတ်ဖြင့် ချွတ်အပ်သော ဝေနေယျကို ရှုတော်မူသော် ၄၅–ယူဇနာထက်၌ တည်သော မစ္ဆရိယ သူဌေးမောင်နှံတို့ ပြုဟန်ကို ဉာဏ်တော်ဖြင့်မြင်၍ အရှင်မောဂ္ဂလာန်ကို ခေါ်ပြီးလျှင် ''ချစ်သား မောဂ္ဂလာန်– ရာဇဂြိုဟ်ပြည်၏ အနီးဖြစ်သော သက္ကာရနိဂုံး၌ မစ္ဆရိယ သူဌေး မောင်နှံတို့သည် မုန့်အိုးကင်းကပ် စားရန်အလို့ငှာ မြင့်စွာသော ပြာသာဒ်သို့တက်၍ လျှို့ဝှက်ကာ ကြော်လှော်ကြ၏။ မိမိ သားသမီးတို့ကိုမျှ မသဒ္ဓါ၊ သို့စင် နှမြောရှာသော ဒကာ မစ္ဆရိယ သူဌေးကို သင် ဆုံးမပါချေ''ဟု စေတော်မူ လိုက်၏။

အရှင်မောဂ္ဂလာန်လည်း ''ကောင်းပါပြီဘုရား''ဟု ဝန်ခံ၍ ဈာန်ဖြင့် ကြွလေပြီးသော် သူဌေးကြီးမောင်နှံတို့ စီမံကြော်ချက်ကာ နေသော ပြာသာဒ်၏ အပြင်၌ ကောင်းကင်ဖြင့် ရပ်ပေ၏။

သူဌေးကြီးလည်း အရှင်မောဂ္ဂလာန်ကို မြင်လျှင် ရင်ဝမှ တုန်လှုပ်လျက် မျက်ကြုတ်ပြင်းစွာဖြင့် ကြည့်၍ ဤရဟန်းတို့ မမြင်စိမ့်သောငှာ လုံခြုံရာကိုရှာ၍ ငါမုန့်လုပ်ပါသည်ကို ရတ်ချည်းပင် ဤရဟန်းပေါက်လာခဲ့သည်ဟု  မြည်တွန်တောက်တီးလျက် ''ဦးပြည်း ရဟန်းကြီး–ကောင်းကင်ခရီးမှနေ၍ မျှော်သော်လည်း ရတော်မူမည် မဟုတ်၊ ကျွန်ုပ်အလို့ငှာသာ လုပ်သတည်း''ဟု ပြော၏။

အရှင်မောဂ္ဂလာန်လည်း ကောင်းကင်ယံ၌ စကြံသွားကာ နေပြီးမှ မုန့်အိုး၏ အနီးဖြစ်သော ကောင်းကင်ထက်၌ ထက်ဝယ်ဖွဲ့ခွေ၍ နေပြန်၏။ သူဌေးလည်း ''မိုးလတ်ကထိုင်၍ စောင့်သော်လည်း တောင့်၍သာ သေတော်မူမည်၊ လှူလိမ့်မည် မမှတ်လင့်'' ဟု ထပ်၍ဆိုပြန်၏။

ရှင်မောဂ္ဂလာန်လည်း တစ်ဖန် သက်နား၍ တံခါးခုံ၌ရပ်၏။ သူဌေးကလည်း ''အရှင်ရဟန်း၊ တံခါး၌ ရပ်သော်လည်း ချိုးကပ်ကိုမျှ ငါမလှူချေ''ဟု ဆို၏။ အရှင်မောဂ္ဂလာန်လည်း အဘိညာဉ်တန်းခိုးဖြင့် အခိုးလွှတ်တော်မူ၏။ ပြာသာဒ်အလုံးကို မီးခိုးလွှမ်းဖုံးလေသဖြင့် သူဌေး၏မျက်စိတို့သည် အပ်ဖြင့်ဆွသကဲ့သို့ရှိ၏။ ထို့နောက်တစ်ဖန် အလျှံ လွှတ်ပြန်လတ်သော် ပြာသာဒ်အဆောင်ကို မီးလောင်သကဲ့သို့ ရှိ၏။

ယင်းသို့သော တန်ခိုးအာနုဘော်ကို မြင်လျက် လှူချင်သော စိတ်မဖြစ်။ စင်စစ် မုန့်ကိုမရလျှင် ဤရဟန်း မကြွလေရာ။ မြန်စွာကြွလေအောင် လှူမှပင် သင့်တော်မည်-ဟု ကြံ၍ ''ခင်ပွန်းမ ဤရဟန်းအား ပေးရအောင် အတန်ငယ်မျှ မုန့်ကိုထည့်၍ ကြော်လော့''ဟု ဆို၏။ သူဌေးမလည်း အနည်းငယ် ထည့်၍ကြော်သော် ရှေးကြော်ပြီး မုန့်ရှက်ထက် ကြီး၍နေလေ၏။ သူဌေးလည်း ''သင်မုန့်များစွာ ထည့်၍သာ ကြီးစွာသော မုန့်ရှက်ဖြစ်သည်။ ငါထည့်ဦးအံ့''ဟု ဆိုလျက် မုန့်စိုင်ကို အနည်းငယ်မျှ ယောက်မစွန်းဖြင့် ယူ၍ ထည့်ပြန်လျှင် ယခင့် မုန့်ထက်ပင် ဆထက်ကြီး၍ နေပြန်၏။ ဤသို့သောနည်းဖြင့် ကြီးလျက် ကြီးလျက်ချည်းနေလေသော် ''ငယ်ဖော်မ- ဤရဟန်းအား တစ်ခုခုသော မုန့်ရှက်ကိုယူ၍ လှူလိုက်လော့''ဟု ဆို၏။ သူဌေးမလည်း ကြော်သောယောက်မဖြင့် မုန့်တစ်ရှက်မျှ လှာပါသော် တောင်း၌ရှိသမျှ မုန့်အကုန်ကပ်၍ ပါသဖြင့် ခွာမရဘဲ ရှိခဲ့၏။ ထို့အကြောင်းကို သူဌေးအားပြော၍ နှစ်ယောက်သော သူတို့ပင် အားရှိသမျှ ဆွဲ၍ ခွာကြသည်။ ခွာ၍ မရသဖြင့် ကိုယ်မှချွေးဒီးဒီး ယိုစီးလေ၏။ မုန့်၌ တပ်ငြိသော အာသာလည်း ထိုအခါပြတ်ကင်း၏။ ယင်းသို့ဖြစ်ရာတွင်မှ ''အိမ့်ရှင်မ ပြီးသမျှသော မုန့်ကိုပင် ဤအရှင်မြတ်အား ကပ်လှူလိုက်လော့''ဟု ဆို၏။

ထိုအခါ ရှင်မောဂ္ဂလာန်လည်း သူဌေးမောင်နှံတို့အား တရားစကားဖြင့် ဟောကြား ဆုံးမ၍ ဘုရားဂုဏ်, တရားဂုဏ်, သံဃာ့ဂုဏ်တို့ကို စေ့စုံစွာမိန့်ဟောတော်မူ၏။

သူဌေးလည်း တရားတော်ကို နာရလျှင် ပြင်းစွာ ကြည်ညိုခြင်းဖြစ်၍ ''အရှင်မြတ်- ဤအရပ်၌နေ၍ ဤမုန့်ကို ဘုဉ်းပေးတော်မူပါ''ဟု လျှောက်၏။ အရှင်မြတ်ကလည်း ''သူဌေးကြီး ငါတို့ဆရာ မြတ်စွာဘုရားသည် ဒကာတို့အား အလှူနှံ သနားသောကြောင့် ငါ့အား စေတော်မူသည်။ သင်လှူသော မုန့်ကို ဘုရားထံသို့ အမြန် ငါဆောင်အံ့၊ သင်တို့မောင်နှံလည်း ဘုရားရှင်ထံသို့ ဖူးမြင်ရန် မလိုက်လိုလော''ဟု မေး၏။ ''အရှင် ဘုရား-မြတ်စွာဘုရားသည် ဘယ်မှာ စံနေသနည်း''ဟု

လျှောက်လျှင် ''ဤအရပ်မှ ၄၅-ယူဇနာကွာသော သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော် ဝယ် စံပယ်တော် မူသည်'' ဟု ပြော၏။ ''အရှင်ဘုရား-ဤမျှလောက်ဝေးသည့်ဌာနကို ဘယ်မှာ အကျွန်ုပ်တို့ လိုက်နိုင်ပါအံ့နည်း''ဟု လျှောက်၏။ အရှင်မောဂ္ဂလာန်လည်း ''သူဌေးကြီး- အကယ်၍ ဘုရားရှင်ကို ဖူးမြင်လိုမူကား သင်၏ ပြာသာဒ်လေှကားဦး၌ပင် ကျောင်းတော်ကိုမြင်၍ ဘုရားသခင်ကိုတွေ့စေအံ့''ဟုဆို၏။ သူဌေးကလည်း အရှင် ဘုရား ''ယင်းသို့ဖြစ်မူကား လျင်လျားစွာ လိုက်ပါအံ့''ဟု လျှောက်၍ နောက်တော်က သူဌေးမောင်နှံတို့ လိုက်ကြ၏။

ရှင်မောဂ္ဂလာန်ထေရ်မြတ်လည်း တံခါးဦး၌ရပ်၍ မိဋ္ဌာန်ပြုတော်မူလျှင် ယခင် မိန့်ဆိုသည့် အတိုင်း သူဌေး၏ပြာသာဒ် စောင်းတန်းဝနှင့် ဇေတဝန်ကျောင်းတော် တံခါးဝသည် စပ်ကာမျှဖြစ်၍ တည်လေ၏။

ရှင်မောဂ္ဂလာန်လည်း သူဌေးမောင်နှံကိုခေါ်၍ ဘုရားအထံတော်သို့ ဝင်ပြီးလျှင် သပိတ်တွင်ပါသော မုန့်တို့ကို ကပ်ဆက်၏။

ဘုရားကိုယ်တော်မြတ်လည်း ကပ်ဆက်သော မုန့်တို့ကိုမျှလောက်ရုံယူပြီးမှ သံဃာတော် ငါးရာတို့အားပေး၏။ သံဃာတော်တို့လည်း အသီးသီးယူလိုက်ပြီးမှ သူဌေးကြီး မောင်နှံတို့အား ''မုန့်ကျန်ကို သုံးဆောင်ဦးလော့''ဟု ပေး၏။ သူဌေးလင်မယားလည်း စား၍မကုန်နိုင်သဖြင့် ကျောင်းတော်တွင်ရှိသော စားကြွင်းစားလူ အများတို့အား ပေးဝေ ပြန်သည်။ တစ်ဖန် ရှိမြဲတိုင်းပင် ရှိပြန်၏။

သူဌေးလင်မယားတို့သည် ''အရှင်ဘုရား-မုန့်ကား မကုန်နိုင်ပါ၊ အဘယ်သို့ ပြုရ ပါအံ့နည်း''ဟု လျှောက်သော် ''ဇေတဝန်ကျောင်းတော် တံတိုင်းပြင်ဘက် တံမြက်ချေး စွန့်ရာ၌ ကောင်းစွာ သွန်ချေလော့''ဟု မိန့်တော်မူ၏။ ထိုမုန့်သွန်ရာ၌ ရှည်ကြာသော ကာလပတ်လုံး မသိုးမပျက်ပြား ထင်ရှားစွာ ဖြစ်သတည်း။

သူဌေးလင်မယားအားလည်း ဘုရားသခင်သည် အစဉ်သော တရားစကားဖြင့် မိန့်ကြား ချေချွတ်တော်မူ၍ ဒေသနာတော်၏ အဆုံး၌ ထိုသူဌေးမောင်နှံတို့သည် သောတာပန် ဖြစ်လေကုန်၏။ အရှင်မောဂ္ဂလာန်လည်း ထိုသူဌေးမောင်နှံတို့အား အဓိဋ္ဌာန်တန်ခိုးဖြင့်ပင် ယခင်ပြာသာဒ်သို့ ရောက်အောင် ပို့ဆောင်တော်မူ၏။ ထိုအခါမှ စ၍ သူဌေးဇနီး ခင်ပွန်းတို့သည် ကုဋေရှစ်ဆယ်မျှသော ဥစ္စာကို သာသနာတော်၌ စိုက်ကြ ဖြန့်ဖြူးလေ၏။

ဤဓမ္မပဒဝတ္ထုဖြင့် အကျယ်ကို သိရာ၏။

❖❖❖❖❖

၂၈၅။ ဆောင့်ကြောင့်ကြုံ့ကြုံ့၊ နေတမုံ့၊ ထုံ့ပိုင်းဘယ်ကမြတ်သနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အရာအားလျော်စွာ မြတ်သည် ချည်းတည်းဟု ဖြေ။

အဘယ်အရာအား အဘယ်သို့ လျော်သနည်း ဟူမူကား– ရတနာသုံးပါးကို ရှိခိုးပူဇော်သောအရာ, လျှောက်ထား တောင်းပန်သောအရာတို့၌ ဆောင့်ကြောင့် နေသဖြင့် သင့်တင့်ကြောင်းကို ''ဥက္ကုဋိကံ နိသီဒိတွာ အဉ္ဇလိံ ပဂ္ဂဟေတွာ''စသည်ဖြင့် လာသည်။

ဘုရားထံပါး, သံဃာ့ထံပါး, ဆရာ့ထံပါး, အရှင်မင်း၏ ထံပါးဝယ် ခစား နေထိုင်သော အခါတို့၌ကား ပုဆစ်ဒူးချ၍ မိန်းမတို့ထိုင်နေသကဲ့သို့ ထိုင်နေ သင့်ကြောင်းကို ''ဇဏ္ဏုကာနိ ပတိတွာ တဿာဘိမုခံ ကရိတွာ'' စသည်ဖြင့် လာသည်။

အတတ်ပညာ သင်သောအခါ, ဘုရားအား လည်းကောင်း, ဆရာအား လည်း ကောင်း, ဝတ်ပြုသောအခါ စသည်တို့၌ ထုံ့ပိုင်းနေသင့်ကြောင်းကို ကျမ်းဂန်လာသည်။ ယင်းသို့ အရာအားလျော်စွာ နေသင့်သည်ချည်း ဖြစ်ရကား အရာအားလျော်စွာ မြတ်၏ ဟု ဖြေအပ်၏။

ဤအရာ၌ အချို့ဆရာတို့ကား– ''ကျမ်းဂန် တောင်းပန်သောအရာ, ရှိခိုးသော အရာဟူသမျှ၌ ဥက္ကုဋိကချည်း လာရကား ဆောင့်ကြောင့်နေခြင်းသာ မြတ်၏''ဟု ဆိုကုန်၏။

ထုံ့ပိုင်းနေခြင်း ဟူရာ၌ ပုဆစ်နှစ်ဖက်ကို ချွေ၍ ခြေနှစ်ခုကို တစ်ဖက်နံပါး၌ ထားလျက်နေခြင်းတည်း။

❖❖❖❖❖

၂၈၆။ မိုးညိုဆော်လှုံ့၊တိမ်ပုံ့ပုံ့၊ မှိုင်းအုံ့နတ်ပြည် ရွာလိမ့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''တာဝတိံသတော ဥပရိဒေဝေသု ဘုသာ ဝါတော ဝါ မေဃ ဝဿနော ဝါ နတ္ထိ''

ဟူ၍ ဇာတ်အဋ္ဌကထာတို့၌ လာသောကြောင့် တာဝတိံသာမှ အထက် ဖြစ်သော နတ်ပြည်ငါးရွာ၌ ပြင်းစွာသော လေတို့သည် မလာ။ မိုးလည်း မရွာ။ စတုမဟာရာဇ် နတ်ရွာ၌မူကား လူတို့နေရာကဲ့သို့ မိုးလည်း ရွာ၏။ လေလည်းလာ၏ ဟူပေ။

အလုံးစုံသော စတုမဟာရာဇ်ဘုံ၌ မိုးရွာသလော ဟူငြားအံ့–စတုမဟာရာဇ် နတ်သည် အာကာသဋ္ဌနတ်, ဘူမဋ္ဌနတ်အားဖြင့် နှစ်ပါးရှိသည်။ ထိုတွင် မြင်းမိုရ်

တောင်၏ ပဋ္ဌမအာလိန်အပြင် ယူဇနာ ငါးထောင်ခန့် ကျယ်သော အရပ်၌ ပြာသာဒ် ဗိမာန်တည်၍ နေသော နတ်သည် ဘူမဋ္ဌနတ် မည်သည်။ ထိုနှင့်တစ်ပြင်တည်း ကောင်းကင်၌ တည်သော စကြဝဠာတောင် နံရံထိအောင် အပြည့်ရှိသော ဗိမာန်၌ ပျော်စံ၍နေသော နတ်သည် အာကာသဋ္ဌ နတ်မည်သည်။ ဤအာကာသဋ္ဌနတ်ပြည်၌ မိုးမရွာ။ မြင်းမိုရ်တောင်ကိုမှီ၍ နေသော ဘူမဋ္ဌနတ်ပြည်၌သာ မိုးရွာ၏ ဟူပေ။

အဘယ့်ကြောင့်နည်းဟူမူ– မိုးဟူသည်ကား မြေခိုး မြေငွေ့ကြောင့် လည်းကောင်း, သမုဒ္ဒရာအခိုး အငွေ့ကြောင့်လည်းကောင်း ရွာသော မိုးသာများသည် နတ်မြူးတူးခြင်း စသည်ကြောင့် ရွာသောမိုးကား တစ်ရံတစ်ဖန်သာဖြစ်သည်။ ထို့ကြောင့် မြေတောင်ကို မှီရာ၌သာ မိုးရွာ၏ဟု သိရာသည်။

❖❖❖❖❖

## ၂၈၅။ ရှေးကံတမုံ့၊ မဆော်လှုံ့၊ လုံ့လကျိုးပေး ပါလိမ့်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရှေးကံပင် မဆော်လှုံ့သော်လည်း လုံ့လ၏ အကျိုးသည် ပေး၏ဟူပေ။

အဘယ်သူတို့ နည်းဟူမူ–မဟာဇနက မင်းသားသည် လုံ့လပြုသော ကြောင့်သာ မိဓိလာပြည် ရွှေထီး ရွှေနန်းကို ရသည်ဟု ဟောတော်မူသည်။

ဤမှ တစ်ပါးလည်း–

ကံကိုသာမှီ၍ အသက်မွေးရသော ကမ္မူပဇီဝီပုဂ္ဂိုလ်။
ဝီရိယကိုမှီ၍ အသက်မွေးရသော ဝီရိယူပဇီဝီပုဂ္ဂိုလ်။
ကံ ဝီရိယ နှစ်ပါးစုံကိုမှီ၍ အသက်မွေးရသော ဉဘယူပဇီဝီပုဂ္ဂိုလ်။
ကံ ဝီရိယ နှစ်ပါးစုံကိုမမှီ၍ အသက်မွေးရသော အနုဘယူပဇီဝီပုဂ္ဂိုလ်။

ဟူ၍ လေးပါးအပြားရှိသည်။

ထိုတွင် နတ်ပြည်ခြောက်ထပ်၌နေသော နတ်တို့သည် ရှေးကောင်းမှုကံကိုသာ မှီရသောကြောင့် ကမ္မူပဇီဝီ ပုဂ္ဂိုလ်မည်ကုန်သည်။

လူ့ပြည်၌ မင်း, အမတ် စသောသူတို့သည် ရှေးကောင်းမှုကံကြောင့် မင်းအမတ် အဖြစ်ကို ရသော်လည်း လုံ့လမရှိလျှင် ထိုမင်းအမတ်တို့သည် စည်းစိမ်ကို ရှည်မြင့်စွာ မခံရရာ။ လုံ့လရှိမှသာ ခံရသောကြောင့် ဉဘယူပဇီဝီပုဂ္ဂိုလ် မည်ကုန်သည်။

ဆင်းရဲသားတို့မှာ ရှာကြံလုပ်ကိုင်ခြင်း လုံ့လကိုသာ မှီရသောကြောင့် ဝီရိယူပ ဇီဝီ ပုဂ္ဂိုလ်မည်သည်။

အပါယ်ဘုံသားတို့မှာ နှစ်ပါးစုံကိုပင် မမှီရသောကြောင့် အနုဘယူပဇီဝီ ပုဂ္ဂိုလ်မည်သည်။

ဤသို့ဟောတော်မူရကား ရှေးကံတရားပင် မဖြောက်စားသော်လည်း လုံ့လအားကြီးက စည်းစိမ်ချမ်းသာကို ရခြင်းဟူသော အကျိုးပေးသည်သာ တည်းဟု မှတ်အပ်၏။

❖❖❖❖❖

၂၈၈။ ဖာ ရားဆံရုံ့၊ မျက်နှာငုံ့၊ ရှုံ့၍ငိုသည် ဘယ်နတ်နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- လောကဗျူဟာနတ်သည် ကမ္ဘာပျက်ခါနီး၌ ငိုသည် ဟူပေ။

❖❖❖❖❖

၂၈၉။ ပြန်ခွန်းမတုံ့၊ တပြုံ့ပြုံ့၊ လှုံ့၍မပါ မည်သူနည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- တေမိမင်းသား ဟူပေ။

❖❖❖❖❖

၂၉၀။ ဆွမ်းဦးပုံ့ပုံ့၊ အလယ်စုံ့၊ မြုံ့ဖို့နှိမ်သော် ဘယ်ပြစ်နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဒုက္ကဋ်အာပတ်သင့်၏။

ဤ ၃-ပုဒ်ကား ထပ်မံဖြည့်သွင်းလိုက်သော ၃-ပုဒ်တည်း။

''အုံ့'' ကာရန်ပုစ္ဆာ ၈-ပုဒ်အဖြေ ပြီး၏။

❖❖❖❖❖

(၈)။ ''အုံး'' ကာရန်ပုစ္ဆာ ၁၆-ပုဒ်အဖြေ။

၂၉၁။ ဒေသစာလုံး၊ အကြိမ်ရုံး၊ သုံးလူ့ထွတ်ထား ဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အပရမ္ပိ ဗုဒ္ဓါစိဏ္ဏံ ဝုတ္တဝသော ပဝါရေတွာ ဇနသင်္ဂဟတ္ထာယ ဇနပဒစာရိကံ ပက္ကမန္တိယေဝ။ ဇနပဒစာရိကံ စရန္တာ စ မဟာမဏ္ဍလံ မဇ္ဈိမမဏ္ဍလံ အန္တိမမဏ္ဍလန္တိ ဣမေသံ တိဏ္ဏံ မဏ္ဍလာနံ အညတရသ္မိံ မဏ္ဍလေ စရန္တိ။

အစရှိသည်ဖြင့် သမန္တပါသာဒိက အဋ္ဌကထာ လာသည်နှင့်အညီ ဘုရားသခင်တို့၏ အစဉ်ဖြစ်သော အလေ့အကျက်တော်သည်ကား ဝါကျွတ်၍ ပဝါရဏာပြုပြီးသော် လူအပေါင်းတို့အား တရားဖြင့်ချီးမြှောက်တော်မူခြင်းငှာ ဇနပုဒ်မြို့ရွာသို့ ဒေသစာရီ ချီမြဲဓမ္မတာဖြစ်သတည်း။ ယင်းသို့ ဒေသစာရီ ကြွချီခြင်းသည်လည်း–

ကျယ်စွာသော ခရီးအဝန်းဖြင့် ကြွသော မဟာမဏ္ဍလတစ်ပါး။

မကျဉ်းမကျယ် အလယ်သော ခရီးအဝန်းဖြင့်ကြွသော မဇ္ဈိမ မဏ္ဍလတစ်ပါး။

အကျဉ်းဆုံးဖြစ်သော ခရီးအဝန်းဖြင့် ကြွသော အန္တိမ မဏ္ဍလတစ်ပါး–

ဤသို့အားဖြင့် သုံးပါးတည်း။

ထိုတွင် အကြင်အခါ၌ မဟာမဏ္ဍလဖြင့် ကြွတော်မူလိုသည် ဖြစ်အံ့၊ သီတင်းကျွတ်လပြည့်နေ့ ပဝါရဏာ ပြုပြီးသော် လပြည့်ကျော်တစ်ရက်နေ့၌ ရဟန်းသံဃာ အခြံအရံနှင့်တကွ ကျောင်းမှ ထွက်တော်မူ၍ ထိုထိုသို့သော မြို့ရွာနိဂုံး ဇနပုဒ်တို့၌ နေကုန်သော လူအပေါင်းတို့အား ဆွမ်း, သင်္ကန်းစသော အာမိသကို ခံတော်မူသဖြင့် လည်းကောင်း, ဝဋ်မှ ထွက်မြောက်ကြောင်းဖြစ်သော တရားဓမ္မကို ပြသချေချွတ်တော် မူသဖြင့်လည်းကောင်း, ချီးမြှောက်ခြင်းကို ပြုလျက် ကိုးလတိုင်တိုင် လှည့်လည်တော်မူ၍ ဝါဆိုအံ့သောအခါ သင့်လျော်ရာဖြစ်သောကျောင်း၌ ဝါကပ်တော်မူသည်။

တပည့်သားသံဃာတို့ သမထဝိပဿနာနုသည်ဖြစ်၍ မဇ္ဈိမ မဏ္ဍလအဝန်းဖြင့် ကြွတော်မူလိုသည်ဖြစ်အံ့၊ တန်ဆောင်မုန်းလပြည့်နေ့၌ ပဝါရဏာပြုပြီးသော် လပြည့်ကျော်တစ်ရက်နေ့၌ များစွာသော ရဟန်းသံဃာအပေါင်း ခြံရံလျက် ကျောင်းမှ ထွက်တော်မူ၍ ထိုထိုသော မြို့ရွာနိဂုံး၌နေသော ဝေနေယျတို့ကို အာမိသဓမ္မဖြင့် ချီးမြှောက်ခြင်းကိုပြုလျက် ရှစ်လတိုင်တိုင် လှည့်လည်၍ ဝါဆိုလအခါမှ သင့်ရာအရပ်၌ ဝါကပ်တော်မူသည်။

အကြင်အကြင်အရပ်၌ ကျွတ်ထိုက်သော ဝေနေယျတို့သည် ဣန္ဒြေနုကြသေးသည် ဖြစ်အံ့။ ထိုသူတို့၏ ဣန္ဒြေရင့်ခြင်းကို ငံ့လင့်တော်မူ၍ အန္တိမ မဏ္ဍလဖြင့် ကြွတော်မူသည်။ ထိုအခါ နတ်တော်လပြည့်တိုင်အောင် ဝါဆိုရာအရပ်၌ စံပယ်တော်မူ၍ ပြာသိုလဆန်း တစ်ရက်နေ့၌ သံဃာတော်အပေါင်း ခြံရံလျက် ထွက်တော်မူ၍ ရှေးရှေးသောနည်းအားဖြင့် သတ္တဝါတို့ကို မ–စလျက် ခုနစ်လပတ်လုံး ဒေသစာရီ ကြွချီတော်မူရကား ဝါဆိုလအခါ ရောက်ရာ ကျောင်းအရပ်၌ ဝါကပ်တော်မူသည်။

ဤသုံးပါးသော ဒေသစာရီဝတ်ဖြင့် နှစ်တိုင်းကြွတော်မူမြဲ ဖြစ်သည်ဟုဖြေ။

❖❖❖❖❖

## ၂၉၂။ ရှစ်ကျိပ်စလုံး၊ နိဗ္ဗာန်ကျူး၊ စ–ဆုံး ဘယ်သာဝကနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–'အညာသိကောဏ္ဍည' အစ 'သုဘဒ္ဒ' အဆုံးဟူပေ၏။

ငါတို့ဘုရား၏ သာဝကတော်သည် အဂ္ဂသာဝက, မဟာသာဝက, ပကတိသာဝကအားဖြင့် သုံးပါးအပြားရှိ၏။ ထိုသုံးပါးတို့တွင်–

တစ်သင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီဖြည့်၍ သာဝကုတ္တမအဖြစ်သို့ ရောက်သော လက်ယာရံ လက်ဝဲရံဖြစ်သော အရှင်သာရိပုတြာ, အရှင်မောဂ္ဂလာန်တို့သည် အဂ္ဂသာဝကလည်း မည်သည်။ မဟာသာဝကလည်း မည်သည်။

ကမ္ဘာတစ်သိန်းပတ်လုံး ပါရမီကိုဖြည့်၍ ရဟန္တာအဖြစ်သို့ ရောက်သော အညာသိကောဏ္ဍည, ဝပ္ပ, ဘဒ္ဒိယ, မဟာနာမ်, အဿဇိ, မဟာကဿပ အစရှိသော ရှစ်ကျိပ်သော သာဝကတို့သည် မဟာသာဝကမည်သည်။

ကမ္ဘာ အရာ အထောင် စသည်တို့ဖြင့် ပါရမီဖြည့်၍ ရဟန္တာအဖြစ်သို့ ရောက်သော ရဟန္တာယောကျ်ား ရဟန္တာမိန်းမ လူယောကျ်ား လူမိန်းမတို့သည် ပကတိသာဝက မည်သည်။

ဤသုံးပါးတို့တွင် အသီတိသာဝကတို့အမည်၊ လက်ဝဲ ၄–ကျိပ်၊ လက်ယာ ၄–ကျိပ် ခစားသော ရဟန္တာတို့အမည်ကို အင်္ဂုတ္တရ ဧကနိပါတ် အဋ္ဌကထာ၊ ၎င်းဋီကာတို့၌ အကျယ်လာပြီ။ ဤ၌ကား ပုစ္ဆာပြေလောက်ရုံသာ ရေးလိုက်သည်။

❖❖❖❖❖

## ၂၉၃။ မ–၏ ရှေ့ဆုံး။ ရ–လေးလုံး၊ တွက်ကျူးဘယ်မျှ ကြာပြီနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အရှင်ဂေါတမ၏ရှေ့ ပွင့်တော်မူသော နှစ်ကျိပ် ခုနစ်ဆူသော ဘုရားတို့တွင် ရှေ့ဆုံးဖြစ်သော တဏှင်္ကရာ, မေဓင်္ကရာ, သရဏင်္ကရာ, ဒီပင်္ကရာ ဟူသော ရ–လေးလုံးသည် ကမ္ဘာဖြင့် ရေတွက်၍ ကျူးသော် ဘယ်မျှလောက် ကြာပြီနည်း–ဟု မေးသည်။

**ကပ္ပေ စ သတသဟဿေ၊ စတုရော စ အသင်္ချိယေ။**
**အမရံနာမ နဂရံ၊ ဒဿနေယျံ မနောရမံ။**

အစရှိသည်ဖြင့် ဗုဒ္ဓဝင်ပါဠိတော်၌ လာသောကြောင့်လည်းကောင်း–

**အမှာကံ ဘဂဝတော အဘိနီဟာရဿ ပုရတော ပန တဏှင်္ကရော မေဓင်္ကရော သရဏင်္ကရော ဒီပင်္ကရောတိ စတ္တာရော ဗုဒ္ဓါ ဧကသ္မိံ ကပ္ပေ နိဗ္ဗတ္တိံသု။**

ဟူ၍ အဋ္ဌကထာ၌ မိန့်သောကြောင့်လည်းကောင်း–

ဤဘဒ္ဒကမ္ဘာမှ ပြန်၍ရေသည်ရှိသော် လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း၏ အထက်ဖြစ်သော သာရမဏ္ဍကမ္ဘာ၌ တဏှင်္ကရာ၊ မေဓင်္ကရာ၊ သရဏင်္ကရာ၊ ဒီပင်္ကရာဟူသော ဘုရားလေးဆူတို့ ပွင့်တော်မူကုန်၏။ ထိုလေးဆူသော ဘုရားတို့တွင် ရှေ့သုံးဆူသော ဘုရားတို့၏ အထံ၌ ငါတို့ဘုရားလောင်း ဗျာဒိတ်မခံရ၊ ဒီပင်္ကရာ ဘုရား၏အထံ၌သာ ဗျာဒိတ်ခံရသည်။

ထို့ကြောင့် ရ-လေးလုံး အဆုံးရှိသော ဘုရားလေးဆူတို့သည် လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းကြာပြီဟု သိရာသည်။

❖❖❖❖❖

## ၂၉၄။ တစ်ယောက်တစ်လုံး၊ တစ်ကျိပ်သုံး၊ စာလုံးအဘယ်ဗျည်းတို့နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- က၊ စ၊ ဋ၊ တ၊ ပ၊ ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ။ ဤအက္ခရာ ၁၃-လုံးတို့ကို ဝံသ ၁၃-ရပ်ဖြင့် ဟပ်၍ ယူအပ်ရကား ဤ ၁၃-လုံးသော ဗျည်းတို့ပင်ဟု ဖြေ။

အကျယ်ကား-

က- ဝဂ် ငါးလုံးသည် ခတ္တိယဝံသ။
စ- ဝဂ် ငါးလုံးသည် ဗြာဟ္မဏဝံသ။
ဋ- ဝဂ် ငါးလုံးသည် ဝေဿဝံသ။
တ- ဝဂ် ၅-လုံးသည် ဒေဝဝံသ။
ပ- ဝဂ် ၅-လုံးသည် ဗြဟ္မဝံသ။
ယ- အက္ခရာသည် သုဒ္ဒဝံသ။
ရ- အက္ခရာသည် အပါယဝံသ။
လ- အက္ခရာသည် သောတာပတ္တိဝံသ။
သ- အက္ခရာသည် သကဒါဂါမိဝံသ။
ဟ- အက္ခရာသည် အနာဂါမိဝံသ။
ဠ- အက္ခရာသည် အရဟန္တဝံသ။
အ- အက္ခရာသည် ပစ္စေကဗုဒ္ဓ၊ ဗုဒ္ဓဝံသ မည်၏။

ထိုအမျိုးဖြစ်သော ပုဂ္ဂိုလ်တို့ကို ထိုဝဂ် ထိုအက္ခရာတို့ဖြင့် အသီးအသီး စာဖွဲ့အပ်၏။

ထို့ကြောင့် ကဝိပါသဏ္ဍ (ကဝိကဏ္ဍပါသ) မည်သော ဆန်းကျမ်း၌-

က- ဝဂ္ဂေါ ခိတ္တယဝံသော၊ စ- ဝဂ္ဂေါ ဝံသဗြာဟ္မဏော။
ဋ- ဝဂ္ဂေါ ဝေဿဝံသော စ၊ တ-ဝဂ္ဂေါ ဒေဝဝံသကော။

ပ– ဝဂ္ဂေါ ဗြဟ္မဝံသော စ၊ ယ– ကာရော စ သုဒ္ဒေါ မတော။
ရ– ကာရော စ အပါယိကော၊ လ–ကာရော သောတာပတ္တိကာ။
သ– ကာရံ သကဒါဂါမီ စ၊ ဟ– ကာရော အနာဂါမိကော။
ဠ– ကာရော အရဟန္တဝံသော၊ အ–ကာရော တု ဗုဒ္ဓေါ မတော။

ဟူ၍ မိန့်အပ်၏။

❖❖❖❖❖

## ၂၉၅။ တစ်နေ့စလုံး၊ သွားမြဲထုံး၊ လက်တစ်လုံးခန့် မည်သူနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– စတုက္ကနိပါတ်၌လာသော ရာဇကုမ္ဘ အမည်ရှိသော လူပျင်းသည် တစ်နေ့လုံးကိုမျှ လက်တစ်လုံးခန့် နှစ်လုံးခန့်သွား၏ ဟူပေ။

ထို့ကြောင့် ဇာတ်အဋ္ဌကထာ၌–

**''သကလဒိဝသံ ဂစ္ဆန္တောပိ ကေင်္ဂုလ ဒွင်္ဂုလမတ္တမေဝ ဂစ္ဆတိ''**

ဟူ၍ ဆိုသည်။

ထိုအကြောင်းကို ဆိုလိုက်ဦးအံ့– လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းကြီးသည် မင်းပြုလေသော် ငါတို့ ဘုရားအလောင်းတော်သည် ထိုမင်း၏ အမတ်ဖြစ်သတတ်။ ဤဗြဟ္မဒတ်မင်းသည် အတန်ငယ် ပျင်းရိသော သဘောရှိသည် ဖြစ်၍ ဘုရားလောင်းအမတ်သည် မင်းအားဆုံးမခြင်းငှာ တစ်ခုသော ဥပမာကို ရှာလျက်နေ၏။

တစ်နေ့သ၌ မင်းကြီးသည် အမတ်အပေါင်း ခြံရံလျက် ဥယျာဉ်ကစားရန် ထွက်တော် မူလတ်သော် ထိုဥယျာဉ်၏ အနီးအပါး၌ သွားလာသော ရာဇကုမ္ဘ လုလင်ပျင်းကို တွေ့လေ၏။ ထိုလူပျင်းကား ဆင်းရဲစွာလှ တောင်းစားရလျက် ဘယ်ကိစ္စ ကိုမျှ မပြု မလုပ်ချင် မင်းစိတ်ဝင်လျက်သာ နေသောကြောင့် ''ရာဇကုမ္ဘ''ဟု သမုတ်ကြ သတည်း။ ထိုရာဇကုမ္ဘသည် တစ်နေ့လုံး သွားသော်လည်း လက်တစ်လုံး နှစ်လုံးခန့် မျှသာ ရွေ့သတည်း။

ဗာရာဏသီမင်းလည်း ထိုလူပျင်းကို မြင်လေလျှင် အလွန်ငြီးငြင်သော စိတ်ရှိသည်ဖြစ်၍ ဘုရားလောင်း အမတ်ကိုခေါ်၍ ''အမတ်ကြီး၊ ဤသူကား အဘယ် မည်သောသူနည်း''ဟု မေး၏။ အမတ်ကြီးကလည်း ''အရှင်မင်းမြတ်၊ ဤသူကား ရာဇကုမ္ဘအမည်ရှိသော လူပျင်းပါတည်း။ ပျင်းရိလှသောကြောင့် စားဖို့ ဝတ်ဖို့ကိုမျှ မလောက်နိုင်ပါ။ သူတစ်ပါးတို့၏ ပေးကမ်းစာနှင့်သာ အသက်ရှင်ပါသတည်း။ တစ်နေ့လုံးသွားသော်လည်း လက်တစ်လုံး နှစ်လုံးခန့်မျှသာ ရောက်ပါသတည်း''ဟု လျှောက်ပြီးလျှင် ထိုလူပျင်းအား စကားဆိုခြင်းငှာ–

''ဝန္နံ ဒါယဂ္ဂိ ဒဟတိ၊ ပါဝကော ကဏှဝတ္တနီ''

အစရှိသော ဂါထာကို ရွတ်၏။

**အဓိပ္ပါယ်ကား။** ။ ''ဟယ်လူပျင်း-သင်သည် အလွန်နှေးသော သွားခြင်း ရှိခဲ့၏။ ဤတောဌ် တောမီးသည် လောင်လာခဲ့သော် အဘယ်သို့ ပြုအံ့နည်း''ဟု မေး၏။

ရာဇကုမ္ဘကလည်း ''အမတ်ကြီး-အကယ်၍ တောမီးလောင်သဖြင့် သစ်ပင် သစ်ခက်တို့သည် ကျိုးပျက်ခဲ့သော်လည်းကောင်း, မြေကြီးအလုံးပင် ပြုန်းပြုန်း ပြိုခဲ့သော် လည်းကောင်း ကျွန်တော်တို့သည် အဘယ်သို့ ပြုနိုင်တော့အံ့နည်း။ သေရဖို့သာ ရှိသည်မဟုတ်လော။ မသေသေးသမျှသာ မပင်မပန်းရအောင် နှေးနှေး သွားပါ သတည်း'' ဟု ဆို၏။

ထိုအခါ ပညာရှိသော အမတ်ကြီးကလည်း ''ဟယ်လူပျင်း-အကြင်သူသည် နှေးနှေး ပြုသင့်သော အခါ၌လည်း လျင်စွာပြု၏။ လျင်စွာ ပြုသင့်သော အခါ၌လည်း နှေးစွာပြု၏။ ထိုသူသည်ကား ဤလူ၏ လောက၌ ခံစားထိုက်သမျှသော ချမ်းသာ ကိုလည်း ခံစားရရာသည် မဟုတ်၊ ဘေးမဖြစ်သင့်သော အရာ၌လည်း ဘေးဖြစ်ရာ၏။ ဥပမာ သော်ကား- ခြောက်လှစွာသော ထန်းရွက်ကို နင်းသော် ချက်ချင်း ကျိုးပျက် လေသကဲ့သို့ အကျိုးစီးပွားတို့သည် ပျက်စီးသည်သာဖြစ်၏။ အကြင်သူသည် လျင်စွာ ပြုသင့်သော အရာတို့ကိုလည်း လျင်စွာပြုလေ့ရှိ၏။ နှေးနှေးပြုသင့်သော အရာ တို့ကိုလည်း နှေးစွာပင်ပြု၏။ ထိုသသူအား စီးပွားချမ်းသာတို့သည်လည်း လဆန်းအခါ၌ တက်ထွန်းသော လကဲ့သို့ တစ်နေ့တခြား တိုးပွားသည်သာဖြစ်၏''ဟု ဆုံးမပေ၏။

ဤမှတစ်ပါး များစွာသော ပရိယာယ်တို့ဖြင့် ပျင်းရိခြင်း၏အပြစ်ကိုပြလျက် ဆုံးမပေသဖြင့် ဗာရာဏသီမင်းလည်း ပျင်းရိခြင်းကိုဖျောက်၍ မင်းပြုလေ၏။

တစ်ကြောင်းလည်း- ခုပ္ပိပါသိက ပြိတ္တာသည် ရေသိပ်လှသောကြောင့် ရေရှာ သောအခါ သမုဒ္ဒရာ၏အဝဖြစ်သော ဂင်္ဂါမြစ်မှ လှိုင်းတံပိုးထသော ရေသံကိုကြား၍ သောက်ခြင်းငှာ သွားပါသော်လည်း တစ်နေ့တစ်နေ့၌ လက်တစ်လုံးခန့်မျှသာ သွားနိုင် သောကြောင့် မြစ်သို့မရောက်နိုင်။ ရေကိုလည်းမသောက်ရနိုင်။ ထိုပြိတ္တာကို အရှင် မောဂ္ဂလာန်နှင့် အရှင်လက္ခဏတို့တွေ့၍ မေးစိစစ်သဖြင့် ရေသိပ်ကြောင်းကို လျှောက်လျှင် သပိတ်ဖြင့် ရေကိုခပ်၍ ပြိတ္တာ၏ခံတွင်းဝသို့ တစ်နံနက်ခန့်လုံး လောင်းသည်။ အာစွတ်ရုံ မျှသာရှိ၏။ ဝပင် မဝနိုင်။ အရှင်နှစ်ပါး နေမြင့်၍သာ ကြွသွားတော်မူရ၏-ဟူ၍ သမ္မောဟဝိနောဒနီ အဋ္ဌကထာ, ၎င်းအဖွင့်ဋီကာတို့၌ လာသည်။ ဤခုပ္ပိပါသိက ပြိတ္တာတည်း-ဟူ၍လည်း ဖြေအပ်၏။

❖❖❖❖❖

၂၉၆။ သပိတ်လေးလုံး၊လက်နှိပ်ဖုံး၊တစ်လုံးတည်းဖြစ် ဘယ်နေ့နည်း။(၆)

၂၉၇။ နတ်လေးယောက်လုံး၊လှူစည်းရုံး၊မြင့်ဆုံးဘယ်နတ်သပိတ်နည်း။(၇)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား– ဤဗုဒ္ဓဝင် အဋ္ဌကထာပါဠိဖြင့် သိအပ်၏။

အထ သတ္တသတ္တာဟမတ္ထကေ ကေ့နပညာသတိမေ ဒိဝသေ သက္ကေန ဒေဝါနမိန္ဒေန ဥပနီတေနတ္ထနာဂလတာဒန္တကဋ္ဌေန စ အနောတတ္တ ဒဟောဒကေန စ မုခံ ဓောဝိတွာ တတ္ထေဝ ရာဇာယတနမူလေနိသီဒိ။

တသ္မိံသမယေတပုဿဘလ္လိကာ နာမ ဒွေဝါဏိဇာ ဉာတိသာလောဟိတာယ ဒေဝတာယ သတ္ထု အာဟာရဒါနေ ဥဿာဟိတာ မန္ထဥ္စ မဓုပိဏ္ဍိကဥ္စာဒါယ "ပဋိဂ္ဂဏှာတု ဘဂဝါ ဣမံ အာဟာရံ အနုကမ္ပံ ဥပါဒါယာ"တိ ဥပသင်္ကမိတွာ အဋ္ဌံသု။

ဘဂဝါ ပါယာသံ ပဋိဂ္ဂဟဏဒိဝသေယေဝ ဒေဝဒတ္တဿ ပတ္တဿ အန္တရဟိတာ "န ခေါ တထာဂတာ ဟတ္ထေသု ပဋိဂ္ဂဏှန္တိ။ ကိမှိ နုခေါ အဟံ ဣမံ ပဋိဂ္ဂဏှေယျ" န္တိ စိန္တေသိ။

အထ ဘဂဝတော အဇ္ဈာသယံ ဝိဒိတွာ စတူဟိ ဒိသာဟိ စတ္တာရော မဟာရာဇာနော ဣန္ဒနီလမဏိမယေ ပတ္တေ ဥပနာမေသုံ။ ဘဂဝါတော ပဋိက္ခိပိ။ ပုန မုဂ္ဂဝဏ္ဏေ သိလာမယေ စတ္တာရော ပတ္တေ ဥပနာမေသုံ။ ဘဂဝါ တေသံ စတုန္နံ ဒေဝပုတ္တာနံ အနုကမ္ပာယ ပဋိဂ္ဂဟေတွာ ကေဘာဝံ ဥပနေတွာ တသ္မိံ ပစ္စဂ္ဃေ သေလမယေ ပတ္တေ အာဟာရံ ပဋိဂ္ဂဟေတွာ ပရိဘုဥ္ဇိတွာ အနုမောဒနမကာသိ။

**အနက်ကား။** ။အထ ပစ္ဆာ၊ ထိုမှနောက်၌။ သတ္တသတ္တာဟမတ္ထကေ၊ သတ္တသတ္တာဟ၏ အထက်ဖြစ်သော။ ကေ့နပညာသတိမေ၊ လေးဆယ့်ကိုးရက်မြောက်သော။ ဒိဝသေ၊ ဝါဆိုလဆန်း ၅–ရက်နေ့၌။ ဒေဝါနမိန္ဒေန၊ နတ်တို့ကို အစိုးရသော။ သက္ကေန၊ သိကြားမင်းသည်။ ဥပနီတေန၊ ကပ်အပ်သော။ နာဂလတာဒန္တကဋ္ဌေန စ၊ နာဂလတာ ဒန်ပူဖြင့်လည်းကောင်း။ အနောတတ္တဒဟောဒကေနစ၊ အနောတတ်အိုင်ရေဖြင့် လည်းကောင်း။ မုခံ၊ ခံတွင်း မျက်နှာတော်ကို။ ဓောဝိတွာ၊ ပွတ်ဆေးသုတ်သင်တော်မူ ပြီး၍။ တတ္ထေဝ ရာဇာယတနမူလေ၊ ထိုလင်းလွန်းပင်၏ အနီး၌သာလျှင်။ နိသီဒိ၊ နေတော်မူ၏။

တသ္မိံ သမယေ၊ ထိုသို့ နေတော်မူသောအခါ၌။ တပုဿဘလ္လိကာ နာမ၊ တပုဿ, ဘလ္လိက အမည်ရှိကုန်သော။ ဒွေဝါဏိဇာ၊ ကုန်သည် ညီနောင်နှစ်ယောက်တို့သည်။ ဉာတိသာလောဟိ တာယ၊ ဆွေမျိုးသားချင်း ဖြစ်ခဲ့ဖူးသော။ ဒေဝတာယ၊ နတ်သည်။ သတ္ထု၊ မြတ်စွာဘုရားအား။ အာဟာရဒါနေ၊ အာဟာရကို ပေးလှူခြင်း၌။

ဥဿာဟိတာ၊ တိုက်တွန်း အပ်သည်ဖြစ်၍။ မန္ထဥ္စ၊ ကြွက်ကျစ်မုန့်ကို လည်းကောင်း။ မဓုပိဏ္ဍိကဉ္စ၊ ပျားဆုပ်မုန့်ကိုလည်းကောင်း။ အာဒါယ၊ ယူခဲ့၍။ ဘဂဝါ၊ ဘုန်းတော်ကြီးသော မြတ်စွာ ဘုရား။ နော၊ အကျွန်ုပ်တို့ကို။ အနုကမ္ပံ၊ အစဉ် သနားတော်မူသည်ကို။ ဥပါဒါယ၊ အကြောင်းပြု၍။ ဣမံ အာဟာရံ၊ ဤကြွက်ကျစ်မုန့်, ပျားဆုပ်မုန့်တည်းဟူသော အာဟာရကို။ ပဋိဂ္ဂဏှာတု၊ ခံတော်မူပါ။ ဣတိ၊ ဤသို့။ ဥပသင်္ကမိတွာ၊ အနီးသို့ ကပ်ကုန်၍။ အဋ္ဌံသု၊ ရပ်ကုန်၏။

ဘဂဝါ၊ မြတ်စွာဘုရားသည်။ ပါယာသံ၊ နို့ဃနာဆွမ်းကို။ပဋိဂ္ဂဟဏဒိဝသေယေဝ၊ ခံတော်မူသော ကဆုန်လပြည့်နေ့၌ သာလျှင်။ ဒေဝဒတ္တသဿ၊ ဃဋိကာရဗြဟ္မာနတ်သည် ကပ်လှူအပ်သော။ ပတ္တဿ၊ သပိတ်၏။ အန္တရဟိတတ္တာ၊ ကွယ်လွန်ခဲ့သဖြင့်။ တထာဂတာ၊ ရှေးဘုရားတို့သည်။ ဟတ္ထေသု၊ လက်တို့ဖြင့်။ န ခေါ ပဋိဂဏှန္တိတာ၊ ခံတော်မမူ။ အဟံ၊ ငါသည်။ ကိမှိ။ အဘယ်ဖြင့်။ ဣမံ၊ ဤကြွက်ကျစ်မုန့်, ပျားဆုပ်မုန့်ကို။ ပဋိဂ္ဂဏှေယျံနုခေါ၊ ခံရအံ့နည်း။ ဣတိ၊ ဤသို့။ စိန္တေသိ၊ ကြံတော်မူ၏။

အထ၊ ထိုသို့ ကြံတော်မူသော အခါ၌။ ဘဂဝတော၊ မြတ်စွာဘုရား၏။ အဇ္ဈာသယံ၊ အလိုတော်ကို။ ဝိဒိတွာ၊ သိကုန်၍။ စတူဟိဒိသာဟိ၊ လေးပါးသော အရပ်မျက်နှာတို့မှ။ စတ္တာရောမဟာရာဇာနော၊ နတ်မင်းကြီး လေးယောက်တို့သည်။ ဣန္ဒနီလမဏိမယေ၊ ဣန္ဒနီလာ မြဖြင့်ပြီးကုန်သော။ ပတ္တေ၊ သပိတ်တို့ကို။ ဥပနာမေသုံ၊ ကပ်ပေကုန်၏။ ဘဂဝါ၊ မြတ်စွာဘုရား သည်။ တေ ပတ္တေ၊ ထို ဣန္ဒနီလာ မြသပိတ်တို့ကို။ ပဋိက္ခိပိ၊ ပယ်တော်မူ၏။ ပုန၊ တစ်ဖန်။ မုဂ္ဂဝဏ္ဏေ၊ ပဲနောက် အဆင်း ရှိကုန်သော။ သိလာမယေ၊ ကျောက်ညိုဖြင့် ပြီးကုန်သော။ စတ္တာရော၊ လေးလုံး ကုန်သော။ ပတ္တေ၊ သပိတ်တို့ကို။ ဥပနာမေသုံ၊ ကပ်ပေကုန်၏။ ဘဂဝါ၊ မြတ်စွာ ဘုရားသည်။ စတုန္နံ လေးယောက်ကုန်သော။ တေသံ ဒေဝပုတ္တာနံ၊ ထိုနတ်သားတို့အား။ အနုကမ္ပာယ၊ အစဉ် သနားတော်မူသဖြင့်။ ပဋိဂ္ဂဟေတွာ၊ ခံတော်မူ၍။ ဧကဘာဝံ၊ တစ်လုံးတည်း၏ အဖြစ်သို့။ ဥပနေတွာ၊ ဆောင်တော်မူ၍။ ပစ္စဠေ၊ တပေါင်းတည်း ပြုအပ်သော။ သေလမယေ၊ ကျောက်ညိုဖြင့် ပြီးသော။ တသ္မိံ ပတ္တေ၊ ထိုသပိတ်၌။ အာဟာရံ၊ ကြွက်ကျစ်မုန့်၊ ပျားဆုပ်မုန့် အာဟာရကို။ ပဋိဂ္ဂဟေတွာ၊ ခံတော်မူ၍။ ပရိဘုဉ္ဇိတွာ၊ ဘုဉ်းပေးတော်မူ၍။ အနုမောဒနံ၊ တရားဟောခြင်း အနုမောဒနာကို။ အကာသိ၊ ပြုတော်မူ၏။

ဤသို့ အဋ္ဌကထာလာသည်ကို ထောက်၍ စတုမဟာရာဇ်နတ်မင်း လေးယောက်တို့ သပိတ်ကပ်လှူသောနေ့သည် ဝါဆိုလဆန်း ၅–ရပ်နေ့ဟု ဖြေ။

အဘယ် နတ်သပိတ်သည် အထက်ဆုံးနေသနည်း–ဟူရာ၌ တိုက်ရိုက် ကျမ်းတွင် မပါ၊ ယင်းသို့မပါသော်လည်း နောက်ဆုံးလာသောနတ်၏ သပိတ်သည် အထက်ဆုံး ဖြစ်သင့်ရကား ကုဝေရနတ်မင်း၏ သပိတ်သည် အထက်ဆုံး ဖြစ်၏ဟုမှတ်။

သပိတ်လေးလုံးကိုဆင့်၍ နှိပ်တော်မူလျှင် အနားလေးရစ်ရှိသော သပိတ်တစ်လုံးတည်းဖြစ်၍ ထိုသပိတ်ကို သက်တော်ရှိသမျှ ကာလပတ်လုံး ဆောင်တော်မူသည်။

❖❖❖❖❖

၂၉၈။ မြင်းမိုရ်တောင်လုံး၊ အုံ့မဆုံး၊ ရွှေကုံးဘယ်က ဖြစ်သနည်း။(၈)

၂၉၉။ ဗြဟ္မာလှူဆုံး၊ ရွှေပန်းကုံး၊ ယူကျုံးမည်သူ သိမ်းသနည်း။(၉)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား– သဟမ္ပတိဗြဟ္မာသည် တရားဟော စိမ့်သောငှာ တောင်းပန်သောအခါ၌ မင်္ဂလာပန်းပြုအပ်သော မြင်းမိုရ်တောင် လုံးမျှလောက် ရွှေပန်းကုံးရတနာသည် ပကတိမဟုတ်။ ဗြဟ္မာ၏ တန်ခိုးကြောင့်သာ ထင်ရှားလာသော ပန်းဖြစ်သည်ဟု ဖြေ။

ထိုပန်းကုံးသည် ဗြဟ္မာကွယ်လျှင်ပင် ကွယ်လေသောကြောင့် မည်သူမျှ မသိမ်းထားရချေဟု ဖြေ။

❖❖❖❖❖

၃၀၀။ ဇော်တစ်ခိုင်လုံး၊ စာစပ်ထုံး၊ အဆုံးချရှိး ဘယ်သို့နည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အက္ခရာ ၁၉–လုံး ချရှိးရှိသတည်း။

❖❖❖❖❖

၃၀၁။ သုံးဆယ့်ငါးလုံး၊ သီ၍ကုံး၊ ချထုံးသည့်ထက် လွန်လိမ့်နည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဇမ္ဗူသပြေသီးမှည့်ကား ၃၅–လုံး ချသည်။ ဤထက် အလွန် ချရှိးမရှိပြီဟု ကဝိပါသဏ္ဍာကျမ်း၌ လာသည်။

❖❖❖❖❖

၃၀၂။ တေဇောဓာတ်လုံး၊ ပျက်စီးရှုံး၊ ကုထုံး ဘယ်ဓာတ်နှင့်ပေနည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တေဇောဓာတ်ပျက်သော် ပထဝီဓာတ် ဟူသော အဆိမ့်, အအေး, အငန်ပေး။

❖❖❖❖❖

၃၀၃။ ဂရုနှစ်လုံး၊ ဘ–ဂိုဏ်းသုံး၊ ခေါ်ထုံး ဘယ်ဂါထာတို့နည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒေါဓကေမိစ္ဆတိ စေ ဘ ဘ ဘာ ဂါ။

ယသော၊ အကြင်ဂါထာ၏။ စတုသု ပါဒေသု၊ လေးပါဒတို့၌။ ဘဘာဘာ၊ ဘဂိုဏ်း, ဘဂိုဏ်း ဘဂိုဏ်းတို့သည်လည်းကောင်း၊ ဂါ၊ ဂရုတို့သည်လည်းကောင်း။ စေဋ္ဌိတာ၊ အကယ်၍တည်ကုန်အံ့။ အယံ၊ ဤဂါထာကို။ ဒေါဓကံ၊ ဒေါဓကဂါထာဟူ၍။ ဣစ္ဆတိ၊ အလိုရှိအပ်၏။

❖❖❖❖❖

## ၃၀၄။ ကျောက်စာရေးထုံး၊ စီစဉ်ကုံး၊ လုံးကြီးတင်သော်ဘယ်သို့နည်း။(၁၄)

## ၃၀၅။ ဟထိုးတစ်လုံး၊ စွဲလက်သုံး၊ ယူကျုံးဘယ်သို့ ဖတ်မည်နည်း။(၁၅)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား- နှစ်တင်၊ နောက်ပစ်။ ထို့ကြောင့် ရှေ့ဆရာတို့ ဤသို့ဆိုကုန်၏။

ကျောက်စာကမ္ပည်း၊ ရေးထုံးနည်း၊ သိပ်သည်းမှတ်ကုန်ရာ။
ချလျှင် တစ်စီး၊ လုံးကြီးနှစ်တင်၊ ဆံခတ်လျှင်၊ ထက်ခွင်သုံးခုလာ။
တစ်ချောင်းငင်လေး၊ နှစ်ချောင်းရေး၊ ယှဉ်ပေး ငါးသချာ။
သဝေမှာခြောက်၊ သတ်တုံမြောက်၊ အောက်ဝယ်ခုနစ်လာ။
သေးသေးတင်ရှစ်၊ ဝိသဇ္ဇနီ၊ ကိုးဟူပြီ၊အညီ ရေးအပ်စွာ။
ပင့်လျှင် မောက်ချ၊ ရစ်က တွေ့၊ ဝ-လျှင်ဆွဲ၊ ရေးမြဲ လုံးတင်ကာ။
ဟ-ဆွဲဆိုလျှင်၊ နောက်ပစ်ပင်။ ပစ်လျှင် ဟဆွဲကာ။
ကျောက်စာရေးနည်း၊ နိဿရည်း၊ ကမ္ပည်းမော်ကွန်းစာ။

❖❖❖❖❖

## ၃၀၆။ ရှက်စပ်ပိတ်ချုံး၊ လောင်းလျှာငုံး၊ သုံးလူ့ဘယ်ကြောင့်လွှတ်သနည်း။(၁၆)

(ဟူသော အမေးပုစ္ဆာသည်ကား မည်သည့် အဓိပ္ပါယ်ကိုလို၍ မေးလေသည်ဟု မဆင်ခြင်မိချေ၊ ဆင်ခြင်မိသူတို့ ဖြေပါလေ)။

❖❖❖❖❖

## ၃၀၆။ယှက်စပ်ပိတ်ချုံး၊ လောင်းလျှာငုံး၊ သုံးလူ့ဘယ်ကြောင့်လွှတ်သနည်း။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-''ယှက်စပ်သည်''ဆိုသော စကားသည် အရာဝတ္ထုတစ်ခုနှင့်တစ်ခု ရောယှက်ခြင်းကို ဆိုလိုသည်။ ဤအရာ၌ သစ်ခက် သစ်ရွက်တို့၏ ယှက်စပ်ခြင်းကို ယူရမည်။ အဘယ့်ကြောင့်နည်း- နောက်နားက ''ချုံ''ဆိုသော စကားရှိသည်။ ၎င်း ''ချုံ''ဆိုသော စကားသည် လင်္ကာကိုင့်၍ ''ချုံး''ဟု ရေးသည်။ ''ချုံ''ဆိုသည်ဟုမှတ်။ တောချုံကို ရေးစမှတ်ပြုရာ၌ ယ-ပင့်နှင့် ရှေးဆရာတို့ ရေးရိုးရှိသဖြင့် ချုံ၏ ယှက်စပ်ခြင်းကို ဆိုလိုသည်။

''ပိတ်'' ဆိုသည်ကား ၎င်း၏ ဖုံးလွှမ်းပိတ်ဆို့ခြင်းကို ဆိုလိုသည်။

''လောင်းလျှာ'' ဆိုသည်ကား–ဘုရားလောင်းကို ဆိုလိုသည်။ အဘယ့်ကြောင့်နည်း–နောက်ပါဒ၌ ''သုံးလူ့''ဟု ဆိုလျက်ရှိသည်။ ''သုံးလူ့''၏ အဓိပ္ပါယ်မှာ လူ,နတ် ဗြဟ္မာ သတ္တဝါသုံးဦးဟု ဆိုအပ်သော ''လူတို့၏အရှင်''ဟု ဆိုလိုသည်။

''လူ''ဆိုသည်ကား–နရ–သဒ္ဒါမှလာသည်။ ၎င်း နရ–သဒ္ဒါကို ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၌ ''နရောတိသတ္တော''ဟု ဖွင့်သည်။ ထို့ကြောင့် ''လူ''ဆိုသော စကားသည် သတ္တဝါ၏အမည် ဖြစ်သည်။

လူ နတ် ဗြဟ္မာမှတစ်ပါး သတ္တဝါ မရှိပြီလော–ဟု စောဒနာရှိရကား အခြားသတ္တဝါတို့ လောက၌ ဗိုလ်ထင်ရှားခြင်းကြောင့်လည်းကောင်း၊ လူ နတ် ဗြဟ္မာ သတ္တဝါသုံးဦးတို့၏ ဦးညွတ်ရာဆိုသဖြင့် အခြားသတ္တဝါတို့ ဆိုဖွယ်မရှိခြင်းကြောင့် လည်းကောင်း ''သုံးလူ့ဝ'' ဟုဆိုသည်။

ထို့ကြောင့် ၎င်းအမေး၌ ဥမှပေါက်သစ်စဖြစ်သော ဘုရားလောင်း ငုံးမင်းသည် တောချုံတို့ဖြင့် ယှက်စပ်ပိတ်ဖုံး၍နေသော မိမိ၏ အသိုက်၌နေရာ တောမီးလောင်၍ လာခဲ့သော် ယခုငုံးမင်းပရိတ်ဟုခေါ်သော ပရိတ်တရားတော်ကို ရွတ်သဖြင့် အသက်ဘေးမှ ကင်းလွတ်တော်မူသည် ဟု ဖြေဆိုရမည်။

တစ်နည်းလည်း–ယှက်စပ်ပိတ်ချုံကာ မိလျက်နေသော ပိုက်ကွန်တွင်းမှ ညီညွတ်စွာ ရုံးထွက်ပျံသန်းသဖြင့် အသက်ဘေးမှ လွတ်ကင်းသည်ဟု ဖြေဆိုရန်ရှိသေး၏။ သို့သော်လည်း ပရိတ်တရားတော်ကြောင့် မီးဘေးမှလွတ်ကင်းသော ငုံးမင်းဇာတ်ကိုသာ ဖြေဆိုရမည်။ အကျယ်ကိုသိလိုက ငါးရာ့ငါးဆယ်တွင် ကြည့်လေ။

(ဖြေဆိုသူ မန္တလာ ဦးကေလာသ)

**''အုံး''ကာရန်ပုစ္ဆာ ၁၆–ပုဒ်အဖြေ ပြီး၏။**

❖❖❖❖❖

## (၉) ''အမ်း'' ကာရန်ပုစ္ဆာ ၇–ပုဒ်အဖြေ

### ၃၀၇။ ကိုယ်တော်ရှင်ဝမ်း၊ ကြွမြဲတမ်း၊ အလှမ်းဘယ်မျှကျယ်သနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ''လူတို့ ဖဝါးတစ်လှမ်းလျှင် မိမိ၏ တစ်တောင့်ထွာရှိသည်''ဟု သင်္ချာပကာသကကျမ်းတို့၌ တွက်ရိုးပြသောကြောင့် ဘုရားကိုယ်တော်၏ ဖဝါးတစ်လှမ်းသည် ကိုယ်တော်၏ တစ်တောင့်ထွာ ကျယ်သည်။ ဘုရားရှင်၏ တစ်တောင်လျှင် မဇ္ဈိမပုရိသ သုံးတောင်၊ ပကတိလူတို့၏ လေးတောင့်ထွာ ဖြစ်ရကား ဘုရားရှင့် တစ်တောင့်ထွာလျှင် လူတို့၏ ခြောက်တောင့်ထွာနှင့် ခြောက်သစ် ဖြစ်၏။ ဤသည်လျှင် ဖဝါးတစ်လှမ်း၏ အကျယ်တည်း ဟူပေ။

❖❖❖❖❖

## ၃၀၈။ ဒေဝဒတ်ကြမ်း၊ အာဏာလွှမ်း၊ ရှုံးလမ်းလောင်းလျှာဘယ်မျှနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- စူဠဓမ္မပါလမင်း, ခါမင်း, ခန္တိဝါဒီရသေ့, စူဠနန္ဒိယမျောက်မင်း, မဟာနန္ဒိယမျောက်မင်း, ဆဒ္ဒန်ဆင်မင်း ဤခြောက် ဇာတ်တို့၌ ဒေဝဒတ်၏ အလောင်းသည် ဘုရားလောင်းအား ညှဉ်းဆဲ နှိပ်စက်၍ သေပျက်အောင် ပြုနိုင်လေသည် ဟူ၍ စူဠဓမ္မပါလ ဇာတ်အဋ္ဌကထာတွင် လာသည်။

ဤ ခြောက်ဇာတ်တွင်လည်း ဆဒ္ဒန်ဆင်မင်းဇာတ်ကို ထိုအဋ္ဌကထာ၌ မပါ၊ သူ့ဇာတ်တွင်ပါသော အတ္ထုပ္ပတ္တိဖြင့်သာ သိအပ်၏။

❖❖❖❖❖

## ၃၀၉။ သဘော်ရောက်လမ်း၊ ဆိုက်မြဲတမ်း၊ ဆိပ်ကမ်းသုံးကျွန်းဘယ်မျှနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- အချင်းယူဇနာတစ်သောင်း၊ အဝန်း ယူဇနာသုံးသောင်းရှိသော အထောင့်ကြီး သုံးထောင့်, အထောင့်ငယ် သုံးထောင့်တို့ဖြင့် တင့်တယ်သော ဤဇမ္ဗူဒိပ်ကျွန်း၌ သဘော်ဆိုက်ရာ ဆိပ်ကမ်းတို့သည် ''အကုဋ္ဌေ ကိုးသန်း ခြောက်သိန်း ရှိသည်''ဟု ဒီပဝင် စသော ကျမ်းတို့၌ လာသည်။

ထို့ကြောင့် မဟာသာရပျို့၌-

''သဘော်ဆိုက်သည်၊ အမြိုက်ဆိပ်မြေ၊ ကုဋ္ဌေကိုးသန်း၊ ခြောက်သိန်း ထွန်းရှင့်''ဟူ၍ စပ်ဆိုသည်။

သီဟိုဠ်ကျွန်း၌ကား- ၅၇-ရပ်ရှိကြောင်းကို မဟာဝင်တို့၌ ဆိုသည်။ ထိုမှတစ်ပါး သော ကျွန်းတို့၌ သဘော်ဆိုက်သော ဆိပ်ကမ်း မည်မျှရှိသည်ဟူ၍ ကျမ်းဂန်မတွေ့ချေ။

ထို့ကြောင့် ပုစ္ဆာ၌ ''သုံးကျွန်း''ဟု မေးသောအရာသည် မည်သည့်ကျွန်းကို ရည်၍ မေးသည်ဟု မသိသာဖြစ်သည်။ ''ဆိပ်ကမ်းရှိသည့်ကျွန်း မည်မျှနည်း''ဟု မေးသည့် အရာကို အက္ခရာ အရေးပျက်၍သာ ရှိမည်ထင်သည်။

❖❖❖❖❖

## ၃၁၀။ ပျားမုန့်ဆုပ်ဆွမ်း၊ ပေးလှူကမ်း၊ ဝန်ထမ်းကုန်သည် ဖြစ်လိမ့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တသ္မိံသမယေ တပုဿဘလ္လိကာနာမ ဒွေဝါဏိဇာ ပဉ္စဟိ သကဋ သတေဟိ ဥက္ကလာပဇနပဒါ မဇ္ဈိမပဒေသံ ဂစ္ဆန္တော အတ္တနော ဉာတိ သာလောဟိတာယ ဒေဝတာယ သကဋာ သန္နိရုဇ္ဈိတွာ သတ္ထု အာဟာရ

သမ္ဗာဒနေ ဥဿာဟိတာ သတ္တာဟူ မဇ္ဇပိဏ္ဍိကဥ္စအာဒါယ ''ပဋိဂ္ဂဏှာတုနော ဘန္တေ ဘဂဝါ က္လမံ အာဟာရံ အနုကမ္ပံ ဥပါဒါယာ''တိ သတ္ထာရံ ဥပသင်္ကမိတွာ အဒ္ဒသု။

ဟူ၍ ဇာတတ္ထကီ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ ထိုလင်းလွန်းပင်ရင်း၌ သီတင်းသုံးနေတော်မူသောအခါ တပုဿ, ဘလ္လိကအမည်ရှိသော ကုန်သည်ညီနောင် နှစ်ဦးတို့သည် လှည်းငါးရာတို့ဖြင့် ကုန်တင်လျက် ဥက္ကလာပဇနပုဒ်မှသည် မဇ္ဈိမဒေသသို့ သွားလေသော် ဘုရားရှိရာဌာန အနီးသို့ရောက်လျှင် မိမိတို့နှင့် အမျိုးသာချင်း ဖြစ်ခဲ့ဖူးသော နတ်သည် လှည်းတို့ကို မသွားနိုင်အောင် ချုပ်ထား၍ ဘုရားအား အာဟာရ ကပ်စိမ့်သောငှာ တိုက်တွန်း၏။ ယင်းသို့ တိုက်တွန်းရကား မုန့်လုံးတို့ကိုလည်းကောင်း, ပျားမုန့်ဆုပ်တို့ကိုလည်းကောင်း ယူ၍ ''အရှင်ဘုရား၊ အကျွန်ုပ်တို့အား သနားတော်မူသဖြင့် ဤအာဟာရကို သုံးဆောင်တော်မူပါ''ဟု ကပ်ကြကုန်၏ဟူလိုသည်။

ဤသို့ ကျမ်းဂန်လာသည်ကို ထောက်၍ ဝန်ထမ်းကုန်သည်မဟုတ်။ လှည်းကုန်သည် ဖြစ်သည်ဟု သိအပ်၏။

❖❖❖❖❖

## ၃၁၁။ ပံသုကူဆွမ်း၊ ပစ်စတမ်း၊ အားရမ်း ဘုဉ်းပေးအပ်လိမ့်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပံသုကူသင်္ကန်းကိုသာ ကျမ်းဂန်လာသည်။ ဆွမ်းကိုကား မည်သူပစ်ဖူးကြောင်း၊ မည်သည့်ရဟန်း သုံးဆောင်ဖူးကြောင်းဖြင့် ကျမ်းဂန်မလာရကား ကြံ၍မေးသော ပြဿနာဖြစ်သည်။ ကြံ၍ဖြေရမူကား– ပံသုကူသင်္ကန်းကိုပင် သုံးဆောင်အပ်လျှင် ပံသုကူဆွမ်းကိုလည်း သုံးဆောင်အပ်၏ပင် ယူသင့်သည်။

❖❖❖❖❖

## ၃၁၂။ လေဓာတ်စုံစမ်း၊ ပျက်မြဲတမ်း၊ သေလမ်းနေ့ပိုင်း ဘယ်မျှနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ယဿ၊ အကြင်သူနားအား။ အဿာသ ပဿာသာ၊ ထွက်သက် ဝင်သက်တို့သည်။ အသုခါ၊ မသက်သာ။ ပဿာသရဿာ၊ ဝင်သက်တို၍။ အဿာသဒီဃော၊ ထွက်သက်ရှည်၏။ နာဘိဘာဝဂ်ီ၊ ချက်အောက် ဘဝင်ခိုက်အောင် မရှိုက်မရှူနိုင်။ ဥဒ္ဒဂ်ီ၊ အထက်သို့သာ ပင့်သက်ရှူ၏။ ကုစ္ဆိ၊ ဝမ်းလည်းချုပ်၏။ ဥရုတ္တရာ၊ ရင်မောက်၍ဝမ်းအယ်၏။ က္လတိလက္ခဏံ၊ ဤသို့သော လက္ခဏာသည်။ ဝါယောနသဿနံ၊ ဝါယော ပျက်သောလက္ခဏာတည်း။ သော၊ ထိုသူနာသည်။ ဒွေဒိဝါနာတိက္ကမံ၊ နှစ်ရက်ကို မလွန်နိုင်ပြီ။ တိပ္ပဟာရေ၊ သုံးပဟိုရ်ခန့်၌။ မရိဿတိ၊ သေလတ္တံ့။

❖❖❖❖❖

## ၃၁၃။ တေဇောစာတ်သွမ်း၊ ပျက်ရိန္ဓမ်း၊ ဆိုစမ်း ဘယ်လက္ခဏာနည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ယဿ၊ အကြင်သူနာအား။ အနိဒ္ဒိ၊ မအိပ်နိုင်။ အပဿာ၊ မျက်စိမမြင် ပင့်ကူမျှင်တားသကဲ့သို့ဖြစ်၏။ ပဋ္ဌဝဏ္ဏာ၊ အဆင်းငါးပါး တို့သည်။ ဝိနဿန္တိ၊ ပျက်စီးကုန်၏။ သီတုဏှံ၊ အချမ်းအပူကို။ န ဇာနန္တိ၊ မသိကုန်။ မံသာ၊ အသားအရေတို့သည်။ ခရတာ၊ ကြမ်းတမ်းကုန်၏။ နလာဋ္ဌေ၊ နဖူး၌။ သေဒေါ၊ ချွေးစေးသည်။ မုစ္စတိ၊ ထွက်၏။ အသုခကာယာ၊ ချမ်းသာသော ကိုယ်မရှိ။ ပါဒုဒ္ဓံ၊ ခြေဖျားမှသည် တင်ပါးတိုင်အောင်။ သီတာ၊ အေး၏။ ဣတိလက္ခဏံ၊ ဤသို့သော လက္ခဏာသည်။ တေဇောနဿနံ၊ တေဇောဓာတ်ပျက်သော လက္ခဏာ တည်း။ သော၊ ထိုသူသည်။ တယောဒိဝါနာတိက္ကမံ၊ သုံးရက်ကို မလွန်နိုင်ပြီ။ မဋ္ဌေ၊ မွန်းတည့်အခါ၌။ ဓုဝံ၊ မချွတ်။ မရိဿတိ၊ သေလတ္တံ့။ ။ **ဓာတုဝိဘာဂ ဒီပနီ။**

### ''အမ်း'' ကာရန်ပုစ္ဆာ ၇–ပုဒ်အဖြေ ပြီး၏။

❖❖❖❖❖

## (၁၀) ''အိမ်'' ကာရန်ပုစ္ဆာ ၁၁–ပုဒ်အဖြေ

## ၃၁၄။ ဘုရားမွေ့သိမ်၊ ရှိခိုက်ကြိမ်၊ သိမ်တော် သမုတ်ကြလိမ့်နည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သိမ်သမုတ်ကြ၏ဟု ဖြေ။ အဘယ့်ကြောင့် သမုတ်ကြသနည်းဟူမူ–

တစ်ရံသောအခါ မဟာကပ္ပိနထေရ်သည် ရာဇဂြိုဟ်ပြည်၏ အနီးဖြစ်သော မဒ္ဒကုစ္ဆိ မိဂဒါဝုန် ဥယျာဉ်၌ သီတင်းသုံးနေ၏။ ထိုအရှင်သည် ဤသို့ကြံ၏ ''ယနေ့ကား ဥပုသ် နေ့နှင့် ကြုံ၏။ ငါသည် သံဃာတို့ ဥပုသ်ပြုရာသို့ သွားရသော် သင့်အံ့လော၊ မသွားဘဲ နေသော်လည်း သင့်အံ့လော''ဟု ဤသို့ကြံ၏။

ထိုအကြောင်းကို ဘုရားသခင်သည် စေတောပရိယဉာဏ်ဖြင့် သိမြင်တော်မူ၍ သီတင်းသုံးနေတော်မူသော ဂိဇ္ဈကုဋ်တောင်မှ ကွယ်ခဲ့ပြီးသော် မဟာကပ္ပိန မထေရ်၏ ကျောင်းဦး၌ ရပ်တော်မူ၏။ ကပ္ပိနထေရ်လည်း ဘုရားသခင်ကိုမြင်လျှင် လျောက်ပတ်စွာ နေရာခင်း၍ သီတင်းသုံးတော်မူလတ်သော် သင့်လျော်သောနေရာ၌ ခစား၍နေ၏။

ထိုအခါ မြတ်စွာဘုရားက ဤသို့ မိန့်တော်မူ၏ ''ချစ်သား ကပ္ပိန– သင်သည် သံဃာတော်တို့ ဥပုသ်ပြုရာသို့ ငါသွားရသော် သင့်အံ့လော၊ မသင့်အံ့လောဟု အကြံဖြစ်သည် မဟုတ်လော''ဟု မေးတော်မူ၏။ မဟာကပ္ပိနထေရ်လည်း ဟုတ်ပါ ကြောင်းကို နားတော်လျှောက်လျှင် ''ချစ်သား ကပ္ပိန–သင်တို့ကဲ့သို့ သူတော်ကောင်းမှ

ဥပုသ်ပြုခြင်းစသော သံဃကံကို အရိုအသေ မပြုခဲ့သော် အဘယ်သူ ပြုပါတော့အံ့နည်း။ ဤဥပုသ်ကံသည် စင်ကြယ်ပြီးသော သူတို့အားလည်း အထူးသဖြင့် စင်ကြယ်ခြင်းငှာသာ ဖြစ်၏။ ထို့ကြောင့် ငါပညတ်တော်မူတိုင်း ဥပုသ်ပြုချေ''ဟု မိန့်တော်မူ၏။

ထိုအခါ ကပ္ပိနထေရ်လည်း ကွေးသောလက်ကို ဆန့်သကဲ့သို့ တန်ခိုးဖြင့်သာ မဒ္ဒကုစ္ဆိဌာနမှသည် ဂိဇ္ဈကုဋ်တောင်သို့ ကြွခဲ့၏။

သံဃာတော်တို့လည်း ဤသို့ အကြံဖြစ်၏။ ''တစ်ခုသော ကျောင်းအရပ်၌ အညီအညွတ် သံဃာတို့ ဥပုသ်ပြုရမည်ဟု ပညတ်တော်မူပြီ။ အဘယ်သို့သော အကြောင်းဖြင့် ကောဝါသ ဖြစ်ရာသနည်း''ဟု အကြံဖြစ်ကြ၍ ဘုရားသခင်အား နားတော်လျှောက်ရာတွင်– ''အနုဇာနာမိ ဘိက္ခဝေ သီမံ သမ္မန္နိတုံ'' စသည်ဖြင့် ပညတ်တော်မူ၍ ဥပုသ် ပြုရန် သိမ်သမုတ်ကြကုန်သည်။

ထို့ကြောင့် ရွှေလက်ထက်တော်၌ ဂိဇ္ဈကုဋ်တောင် ခြေရင်း သိမ်, မဒ္ဒကုစ္ဆိ မိဂဒါဝုန် သိမ်တို့သည် လက်ဦးဖြစ်ပင်တည်း။

မဟာဝါပါဠိတော်၊ ဝိနယာလင်္ကာရ ဋီကာ၌ကား–

**''ဘဂဝတော ဓရမာနကာလေ ရာဇဂဟနဂရေ အဋ္ဌာရသ မဟာဝိဟာရာ ကေသိမာဝ ဓမ္မသေနာပတိ သာရိပုတ္တတ္ထေရေန သမ္မတာ''**ဟူ၍ မိန့်အပ်၏။

❖❖❖❖❖

## ၃၁၅။ ကိုယ်တော်မကြိမ်၊ နိဗ္ဗာန်ငြိမ်၊ ဘယ်သိမ် သမုတ်ဦးပေနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဘုရားပရိနိဗ္ဗာန်ယူသည့်နောက် မဇ္ဈိမဒေသ၌ ရဟန္တာတို့ သီတင်းသုံးနေလေရာ၌ သိမ်သမုတ်သည်ကို ကျမ်းဆရာတို့ မပြခဲ့ပြီ။ သီဟိုဠ်ကျွန်း၌ သမုတ်သည့်သိမ်ကိုသာ–

**သီဟဠဒီပေ မဟာဝိဟာရသီမာ အနုရာဓပုရံ အန္တော ကတွာ ပဝတ္တာ မဟာမဟိန္ဒတ္ထေရေန သမ္မတာတိ။**

ဟူ၍ ဝိနယာလင်္ကာရ ဋီကာ၌လာသည်။

ငါတို့မြန်မာ့တိုင်းပြည်၌ကား– ဒွတ္တဘောင်မင်းကြီး လက်ထက်တော်၌ မြင်ဗာဟု တောင်တွင် ရဟန္တာအရှင်တို့ သမုတ်သော သိမ်သည် လက်ဦးဖြစ်ကြောင်းကို အာစရိယဝံသ စာတမ်း၌လာ၏။

❖❖❖❖❖

## ၃၁၆။ ကလျာဏီသိမ်၊ မပြုပ်တိမ်၊ ဖြစ်ကြိမ်ဘယ်မင်းလက်ထက်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဓမ္မစေတီဟု ယခုတိုင်အောင် ကျော်စောသော ရာမာဓိပတိမင်း လက်ထက် ဖြစ်၏ဟူပေ။

ဤအကြောင်းကို ကလျာဏီကျောက်စာ၌ ထင်ရှားစွာရှိသော်လည်း မကြား မသိဖူးသူတို့၏ အကျိုးငှာ အကျဉ်းသာ ပြလိုက်ဦးအံ့။

သာသနာတော် ၂၀၀၂–ခုနှစ်။ သက္ကရာဇ် ၈၂၀–ရောက်သောအခါ ဟံသာဝတီ ပြည်ကြီးဝယ် ဓမ္မစေတီအမည်တွင်သော ရာမာဓိပတိမင်းသည် ဟံသာဝတီ မဏ္ဍလ, ကုသိမ မဏ္ဍလ, မုတ္တမ မဏ္ဍလ တည်းဟူသော မွန်တိုင်းသုံးရပ်ကို အုပ်ကွပ်ပိုင် ကားလျက် တရားနှင့်အညီ မင်းပြုသတည်း။

ထိုမင်းကား ပိဋကတ်သုံးပုံ ဗေဒင်လေးပုံ အာဂုံ ပါဠိရှိလျက်၊ ဝိဒင်္ဂကျမ်း, ဗျာကရိဏ်း ကျမ်း, ဆန်းကျမ်း, အလင်္ကာကျမ်း, ဟူးရားကျမ်း, ဂဏန်းကျမ်း, ဆေးကျမ်းတို့၌လည်း များစွာလေ့လာပွန်းတီး၏။ အုတ်ဗိသုကာ, သစ်ဗိသုကာ စသောအတတ်မျိုးတို့၌လည်း ကျွမ်းကျင်၏။ အထူးထူးသော လူမျိုးတို့၏ ဘာသာ၌လည်း လေ့လာကျွမ်းကျင်၏။ သဒ္ဓါ သီလ စသော သူတော်ကောင်းတို့၏ ကျင့်ဝတ်တရားတို့နှင့် လည်း ပြည့်စုံ၏။ ကုမုဒြာကြာ, သာခွါ ငွေသားနှင့်တူသော ဆင်ဖြူရတနာ၏ အရှင်လည်းဖြစ်၏။

ထိုမင်းသည် ဘုရားသခင် သာသနာတော်၌ လွန်စွာကြည်ညိုခြင်းဖြစ်ရကား ဤသို့ ကြံဆင်ခြင်၏။ ''ဘုရားသခင်၏ သာသနာဟူသော အလင်းကြောင့်သာလျှင် သတ္တဝါတို့ လူ့ရွာနတ်လမ်း ဖြောင့်တန်းကုန်သည်။ သာသနာ မရှိမူကား ကျွဲ, နွား, ဆိတ်, ဝက် စသော တိရစ္ဆာန်တို့ကဲ့သို့ စားရေး အိပ်ရေး အသက်မွေးမှုနှင့် သာလျှင် ကာလကုန်၍ အပါယ်ဘုံသို့ တစ်ပြောင်းပြန်ပြန် ဖြစ်လေရာသည်။ သာသနာဟူသည် လည်း ရှင်အဖြစ် ပဉ္စင်းအဖြစ်သာလျှင် မူလဖြစ်သည်။ ပဉ္စင်းဖြစ်ခြင်းသည်လည်း ''သိမ်, ပရိသတ်, ပဉ္စင်းလောင်း, ဉတ်, ကမ္မဝါစာ'' ဤအင်္ဂါငါးပါး ပြည့်စုံမှ မြောက်သည်။ ထိုငါးပါး တွင်လည်း သိမ်၏ပြည့်စုံခြင်း, ပရိသတ်၏ ပြည့်စုံခြင်းကို သာလျှင် ရခဲ၏။ ဘယ်သို့မှ ပြည့်စုံရာသနည်း''ဟု ကြံပြီးသော် ဝိနည်းပါဠိတော် ငါးကျမ်း လက်သန်း အဋ္ဌကထာ သုံးကျမ်း ဋီကာအဖွင့် ကျမ်းများကို ကြည့်ရှု ဆင်ခြင် ပြီးသော် ''ဤရာမညတိုင်း၌ မြစ်, သမုဒ္ဒရာ, ဇာတဿရ အစရှိသော အဗဒ္ဓသိမ်တို့၌ ကံမြောက်အောင် ပြုနိုင်ခဲ့ချိမ့်မည်''ဟု စဉ်းစား၍ ပိဋကတ်ကျွမ်းကျင်သော ရဟန်း များနှင့် ညှိနှိုင်းတိုင်ပင်ပြီးသော် ရဟန်းစစ်မှ သိမ်စင် နိုင်မည်၊ သိမ်စင်မှ နောက်အခါ သိမ်ဝင်၍ ရဟန်းအဖြစ် စင်ကြယ်နိုင်မည်ဟု တိုင်းထွာမိရကား မိမိနိုင်ငံ၌ရှိသော ဗျတ္တပဋိဗလ ရဟန်းတို့ကိုရွေး၍ မောဂ္ဂလာန်ထေရ် စသော ရဟန်းတော် နှစ်ဆယ့်နှစ်ပါး

တို့ကို သီဟိုဠ်ကျွန်းကြွ၍ သိက္ခာတင်ယူကြပါဟု တောင်းပန်၏။ မထေရ်တို့ကလည်း သာသနာတော်ရေးကို နှလုံးထား၍ ''သွားပါမည်'' ဟု ဝန်ခံကြလျှင် ရာမာဓိပတိမင်းလည်း စွယ်တော်ဓာတ်ကို ပူဇော်ရန်, ရဟန်းသံဃာတော်တို့ကို ပူဇော်ရန်, ဘူဝနေကဗာဟု မည်သော သီဟိုဠ်မင်းအား ဆက်သရန် ပဏ္ဏာကာရ အများစီရင်၍ စိတြဒူတ ရာမဒူတ ဟူသော အမတ်နှစ်ယောက်ကို သင်္ဘောတစ်စင်းစီနှင့် သံဃာတော်ကြီး တစ်ကျိပ်တစ်ပါး, အလုပ်အကျွေး သံဃာတော်ငယ် တစ်ကျိပ် တစ်ပါးအားဖြင့် နှစ်ဆယ့်နှစ်ပါးစီ တင်စေ၍ သက္ကရာဇ် ၈၃၇-ခု၊ တပို့တွဲလပြည့်ကျော် ၁၁-ရက်၊ တနင်္ဂနွေနေ့ လွှင့်စေကုန်သည်။ တပေါင်း လပြည့်ကျော် ၈-ရက်နေ့ပင် သီဟိုဠ်ကျွန်း ကောသမ္ဗုဆိပ်သို့ ရောက်လေ၏။

အမတ်နှစ်ယောက်တို့လည်း သင်္ဘောတွင်ပါသော ပဏ္ဏာကာရ လျှောက်စာဆက်စာများကို ဘူဝနေကဗာဟု မင်းအားလည်းကောင်း၊ သံဃာတော်တို့အားလည်းကောင်း ဆက်ကပ်လှူဒါန်းလေ၏။

''ရဟန်းများကို ကလျာဏီမြစ် ရေသိမ်မှာ ပဉ္စင်းအသစ်ခံပါစေ''ဟု လျှောက်လွှာပါသည့်အတိုင်း ရေသိမ်တွင် ပဉ္စင်းခံစေ၏။ သီဟိုဠ်ဆရာတို့က ထိုရဟန်းတို့ကို လူထွက်စေ၍ အသစ်ရှင်ပြုပြီးမှ သိက္ခာတင်ကြသည်။ သိက္ခာတင်ပြီးလျှင် သီဟိုဠ်မင်းက အထူးထူးသော ရဟန်းတို့၏ သုံးဆောင်ရာ ပရိက္ခရာတို့ကို ကပ်လှူပြီးမှ ဤပစ္စည်း အလှူကား မကြာမီ ပျက်စီးလတ္တံ့၊ မပျက်စီးနိုင်သော နာမံတံဆိပ်ကို လှူပါရစေဟု တောင်းပန်၍ ''ရာမဒူတ အမတ်၏ သင်္ဘော၌ စီးသော ရဟန်းတစ်ကျိပ် တစ်ပါးတို့အား သိရီသင်္ဃဗောဓိသာမိ။ ကိတ္တိသိရီမေဃသာမိ၊ ပရက္ကမဗာဟုသာမိ၊ ဗုဒ္ဓဃောသသာမိ။ သီဟဠဒီပ ဝိသုဒ္ဓသာမိ။ ဂုဏရတနဓရသာမိ။ ဇိနာလင်္ကာရသာမိ။ ရတနမာလိသာမိ။ သဒ္ဓမ္မတေဇသာမိ။ ဓမ္မရာမသာမိ။ ဘူဝနေကဗာဟုသာမိ'' ဟူသော တံဆိပ်နာမံကို လှူတော်မူသည်။

စိတြဒူတ၏ သင်္ဘော၌စီးသော ဆရာတစ်ကျိပ် တစ်ပါးတို့အားလည်း ဤနည်း အတူပင် တံဆိပ်နာမံ အသီးအသီး လှူတော်မူသည်။

နောက်ပါ ရဟန်း နှစ်ဆယ့်နှစ်ပါးတို့ကိုကား တံဆိပ်နာမံမလှူ၊ ရဟန်းတို့၏ ပရိက္ခရာကိုသာ လှူသည်။ ယင်းသို့ သိက္ခာအသစ်တင်ပြီးသော် စေတီပုထိုး ပူဇော်ခြင်းကိစ္စကို ပြီးစေပြီးမှ ဟံသာဝတီသို့ ပြန်လာကြသည်။

စိတြဒူတ၏ သင်္ဘောမှာကား ရာမာဓိပတိမင်းအား သီဟိုဠ်မင်းက ဆက်လိုက်သော ပဏ္ဏာကာရ အများပါသည်။ သံဖက်၍ ထည့်လိုက်သော သင်္ဘောကိုလည်း ငံ့ရသည်နှင့် နောက်ကျ၍ မုတ်သုံ အချိန်မသင့်ဘဲ လွှင့်ခဲ့သော် လေပြင်းခတ်သဖြင့် သမုဒ္ဒရာ၌ နစ်လေ၍ သီဟိုဠ်မင်းက ထည့်လိုက်သော သင်္ဘောမှာစီး၍ လိုက်ပြန်ကြရသည်။ သုံးရက် ခရီးလွန်လျှင် လေပြင်းခတ်သဖြင့် ရေတိမ်၌ငြိရကား ဖောင်ဖွဲ့ကာ

ကူး၍ ကုန်းကြောင်း လာကြရသည်။ သီဟိုဠ်မင်းထည့်လိုက်သော အမတ်လည်း ပဏ္ဏာကာရများ ပျက်စီးသည် နှင့် ပြန်သွားလေ၏။ ထိုရဟန်းတို့လည်း ကုန်းကြောင်းပင် ငြိုငြင်စွာ လာသဖြင့် ဟံသာဝတီသို့ ရောက်ကြ၏။ သီဟိုဠ်ကူရဟန်း ၄၄-ပါးအနက် ဆရာတော် ၆-ပါး၊ တပည့် ၄-ပါးတို့သည် ခရီးအကြား၌ပင် သေလွန်သည်ဖြစ်၍ ၃၄-ပါးသာ ကျန်သည်။

ရာမာဓိပတိမင်းလည်း သီဟိုဠ်ကသိက္ခာတင်ခဲ့သော မဟာဝိဟာရဝါသီအနွယ် သံဃာတို့ အရောက်ညီလျှင် ဟံသာဝတီပြည်၏ အနောက်၊ နရသူရ အမတ်စားသော ဂါမခေတ်တွင် သိမ်ရာမှတ်၍ သိမ်နုတ်ခြင်း သမုတ်ခြင်းကို ပြုစေ၏။

သီဟိုဠ်ကျွန်း၌ ဘုရားရှင် ရေသပ္ပါယ်တော်မူသော ကလျာဏီမြစ်တွင် ရေသိမ် စီရင်၍ မဟာဝိဟာရဝါသီ အရှင်တို့ သိက္ခာတင်လိုက်သော ရဟန်းတို့ သမုတ်သော သိမ်ဖြစ်၍ ''ကလျာဏီသိမ်ဟု တွင်စေ၏။ ဤသိမ်ကား သက္ကရာဇ် ၈၃၈-ခုနှစ်တွင် ပြီးသတည်း။

❖❖❖❖❖

## ၃၁၇။ သုံးဆယ့်တစ်အိမ်၊ နွယ်သည့်ကြိမ်၊ ရေစိမ်ဘယ့်ကြောင့်ဆတ်သနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- သုံးဆယ့် တစ်ဘုံ၌ ကြိမ်နွယ် သကဲ့သို့ ဆက်သွယ်၍ နွယ်တက်သော တဏှာ-ဟူသော ကြိမ်သည် မင်္ဂရေနှင့် စိမ်၍ ဆတ်သည် ကျိုးပြတ်သည်ကို မေးလိုသည်။

ဘယ့်ကြောင့် ဆတ်သနည်း ဟူရာ၌ မဂ်တည်းဟူသော ရေစင်၏ သတ္တိ ကြောင့်ပင် ဆတ်၏၊ ကျိုး၏ဟု ဆိုရမည်။

❖❖❖❖❖

## ၃၁၈။ နေအိမ် လအိမ်၊ မမြုပ်တိမ်၊ ကြိမ်ကြိမ်ဘယ့်ကြောင့်ဖြစ်သနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- နေလတို့၏ ဖြစ်ကြောင်းကို မမေးသင့်ပြီ။ ဘယ့်ကြောင့်နည်း ဆိုလျှင်- လောကသဏ္ဌာဟနမျိုးဖြစ်၍ အစိန္တေယျဟု ဘုရားပင် ပြသောကြောင့်တည်း။

ထိုစကားကိုထင်စွာ ဆိုဦးအံ့-နေ, လ, နက္ခတ်,သတ္တရဘ္ဘန်, မြင်းမိုရ်, ထိုထို့ သမုဒ္ဒရာ, စကြဝဠာ, ရေ, မြေအစုသည် တစ်ခုသော လောကဓာတ်မည်၏။ ထိုလောကဓာတ်သည် ရေ၏အထက်၌တည်၏။ ထိုရေသည် လေ၏အထက်၌ တည်၏။ ထိုလေသည် ကောင်းကင်ပြင်ထက်၌ တည်၏။ ယင်းသို့ တည်ခြင်းသည် အဘယ့် ကြောင့်ဖြစ်ပါသနည်းဟု မကြံစည်အပ်၏။ အကယ်၍ ကြံမူကား ရူးသွပ်ခြင်းသာ

ဖြစ်ရာ၏။ အကြောင်းကို မရနိုင်ရာ။ ဤအတူ ကုသိုလ် အကုသိုလ်ကံတို့၏ အကျိုးပေးသော အရာကိုလည်းကောင်း, ဘုရားရှင်အရာကိုလည်းကောင်း, ဈာန်တန်ခိုး၏ အရာကို လည်းကောင်း, မကြံအပ်သည်သာဖြစ်၏။

ထို့ကြောင့် ဒီဃနိကာယ်၌–

**စတ္တာရိမာနိ ဘိက္ခဝေ အစိန္တိယာနိ၊ ကတမာနိ၊ ဗုဒ္ဓဝိသယော အစိန္တိယော၊ ဈာနဝိသယော အစိန္တိယော၊ ကမ္မဝိပါကော အစိန္တိယော၊ လောကသဏ္ဌာ ဟနော အစိန္တိယော ဣမာနိ အစိန္တိယာနိ စိန္တေန္တော ဥမ္မာဒဿ ဝိဃာတဿ ဘာဂီ ဟောတိ။** ဟူ၍ ဟောတော်မူသည်။

ဘိက္ခဝေ၊ ရဟန်းတို့၊ ဣမာနိစတ္တာရိ၊ ဤလေးပါးတို့ကို၊ အစိန္တိယာနိ၊ မကြံစည်အပ်ကုန်၊ ကတမာနိ၊ အဘယ်လေးပါးတို့နည်း ဟူမူကား။ဗုဒ္ဓဝိသယော၊ ဘုရားရှင်အရာကို၊ အစိန္တိယော၊ မကြံစည်အပ်၊ ဈာနဝိသယော၊ ဈာန်တန်ခိုး၏အရာကို၊ အစိန္တိယော၊ မကြံစည်အပ်၊ ကမ္မဝိပါကော၊ ကံ၏အကျိုးကို၊ အစိန္တိယော၊ မကြံစည်အပ်၊ လောကသဏ္ဌာဟနော၊ လောကဓာတ်၏တည်ခြင်းကို၊ အစိန္တိယော၊ မကြံစည်အပ်၊ ဣမာနိ အစိန္တိယာနိ၊ ဤအစိန္တေယျ လေးပါးတို့ကို၊ စိန္တေန္တော၊ ကြံသောသူသည်၊ ဥမ္မာဒဿ၊ ရူးသွပ်ခြင်း၏၊ ဝိဃာတဿ၊ စိတ်ဖောက်ပြန်ခြင်း၏၊ ဘာဂီ၊ အဖို့သည်၊ ဟောတိ၊ ဖြစ်၏။

အဖြေမရကောင်းလျှင် မရကောင်းကြောင်းကိုသာ ဆရာဆိုသင့်၏။ မမေးသင့်–ဟု ဘယ့်ကြောင့် ဆရာဆိုပါသနည်း။ သံသရာ၏ အစကိုပင် မေးကြသော ပုစ္ဆာရှိပါသည် မဟုတ်လောဟူပြောအံ့–မေးကားမေးသင့်၏။ အဖြေကား မရကောင်း။ ယင်းသို့ အဖြေမရကောင်းသည်ကို သိလျက် မေးသောကြောင့် ဖလူပစာရနည်းအားဖြင့် မမေးသင့် ဟု ဆိုသတည်း။

**နေအိမ် လအိမ်တို့သည် ကမ္ဘာ့တန်ဆာ ဓမ္မတာဖြစ်၍ ဖြစ်သည်ဟု ဖြေသော်လည်း လျော်၏။**

❖❖❖❖❖

## ၃၁၉။ သီဟိုဠ်ကျွန်းငြိမ်၊ငါးမာရ်နှိမ်၊သုံးကြိမ်ဘယ့်ကြောင့်ကြွသနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နောင်သောအခါ သာသနာတော် တည်စေလိုသောကြောင့် ကြွ၏ဟူပေ။

**အကျယ်ကား–** ငါတို့ ဘုရားသခင်သည် ဘုရားဖြစ်တော်မူသည့်နောက် ကိုးလမြောက်ဖြစ်သော ပြာသိုလပြည့်နေ့၌ နောင်သာသနာတော် တည်ရပ်ဖြစ်စိမ့်သောငှာ ဥရုဝေလတောအုပ်မှ သီဟိုဠ်ကျွန်းသို့ ကောင်းကင်ခရီးဖြင့် ကြွတော်မူ၍ ကျွန်း၏အလယ် ဖြစ်သော အလျားသုံးယူဇနာ အနံတစ်ယူဇနာရှိသော မဟာနာဂဝန်

ဥယျာဉ်ရာ၌ များစွာသော ဘီလူးတို့၏ အစည်းအဝေးတွင် အထက်ကောင်းကင်ဖြင့် ရပ်တော်မူ၍ ကမ္ဘာပျက်သောအခါ ရွာသောမိုး၊ လာသောလေဟူသော မိုးကြီးလေကြီး တို့ကို ရွာစေခြင်း၊ လာစေခြင်းတို့ဖြင့် လည်းကောင်း။ လောကန္တရိက် ငရဲနှင့်တူသော အမိုက်တိုက်ကို ဖြစ်စေခြင်းဖြင့် လည်းကော်း၊ ဘီလူးအပေါင်းတို့အား ထိတ်လန့်စေလျက် ကိုယ်တော်ကို ထင်ရှားပြလေလျှင် ထက်ဝန်းကျင် စည်းဝေးကြသော ဘီလူးအပေါင်း တို့က ''အရှင်ဘုရား၊ ဤကြောက်မက်ဖွယ်သော မိုးကြီးလေကြီး အမိုက်တိုက်တို့ကို ငြိမ်းစေတော်မူပါ''ဟု တောင်းပန်းကြ၏။

ဘုရားသခင်လည်း တန်ခိုးတော်အားဖြင့် ဘေးမရှိခြင်းကို ပြုပြီးသော် ''ငါ့အား နေရာကိုပေးလော့''ဟု မိန့်တော်မူ၏။ ဘီလူးတို့လည်း ကြည်ညွတ်ကြ၍ ''ဤကျွန်းမြေ၌ နေတော်မူပါ''ဟု ဆောင်နှင်းကြ၏။ ဘုရားသခင်လည်း ကောင်းကင်မှ သက်တော်မူ၍ မဟိယင်္ဂဏစေတီ တည်ရာ၌စမ္မခဏ်ကို ဖြန့်၍ ထိုင်တော်မူ၏။

ထိုအခါ များစွာသော ဘီလူးတို့ ဖူးမြင်ခြင်းငှာ စည်းဝေးလာကြသော် ထိုင်တော် မူသော စမ္မခဏ်မှ အလျှံပြောင်ပြောင်တောက်၍ ကြောက်မက်ဖွယ်သော အသံကို ဖြစ်စေလျှင် ဘီလူးအပေါင်း ကြောက်လန့်၍ သမုဒ္ဒရာနားသို့ချည်း ပြေးကြကုန်၏။

ဘုရားသခင်လည်း ကျွန်း၏ထက်ဝန်းကျင်သို့ လက်ယာရစ်လှည့်တော်မူ၍ ဘီလူးကြမ်းတို့ကို ဂိရိဒီပသို့ ရောက်အောင် ပို့ဆောင်တော်မူပြီးမှ သီဟိုဠ်ကျွန်း၌လည်း ပရိတ်အရံအတားကို ပြုပြီးလျှင် ယခင်စေတီရာ၌ သမာပတ်ဝင်၍ နေတော်မူ၏။

ထိုအခါ များစွားကုန်သော နတ်တို့သည် စည်းဝေး၍ ဖူးမြော်လာကုန်သည်။ မြတ်စွာဘုရာလည်း ထိုပရိသတ်တို့အား တရားဟောတော်မူ၍ အချို့ကို သောတာပန်, အချို့ကို သရဏဂုံ၊ ပဉ္စသီတည်စေကုန်၏။

သုမနကူဋ္ဌတောင်၌နေသော မဟာသုမန နတ်မင်းသည်လည်း ထိုအခါ သောတာပတ္တိ ဖိုလ်သို့ရောက်၍ မြတ်စွာဘုရားထံရင်းသို့ ချဉ်းကပ်ပြီးလျှင် ''အရှင်ဘုရား၊ ကျွန်ုပ်နှင့် တကွသော သတ္တဝါအပေါင်းတို့အား သနားတော်မူပါသဖြင့် ရှည်မြင့်စွာ ကိုးကွယ်ရအောင် ကိုယ်တော်မှဖြစ်သော အမွေအနှစ်ကို ထားခဲ့တော်မူပါ''ဟု တောင်းပန်သော် ဦးခေါင်းတော်ကို သပ်၍ ပါလတ်သော ဆံတော်ဓာတ်တစ်ဆုပ်ကို ပေးအပ်တော်မူ၍ ဇမ္ဗူဒိပ်ကျွန်း ဥရုဝေလတောသို့ ပြန်ကြွတော်မူလာ၏။

**(ဤကား ရှေးဦးစွာကြွသောအကြောင်းတည်း)။**

ထို့နောင် ဘုရားဖြစ်သည်မှ ငါးနှစ်မြောက် ဇေတဝန်ကျောင်းတော်သို့ ရောက်သော နှစ်၌ သီဟိုဠ်ကျွန်းတွင် တူ, ဦးရီးဖြစ်ကုန်သော စူဠောဒရ, မဟောဒရ နဂါးတို့သည် ရန်စစ်ကြီးစွာ ဖြစ်ကြကုန်၏။

ဖြစ်ကြောင်းကား-ရာစန မည်သော မြစ်၏အလယ် နာဂဒီပ ကျွန်းငယ်၌ နေသော စူဠောဒရ နဂါးသည် တောင်ခေါင်းမြေထဲ၌နေသော မြေနဂါးမျိုးတည်း။ မဟောဒရနဂါးကား သမုဒ္ဒရာ၌နေသော ရေနဂါးမျိုးတည်း။ ထိုမဟောဒရ၏မိခင် ဖခင်တို့သည် သမီးဖြစ်သော ကဏ္ဏာဒေဝီကို စူဠောဒရ၏အဖ တောင်နေ နဂါးမင်းနှင့် ထိမ်းမြားသတည်း။

ထိုအခါ ရတနာခုနစ်ပါးဖြင့်စီသော စိမ်းညိုသော အဆင်းရှိသော မဏိပလ္လင်ကို လက်ဖွဲ့လိုက်၏။ ပေးရင်းဖြစ်သော မိဘတို့သေလွန်ခဲ့၍ သား မဟောဒရမင်းဖြစ်လျှင် ထိုမဏိပလ္လင်ကို လိုချင်သောကြောင့် နှမ ယောက်ဖနှစ်ဦးတို့အား အကြည်အနူး တောင်း၏။ ထိုသူတို့ကလည်း မပေးကုန်။ နှမ ယောက်ဖတို့ သေလွန်၍ တူစူဠောဒရ မင်းဖြစ်လျှင် ယခင် မဟောဒရက ''ငါ့နှမအား ငါ့မိဘပေးလိုက်သော ပတ္တမြားပလ္လင်ကို ငါလိုသည် ပေးရမည်''ဟု အတင်းအကျပ်တောင်း၏။ စူဠောဒရကလည်း ''ငါ့ဘိုးဘွား ငါ့မိဘအမွေကို ငါဆိုင်သူဖြစ်သည် မပေးချေ''ဟု ဆို၍ အရေးပွါးစီးသဖြင့် ရန်စစ်ကြီးစွာ ဖြစ်ကြ၍ နဂါးတို့သေကျေ ပျက်စီးကုန်၏။

ဘုရားသခင်လည်း ထိုအကြောင်းကို ဒိဗ္ဗစက္ခုဖြင့် မြင်တော်မူ၍ ဆင်ခြင်လတ် သည်ကား ''ငါဘုရားကြွ၍ ဤသူတို့ခိုက်ရန်ကို ဖြေဖျန်ဆုံးမသော် များစွာသော သတ္တဝါတို့ ချမ်းသာခြင်း ဖြစ်ကုန်လတ္တံ့။ ငါ၏သာသနာလည်း ဤဌာန၌ ကာလအရှည် သက်ဆင်း လတ္တံ့''ဟု ကြံတော်မူ၍ အဖော်ပြုထိုက်သောသူကို ရှုတော်မူသော် သမိဒ္ဓိသုမန နတ်သားကိုမြင်၏။

ထိုနတ်သားကား အဘယ်ကောင်းမှုကို ပြုခဲ့ဖူးသနည်း ဟူမူကား- ကဿပ ဘုရား သခင်၏ သာသနာစွန်း၌ ဤနာဂဒီပကျွန်းဝယ် မထင်ရှားသော သူတစ်ဦးဖြစ်၍ တစ်ရံသောအခါ ဂန္ဓမာဒနတောင်မှ ကြွလာသော ပစ္စေကဗုဒ္ဓါ တစ်ဆူကိုတွေ့၍ လေးမြတ်စုံမက်စွာ တစ်ထပ်စာသော ဆွမ်းကိုလှူ၏။ တည်းခိုရာ အရိပ်ကြီးစွာသော သစ်ပင်ရင်းကို သုတ်သင်၍ အိပ်ရာ၊ နေရာလည်း ခင်းလှူဖူး၏။ ဤကောင်းမှုကြောင့် ထိုလူ၏ အဖြစ်မှ စုတေခဲ့သော် သာဝတ္ထိပြည်၏အနီး တစ်ခုသောလင်းလွန်းပင်ကြီး၌ အခြွေအရံ စည်းစိမ်ချမ်းသာနှင့် ပြည့်စုံသော သမိဒ္ဓိ သုမနမည်သော ရုက္ခစိုးနတ်ဖြစ်၍ နေ၏။

ဘုရားသခင်လည်း ထိုအကြောင်းကိုမြင်၍ သမိဒ္ဓိသုမနနတ်ကို သီဟိုဠ်ကျွန်း နာဂဒီပသို့ ငါနှင့်လိုက်လှည့်ဟု ခေါ်၍ ၁၀၈-ခု၊ တန်ခူးလကွယ်နေ့ နံနက်အခါဝယ် နာဂဒီပသို့ ကြွတော်မူလာ၏။ နတ်သားလည်း မိမိဗိမာန်ဖြစ်သော လင်းလွန်းပင်ကို နုတ်၍ ထီးဖြူမိုးကာ၍ လိုက်၏။ ရောက်သောအခါ မြတ်စွာဘုရားလည်း နဂါးနှစ်ဦး စစ်ဆိုင်ကြသော ဌာန၏အလယ် ကောင်းကင်ထက်၌ ထက်ဝယ်နေတော်မူလျက် ထက်ဝန်းကျင်သော အရပ်မှ ရောက်ရှာ မိုးကြီး၊ လောင်မီး မိုးကြိုး၊တိမ်ခိုး မုန်တိုင်း၊

မှိုင်းကြီး မှောင်ကြီးတို့ကို ဖြစ်စေလျက် နဂါးတို့ကို ကြောက်လန့်စေပြီးသော် ထိုအမိုက်ကို လင်းစေအောင် နေမင်းတစ်ထောင် တက်သကဲ့သို့ ပြိုးပြိုးပြက် တောက်လောင်သော ရောင်ခြည်တော် ခြောက်သွယ်ကို လွှတ်လျက် ကြည်ညွတ်ဖွယ်သော ကိုယ်တော်ကို ပြတော်မူ၏။ ထိုနဂါးတို့လည်း ကြောက်လန့်ခြင်း ငြိမ်းကြ၍ မိမိတို့ဆွဲသမျှသော လက်နက်ကို ချထားလျက် ဘုရားရှင့်ထံသို့ ဝန်းရံကာ ပူဇော်လာကုန်၏။

ထိုအခါ မြတ်စွာဘုရားသည် နဂါးတို့အား လျောက်ပတ်သော တရားဖြင့် ဟောကြ ဆုံးမတော်မူ၍ အကုဋေမျှလောက်သော ရေနေ၊ ကြည်းနေ နဂါးတို့အား သရဏဂုံ ပဉ္စသီလကို ပေးတော်မူ၏။ ဆောင်တော်မူခဲ့သော လင်းလွန်းပင်ကိုလည်း စိုက်စေ၏။ ပတ္တမြားပလ္လင်ကို အလှူခံတော်မူ၍ ကိုယ်တော်တိုင်ထိုင်ပြီးမှ ''ငါသုံးဆောင်ပြီးသော ပရိဘောဂ စေတီတော်ကို သင်တို့ရှိခိုးပူဇော်ရစ်ကုန်။ ထိုသို့ပူဇော်ခြင်းသည် သင်တို့ အကျိုးစီးပွားများလတ္တံ့''ဟု မိန့်တော်မူ၏။ နဂါးတို့ကိုလည်း အချင်းချင်း မြတ်နိုးစိမ့်သောငှာ ဩဝါဒပေး၍ သမိဒ္ဓိသုမန နတ်သားကိုလည်း လင်းလွန်းပင်နှင့်တကွ ထားခဲ့၍ ဇေတဝန် ကျောင်းတော်သို့ ပြန်လာတော်မူ၏။

ဤ မဏိပလ္လင်ကို ကျွန်း၌လူနေ၍ သာသနာတော်ဖြစ်ထွန်းသောကာလ လူတို့ ထပ်လွှမ်း၍ စေတီတည်ကြကုန်သည်။ ထိုစေတီကား ''ရာဇာယတနစေတီ''မည်၏။

**(ဤကား နှစ်ကြိမ်မြောက်ကြွသော အကြောင်းတည်း။)**

ထို့နောက် တစ်ကြိမ်ကား– ဘုရားဖြစ်တော်မူသည်မှ ရှစ်နှစ်မြောက်ဇေတဝန် ကျောင်း၌ နေတော်မူသောအခါ လင်္ကာဒီပ၌ နေသော မဏိအက္ခိကမည်သော နဂါးမင်းသည် ဘုရားသခင်နှင့်တကွ သံဃာတော်တို့အား လှူဒါန်းပူဇော်လိုသည်ဖြစ်၍ ကဆုန်လဆန်း ၁၄–ရက်နေ့ ပင့်လျှောက်လာ၏။ မြတ်စွာဘုရားလည်း သံဃာတော် ငါးရာနှင့်တကွ ကဆုန်လပြည့်နေ့ နံနက်၌ ထ၍ကြွတော်မူပြီးလျှင် လင်္ကာဒီပကျွန်း ကလျာဏီမြစ်၏ အနီး နဂါးတို့ဖန်ဆင်းအပ်သော ရတနာမဏ္ဍပ်ကြီး၌ ဆွမ်းဘုဉ်း ပေးတော်မူ၍၊ ပြီးသောကာလ စည်းဝေးသမျှသော နဂါးပရိသတ်တို့အား ဆန်းကြယ် သော တရားစကားတို့ဖြင့် ဟောကြားတော်မူ၍ ကလျာဏီမြစ်၌ ရေသပ္ပာယ် တော်မူသည်။

ထိုမှသည် ကောင်းကင်ခရီးဖြင့် ကြွပြီးသော် သုမန နတ်မင်းကြီးနေသော တောင်သို့ ရောက်လျှင် ထိုတောင်ထိပ်၌ ခြေတော်ရာကို နှံခဲ့ပြီးမှ ဒီဃဝါပိ အရပ်သို့ ကြွ၍ ၎င်းစေတီ တည်ရာဌာန၌ ဖလသမာပတ်ကို ဝင်စားတော်မူသည်။ ထို့နောက် မဟာမေဃဝန်ဉယျာဉ် တည်ရာသို့ကြွ၍ ဗောဓိပင်တည်အံ့သောဌာန၌ ဖလသမာပတ်ကို ဝင်စားတော်မူသည်။ ထိုမှတစ်ဖန် ကြွပြန်၍ မဟာစေတီ တည်ရာအရပ်, ထူပါရာမ စေတီ တည်ရာအရပ်, သေလစေတီ တည်ရာအရပ်၌လည်းကောင်း သမာပတ် ဝင်စား တော်မူပြီးမှ ဇမ္ဗူဒိပ်ကျွန်း သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်သို့ ပြန်တော်မူသည်။

**(ဤကား သုံးကြိမ်မြောက် ကြွတော်မူသောအကြောင်းတည်း။)**

ထို့ကြောင့် အင်္ဂုတ္တိုရ် အဋ္ဌကထာ, သာရတ္ထဒီပနီဋီကာတို့၌–

**''ဘဂဝါ ကိရ အဘိသမ္ဗောဓိတော နဝမေ မာသေ ပုဿ ပုဏ္ဏမ ဒိဝသေ ယက္ခာဒိဝါသံ လင်္ကာဒီပံ ဥပဂန္တွာ''**စသည်ဖြင့် မိန့်တော်မူကြကုန်၏။

❖❖❖❖❖

## ၃၂၀။ ပြစ်မှားသူ့အိမ်၊ မငြိမ်ဆိမ်၊ ဖျင်းသိမ် ဘယ်အာရုံတို့နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ကိုယ်,နှုတ်, နှလုံးမငြိမ်ဆိမ်၍ သူ၏ အိမ်သူကို ပြစ်မှားခြင်းသည် အာရုံခြောက်ပါးတွင် ဘယ်အာရုံနည်းဟု မေးလိုသည်။

သူ့အိမ် ဟူရာမှာ သူ၏အိမ်သူဆိုသင့်လျက် ဝါစာသိလိဌ ဖြစ်စေလို၍ 'သူ' သဒ္ဒါကိုချေလျက် သူ့အိမ်ဟုစပ်သည်။

အဖြေကား–မိစ္ဆာစာရော ဖောဋ္ဌဗ္ဗာရမ္မဏဝသေန သင်္ခါရာရမ္မဏော'' ဟူ၍ ခုဒ္ဒကပါဌ အဋ္ဌကထာ မိန့်သောကြောင့် ဖောဋ္ဌဗ္ဗာရုံကို သာယာသည်၏ အစွမ်းဖြင့် သင်္ခါရတရားလျှင် အာရုံရှိ၏ဟူပေ။ ဤအဋ္ဌကထာကား ကမ္မပထကို ပဓာနပြု၍သာ ဆိုသည်။

အဆင်းတည်းဟူသော ရူပါရုံ၌ သာယာသဖြင့် တပ်မက်ခြင်း၊ အသံတည်း ဟူသော သဒ္ဒါရုံ၌ သာယာသဖြင့် တပ်မက်ခြင်း၊ အနံ့ကို သာယာသဖြင့် တပ်မက်ခြင်း၊ တို့ခြင်း, ဆိတ်ခြင်း, ကိုယ်ကို သုံးသပ်ခြင်း, နှီးနှောခြင်း, အတွေ့၌သာယာသဖြင့် တပ်မက်ခြင်း၊ ခံစား၍ ပျော်ပါးမွေ့လျော်ခြင်းတို့သည် ဖြစ်ကုန်ရကား အာရုံငါးပါးလုံး ဖြစ်၏ဟု ဆိုဖွယ် ရှိသည်။ (နောမတိ)

❖❖❖❖❖

## ၃၂၁။ ထက်နတ်ရွာတိမ်၊ စိတ်မငြိမ်၊ သူ့အိမ် ပြစ်မှားကြလိမ့်နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''ဥပရိဒေဝလောကေ ပန ပုညာနုဘာဝ ဝသေန သမ္ပတ္တိနံ နိဗ္ဗတ္တနတော ပဥ္စ ဒုဿီလ ကမ္မာနိ နပ္ပဝတ္တန္တိ''**

ဟူသော ဒီဃနိကာယ် အဋ္ဌကထာနှင့်အညီ၊ အထက်နတ်ပြည်တို့၌ မိမိတို့၏ အကြောင်း ကောင်းမှုတို့၏ အာနုဘော်ဖြင့်သာ စည်းစိမ်အခြံအရံတို့သည် ပြည့်စုံစွာ ဖြစ်သောကြောင့် ''ပါဏာတိပါတ, အာဒိန္နာဒါန, ကာမေသုမိစ္ဆာစာရ, မုသာဝါဒ, သုရာပါန'' ဟူသော ဒုဿီလ ကံငါးပါးတို့သည် မဖြစ်ကုန်ဟူပေ။

40
A

နတ်ပြည်ကို မဆိုလင့်ဦး–မြောက်ကျွန်းသူတို့မှ ဓမ္မတာသီလ မြဲသောကြောင့် အသက်တမ်းဆုတ်ခြင်း, တက်ခြင်းမရှိ၊ အနှစ်တစ်ထောင် အမြဲနေကြောင်းကို ဆိုသည်။ နတ်ပြည်၌ကား ထို့ထက်ပင် ဓမ္မသီလမြဲ၏ဟု မှတ်ရာသည်။

သုတ်ပါထေယျပါဠိတော် အင္ဂုတ္တရနိကာယ်သုတ် နိဒါန်း၌ နတ်မင်းကြီး လျှောက်သော စကားတွင်–

''ဘန္တေ၊ အရှင်ဘုရား။ ယေဘုယျေန၊ များသောအားဖြင့်။ ယက္ခာ၊ နတ်တို့သည်။ ပါဏာတိပါတာ၊ သူ၏အသက်ကိုသတ်ခြင်းမှ။ အပ္ပဋိဝိရတာယေဝ၊ မကြဉ်ရှောင်ကုန်သည် သာလျှင်တည်း။ အဒိန္နာဒါနာ၊ သူ၏ဥစ္စာကို ယူခြင်းမှ။ အပ္ပဋိဝိရတာယေဝ၊ မကြဉ်ရှောင် ကုန်သည်သာလျှင်တည်း။ ကာမေသုမိစ္ဆာစာရာ၊ သူ၏မယားကို ပြစ်မှားခြင်းမှ။ အပ္ပဋိဝိရတာယေဝ၊ မကြဉ်ရှောင်ကုန်သည်သာ လျှင်တည်း။ မုသာဝါဒါ၊ မုသားဆိုခြင်းမှ။ အပ္ပဋိဝိရတာယေဝ၊ မကြဉ်ရှောင် ကုန်သည်သာလျှင်တည်း။ သုရာမေရယ မဇ္ဇပ္ပမာ ဒဋ္ဌာနာ၊ သေရည်သေရက်ကို သောက်စားခြင်းမှ။ အပ္ပဋိဝိရတာယေဝ၊ မကြဉ်ရှောင် ကုန်သည် သာလျှင်တည်း။''

ဤသို့ လျှောက်သည်မှာ စတုမဟာရာဇ်အဝင် လူ့ပြည်၌ရှိသော နတ်တို့ကို ရည်၍ ဆိုသည်။ အထက်နတ်တို့ကို ရည်၍မဆိုဟု မှတ်အပ်၏။

❖❖❖❖❖

## ၃၂၂။ ဆယ်လသို့ကြိမ်၊ မဖွားငြိမ်၊ စစ်သိမ်ဘယ်၌ အုံမည်နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဆယ်လစေ့၍ မီးမဖွားသော် စစ်သိမ်ပဥ္စငါးပါးကို ညက်စွာကြိတ်၍ ခြေမ၌လည်းကောင်း, ဖဝါး၌လည်းကောင်း အုံရမည်ဟု ဆေးစာတွင် ဆိုသည်။

❖❖❖❖❖

## ၃၂၃။ ဗြဟ္မာ့ဘုံအိမ်၊ ချမ်းရိပ်ငြိမ်၊ တိမ်တောင်တိမ်လိပ်တက်လိမ့်နည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မြေငွေ့ရေငွေ့တို့သည် မရှိလေရကား ဗြဟ္မာ့ပြည်၌ တိမ်တောင် တိမ်လိပ်မတက်ဟူပေ၏။

❖❖❖❖❖

## ၃၂၄။ အလိမ်အလိမ်၊ အကြိမ်ကြိမ်၊ မိုးတိမ်ဘယ်က ဖြစ်သနည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''တေ ပန သီတဝလာဟက ဥဏှဝလာဟက အဗ္ဘဝလာဟက ဝါတဝလာဟက ဝဿဝလာဟကဒေဝတာနံ စိတ္တဝသေန ဘဝန္တိ''

အစရှိသည်ဖြင့် သံယုတ်အဋ္ဌကထာ၌လာသည်။ 40 B

**အဓိပ္ပါယ်ကား။** ။ထိုအချမ်း, အပူ, တိမ်တိုက်, မိုးလေတို့သည် သီတဝလာဟက နတ်, ဥဏှဝလာဟကနတ်,အဗ္ဘဝလာဟကနတ်, ဝါတဝလာဟကနတ်, ဝဿဝလာဟက နတ်တို့၏ စိတ်အလိုအစွမ်းဖြင့်လည်း ဖြစ်ကုန်၏။ မြေငွေ့ရေငွေ့ အစရှိသော ဥတုသမုဋ္ဌာန် ကြောင့်လည်း ဖြစ်ကုန်၏။ အကြောင်းတို့တွင်–

သီတဝလာဟကနတ်ဟူသည်ကား– ချမ်းအေးခြင်း၏ အကြောင်းဖြစ်သော မိုးကိုရွာစေတတ်သော ဘုမ္မစိုး အာကာသစိုး နတ်တို့တည်း။ ထိုနတ်တို့သည် ချမ်းသော မိုးကို ရွာစေလိုသော် မိုးသီချင်းကိုသီ၍ ''ဤမျှလောက်ရွာစေသော''ဟု လက်မြှောက်၍ ပိုင်းခြားလိုက်သော် စိတ်ဖြစ်သည်နှင့် တစ်ပြိုင်နက် မိုးတိမ်တက်၍ ရွာရ၏။ ရံဖန်လည်း ကိုယ်တိုင်ပင် ကောင်းကင်ခရီးဖြင့် လှည့်လည်ရပ်တန့်၍ မိုးကိုရွာစေ၏။

အပူကို ရွာစေတတ်သော ဥဏှဝလာဟကနတ်၊ ပြကတေ့သော မိုးကိုရွာစေတတ်သော ဝဿဝလာဟကနတ်တို့လည်း ဤနည်းတူပင် ရွာစေ၏။

အဗ္ဘဝလာဟကနတ် မည်သည်ကား– မိုးရွာခြင်း၊ လေလာခြင်းကို မဖြစ်စေဘဲ၊ ကောင်းကင်အလုံးကို လွှမ်းဖုံးအုံ့မှိုင်းကာ၊ တိမ်ထပ်တိမ်လွှာကို ဖန်ဆင်းတတ်သော ဘုမ္မစိုး အကာသစိုးနတ်တို့တည်း။

ဝါတဝလာဟကနတ်ဟူသည်ကား– ပြင်းသောလေကို လာစေတတ်သော နတ်တည်း။

နေသည် ပြင်းစွာပူသဖြင့် သမုဒ္ဒရာမှ ရေငွေ့တို့သည် များစွာထကုန်လျက် အထက်၌ လေဟုန်ရေမှုန်ဖြစ်၍ မိုးရွာခြင်း၊ မြေတောင်တို့မှ အခိုးအငွေ့တို့သည် ထွက်၍ အထက်၌ လေဟုန်ရေမှုန်ဖြစ်၍ မိုးရွာခြင်းတို့သည် ဥတုပယောဂကြောင့် ဖြစ်ရကား ဥတုသမုဋ္ဌာန် ဖြစ်၏။ မိုးလအခါ၌ မိုးရွာခြင်း, ဆောင်းလအခါ၌ ချမ်းအေးခြင်း, နွေလအခါ၌ ပူပန်ခြင်း တို့သည် ဥတုသမုဋ္ဌာန်ကြောင့် ပြကတေ့ ဖြစ်မြဲပင်တည်း။

ထိုဖြစ်မြဲတွင် အကြင်အခါ၌ ဝလာဟကနတ်တို့သည် မြူးတူးလိုကုန်၏။ ထိုအခါ မိုးရွာစေတတ်သော သီချင်းကိုသီလျက် ''ဤမျှလောက်သော အရပ်၌ ရွာစေသော'' ဟု မနောစိဋ္ဌာန်ကို ပြု၏။ ထိုအခါ လွန်စွာသော မိုးရွာခြင်းသည်ဖြစ်၏။ ချမ်းတတ်သော ဆောင်းအခါ၌ လွန်စွာချမ်းအေးသောမိုးကို ဖြစ်စေခြင်း, လေကိုလာစေခြင်း, နွေအခါ၌ လွန်စွာသောအပူကို ဖြစ်စေခြင်းတို့သည် ဝလာဟကနတ်တို့၏ အာနုဘော်ပင်တည်း။

မိုးလအခါ၊ ဆောင်းလအခါတွင် ကောင်းကင်၌ တိမ်တိုက်သည်လည်း ဥတုသမုဋ္ဌာန် အားဖြင့် ဖြစ်မြဲပင်တည်း။

အကြင်အခါ၌ လေးရက် ငါးရက် ခုနစ်ရက်တိုင်အောင်လည်း–လ–နေတို့ကို ဖုံးလွှမ်းလျက် တစ်ခဲနက်သော တိမ်တိုက်သည်ဖြစ်၏။ တန်ခူးလ, ကဆုန်လတို့၌ ရုတ်ခြည်း တက်ကြွသော တိမ်တိုက်သည်ဖြစ်၏။ ထိုတိမ်သည် အဗ္ဘဝလာဟကနတ်၏ အာနုဘော် ကြောင့်ဖြစ်သော တိမ်တိုက်မည်၏။

ဆောင်းလအခါ မြောက်ဟိမဝန္တာမှ အေးစွာသော လေတို့၏လာခြင်း၊ နွေလအခါ တောင်သမုဒ္ဒရာမှ ပူသောလေတို့၏ လာခြင်းတို့သည် ဥတုသမုဋ္ဌာန်ဖြင့်သာ ဖြစ်မြဲပင် တည်း။

အကြင်အခါ၌ သစ်ပင်တို့ကို ကျိုးပျက် ပြတ်လွင့်စေလျက် ပြင်းထန်စွာလာ၏။ ထိုလေသည် ဝါတဝလာဟကနတ်၏ အာနုဘော်ကြောင့်ဖြစ်သော လေမည်၏။

## ဤအရာ၌ သက်သေကား

သာဝတ္ထိပြည်၏အနီး တဂ္ဂရတောင်၌နေသော ရဟန္တာတစ်ပါးအထံသို့ ဝဿ ဝလာဟကနတ်သည် ဆည်းကပ်ပူဇော်လာသော် ရဟန္တာထေရ်မြတ်က ''သင် အသူနည်း''ဟု မေး၏။ ''အရှင်ဘုရား–အကျွန်ုပ်ကား မိုးကိုရွာစေတတ်သော ဝဿ ဝလာဟကနတ်သားတည်း''ဟု လျှောက်၏။ ''သင်တို့က မိုးကိုရွာစေသော စိတ် ဖြစ်သော် မိုးရွာ၏–ဟူသည် မှန်သလောဟု မေး၏။ ''မှန်ပါ၏''ဟု လျှောက်လျှင် ''ငါတို့ တစ်ခါ မြင်လိုပါ၏''ဟု ဆို၏။ ''အရှင်ဘုရား မြင်လိုပါက ကျောင်းတွင်းသို့ ဝင်လော''ဟု လျှောက်၏။ ရဟန္တာမြတ်ကလည်း ''ဒကာနတ်သား–မိုးရိပ်တိမ်ရိပ် ကိုလည်း မမြင်၊ မိုးသံဟုလည်း မကြားဘဲလျက် ဘယ်သို့ ရွာနိုင်အံ့နည်း''ဟု ဆိုပြန်၏။ နတ်သားလည်း ''အရှင်ဘုရား အကျွန်ုပ်တို့ ရွာစေလိုသောစိတ်ရှိလျှင် ရွာပါ၏။ မြန်စွာသာ သင်္ခမ်းတွင်းသို့ ဝင်ပါလော''ဟု လျှောက်၏။ ရဟန်းမြတ်ကလည်း ''ကောင်းပြီ''ဟု ဆို၍ ကျောင်းတွင်းသို့ ဝင်ခြင်းငှာ ခြေကိုဆေးလတ်သော် နတ်သားလည်း ထိုခဏ၌ မိုးသီချင်းကိုသီ၍ လက်ကိုချီလိုက်လျှင် ထက်ဝန်းကျင် သုံးယူဇနာရှိသော အရပ်၌ အထပ်ထပ်သော တိမ်တိုက်သည် တက်ထည့်၍ မိုးစက် မိုးပေါက် တို့သည် ဖြောက်ဖြောက် ရွာလာရကား ရဟန္တာမြတ်သည် ကိုယ်တစ်ဝက် စွတ်ပြီးမှ ကျောင်းတွင်းသို့ ဝင်နိုင်၏။ ဤဝတ္ထုကိုထောက်၍ နတ်တို့၏ တန်ခိုးကြောင့် မိုးရွာခြင်းကို သိအပ်၏။

ဤမှ တစ်ပါးသော မိုးရွာခြင်း၏ အကြောင်းကား–

နဂါးတို့၏ တန်ခိုးကြောင့် ရွာခြင်း
ဂဠုန်တို့၏ တန်ခိုးကြောင့် ရွာခြင်း
နတ်တို့၏ တန်ခိုးကြောင့် ရွာခြင်း
ဘုန်းရှိသောသူ၏ သစ္စာပြုသောကြောင့် ရွာခြင်း
မာရ်နတ်လှည့်ပတ်၍ ရွာခြင်း
တန်ခိုးအစွမ်းကြောင့် ရွာခြင်း
ကမ္ဘာပျက်လို၊ ပွားလိုသောကြောင့် ရွာခြင်း
ဥတု ပယောဂကြောင့် ရွာခြင်း

ဟူ၍ ရှစ်ပါးအပြားရှိ၏။

ထိုတွင် ရှေ့ခုနစ်ပါးကား တစ်ရံတစ်ဖန် ရွာခြင်းတည်း။ ဉတုသမုဋ္ဌာန်သာ မြဲစွာဖြစ်၏။

ကေနိပါတ် မစ္ဆဇာတ်၌ကား–

သဏ္ဍေန၊ သိကြားမင်းသည်။ အာဏတ္တော၊ စေအပ်သော။ ဝဿဝလာဟက ဒေဝရာဇာ၊ မိုးကိုရွာစေတတ်သော ဝလာဟက နတ်မင်းသည်။ ကော၊ တစ်ခုသော။ ဝလာဟကံ၊ မိုးတိမ်လွှာပုဆိုးကို။ နိဝါသေတွာ၊ ဝတ်၍။ ကော၊ တစ်ထည်ကို။ ပါရုပိတွာ၊ ရုံ၍။ မေဃဂီတံ၊ မိုးသီချင်းကို။ ဂါယန္တော၊ သီလျက်။ ပါစီနလောကဓာတု အဘိမုခေါ၊ အရှေ့လောကဓာတ်သို့ ရှေ့ရှုလျက်။ ပက္ခန္ဒတိ၊ ပြေး၏။ အထ၊ ထိုပြေးသောအခါ၌၊ ပါစီနဒိသာဘာဂေ၊ အရှေ့မျက်နှာအဖို့၌။ ခလမဏ္ဍလမတ္တံ၊ ကောက်နယ်ဘလင်းမျှ လောက်သော။ ကေမေဃပဋလံ၊ တစ်ခုသော မိုးတိမ်လွှာသည်။ ဥဋ္ဌာယ၊ တက်လတ်၍။ သတပဋလ သဟဿပဋလံ၊ တစ်ရာသော တိမ်လွှာ၊ တစ်ထောင်သော တိမ်လွှာသည်။ ဟုတွာ၊ ဖြစ်၍။ အဘိတ္ထုနန္တော၊ ကြည်းဟည်းလျက်။ ဝိဇ္ဇုလတာ၊ လျှပ်စစ်နွယ်တို့ကို။ နိစ္ဆရေန္တော၊ ထွက်စေလျက်။ အဓောမုခံ၊ အောက်သို့မျက်နှာမူလျက်။ ဌပိတဉဒက ကုမ္ဘောဝိယ၊ ထားအပ်သော ရေအိုးကဲ့သို့။ ပါဝဿိ၊ ရွာလတ်၏ဟူ၍ ဆိုသည်။

ဤသို့ ကျမ်းလာသည်ကိုထောက်၍ မိုးတိမ်ဖြစ်ကြောင်းကို သိအပ်၏ဟူပေ။

မိုးခြိမ်းသံလည်း အဘယ်အကြောင်းကြောင့် ဖြစ်သနည်း ဟူငြားအံ့–

**ယထာ အန္တောကုစ္ဆိယံ သံဝိဇ္ဇမာနော ဝါတော ဝိရုဒ္ဓါဟာရာဒိ ပစ္စယသမဝါယေ သတိ ဗဟိဋ္ဌိတာနံ ပိ သောတပထမာဂမနသမတ္ထံ မဟန္တံ သဒ္ဒံ ဇနေတိ။ ဧဝမေဝ အနိလပထံဂတာ ဝါယောဓာတု ဥတုသမုဋ္ဌာနာဒိ မေဃဝလာဟက မာဂမ္မ မဟန္တံ သဒ္ဒံ ဇနေတိ။ တံ လောကော ''မေဃဂဇ္ဇန''န္တိ ဝဒန္တိ**

ဟူသော သာရတ္ထသင်္ဂဟ ပါဠိဖြင့် ဖြေအပ်၏။

**အဓိပ္ပါယ်ကား။** ။ လူတို့၏လည်းကောင်း, ဆင် မြင်းစသည်တို့၏ လည်းကောင်း ဝမ်းတွင်း၌တည်သော လေသည် ဆန့်ကျင်ဘက်ဖြစ်သော အာဟာရ စသည်ကို စားသောအခါ လွန်စွာထကြွတိုးဝှေ့ တိုက်ခတ်ခြင်း ဖြစ်ရကား ပြင်ပ၌ နေသော သူတို့ ကြားလောက်သော အသံကြီးသည် ဖြစ်သကဲ့သို့၊ ကောင်းကင်ခရီး၌ သွားသော လေအစုတွင် ဉတုသမုဋ္ဌာန်ဖြစ်သော မြေငွေ့, ရေငွေ့, ရေမှုန်ကို ဆောင်လျက် တက်သော လေနှင့် တစ်ဖန်တိုးဝှေ့ပြန်သဖြင့် ပြင်းထန်သော အသံသည် ဖြစ်၏။ ထိုအသံကို မိုးကြိုးသံ၊ မိုးခြိမ်းသံ ဟူ၍ လူတို့ခေါ်ကုန်၏။

လျှပ်စစ်သည် အဘယ်အကြောင်းကြောင့် ဖြစ်သနည်းဟူမူကား–

**ယထာ ပါသာဏာဒီနံ ပဟာရဏာပစ္စယာ အာလောကော ပညာယတိ၊ ဧဝမေဝံ ဝါတ မေဃဝလဟကာနံ အညမညပဋိဃာနနေန သဥ္စာတာ လောကံ ဝဇ္ဇုတိ ဝဒန္တိ။**

ဟူသော သာရတ္ထသင်္ဂဟပါဠိနှင့်အညီ၊ ကျောက်နှစ်ခုကို ခတ်သည်ရှိသော် ခတ်ခြင်း ကြောင့် မီးလျှံဖြစ်သကဲ့သို့၊ ထို့အတူ မိုးတိမ်ကို ဆောင်သောလေဟုန်နှင့် အနိလပထ လေဟုန်ခတ်ရာတွင် မီးလျှံကဲ့သို့ ထင်သောအရောင်ကို ''လျှပ်စစ်''ဟူ၍ ဆိုလေသည်။ (စို့သက်တံအကြောင်းကိုကား ယ,သတ် ကာရန်ကဖြေခဲ့ပြီ)။

မိုးရွာခြင်း၏ အကြောင်းကိုကား ဆိုပေပြီ။ မိုးမရွာခြင်း၏ အကြောင်းကား ဘယ်သို့နည်း ဟူငြားအံ့–

**ပဥ္စိမေ ဘိက္ခဝေ ဝဿဿ အန္တရာယာ ယံ နေမိတ္တကာ န ဇာနန္တိ၊ ယတ္ထ နေမိတ္တကာနံ စက္ခု နက္ခမန္တိ၊ ကတမေ ပဥ္စ၊ ဥပရိ ဘိက္ခဝေ အာကာသေ တေဇောဓာတု ကုပ္ပတိ။ တေန ဥပ္ပန္နာ မဟာမေဃာ ဝိဂစ္ဆန္တိ။ ဥပရိအာကာသေ ဝါယောဓာတုကုပ္ပတိ၊ တေန ဥပ္ပန္နာ မဟာမေဃာ ဝိဂစ္ဆန္တိ၊ ရာဟု အသုရိန္ဒော ပါဏိနာ ဥဒကံ သမ္ပဋိစ္ဆိတွာ မဟာသမုဒ္ဒေ ဆဍ္ဍေတိ။ ဝလာဟကဒေဝါ ပမတ္တာဟောန္တိ။ မနုဿာ အဓမ္မိကာ ဟောန္တိ။ အယံ ဘိက္ခဝေ ပဥ္စမော ဝဿဿ အန္တရာယော။**

အစရှိသည်ဖြင့် ဟောတော်မူသော သံယုတ်ပါဠိတော်ဖြင့် သိအပ်၏။

**အဓိပ္ပါယ်ကား။** ။ ချစ်သားတို့၊ မိုးရွာခြင်း၏ အန္တရာယ်ကား ငါးပါးတည်း။ ဤငါးပါးတို့ကိုကား လောက၌ နိမိတ်ဖတ်တတ်သော ပညာရှိတို့သည် မသိနိုင်ကုန်၊ ပညာရှိတို့၏ မျက်စိဖြင့် အကြောင်းကို မမြင်နိုင်ကုန်။ အန္တရာယ်ငါးပါးဟူသည် အဘယ်နည်း–

ချစ်သားတို့ အထက်ကောင်းကင်၌ နေရှိန်ပြင်း၍ တေဇောဓာတ် ပျက်ခြင်းသည် အကြင်အခါ၌ဖြစ်၏။ ထိုအခါ၌ ကြီးစွာသောမိုးတို့သည် မရွာကုန်။ ဤလည်းတစ်ပါး။

ချစ်သားတို့ အောက်က တက်လေသမျှသော ရေမှုန်တိမ်ထပ်တို့ကို ကောင်းကင်လေပြင်းခတ်၍ လွင့်ခြင်းဟူသော ဝါယောဓာတ် ပျက်ခြင်းသည် အကြင်အခါ၌ ဖြစ်၏။ ထိုအခါ ကြီးစွာသော မိုးတို့သည် မရွာကုန်။ ဤလည်း တစ်ပါး။

ချစ်သားတို့ အကြင်ခါ၌ ရာဟု အသူရိန်သည် ရွာလတ္တံ့သော မိုးရေတို့ကို လက်ဝါးဖြင့်ခံယူကာ သမုဒ္ဒရာ၌ ပစ်စွန့်၏။ ထိုအခါ ကြီးစွာသော မိုးတို့သည် မရွာနိုင်ကုန်။ ဤလည်းတစ်ပါး။

ချစ်သားတို့ အကြင်အခါ၌ ဝလာဟက နတ်တို့သည် မလှည့်ပတ် မမြူးတူးကုန်။ မိမိဗိမာန်အတွင်း၌သာ မေ့လျော့ကာ နေကုန်၏။ ထိုအခါ ကြီးစွာသော မိုးတို့သည် မရွာနိုင်ကုန်။ ဤလည်းတစ်ပါး။

ချစ်သားတို့ အကြင်အခါ၌ လူတို့ရွာတွင် ပြည့်ရှင်မင်းတို့သည် တရားမစောင့်ကုန်။ ထိုအခါ မှူးမတ်, မင်းခစားသူတို့လည်း တရားမစောင့်ကုန်ရကား လူအများတို့လည်း တရားမစောင့် ဖြစ်ကုန်၏။ ထိုအခါ လူစောင့်နတ်, မြို့ရွာစောင့်နတ်, ရုက္ခစိုး, ဘုမ္မစိုး, အာကာသစိုးနတ်တို့သည် မရွှင်မပျ ညှိုးရော်ကြသဖြင့် နေ လ တို့သည် သွားမြဲခရီးမှလွဲ၍ သွားကုန် ရကား ဥတုပျက်ပြားခြင်းသည် ဖြစ်၏။ ထိုအခါ၌လည်း ကြီးစွာသောမိုးတို့ သည် မရွာကုန်။ ဤလည်း တစ်ပါး။

ဤသို့လျှင် မိုးရွာခြင်း၏ အန္တရာယ်ဖြစ်သော မိုးမရွာခြင်း၏ အကြောင်းကား ငါးပါးရှိသတည်း–ဟူလိုသည်။

**အကျဉ်းကား–**မြေ, ရေ, လေ, မီး ဟူသောဥတုသမုဋ္ဌာန်ကြောင့်လည်းကောင်း၊ အဗ္ဘဝလာဟကနတ်၏ အာနုဘော်ကြောင့်လည်းကောင်း တိမ်ဖြစ်၏–ဟူလိုသည်။

**''အိမ်''ကာရန်ပုစ္ဆာ ၁၁–ပုဒ်အဖြေ ပြီး၏။**

❖❖❖❖❖

## (၁၁) ''အိမ့်'' ကာရန်ပုစ္ဆာ ၈–ပုဒ်အဖြေ

### ၃၂၅။ ရပ်တော်သိစိမ့်၊ တိုင်းထွာပိမ့်၊ မြင်လိမ့်အဘယ်တန်ခိုးနည်း။ (၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပါရမီဖြည့်သော ကုသိုလ်ကံတော်၏ တန်ခိုးတော်ကြောင့် ဖြစ်ရကား တန်ခိုးဆယ်ပါးတွင် ကမ္မဝိပါကဇိဒ္ဓိ တန်ခိုးဖြစ်သည် ဟု မှတ်။

ထိုစကား၏သက်သေကို ဆိုလိုက်ဦးအံ့၊ ရာဇဂြိုဟ်ပြည်၌ တစ်ယောက်သော ပုဏ္ဏားသည် အရှင်ဂေါတမ၏ အရပ်ပမာဏကို တိုင်းထွာ၍ မဖြစ်နိုင်ဟူသော စကားကို ကြား၍ ငါတိုင်းထွာအံ့ဟု ကြံလျက် ဘုရားရှင် ဆွမ်းခံဝင်သောကာလ မြို့တံခါး၏အဝ၌ အတောင် ၆၀–မျှလောက်သော ဝါးကိုထောင်၍ ထိုဝါး၏ အနီး၌ စောင့်၍ ကြည့်ရှုကာ နေလေ၏။ မြတ်စွာဘုရားလည်း ထိုဝါး၏အနီး ခရီးဖြင့်ကြွလာသော် အမြင့် အတောင် ၆၀–ရှိသော ဝါးသည် ဘုရားသခင် ပုဆစ်တော်ကို မှီရုံမျှသာ ရှိ၏။ ပုဏ္ဏားလည်း နောက်တစ်နေ့၌ အတောင် ၆၀– ဝါးတစ်လုံးဖြင့် ဆင့်၍ထားပြန်၏။ ဘုရားကြွလာသော် ထိုသံတောင် ၁၂၀–ရှိသော ဝါးသည် ပုဆစ်တော်ကို မှီရုံမျှသာရှိပြန်၏။ ပုဏ္ဏားလည်း ဤသို့သော အံ့ဖွယ်ကို မြင်လျှင်ရင်သပ်၍ ပါးစပ်ဟကာ ချီးပ၏။

ဘုရားသခင်လည်း ''သင်ပုဏ္ဏား–အဘယ်ကို ပြုသနည်း''ဟု မေး၏။ ''အရှင်မြတ်၏ ကိုယ်ရပ် ပမာဏကို သိရအောင် တိုင်းပါသည်''ဟု လျှောက်လျှင် ''သင် ပုဏ္ဏား–ဤမျှကိုမဆိုထားဘိ စကြဝဠာတိုက်အလုံး ပြည့်အောင်သော ဝါးတို့ကိုဆက်၍ တိုင်းငြားသော်လည်း ငါဘုရား၏ ပမာဏကို မယူနိုင်ရာ။ ငါဘုရားသည် လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ကာလပတ်လုံး ပါရမီကို ဖြည့်တော်မူသော အခါ၌ တစ်ပါးသော သူတို့သည် တူတန် နှိုင်းရှည့်စရာ ပမာဏဖြင့် ဖြည့်တော်မမူ။ အတု မရှိသော လုံ့လ, ပညာ, သဒ္ဓါ ရှေ့သွားဖြင့် အားသစ်၍သာ ဖြည့်တော်မူသည်။ ထို့ကြောင့် အပ္ပမေယျ ငါဖြစ် တော်မူသည်''ဟု မိန့်တော်မူ၍ ဓမ္မပဒဂါထာကို ဟောတော်မူ၏။

**န ဟိ မယာ စတ္တာရိ အသင်္ချေယျာနိ၊ ကပ္ပသတသဟဿဥ္စ။**
**ယထာ ပါရမိယော ပူရိတာ၊ တထာ မေ ပရော ပမာဏံ ဂဏှေယျ။**
**အတုလော ဗြာဟ္မဏ တထာဂတော အပ္ပမေယျောတိ။**

ဟူ၍ ကျမ်းလာသည်ကို ထောက်သဖြင့် ကမ္ဗဝိပါကဇိဒ္ဓိဖြစ်ကြောင်းကို သိအပ် သတည်း။

❖❖❖❖❖

**၃၂၆။ မဟောလက်နှိမ့်၊ ပတ္တမြားလိုမ့်၊ ယွင်းချိမ့်မှုသားပါလိမ့်နည်း။ (၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒေဝ၊ အရှင်မင်းကြီး။ ကေဝဋ္ဋေဗြာဟ္မဏံ၊ ကေဝဋ္ဋပုဏ္ဏားကို။ မဏိရတနေန၊ ပတ္တမြားရတနာဖြင့်။ ဝဋ္ဋိတုကာမော၊ လှည့်ပတ်လိုသည်။ အမို၊ ဖြစ်၏။ အဋ္ဌဝင်္ကံ၊ ရှစ်ပါးသောအကောက်ရှိသော။ မဏိရတနံ၊ ပတ္တမြားရတနာကို။ လဒ္ဓါ၊ ရခြင်းငှာ။ ဝဋ္ဋတိ၊ သင့်၏။ ဣတိ၊ ဤသို့။ ဝုတ္တေ၊ လျှောက်ပေသော်။ တာတ၊ ချစ်သား မဟော်။ ဂဏှထ၊ ယူလေလော့။ ဣတိ၊ ဤသို့။ အာဟ၊ ဆို၏။ သော၊ ထိုဘုရား လောင်းသည်။ တံ၊ ထိုပတ္တမြားကို။ ဂဟေတွာ၊ ယူ၍။ ရာဇာနံ၊ မင်းကို။ ဝန္ဒိတွာ၊ ရှိခိုး၍။ ရာဇာဂေဟတော၊ နန်းတော်မှ။ နိက္ခမိတွာ၊ သက်၏။

ဤသို့ စသည်ဖြင့် မဟော်သဓာဇာတ်၌ လာရကား ဝိဒေဟရာဇ်မင်းကို လျှောက်ရင်းကပင် ဤပတ္တမြားဖြင့် ပုဏ္ဏားကို လှည့်ပတ်လိုသည် ဟူသည်နှင့် အညီ တရားသဘင်သို့ ရောက်သောအခါ ''ဆရာကေဝဋ္ဋ–သင်တို့အား လျှောက်ပတ်သော လက်ဆောင်ကို ရှာသော် ဤပတ္တမြားရတနာကိုရ၍ ကျွန်ုပ်ဆောင်ခဲ့သည်။ ဤပတ္တမြား ကိုယူလော့''ဟု အကယ်ပေးဟန် ပြောဆိုချေရကား မုသာဝါဒအင်္ဂါစုံညီသည်ဖြစ်၍ မုသာဝါဒဖြစ်၏ဟု ဆိုရမည်။

''စောင့်သည်မှသား၊ ကြဉ်ရှောင်ရှား၍၊ ဘုရားအလျာ၊ သူတော်စွာတို့၊ သစ္စာမှန်ကုန်ဘိသတည်း။''

ဟူ၍ ပါရမီခန်း၌ စပ်တော်မူသည်မှာ သစ္စာပါရမီကို ဖြည့်သော ဘဝတို့၌ မှန်သည်ကိုသာ ယေဘုယျနည်းအားဖြင့် ယူ၍ စပ်သည်၊ ပညာပါရမီ, ဝီရိယပါရမီကို ဖြည့်သောဘဝတို့၌ စိုးစဉ်းမှသားပါသည်ပင်။ ယင်းသို့ ပါသော်လည်း စပါးကောင်း စပါးစင်ဆိုရာ၌ အဖျင်း စိုးစဉ်း မလွတ်သကဲ့သို့ ယေဘုယျနည်းဖြင့်သာ မှသားစောင့်၏ ဆိုလေသည်ဟု ယူရမည်။

❖❖❖❖❖

## ၃၂၇။ မိုးတစိမ့်စိမ့်၊ လိမ်နိမ့်နိမ့်၊ ငြိမ့်ငြိမ့်ပြည်ကြောင်းဘယ်သို့နည်း။ (၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဝါယောဓာတုဝေဂါနံ၊ ဝါယောဓာတ် အဟုန်တို့၏။ ပဟရတော၊ တိုက်ခတ်တိုးဝှေ့ခြင်းကြောင့်။ မဟာမေဃသဒ္ဒါနိ၊ ပြင်းထန်သော မိုးသံတို့သည်။ ဥပ္ပန္နာနိ၊ ဖြစ်ကုန်၏။

❖❖❖❖❖

## ၃၂၈။ တရားမှန်စိမ့်၊ စီရင်ပိမ့်၊ မှားချိမ့်အပါယ်လွတ်လိမ့်နည်း။ (၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သူ့အား နိုပ်စက်လိုသောစိတ် မရှိဘဲ မသိသဖြင့်လွဲ၍ တရားမှားသော်လည်း အပါယ်ပဋိသန္ဓေကို ပေးခြင်းမရှိ။ ပြစ်မှား နှိပ်စက်လိုသောစိတ်နှင့်လွဲအောင်၊ ရှုံးအောင် စီရင်မှသာ အပါယ်ပဋိသန္ဓေကို ပေး၏ ဟူပေ။

ထို့ကြောင့် ဓမ္မပဒပါဠိတော်၌–

**မနောပုဗ္ဗင်္ဂမာ ဓမ္မာ၊ မနောသေဋ္ဌာ မနောမယာ။**
**မနသာ စေ ပဒုဋ္ဌေန၊ ဘာသတိ ဝါ ကရောတိ ဝါ။**
**တတော နံ ဒုက္ခမန္ဝေတိ၊ စက္ကံဝ ဝဟတော ပဒံ။**

ဟူ၍ ဟောတော်မူသည်။

**အနက်ကား။** ။ ဓမ္မာ၊ နာမက္ခန္ဓာတရားသုံးပါးတို့သည်။ မနောပုဗ္ဗင်္ဂမာ၊ ဝိညာဏက္ခန္ဓာသာလျှင် ပြဓာန်းခြင်းရှိကုန်၏။ မနောသေဋ္ဌာ၊ စိတ်သာလျှင် အမြတ်ရှိကုန်၏။ မနောမယာ၊ စိတ်သာလျှင် ပြီးစေအပ်ကုန်၏။ ပဒုဋ္ဌေန၊ ပြစ်မှားလိုသော။ မနသာ၊ စိတ်ဖြင့်။ စေ၊ အကယ်၍။ ဘာသတိဝါ၊ ဆိုမူလည်းဆိုအံ့။ ကရောတိဝါ၊ ပြုမူလည်းပြုအံ့။ တတော၊ ထိုပြုခြင်းကြောင့်။ ဒုက္ခံ၊ ဆင်းရဲသည်။ နံ၊ ထိုပြုသောပုဂ္ဂိုလ်သို့။ အန္ဝေတိ၊ အစဉ်လိုက်၏။ ကိမိဝ၊ အဘယ်ကဲ့သို့နည်း

ဟူမှုကား။ ဝဟတော၊ ဝန်ကိုရွက်ဆောင်တတ်သော နွား၏။ ပဒံ၊ ခြေရာသို့။ စက္ကံ၊ လှည်းဘီးသည်။ အန္ဒေတိက္ကဝ၊ အစဉ်လိုက်သကဲ့သို့တည်း ဟူ၍ ဟောတော်မူသည်။

❖❖❖❖❖

၃၂၉။ သူနာလွတ်စိမ့်၊ ဆေးကုပိမ့်၊ သေလိမ့်ငရဲ ရောက်ချိမ့်နည်း။ (၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား - ရှေးနည်းတူ သေစေလိုသောစိတ်ဖြင့် မသင့်သောဆေး အစာကိုပေး၍ သေမှ ပါဏာတိပါတကံ အင်္ဂါငါးပါး ပြည့်စုံသည်ဖြစ်၍ ငရဲရောက်၏။ ကရုဏာစိတ်ဖြင့် ချမ်းသာအောင် ကုမပါလျက် အနာနှင့် ဆေး မတွေ့ မသင့်၍ သေရာ၌ အပြစ်မရှိဟူပေ။

❖❖❖❖❖

၃၃၀။ ယှဉ်မှီလိုက်ချိမ့်၊ ဖူးရစိမ့်၊ သည်စိမ့်ဘယ် အနက်ဟောနည်း။ (၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဖူးစေမည်ဟု စကားကျသောကြောင့် ကာရိုက်အနက်ကို ဟော၏ဟူပေ။

❖❖❖❖❖

၃၃၁။ ကျင့်ရာနှစ်သိမ့်၊ ဝမ်းကွဲစိမ့်၊ သည်စိမ့်မူကား ဘယ်သို့နည်း။ (၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ၎င်းကာရိုက်အနက်ပင်။

❖❖❖❖❖

၃၃၂။ တရားနာငြိမ့်၊ နားတော်စိမ့်၊ စိမ့်ချင်းခြား၏မည်သို့နည်း။ (၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ''သုဏောဟိ၊ နာတော်မူလော့၊ နားထောင်လော့။ နားစိမ့်လော့''ဟူသော စကားမျိုးဖြစ်ရကား အာဏာတ္တိ အနက်ကို ဟော၏ဟူပေ။

(၁၁) ''အိမ်း'' ကာရန်ပုစ္ဆာ ၈-ပုဒ်အဖြေပြီး၏။

❖❖❖❖❖

(၁၂) ''အိမ့်''ကာရန်ပုစ္ဆာ ၆-ပုဒ် အဖြေ

၃၃၃။ မဟော်ရန်ငြိမ်း၊ငါဟုကြိမ်း၊မသိမ်းပြည်ထောင်ဘယ်ကြောင့်နည်း။ (၁)

ဟူသောအမေးပုစ္ဆာ၌အဖြေဝိသဇ္ဇနာကား-အကုသိုလ် မဖြစ်စေလိုသောကြောင့် မသိမ်းသည် ဟူပေ။

41
B

ထိုစကားကို ထင်စွာ ဆိုလိုက်ဦးအံ့– မဟော်သဓာ သုခမိန်သည် စူဠနီ ဗြဟ္မဒတ်မင်းအား ဥမင်တွင်းသို့သွင်း၍ ပြည့်ဆွန်းသောအခါ တစ်ခုသော အထောင့် နေရာသို့ ရောက်လျှင် ထက်ဝန်းကျင်တံခါးကို ပိတ်စေတတ်သောစက်မောင်းကို နင်းလျက် ပိတ်စေပြီးမှ မင်းကြီး၏ ဦးခေါင်းကိုနှိပ်လျက် အထက်မြှုပ်ထားခဲ့သော သန်လျက်ကို ကိုင်၍ စူဠနီမင်း၏ လည်ထက်တင်ပြီးလျှင် ''ဇမ္ဗူဒိပ်ကျွန်း အပြင်၌ရှိသော နိုင်ငံမြို့ပြနှင့် တကွသော မင်း၏စည်းစိမ်သည် အဘယ်သူ၏ စည်းစိမ်နည်း''ဟု မေး၏။ ''သုခမိန် သင်၏ စည်းစိမ်ပင် ဖြစ်ပေသည်။ အကျွန်ုပ်အသက်ကို ချမ်းသာပေးပါ''ဟု တောင်းပန်၏။ မဟော်သဓာလည်း ''အရှင်မင်းကြီး မကြောက်လင့်၊ မင်းကြီးကို ပယ်ရှားလို၍ အကျွန်ုပ် သန်လျက်ပြသည် မဟုတ်၊ အကျွန်ုပ်၏ ပညာအစွမ်းကို သိစေလို၍သာ ပြပါသတည်း။ မင်းကြီးစိုးရိမ်လျှင် ဤသန်လျက်ကို မင်းကြီးပင် စွဲတော်မူလော့''ဟု သန်လျက်ကို မင်းကြီးထံသို့ အပ်ပြီးသော် ''အရှင်မင်းကြီး၊ ဤသန်လျက်ဖြင့် အကျွန်ုပ်ကို ကွပ်မျက် စီရင်တော်မူလိုလျှင်လည်း စီရင်တော်မူ''ဟု အခွင့်ပေး၏။

စူဠနီမင်းကလည်း ''သုခမိန်၊ သင့်ကိုဘယ့်ကြောင့် ကျွန်ုပ်စီရင်ပါအံ့နည်း။ သုခမိန်၏ ဂုဏ်ကျေးဇူးကိုသာ လွန်စွာအောက်မေ့ပါ၏''ဟု ဆိုလျှင် ''အရှင်မင်းကြီး၊ ထိုသို့ ဖြစ်တပြီးကား ယနေ့မှစ၍ အသက်ရှိသမျှကာလပတ်လုံး ကျွန်ုပ်ကို ဘေးမဲ့ပေးတော်မူပါ'' ဟု ဆို၏။ စူဠနီမင်းလည်း ''သုခမိန် မစိုးရိမ်လင့်။ ယနေ့မှစ၍ သားအဖ၏ အသွင် အသက်သခင်ဟု မှတ်လျက် တစ်သက်ပတ်လုံး ကောင်းကျိုးကိုသာ ဆောင်ပါအံ့''ဟု သစ္စာကို ဆိုကြ၍ ညီညွတ်ကြပြီးသော် စူဠနီမင်းကြီးက ဤသို့ဆို၏ ''သုခမိန်–ဤသို့သော ပညာစွမ်းရှိပါလျက် ဇမ္ဗူဒိပ်ကျွန်းအလုံးကို သိမ်းရုံး၍ ဘယ့်ကြောင့်မင်းမပြုပါသနည်း''ဟု ဆို၏။ ဘုရားလောင်းကလည်း ''အရှင်မင်းကြီး အကျွန်ုပ်သည် အကယ်၍ မင်းအဖြစ်ကို အလိုရှိသည်ဖြစ်အံ့၊ တစ်နေ့ချင်းဖြင့်ပင် ဇမ္ဗူဒိပ်ကျွန်း အပြင်၌ရှိသော တစ်ရာ့တစ်စင်း ထီးဆောင်မင်းတို့ကို ဖမ်းယူသုတ်သင်၍ ကေရာဇ်မင်ပြုခြင်းငှာ စွမ်းနိုင်ပါ၏။ ယင်းသို့ စွမ်းနိုင်သော်လည်း မိမိကောင်းစားလို၍ သူတစ်ပါးကို ညှဉ်းဆဲခြင်း, သူ့စည်းစိမ် ဥစ္စာကို သိမ်းယူခြင်း မည်သည်ကား ရှေး ဘုရားအလောင်းသူတော်ကောင်းတို့၏ ကျင့်ဟောင်း လမ်းစဉ်မဟုတ်၊ ထိုဒုသီလ အမှုကြောင့် ရအပ်သော စည်းစိမ်ချမ်းသာကို ဘုရား, ပစ္စေက ဗုဒ္ဓါ, ရဟန္တာ အစရှိကုန်သော အရိယာ သူတော်ကောင်းတို့သည် မချီးမွမ်းကုန်။ အကျွန်ုပ်သည်ကား သူတော်ကောင်းတို့ ချီးမွမ်းအပ်သော အကျင့်ကိုသာ အလိုရှိပါသည် ဖြစ်၍ အပါယ်လားကြောင်းဖြစ်သော သူအားနှိပ်စက်ခြင်းကို မပြုလို၍ ပြည်ထောင်တို့ကို မသိမ်းယူပါသတည်း''ဟု ဆို၏။

ထို့ကြောင့် ဇာတ်တော်၌-

**အထ ရာဇာ ဗောဓိသတ္တံ အာဟ ''ပဏ္ဍိတ ဝေ၀ံ ဉာဏသမ္ပန္နော ဟုတွာ ရဇ္ဇံ ကသ္မာ နဂဏှာသီ''တိ။ မဟာရာဇ အဟံ ဣစ္ဆမာနော အဇ္ဇေဝ သကလဇမ္ဗုဒိပေ ရာဇာနော မာရေတွာ ရဇ္ဇံ ဂဏှေယျံ။ ပရံ မာရေတွာ ယသဂ္ဂဟဏံ နာမ ပဏ္ဍိတေဟိ န ပသဋ္ဌန္တိ။**

ဟူ၍ လာသည်။

❖❖❖❖❖

## ၃၃၄။ တေမိမအိမ်း၊ မလှုပ်တိမ်း၊ စပ်ရှိမ်းဝိပါက်ပါလိမ့်နည်း။ (၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- တေမိမင်းသည် မတုန်မလှုပ် နေသောကြောင့် တစ်နှစ်သားကပင် နို့မကျွေးခြင်းစသော အလိုစမ်းခြင်း ၁၆-ရပ်တို့ဖြင့် မှူးမတ် မင်းချင်းတို့ နှိပ်စက်သည်ကို ခံရခြင်းသည် ရှေး ဝိပါက်ရှိကြောင်းကို ကျမ်းဂန် မလာ။

သဘောကို တိုင်းထွာသော် ပါရမီဖြည့်လို၍ ခံတော်မူခြင်း ဖြစ်ရကား ရှေးဝိပါက် ကြောင့် ဖြစ်သည်ဟူ၍လည်း မယူသင့်။ အကယ်၍ ဝိပါက်ပါသည်ဟု ဆိုငြားအံ့။ အလှူပေးခြင်း, သီလဆောက်တည်ခြင်း, တောထွက်ခြင်း အစရှိသော ပါရမီဟူသမျှ၌ ရှေးဝိပါက်ကြောင့်သာ ပြုရသည်ဟု ဆိုရာကျတော့မည်။ ထို့ကြောင့် မယူသင့်။

❖❖❖❖❖

## ၃၃၅။သူ့အားခြောက်ခြိမ်း၊ခိုးမှုဒိမ်း၊တိမ်း ယိမ်းဇာတ်တော်ဘယ်မျှနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ငါတို့ဘုရားအလောင်းတော် ခိုးသားဖြစ်သည်မှာ ငါးရာငါးဆယ်သော ဇာတ်တို့တွင် တိကနိပါတ်၌ သင်္ဂါယနာ တင်အပ်သော စောရာဇေဋ္ဌတစ်ဇာတ်, စတုက္ကနိပါတ်၌ သင်္ဂါယနာတင်အပ်သော နာဂဗလ ခိုးသား တစ်ဇာတ်, ဤနှစ်ဇာတ်သာ ဖြစ်ဖူးသည်။

ထိုနှစ်ဇာတ်တို့တွင်-

**ရှေ့ဇာတ်၏အတ္ထုပ္ပတ္တိကား**- လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းကြီးသည် မင်းပြုသောအခါ ငါတို့အလောင်းတော်သည် ကာသိကရွာငယ်၌ တစ်ဦးသော ခိုးသူမျိုး၌ဖြစ်၍ အရွယ်သို့ရောက်သောအခါ ငါးရာသော ခိုးသူတို့၏ အကြီးအမှူးလုပ်၍ အသက်မွေး၏။ ထိုတောအုပ်သို့ လူသူ အလာအသွား ပြတ်သော် မြို့ ရွာ နိဂုံးသို့ ကပ်၍ ခြံစပ်ဖောက်ခြင်း စသည်ကို ပြု၏။

ထိုဗာရာဏသီပြည်၌ သူကြွယ်တစ်ဦးသည် ဇနပုဒ်သားဖြစ်သော မိတ်ဆွေတစ်ဦးအား အသပြာတစ်ထောင်ကို ချေး၍ ထိုကြွေးကိုမရမီ ကံကုန်၏။ သူကြွယ်မယားလည်း များမကြာမီ ရောဂါရောက်၍ သေလောက်နီးမျှဖြစ်သော် သားကိုခေါ်၍ ''ချစ်သား-အမောင့် ဖခင်သည် ဤသူ၏လက်တွင် အသပြာတစ်ထောင်ကို နှံခဲ့၏။ ငါသေလွန်ငြားက ချစ်သားအား မပေးဘဲ ရှိတော့မည်။ မိခင် အသက်ရှိစဉ် ချစ်သားတောင်းချေ''ဟု စေလိုက်၏။ သားလည်း မိခင်ဆိုတိုင်းသွား၍ တောင်းသဖြင့် ထိုအသပြာတစ်ထောင်ကို ရလတ်သော် မြန်စွာ ပြန်၍လာ၏။

သူကြွယ်မလည်း သားသွား၍ မကြာမြင့်မီပင် ကံကုန်လေသဖြင့် သား၌လည်းကောင်း၊ ဥစ္စာ၌လည်းကောင်း မက်မောသောစိတ်ရှိရကား သွားလာတတ်သော ခရီးအကြား တောအုပ်ဝ၌ ဥပပတ် မြေခွေးမ ဖြစ်လေ၏။

ထိုတောဝ၌လည်း ဘုရားလောင်း ခိုးသူကြီးသည် လက်သား ငါးရာနှင့်တကွ လုယက်စားသောက်ကာ နေ၏။ ထိုသူကြွယ်သားလည်း ပြန်ခဲ့၍ တောအုပ်ဝသို့ ရောက်သော် အမိဖြစ်ဖူးသော မြေခွေးမက ဤတောအုပ်သို့ ငါ့သားရောက်လျှင် ခိုးသူတို့ ဥစ္စာကိုယူ၍ လူကို သတ်လေတော့မည်ဟု ကြံလျက် ပြင်းထန်စွာ ဟောင်လင့်၏။ သူကြွယ်သားလည်း ထိုအကြောင်းကို မသိသောကြောင့် မြေခွေးမကို တုတ် လှံတန် တို့ဖြင့် ပစ်ခြောက်၍ တောသို့ဝင်၏။

ထိုအခါ ထိုတောအုပ်၌နေသော သတပတ္တမည်သော ငှက်သည် ''ဤယောကျ်ား လက်တွင်ပါသော အသပြာထောင်ထုပ်ကို ခိုးသူတို့ယူ၍ ဤသူအား သတ်ကြပါ သတ်ကြပါ''ဟု သာယာသောအသံဖြင့် လွန်စွာကြွေးကြော်၏။ ယောကျ်ားက အလွန် မင်္ဂလာရှိသော ငှက်ပေ-ဟု စုံမက်မြတ်နိုး၍ ရှိခိုးတောင့်တခြင်းကို ပြုလျက် တောအုပ်သို့ ဝင်လေ၏။

ဘုရားလောင်း ခိုးသူကြီးလည်း တစ်ခုသော သစ်ပင်ထက်မှ အသွားအလာကို ကြည့်ကာနေသည်နှင့် မြေခွေးမ၏ လည်းကောင်း, သတပတ္တငှက်၏ လည်းကောင်း ဆိုသောစကားကို ကြား၍ ဆင်ခြင်သော် ဤတောကို မဝင်လင့်ဟု ဟောင်သော မြေခွေးသည် ဤသူ၏မိခင် ဖြစ်ဖူးလေရာသည်။ သတပတ္တငှက်ကား ရန်သူဖြစ်ဖူးလေရာသည်။ ယင်းသို့ ပျက်စီးကြောင်းကို မြည်တွန်လာသော ငှက်ကို လက်အုပ်ချီ၍ ကောင်းကျိုးပြောပြသော မြေခွေးကို ခြောက်လှန့်သော ဤယောကျ်ားကား အလွန်မိုက်စွ။ အံ့ဖွယ်ရှိလေစွ-ဟု မြည်တမ်းပြီးသော် ထိုယောကျ်ားနှင့် မနီးမဝေးသော ခရီးကွေ့ဖြင့် လိုက်လေ၍ ခိုးသားတို့နေသော အရပ်သို့ ရောက်လတ်သော် ဘုရားလောင်းခိုးမှူးသည် ထွက်တည့်၍ ထိုသူ၏လက်ကို ကိုင်ပြီးမှ ''သင်သည် အဘယ်ရွာသားနည်း''ဟု မေး၏။ သူကြွယ်သား ကလည်း ''အကျွန်ုပ်သည် ကာသိက ရွာသားဖြစ်သည်''ဟု ဆို၏။ ''အဘယ်မှ လာသနည်း''ဟု မေးပြန်သော်

''ဤမည်သော ရွာ၌ အသပြာတစ်ထောင် ရရန်ကို တောင်း၍ လာသည်''ဟု ပြောလျှင် သင့်ကို ဘယ်သူက တောင်းချေစေ၍ လာသနည်း''ဟု မေးပြန်၏။ ''မိခင်သည် ပြင်းထန်စွာ ရောဂါရောက်၍ စေလိုက်သောကြောင့်လာ၍ တောင်းရပါသည်''ဟု ပြောလျှင်– ''သင်၏ မိခင်သည် သေလွန်ပြီ။ သင့်အား သနားကြောင့်ကြလျက် သေရခြင်းကြောင့် မြေခွေးမ ဖြစ်ရာသည်။ သင်တောသို့ ဝင်စအခါက ဤတောသို့ မဝင်နှင့်ဟု ဟောင်သော မြေခွေးမသည် သင့်မိခင်တည်း။ ယင်းသို့ ကောင်းကျိုး စကားကို ကြားလင့်ပေသော မိခင်အား တုတ် လုံတန်ဖြင့် ပစ်ခြင်းသည် သင် အမိုက်လွန်လှတော့သည်။ သင့်ကို ဖမ်းပါ၊ ဥစ္စာကို လုယူပါ–ဟု ကြွေးကြော်သော သတပတ္တငှက်သည် သင်၏ရန်သူ ဖြစ်သည်။ ရန်သူကိုကား ရှိခိုး ပူဇော်သည်။ သို့စင် မိုက်သော သင်ယောက်ျားနှင့် ဤအသပြာတစ်ထောင်မတန်ချေ။ ငါ့အားပေးခဲ့၍ သင်ချမ်းသာစွာသွားလေတော့''ဟုဆို၍ ဥစ္စာကိုယူပြီးမှ လူကို လွှတ်လိုက်၏။ ဇာတ်ပေါင်းသောအခါ ''ဤခိုးမှူးသည် ငါဘုရားဖြစ်တော်မူ၏''ဟု ပေါင်းတော်မူ၏။

**နောက်ဇာတ်၏ အတ္တုပ္ပတ္တိကား**– လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းကြီးသည် မင်းပြုလတ်သော် ငါတို့ဘုရားအလောင်းတော်သည် သူကြွယ် တစ်ဦး၏အိမ်၌ စောရနက္ခတ်နှင့်ယှဉ်လျက် ဖွားမြင်၏။ အရွယ်သို့ ရောက်သောအခါ ခိုးမှုဖြင့်သာ အသက်မွေးရကား မြို့ကျေးရွာ၌ လွန်စွာထင်ရှား၏။ ဆင်ပြောင်ကြီး၏ အားနှင့်တူသောကြောင့် သူတစ်ထူးတို့လည်း ဖမ်းယူခြင်းငှာ မတတ်နိုင်ကုန်ရကား ''နာဂဗလ ခိုးသား''ဟု အများသမုတ်ကြ၏။

တစ်နေ့သ၌ သူဌေး၏အိမ်တွင် ဝင်၍ခိုးလတ်သော် အဖိုးထိုက်တန်သောဥစ္စာ အများပါလေ၍ သူဌေးက မင်းကြီးထံသွား၍ လျှောက်ကြားလေ၏။ မင်းကြီးလည်း မှူးမတ် မြို့ဝန်တို့အား အာဏာပေး၍ အစည်းအကြပ်ဖြင့် ဖမ်းစေလျှင် ထိုခိုးသားကိုမိ၍ မင်းကြီးအား ပြလေ၏။ မင်းကြီးကလည်း မြို့ကျေးရွာကို ဖျက်ခြင်းများသသူ ဖြစ်ရကား ထင်ရှားအောင် သတ်လေ–ဟု စေလိုက်၏။ မြို့ဝန် ထောင်မှူးတို့လည်း ထို နာဂဗလကို လက်ပြန် နှောင်ဖွဲ့စေ၍ လည်၌ နီသော ခေါင်ရန်းပန်းကို ဆွဲပြီးမှ ဆံကို ကြဖြန့်စေ၍ ထိပ်ထက်၌ အုတ်မှုန့်တို့ကို ဖြူးလျက် အသံထွက်သော စည်မောင်းကို တီး၍ ခရီးဆုံ ဟူသမျှ ချ၍ချ၍ ရိုက်ခတ်ပြီးလျှင် သုသာန်သို့ ဆောင်၏။

ထိုပြည်၌ သာမာမည်သော ပြည့်တန်ဆာမသည် အရံ ငါးရာနှင့်တကွ နေ၏။ မင်းတို့လည်း အလွန်ကျွမ်းဝင်၏။ နာဂဗလ ခိုးသားလည်း ထိုပြည့်တန်ဆာမ၏ ပြာသာဒ် အပါးသို့ရောက်သော် သာမာသည် ကြည့်မျှော်လေသည်နှင့် နာဂဗလ ခိုးသူကိုမြင်လျှင် ''ဤလုလင်သည် လူတွင်လွန်ကဲသော အဆင်းအရောင်ရှိလျက် အကျိုးမဲ့ အသက်ကုန် ချေတော့မည်။ ငါယူ၍ လင်ပြုရသော် လျော်၏''ဟု ကြံ၍ မြို့ဝန်ထံ တမန်စေလွှတ်၏။

မြို့ဝန်ကလည်း ''နာဂဗလ ခိုးသားသည် ပြည်လုံးထင်ရှားသောသူ ဖြစ်သည်။ ငါတို့ မလွှတ်သာ၊ အကယ်၍ လွှတ်စေချင်ပါမူ လူစားထောင်လော့''ဟု ဆိုလိုက်၏။

ထိုစကားကို ပြည့်တန်ဆာမ သာမာ ကြားသော် မိမိထံသို့ လူလာမည်ကို မျှော်၍ နေသည်နှင့် သူဌေးသားတစ်ဦးသည် ထိုသာမာနှင့် ပျော်ပါးခြင်းငှာ အသပြာတစ်ထောင်ကို ယူ၍ နေ့တိုင်းလာမြဲဖြစ်သည်နှင့် ထိုနေ့ လာလတ်သော် သာမာလည်း ထိုအသပြာ တစ်ထောင်ကိုယူ၍ ပေါင်အောက်၌ ထားပြီးမှ များစွာ ငိုယိုလျက်နေ၏။ သူဌေးသားက ဘယ့်ကြောင့်ငိုသနည်းဟု မေးသော် ''အမောင်- အကျွန်ုပ်၏ မောင် အငယ်သည် အရွယ်အလျောက် မိုက်မှားမိ၍ ယနေ့ သေရချေတော့မည်။ မြို့ဝန်ထံသို့ တမန် စေလွှတ်ပါသော် သပြာတစ်ထောင်ပေးလျှင် လွှတ်စေမည်-ဟု ဆိုလိုက်ပါသည်။ ဤအသပြာကို ပို့မည့်သူ မရပါသောကြောင့် အကျွန်ုပ်မောင် သေရတော့မည်ဖြစ်၍ ငိုပါသတည်း''ဟု ဆို၏။

ထိုအခါ သူဌေးသားလည်း သာမာအား တပ်မက်ခြင်း ရှိသည်နှင့် ''အကျွန်ုပ်သွား၍ ပို့မည်''ဟု ဆို၏။ ''ကောင်းပါပြီ ပို့ပါချေ''ဟု ဆိုလိုက်သဖြင့် သူဌေးသားသည် ဥစ္စာကို ယူ၍ မြို့ဝန်မင်းထံသွားလေသော် မြို့ဝန်ကလည်း နာဂဗလခိုးသားကို ဝှက်ကွယ်သော ယာဉ်ဖြင့် သာမာ၏ထံသို့ ပို့စေ၍ သူဌေးသားကို အစားသတ်လေကုန်၏။ သာမာလည်း နာဂဗလ ခိုးသား မိမိအိမ်သို့ ရောက်သည်မှစ၍ သူတစ်ပါးကို လက်မခံဘဲ ထိုယောကျ်ားနှင့်သာလျှင် ကာမဂုဏ်ကို ခံစားလျက်နေ၏။

ထိုအခါ နာဂဗလသည် ဤသို့ကြံ၏ ''ဤမိန်းမသည် ငါ့ကို တပ်မက်သည် ဖြစ်၍ မိမိထံသို့ လာမြဲဖြစ်သော သူဌေးသားကို သေစေသည်။ သူတစ်ပါးကို အကယ်၍ တပ်မက်ပြန်အံ့၊ ငါ့ကိုလည်း ထိုသူဌေးသား အတူပင် သတ်စေလိမ့်သတည်း။ ဤသို့ ခင်ပွန်းပြစ်မှားတတ်သောသူနှင့် အတူနေသဖြင့် မသင့်ချေ။ ပြေးထွက်မှသာ သင့်လိမ့်မည်။ ယင်းသို့ ပြေးထွက်သော် လက်ချည်း မသွားဘဲ ဤမိန်းမ၏ ကိုယ်၌ ဆင်သော ဘဏ္ဍာကို ငါယူ၍ သွားအံ့''ဟု ကြံပြီးသော် တစ်နေ့သ၌ ဤသို့ဆို၏ ''အိမ်ရှင်မ- ငါတို့သည် အိမ်တွင်း၌သာ နေရလေသောကြောင့် ပျင်းရိလှသည်။ နက်ဖြန် ဥယျာဉ်ကစား သွားပါရစေ'' ဟု ဆို၏။

သမာလည်း ခင်ပွန်းယောကျ်ားဆိုတိုင်း ကောင်းပြီဟုဝန်ခံ၍ စားသောက်ရန်ပြင် ဆင်ပြီးလျှင် ဥယျာဉ်တော် ထွက်ကြ၏။ ရောက်သောအခါ တစ်ခုသော ဖုံးကွယ်ရာ၌ ကိလေသာ မြူးထူးဟန်ဖြင့် လွန်စွာနှိပ်၍ အမေ့အလျော့ရှိသောအခါမှ ကိုယ်တွင် ဆင်သော တန်ဆာတို့ကို ယူ၍ ပြေးလေ၏။ သာမာလည်း သတိရ၍ နာဂဗလကို ရှာဖွေသော် မမြင်သဖြင့် ''ငါ့လင်သည် ငါသေပြီထင်၍ ပြေးရှာလေသည်''ဟု များစွာသော လူတို့ကို လွှတ်၍ ရှာစေ၏။ တွေ့သော်လည်း ''ငါမလာပြီ၊ အလိုရှိရာ ယောကျ်ားနှင့်သာ ပျော်ပါးလေတော့''ဟု မှာ၍ အခြားမြို့ရွာ၌ နေလေ၏။ ဤသို့လျှင် ခိုးသားနှစ်ကြိမ် ဖြစ်ဖူး၏ ဟူပေ။

❖❖❖❖❖

## ၃၃၆။ နတ်ရွာခပ်သိမ်း၊ ဘေးမုဒိမ်း၊ ငြိမ်းအောင်မြို့ရိုး တည်လိမ့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– စတုမဟာရာဇ်နတ်ပြည်နှင့် တာဝတိံသာနတ်ပြည်၌ကား မြို့ရိုးတည်၏၊ အထက်နတ်ပြည်တို့၌ကား မြို့ရိုး မတည်ဟူပေ။

❖❖❖❖❖

## ၃၃၇။ ခွေးနက်ကြီးကြိမ်း၊ ကိုက်မည်ခြိမ်း၊ ခပ်သိမ်းရပ်ကြား ဘယ်မျှနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ယဋ္ဌ ကဏှဇာတကေ သက္ကော ဒေဝါနမိန္ဒော ကဿပဿ ဘဂဝတော သာသနေ ပရိဟာယမာနေ ဝိသုကမ္မဒေဝပုတ္တံ သုနက္ခတ္တံ ကရိတွာ ''အဟံ ပါပဘိက္ခူစ ပါပဘိက္ခုနိဉ္စ ဥပါသကာ စ ဥပါသိကာယော စ သဗ္ဗေဝ အဓမ္မဝါဒိနော ခါဒါမီ'' တိ ဥဋ္ဌော်သာပေတိ။**

ဟူ၍ သုတ္တနိပါတ် အဋ္ဌကထာလာသောကြောင့် သိကြားမင်းသည် ကဿပ ဘုရားရှင်၏ သာသနာတော် ဆုတ်ယုတ်သောအခါ ဝိသကြုံနတ်သားကို ခွေးနက်ကြီး သဏ္ဍာန် ဖန်ဆင်းစေ၍ ''ငါသည် ယုတ်မာသော ရဟန်းယောကျ်ား, ရဟန်းမိန်းမ၊ ဒါယကာ ဒါယိကာမတို့အား ကိုက်သတ်အံ့၊ အလုံးစုံသော အဓမ္မဝါဒီ ပုဂ္ဂိုလ်တို့အား ကုန်အောင်စားအံ့''ဟူ၍ ဟစ်ဟောင် ကြုံးဝါးသော အသံသည် ဇမ္ဗူဒိပ်ကျွန်းလုံး၌ရှိသော လူနတ်အပေါင်းတို့ပင် ကြားသိရ၏– ဟူပေ။

❖❖❖❖❖

## ၃၃၈။ အပြစ်ခပ်သိမ်း၊ လောင်းရှိမ်းရှိမ်း၊ စိမ်းစော်နံ့တရား ဘယ်မျှနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– စိမ်းစော်နံ့တရားဟူသည်– ပါဏာတိပါတ အဒိန္နာဒါန် အစရှိသော ဒုစရိုက်တရား။ ယုတ်မာသော ကိလေသာတရား တို့ပင်တည်း။ ထိုအပြားကိုကား– ဤအာမဂန္ဓသုတ်ဖြင့် သိအပ်၏။

ငါတို့ဘုရားပွင့်တော်မမူမီ ဤသာဝတ္ထိပြည်၌နေသော အာမဂန္ဓမည်သော ပုဏ္ဏားသည် အမျိုးအရွယ်တူသော ပုဏ္ဏားလုလင် ငါးရာတို့နှင့်တကွ လူ့၏ဘောင်မှ ထွက်၍ ရသေ့ရဟန်းပြုပြီးလျှင် တစ်ခုသော တောအုပ်တောင်ခြေသို့ဝင်၍ သစ်ရွက်မိုးသော သင်္ခမ်းဖြင့် နေကြ၏။ ထိုရသေ့တို့ကား အမဲသားငါးကို စားခြင်း၌ များစွာ အပြစ်ဖြစ် သည်ဟု အယူရှိ၍ တောသစ်ရွက်သစ်သီးကိုသာ စားသောက်ကာ

နေကြ၏။ လူတို့စားသော ချဉ်ဆားကိုမျှ မသုံးဆောင်ကုန်။ ကာလကြာမြင့်သော် ဖျော့တော့ပန်ဟိုက် သော ရောဂါတို့သည် ဖြစ်ကုန်ရကား ချဉ်ဆားကို မှီဝဲခြင်းငှာ တစ်ခုသော ပစ္စန္တရွာသို့ ရောက်လာကြကုန်၏။

ရွာသားတို့လည်း ထိုရသေ့တို့အား ကြည်ညိုကုန်သည်ဖြစ်၍ ရွာ၏အနီး၌ နေစိမ့်သောငှာ တောင်းပန်ပြီးလျှင် ကျောင်းသခ်မ်းဆောက်၍ ပစ္စည်းလေးပါးဖြင့် ချီးမြှောက် ပူဇော်ကြကုန်၏။ ရသေ့တို့လည်း မိုးလေးလ လွန်သောအခါ ''ငါတို့ တောသို့ဝင်ဦးအံ့'' ဟု ရွာသားတို့အား ပန်ကြားခဲ့ပြီးလျှင် ယခင်နေမြဲဖြစ်သော တောသို့ဝင်လေ၏။ တစ်ဖန် မိုးလရောက်ခါနီးသောအခါ ၎င်းရွာသို့ ကြွလာပြန်သဖြင့် ရွာသားတို့ကလည်း မြတ်နိုး တနာ လွန်စွာချီးမြှောက်ကြကုန်၏။

ဤသို့ နှစ်စဉ်မပြတ်နေ၍ ရှစ်နှစ်ခန့်ရှိသောအခါ ငါတို့ ဂေါတမမြတ်စွာ ဘုရားသည် ဘုရားအဖြစ်သို့ ရောက်၍ ဇေတဝန်ကျောင်းတော်၌ နေတော်မူသောအခါ ထိုရသေ့တို့၏ ဥပနိဿယသတ္တိကို မြင်တော်မူသဖြင့် တပည့်သား သံဃာတော်တို့နှင့် တကွ ဒေသစာရီ ချီတော်မူလေ၍ ရသေ့တို့၏ မှီရာဖြစ်သော ပစ္စန္တရွာသို့ ရောက်တော်မူ၏။ ထိုအခါ ပစ္စန္တရွာသားတို့လည်း ဘုရားအမှူးရှိသော သံဃာတော်တို့အားများစွာ အလှူပေး၍ တရားတော်ကို နာကြကုန်၏။

ဘုရားသခင်လည်း ဝေနေယျတို့၏ အဇ္ဈာသယ အလျောက် တရားဓမ္မကို ပြတော်မူလျှင် အချို့လည်း သောတာပန် တည်ကုန်သည်။ အချို့လည်း သကဒါဂါမ်၊ အချို့လည်း အနာဂါမ်တည်ကုန်သည်။ အချို့လည်း ရဟန်းပြု၍ နောက်တော်သို့ ပါကြကုန်သည်။ ကိုယ်တော်မြတ်လည်း တစ်လခန့်နေ၍ ဇေတဝန်ကျောင်းတော်သို့ ပြန်တော်မူ၏။

မိုးလနီးသောအခါ ရသေ့တို့ လာမြဲလာပြန်၍ ပစ္စန္တရွာသူ ရွာသားတို့သည် ရှေ့အခါကဲ့သို့ လွန်စွာအုတ်အုတ်ကျက်ကျက် မပူဇော်ကုန်။ သင့်လျော်ရုံသော ချီးမြှောက်ကြကုန်၏။ ထိုအခါ ရသေ့တို့က ဤသို့မေး၏ ''အချင်းတို့၊ ရှေးရှေးသော နှစ်တို့၌ ငါတို့ရောက်လာလျှင် ရွှင်လန်းဝမ်းမြောက်စွာ အုတ်အုတ်ကျက်ကျက် ပူဇော်ကုန်၏။ ယခုမူကား ရှေးအတူမပြုကုန်။ ရွာသူတို့အား မင်းခိုးသူတို့၏ နှိပ်စက်ခြင်းသော်လည်း ရှိသလော။ ငါတို့ထက် သီလ, ပညာ, သမာဓိရှိသော ပုဂ္ဂိုလ် ရောက်လာ၍ ဆရာအသစ်ရသလော''ဟု မေး၏။

ထိုအခါ ရွာသားတို့ကလည်း– ''ရှင်ရသေ့တို့–အကျွန်ုပ်တို့အား တစ်စုံတစ်ခုသော နှိပ်စက်ခြင်းသည် မရှိ၊ အပ္ပဋိပုဂ္ဂလ ဖြစ်တော်မူသော ဘုရားမြတ်စွာသည် အကျွန်ုပ်တို့ ရပ်ရွာသို့ ကြွလာတော်မူသဖြင့် တရားတော်ကို နာရပေသတည်း။ ယင်းသို့သော ဆရာထူး ဆရာမြတ်ကို ဆည်းကပ်ရသောကြောင့် အရှင်တို့အား သင့်ရုံသာ ချီးမြှောက်ကြသတည်း'' ဟု လျှောက်၏။

ထိုစကားကို ကြားသောအခါ အာမဂန္ဓရသေ့တို့လည်း အလွန် ဝမ်းမြောက်စွာလျက် ''ဒါယကာတို့-ဘုရားဟူသော စကားကို ကြားရရုံမျှလည်း အတိဒုလ္လဘ ဖြစ်သေး၏။ ဖူးမြင်တွေ့ကြုံရမူ အဆမတန်သော ကုသိုလ်မင်္ဂလာ ဖြစ်ရာသတည်း။ သို့ရာတွင် ဘုရားသခင်သည် အမဲ သားငါးတို့ကို စားတော်မူသလော''ဟု မေး၏။ ''စား ပါ၏''ဟု လျှောက်လျှင် မရွှင်လန်းသော စိတ်နှလုံးသည် ဖြစ်၏။ ယင်းသို့ ဖြစ်ပြီးလျှင် ဆင်ခြင်ပြန်သည်ကား ဘုရားဟူသည် အလွန်ရခဲ၏။ အယူအကျင့် သင့်မသင့်ကို မေးလျှောက်၍ သိအောင်ပြုအံ့ဟု ကြံပြီးလျှင် ထိုရွာသားတို့အား ဘုရားကြွတော်မူသော ခရီးကို မေးမြန်း၍ ထိုခရီးဖြင့် လိုက်လာ၍ သာဝတ္ထိပြည်သို့ ရောက်သော် မိမိတို့၏ တပည့်ဖြစ်သော ရသေ့ပရိတ်သတ်နှင့်တကွ ဘုရားရှေ့တော်သို့ ကပ်လေ၏။

ထိုအခါ မြတ်စွာဘုရားလည်း တရားဟောခြင်းငှာ ဓမ္မာသနပလ္လင်ဝယ် စံပယ်တော်မူခိုက်ဖြစ်၍ ရသေ့တို့ ရောက်လာသည်ကို မြင်လျှင် ရွှင်လှသော မျက်နှာတော်ထားလျက် ''ကစ္စိ ဘော ကလ္လသယော ခမနီယံ'' အစရှိသော စကားဖြင့် ဝမ်းမြောက် ဝမ်းသာ ပြောဟောတော်မူ၏။

ထိုအခါ အာမဂန္ဓရသေ့လည်း ဤသို့ နားတော်လျှောက်၏။ ''ဘုန်းတော်ကြီး လှသော အရှင်ဘုရား-အရှင်မြတ်သည် စိမ်းစော် ညှီစော်နံသော အာမဂန္ဓများကို စားပါသလော''ဟု လျှောက်၏။ ဘုရားသခင်ကလည်း-''ရသေ့-အာမဂန္ဓဟူသည် အဘယ်နည်း'' ဟု မေးတော်မူ၏။ ''အရှင်ဘုရား- သားငါးတို့၏ အသား အရသာတည်း'' ဟု လျှောက်လျှင် ''အချင်းရသေ့-သားငါးတို့ အရသာသည် အာမဂန္ဓ စင်စစ်မဟုတ်သေး ပါဏာတိပါတ စသော ဒုစရိုက်ဓမ္မ, ကာမာဘိနန္ဒန အစရှိသော ကိလေသာတို့သာလျှင် ဤလူ့ရွာ၌ လွန်စွာ ညှီစော်နံသော ရနံ့ရှိရကား အာမဂန္ဓမည်၏။ ဤအာမဂန္ဓမည်သော ပါပဓမ္မကို ငါသုံးဆောင်တော်မမူ''ဟူ၍ မိန့်တော်မူပြီးမှ ''အချင်းရသေ့ အသင်သာလျှင် အာမဂန္ဓကို လျှောက်သည်မဟုတ်၊ ရှေးသောအခါ တိဿ မည်သောပုဏ္ဏားသည် ကဿပဘုရားသခင်အား ဤအာမဂန္ဓတရားကို လျှောက်၍ ဘုရားသခင် ဖြေတော်မူရ ဖူးပြီ။ သင်သိလိုမူကား ကောင်းစွာမှတ်နာလော့။ ငါဟောအံ့''ဟု မိန့်တော်မူ၍-

**ပါဏာတိပါတော ဝဓဆေဒနဗန္ဓ၊ ထေယျံ မုသာဝါဒေါ နိကတိ ဝဉ္စနာနိစ။**
**အဇ္ဈေနကုတ္တံ ပရဒါရသေဝနာ၊ ဧသာမဂန္ဓော န ဟိ မံသဘောဇနံ။**
**ယေ ဣဓ ကာမေသုအသညတာ ဇနာ၊ ရသေသု ဂိဒ္ဓါအသုစိဘာဝမဿိတာ။**
**နတ္ထိကဒိဋ္ဌိ ဝိသမာ ဒုရန္နယာ၊ ဧသာမဂန္ဓော န ဟိ မံသဘောဇနံ။**

အစရှိသော ၁၂-ဂါထာတို့ဖြင့် တန်ဆာဆင်အပ်သော အာမဂန္ဓသုတ်ကို ဟောတော်မူသည်။

**အနက်ကား။** ။ ဗြဟ္မဏ၊ တိဿပုဏ္ဏား။ ပါဏာတိပါတော စ၊ သူ၏ အသက်ကို သတ်ခြင်းသည်လည်းကောင်း။ ဝဓဆေဒနဗန္ဓနံ၊ သတ္တဝါတို့အား လှံကန်စသည်ဖြင့် ပုတ်ခတ်ခြင်း, လက်ခြေအင်္ဂါကိုဖြတ်ခြင်း ထိပ်ကြိုးစသည်ဖြင့် နှောင်းဖွဲ့ခြင်းသည် လည်းကောင်း။ ထေယျံ၊ ခိုးဝှက်ခြင်းလည်းကောင်း။ မုသာဝါဒေါ စ၊ မဟုတ်မမှန်သော စကားကိုဆိုခြင်းလည်းကောင်း။ နိကတိ စ၊ စဉ်းလဲ စဉ်းစားပြုခြင်း လည်းကောင်း။ ဝဉ္စနာနိ စ၊ ချိန်, တင်း, အသပြာတို့ဖြင့် လှည့်ပတ်ခြင်းလည်းကောင်း။ အဇ္ဈေနကုတ္တံ၊ အကျိုးမဲ့သော အတတ်ကို သင်ခြင်းလည်းကောင်း။ ဝါ၊ ရှုံးစေ မိုက်စေ သေစေတတ်သော အတတ်ကို ပြုခြင်းလည်းကောင်း။ ပရဒါရသေဝနာ စ၊ သူတစ်ပါး၏မယားကို ပျော်ပါး မှီဝဲခြင်းလည်းကောင်း။ သေ–ဧသော၊ ဤဆယ်မျိုးသော အယုတ်တရားကို ကျင့်ခြင်း သည်။ အာမဂန္ဓော၊ ညှီနံ့ညှော်လှောင်း မကောင်းသော ဆိပ်နံ့ စိမ်းနံ့ အပုပ်နံ့မည်၏။ မံသဘောဇနံ၊ သားငါးတည်းဟူသော ဘောဇဉ်သည်။ နဟိ အာမဂန္ဓော၊ ဆိပ်နံ့ စိမ်းနံ့ ပုပ်နံ့ မဟုတ်။

ဣဓ၊ ဤလောက၌၊ ယေ ဇနာ၊ အကြင်သူတို့သည်။ ကာမေသု၊ အမိ အရီး အမကြီး အစရှိသော ကာမဂုဏ်တို့၌။ အသညတာ၊ မစောင့်စည်းကုန်။ ရသေသု၊ ရသာရုံတို့၌။ ဂိဒ္ဓါ၊ မက်မောကုန်၏။ အသုစိဘာဝံ၊ မိစ္ဆာဇီဝတည်းဟူသော မစင် ကြယ်သော အဖြစ်ကို။ အဿိတာ၊ မှီကုန်၏။ နတ္ထိကဒိဋ္ဌီ၊ ဘဝတစ်ပါးကူးခြင်းမရှိ ဟူ၍ မှားသော အယူရှိကုန်၏။ ဝိသမာ၊ မညီညွတ်သော ကာယကံစသည်ရှိကုန်၏။ ဒုရန္နယာ၊ မိမိ၏ အယူကို မြဲစွာစွဲသောကြောင့် စွန့်ခဲကုန်၏။ တေသံ၊ ထိုသူတို့၏။ သေ ဧသော၊ ဤခြောက်ပါးသော အမှုအကျင့်သည်။ အာမဂန္ဓော၊ မကောင်းသော ဆိပ်နံ့ စိမ်းနံ့ အပုပ်နံ့ တည်း။ မံသဘောဇနံ = သားငါးတည်းဟူသော ဘောဇဉ်သည် နဟိအာမတန္ဓော = ဆိပ်နံ့၊စိမ်းနံ့၊အပုပ်နံ့ မဟုတ်။

ယေ၊ အကြင်သူတို့သည်။ လူခရသာ၊ ခေါင်းပါးသော ရသာရှိကုန်၏။ ဝါ– ကိုယ်ပင်ပန်းအောင် အစားရှောင်၍ ကျင့်ကုန်၏။ ဒါရုဏာ၊ ကြမ်းတမ်းကုန်၏။ ပရပိဋ္ဌိမံ သိကာ၊ သူတစ်ပါးတို့၏ ကျောက်ကုန်းသားကို စားသကဲ့သို့ ဖြစ်ကုန်၏။ မိတ္တဒ္ဒုနော၊ အဆွေခင်ပွန်းတို့အား ပြစ်မှားကုန်၏။ နိက္ကရုဏာ၊ သနားခြင်းကင်းကုန်၏။ အတိမာ နိနော၊ အလွန်မာန်မူခြင်း ရှိကုန်၏။ အဒါနသီလာ၊ မပေးကမ်းသော အလေ့ရှိကုန်၏။ ယာစိတာပိ၊ တောင်းကုန်းသော်လည်း။ ကဿစိ၊ တစ်စုံတစ်ယောက်သောသူအား။ ကိဥ္စိ၊ စိုးစဉ်းကိုမျှ။ န ဒေန္တိ၊ မပေးကုန်။ သေ ဧသော၊ ဤငါးပါးသော အကျင့်သည်။ အာမဂန္ဓော၊ မကောင်းသော ဆိပ်နံ့ စိမ်းနံ့ အပုပ်နံ့တည်း။ မံသဘောဇနံ သားငါးဘောဇဉ်သည် နဟိအာမဂန္ဓော = ဆိပ်နံ့ စိမ်းနံ့ ပုပ်နံ့ မဟုတ်။

ဤသို့ ပုဂ္ဂလာဓိဋ္ဌာန ဒေသနာနည်းကို ဟောပြီး၍ ဓမ္မာဓိဋ္ဌာန ဒေသနာ နည်းအားဖြင့် ညွှန်ကြားတော်မူခြင်းငှာ ''ကောဓော မဒေါ စ ထမ္ဘော စ'' အစရှိသော ဂါထာကို ဟောတော်မူပြန်သတည်း။

ပြဟ္မဏာ၊ ပုဏ္ဏား။ ကောဓော၊ အမျက်ထွက်ခြင်း။ မဒေါ၊ မာန်ယစ်ခြင်း။ ထမ္ဘော၊ ခက်ထန်ခိုင်မာခြင်း။ ပစ္စုပဋ္ဌာနာ၊ ဆန့်ကျင်ဘက်ပြု၍ တည်ခြင်း။ မာယာ၊ လှည့်ပတ်ခြင်း။ ဥသူယာ၊ သူတစ်ပါးတို့၏ စည်းစိမ်ချမ်းသာ လာဘ်များစွာကို ငြူစူခြင်း။ ဘဿ သမုဿယော၊ စကား အလွန် ထောင်လွှားခြင်း။ မာနာတိမာနော၊ အလွန်မာန်မူခြင်း။ အသဗ္ဘိသန္ထဝေါ၊ သူတော်မဟုတ် သူယုတ်တို့နှင့် ပေါင်းဖော်ခြင်း။ သေ-ဧသော၊ ဤကိုးပါးသော တရားအစုသည်။ အာမဂန္ဓော၊ မကောင်းသော ဆိပ်နံ့ စိမ်းနံ့ အပုပ် နံ့တည်း။ မံသဘောဇနံ၊ သားငါးဘောဇဉ်သည်။ နဟိအာမဂန္ဓော၊ ဆိပ်နံ့ စိမ်းနံ့ ပုပ်နံ့မဟုတ်။

ဤဂါထာဖြင့် ဓမ္မဓိဋ္ဌာန်နည်းကိုပြပြီး၍ တစ်ဖန် ပုဂ္ဂလ ဓိဋ္ဌာန်နည်းဖြင့် ပြတော်မူ ခြင်းငှာ ''ယေ ပါပသီလာ'' စသော သုံးဂါထာတို့ကို ဟောတော်မူသတည်း။

ပြဟ္မဏာ၊ ပုဏ္ဏား။ ယေ၊ အကြင်သူတို့သည်။ ပါပသီလာ၊ ယုတ်မာသော အလေ့ရှိကုန်၏။ ဣဏဃာတသူစကာ၊ သူ့မြီကိုယူ၍ မပေးသဖြင့် ဖျောက်ဖျက်ခြင်း, ချောပစ်သော စကားကို ဆိုခြင်းတို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။ ဣဓ၊ ဤလောက၌။ ဝေါဟာရကူဋ္ဌာ၊ ဥစ္စာရှင်ကို ရှုံးစေလျက် စဉ်းလဲသော တရားဆုံးဖြတ်ခြင်း ရှိကုန်၏။ ပါဋိရူပိကာ။ ဒုဿီလဖြစ်လျက် သုသီလတို့၏ အတုယောင်ကို ဆောင်ကုန်၏။ ဣဓ၊ ဤလောက၌။ ယေ စ နရာ ဓမာ၊ အကြင်သူကြမ်းတို့သည်လည်း။ ကိဗ္ဗိသံ၊ ရုန့်ရင်းသော မကောင်းမှုကို။ ကရောန္တိ၊ ပြုကုန်၏။ တေသံ၊ ထိုသူတို့၏။ သေ-ဧသော၊ ဤခြောက် ပါးသောအကျင့်သည်။ အာမဂန္ဓော၊ မကောင်းသော ဆိပ်နံ့၊ စိမ်းနံ့ အပုပ်နံ့ တည်း။

ယေဇနာ၊ အကြင်သူတို့သည်။ ဣဓ၊ ဤလူ့ရွာ၌။ ပါဏေသု၊ သတ္တဝါတို့၌။ အသံယတာ၊ အလိုရှိတိုင်း သတ်သည်ဖြစ်၍ မစောင့်စည်းကုန်။ ပရေသံ၊ သူတစ်ပါး တို့၏။ သန္တကံ၊ ဥစ္စာကို။ အာဒါယ၊ ယူပြီး၍။ တေသံ၊ ထိုဥစ္စာရှင်တို့အား။ ဝိဟေသဿ၊ ညှဉ်းဆဲခြင်းကို။ ဥယျုတ္တာ၊ လုံ့လပြုကုန်၏။ ဒုဿီလလုဒ္ဒါ၊ သားငါး စသည်ကို သတ်သဖြင့် ရက်ရောကြမ်းကြုတ်ကုန်၏။ ဖရုသာ၊ ကြမ်းသောစကားရှိကုန်၏။ အနာဒရာ၊ ရိုသေခြင်းကင်းကုန်၏။ သေ-ဧသော၊ ဤခြောက်ပါးသော အကျင့်သည်။ အာမဂန္ဓော၊ မကောင်းသော ဆိပ်နံ့ စိမ်းနံ့ အပုပ်နံ့မည်၏။

ယေ ဇနာ၊ အကြင်သူတို့သည်။ ဧတေသု၊ ဤသတ္တဝါတို့၌။ ဂိဒ္ဓါ၊ လောဘဖြင့် မက်မောကုန်၏။ ဝိရုဒ္ဓါ၊ ဒေါသဖြင့် ဆန့်ကျင်ကုန်၏။ အတိပါတိနော၊ မောဟဖြင့် အဖန်တလဲလဲ လွန်ကျူးခြင်းသို့ ရောက်ကုန်၏။ နိစ္စုယျုတ္တာ၊ အကုသိုလ်ကို အဖန်တလဲလဲ လုံ့လပြုကုန်၏။ ပေစ္စ၊ တစ်မလွန်ဘဝ၌။ တမံ၊ အမိုက်သို့။ ဝဇန္တိ၊ သွားရကုန်၏။ နိရယံ၊ အဝီစိ အစရှိသော ငရဲကြီးရှစ်ရွာသို့။ အဝံသိရာ၊ အောက်သို့ ညွတ်သော ဦးခေါင်းရှိကုန်လျက်။ ပတန္တိ၊ ကျကုန်၏။ တေသံ သတ္တာနံ၊ ထိုသတ္တဝါတို့၏။ သေ-ဧသော၊ ဤအမိုက်သို့သွားခြင်း, ငရဲလားခြင်း၏ အကြောင်းဖြစ်သော အကုသိုလ်

ဓမ္မသည်။ အာမဂန္ဓော၊ မကောင်းသော ဆိပ်နံ့ စိမ်းနံ့ ပုပ်နံ့မည်၏။ မံသဘောဇနံ၊ သားငါး ဘောဇဉ်သည်။ န ဟိ အာမဂန္ဓော၊ ဆိပ်နံ့ စိမ်းနံ့ ပုပ်နံ့ မဟုတ်သည်သာတည်း။

ဗြာဟ္မဏ၊ ပုဏ္ဏား။ အမစ္ဆမသနာ၊ အမဲငါးကို မစားခြင်းသည်။ အဝိတိဏ္ဏကင်္ခံ၊ မကူးမြောက်သော ယုံမှားခြင်းရှိသော။ မစ္စံ၊ သတ္တဝါကို။ န သောဓေတိ၊ မစင်စေနိုင်။ အနာသကတ္တံ၊ အစာမစားသော အဖြစ်သည်လည်း။ န သောဓေတိ၊ မစင်စေနိုင်။ နဂ္ဂိယံ၊ အဝတ်မဆည်းအချည်းနှီးသော အဖြစ်သည်လည်း။ န သောဓေတိ၊ မစင်စေနိုင်။ မုဏ္ဍိယံ၊ ဦးပြီးရိတ်သော အဖြစ်သည်လည်း။ န သောဓေတိ၊ မစင်စေနိုင်။ ဇဋာရဇဇလ္လံ၊ ဆံကျစ်၌ မြူကပ်အောင်နေသော အဖြစ်သည်လည်း။ န သောဓေတိ မစင်စေနိုင်။ ခါရာ ဇိနာနိ စ၊ ရသေ့ပရိက္ခရာ သစ်နက်ရေတို့သည်လည်း။ န သောဓေန္တိ၊ မစင်စေနိုင်ကုန်။ အဂ္ဂိဟုတ္တဿုပသေဝနာ ဝါ၊ မီးကိုလုပ်ကျွေးခြင်းတို့သည်လည်း။ န သောဓေန္တိ၊ မစင်စေနိုင်ကုန်။ ယေ ဝါပိ၊ အကြင်သို့သောသဘောရှိသည်လည်း ဖြစ်ကုန်သော။ အမရာ၊ မသေသောအဖြစ်ကို တောင့်တကုန်သော အကျင့်တို့သည် လည်းကောင်း။ မန္တာ စ၊ ဗေဒင်တို့သည်လည်းကောင်း။ အာဟုတိ စ၊ မီးပူဇော်ခြင်း သည်လည်းကောင်း။ ယညဥ္စ၊ ယဇ်သည်လည်းကောင်း။ ဥတုသေဝနာ စ၊ ဥတုကိုမှီဝဲခြင်းတို့သည်လည်းကောင်း။ တောနိပိ၊ ထိုအလုံးစုံသော အကျင့်တို့ သည်လည်း။ အဝိတိဏ္ဏကင်္ခံ၊ မကူးမြောက်သော ယုံမှာခြင်းရှိသော။ မစ္စံ၊ သတ္တဝါကို။ န သောဓေတိ၊ မစင်စေနိုင်။

ဗြဟ္မဏ၊ ပုဏ္ဏား။ ယော နရော၊ အကြင်သူသည်။ တေသု၊ ထိုညှီနံ့ ညှော်လှောင်း မကောင်းမှုတရားတို့၌။ ဂုတ္တာ၊ လုံခြုံစွာ စောင့်သည်ဖြစ်၍။ ဝိရတိန္ဒြိယော၊ ကြည်အပ်သော က္လန္ဒြေရှိသည်ဖြစ်၍။ စရေ၊ ကျင့်ရာ၏။ ဓမ္မေ၊ သစ္စာလေးပါးတရား၌။ ဋ္ဌိတော။ အရိယာမဂ်ဖြင့် တည်၏။ အဇ္ဇဝ မဒ္ဒဝေ၊ ဖြောင့်သောသူ နူးညံ့သောသူ၏ အဖြစ်၌။ ရတော၊ မွေ့လျော်၏။ သင်္ဂါတိဂေါ၊ ကပ်ငြိတတ်သော ရာဂစသည်ကိုလွန်၏။ သဗ္ဗဒုက္ခပဟီနော၊ ခပ်သိမ်းသော ဝဋ်ဒုက္ခကိုပယ်၏။ သော။ ထိုသူသည်။ ဓီရော၊ အရဟတ္တဖိုလ် ပညာရှိသည်ဖြစ်၍။ ဒိဋ္ဌသုတေသု၊ မြင်အပ်ကြားအပ်သော အာရုံတို့၌။ န လိမ္ပတိ၊ မလိမ်းကျံ။ က္လတိ၊ ဤသို့။ ဘဂဝါ၊ ကဿပမြတ်စွာဘုရားသည်။ အဝေါစ၊ မိန့်တော်မူ၏။

ဤသို့ အာမဂန္ဓရသေ့အား ဟောတော်မူသော ဒေသနာကိုထောက်၍ ပုဂ္ဂလာဓိဋ္ဌာန်, ဓမ္မာဓိဋ္ဌာန်ရောသောအားဖြင့် ၄၂–ပါးသော တရားတို့သည် ပစ္စုပ္ပန်ဘေး တမလွန်ဘေးတည်းဟူသော မီးသည် ညီးညီးပြောင်ပြောင် ရှိန်ရှိန်လောင်တတ်သော စိမ်းစော်နံတရား မည်ကုန်၏။ (သုတ္တနိပါတ် ပါဠိတော်)။

**''အိမ်း''ကာရန်ပုစ္ဆာ ၆–ပုဒ် အဖြေပြီး၏။**

**ရှေးအဖြေစာ၌ကား မဟောရန်ငြိမ်း တစ်ပုဒ်သာပါသည်။**

❖❖❖❖❖

## (၁၃) ''အတ်'' ကာရန်ပုစ္ဆာ ၁၂၂-ပုဒ်အဖြေ

### ၃၃၉။ တရားအမြတ်၊ ဟောတုံလတ်၊ နတ်ဘယ်နားဖြင့်နာသနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ပကတိသော ဒိဗ္ဗသောတဖြင့်သာ နာ၏။ ဒိဗ္ဗသောတမည်သော အဘိညာဉ်ဖြင့်မနာ။ နတ်တို့၏ ပြကတေ့သော နားသည်အဘယ်မျှလောက် ကြားသနည်း ဟူငြားအံ့၊ ရှေးကောင်းမှု၏ အကျိုးဖြစ်သော တန်ခိုးအားလျော်စွာ ရဟန္တာတို့၏ အဘိညာဉ်ကဲ့သို့ ဝေးစွာသော အရပ်ကပင် ကြား၏။

ထို့ကြောင့် ပါရာဇိကဏ်အဋ္ဌကထာ၌-

**ဒေဝတာနံ ဟိ သုစရိတကမ္မနိဗ္ဗတ္တံ ပိတ္တသေမှရုဟိရာဒီဟိ အပလိဗုဒ္ဓံ ဥပက္ကိလေသ ဝိမုတ္တတာယ ဒူရေပိ အာရမ္မဏံ သမ္ပဋိစ္ဆနသမတ္ထံ ဒိဗ္ဗံ ပသာဒစက္ခု ဟောတိ။ တထာ ဒိဗ္ဗသောတဥ္စ။** ဟူ၍ လာသည်။

ဟိ သစ္စံ၊ မှန်၏။ ဒေဝတာနံ၊ နတ်တို့အား။ သုစရိတကမ္မနိဗ္ဗတ္တံ၊ ကောင်းစွာ ကျင့်အပ်သော ကံကြောင့်ဖြစ်သော။ ပိတ္တသေမှရုဟိရာဒီဟိ၊ သည်းခြေ၊ သလိပ်, သွေး စသည်တို့ဖြင့်။ အပလိဗုဒ္ဓံ၊ မလိမ်းကျံသော။ ဥပက္ကိလေသဝိမုတ္တတာယ၊ ညစ်ညူးခြင်းမှ လွတ်သည်၏ အဖြစ်ကြောင့်။ ဒူရေပိအာရမ္မဏံ၊ အဝေး၌ဖြစ်သော အာရုံကိုလည်း။ သမ္ပဋိစ္ဆနသမတ္ထံ၊ ခံခြင်းငှာစွမ်းနိုင်သော။ ဒိဗ္ဗံပသာဒစက္ခု၊ နတ်၌ဖြစ်သော ပသာဒစက္ခုသည်။ ဟောတိ၊ ဖြစ်၏။ တထာ၊ ထို့အတူ။ ဒိဗ္ဗပသာဒသောတဉ္စ၊ နတ်၌ဖြစ်သော ပသာဒသောတသည်လည်း။ ဟောတိ၊ ဖြစ်၏။

❖❖❖❖❖

### ၃၄၀။ မေထုန်သုံးသတ်၊ ရဟန်းမြတ်၊ အာပတ်မသင့်ဘယ့်ကြောင့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အာဇာနန္တကြောင့်လည်း အာပတ်မသင့်။
အသာဒိယန္တကြောင့်လည်း အပတ်မသင့်ဟူပေ။

**သရုပ်ကား။** ။ တစ်ရံသောအခါ တစ်ပါးသောရဟန္တာပုဂ္ဂိုလ်သည် ဘဒ္ဒိယမြို့၏ အနီး ယင်းတိုက်တောကြီး၌ နေ့သန့်သည်ဖြစ်၍ တစ်ခုသော သစ်ပင် အောက်၌ အိပ်ပျော်၏။ ထိုရဟန်း၏ အင်္ဂါဇာတ်သည် လေးခတ်သည်ဖြစ်၍ ခိုင်မာခြင်းသို့ ရောက်၏။ ထိုအခါ တစ်ယောက်သော တောလည်မိန်းမ မြင်လတ်၍ တပ်သောစိတ် ရှိရကား ထိုရဟန်း၏ အထက်၌ စွပ်ထိုင်၍ အလိုရှိတိုင်းပြုပြီးမှ ဖဲလေ၏။ ရဟန်းသည် နိုးလတ်၍ မိမိအင်္ဂါဇာတ်ကို ကြည့်လတ်သော် သုက်အလိမ်းလိမ်း ကပ်သည်ကို မြင်ထ၍ လျင်စွာလာပြီးသော် ဘုရားသခင်အား ကြားလျှောက်၏

ထိုအခါ ဘုရားသခင်လည်း ဤသို့မိန့်တော်မူ၏ ''ချစ်သားရဟန်းတို့ အင်္ဂါဇာတ် နိုင်မာခြင်း၏ အကြောင်းကား ငါးပါးတည်း။ ငါးပါးဟူသော်ကား–

ရာဂစိတ်ကြောင့်လည်းကောင်း,
ကျင်ကြီးသွားလိုသောကြောင့်လည်းကောင်း,
ကျင်ငယ်သွားလိုသောကြောင့်လည်းကောင်း,
အင်္ဂါကြီးငယ်သို့ လေခတ်သောကြောင့်လည်းကောင်း,
အမွေးများသောပိုး ခဲသောကြောင့်လည်းကောင်း

ဤငါးပါးသော အကြောင်းတို့တွင် တစ်ပါးပါးကြောင့် နိုင်မာခြင်းသည် ဖြစ်၏။

ထိုငါးပါးတို့တွင် အကြင်ကိလေသာကုန်ပြီးသော ရဟန္တာတို့အား ရာဂစိတ်ဖြင့် အင်္ဂါဇာတ် နိုင်မာခြင်းသည် မရှိ၊ အကြွင်း ၄–ပါးကြောင့်သာ နိုင်မာသင့်ရကား နိုင်မာရာ၌ သူတစ်ပါးလာ၍ စွပ်သဖြင့် သုံးသတ်မှီဝဲငြားသော်လည်း ရာဂဖြင့် သာယာခြင်း မရှိ၊ ထိုသို့ မသာယာသော်လည်းကောင်း, မသိလိုက်သော်လည်းကောင်း အာပတ်မသင့်သည် သာတည်း–'' ဟူ၍ ပါရာဇိကဏ် ပါဠိတော်၌ ဟောတော်မူသည်။

ရှေးအဖြေစာဟောင်း၌ကား–

**မေထုနံ ဓမ္မံ ပဋိသေဝိဿာမီတိ မာတုဂါမံ ဂဏှိတွာ မေထုနေ ဝိရဇ္ဇိတွာ ဝိပ္ပဋိသာရီ ဟောတိ။ ဒုက္ကဋမေဝဿ ဟောတိ။**

ဟူသော အဋ္ဌကထာကိုဆောင်၍ အကြင်ရဟန်းသည် မေထုန်မှီဝဲအံ့ဟု မာတုဂါမကို ဆွဲလှဲကိုင်ငင်၏။ မိန်းမသည် ရုန်းထွက်သောကြောင့် မပြုဖြစ်ဘဲ ချွတ်လွဲ ရာ၌ ပါရာဇိကမသင့်ဘဲ ဒုက္ကဋ်သင့်သည်ကို ရည်၍မေးသည်ဟု ဖြေ၏။

တစ်ချက်လည်း–အိပ်မက်တွင် မေထုန်မှီဝဲသော ရဟန်းအား အာပတ်သင့် သည်ကို ရည်၍မေးသည်–ဟု ဖြေ၏။ ပုစ္ဆာနှင့် မဆိုင်ချေ။

❖❖❖❖❖

## ၃၄၁။ ပစ္စည်းနှင့်ဓာတ်၊ ရှုတ်ရှက်ခတ်၊ သကတ်ဘယ်သူ ရသနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တစ်ခုတစ်ခုသော နိပ္ဖန္နရုပ်၏ အနက်သည် သကတ်,ဒြပ်, လိင်, သချ်ာ, ကာရကအားဖြင့် ငါးပါးရှိ၏။ ထိုတွင်–

ဓာတ်၏အနက်သည် သကတ်မည်၏။
ပစ္စည်း၏ အနက်သည် ဒြပ်မည်၏။
ပုဒ်ဗျည်း၏ အနက်သည် လိင်မည်၏။
ဝိဘတ်၏ အနက်သည် သချ်ာလည်းမည်၏။ ကာရကလည်း မည်၏။

ထို့ကြောင့် န္ယာသအကောက် စသည်တို့၌

''သဗ္ဗဓမ္မေ ဗုဇ္ဈတီတိ ဗုဒ္ဓေါ''ဟု ဝစနတ်ပြု၍ ဗုဒ္ဓေါ ကား ဗုဓ–ဓာတ် တ–ပစ္စည်း။ ဗုဓ–ဓာတ်၏အရကား အလုံးစုံသောတရားကို သိစွမ်းနိုင်သော သဗ္ဗညုတ

ဉာဏ်တော်သည် မုချအားဖြင့်ရ၏။ ပါရမီဉာဏ်, ဝိပဿနာဉာဏ်, မဂ်ဉာဏ်, ဖိုလ်ဉာဏ် တို့သည် ဖလူပစာရတ္တ အားဖြင့်ရ၏။ အာသယာနုသယဉာဏ်, ဣန္ဒြိယပရော- ပရိယတ္တိဉာဏ်, ဒေသနာဉာဏ်စသော နောက်နောက်သော ဉာဏ်တော်တို့သည် ကာရဏူပစာရတ္တအားဖြင့်ရ၏။ တ-ပစ္စည်း၏အရကား ထိုမုချ, ဖလူ, ကာရဏူ ပစာရတ္တ တို့ဖြင့် မှတ်အပ်သော ခန္ဓာပဉ္စက သန္တာန်ကိုစွဲ၍ ''ဘုရား''ဟု သမုတ် အပ်သော သတ္တ သန္တာနပညတ် ဒြပ်ဝိသေသ ရ၏-ဟူ၍ ကောက်တော်မူ၏။ ထို့ကြောင့် ဓာတ်နက် သာလျှင် သကတ်ဖြစ်၏ ဟူ၍မှတ်။

❖❖❖❖❖

## ၃၄၂။ သဒ္ဒါကျမ်းမြွတ်၊ စွဲစမှတ်၊ အနွတ္ထမျိုး ဘယ်မျှနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အတ္ထ ဝါကျသို့ အစဉ်လိုက်သော အနွတ္ထသဒ္ဒါ,

ဝိဂ္ဂဟ ဝါကျသို့ အစဉ်လိုက်သော အနွတ္ထသဒ္ဒါအားဖြင့် နှစ်ပါးရှိ၏။ ထိုတွင် ''ကိလေသေဟိ အာရကာတိ အရဟံ'' အစရှိသည်၌ အရဟံ သဒ္ဒါသည် အတ္ထဝါကျသို့ အစဉ်လိုက်သော အနွတ္ထသဒ္ဒါမည်၏။

''ပူဇာဝိသေသံ ပဋိဂ္ဂဏှိတုံ အရဟတီတိ အရဟံ''စသည်တို့၌ အရဟံ သဒ္ဒါသည် ဝိဂ္ဂဟဝါကျသို့ အစဉ်လိုက်သော အနွတ္ထသဒ္ဒါမည်၏။ ထို့ကြောင့် နှစ်ပါးရှိ၏ ဟူပေ။

❖❖❖❖❖

## ၃၄၃။ အန္တတ်ဗာဟျတ်၊ ရှိတုံလတ်၊ ဓာတ်ကား ဘယ်သို့ ရသနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အာချာတေ ဓာတွတ္ထော'န္တတ္ထော၊ တျာဒျတ္ထော ဗာဟျတ္ထော မတော။
ဂစ္ဆတိ ပစတေ တျာဒိ၊ အာချာတေသု ပါယန္တယော။
ဓာတွတ္ထော ဝန္တတ္ထော နာမ၊ ကိတေ ပစ္စယတ္ထော ပန။
ဗာဟျတ္ထောတွေဝ ဝိညေယျော၊ ပစိတောတိ နိဒဿနံ။

ဟူ၍ သဒ္ဒဝုတ္တိ၌ မိန့်သည်နှင့်အညီ အာချာတ်ပုဒ်၌- ဓာတ်၏နောက်ကို အန္တတ္ထ။ တိ-အစရှိသော ဝိဘတ်၏ အနက်ကို ဗာဟျတ္ထဟူ၍ သိအပ်၏။

ကိတ်ပုဒ်၌-ဓာတ်၏ အနက်ကို အန္တတ္ထ။ ပစ္စည်း၏အနက်ကို ဗာဟျတ္ထဟူ၍ သိအပ်၏။ ဤသို့ မိန့်သည်ကို ထောက်၍ ဓာတ်ကား အန္တတ်ကိုရ၏ ဟူ၍မှတ်။

❖❖❖❖❖

## ၃၄၄။ မင်း၏သားမြတ်၊ အိမ်ရှေ့မှတ်၊ သမာသ်အမည် ဘယ်သို့နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ယုတ္တသမာသ်, အယုတ္တသမာသ်အားဖြင့် ၂–ပါးတွင် ဤ''ရာဇ ပုတ္တော''ဟူသော သမာသ်သည် စပ်အပ်သော ပုဒ်နှင့် စပ်သောကြောင့် ''ယုတ္တ သမာသ်''မည်၏။

လုတ္တ သမာသ်, အလုတ္တ သမာသ် အားဖြင့် ၂–ပါးတွင်– ရာဇ ပုဒ်နောင် ဆဋ္ဌီဝိဘတ် ကျေသောကြောင့် ''လုတ္တသမာသ်''မည်၏။

နိစ္စသမာသ်, အနိစ္စသမာသ်အားဖြင့် ၂–ပါးတွင်– ရာဇပုတ္တော–ဟူ၍ လည်းကောင်း, ရညောပုတ္တောဟူ၍ လည်းကောင်း သမာသ်, ဝါကျနှစ်ပါးစုံ ရှိသောကြောင့် ''အနိစ္စသမာသ်''မည်၏။

သဒ္ဒသမာသ်, အတ္ထသမာသ်, သဒ္ဒတ္ထသမာသ် အားဖြင့် ၃–ပါးတွင် ဤ ''ရာဇပုတ္တော''သည် အနက်လည်းစပ် ဆဋ္ဌီ ဝိဘတ်လည်း ကျေသောကြောင့် ''သဒ္ဒတ္ထသမာသ်''မည်၏။

သုဒ္ဓတပ္ပုရိသ် ၆–ပါးတို့တွင်–ရှေ့ပုဒ် ဆဋ္ဌီဝိဘတ် ကျေသောကြောင့် ''ဆဋ္ဌီ တပ္ပုရိသ်''သမာသ်မည်၏။ ဤသို့ အမည်ငါးပါးဖြစ်သင့်၏။

''အိမ်ရှေ့မှတ်''ဟူ၍ ဆိုရာ၌ ဥပရာဇပုဒ်ကို လိုအပ်ရကား– ''ရာဇာယ ဥပ လက္ခိတာ ဥပရာဇာ''ဟု ပြု။ ရာဇာယ၊ မင်းအလို့ငှာ။ ဥပလက္ခိတာ၊ မှတ်အပ်သည် တည်း။ ဥပရာဇာ၊ မင်းအလို့ငှာမှတ်အပ်သည်။ ဤသို့ပြုသင့်သောကြောင့် အဗျယီဘော သမာသ် ဟုမှတ်။

❖❖❖❖❖

## ၃၄၅။ နပုံးကေတ်၊ ငဲ့မြမှတ်၊ ဆတ်ဆတ်ဘယ်ဒိဂုတွင်နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သမာဟာရဒိဂု, အသမာဟာရဒိဂု အားဖြင့် ၂–ပါးတို့တွင် နပုံးကေတ်ငဲ့၍ ကေဝုစ်ဝိဘတ် အဆုံးရှိသော ဒိဂုသည် သမာဟာရ ဒိဂုမည်၏။ ပြယုဂ်ကား– ''တယော လောကာ တိလောကံ'' အစရှိသည်တည်း။

နပုံးကေတ် မငဲ့မူ၍ ဗဟုဝုစ်ဝိဘတ် အဆုံးရှိသော ဒိဂုသမာသ်သည် အသမာ ဟာရ ဒိဂုသမာသ်မည်၏။ ပြယုဂ်ကား ပဉ္စိန္ဒြိယာနိ'' အစရှိသည်တည်း။

တစ်နည်းကား–ကေဘာဝီ ဒိဂု, အနေကဘာဝီ ဒိဂု အားဖြင့် ၂–ပါးရှိ၏။ ထိုတွင် သမာဟာရဒိဂုသည် ''ကေဘာဝီ ဒိဂုမည်၏။ အသမာဟာရ ဒိဂုသည် ''အနေကဘာဝီ ဒိဂု''မည်၏။

❖❖❖❖❖

43
'A

၃၄၆။ မိပ္ပာယ်သိတတ်၊ ကျမ်းအာချတ်၊ ဘယ်ဓာတ် ဘယ်ပစ္စည်းတို့နည်း။ (၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''အက္ခာယိတဗ္ဗောတိ အက္ခာတော''

ယံ-ကိရိယံ၊ အကြင်ကိရိယာကို။ အက္ခာယိတဗ္ဗော၊ ဟောအပ်၏။ ဣတိ၊ ထို့ကြောင့်။ တံ-ကိရိယံ၊ ထိုကိရိယာသည်။ အက္ခာတော၊ အက္ခာတ မည်၏။ ကမ္မသာဓန ကိတ်ဝိဂ္ဂြိုဟ် အက္ခ-ဓာတ်, တ-ပစ္စည်း။

အက္ခ ဓာတ်၏အရ ကတ္တုတ္တကိရိယာကား ဝစီဘေဒသဒ္ဒသည် မုချအားဖြင့် ရ၏။ ကမ္မတ္တကိရိယာ၏အရကား ပရိယတ္တိဓမ္မ၏ ဥပါဒ်သည် ကာရဏူပစာရတ္ထ အားဖြင့် ရ၏။ တ- ပစ္စည်း၏အရကား ထိုမုချ, ကာရဏူပစာရတ္ထတို့ဖြင့် မှတ်အပ်သော ကိရိယာ အပေါင်းရ၏။

''အာချာယိတဗ္ဗောတိ အာချာတော''

ယံ - ကိရိယံ၊ အကြင်ကိရိယာကို။ အာချာယိတဗ္ဗော၊ ဟောအပ်၏။ ဣတိ၊ ထို့ကြောင့်။ တံ-ကြိယံ၊ ထိုကိရိယာသည်။ အာချာတော၊ အာချာတမည်၏။ အာ- ရှေးရှိသော ချာဓာတ်, တ-ပစ္စည်း။ အရကောက်ကား ရှေးနည်း။

ဤသို့ ဓာတ်ပစ္စည်းကို ဝေဖန်၍ သိအပ်၏ ဟူပေ။

❖❖❖❖❖

၃၄၇။ ဝိဂြိုဟ်ထောက်လတ်၊သညသတ်၊နာမ်ဇာတ် အချို့ရှိလိမ့်နည်း။ (၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**နတ္ထိ သညာ ဧတေသန္တိ အသညာ၊ အသညာဝေ သတ္တာ အသညသတ္တာ။**

ဧတေသံ၊ ထိုပြဟ္မာတို့အား။ သညာ၊ သညာသည်။ ဝါ-သိတတ်သော နာမ်တရား သည်။ နတ္ထိ၊ မရှိ။ ဣတိ၊ ထို့ကြောင့်၊ အသညာ၊ အသညာမည်၏။ အသညာဝေ၊ သညာမရှိသော ရုပ်တရားသည်သာလျှင်။ သတ္တာ၊ သတ္တဝါတည်း။ အသညသတ္တာ၊ သညာမရှိသော ရုပ်တရားသည်သာလျှင် သတ္တဝါ။

ဤ သညာကိုသာ ပဓာနပြု၍ဆိုသည်။ အလုံးစုံသော နာမ်တရားပင်မရှိ။ ထို့ကြောင့် ဋီကာ၌ ''သညာသီသေန ပနေတ္ထ သဗ္ဗနာမာနံ ဂဟိတာ''ဟူ၍ မိန့်၏။

တစ်နည်းလည်း- သညာသဒ္ဒါသည် သိတတ်သော နာမ်တရားအလုံးစုံကို ဟော၏။ ထို့ကြောင့်- အချို့သောနာမ်မျှ မကျန်မရှိဟူပေ။

❖❖❖❖❖

## ၃၄၈။ နာမ်နှင့်အာချာတ်၊ယှက်တုံလတ်၊သမာသ် ပြယုဂ်ဘယ်သို့နည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အဟောသိဝေ ကမ္မံ အဟောသိကမ္မံ။**
**အနညာတညသာမီတိန္ဒြိယံ**–ဟူသည်တို့တည်း။

ဤ၌ ''အနညာတံ ဉ ဿာမီတိ ဣန္ဒြိယံ''အနညာတညဿာမိတြိယံ ဟူ၍တွဲ၊ ဉ ဿာမိ–ပုဒ်သည် ဉာ–ဓာတ်, ဿာမိဝိဘတ်ဖြစ်၍ အာချာတ်ပုဒ် မဟုတ်လော။ အာချာတ်ဖြစ်လျက် သမာသ် စပ်ခဲ့သော် ''နာမာနံ သမာသော ယုတ္တတ္ထော'' ဟူသော သုတ်နှင့် မဆန့်ကျင်ပြီလော ဟူငြားအံ့။ ဤသုတ်ကား ယေဘုယျကိုသာ ရည်သည်။ အပ္ပကအားဖြင့် အာချာတ်နှင့် လည်း သမာသ်ဖြစ်သေး၏ဟူ၍ ကေစိဆရာကြီးတို့ ဆို၏။

ထိုစကားသည် မသင့်။ ဘယ့်ကြောင့်နည်းဟူမူကား–ကစ္စည်း ဆရာပင် ''နာမာနမိတိ ကိမတ္ထံ'' စသည်ဖြင့် အာချာတ်နှင့် သမာသ်ဖြစ်ကြောင်းကို မြစ်တော်မူပြီး ဖြစ်သောကြောင့်တည်း။

သဒ္ဒနီတိ ဆရာကား– အာချာတ်ပုဒ်နောင် ဣတိ–သဒ္ဒါ, ဝေ–သဒ္ဒါကျေရာတို့၌ ထိုဣတိ ဝေ–ဟူသော နိပါတ်တို့နှင့် သမာသ်ဖြစ်၏ဟု မိန့်၏။

ဘေဒစိန္တာဆရာကား – အာချာတ်ကိုပင် နာမ်ဆိုလိုသော ပုဂ္ဂိုလ်၏ ဝတ္တိစ္ဆာနုပုဗ္ဗိကအားဖြင့် သမာသ်ဖြစ်သည်ဟု ဆို၏။

**သညာယ ဝတ္တုမိစ္ဆာယံ၊ အာချာတံ နာမိကံ ဘဝေ။**
**မာခလိစ္စာဒိသွိစ္စေဝံ၊ သဒ္ဒနီတိ ယမာဟတံ။** ဟူ၍ မိန့်၏။

❖❖❖❖❖

## ၃၄၉။နာမ်ပုဒ်ဆတ်ဆတ်၊မှတ်တုံလတ်၊ဓာတ်ဖြစ်သည်ကားဘယ့်ကြောင့်နည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဓာတွတ္ထဝါစကေနေဝ၊ ပစ္စယေန ပယောဂတော။
နာမတ္တာ ပဇဟိတွာန၊ ဓာတုရူပေဝ တိဋ္ဌရေ။
အတ္တနာ ဝစနီယာသ၊ ကတ္တုကမ္မေဟိ ပါကဋ္ဌော၊
သကတ္တုကော သကမ္မောတိ၊ ဓာတုရူပေါတိ ဝုစ္စတ။
ပဗ္ဗတာယတိ သံဃောတိ၊ ဗာလံ မုဏ္ဍာယတီတိ စ။
ဂမ္မကတ္တာ စ သာပေက္ခာ၊ ပေက္ခိတဗ္ဗာ ပယုဇ္ဇတေ။

ဟူ၍ သဒ္ဒတ္ထဘေဒစိန္တာ မိန့်သည်နှင့်အညီ ''ပဗ္ဗတာယတိ သံဃော'' အစရှိသော သဒ္ဒါသည် ဓာတ်၏အနက်ကို ဟောတတ်သော အာယ- အစရှိသော ပစ္စည်းနှင့် ယှဉ်ခြင်းကြောင့် ဒြပ်ကို ဟောတတ်သော နာမသဒ္ဒါ၏အဖြစ်ကို စွန့်၍ ကိရိယာကို ဟောသော ဓာတ်သဘော၌သာလျှင် တည်ကုန်၏။

အကြင် ပဗ္ဗတာယတိ-အစရှိသော သဒ္ဒါသည် မိမိဟောအပ်သော အနက်တည်းဟူသော ကိရိယာ၏ ကတ္တားကံဖြစ်သော ပုဒ်တစ်ပါးသည် ထင်ရှားရှိသည်၏။ အဖြစ်ကြောင့် ထိုနာမ်ပုဒ်ကို ဓာတ်၏သဘောရှိသည်-ဟု ဆိုအပ်၏။

သံဃော၊ သံဃာသည်။ ပဗ္ဗတာယတိ၊ တောင်ကဲ့သို့ မိမိကိုယ်ကို ကျင့်တတ်၏။ ဗာလံ၊ သတို့သားငယ်ကို။ မုဏ္ဍာယတိ၊ ခေါင်းပြည်းသည်ကို ပြုတတ်၏။ မုဏ္ဍာသ၊ မုဏ္ဍာသဒ္ဒါ၏။ အတ္တနာပေက္ခိတံ၊ မိမိသည် ငဲ့အပ်သော။ ဗာလံ၊ ဗာလ သဒ္ဒါကို။ ဂမ္မကတ္တာ၊ သိစေတတ်သည်၏ အဖြစ်ကြောင့်။ သာပေက္ခာ၊ ငဲ့တတ်သော မုဏ္ဍ-သဒ္ဒါသည်။ အပေက္ခိတဗ္ဗာ၊ ငဲ့အပ်သော ဗာလ-သဒ္ဒါကို။ ပယုဇ္ဇတေ၊ ယှဉ်အပ်၏။

အဓိပ္ပါယ်အကျဉ်းကား- ပဗ္ဗတာယတိစသည်၌ ပဗ္ဗတ-သဒ္ဒါသည် နာမ်ပုဒ် ဆတ်ဆတ်မှန်လျက် အာစရတိ အနက်ရှိသော အာယ-ပစ္စည်းနှင့်ယှဉ်သောကြောင့် ဓာတ်ဖြစ်၏ ဟူလိုသည်။

❖❖❖❖❖

## ၃၅၀။ ဘုရားပွင့်လတ်၊ ဗောဓိမြတ်၊ လုံးပတ်အတောင် ဘယ်မျှနည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဩဠွေ-အာဝဋ္ဋေ၊ လုံးပတ်သည်။ ဒွတ္တိံသရတနံ၊ ၃၂-တောင်ရှိ၏ ဟူ၍ ဗောဓိဝိဘာဝနီ၌ လာ၏။

❖❖❖❖❖

## ၃၅၁။ ဥံဖွဟွတ်ဟွတ်၊ မန္တန်ရွတ်၊ သံလွတ်ဘယ် ကလာပ်ပေနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-ဝိညတ်နှင့် တကွသော ဝစီဘေဒသဒ္ဒဖြစ်ရာ၌ ကလာပ်သည် ဝစီဝိညတ္တိသဒ္ဒဒသက ကလာပ်တစ်ပါး, ဝစီဝိညတ္တိ သဒ္ဒလဟုတာဒိတေရသက ကလာပ်တစ်ပါးအားဖြင့် နှစ်ပါးရှိသည်တွင် အလျှော့အတင်း, ဂရု-လဟု ပီစွာရွတ်အပ်သောအသံ၌ ဆဋ္ဌဖြစ်သော ဝစီဝိ ညတ္တိသဒ္ဒလဟု တာဒိတေရသက ကလာပ်ဖြစ်၏ ဟူပေ။

❖❖❖❖❖

## ၃၅၂။ သက်ရှိချင်းခတ်၊ မြည်တုံလတ်၊ ရမှတ်ရုပ်သေး ဘယ်မျှနည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ကျမ်း၌ တိုက်ရိုက်မတွေ့မိ။ "ခေါက်၍ မေးသော် ရုပ်သေးတစ်ရာရ၏"ဟူသော အာစရိယဝါဒကိုမှီ၍ မေးသော ပုစ္ဆာဖြစ်ရကား ဖြေလည်း ဖြေသင့်၏။ အဘယ်သို့ ဖြေသင့်သနည်း ဟူမူကား-

ခေါက်၍မေးသော်၊ ရုပ်သေးအရ၊ သုဒ္ဓဋ္ဌနှင့်၊ နဝကလာပ်၊ သတ္တရည်ဝယ်၊ ပိုင်းဖြတ်ခြင်းငှာ၊ အာကာသဓာတ်၊ ပန္နရသ်လောင်း၊ ချင့်ပေါင်းနေကျ၊ ဒွတ္တိံသမှာ၊ သတ္တိရှာ၍၊ တာသုံးခုမြှောက်၊ ဆင့်လှေကား လက္ခဏာ၊ လေးပါးလာက၊ တစ်ရာပြည့်ရိုး၊ လူ့ထိပ်မိုး-။

ဟူ၍ ရှေးဆရာတို့ ဆိုထုံးရှိ၏။

**အဓိပ္ပါယ်ကား။** ။ ဥတုဇရုပ်ချင်းခတ်ရာ၌ အသံ-ဟူသော သဒ္ဒနဝကလာပ် ဖြစ်ရကား သုဒ္ဓဋ္ဌနှင့်နဝကလာပ် နှစ်ရပ်သည် ရုပ်ပေါင်း သတ္တရသရှိ၏။ အကြားသည် ၁၅=ခုဖြစ်ရကား ပရိစ္ဆေဒရုပ် ၁၅-ခုနှင့် ယခင် ၁၇-ခုကို ပေါင်းသော်=ဒွတ္တိံသဖြစ်၏။ ထို ၃၂-ခုကို လဟုတာ, မုဒုတာ, ကမ္မညတာ ၃-ပါးနှင့်မြှောက်၊ ၉၆-ခုဖြစ်၏။ ထိုတွင် လက္ခဏာရုပ် ၄-ခုရော၊ ပေါင်း တစ်ရာရ၏။ ဤကား- ဗာဟိရရုပ်ကို ခေါက်သော နည်းတည်း။

သတ္တဝါသန္တာန်၌ကား-စတုဇရုပ်ဖြစ်သောကြောင့် ကမ္မဇကလာပ် ၉-စည်း၌ ရုပ်ပေါင်း ၈၉။ စိတ္တဇကလာပ် ၆စည်း၌ ရုပ်ပေါင်း ၆၃။ ဥတုဇကလာပ် ၄-စည်း၌ ရုပ်ပေါင်း ၄၀။ အာဟာရဇကလာပ် ၂-စည်း၌ ရုပ်ပေါင်း ၁၉-ရသည်ဖြစ်၍ လေးရုပ်လုံးကို ပေါင်းသော် ၂၁၁-ပါးရှိ၏။ အကြားတည်းဟူသော ပရိစ္ဆေဒရုပ်ကား -ကမ္မဇရုပ်၌ ၈၇။ စိတ္တဇရုပ်၌ ၆၁။ ဥတုဇရုပ်၌ ၃၈။ အာဟာရဇရုပ်၌ ၁၇- ရသင့်သည်ဖြစ်၍ ပေါင်း ၂၀၃-ခု ဖြစ်၏။ ၂-စုကိုပေါင်းသော် ၄၁၄-ပါးဖြစ်၏။ ဤကားပုတ်ခတ်ခံရသော ပုဂ္ဂိုလ်သန္တာန်၌ ရကောင်းသော ရုပ်တည်း။

ပုတ်ခတ်သော ပုဂ္ဂိုလ်၏ သန္တာန်၌လည်း ၄၁၄-ပါးပင် ရကောင်းရကား- ပေါင်းသော် ၈၂၈-ပါးဖြစ်၏။

ပုတ်ခတ်ခြင်းကြောင့်ဖြစ်သော အသံ၌ သဒ္ဒနဝက ကလာပ်ရသည်ဖြစ်၍ ၈၃၇-ရှိ၏။ ထိုကို လဟုတာဒိတ္တယ ၃-ခုဖြင့်မြှောက်သော် ၂၅၁၁ဖြစ်၏။ ထိုတွင် လက္ခဏာရုပ် ၄-ခုလောင်း ၂၅၁၅-ဖြစ်၏။ ယင်းသို့ဖြစ်၍ -

သက်ရှိချင်းခတ်။ မြည်တုံလတ်သော်။ ခတ်သည့်ရုပ်မှာ။ လေးရာ ဆယ့်လေး။ ထွေးသည့်ရုပ်ပေါင်း။ ၎င်းနည်းတူ။ နဝကူ၍။ သုံးဆူတာမြှောက်၊

စွက်လှော်က်လက္ခဏာ။ နှစ်ထောင်မှာတွင်။ ငါးရာတစ်ဆယ်။ ငါးခုကယ်သည်-
အကျယ်ရမျိုး ရုပ်တွက်ရိုး။

ဤသို့ ဖြေဆိုရာ၏။

❖❖❖❖❖

## ၃၅၃။ လနေဖမ်းတတ်၊ သူရိန်နတ်၊ သမသတ်ဘယ်သို့ ဖမ်းသနည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ရာဟု၏အသွားနှင့် ခရီးဆုံမိ၍ ဖမ်း၏ဟူပေ။

ဤအရာ၌ သိသာအောင် ကျယ်စွာဖြေဆိုဦးအံ့။ ။ ရာဟုဂြိုဟ်သည် ရာသီစက်၌ လှည့်လည်၏ ဆိုသော်လည်း တစ်ပါးဂြိုဟ်တို့ကဲ့သို့ ကောင်းကင်၌ တည်သည်မဟုတ်၊ မြင်းမိုရ်တောင်ခြေရင်းဖြစ်သော အသုရာပြည်၌ တည်သည်ဖြစ်၍ မြေ၌ကျက်စားသော ဂြိုဟ်တည်း။ ထိုအကြောင်းကိုကား သံယုတ္တနိကာယ် ဒေဝတာ သံယုတ်ပါဠိတော်၌ ဟောတော်မူသော အဋ္ဌကထာကိုထောက်၍ သိအပ်၏။

ဘုရားသခင်သည် သာဝတ္ထိပြည်ဝယ် စံပယ်တော်မူသောအခါ ရာဟု အသုရိန်သည် မြေမှတက်၍ နေ, လကို ဖမ်းသည်တွင် နေနတ်သား လနတ်သားတို့က ''ငါတို့အား ဘုရားသခင်သာ ကိုးကွယ်ရာဖြစ်တော့သည်''ဟု ဂါထာရွတ်၏။ ထိုအကြောင်းကို ဘုရားသခင်သည် ဂန္ဓကုဋီတိုက်တော်ကပင် ဒိဗ္ဗသောတဖြင့် ကြားတော်မူ၏။ ''အချင်း ရာဟု လွှတ်လော့၊ လွှတ်လော့''ဟု မိန့်တော်မူလျှင် အသုရိန်လည်း ဖမ်းရာမှ လွှတ်ပြေးလေ၏- ဟူ၍ လာသည်။

သရောဒယကျမ်း၌လည်း-

သးရာဟု၊ ထိုရာဟုကို။ မဟိတလေ၊ မြေပြင်၌။ ကာလရူပေန၊ မည်းနက်သောအဆင်းရှိသောအားဖြင့်။ သံဟာရေန၊ ယမမင်းကဲ့သို့ သွားခြင်း ရှိသောအားဖြင့်။ ဘြမတိ၊ လည်တတ်၏ ဟူ၍လည်းကောင်း။ ဝဇံဩဋ္ဌယာ၊ ဝရဇိန်လက်နက်နှင့်တူသော အစွယ် ၃-ချောင်းဖြင့်။ ရောဒြေဝ် ၏၊ ကြမ်းကြုတ်၏ဟူ၍လည်းကောင်း။ ဇ္ဈေတ် သိအပ်၏။ နသံဂယး၊ ယုံမှားမရှိရာ။

ဟူသော ဂါထာဖြင့် မည်းနက်သော အဆင်းရှိလျက် ယမမင်းကဲ့သို့ မထင်ရှားဘဲ မြေပြင်၌ လည်တတ်၏။ ဝရဇိန်နှင့်တူသော အစွယ် ၃-ချောင်းရှိလျက် ကြောက်မက်ဖွယ် ကြမ်းကြုတ်၏''ဟူ၍ဆိုသည်။

ထို၏ အဖွင့်ဋီကာ၌ ရာသီဖြင့်သွားဟန်ကိုလည်း–

ရာစိစကြေ ဂြဟန္တရဂတိဝိပရီတဂတျာ မေဂမိနကုမ္ဘာဒိကြ– မေနဘြမတိ။ ဟူ၍ဆိုသည်။

သးရာဟု၊ ထိုရာဟုသည်။ ရာစိစကြေ၊ တစ်ဆယ့်နှစ်ရာသီစက်၌။ ဂြဟန္တရဂတိ ဝိပရီတ ဂတျာ၊ ဂြိုဟ်တစ်ပါးတို့၏ သွားခြင်းမှ ဖောက်ပြန်သော သွားခြင်းဖြင့်။ မေဂမိန ကုမ္ဘာဒိကြမေန၊ မိဿ, မိန်, ကုံ စသော အစဉ်အားဖြင့်။ ဘြမတိ၊ လှည့်ပတ်သွားလာ၏။

သံယုတ္တနိကာယ် ဟူသော သာသနာကျမ်း၌လည်းကောင်း၊ သရောဒယစသော လောကီကျမ်းကြီးတို့၌လည်းကောင်း၊ မြေ၌တည်ကြောင်း၊ အသုရာပြည်မှ လာ၍ ဖမ်းကြောင်းကို ဆိုပြီ။ ထိုသို့ ကောင်းကင်၌မတည်သော် ရာသီစက်၌ ဘယ်သို့ ယှဉ်လေ ကောင်းအံ့နည်း ဟူငြားအံ့–

မြေမှာသာတည်၍ လှည့်လည်လျက် ရာသီစက်၌ ယှဉ်၏ဟု သိခြင်းသည် ဗေဒင်ကို စီရင်သော အဋ္ဌက, ဝါမက အစရှိသော ရသေ့မြတ်တို့၏ အမြင်ဉာဏ်ဖြင့် နိရန္တရ သွားလာထိပါးကြသော အခြင်းအရာကို တွက်ချက်၍ သိသာစေခြင်းငှာ ရာသီစက်၌ ဖက်ယှဉ်၍ထားသည်။ ထို့ကြောင့် သရအတွက် ပြက္ခဒိန်တို့ဖြင့် နေ လ ကြတ်မည် မကြတ်မည်ကို ဟောနိုင်သည်။

ဘယ့်ကြောင့်နည်းဟူမူ– တနင်္ဂနွေဂြိုဟ်သည် ဂဠုန်စီးလျက် အရှေ့မြောက်တွင် နေ၏။ တနင်္လာဂြိုဟ်သည် ကျားစီးလျက် အရှေ့အရပ်တွင် နေ၏–ဟု ဂြိုဟ်ရှစ်ဖြာကို မျက်နှာရှစ်ပါးဖြင့် မှတ်သား၍ ဆိုသကဲ့သို့တည်း။ ထို့ကြောင့် အသုရိန်နတ် ကောင်းကင်၌ လှည့်ရာ ခရီးကြုံကြိုက်သဖြင့် ဖမ်းခြင်းကိုပင် သဗ္ဗတ်ကြတ်, ထက်ဝက်ကြတ်, သုံးစိတ် ကြတ် ဖမ်းသည် သမသတ်ဖမ်းသည်ဟု အဟောဖြစ်၏။

ထို ရာဟု ဖမ်းဟန်ကို သံယုတ် အဋ္ဌကထာ လာတိုင်းပြလိုက်ဦးအံ့။

ရာဟု အသုရိန်၏ကိုယ်ကား အရပ်အားဖြင့် ယူဇနာ လေးထောင့်ရှစ်ရာရှိ၏။ လက်ကတီးကြားကား ယူဇနာ တစ်ရာ့နှစ်ဆယ်။ မောင်းလက်ရုံး အလုံးကား ယူဇနာ ခြောက်ရာ။ ဦးခေါင်းကား ယူဇနာ ကိုးရာ။ နဖူးပြင် ယူဇနာ သုံးရာ။ မျက်မှောက်အကြား ယူဇနာ ငါးဆယ်။ ခံတွင်းအကျယ် ယူဇနာနှစ်ရာ။ အစောက်ယူဇနာ သုံးရာ။ နှာခေါင်း ယူဇနာ သုံးရာ။ လက်ဖဝါး, ခြေဖဝါး အကျယ် ယူဇနာ ခုနစ်ရာရှိ၏။ ထိုရာဟုသည် နေ–လ သွားသောလမ်းဖြင့် သွား၍ နေ လ ရထားကိုမြင်လျှင် လက်ခြေကားလျက် ခံတွင်းကို ဟင်းလင်းဖွင့်၍ လိုက်၏။

ထိုအခါ နေဗိမာန် လဗိမာန်၌ စောင့်သော နတ်တို့သည် ယူဇနာသုံးရာ နက်သော နရက်ချောက်ကြီးသို့ ကျအံ့သကဲ့သို့ ဖြစ်၍ အလွန်ကြောက်ကုန်ရကား အခြံအရံနှင့်တကွ တစ်ပြိုင်နက် ငိုကြွေးလျက် ထွက်ပြေးကုန်၏။

ထိုအခါ ရာဟုသည် နေ-လ ဗိမာန်ကို ရံခါလည်း လက်ဝါးဖြင့် ဖုံး၏။ ရံခါလည်း မေးအောက်၌ ထား၏။ ရံခါလည်း လျှာဖြင့် လျက်၏။ ရံခါလည်း ပါးစောင်၌ ထား၏။ ယင်းသို့ ငုံနိုင်၊ ဖုံးလွှမ်းနိုင်သော်လည်း နေ-လတို့၏ သွားသောအဟုန်ကို မတန့်စေနိုင်။ လိုက်၍သာ ကစားရာ၏။ အုကယ်၍ တန့်စေငြားအံ့၊ ပါးဖြင့်ငုံသော် ဦးခေါင်းပြတ်ဘိ ရာ၏။ လက်ဖြင့်တင်သော် လက်ဝါးပြတ်ဘိရာ၏။ ဖမ်းလိုရင်းမှာ ဗိမာန်ကိုသာ အရောင်အဝါ လုပသောကြောင့် ကစားခြင်းငှာ ဖမ်းလိုသည်။ ဗိမာန်ကို ဖမ်းလျှင် နတ်သားကိုလည်း ဖမ်းရာကျသည်-ဟု ဋီကာပြ၏။

❖❖❖❖❖

## ၃၅၄။ ရဟန်းဆတ်ဆတ်၊ သုနက္ခတ်၊ နတ်နားဘယ့်ကြောင့် မရသနည်း။(၁၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဒိဗ္ဗသောတဉာဏ်ကို ရထိုက်သော ရှေးကောင်းမှုမရှိသောကြောင့် မရဟူ၍မှတ်။

❖❖❖❖❖

## ၃၅၅။ အဖကိုသတ်၊ မှန်တုံလတ်၊ မိသတ်ကံထိုက် ဘယ့်ကြောင့်နည်း။(၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- မျက်စိမမြင်ခြင်း, မစွမ်းသန်ခြင်း ရှိသောအမိကို လုပ်ကျွေးလျက်နေသော အဖအား သတ်မိသောကြောင့် အမိပါ သေသည်ဖြစ်၍ အမိသတ် ကံလည်း ထိုက်လေသည်။ စွမ်းသန်သော အမိပင်ဖြစ် သော်လည်း ကြိုးကြာမ, ကိန္နရီမ တို့သည် အဖိုကို သတ်လျှင် အမလည်း သေ၍ လိုက်သကဲ့သို့၊ အဖကို သတ်လျှင် အမိလည်း သေလိမ့်သတည်း-ဟု သိလျက် သတ်သောကြောင့် ကံနှစ်ပါး ထိုက်၏ ဟူပေ။ (ဝဇိရဗုဒ္ဓိ)။

❖❖❖❖❖

## ၃၅၆။ ဆင်ဖြူဆတ်ဆတ်၊ ပျံတုံလတ်၊ သကတ်ဘယ်သို့ ဆိုမည်နည်း။(၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ''ဆင်ပျံ''ဟု ခေါ်ကြရာ၌ ကောင်းကင်သို့ ပျံနိုင်ခြင်းသည်လည်း ဂုဏ်မည်၏။ ထိုဂုဏ်သည်ပင် ''သဿ က္လဒံ သကံ''ဟူသည်နှင့်အညီ သကတ်မည်၏ဟူပေ။

ဇာတိ-သဒ္ဒါ၌ တစ်ခုသည် တစ်ခုနှင့်တူသော အခြင်းအရာဟု ဆိုအပ်သော ဇာတ်သည် သကတ်မည်၏။

ဂုဏ-သဒ္ဒါ၌ ဂုဏ်သည် သကတ် မည်၏။

ဒဗ္ဗ-သဒ္ဒါ၌ ပဝတ္တနိမိတ်ဖြစ်သော ဒြပ်သည် သကတ်မည်၏။

ကြိယာ-သဒ္ဒါ၌ ပဝတ္တနိမိတ်ဖြစ်သော ကြိယာသည် သကတ်မည်၏။

နာမ-သဒ္ဒါ၌ ပဝတ္တနိမိတ်ဖြစ်သော နာမ်သည် သကတ်မည်၏။

ဤ ''ဆင်ပုံ''ဟူသော သဒ္ဒါသည် ဂုဏ–သဒ္ဒါဖြစ်၍ ပုံနိုင်သော ဂုဏ်သည် သကတ်မည်၏။

❖❖❖❖❖

၃၅၇။ စာစပ်ရှီးမှတ်၊ နည်းတုလွတ်၊ မြဝတ်ကေသာ မည်သို့နည်း။(၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အက္ခရာတွက်ကျုံးသုံးဆယ်ငါးမျှ၊ အဆုံးချ၊ မြဝတ်ကေသာခေါ်။

❖❖❖❖❖

၃၅၈။ ချနည်းဆတ်ဆတ်၊အဆုံးသတ်၊နိုင်ညွတ်ခက်ဖြာ မည်သို့နည်း။(၂၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ခုနစ်လုံးမှတ်၊ ချ တုံလတ်၊ နိုင်ညွတ်ခက်ဖြာခေါ်။

❖❖❖❖❖

၃၅၉။ ကက္ကုဆူးမှတ်၊ နည်းသေသတ်၊ ခေါ်လတ် စပ်ရှီးမည်မျှနည်း။(၂၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နေလျှင် ဆွေးရ၏–။

ဆွေးလျှင် ဝေးလှ၏–။

ဤသို့ ငါးလုံးချခြင်း, သုံးလုံးချခြင်းတို့သည် ကက္ကုဆူးမည်၏။ အပိုဒ်လည်း မညီကြ။

❖❖❖❖❖

၃၆၀။တောထွက်ကျင့်မြတ်၊လျှဉ်းသွယ်လတ်၊သည်မြတ်ဘယ်တဒ္ဓိတ် ပေနည်း။(၂၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– '' မဟာဘိနိက္ခမန်'' ပုဒ်ကို ထောက်လျှင် ဘယ်သမာသ်နည်း–ဟု မေးသင့်လျက်၊ ဘယ်တဒ္ဓိတ်နည်းဟု မေးသောအလိုကား– ''နိက္ခမတာရော''ပုဒ်ကို ရည်သည်။ ဝိသေသတဒ္ဓိတ်ဟူပေ။

❖❖❖❖❖

၃၆၁။ ဆယ်ဆကုန်မြတ်၊ထိုအမှတ်၊သည်မြတ်မှာလည်း မည်သို့နည်း။(၂၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သာလွန်ခြင်းအဓိက အနက်ကို ဟော၏ဟူပေ။

❖❖❖❖❖

၃၆၂။ချမ်းသာမချွတ်၊ကိုယ်ဟုမှတ်၊မိုက်မြတ် မိုက်ခေါင် ဘယ်သို့နည်း။(၂၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဥပါဒါနက္ခန္ဓာ ငါးပါးတို့ကို နိစ္စ, သုခ, အတ္တဟူ၍ ထင်မှတ်သောသူသည် မိုက်ကုန်သော သူတို့ထက် အထူးသဖြင့် မိုက်သော ဗာလတရဖြစ်ရကား ဝိသေသ တဒ္ဓိတ်ပင် ဟူလိုသည်။

❖❖❖❖❖

**၃၆၃။နားတော်မညွတ်၊ဆင်းကြာနတ်၊သည်နတ် ဘယ်အနက်ပေနည်း။(၂၅)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကြာနတ်သမီးနှင့်တူသော အဆင်း ရှိ၏ ဟူရကား သဒိသအနက်ကို ဟော၏။ သဒ္ဒါလည်း သမီပူပစာရဟူပေ။

❖❖❖❖❖

**၃၆၄။ နရတမွတ်၊ မြည်ကြီးနတ်၊ သည်နတ်မူကား ဘယ်သို့နည်း။(၂၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မင်းတည်းဟူသော သမ္မုတိနတ်ကို ဟောရကား သဒိသအနက် ဟူပေ။

❖❖❖❖❖

**၃၆၅။ ခြောက်ဆူဘုံထွတ်၊ အနတ်နတ်၊ နတ်ချင်းကွဲ၏ မည်သို့နည်း။(၂၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဥပပတ္တိနတ်စသည်ကို ဟော၏။

❖❖❖❖❖

**၃၆၆။ တိလောကနတ်၊ ဆရာထွတ်၊ နတ်ချင်းမတူ ဘယ်သို့နည်း။(၂၈)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဘုရားဟူသော ဝိသုဒ္ဓိနတ်ကို ဟော၏ဟူပေ။

❖❖❖❖❖

**၃၆၇။ သီဟိုဠ်နေမှတ်၊ ဗုဒ္ဓဒတ်၊ ကျမ်းမြတ်ပြုသည် ဘယ်ကျမ်းနည်း။(၂၉)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဗုဒ္ဓဒတ္တော နာမာစရိယော ဝိနယဝိနိစ္ဆယော, ဥတ္တရဝိနိစ္ဆယော, အဘိဓမ္မာဝတာရော, ဗုဒ္ဓဝံသဿ မဓုရဝိလာသနီနာမ အဋ္ဌကထာ, ဇိနာလင်္ကာရော တိ ပဉ္စဂန္ထေ အကာသိ။**

ဟူ၍ ဂန္ထဝံသ၌လာရကား ဝိနယဝိနိစ္ဆယ, ဥတ္တရဝိနိစ္ဆယ, အဘိဓမ္မာဝတာရ မဓုရဝိလာသနီ မည်သော ဗုဒ္ဓဝင်အဋ္ဌကထာ, ဇိနာလင်္ကာရ ဤငါးကျမ်းကို ပြု၏ဟူပေ။

❖❖❖❖❖

**၃၆၈။မကိုင်းမညွတ်၊ကိုယ်တော်မြတ်၊ပြုလတ် ဘယ်ကုသိုလ်ကြောင့်နည်း။(၃၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပုဗ္ဗေ၊ ရှေး၌။ မနုဿဘူတော၊ လူဖြစ်လတ်သော်။ ပါဏာတိပါတံ၊ သူ၏အသက်သတ်ခြင်းကို။ ပဟာယ၊ ပယ်စွန့်၍။ ပါဏာတိပါတာ၊ သူ၏အသက်ကိုသတ်ခြင်းမှ။ ပဋိဝိရတော၊ ကြဉ်သည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ နိဟိတဒဏ္ဍော၊ ပယ်ချပြီးသော ဒဏ်ရှိသည် နိဟတသတ္တော= ပယ်ချပြီးသော လက်နက်ရှိသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ လဇ္ဇီ၊ မကောင်းမှု

ဒုစရိုက်တို့မှ ရှက်တတ်သည်။ ဒယာပန္နော၊ သနားခြင်းနှင့်ပြည့်စုံသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ သဗ္ဗပါဏဘူတ ဟိတာနုကမ္ပီ၊ ခပ်သိမ်းသော သတ္တဝါတို့၏ အစီးအပွားကို စောင့်စည်းသည်။ ဟုတွာ၊ ဖြစ်၍။ ဝိဟာသိ၊ နေခဲ့ဖူး၏။ တေန။ ထိုကောင်းမှုကြောင့်။ ဒီဃင်္ဂုလိတာ၊ ရှည်သော လက်ချောင်း, ခြေချောင်းရှိသော အဖြစ်သည်လည်းကောင်း။ အာယတပဏှိတာ၊ ရှည်သော ဖနှောင့်တော်ရှိသော အဖြစ်သည်လည်းကောင်း။ ဗြဟ္မုဇုဂတ္တတာ၊ 'ဟရိ'မည်လတ်သော ဗြဟ္မာနတ်ကဲ့သို့ ဖြောင့်မတ်သော ကိုယ်တော်ရှိသော အဖြစ်သည်လည်းကောင်း။ ဣတိလက္ခဏတ္တယံ၊ ဤလက္ခဏာ ၃-ပါး အပေါင်းသည်။ ဇာယတေ။ ဖြစ်၏။

❖❖❖❖❖

## ၃၆၉။ ခရုသင်းမြတ်၊ လွှဖြင့်ဖြတ်၊ ညီညွတ်သွားတော် ဘယ့်ကြောင့်နည်း။(၃၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ပုဗ္ဗေ၊ ရှေး၌။ မနုဿဘူတော၊ လူ၏အဖြစ်သည်။ သမာနော၊ ဖြစ်လတ်သော်။ မိစ္ဆာဇီဝံ၊ မကောင်းသော အသက်မွေးခြင်းကို။ ပဟာယ၊ ပယ်၍။ သမ္မာအာဇီဝေန၊ ကောင်းသော အသက်မွေးခြင်းဖြင့်။ ဇီဝိတံ၊ အသက်မွေးခြင်းကို။ ကပ္ပေသိ၊ ပြု၏။ တုလာကူဋကံသကူဋမာနကူဋာစ၊ ချိန်စဉ်းလဲ, သပြာစဉ်းလဲ, တင်းစဉ်လဲ ပြု၍ လှည့်ပတ်ခြင်းမှ လည်းကောင်း၊ ဥက္ကောဋန ဝဉ္စနနိကတိသာဝိယောဂါစ၊ တံစိုးယူ၍ ကောက်ကျစ်မှုကို ပြုခြင်း, ဥပါယ်တံမျဉ်ဖြင့် လှည့်ပတ်ခြင်း, အတုပြု၍ လှည့်ပတ်ခြင်းတို့မှလည်းကောင်း။ ဆေဒနဝဓနဗန္ဓန ဝိပရာမောသအာလောပ ပသယှာကာရာစ။ လက်ခြေကို ဖြတ်ခြင်း, သတ်ခြင်း, နှောင်ဖွဲ့ခြင်း, ခရီး၌စောင့်၍ လုယက်ခြင်း, ပြည်ရွာကိုဖျက်၍ လုခြင်းတည်းဟူသော အနိုင်အထက် နှိပ်စက်ခြင်းမှလည်းကောင်း။ ပဋိဝိရတော၊ ကြဉ်တော်မူသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ တေန၊ ထိုကောင်းမှုကြောင့်။ သုသုက္ကဒါဌတာစ၊ အလွန်ဖြူစင်သော စွယ်တော်ရှိသော အဖြစ်သည် လည်းကောင်း။ သမဒန္တတာစေဝ၊ လွှဖြင့်ဖြတ်သကဲ့သို့ ညီညွတ်သော သွားတော်ရှိသော အဖြစ်သည်လည်းကောင်း။ ဇာယတေ။ ဖြစ်၏။ (လက္ခဏာသုတ်)။

❖❖❖❖❖

## ၃၇၀။ နေယျတ်နီတတ်၊ သင့်ဆုံးဖြတ်၊ နေယျတ်ဘယ်သို့ ဖွင့်သနည်း။(၃၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ပုဒ်ကိုဖွင့်သော သံဝဏ္ဏနာသည် နီတတ္ထ သံဝဏ္ဏနာ, နေယျတ္ထ သံဝဏ္ဏနာအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုတွင် တိုက်ရိုက်သိအပ်သော အနက်ကို ဖွင့်သော သံဝဏ္ဏနာသည် နီတတ္ထ သံဝဏ္ဏနာမည်၏။ ပြယုဂ်ကား- ''ပဝတ္တိတ္ထာတိ ဥပ္ပဇ္ဇိတ္ထ'' အစရှိသည်တည်း။ ဤ ပဝတ္တိတ္ထ၌ ပ-ရှေးရှိသော ဝတု-ဓာတ်သည် ဥပ္ပဇ္ဇန အနက်ကို ဟော၏ဟု တိုက်ရိုက် သိအပ်သော အနက်ကို ဖွင့်ပြသောကြောင့် နီတတ္ထ သံဝဏ္ဏနာ မည်၏။

ဆောင်၍ သိအပ်သော အနက်ကိုဖွင့်သော သံဝဏ္ဏနာသည် နေယျတ္ထ သံဝဏ္ဏနာ မည်၏။ ပြယုဂ်ကား– ''အဓိဝါသေတုန္တိ သမ္ပဋိစ္ဆိတုံ'' စသည်တည်း။ ဤ၌ သမ္ပဋိစ္ဆိတုံ– ဟူသော သံဝဏ္ဏနာသည် သာယာခြင်းသည် သည်းခံခြင်းပင်တည်း– ဟု အဓိ–ရှေးရှိသော ဝသ–ဓာတ်၏ အနက်ကို ဆောင်၍ သိအပ်သောအနက်ဖြင့် ဖွင့်ပြသောကြောင့် နေယျတ္ထသံဝဏ္ဏနာ မည်၏။

ဤနောက် သံဝဏ္ဏနာသည် ပုစ္ဆာ၏ သံဝဏ္ဏနာတည်း။

❖❖❖❖❖

## ၃၇၁။ နည်းပကတျတ်၊ ပစ္စယတ်၊ ဖွင့်လတ် မည်သို့ခြားသနည်း။(၃၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပကတျတ္ထ သံဝဏ္ဏနာ, ပစ္စယတ္ထ သံဝဏ္ဏနာ အားဖြင့် နှစ်ပါးရှိသည်တွင်–

လိင်ဓာတ်၏ အနက်ကိုဖွင့်သော သံဝဏ္ဏနာသည် ပကတျတ္ထ သံဝဏ္ဏနာ မည်၏။ ပြယုဂ်ကား ''ပဝတ္တိတ္တာတိ ဥပ္ပဇ္ဇိတ္တ''စသည်တည်း။ ။ ဤဥပ္ပဇ္ဇိတ္တ ဟူသော သံဝဏ္ဏနာသည် ပဝတ္တိတ္တ၌ ပ–ရှေးရှိသော ဝတုဓာတ်သည် ဥပ္ပဇ္ဇန အနက်ကို ဟော၏ဟု ဓာတ်၏ အနက်ကို ဖွင့်သောကြောင့် ပကတျတ္ထသံဝဏ္ဏနာ မည်၏။

ဝိဘတ်ပစ္စည်း၏အနက်ကိုဖွင့်သော သံဝဏ္ဏနာသည် ပစ္စယတ္ထ သံဝဏ္ဏနာ မည်၏။ ပြယုဂ်ကား ''သန္ဓာဝိဿန္တိ သံသရိံ''စသည်တည်း။ ဤ သံသရိံ–ဟူသော သံဝဏ္ဏနာ သည် သန္ဓာဝိဿံ၌ ဿံ–ဝိဘတ်သည် အတိတ်အနက်ကို ဟော၏ဟူ၍ ဝိဘတ်၏ အနက်ကို ဖွင့်သောကြောင့် ပစ္စယတ္ထ သံဝဏ္ဏနာမည်၏။ ။ဤသို့ခြား၏ ဟူ၍မှတ်။

❖❖❖❖❖

## ၃၇၂။ သဒ္ဒတ်–ဘာဝတ်၊ နှစ်ချက်မှတ်၊ ဘာဝတ်ဘယ်ကိုခေါ်သနည်း။(၃၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သဒ္ဒတ္ထ သံဝဏ္ဏနာ၊ ဘာဝတ္ထ သံဝဏ္ဏနာအားဖြင့် နှစ်ပါးရှိသည်တွင်–

သဒ္ဒါသည် ဟောအပ်သော အနက်ကိုဖွင့်သော သံဝဏ္ဏနာသည် သဒ္ဒတ္ထ သံဝဏ္ဏနာ မည်၏။ ပြယုဂ်ကား ''အာစိက္ခန္တီတိ ဒေသေန္တိ''အစရှိသည်တည်း။ ဤဒေသေန္တိဟူသော သံဝဏ္ဏနာသည် အာရှေးရှိသော စိက္ခ–ဓာတ်သည် ဒိသ အနက်ကို ဟော၏ဟု သဒ္ဒါသည် ဟောအပ်သောအနက်ကို ဖွင့်သောကြောင့် သဒ္ဒတ္ထ သံဝဏ္ဏနာမည်၏။

အဓိပ္ပာယတ္ထကို ဖွင့်သော သံဝဏ္ဏနာသည် ဘာဝတ္ထ သံဝဏ္ဏနာမည်၏။ ပြယုဂ်ကား ''အာစိက္ခန္တီတိ ဥတ္တာနိ ကရောန္တိ'' အစရှိသည်တည်း။ ဤ ဥတ္တာနိ ကရောန္တိ– ဟူသော သံဝဏ္ဏနာသည် ကြားခြင်းမည်သည်ကား ထင်းရှားပြုခြင်း ပင်တည်းဟု အဓိပ္ပာယတ္ထကို ဖွင့်သောကြောင့် ဘာဝတ္ထ သံဝဏ္ဏနာမည်၏။ ။ အဓိပ္ပာယတ္ထကို ဘာဝတ်ခေါ်၏ ဟူပေ။

❖❖❖❖❖

## ၃၇၃။ အဘိဓေယျတ်၊ သဘာဝတ်၊ ဆတ်ဆတ်မည်သို့ယူသနည်း။(၃၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အဘိဓေယျတ္ထ သံဝဏ္ဏနာ, သဘာဝတ္ထ သံဝဏ္ဏနာအားဖြင့် နှစ်ပါးရှိသည်တွင်– သဒ္ဒါသည် ဟောအပ်သော အနက်ကို ဖွင့်သော သံဝဏ္ဏနာသည် အဘိဓေယျတ္ထ သံဝဏ္ဏနာမည်၏။ ပြယုဂ်ကား– ''ရာသဒ္ဒေန ခန္ဓော''အစရှိသည်တည်း။ ဤရာသဒ္ဒေန ဟူသော သံဝဏ္ဏနာသည် ခန္ဓ–သဒ္ဒါသည် အစုဟူသော အနက်ကို ဟော၏ဟု သဒ္ဒါသည် ဟောအပ်သော အနက်ကို ဖွင့်သောကြောင့် အဘိဓေယျတ္ထ သံဝဏ္ဏနာမည်၏။

သဘောဖြစ်သော အနက်ကိုဖွင့်သော သံဝဏ္ဏနာသည် သဘာဝတ္ထ သံဝဏ္ဏနာမည်၏။ ပြယုဂ်ကား–''ဒုလ္လဘဋ္ဌေန ရတနံ''အစရှိသည်တည်း။ ဤဒုလ္လဘ ဋ္ဌေန ဟူသော သံဝဏ္ဏနာသည် ရတနာသည် ရခဲသော သဘောရှိ၏–ဟု သဘောဖြစ်သော အနက်ကို ဖွင့်သောကြောင့် သဘာဝတ္ထ သံဝဏ္ဏနာမည်၏။ ။ ဤသို့ ယူရမည်။

❖❖❖❖❖

## ၃၇၄။ ဒြပ်–သကတ်၊ လိင်–သချ်တ်၊ ကာရကတ်ဖွင့် မည်သို့နည်း။(၃၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သကတ္ထ သံဝဏ္ဏနာ, ဒဗ္ဗတ္ထသံဝဏ္ဏနာ, လိင်္ဂတ္ထ သံဝဏ္ဏနာ, သချ်တ္ထ သံဝဏ္ဏနာ, ကာရကတ္ထ သံဝဏ္ဏနာ အားဖြင့် ငါးပါးအပြားရှိ၏။

ထိုငါးပါးတို့တွင်–သကတ်အနက်ကိုဖွင့်သော သံဝဏ္ဏနာသည် သကတ္ထ သံဝဏ္ဏနာ မည်၏။ ပြယုဂ်ကား– အောဘိဓမ္မောတိ ကေနဋ္ဌေန အဘိဓမ္မော။ ဓမ္မာတိရေက ဓမ္မဝိသေသဋ္ဌေန'' အစရှိသည်တည်း။ ဤဓမ္မာတိရေက ဓမ္မ ဝိသေသဋ္ဌေန ဟူသော သံဝဏ္ဏနာသည် အဘိဓမ္မာ၏ လွန်သောဂုဏ်, ထူးသော ဂုဏ်တည်းဟူသော သကတ်အနက်ကို ဖွင့်သောကြောင့် သကတ္ထ သံဝဏ္ဏနာမည်၏။

ဒြပ်၏အနက်ကိုဖွင့်သော သံဝဏ္ဏနာသည် ဒဗ္ဗတ္ထသံဝဏ္ဏနာမည်၏။ ပြယုဂ်ကား– ''အဘိဝိသိဋ္ဌာ ဓမ္မာ ဧတ္ထာတိ အဘိဓမ္မော။ အဘိဓမ္မပိဋကံ'' အစ ရှိသည်တည်း။ ဤ အဘိဓမ္မပိဋကံ–ဟူသော သံဝဏ္ဏနာသည် အဘိဓမ္မာ ပိဋကတ်တည်းဟူသော ဒြပ်အနက်ကို ဖွင့်သောကြောင့် ဒဗ္ဗတ္ထသံဝဏ္ဏနာမည်၏။

လိင်အနက်ကိုဖွင့်သော သံဝဏ္ဏနာသည် လိင်္ဂတ္ထသံဝဏ္ဏနာမည်၏။ ပြယုဂ်ကား ''ဝေသာလိယန္တိ ဝေံ နာမကေ ဣတ္ထိလိင်္ဂဝသေန ပဝတ္တဝေါဟာရေ နဂရေ- အစရှိသည်တည်း။ ဤ ဣတ္ထိလိင်္ဂဝသေန ပဝတ္တဝေါဟာရေ, နဂရေ ဟူသော သံဝဏ္ဏနာသည် ဝေသာလီ-သဒ္ဒါသည် ဣတ္ထိလိင်တည်းဟူသော လိင်အနက်ကို ဖွင့်သောကြောင့် လိင်္ဂတ္ထ သံဝဏ္ဏနာမည်၏။

သချ႓ာအနက်ကိုဖွင့်သော သံဝဏ္ဏနာသည် သချ႓ာတ္ထသံဝဏ္ဏနာမည်၏။ ပြယုဂ်ကား ''ဓမ္မာတိရေက ဓမ္မဝိသေသဋ္ဌေနာတိ ဒွိန္နံ အတ္ထာနံ အဘိဓမ္မသဒ္ဒဿ အတ္ထဘာဝေန သာမညနိဒ္ဒေသော ကတော။ ဧကဝစနနိဒ္ဒေသောကတော'' အစ ရှိသည်တည်း။ ဤ ဒွိန္နံ။ ပ။ ကတော-ဟူသော သံဝဏ္ဏနာသည် လွန်သော ထူးသော နှစ်ပါးသော အနက်တို့၏ အဘိဓမ္မ-သဒ္ဒါ၏အနက်အဖြစ်ဖြင့် တူသော အခြင်းအရာဟု ဆိုအပ်သော သချ႓ာအနက်ကို ဖွင့်သောကြောင့် သချ႓တ္ထ သံဝဏ္ဏနာမည်၏။

ကာရကအနက်ကိုဖွင့်သော သံဝဏ္ဏနာသည် ကာရကတ္ထသံဝဏ္ဏနာမည်၏။ ပြယုဂ်ကား''ဗုဒ္ဓန္တိကမ္မတ္ထနိဒ္ဒေသော'' အစရှိသည်တည်း။ ဤကမ္မတ္ထနိဒ္ဒေသော-ဟူသော သံဝဏ္ဏနာသည် ဗုဒ္ဓံ၌ အံဝိဘတ်သည် ကံအနက်ကို ဟော၏ဟု ကာရကအနက်ကို ဖွင့်သောကြောင့် ကာရကတ္ထသံဝဏ္ဏနာမည်၏။

ဤဆိုအပ်ခဲ့ပြီးသော နည်းကို ထောက်၍ သံဝဏ္ဏနာငါးမျိုးကို သိရာ၏။

❖❖❖❖❖

## ၃၇၅။ အဘိဓာနတ်၊ ဘိဓေယျတ်၊ အမှတ်မည်သို့ ဖွင့်သနည်း။(၃၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- အဘိဓာနတ္ထသံဝဏ္ဏနာ, အဘိဓေယျတ္ထ သံဝဏ္ဏနာအားဖြင့် နှစ်ပါးရှိသည်တွင် ဝိဂြိုဟ်၏အနက်ကိုဖွင့်သော သံဝဏ္ဏနာသည် အဘိဓာနတ္ထသံဝဏ္ဏနာမည်၏။ ပရိယာယ်အနက်ကို ဖွင့်သော သံဝဏ္ဏနာသည် အဘိဓေယျတ္ထ သံဝဏ္ဏနာမည်၏။ ပြယုဂ်ကား ''ဗုဇ္ဈတီတိ ဗုဒ္ဓေါ။ ယောဘဂဝါ'' အစရှိသည်တည်း။ ။ ဤဗုဇ္ဈတိ-ဟူသော သံဝဏ္ဏနာသည် ဗုဒ္ဓေါဟူသော သံဝဏ္ဏေတဗ္ဗပုဒ်၏ ဝိဂြိုဟ်အနက်ကို ဖွင့်သောကြောင့် အဘိဓာနတ္ထသံဝဏ္ဏနာမည်၏။ ယော ဘဂဝါဟူသော သံဝဏ္ဏနာသည် ဗုဒ္ဓေါ-ပုဒ်၏ပရိယာယ်အနက်ကို ဖွင့်သောကြောင့် အဘိဓေယျတ္ထ သံဝဏ္ဏနာမည်၏။

❖❖❖❖❖

## ၃၇၆။ မဟာသမ္မတ်၊ မင်းစဉ်လတ်၊ သိဒ္ဓတ်တိုင်အောင် ဘယ်မျှနည်း။(၃၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-မဟာသမ္မတမင်းမှစ၍ ဘုရားလောင်း သိဒ္ဓတ်မင်းတိုင်အောင် မင်းဆက်ပေါင်းကား သုံးသိန်းသုံးသောင်း လေးထောင့်ငါးရာ ခြောက်ကျိပ်ကိုးဆက် ရှိသည်။

သရုပ်အကျယ်မှာ မဟာရာဇဝင်၌ ရှိပြီ။ နားတော်သွင်း လင်္ကာတို့လည်း ထင်းရှားရှိပြီးဖြစ်၍ အကျယ်မရေးလိုက်ပြီ။

❖❖❖❖❖

## ၃၇၇။ အဇာတသတ်၊ လောကနတ်၊ ချလတ်ကျောင်းတွင်ဘယ့်ကြောင့်နည်း။(၃၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-အဇာတသတ်မင်းကား ဘုရားသခင်၌ အလွန်ကြည်ညိုသည်ဖြစ်၍ ကုသိနာရုံပြည်၌ ဘုရားပရိနိဗ္ဗာန် စံတော်မူသောအခါ အမတ်တို့က ငါတို့မင်းသည် ဤသတင်းကိုလျှောက်ကြားလျှင် မိန်းမော၍ သွားလတ္တံ့။ ထိုသို့မိန်းမောသောအခါ ထောပတ်ကျင်း၌ ထည့်၍ စိမ်မှသာ သက်သာရာရလတ္တံ့''ဟု ကြံစည်၍ လူကိုယ်ဆံ့လောက်သော ရွှေကျင်းကိုပြုပြီးမှ ထောပတ်အပြည့်ထည့်ထား၍ အဇာတသတ်မင်းအား ဘုရားပရိနိဗ္ဗာန်စံသော သတင်းစကားကို လျှောက်ကြားကြ၏။ ထိုစကားကို ကြားလျှင် မင်းလည်း သက်ကြီးရှိုက်တငင် ပင်ပန်းလျက် ပက်လက်လံ၍ ထိုနေရာတွင်ပင် လဲလေ၏။ ထိုအခါ အမတ်တို့လည်း မြန်စွာပွေ့ချီ၍ ထောပတ်ကျင်း၌ ချရ၏။ အတန်ကြာမှ သက်သာရာရသတည်း။

ဤသို့ ဘုရားရှင်၌ ခင်မင်ကြည်ညွတ်ခြင်းအားကြီးလှ၍ ပရိဒေဝမီးလောင်ခြင်း လွန်သောကြောင့် ကျင်းတွင်းချ၏ဟူပေ။ မာလာလင်္ကာရ၊ ဇိနတ္ထတို့၌ အကျယ်လာပြီ။

❖❖❖❖❖

## ၃၇၈။ သာကီဝင်မှတ်၊ မင်းဆက်မြှတ်၊ ပြတ်သည်ဘယ်မင်းတွင်ပေနည်း။(၄၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဘုရားညီတော် မဟာနာမ်မင်းတွင် ပြတ်၏ဟူပေ။

ဘယ့်ကြောင့်ပြတ်သနည်းဟူမူ-

သာဝတ္ထိပြည်ကို အစိုးရသော ပသေနဒီ ကောသလမင်းသည် ဘုရားသခင် အမျိုးတော်ဖြစ်သော သာကီဝင်မင်းမျိုးမှသမီးကိုလို၍ တောင်းသည်တွင် မဟာနာမ်မည်သော သာကီဝင်မင်းက အမျိုးပျက်မည်စိုး၍ သမီးရင်းကို မပေးဘဲ ကျွန်မမှ ဖွားမြင်သော ဝါသဘခတ္တိယာမည်သော သတိုးသမီးကို ပေးလိုက်၏။

ပသေနဒီကောသလမင်းလည်း ထိုဝါသဘခတ္တိယကို မိန်းမငါးရာတို့၏ အကြီးပြု၍ မိဖုရားမြှောက်လေ၏။ ထိုသို့မြှောက်သည်တွင် ဝိဋ္ဋူဘအမည်ရှိသော သတိုးသားကို ဖွားမြင်၏။

ထိုဝိဋ္ဋူဘသည် အဘိုး၏နေရာဖြစ်သော ကပိလဝတ်ပြည်သို့ လာရာ သာကီဝင်မင်းတို့က ဝိဋ္ဋူဘထိုင်သောနေရာကို ကျွန်မသားနေရာ-ဟု ဆို၍ ရေဆေးကုန်၏။ ထိုအကြောင်းကို မင်းချင်းတို့လျှောက်ထား၍ မင်းသားကြားသိလေသော်

ဝိဋ္ဋူဘလည်း ''ငါမင်းဖြစ်သောအခါ ဤသာကီဝင် မင်းတို့၏ လည်ချောင်းသွေးဖြင့် ငါ၏ထိုင်ရာကို ဆေးစေအံ့''ဟု ကြိမ်းပ၍ ရန်ငြိုးထား၏။

သာဝတ္ထိပြည်သို့ပြန်လာပြီးသော် အင်တန်ကြီး၍ ကျေးကျွန်သင်းပင်း များသောအခါ စစ်သည်ဗိုလ်ပါ ရုံးစု၍ ကပိလဝတ်ပြည်ကို စစ်ထိုး၏။ သာကီဝင်မင်း တို့လည်း မကောင်းမှုဖြစ်အံ့သည်မှ ကြောက်သောကြောင့် စစ်မထိုးကုန်။ ဘုရားသခင်လည်း မဟာဆွေတော်မျိုးတော် အပေါင်းတို့ပျက်စီးအံ့သည်ကို သနားတော်မူ၍ နှစ်ကြိမ်တိုင်အောင် ကိုယ်တော်ကြွ၍ တားမြစ်တော်မူ၏။ ဝိဋ္ဋူဘလည်း ဘုရားသခင်ကို တွေ့သောအအကြိမ်တို့၌ မဖျက်ဆီးဘဲ ပြန်လာခဲ့၍ သုံးကြိမ်မြောက် ချီထွက်သောအခါမှ ဖျက်ဆီးနိုင်လေ၏။

ထိုအခါ မိမိရဲမက်တို့အား ဤသို့မှာဆို၏ ''သင်တို့သည် ငါ၏အဘိုးဖြစ်သော မဟာနာမ်မင်း၏အိမ်၌နေသော သာကီဝင်မင်းမျိုးမဟုတ်သော သူတို့အား အသက်ကို လွှတ်စေ၍ ကြွင်းသော သာကီဝင်မင်းမျိုးဟူသမျှကို သတ်ကြလေကုန်ဟု မှာဆို၏။

ရဲမက်တို့လည်း မင်းသားမှာဆိုတိုင်း သတ်ကြလေကုန်သော် သာကီဝင်မင်းတို့လည်း သေဘေးမှကြောက်သောကြောင့် ပရိယာယ်စကားဆိုခြင်းငှာ ''သင်ဘယ်အမျိုးနည်း''ဟု မေးသောကာလ မြက်ကိုကိုင်နေသောသူတို့သည် ''ငါတို့မြက်သည်၊ သာကီဝင်မဟုတ်'' ကျူကိုကိုင်နေသော သူတို့လည်း ''ငါတို့ကျူသည်၊ သာကီဝင်မဟုတ်'' ဟု ဆိုကုန်၏။ ထိုသို့သော သူတို့သည်လည်းကောင်း မဟာနာမ်မင်း၏အထံ၌ နေသောသူတို့သည်လည်းကောင်း အသက်ကိုရကုန်၏။ ကြွင်းသော သာကီဝင်မင်းတို့ကား နို့စို့သူငယ်မျှ မလွတ်ရ သတ်စေ၍ သွေးချောင်းစီးမျှ ဖြစ်ကုန်၏။ ထိုသွေးဖြင့် မိမိထိုင်သော အင်းပျဉ်ကို ဆေးစေ၏။ ဤသို့ ဝိဋ္ဋူဘမင်းလည်း ဖျက်ဆီး၍ သာကီဝင်မင်းတို့ ပျက်စီးလေသည်။

ဝိဋ္ဋူဘမင်းလည်း ဘိုးတော် မဟာနာမ်ကို ခေါ်ယူခဲ့၍ ပြန်လာသော ခရီးအကြား၌ နံနက်စာ စားအံ့သောအခါ၌ စားတော်ထမင်းဆက်သွင်းလတ်သော် ''ငါနှင့်ထမင်း အတူစားမည်''ဟု အဘိုးကို ခေါ်စေ၏။ သာကီဝင်မင်းမျိုးလည်း ဇာတိမာန် အားကြီးရကား ''ကျွန်မသားနှင့် ထမင်းအတူစားရသည်ထက် ငါ့အသက် သေခြင်းသည် မြတ်သေး၏''ဟု နှလုံးသွင်း၍ မဟာနာမ်မင်းက ဤသို့ဆို၏ ''အမောင်၊ ငါ့ကိုယ် ညစ်ညူးလှသည် ရေချိုးဦးမည်''ဟု ဆို၏။ မင်းသားကလည်း ''အဘိုးကောင်းပြီ၊ ချိုးဦးလော့''ဟု ခွင့်ပေးသော် မဟာနာမ်မင်းလည်း ရေအိုင်သို့သွား၍ ဆံဖျားကို ထုံးပြီးလျှင် ဆံကြားသို့ ခြေကိုသွင်း၍ ရေ၌ငုပ်လေ၏။

မဟာနာမ်မင်း၏ဂုဏ်ကျေးဇူးကြောင့် နဂါးပြည်ပူသော အခြင်းအရာဖြစ်၍ နဂါးမင်း ရှုကြည့်လတ်သော် ထိုအကြောင်းကိုသိ၍ မြန်စွာလာလျက် မဟာနာမ်မင်းကို ယူဆောင်ပြီးလျှင် နဂါးပြည်သို့ သွားလေကုန်၏။ မဟာနာမ်လည်း နဂါးပြည်၌ ၁၂-နှစ် နေရ၏။

ဝိဋ္ဋုဗ္ဗျာသည် ''ငါ့အဘိုးလာခဲ့သည်''ဟု နံနက်စာမစားဘဲငံ့နေရသည်။ ညနေဝင်၍ မှောင်သောအခါ သူတစ်ပါးတို့၏ ပုဆိုးကြား စသည်တို့၌ ဆီမီးဖြင့်ရှာစေ၍ မတွေ့နိုင်မှ ''ကပိလဝတ်ပြည်သို့ ပြန်လေသည် ဖြစ်လတ္တံ့''ဟု ဆို၍ ထမင်းစား၏။

ဤသို့ ဝိဋ္ဋုဗ္ဗျာဘေးကြောင့် သာကီဝင်မင်တို့ ပျက်စီးပြီးသည့်နောက် ဘယ်သူဆက်လက်၍ မင်းပြုသည်ဟု စာပေမလာသောကြောင့် မဟာနာမ် မင်းတွင် သာကီဝင်ဆက်ပြတ်သည်ဟု ဆိုဖွယ်ရှိသည်။

❖❖❖❖❖

## ၃၇၉။ ဘဒ္ဒကပ်မြွတ်၊ ခုဆတ်ဆတ်၊ အလတ်ထက်ဝက် ရောက်ပြီနည်း။(၄၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဘဒ္ဒကပ်မည်သော ဤကမ္ဘာ၌ နေ–လ ပေါ်သည်မှစ၍ နောက် ကမ္ဘာပျက်မိုးရွာသည်တိုင်အောင်သော ကာလသည် ဝိဝဋ္ဋဋ္ဌာယီမည်သော အသင်္ချေယျ ကပ်တစ်ခုမည်၏။ ထို ဝိဝဋ္ဋဋ္ဌာယီ မည်သော ဘဒ္ဒကပ်၌ အန္တရကပ် ခြောက်ဆယ့်လေးကပ်ရှိသည်။ ထိုကပ်ကို ဝက်၍ သုံးဆယ့်နှစ်ကပ်ရှိမှ အလတ်ထက်ဝက် ရောက်မည်။ ယခုမူကား တစ်ဆယ့်တစ်ကပ်မျှသာ လွန်သေးသည်။

လွန်ကြောင်းကိုကား အန္တရကပ် ရှစ်ကပ်မြောက်တွင် ကကုသန်ဘုရားပွင့်တော်မူသည်။ ကိုးကပ်မြောက်တွင် ကောဏာဂုံဘုရားပွင့်တော်မူသည်။ ဆယ်ကပ်မြောက်တွင် ကဿပဘုရား ပွင့်တော်မူသည်။ ဆယ့်ခြောက်ကပ်မြောက်တွင် ဂေါတမဘုရား ပွင့်တော်မူသည်ဟု ဆိုသော ဒီပဝင်၊ မဟာဝင်ကျမ်းတို့ကို မှီ၍ သိရသည်။ ယင်းသို့ဖြစ်၍ အလတ်ရောက်မည်ကား နှစ်ဆယ့်တစ်ကပ်ပင် လိုသေး၏ဟု သိရာသည်။

❖❖❖❖❖

## ၃၈၀။ ဆန်းဂိုဏ်းအမှတ်၊ ဂါထာမြွတ်၊ မတ္တာသမက မည်သို့နည်း။(၄၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မတ္တာသမကံ နဝမော လ္ဂန္တော။

ယဿာ၊ အကြင်ဂါထာ၏။ သောဠသမတ္တိကေသု၊ ၁၆–မတြာ ရှိကုန်သော။ စတူသု ပါဒေသု၊ ၄–ပါဒတို့၌။ နဝမော၊ ကိုးခုတို့၏ ပြည့်ကြောင်းဖြစ်သော ဝဏ္ဏာသည်။ လော၊ လဟုသည်။ စေသိယာ၊ အကယ်၍ ဖြစ်အံ့။ အန္တော၊ အဆုံး၌။ ဂေါ၊ ဂရုသည်။ စေသိယာ၊ အကယ်၍ဖြစ်အံ့။ တံ၊ ထိုဂါထာသည်။ မတ္တာသမကံ၊ မတ္တာသမက ဂါထာမည်၏။

(ပါဋ္ဌိ၌ မပါသည်ကိုသွင်း၍ ယောဇနာသော ပါဌ်ဟူသမျှသည် ရှေ့ကလိုက်လာသော အနုဝတ္တနပါဌသေသဟူ၍မှတ်)။

ဤသို့ ဆန်းကျမ်းဆိုသည်ကိုထောက်၍–

ပထမ၌ မ, သ, ဘ, န ဤ ၄–ဂိုဏ်းတွင် တစ်ဂိုဏ်းဂိုဏ်း နေစေ။

ဒုတိယ၌ မ, သ, ဘ, ဤ ၃–ဂိုဏ်းတွင် တစ်ဂိုဏ်းဂိုဏ်း နေစေ။

တတိယ၌ တစ်ဂိုဏ်း နေစေ။

စတုတ္ထ၌ မ, သ ၂-ဂိုဏ်းတွင် တစ်ဂိုဏ်းဂိုဏ်း နေစေ။

ဤလက္ခဏာနှင့် ညီသော ဂါထာသည် မတ္တာသမက ဂါထာမည်၏။

❖❖❖❖❖

## ၃၈၁။ ကုသိုလ်ချင်းမှတ်၊ တပ်သတတ်၊ နတ္ထိပစ္စည်းမည်သို့နည်း။(၄၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ပုရိမာ ပုရိမာ ကုသလာ ဓမ္မာ ပစ္ဆိမာနံ ပစ္ဆိမာနံ ကုသလာနံ ဓမ္မာနံ နတ္ထိပစ္စယေန ပစ္စယော။**

ဟူသော ပဋ္ဌာန်းပါဠိတော်နှင့်အညီ၊ ရှေးရှေးဖြစ်သော ကုသိုလ်ဇော၏ ပျောက်ခြင်း, ချုပ်ခြင်း, မရှိခြင်းသည် နောက်နောက်သော ကုသိုလ်ဇော၏ ဖြစ်ခြင်းငှာ ကျေးဇူး ပြုသည်ကို ''နတ္ထိပစ္စည်း''ဟု ဟောတော်မူသောကြောင့် ပဌမဇောသည် ဒုတိယ ဇောအား, ဒုတိယဇောသည် တတိယဇောအား တတိယဇောသည် စတုတ္ထဇောအား ကျေးဇူးပြုခြင်းပင်တည်း။ ။ အနန္တရပစ္စည်းနှင့် အလားတူပင် မှတ်အပ်၏။

❖❖❖❖❖

## ၃၈၂။ ကိုယ်-စိတ်-ဝိညတ်၊ ဖြစ်စေတတ်၊ စိတ္တုပ္ပါဒ်ခွဲ ဘယ့်နှယ်နည်း။(၄၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''ဝေါဋ္ဌဗ္ဗန ကာမာဝစရ ဇဝနာဘိညာ ပန ဝိညတ္တိမ္ပိ သမုဋ္ဌာပေန္တိ''

ဟူ၍ သင်္ဂြိုဟ်မိန့်ရကား-ဝုဋ္ဌော, ကာမဇော တစ်ခုယုတ်သုံးဆယ်, အဘိညာဉ် ဒွေး ဤသုံးဆယ့်နှစ်ပါးသောစိတ်သည် ကာယဝိညတ်ကိုလည်း ဖြစ်စေသည်။ ဝစီဝိညတ်ကိုလည်း ဖြစ်စေသည်။ ပိ-သဒ္ဒါဖြင့် သွားခြင်း, ရပ်ခြင်း, ထိုင်ခြင်း, လျောင်းခြင်းဟူသော ဣရိယာပုတ်ကိုလည်း ခိုင်စေသည်။

ထိုသုံးဆယ့်နှစ်ပါးတွင် သောမနဿဇော တစ်ဆယ့်သုံးပါးသည် ရယ်ခြင်း ဟူသော ဝစီဝိညတ္တိဟသနသဒ္ဒကိုလည်း ဖြစ်စေတတ်၏။

❖❖❖❖❖

## ၃၈၃။ဆယ့်ခြောက်နက်မှတ်၊သက်တုံးလတ်၊ဝိဘတ်အဘယ်ပေတို့နည်း။(၄၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တတိယာ သောဠသတ္ထမှိ ကတမော-

ကရဏေ ကတ္တုကမ္မေ စ၊ ကိရိယာပဝဂ္ဂလက္ခဏေ။

ကာလဒ္ဓါန ပစ္စတ္တေသွ၊ ဝဓိဟေတု နိမိတ္တကေ၊

သဟတ္ထာဒျင်္ဂသမ္ဗန္ဓ၊ ဝိသေသနာဒိကေ ဘုမ္မေ။

တတိယဝိစကာ ဟောန္တိ၊ သောဠသတ္ထာ ဒိကေသွပိ။

ဟူ၍ ဝိဘတျတ္တ၌လာရကား–နာမဟိဟူသောတတိယာဝိဘတ်သည် ၁၆–နက်၌ ဖြစ်၏။ ၁၆–နက်ဟူသည်ကား ကရိုဏ်းအနက်။ ကတ္တားအနက်။ ကံအနက်။ ကိရိယာပဝဂ္ဂအနက်။ လက္ခဏအနက်။ ကာလအဓွန့်အနက်။ ပထမာအနက်။ အပါဒါန်အနက်။ ဟိတ်အနက်။ နိမိတ်အနက်။ သဟာဒိယောဂအနက်။ အင်္ဂဝိကာရ အနက်။ သမ္ဗန္ဓအနက်။ ဝိသေသနအနက် စသည်တို့ကိုလည်းကောင်း။ သတ္တမီအနက် တို့ကိုလည်းကောင်း။ တတိယာဝိဘတ် ဟော၏ဟူပေ။

ဥဒါဟရုဏ်နှင့် အကျယ်ကို ၎င်းသဒ္ဒါငယ်တွင်ရှိပြီ။

❖❖❖❖❖

**၃၈၄။ ရကိုယသတ်၊ ဥငင်လတ်၊ ဖတ်သော် ကျောက်စာမည်သို့နည်း။(၄၆)**

**၃၈၅။ မကိုယသတ်၊ က္လတင်လတ်၊ ဖတ်ဟန် ယင်းလည်းမည်သို့နည်း။(၄၇)**

**၃၈၆။ တတွင်ဝသတ်။ ကျောက်စာမှတ်။ ရွတ်ဖတ်ဟန်ကားမည်သို့နည်း။(၄၈)**

**၃၈၇။ ငကို ယသတ်၊ က္လတင်လတ်၊ လူတတ်ဖတ်လော့ဘယ့်နှယ်နည်း။(၄၈)**

**၃၈၈။ ငကိုယသတ်၊ ရေးစမှတ်။ ဖတ်ရိုး ကျောက်စာမည်သို့နည်း။(၅၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ရယ်** ဤသို့ရေးလျှင် **၍**–ဖတ်ရမည်။
**မိယ်** ဤသို့ရေးလျှင် **မည်**–ဖတ်ရမည်။
**တဝ်** ဤသို့ရေးလျှင် **တော်**–ဖတ်ရမည်။
**ငိယ်** ဤသို့ရေးလျှင် **ညည်**–ဖတ်ရမည်။
**ငယ်** ဤသို့ရေးလျှင် **ငည်**–ဖတ်ရမည်။

ဘယ့်ကြောင့် ယသတ်ရှိလျှင် ညသတ်သံဖတ်သနည်း ဟူငြားအံ့။ ကစ္စည်းဆရာပင် ''သယေစ''သုတ်ဖြင့် ယ–ကို ဥအပြုစီရင်လေသောကြောင့်တည်း။

က္လ–ကို ဘယ့်ကြောင့် **ဖျောက်**သနည်း ဟူငြားအံ့–မဖျောက်၊ က္လ–တင်ရာ၌ ယပင့်သံ ဖတ်လျှင် ''က္လဝဏ္ဏော ယံ နဝါ''သုတ်နှင့် ညီတော့သည်။

❖❖❖❖❖

**၃၈၉။ ဗဟုဗ္ဗီသမာသ်၊ နည်းတွဲလတ်၊ အသဿတ္တိနှင့် မည်သို့နည်း။(၅၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–
ဗဟုဗ္ဗီဟိသမာသ်မှာ–နှစ်ပုဒ်ခွဲ၍ ပြုသည်။
အသဿတ္တိမှာ–တစ်ပုဒ်ကို ပေါင်း၍ ပြုသည်။

**တစ်နည်း** ဗဟုဗ္ဗီဟိသမာသ်မှာ-ပုဒ်အချင်းချင်း ချဉ်းသည်။

**အဿတ္ထိမှာ**- ပုဒ်နှင့်, ပစ္စည်း ချဉ်းသည်။

**ဥဒါဟရဏ်ကား** ''သုန္ဒရံ မနံ ဧတဿ အတ္ထီတိ သုမနော''ဟု ပြုမှု ဗဟုဗ္ဗီဟိ။

''သုမနံ ဧတဿတ္ထီတိ သုမနော'' ဟူ၍ပြုမူ အဿတ္ထိ။ ဤသို့ ထူး၏ ဟူပေ။

မဏိမဥ္ဇူဆရာ, ချာသဆရာ, သဒ္ဒနီတိ ဆရာတို့ကား အသီး အသီးဆိုကြ၏။ အလမတိ ပပဉ္စေထင်၍ မရေးလိုက်ပြီ။

❖❖❖❖❖

## ၃၉၀။ ကာရိုက်, အာဏတ်၊စေတုံလတ်၊အမှတ် ဘယ်သို့ထူးသနည်း။(၅၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ပေသနေ ဒဗ္ဗမတ္တဿ၊ အာဏတ္တော ပဥ္စမီ သိယာ။
ကိရိယာယောဂေ တု ဝိဓေယျ၊ ကာရိတေ ဏေဏယာဒယော။

ဒဗ္ဗမတ္တဿ၊ ဒြပ်မျှကို။ ပေသနေ၊ စေခြင်း၌။ အာဏတ္တော၊ အာဏတ္တိအနက်၌။ ပဥ္စမီ၊ ပဥ္စမီဝိဘတ်သည်။ သိယာ၊ ဖြစ်ရာ၏။ ကိရိယာယောဂေတု၊ ကိရိယာနှင့်ယှဉ်၍ စေရာ၌ကား။ ကာရိတေ၊ ကာရိုက်အနက်၌။ ဏေဏယာ ဒယော၊ ဏေဏယ အစရှိသော ပစ္စည်းတို့ကို။ ဝိဓေယျ၊ စီရင်ကုန်ရာ၏။

ဤသို့ နိရုတ္တိမဉ္ဇူ, ကစ္စာယနဘေဒဋီကာတို့၌ မိန့်သောကြောင့်-
ဒြပ်မျှကို စေရာ၌ အာဏတ္တိပဥ္စမီ-
ကိရိယာနှင့် ယှဉ်၍စေရာ၌ ကာရိုက်-ဟု မှတ်အပ်၏။

**ငါတို့အလိုကား**-

မရှိသေသဖြင့် စေရာ၌ ကာရိုက်။
ရှိသေသဖြင့် စေရာ၌ အာပတ္တိပဥ္စမီ ဟူ၏။

❖❖❖❖❖

## ၃၉၁။ နေတ္တိကျမ်းမြွက်၊ ထုတ်စမှတ်၊ ပညတ္တိဟာရ မည်သို့နည်း။(၅၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- တစ်ခုသော တရားကို များစွာသော သဒ္ဒါပညတ်ဖြင့် သိစေသော အခြင်းအရာကို ပြုခြင်းလက္ခဏာရှိသော ဟာရသည် ပညတ္တိဟာရမည်၏။ ထို ပညတ္တိဟာရကို လိုအပ်သော ပုဒ်၌ပင် ထုတ်အပ်၏။

''မဟာကာရုဏိကံ နာထံ'' ဟူသော ပုဒ်၌ ထုတ်သော်ကား- ဤမဟာကာရုဏိကံ ဟူသော ပညတ်သည် မြတ်သောဂုဏ်, ကရုဏာဂုဏ်ကိုစွဲ၍ ဆိုအပ်သောကြောင့် ဥပါဒါပညတ် မည်၏။ ထိုမဟာကရုဏာဂုဏ်သည်လည်း အလုံးစုံသောသူ၌မဖြစ်၊ မြတ်သောသီလ, သမာဓိ, မေတ္တာ ရှိသောပုဂ္ဂိုလ်တို့၌သာ ဖြစ်ရကား ထို သီလ, သမာဓိ, မေတ္တာဂုဏ်မှ ထောက်၍ ဆိုအပ်သောကြောင့် ဥပနိဓာ ပညတ်မည်၏။ ဤမဟာကရုဏာ ဟူသော ဓမ္မသည် ပရမတ္ထအားဖြင့် ထင်ရှားရှိသောကြောင့် ဝိဇ္ဇမာန ပညတ်မည်၏။ သဗ္ဗညုတဉာဏ်၏ အကြောင်းဖြစ်သော ကရုဏာကို သိစေသောကြောင့် ပဘဝပညတ်မည်၏။ ဝါ။ အစဖြစ်သော ကရုဏာကိုဆိုသဖြင့် အဆုံးဖြစ်သော သဗ္ဗညုတဉာဏ်ကိုလည်း သိစေတတ်သည်။ အလယ်၌တည်သော ဂုဏ်တော်ကိုလည်း ပြသည်မည်သောကြောင့် အနေကဓာ ပညတ်မည်၏။ ဤသို့ စသည်ဖြင့် ထုတ်အပ်၏။

❖❖❖❖❖

## ၃၉၂။ ဖုဋ္ဌတိမှတ်၊ ဖုဓာတ်၊ ပဒဋ္ဌာဟာရ ဘယ့်နှယ်နည်း။(၅၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-ကုသိုလ်အစရှိသော တရားတို့၏ ပဒဋ္ဌာန်ကို ထုတ်ခြင်းလက္ခဏာရှိသော ဟာရသည် ပဒဋ္ဌာဟာရမည်၏။

ထိုပဒဋ္ဌာဟာရကို ထုတ်သော်ကား- သစ္စာ ၄-ပါးတရားတို့ကို သိစေတတ်သော အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်တို့ကို ရည်၍ ဖုဋ္ဌတိဟူသော ဝါကျကိုဆိုသော ပုဂ္ဂိုလ်၏ပဒဋ္ဌာန်ကား- သတိ, ဝီရိယ, ဉာဏ်ပြဋ္ဌာန်းသော ကုသိုလ်ဇောစိတ္တုပ္ပါဒ်တည်း။ ထိုစိတ္တုပ္ပါဒ်၏ ပဒဋ္ဌာန်ကား- ယောနိသောမနသိကာရ, စတုစက္ကသမ္ပတ္တိတည်း။

**တစ်နည်းကား**- စတုစက္ကသမ္ပတ္တိသည် ယောနိသောမနသိကာရ၏ ပဒဋ္ဌာန်တည်း။ ထိုမနသိကာရသည် သတိ, ဝီရိယ, ဉာဏ်ပြဋ္ဌာန်းသော ကုသိုလ်ဇောစိတ္တုပ္ပါဒ်၏ ပဒဋ္ဌာန်တည်း။ ထိုဇောစိတ္တုပ္ပါဒ်သည် ဖုဋ္ဌတိဟူသော ဝစီဘေဒသဒ္ဒ၏ ပဒဋ္ဌာန်တည်း။ ဤသို့စသည်ဖြင့် ထုတ်အပ်၏။

❖❖❖❖❖

## ၃၉၃။ ဓာရေတိမှတ်၊ ဓရဓာတ်၊ အာဝဋ္ဋာဟာရ မည်သို့နည်း။(၅၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဒေသနာဟာရ၌ ဟောအပ်သော ဓမ္မတို့၏ ပဒဋ္ဌာန်ကိုရှာ၍ သဘာဂ ဝိသဘာဂ တရားတို့ကိုလည်စေခြင်း လက္ခဏာ ရှိသော ဟာရသည် အာဝဋ္ဋာဟာရမည်၏။

ဓာရေတိ–ပုဒ်၌ အာဝဋ္ဋဟာရကို ထုတ်သော်ကား–အပါယ်ဝဋ်ဒုက္ခသို့ မကျစေမူ၍ ဆောင်တတ်သော ကုသိုလ်ဓမ္မ၏ ပဒဋ္ဌာန်ကား ဝီရိယတည်း။ ထို၏ ပဒဋ္ဌာန်ကား အပ္ပမာဒတည်း။ ထိုအပ္ပမာဒဖြင့် အပ္ပမာဒလျှင် အကြောင်းရှိကုန်သော သတိ, ပညာ, သဒ္ဓါ, ဟိရီ အစရှိကုန်သော ကုသိုလ်တရားတို့သည် လည်ကုန်၏။

အပ္ပမာဒ၏ ဆန့်ကျင်ဘက်ကား မေ့လျော့ခြင်း ပမာဒတည်း။ ထိုပမာဒ၏ ပဒဋ္ဌာန်ကား ကောသဇ္ဇတည်း။ ထို ပမာဒ, ကောသဇ္ဇ တရားနှစ်ပါးလျှင် အကြောင်းရင်းရှိကုန်သော အကုသိုလ်တရားတို့သည် လည်ကုန်၏။ ။ ဤသို့ စသည်ဖြင့် ထုတ်အပ်၏။

❖❖❖❖❖

## ၃၉၄။ သေသေသတ်သတ်၊ နေတွတ်မှတ်၊ ဝိဘတ္တိဟာရ မည်သို့နည်း။(၅၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သံကိလေသဓမ္မ, ဝေါဒါနဓမ္မ တို့ကို သာဓာရဏ, အသာဓာရဏအားဖြင့်လည်းကောင်း၊ ပဒဋ္ဌာန်အားဖြင့် လည်းကောင်း၊ ဘုံအားဖြင့်လည်းကောင်း ဝေဖန်ခြင်း လက္ခဏာရှိသော ဟာရသည် ဝိဘတ္တိဟာရမည်၏။

ထို ဝိဘတ္တိဟာရသည်–ဓမ္မဝိဘတ္တိ, ဘူမိဝိဘတ္တိ, ပဒဋ္ဌာနဝိဘတ္တိအားဖြင့် သုံးပါးပြား၏။ ထိုဝိဘတ္တိကို ထုတ်သော်ကား ''မဟာကာရုဏိကံ'' အစရှိသော ပဏာမဂါထာသည် ဝါသနာဘာဂိယ, နိဗ္ဗေဓဘာဂိအားဖြင့် နှစ်ပါးတွင် ပဏာမ စေတနာတည်းဟူသော ဖြူစင်သော ဝေါဒါနအဖို့ ရှိသောကြောင့် ဝါသနာဘာဂိယ မည်၏။ ထိုဂါထာ၏ အရကား ဝစီဘေဒသဒ္ဒ၊ ထို ဝစီဘေဒသဒ္ဒ၏ အကြောင်းဖြစ်သော ကုသိုလ်ဇောစိတ္တုပ္ပါဒ်တည်း။ ထိုနှစ်ပါးတွင် ဝစီဘေဒသည် ပုထုဇဉ်, သေက္ခပုဂ္ဂိုလ်, အသေက္ခပုဂ္ဂိုလ်တို့နှင့် ဆက်ဆံ၏။ ကုသိုလ်ဇောစိတ္တုပ္ပါဒ်သည် အသေက္ခပုဂ္ဂိုလ်တို့နှင့် မဆက်ဆံ။ ဝစီဘေဒသဒ္ဒ၏ သဒ္ဒ–ဟူသော အမည်သည် ခပ်သိမ်းသော သဒ္ဒတို့နှင့် ဆက်ဆံ၏။ ဓမ္မတာသဘောကား မဆက်ဆံ။ ဤကား ဓမ္မဝိဘတ္တိတည်း။

''မဟာကာရုဏိကံ''အစရှိသော ဝစီဘေဒ သဒ္ဒ၊ ထို ဝစီဘေဒသဒ္ဒ၏ အကြောင်း ဖြစ်သော ကုသိုလ်ဇောစိတ္တုပ္ပါဒ်သည် ဘုံအားဖြင့် ကာမာဝစရ မည်၏။ ပုထုဇဉ်သန္တာန်၌ ဖြစ်သောကြောင့်လည်း ပုထုဇဉ်ဘုံမည်၏။ ဤကား ဘူမိဝိဘတ္တိတည်း။

''မဟာကာရုဏိကံ''အစရှိသော ဝစီဘေဒသဒ္ဒ၏ ပဒဋ္ဌာန်ကား ကုသိုလ်ဇော စိတ္တုပ္ပါဒ်တည်း။ ထိုစိတ္တုပ္ပါဒ်၏ ပဒဋ္ဌာန်ကား ယောနိသောမနသိကာရ အစ ရှိသည်တည်း။ ဤကား ပဒဋ္ဌာန ဝိဘတ္တိတည်း။

ဤသို့ စသည်ဖြင့် ဝိဘတ္တိဟာရကို မှတ်အပ်၏။ .

❖❖❖❖❖

၃၉၅။ အာကာသဓာတ်၊ ပျက်ယွင်းလတ်၊ အမှတ် ဘယ်လက္ခဏာနည်း။(၅၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဟနုနေတြာ၊ မေးမျက်စိတို့သည်။ ဥပရိ၊ အထက်သို့။ ဝိလောကေယျ။ မျှော်ကြည့်၍ မမိုတ်ဘဲ ရှိအံ့။ အာကာသ နဿနန္တိ၊ အာကာသဓာတ်ပျက်ပြီဟူ၍။ လက္ခိတံ၊ မှတ်အပ်၏။

❖❖❖❖❖

၃၉၆။ ခံကောင်းကင်ဓာတ်၊ ပျက်ယွင်းလတ်၊ သေတတ် ဘယ်အချိန်၌နည်း။(၅၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အာကာသဓာတုဝိနာသေ၊ အာကာသဓာတ် ပျက်စီးလတ်သော်။ သာယနေဝ၊ ညချမ်း၌သာလျှင်။ မရိဿတိ၊ သေလတ္တံ့။

❖❖❖❖❖

၃၉၇။လျှာလည်းကြမ်းလတ်၊ တွန့်သတတ်၊ ဘယ်ဓာတ်ပျက်သည်ဆိုပိမ့်နည်း။(၅၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မရဏကာလေ၊ သေခါနီးအခါ၌။ ဇိဝှါ၊ လျှာသည်။ ခရာစ၊ ကြမ်းလည်းကြမ်းအံ့။ ရဿာစ၊ တိုလည်းတိုအံ့။ ရဿဇိဝှါ၊ တိုသောလျှာသည်။ ပဝိသန္တော၊ အတွင်းသို့ဝင်လေမူကား။ အာပေါနဿန လက္ခဏံ၊ အာပေါဓာတ်ပျက်သော လက္ခဏာတည်း။ (ဓာတုဝိဘာဂဒီပနီ)။

❖❖❖❖❖

၃၉၈။ ပထဝီဓာတ်၊ ပျက်ယွင်းလတ်၊ ဘယ်ဓာတ်ပေး၍ ကုမည်နည်း။(၆၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပထဝီဓာတ်၊ ပျက်လတ်သော်မူ၊ ဝါယောဟူသား၊ မပူမငန်၊ အဖန်ရသာ၊ ဆေးသြဇာကို၊ ပေးကာကုမှ၊ ချမ်းသာရလိမ့်။

❖❖❖❖❖

၃၉၉။ အာကာသဓာတ်၊ ရသာမြတ်၊ ဆတ်ဆတ် ဘယ်သို့ရှိသနည်း။(၆၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အာကာသဓာတုရသာ၊ အာကာသဓာတ်၏ အရသာသည်။ ကဋ္ဌုကော၊ စပ်၏။ (ဓာတုရသ)။

❖❖❖❖❖

၄၀၀။ဝက်ခြင်ပျောက်တတ်၊ ဆေးအမြတ်၊ ပညတ် တမည် ဘယ်သို့နည်း။(၆၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဝက်ချေးဘနဲခေါ်သော ရွှေတံတိုင်းမြစ်ကို သွေး၍လူး။ တစ်နည်း–ထင်းရှူးမြစ်ကို ထုံးနှင့်သွေး၍လူး။

❖❖❖❖❖

### ၄၀၁။ ကုမ္ဘီပုဒ်ပါ၍၊ ရှိတုံလတ်၊ ဟောမှတ် က-ကြီး ဘယ်သို့နည်း။(၆၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ကောလမ္ဘော ကုမ္ဘီတိအာဒီသု အဂ္ဂိမှိ။ တတ္ထ ဟိ ကေန အဂ္ဂိနာ လမ္ဘတီတိ ကောလမ္ဘော။ ဘတ္တပစနကော မဟာကုမ္ဘော။ ကေန အဂ္ဂိနာ ဘဝတိ တေနေဝ ပစနဘာဝတော ကုမ္ဘီတိအတ္ထော ဟောတိ။**

ဟူ၍ ကေကာရကောသဋီကာမိန့်၏။

ကောလမ္ဘော ကုမ္ဘီတိအာဒီသု၊ ကောလမ္ဘော, ကုမ္ဘီအစရှိသောပုဒ်တို့၌။ က-သဒ္ဒေါ၊ က-သဒ္ဒါသည်။ အဂ္ဂိမှိ။ မီးဟူသော အနက်၌ဖြစ်၏။ ဟိ၊ ဝိဂြိုဟ်ဆိုလိုက်ဦးအံ့။ တတ္ထ၊ ထိုပြယုဂ်၌။ ကေန အဂ္ဂိနာ၊ မီးဖြင့်။ လမ္ဘတိ၊ ချက်အပ်၏။ ဣတိ၊ ထို့ကြောင့်။ ကောလမ္ဘော။ ကောလမ္ဘမည်၏။ ဘတ္တပစနကော၊ ထမင်းချက်သော။ မဟာကုမ္ဘော၊ စိတ်ဝင်တင်းဝင်အိုးကြီးကို။ လဗ္ဘတိ၊ ရအပ်၏။ ကေနအဂ္ဂိနာ၊ မီးဖြင့်။ ဘဝတိ၊ ဖြစ်တတ်၏။ တေနေဝ၊ ထိုမီးဖြင့်သာလျှင်။ ပစနဘာဝတော၊ ချက်အပ်သည်၏ အဖြစ်ကြောင့်။ ကုမ္ဘီ ကုမ္ဘီမည်၏။ ဣတိအတ္ထော၊ ဤသို့သော အနက်သည်။ ဟောတိ၊ ဖြစ်၏။

❖❖❖❖❖

### ၄၀၂။ မာတလိနတ်၊ သိကြားမတ်၊ နတ်၏'မာ'ကား ဘယ်ဟောနည်း။(၆၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**မာတလိ မာဃောတိအာဒီသု မာ-သဒ္ဒေါ မာတရိ ဟောတိ။ တတ္ထ ဟိ မာ-မာတာဝိယ သတ္တာနံ ဟိတသုခံ တလတိ ဝိဒဓာတီတိ မာတလိ။ ဒေဝပုတ္တဝိသေသော။**

**မာ-မာတာဝိယ ပရဇနာနံ ဟိတသုခံ ဃရတိ အာသိသတီတိ မာဃော။ ငင်းဋီကာ။**

မာတလိ မာဃောတိအာဒီသု၊ မာတလိ မာဃောစသော ဥဒါဟရဏ်တို့၌။ မာ-သဒ္ဒေါ၊ မာ-သဒ္ဒါသည်။ မာတရိ၊ မိခင်ဟူသောအနက်၌။ ဟောတိ၊ ဖြစ်၏။ ဟိ။ ချဲ့လိုက်ဦးအံ့။ တတ္ထ၊ ထိုဥဒါဟရဏ်၌။ မာ-မာတာဝိယ၊ အမိကဲ့သို့။ သတ္တာနံ၊ သတ္တဝါ တို့၏။ ဟိတသုခံ၊ စီးပွားချမ်းသာကို။ တလတိ ဝိဒဓာတိ၊ စီရင်တတ်၏။ ဣတိ၊ ထို့ကြောင့်။ မာတလိ၊ မာတလိမည်၏။ ဒေဝပုတ္တဝိသေသော၊ သိကြားနတ်၏ အမတ်တွင်ဘိ မာတလိကို။ လဘတိ၊ ရ၏။

မာ-မာတာဝိယ၊ မိခင်ကဲ့သို့။ ပရဇနနံ၊ တစ်ပါးသော သူတို့၏။ ဟိတသုခံ၊ စီးပွားချမ်းသာကို။ ဃရတိ အာသိသတိ၊ တောင့်တတတ်၏။ ဣတိ၊ ထို့ကြောင့်။ မာဃော၊ မာဃမည်၏။

❖❖❖❖❖

၄၀၃။ ဝါသဝေါပါဌ်၊ သိကြားမှတ်၊သေသတ် 'ဝါ'ဟော ဘယ်သို့နည်း။(၆၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဝါသဝေါတိဧတ္ထ ဝါ-ဓာတု ပဝတ္တနေ။ တတ္ထ ဟိ ပုရိမတ္တဘာဝေ အာဝါသဒါနဝသေန ဝါတိ ပဝတ္တတီတိ ဝါသဝေါ။ ၎င်းဋီကာ။**

ဝါသဝေါတိဧတ္ထ၊ ဝါသဝေါဟူသော ဥဒါဟရုဏ်၌။ ဝါ-ဓာတု၊ ဝါ-ဓာတ်သည်။ ပဝတ္တနေ၊ ဖြစ်ခြင်းအနက်၌ဖြစ်၏။ ဟိ၊ ချဲ့လိုက်ဦးအံ့။ တတ္ထ၊ ထိုဥဒါဟရုဏ်၌။ ယော ရာဇာ၊ အကြင်သိကြားမင်းသည်။ ပုရိမတ္တဘာဝေ၊ ရှေးကိုယ်၏အဖြစ်၌။ အာဝါသဒါနဝသေန၊ ကျောင်းလှူသည်၏ အစွမ်းဖြင့်။ ဝါတိပဝတ္တတိ၊ ဖြစ်တတ်၏။ ဣတိ၊ ထို့ကြောင့်။ သောရာဇာ၊ ထိုသကြားမင်းသည်။ ဝါသဝေါ၊ ဝါသဝမည်၏။

❖❖❖❖❖

၄၀၄။ ဉာကောဒှိ-ဓာတ်၊ဟင်းရွက်ဖတ်၊သက်လတ်ပစ္စည်းဘယ်ရနည်း။(၆၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဒှိ-ဓာတု ပန ဉာကောတိအာဒီသု ပဝေသနေ ဟောတိ။ တတ္ထ ဟိ ဧတိ ပဝိသတိ ဘတ္တမေတေနာတိ ဉာကော။ သူပူပကရဏဘူတံ ယံကိဉ္စိ ပတ္တာဒိကံ။**

ဒှိဓာတု ပန၊ ဒှိ ဓာတ်သည်ကား။ ဉာကောတိအာဒီသု၊ ဉာကော အစရှိသော ပုဒ်တို့၌။ ပဝေသနေ၊ ဝင်ခြင်းအနက်၌။ ဟောတိ၊ ဖြစ်၏။ ဟိ၊ ချဲ့ဦးအံ့။ တတ္ထ၊ ထိုဥဒါဟရုဏ်၌။ ဧတေန၊ ထိုဟင်းရွက်ဖြင့်။ ဝါ၊ ထိုဟင်းရွက်ကြောင့်။ ဘတ္တံ၊ ထမင်းသည်။ ဧတိ ပဝိသတိ၊ ဝင်တတ်၏။ ဣတိ၊ ထို့ကြောင့်။ ဉာကော၊ ဉာကမည်၏။ သူပူပကရဏ ဘူတံ၊ ဟင်း၏အဆောက်အဦဖြစ်သော။ ယံကိဉ္စိ၊ အလုံးစုံသော။ ပတ္တာဒိကံ၊ ဟင်းရွက် စသည်ကို။ လဘတိ၊ ရ၏။

ဉ-ဓာတ်, က-ပစ္စည်း။ ''ကဋ္ဌာဒီဟိ ကော''ဟူသော သုတ်ဖြင့်သက်။ ဉ-ဓာတ်၏အရ ကတ္တုတ္တကိရိယာကား အစာကို ငင်စေတတ်သော ဟင်းရွက်စသည်၌ တည်သော အရသာ၏ ပကတူပနိဿယ သတ္တိသည် မုချ။ ဟင်းရွက်စသည်သည် ကာရဏူပစာရအားဖြင့်ရ၏။ က-ပစ္စည်း၏ အရကား-ထိုမုချ, ကာရဏူပစာရအားဖြင့် မှတ်အပ်သော ဟင်းရွက်ဖတ် ရ၏။ ဤသို့ကောက်။

❖❖❖❖❖

၄၀၅။ ခင်းနှီးလဲသွတ်၊ ထိုင်တုံလတ်၊ အာပတ် မသင့်ဘယ်၌နည်း။(၆၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တူလောနဒ္ဓါ ဃရေယေဝ၊ မဉ္စပီဌာ နိသီဒိတုံ။

တူလောနဒ္ဓါ၊ လဲသုံးပါးဖြင့် မွေးအပ် ဖွဲ့အပ်ကုန်သော။ မဉ္စပီဌာ၊ ညောင်စောင်း အင်းပျဉ်တို့သည်။ ဃရေ၊ ရွာတွင်း၌။ နိသီဒိတုံဝေ၊ နေခြင်းငှာသာလျှင်။ ကပ္ပန္တိ၊ အပ်ကုန်၏။ (ခုဒ္ဒသိက္ခာ)။

စူဠဝါ ပါဠိတော်၌– တေန ခေါ ပန သမယေန မနုဿာ ဘတ္တဂ္ဂေ အန္တရဃရေ တူလောနဒ္ဓံ မဥ္စမ္ပိ ပီဌမ္ပိ ပညပေန္တိ။

စသည်ဖြင့် အန္တရဃရ–သဒ္ဒါ, ဘတ္တဂ္ဂ–သဒ္ဒါတို့ကို တကွယှဉ်၍ ဟောတော်မူသောကြောင့် ဃရ–သဒ္ဒါဖြင့် ဆွမ်းစားဇရပ်ကိုလည်း ယူအပ်၏။ ထို့ကြောင့် ''ဃရေယေဝ''၌ ဧဝ–သဒ္ဒါသည် အဋ္ဌာနပယုတ်တည်း။ ထို ဧဝ–ကို နိသီဒိတုံ–ဟူသော ကိရိယာနောင်သာ ယှဉ်အပ်၏ဟု ပြလိုသော ဋီကာ ဆရာသည်–

**ဃရေတိဣမိနာ ဘတ္တဂ္ဂသပိ ဂဟဏံ။ ဧဝ–သဒ္ဒေါ အဋ္ဌာနပယုတ္တော။ တသ္မာတူလောနဒ္ဓါ မဥ္စပီဌာ ဃရေ ဝါ ဘတ္တဂ္ဂေ ဝါ နိသီဒိတုမေဝ ကပ္ပန္တီတိ သမ္ဗန္ဓော။** ဟူ၍မိန့်၏။

သို့ကျမ်းလာသောကြောင့် ခင်းနှီးလဲသွတ်ကို ရွာတွင်း၌လည်းကောင်း, ဆွမ်းစားဇရပ်၌လည်းကောင်း ထိုင်သောရဟန်းအား အာပတ်မသင့်ဟူပေ။

❖❖❖❖❖

### ၄၀၆။ သင်္ကန်းကွဲပြတ်၊ ရဟန်းမြတ်၊ မိန်းမဝတ်ကို အပ်လိမ့်နည်း။(၆၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–''သဗ္ဗံ လဗ္ဘတိစ္ဆိန္နစီဝရော''ဟူ၍ ခုဒ္ဒသိက္ခာ၌ မိန့်ပြီ။

အစ္ဆိန္နစီဝရော၊ ခိုးသူလုသော သင်္ကန်းရှိသော ရဟန်းသည်။ သဗ္ဗံ၊ အလုံးစုံ ရသမျှသော အဝတ်ကို။ လဗ္ဘတိ၊ ဝတ်ခြင်းငှာရအပ်၏။

ဤသို့ ဝိနည်းအဋ္ဌကထာလာသောကြောင့် ခိုးသူလုခြင်းစသော အန္တရာယ်ကြောင့် သင်္ကန်းအဝတ်သက်သက်မရှိသော ရဟန်းဖြစ်မူကား ထဘီ, အင်္ကျီ, သင်တိုင်း, တဘက်စသော မိန်းမ ဝတ်ကိုသော်လည်းရလျှင် ဝတ်အပ်၏။ သင်္ကန်းစုတ်ပြတ်ကွဲပေါက်ရုံမျှနှင့် မဝတ်အပ်ဟူပေ။

❖❖❖❖❖

### ၄၀၇။ မြင်းသွားပေါက်လတ်၊ဆယ်ရက်မှတ်၊ညီညွတ်နှစ်ဆယ်ဘယ့်လောက်နည်း။(၆၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–အထက် ''အယ်''ကာရန် ပုစ္ဆာနံပါတ် ၁၆၃။ ၁၆၄။ ၁၆၅။ ၁၆၆။ တို့၌ ဖြေဆိုခဲ့ပြီ။

❖❖❖❖❖

### ၄၀၈။ တစ်ချက်ဆိုလတ်၊နှစ်ချက်ပြတ်၊မြဲမှတ်ဘယ်နည်း ဆိုမည်နည်း။(၇၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–သရက်ပင်၌ ရေအိုးတည်ခြင်းသည် ဆရာအား ချိုးရေတည်ခြင်းကိစ္စ, သရက်ပင်ကို ရေသွန်းခြင်းကိစ္စ ဤနှစ်ပါးကို ပြီးစေသကဲ့သို့ တစ်ခုသောပုဒ်ကို ဆိုသဖြင့် အနက်နှစ်ပါးကို ပြီးစေတတ်သော နည်းသည် ''အမ္ဗသေစန ဂရုသိနာနနည်း''မည်၏။

46
B

ဂန္ထန္တရ အလိုအားဖြင့် သန်လျက်တွက်သည်နှင့် တူရကား ''ခဂ္ဂဋ္ဌိန္နနည်း'' မည်၏။

❖❖❖❖❖

## ၄၀၉။ ခရုသင်းဇာတ်၊ ဖြစ်တုံလတ်၊ မြတ်ပုလဲရောင် မည်သို့နည်း။(၇၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အထက် 'အဲ' ကာရန်ပုစ္ဆာနံပါတ် ၁၉၈။ ၁၉၉။ ၂၀၀–တို့၌ ပြည့်စုံစွာ ဖြေဆိုခဲ့ပြီ။

❖❖❖❖❖

## ၄၁၀။ အာဟာရပြတ်၊ ထက်မိုးနတ်၊ ရက်ဘယ့်လောက် ခံလိမ့်နည်း။(၇၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒေဝလောကတော ဒေဝတာ စတူဟိ ကာရဏေဟိ စဝန္တိ အာယုက္ခ–ယေန, ပုညက္ခယေန, အာဟာရက္ခယေန, ကောပေနာတိ။

အစရှိသည်ဖြင့် ဒီဃနိကာယ် သက္ကပဥှာသုတ် အဖွင့်၌ လာသည်။

အဓိပ္ပါယ်ကား–နတ်ပြည်၌ရှိသော နတ်တို့သည်–

၁။ သက်တမ်းကုန်ခြင်းကြောင့်လည်းကောင်း။

၂။ ရှေးကောင်းမှု ကုန်ခြင်းကြောင့်လည်းကောင်း။

၃။ အာဟာရ ကုန်ခြင်းကြောင့်လည်းကောင်း။

၄။ အမျက် ထွက်ခြင်းကြောင့်လည်းကောင်း။

ဤလေးပါးတို့တွင် တစ်ပါးပါးသောအကြောင်းဖြင့် စုတေ့ရကုန်သည်။

ထိုလေးပါးတို့တွင် အကြင်နတ်သည် ကာမဂုဏ်၌ စုံမက်မွေ့လျော်ခြင်း ကြူးသည် ဖြစ်၍ အာဟာရသုံးဆောင်မြဲအချိန်ကို တစ်ကြိမ်မျှ လွန်မိသည်ဖြစ်အံ့။ ထိုနတ်သည် ကိုယ်ခန္ဓာ ရှိန္ဒမ်းသဖြင့် သေခြင်းသို့ ရောက်လေရတော့သည်။ နောက်ထပ်မံ၍ အစားသုံး ဆောင်ပါသော်လည်း ချမ်းသာမရပြီ။

ဘယ်ကဲ့သို့နည်းဟူမူ–တစ်ကြိမ်နေလှုန်း၍ နွမ်းပြီးသောကြာပွင့်ကို ရေအကြိမ် တစ်ရာလောင်းသော်လည်း မလန်းသကဲ့သို့ ဖြစ်သည်။

ဘယ့်ကြောင့်နည်းဟူမူ– ထိုနတ်တို့၏ရုပ်သည် လူတို့၏ရုပ်ထက် နူးညံ့သိမ်မွေ့ လှသောကြောင့် တစ်ထပ်သော အာဟာရပြတ်ခြင်းကို မခံနိုင်ဟူ၍သာ ကျမ်း၌လာသည်။

အာဟာရပြတ်သည့်နောက် ဘယ့်လောက်ကြာသနည်းဟူရာ၌–

''ဒိဗ္ဗာ ပန ဩဇာ ကေမာသံ ဒွိမာသမ္ပိ ဥပတ္ထမ္ဘေတိ''

ဟူ၍ ဝိသုဒ္ဓိမဂ် အဋ္ဌကထာ၌လာသောကြောင့် နတ်တို့၏ဩဇာသည် သတ္တိ အလျောက် တစ်လတိုင်အောင်လည်းကောင်း, နှစ်လတိုင်အောင်လည်းကောင်း ထောက်ပံ့ တတ်၏ ဟူရကား– အာဟာရပြတ်သည့်နောက် တစ်လလည်းကောင်း, နှစ်လ လည်းကောင်း ခံသေး၏ဟူပေ။

❖❖❖❖❖

**၄၁၁။ ကိန္နရာဇာတ်၊ စကားတတ်၊ ဖွင့်လတ်ဘယ့်ကြောင့်မပြောသနည်း။ (၇၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-ပြောခွင့်သင့်သော အရာ မရောက်၍ မပြောသည်ဟုဖြေ။

**အကျယ်ကား**- ဗာရာဏသီပြည်၌ မုဆိုးတစ်ယောက်သည် တောသို့လည်ရာ ဟိမဝန္တာသို့ရောက်၍ ကိန္နရာတို့ကိုမြင်လျှင် တစ်ခုသော ဥပါယ်တံမျဉ်ဖြင့် ကိန္နရာဖိုမကို ဖမ်း၍ ရလေလျှင် ကောင်းစွာဆောင်ခဲ့၍ ဗာရာဏသီမင်းကြီးအား ဆက်သည်ရှိသော် မင်းကြီးသည် မမြင်ဖူးသော ကိန္နရာဖို-မတို့ကို မြင်ရ၍ အလွန်ဝမ်းသာလျက် ''ဤသူ တို့သည် အဘယ်သို့ ကျေးဇူးရှိသနည်း''ဟု မေး၏။ မုဆိုးကလည်း ''ဤကိန္နရာတို့ သည် သာယာစွာသော အသံတို့ဖြင့် သီတတ် ကတတ်ပါသည်။ လူတို့မှ ဤသူတို့ကဲ့သို့ မတတ်နိုင်ပါ''ဟု လျှောက်သော် မုဆိုးအား ဆုလာဘ်များစွာပေး၍ ကိန္နရာတို့ကို 'ကကုန်, သီကုန်'ဟု အဖန်တလဲလဲ တိုက်တွန်း၏။

ကိန္နရာတို့ကလည်း -''ငါတို့ ကကုန် သီကုန်သည်ရှိသော် မင်းကြီး နှစ်သက်သော် ကောင်း၏။ မနှစ်သက်သော် ကဲ့ရဲ့မှုလည်း ကဲ့ရဲ့ရာ၏။ သတ်မှုလည်း သတ်ရာ၏။ စကားများစွာဆိုကလည်း မမှန်သည်ကများ၍ မုသားဖြစ်လတ္တံ့''ဟု ကြောက်၍ တိတ်တိတ်သာ နေ၏။

မင်းကြီးလည်း များစွာတိုက်တွန်းလျက် မသီ, မကသောကြောင့် အမျက်ထွက်၍ ''နင်တို့သည် နတ်လည်းမဟုတ်၊ လူလည်းမဟုတ်၊ ဟင်းလျာအဖို့ငှာသာ ကျွန်သားမုဆိုး ဆောင်ခဲ့သည်ဖြစ်သောကြောင့် တစ်ကောင်ကိုည, တစ်ကောင်ကို နံနက်စာသတ်၍ ချက်လေ''ဟု စားတော်သည်တို့အား ဆိုလျှင်-

ကိန္နရာမသည် မင်းကြီးကား ငါတို့အား မချွတ်သတ်လတ္တံ့။ စကားဆို ရသော် လျော်ပြီဟု နှလုံးပြု၍ ''အရှင်မင်းကြီး-မကောင်းသဖြင့်ဆိုအပ်သော စကားတစ်သိန်း တို့သည် ကောင်းစွာဆိုအပ်သောစကားတစ်ခွန်းကို ၁၆ စိတ်စိတ်၍ တစ်စိတ်သော်မျှ အဖိုးမတန်ဟု ဉာဏ်ရှင်ဖြစ်သော သူတို့ဆိုသော စကားကို ကြားဖူးပါသည်။ ကျွန်ုပ်တို့ကား တောသား တောသူတို့ဘာဝဖြင့် တော၌သာ ကြီးရသော အမျိုးဖြစ်၍ နန်းတော်စရိုက်ကို မသိပါ။ မင်းနားနှင့် မတန်ရာသော စကားကို ဆိုမိမည်ကို ကြောက်လှသောကြောင့်သာ တိတ်တိတ်နေပါသည်။ အာဏာတော်ကို မကြောက်၍ မဟုတ်ပါ''ဟု လျှောက်၏။

ကိန္နရာမ၏ စကားကို မင်းကြီးကြားလျှင် အလွန်သနားရကား ''ဤကိန္နရာမ အား တော၌လွှတ်ပါချေ။ ကိန္နရာဖိုကိုသာ နံနက်စာချက်လေ''ဟု ဆို၏။

ကိန္နရာဖိုလည်း ငါစကားပြောရန် အခွင့်သင့်ချေပြီ။ မပြောမူကား ငါ့အား မချွတ် သတ်တော့မည်ဟု နှလုံးပြု၍''အရှင်မင်းကြီး- ဤလောက၌ နွား, ကျွဲ ဟူသမျှ သည် မြက်, သစ်ရွက်ကိုသာ စားသောကြောင့် မြက်ကိုဖြစ်စေတတ်သောမိုးသည် နွားသား အပေါင်းတို့၏ ကိုးကွယ်ရာ ဖြစ်သည်။ လူတို့သည် နွားနို့အရသာကိုမှီ၍

အသက်မွေး ရသောကြောင့် နွားသည် လူတို့၏ ကိုးကွယ်ရာ ဖြစ်သကဲ့သို့ အကျွန်ုပ်သည်လည်း ကိန္နရာမ၏ ကိုးကွယ်ရာဖြစ်ပါသည်။ ကိန္နရာမအား သနား၍ လွှတ်စေတော်မူလျှင် ကျွန်ုပ်ကိုလည်း သနားသင့်ပါသည်။ ကျွန်ုပ်လင်မယားတို့သည် သေမှသာ ကွဲပါရစေ။ အသက်ရှင်လျက် မကွဲပါရစေနှင့်၊ အရှင်မင်းကြီး ဤကိန္နရာမ ကိုသာ ဟိမဝန္တာတောသို့ ပို့လိုမူကား အကျွန်ုပ်ကို ဦးစွာသတ်တော်မူပါ။ ကျွန်ုပ်တို့ စကားမဆိုသည်မှာ လူတို့ ဝေါဟာရ၌ မကျွမ်းမလိမ္မာသော အမျိုးဖြစ်၍ စကားများခြင်း၌ အပြစ်ကိုမြင်သောကြောင့် မဆိုဝံ့ပါသတည်း''ဟု လျှောက်၏။

မင်းလည်း ထိုစကားကိုကြားလျှင် အလွန်နှစ်သက်၍ ကိန္နရာဖိုမကိုပင် ရွှေချိုင့်နှင့် နေစေလျက် မုဆိုးကိုပင် ဖမ်းယူရာအရပ်သို့ ပို့စေ၏။

ဤအရာ၌ ကိန္နရာဖို-မ တို့သည် နှုတ်စောင့်လှခြင်းကြောင့် သေဘေးမှလည်းကောင်း လူ၏အစေအပါး ကျွန်အဖြစ်မှလည်းကောင်း လွတ်ဖူးလေ၏ဟူ၍ ဒုကနိပါတ်ဇာတ်၌ လာသည်။

❖❖❖❖❖

## ၄၁၂။ အထက်ဖြစ်လတ်၊ နတ်တို့ဇာတ်၊ အောက်နတ်ဘယ့်ကြောင့် မမြင်သနည်း။(၇၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- အထက်ကောင်းကင်၌ဖြစ်သော နတ်တို့သည် ဥပပတ်ပဋိသန္ဓေ နေကုန်သကဲ့သို့ လူ့ပြည်၌ဖြစ်ကုန်သော ရုက္ခစိုး နတ်တို့သည်လည်း အချို့ ဥပပတ်ပင် ဖြစ်ကုန်၏။ ယင်းသို့ဇာတ်ချင်းတူကြပါလျက် အထက် စတုမဟာရာဇ်နတ်တို့မှာ နေရာဗိမာန်ဖြစ်သော ကြယ်, လ, နေတို့ကိုမြင်ရသည်။ လူ့ပြည်သို့လာသော ကာလလည်း နတ်ကိုယ်တိုင်ကိုမြင်ကြရသည်။ အောက်ဖြစ်သော နတ်တို့ မှာကား ဗိမာန်ကိုမျှ မမြင်ရကုန်။ ဤသို့ လူတို့မမြင်ရခြင်းသည် ဘယ့်ကြောင့် ဖြစ်ပါ သနည်းဟု မေးသည်။

အထက်နတ်တို့ကဲ့သို့ တန်ခိုးမကြီးရကား အောက်နတ်တို့သည် မိမိတို့နေသော ဗိမာန်ကိုမြင်လျှင် လူတို့သည် လိုချင်သောကြောင့် လုယက်ခြင်း မကောင်းကြံခြင်းကို ပြုကုန်ရာသည်။ ပြုကုန်သည်ရှိသော် ထိုသူတို့အား ညှဉ်းဆဲနှိပ်စက်ရရာသည်။ နှိပ်စက်သော် နတ်တို့၏ ဒေဝဓမ္မပျက်ရာသည်။ ထို့ကြောင့် ဗိမာန်ကိုလည်းကောင်း, မိမိတို့ကိုယ်တိုင်လည်းကောင်း လူတို့မမြင်စိမ့်သောငှာ တန်ခိုးဖြင့် ကွယ်ဖျောက်၍ ထားသည်။ မြင်စေလိုသောအခါမှ ထင်ရှားပြ၍မြင်ရသည်။

ထိုအောက် တန်ခိုးငယ်သော ပြိတ္တာမျိုး ဝိနိပါတိက အသုရာမျိုးဖြစ်သော တစ္ဆေ, ဖုတ် ပြိတ္တာတို့မူကား ပျောက်ကွယ်တတ်သာ ဆေးဝါးကိုသော်လည်း ဆောင်ရသည်။ မန္တရားကိုသော်လည်း ဆောင်ရသည်။ ထို့ကြောင့် အောက်နတ်တို့ကို လူတို့မမြင်ရ ဟူပေ။

အဘယ်ကိုထောက်၍ သိရသနည်းဟူမူကား–'

ဒွါရာဝတီပြည်၌ အင်္ကုရမင်းသား၏ အိမ်တွင်ပေါက်ဖွားသော သူငယ်သည် အဖကား ကျွန်၊ အမိကားသူကောင်းဖြစ်၍ ၎င်း၏သားသည် ကျွန်ဖြစ်သင့်မည်။ တော်လှန်သူဖြစ်သင့်မည်ကို အငြင်းအခုံရှိကြ၍အဆုံးအဖြတ်ခံရာ အဥ္စနဒေဝီမင်းသမီးက '' ဓေနုပမာ, အဿုပမာ''စသည်ဖြင့် အမိဘက်သို့ပါ၍ သားကျွန်မဖြစ်သင့်ကြောင်းကို စီရင်၏။

ယင်းသို့ စီရင်ပါသော်လည်း ''ဒါသော, အဒါသော''ဟူသော ဝိဝါဒ စကားသည် မစဲရကား သူငယ်သည် အရွယ်သို့ရောက်သောအခါ ရှက်နိုး၍ ဤအရပ်တွင် မနေဘဲ ရောရုဝပြည်သို့သွားလေ၍ ထိုပြည်၌ အလှူကောင်းမှု ပြုလေ့ရှိသော အသယှသူဌေး၏ အိမ်အနီး၌ အပ်လျှိုသမားပြု၍ နေ၏။

ရဟန်း, ပုဏ္ဏား, ဖုန်းတောင်းယာစကာတို့သည် အလှူခံခြင်းငှာ အသယှ သူဌေး၏ အိမ်ကိုမေးလာကြသော် ထိုအပ်လျှိုသမားသည် အလှူခံပုဂ္ဂိုလ်တို့အား ရစေလိုသော စေတနာနှင့်တကွ အသယှသူဌေး၏ အိမ်ကို လက်ညှိုးညွှန်၍ပြ၏။

ထိုကောင်းမှုကြောင့် ထိုအပ်လျှိုသမား စုတေသောအခါ မဟာဗောဓိမှ အနောက် ကိုးရက်ခရီးရှိလောက်သော မရုကန္တာရအလယ်၌ ကြီးကျယ်သော ညောင်ပင်ဗိမာန် ထက်တွင် တန်ခိုးကြီးသော ရုက္ခစိုးနတ် ဖြစ်လေ၏။

တစ်ရံသာအခါ အင်္ကုရမင်းသားသည် ပုဏ္ဏားလှည်းမှူးတစ်ယောက်နှင့်တကွ တစ်ထောင်မျှသော လှည်းဖြင့်ကုန်ကူးရန် သွားကြရာ ထိုသဲကန္တာရအလယ်၌ မျက်စိ လည်၍ ပါသမျှ ထင်း, ရေ, ရိက္ခာကုန်သဖြင့် အလုံးစုံသော လူ, နွားတို့သည် သေလု နီးပါးသို့ ရောက်ကြ၍ အင်္ကုရမင်းနှင့်ပုဏ္ဏားသည် ရေရှာလတ်သော် ထိုရုက္ခစိုးနတ်သည် မိမိမပြတ်စံသော ဗိမာန်ညောင်ပင်ကို ထင်ရှားစေ၍ လက်ညှိုးမှ ရေကို စီးစေခြင်း, ထောပတ်၊ ပျား၊ တင်လဲစသော သုံးဆောင်ဖွယ် ဟူသမျှကိုပင် လက်ညှိုးမှ သက်ကျ စေခြင်းဖြင့် ချီးမြှောက်၍ ထိုသူတို့နှင့် အတူပါသော လူတစ်ထောင်, နွားနှစ်ထောင်ကို ချမ်းသာအောင် မ, စဖူးသည်ကိုဆိုသော ဒသနိပါတ် ဃင္ဃပေတ္ဘဝတ္ထု ဇာတ်များကို ထောက်၍ သိရာ၏။

တဇ္ဇေ ပြိတ္တာတို့ ဆေးဆောင်၍ မမြင်ရကြောင်းကိုကား မိလိန္ဒပဉှာ၊ သာရတ္ထသင်္ဂဟ တို့၌ သက်သေနှင့်တကွ ပြလေပြီ။

❖❖❖❖❖

## ၄၁၃။ အတိတ်နာဂတ်၊ ခုနစ်ဇာတ်၊ မြင်တတ်အာနန် ဘယ်ခါနည်း။(၇၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နာရဒဇာတ်တော်တွင် အင်္ဂတိ မင်းကြီး၏ သမီးဖြစ်သော ''ရုစာဒေဝီ''ဖြစ်သောအခါ မြင်၏ဟူပေ၏။

## သရုပ်ကို ထင်စွာဆိုဦးအံ့

အရှင်အာနန္ဒာ၏ အလောင်းတော်သည် ရှေးသောအခါ မဂဓတိုင်း ရာဇဂြိုဟ်ပြည်၌ ရွှေပန်းတိမ်သည် သားဖြစ်၍ မကောင်းသော အဆွေခင်ပွန်းနှင့် ပေါင်းမိခြင်းကြောင့် သေအရက်သောက်ခြင်း, သူ၏မယားကို ကျူးလွန်ခြင်းတည်း ဟူသော ပရဒါရကံကို ပြုမိ၏။

ထိုဘဝမှ စုတေသော် ကောသမ္ဗီပြည် သူဌေးမျိုး၌ဖြစ်၍ ဒါန, သီလစသော ကုသိုလ်ကောင်းမှုကိုပြု၏။ ထိုဘဝမှစုတေလေသော် ရွှေပန်းတိမ်သည် ဖြစ်စဉ်ကာလက ပြုခဲ့ဖူးသော ပရဒါရကံသည် အခွင့်ရသောကြောင့် ရောရုဝငရဲ၌ များစွာသော ကာလပတ်လုံး ခံရလေ၏။ ထိုငရဲမှ လွတ်ခဲ့ပြန်လျှင် ထိုအကုသိုလ်ကံကြွင်းကြောင့် ဘိန္နကတိုင်းဝယ် ဆိတ်အမျိုး၌ဖြစ်၍ ဖွားစကပင် မျိုးစေ့ထုတ်ခံရ၏။ ထိုမှစုတေပြန်သော် တောင်ယံတောအုပ်ဝယ် မျောက်အမျိုး၌ဖြစ်၍ ဖွားစကပင် မျိုးစေ့ထုတ်ခံရ၏။ ထိုမှ စုတေပြန်လျှင် ဒသနတိုင်း၌ နွားလားအမျိုး၌ဖြစ်၍ မျိုးစေ့ထုတ်ခံရ၏။ ထိုမှ စုတေပြန်လျှင် ဝဇ္ဇီတိုင်းတွင် များစွာသော စည်းစိမ်ရှိသော သူဌေးမျိုး၌ မိန်းမလည်း မဟုတ် ယောကျ်ားလည်းမဟုတ် နပုံးပဏ္ဍုက် ဖြစ်ရ၏။ ထိုနပုံးဖြစ်သောအခါ လွန်စွာသော သံဝေဂကိုရ၍ မိဘကို လုပ်ကျွေးခြင်း, အလှူပေးခြင်း, ပဉ္စသီလ ဆောက်တည်ခြင်းစသော ကောင်းမှုကိုပြုသဖြင့် စုတေသောအခါ တာဝတိံသာ နတ်ပြည်၌ သိကြားမင်း၏ အလုပ်အကျွေးဖြစ်သော နတ်သမီးဖြစ်လေ၏။

ထိုနတ်သမီးသည် နှစ်သက်စဖွယ် ဆန်းကြယ်သော အဆင်း, အရောင်, တန်းဆာ ရတနာရှိ၏။ ကခြင်း, သီခြင်း၌ အလွန်လိမ္မာ၏။ သိကြားမင်းလည်း အလွန် မြတ်နိုးရကား အပါးတွင် ခစားရ၏။ ထိုသို့ နတ်သမီး ဖြစ်ရသောကာလ အတိတ်ကို ကြည့်လတ်သော် ပဏ္ဍုက်အဖြစ်, နွားလားအဖြစ်, မျောက်အဖြစ်, ဆိတ်အဖြစ်, ရောရုဝငရဲအဖြစ်, ကောသမ္ဗီသူဌေးအဖြစ်, ရွှေပန်းတိမ်သည်အဖြစ်တို့ကို မြင်လေ၏။

တစ်ဖန် အနာဂတ်ကို ကြည့်လိုက်ပြန်သော်-ဤ သိကြားမင်း၏ထံ၌ ခြံရံလုပ်ကျွေး ရသော နတ်သမီးပင် သုံးကြိမ်တိုင်အောင် ဖြစ်လတ္တံ့သည်ဟု မြင်၏။ ထိုကတစ်ဖန် စုတေပြန်သော် ဇဝနနတ်သား၏ မိဖုရားမြတ် ဖြစ်လတ္တံ့။ ထိုမှ စုတေသောအခါ မိထိလာပြည် အင်္ဂတိမင်းကြီး၏ ရုစာဒေဝီ အမည်ရှိသော သမီးတော် ဖြစ်လတ္တံ့ဟု မြင်၏။ ထိုမှ စုတေပြန်သောအခါ တာဝတိံသာနတ်ပြည်၌ တန်ခိုးကြီးသော နတ်သား ဖြစ်လတ္တံ့ဟု မြင်၏။

ဤသို့ နတ်မိဖုရား ဖြစ်ရသောဘဝ၌ အတိတ်ခုနစ်ဇာတ်၊ အနာဂတ် ခုနစ်ဇာတ်ကို ဆင်ခြင်၍ သိမြင်နိုင်၏။

အင်္ဂတိမင်း၏သမီးတော် ''ရုစာဒေဝီ''ဖြစ်သော အခါလည်း နောက်က ဖြစ်လာခဲ့ဖူးသမျှ တစ်ဆယ့်လေးဘဝကိုပင် အောက်မေ့နိုင်၏ဟူပေ၏။

❖❖❖❖❖

## ၄၁၄။ ခေါပနပါဠိ။ ဒုက်တွင်မှတ်၊ ထွန်းလတ် ဘယ်ဇောတကနည်း။(၇၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဝိသေသဇောတကတ္တ ဟူပေ။ အဘယ်အထူးကို ပြသနည်း ဟူမူ–အတိရေက ဒုက်ကို ယူသင့်ခြင်းတည်းဟူသော အနက်းထူးကို ပြသတည်း။ ၎င်း သမ္ဘဝဒုက်, အတိရေကဒုက်တို့ကို အထက်က ဖြေခဲ့ပြီ။

❖❖❖❖❖

## ၄၁၅။ ကမ္မဋ္ဌာန်းရှုတ်၊ မေတ္တာဆွတ်၊ ကျိုးမြတ်ဘယ်ကကြီးသနည်း။(၇၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကမ္မဋ္ဌာန်းလေးဆယ်တွင် ကသိုဏ်း ဆယ်ပါး။ အသုဘဆယ်ပါး။ အနုဿတိဆယ်ပါး။ သညာဝဝတ္ထာန် တရားနှစ်ပါး။ ဤကမ္မဋ္ဌာန်းတို့ကို စီးဖြန်း ဖတ်ရှုတ်ခြင်းသည် ရာဂစရိုက်, ဒေါသစရိုက်, မောဟစရိုက် တို့ကို ခေါင်းပါးခြင်း။ နီဝရဏတရားတို့ကို ခွာနိုင်ခြင်း၊ ကိလေသာတို့၏ ထိုးကျင့်ခြင်းကို သည်းခံနိုင်ခြင်း။ ဘဝတစ်ပါးလားသော် လူ့ပြည် နတ်ရပ်သို့ ကပ်ရောက်ခြင်းတည်း ဟူသော အကျိုးကိုသာ ပေးနိုင်သည်။ အလွန်အားဖြင့် ပဌမစျာန် စသည်ကို ရစေ နိုင်သည်။ **မေတ္တာဆွတ်ဖျန်းခြင်း၏ အကျိုးမှာမူကား–**

ချမ်းသာစွာအိပ်ရခြင်း, ချမ်းသာစွာ နိုးရခြင်း, မကောင်းသောအိမ်မက်ကို မမြင် မက်ခြင်း, လူနတ်တို့ ချစ်နှစ်လိုခြင်း, ဘီလူးတို့ချစ်နှစ်လိုခြင်း, နတ်တို့ကောင်းစွာ စောင်မခြင်း, စိတ်နှလုံးတည်ကြည်ခြင်း, မျက်နှာအဆင်းကြည်လင်ခြင်း, သေသော ကာလ တွေဝေခြင်းမရှိမူ၍ သေရခြင်း, စျာန်တရားကိုရခြင်း, ဗြဟ္မာပြည်သို့ ရောက်ရခြင်း တည်းဟူသော တစ်ဆယ့်တစ်ပါးသော အကျိုးကို ပေးနိုင်သည်ဖြစ်၍ မေတ္တာဆွတ်ဖျန်းခြင်း၏ အကျိုးသည် ကြီးမြတ်၏ဟူပေ။

ဝိသုဒ္ဓိမဂ် အဋ္ဌကထာ၌ အသီးအသီးသော ကမ္မဋ္ဌာန်းတို့၏အကျိုးကို ပြဆိုရာတွင် လည်း မေတ္တာကမ္မဋ္ဌာန်း၏ အကျိုးသာကြောင်းကို မိန့်ဆိုသည်။

ထို့ကြောင့် ပါရမီခန်း၌–

သံသာလမ်းဝ၊ ခရီးမဌ၊ ဒုက္ခဖြင်အား၊ ပန်းရိရှားသား၊ အများသတ္တဝါ။
ဘော်သုံးရွာကို၊ ကရုဏာရေးရှု၊ ကယ်တံ့ဟူသည်၊ အင်တူရည်ရှား၊ ရသေ့ဖျား–
တရားမြတ်စွာ၊ ဤမေတ္တာကား၊ ကောဒသ၊ ဆယ့်တစ်ဆလျှင်၊ ခံရ
ကျိုးထင်၊ ဤလူ့တွင်၌၊ နိသင်စီးပွား၊ ကျေးဇူးများ၍၊ ဘုရားဆုပန်၊
ရှင်နှင့်တန်၏။ ရှေးလွန်အကျင့်၊ လျော်သဖြင့်တံ့၊ အသင့်ဟောထိုက်၊
အင်လည်းခြိုက်၏၊ အမြိုက် ဆောက်ဦ၊ မေတ္တာဟူသား၊ မွေးကြူရေကြည်၊
နှုတ်မြရည်တိ၊ တုမရှိအောင်၊ စိုညီရွှဲရွှဲ၊ သွန်မရဲလျှင်၊ မစဲနေ့ရေ၊ မိုးသို့စွေလျက်၊
ရစေချမ်းသာ၊ ရှင့်မေတ္တာကို၊ သတ္တဝါမိုလ်လူ၊ ဦးဖြင့်ယူလျက်၊ မပူမလောင်၊
ဘော်ခြင်းရှောင်၍၊ လူ့ဘောင် ချစ်ကြကုန်လသေး။ ဟူ၍ စပ်တော်မူသည်။

❖❖❖❖❖

**၄၁၆။ နောက်ဆုတ်ဆိုမှတ်၊ ရှေ့တက်လတ်၊ တတ်၏ဘယ်မင်းဆင်ပေနည်း။ (၇၈)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ပြည်မြို့မင်းရဲရန်အောင်ဆင်ဟူပေ။

❖❖❖❖❖

**၄၁၇။ အာဒါသမြတ်၊ တရားဖြတ်၊ ရွှေလွှတ်ထက်တွင် ဖြစ်လိမ့်နည်း။ (၇၉)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဘုရားအလောင်းတော်ဖြစ်သော အာဒါသမုခမင်းသည် ဂါမဏိစန္ဒအမတ် ဆောင်ခဲ့သော တစ်ဆယ့်လေးပါးသော တရားကို ဆုံးဖြတ်သောအခါ ရွှေလွှတ်တော်ထက်နေ၍ ဆုံးဖြတ်ကြောင်းကို ငင်းဇာတ်၌ပင်–

**ရာဇာပိ၊ မင်းသည်လည်း။ တဒါ၊ ထိုဂါမဏိအမတ်ရောက်သောအခါ၌။ ဝိနိစ္ဆယဋ္ဌာနေ၊ တရားဆုံးဖြတ်ရာ လွှတ်တော်၌။ နိသိန္နော၊ နေသည်။ အဟောသိ၊ ဖြစ်၏။** ဟူ၍ လာသည်။

❖❖❖❖❖

**၄၁၈။ တူကရကင်္ခ၊ လက်နေမှတ်၊ သတ်၏အင်္ဂါ ဘယ့်ကြောင့်နည်း။ (၈၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ယဿာ၊ အကြင်မိန်းမ၏။ ဇာတာယ၊ ဇာတာ၌။ အတ္တဘာဝနေ၊ ခုနစ်တန့်ရာသီသည်။ သုညေ၊ ဆိတ်ခဲ့သော်။ အဗလေ၊ အားမရှိသော။ သောမျဂဟာဝေက္ခိတေ၊ သောမဂြိုဟ် မြင်ခဲ့သော်။ ဇာတာယ၊ ဖွားသောမိန်းမ၏။ ပတိ၊ လင်သည်။ ကာပုရိသာ၊ စက်ဆုပ်ဖွယ်သော ယောက်ျားဖြစ်အံ့။ အသ္တေ၊ ခုနစ်တန့်၌။ ဗုဒ္ဓမန္ဒယော၊ ဗုဒ္ဓဟူး, စနေသည်။ ဠိတေ၊ တည်သော်။ ဇာတာယ၊ ဖြစ်သော မိန်းမ၏။ ပတိ၊ လင်ကား။ က္လိဝေါ၊ နပုန်းဖြစ်အံ့။ အသ္တေ၊ ခုနစ်တန့်ရာသီသည်။ စရဂတေ၊ စရရာသီဖြစ်ခဲ့သော်။ ဇာတော။ ဖြစ်သော မိန်းမသည်။ နိစ္စံ၊ အမြဲ။ ပဝါသန္တိတာ၊ ကွေ့ကွင်းခြင်းနှင့်ယှဉ်အံ့။ အသ္တေ၊ ခုနစ်တန့်၌။ ရဝေါ၊ တနင်္ဂနွေဂြိုဟ်သည်။ ဠိတေ၊ တည်သော်။ ဥတ္တိဋ္ဌော၊ လင်ကိုစွန့်တတ်အံ့။ ကုဇေ၊ အင်္ဂါသည်။ အသ္တေရာ၊ သိင္ဂတေတု၊ ခုနစ်တန့်ရာသီ၌ တည်သော်ကား။ ဗာလေ၊ အငယ်က။ ဝိဓဝါ၊ မုဆိုးမဖြစ်အံ့။ ဒျူနေ၊ ခုနစ်တန့်၌။ ဠိတေ၊ တည်လတ်သော်။ အက္ကတနယေ၊ စနေကို။ အသုဘဝေက္ခိတေ၊ ပါပဂြိုဟ်မြင်သော်ကား။ ကညေဝ၊ ကညာအတိုင်းပင်လျှင်။ ဇရံ၊ အိုခြင်းသို့၊ ဂစ္ဆတိ၊ ရောက်အံ့။ (မြို့ဟတ်ကျမ်း၌လာသည်)။

တူ၌လည်းကောင်း, ကရကင်္ခ၌လည်းကောင်း လက်နေသော်–မိဿရာသီ, မကရရာသီသည် ခုနစ်တန့်မြောက်ကျ၏။ ထိုရာသီသည် စရရာသီဖြစ်၍ ယခင့်ဂြိုဟ်နေ အတိုင်းဟော။

❖❖❖❖❖

47
A

၄၁၉။ကုံလက်နေလတ်၊ဂရုသတ်၊ဟိတ်ခတ်ပေဒင် မည်သို့နည်း။(၈၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မူအစောင်စောင်တို့၌ရှာ၍ မတွေ့ချေ။

❖❖❖❖❖

၄၂၀။လက်ယာရင်ဘတ်၊လှုပ်တုံလတ်၊ ဟောမှတ်တိတ္ထိုဘယ့်နှယ်နည်း။(၈၂)

၄၂၁။လက်ဝဲသားမြတ်၊လှုပ်ဆတ်ဆတ်၊ကျမ်းမြတ်မည်သို့ဟောသနည်း။(၈၃)

၄၂၂။တိတ္ထိုကျမ်းမြတ်၊ရှေးအမှတ်၊လိင်ဇာတ်လှုပ်သော်ဘယ်သို့နည်း။ (၈၄)

၄၂၃။လက်ယာဆတ်ဆတ်၊ရုံးလှုပ်လတ်၊မြင့်မြတ်ကျိုးပြစ်မည်သို့နည်း။(၈၅)

ဟူသော အမေးပုစ္ဆာ ၄–ခုတို့၌ အဖြေဝိသဇ္ဇနာကား–

မျိုးလေးပါးတို့၊ မှတ်သားရာငြမ်း၊ သားလှုပ်ကျမ်းကို၊ ရှင်လန်းသာမြူး၊ လက်ာကျူးအံ့၊ ထိပ်ဦးအသား၊ လှုပ်ဘိငြားမူ၊ မင်းများကြည်ညွတ်၊ ပူဇော်လတ်အံ့၊ အမြတ်တင်ရာ၊ လက်ယာဦးကင်၊ လှုပ်ခြင်းတစ်ဖြာ၊ လက်ယာအကွဲ၊ မျက်စိအပေါ်၊ လှုပ်သော်တစ်ကြောင်း၊ ခင်ပွန်းကောင်းနှင့်၊ ပေါင်းမိတတ်စွ၊ လာဘ်သော်ရလိမ့်၊ အောက်ကလှုပ်မူ၊ ချစ်သူရန်လို၊ မျက်ပိုစမြဲ၊ လက်ဝဲမျက်ခုံး၊ လှုပ်သည်ထုံးကား၊ ကံဘုန်းထွန်းသစ်၊ ကြံတိုင်းဖြစ်လိမ့်၊ မျက်ရစ်အောက်သား၊ လှုပ်ခဲ့ငြားမူ၊ မြေး သား မျိုးဆွေ၊ ပျက်စီးလေ၍၊ မျက်ရည်ကျငြား၊ လက်ယာနားမူ၊ ရန်ပွားခိုက်ဆစ်၊ ဖြစ်အံ့တစ်ချက်၊ ရာထူးတက်လိမ့်၊ လက်ဝဲနားမှာ၊ လာဘ်များစွာ၏၊ နှာခေါင်းစင်စစ်။ တုန်လှုပ်လစ်မူ၊ ချစ်သည်သူနှင့်။ ကလူကျီစယ်၊ ပျော်ရွှင်ဖွယ်တည့်၊ ထက်ဝယ်နှုတ်ခမ်း၊ လှုပ်ဆမ်းဘိငြား၊ စကားရန်စ၊ တွေ့လေရအံ့၊ အောက်ကလှုပ်လာ၊ ဝေးရပ်ရွာမှ၊ ရောက်လာစကား၊ သတင်းကြား၏။ ပါးစောင် လက်ယာ၊ လှုပ်ဘိခါသော်၊ ပိယာသိနေဟ၊ ခင်ပွန်းရလိမ့်၊ လှုပ်ကြွမေးသား။ တရားဆင်ခင်း၊ လည်ပင်းလှုပ်မူ၊ ရွှေခြူဘယက်၊ လက်ခတ်တန်ဆာ၊ ရတို့ရာ၏။ လက်ယာပခုံး၊ လှုပ်သည့်ထုံးကား၊ မယားကောင်းရ၊ လက်ဝဲမှသော်၊ ရန်စခိုက်ဆစ်၊ ဖြစ်အံ့မမှား၊ လက်ကြားဘီစုပ်၊ အသားလှုပ်သော်၊ ဥက္ကဋ္ဌသီး၊ စုပ်ကြီးရမြဲ၊ လက်ဝဲဟီစုပ်၊ လှုပ်သော်ပျက်စီး၊ ဥပဒ်ကြီး၏။ တစ်သီးလက်ယာ၊ ရုံးလှုပ်လာမူ၊ မဟာမိတ္တာ၊ ရမည်အကြောင်း၊ စားကောင်းလည်းစား၊ ဝဲလှုပ်ငြားသော်၊ ထူးခြားဥစ္စာ၊ သူပေးလာအံ့၊ လက်ယာရင်ဘတ်၊ ဆတ်ဆတ်ခုံကြွ၊ ချမ်းသာလှ၏။ ဘယ်ကလှုပ်မူ၊ နှလုံးပူအံ့။ စူးစူးချက်မ၊ ခုန်ကြွသောခါ၊ ဗိုလ်ပါလူပေါင်း၊ ကောင်းချီးချီးပ၊ နံတောင်းမှသော်၊ ရအံ့ဥစ္စာ၊ လက်ယာတင်သား၊ လှုပ်ဘိငြားမူ၊ တစ်ပါးသူစု၊ ဥပဒ်ပြုလိမ့်၊ ဘယ်စုလှုပ်ခါ၊ ပ–ရန်ရှာ၏။ ခါးသားလှုပ်က၊ ဥစ္စာကျလိမ့်၊ ညာကပေါင်သား၊ မယားရစစ်၊ ဘယ်ကဖြစ်မူ၊ ချစ်သူမျက်လို၊ ကိုယ်ဒူးပုဆစ်၊ လှုပ်လစ်သော်ကား၊ ခိုက်ရန်ပွားလိမ့်၊ သလုံးသားညာ၊ သားရရာ၏။ ဝဲမှာသော်ကား၊

မယားမာန်တက်၊ ကျောက်ကုန်းထက်မှ၊ လှုပ်ချက်ထူးလာ၊ တန်ဆာဝတ်စား၊ ရငြားမယွက်၊ လက်နှစ်ဖက်တွင်၊ တဖက်ဖက်မှ၊ ဆတ်ဆတ် ကြွသော်၊ ကိစ္စရေးရာ၊ ဆောင်ရစ္စာ၏။ အင်္ဂါကြွေခြေ၊ လှုပ်ဘိခြေသော်၊ ချစ်ဆွေမယား၊ သူတစ်ပါးနှင့်၊ တိမ်းပါးတုံမြောက်၊ မက်လောက်ဥစ္စာ၊ ပျောက်တတ်စွာဟု၊ ဆရာဘုန်းဟော့၊ ဟောရိုးတွေ့ရှင့်၊ သိမ်ငွေ့ဝမ်းပြင်း၊ လှုပ်လတ်ခြင်းကား၊ အစားကောင်းရ၊ ပါဒအစုံ၊ လှုပ်လတ်တုံသော်၊ ပြင်းဟုံရှည်လျား၊ ခရီးသွားဟု၊ အများသူငါ၊ မှတ်သိရာသည်။ စဉ်လာတိတ္ထံ့စကားတည်း။

❖❖❖❖❖

## ၄၂၄။ လေးဘက်ဖြူဟတ်၊ မြီးကူလတ်၊ ခွေးဝတ်သခင် မည်သို့နည်း။(၈၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရတ္တဝဏ္ဏာ သေတပါဒါ၊ နင်္ဂုဋ္ဌာ သေတနာသကာ။

ဝီသနခါ စ သာမာ စ၊ ဣတိမေ သုဝဏ္ဏသမ္ဗလာဘကံ။

ရတ္တဝဏ္ဏာ၊ ကိုယ်လုံးနီလျက်။ သေတပါဒါ၊ ခြေ ၄–ဘက်ဖြူသော ခွေးတို့သည်လည်းကောင်း။ နင်္ဂုဋ္ဌာသေတနာသကာ၊ အမြီးဖျား နှာခေါင်းဖြူသော ခွေးတို့သည်လည်းကောင်း။ ဝီသနခါ၊ ၂၀–သော ခြေသည်း လက်သည်းရှိသော ခွေးတို့သည်လည်းကောင်း။ သာမာ စ၊ ရွှေသောအဆင်းရှိသော ခွေးတို့သည်လည်းကောင်း။ ဣတိ–ဣမေ သုနခါ၊ ဤသို့သော ခွေးတို့သည်။ သုဝဏ္ဏသမ္ဗလာဘကံ၊ ရွှေ ငွေ စသော လာဘ်ကို ရစေတတ်၏။

❖❖❖❖❖

## ၄၂၅။ ကြောင်လျှင်ဆတ်ဆတ်၊တုန်လှုပ်လတ်၊ကြောင်မြွတ်မွေးသူဘယ်သို့နည်း။(၈၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဆတ်ဆတ်တုန်သော ကြောင်သည် စီးပွားချမ်းသာ ဥစ္စာအထူးကို ဆောင်တတ်၏ ဟူပေ။

❖❖❖❖❖

## ၄၂၆။ နွားနို့ထောပတ်၊စားမက်လတ်၊ဖတ်လော တိတ္ထံ့မြည်သို့နည်း။(၈၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နှစ်သိမ့်စွာလတ်၊ ထောပတ် သကာ၊ ရသာချိုညီး၊ သစ်သီး–သစ်ဖု၊ ဖွတ်ဥ လိပ်ဥ၊ စားမှုရွှင်လန်း၊ နို့ဓမ်း နို့ခဲ၊ ပျားမွဲသေရက်၊ သောက်ရမက်သော်၊ အနဂ္ဃတန်၊ ကောင်းမွန် ရတနာ၊ ရရာတုံချေ။ ဟူ၍ သုပိနာစာရ၌ ဆိုသည်။

❖❖❖❖❖

## ၄၂၇။ဖြူဖြူဆွတ်ဆွတ်၊မြင်းဖောင်းဝတ်၊သင့်မြတ် ဘယ်နေ့သားတို့နည်း။(၈၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကျော်စောဝှန်ဝေ၊ တက်သစ်နေသို့၊ မှတ်လေလူများ၊ အမျိုးသားတို့၊ ဦးဖျားစထွေ–

တနင်္ဂနွေသား၊ မြတ်ယောကျ်ားကား၊ မြင်းလားယာဉ်ကြီး၊ မွေးညိုစီးက။ အပြီးသုခ၊ ချမ်းသာရအံ့–

စန္ဒဒိဝါ။ တနင်္လာကား၊ ယာဉ်သာဖြူဆွတ်၊ ဖောင်ဝတ်စီးမြောက်၊ ချမ်းသာရောက်လိမ့်–

ထို့နောက်တခြား၊ အင်္ဂါသားမူ၊ မကျားမကွက်၊ မွေးနက်မှန်လှ၊ စီးတို့ရမူ၊ မြင်ကြ သူတို့၊ လွန်နှစ်လို့၏–

ထိုမျိုးတထူး၊ ဗုဒ္ဓဟူးတုံ၊ စုံပူးနှစ်ထွေ၊ မွေးရွှေမွေးဖြူ စီးမူတော်လျောက်၊ ချမ်းသာမောက်ရှင့်–

ထို့နောက်ကြာသပတေး၊ တွေးတွေးနီစင်။ မနက်လျှင်လည်း၊ မြီးမှင်မည်းစေ၊ စီးပေတုံက၊ လွန်ချမ်းမြလိမ့်–

ထိုမှသောကြာ၊ နေ့သားမှာကား၊ ချမ်းသာကြီးလို၊ အုန်းခွံညိုကို၊ မှီခိုကြည့်ရှု၊ စီးနင်းပြုလော့–

မနုမင်းဆွေ၊ ရက်စနေကား၊ ဝါရွှေနီကြန်၊ အလုန်တွတ်တွတ်၊ စီးတို့လတ်က၊ မပြတ်ရန်ငြိမ်၊ စည်းစိမ်ချမ်းသာ၊ ကြီးကျယ်ရာသည်။ စဉ်လာမှတ်ဘိ ရှေးထုံးတည်း။

❖❖❖❖❖

## ၄၂၈။ ငွေယားလည်းသတ်၊ဘူမိရတ်၊အတတ်ဘယ်ဗေဒင် ထွက်နည်း။(၉၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရှေး၌ဖြစ်သော ရသေ့ဇော်ဂျီတို့ စီရင်၍ထားခဲ့သော ငွေယားသည် ဆေးယား, အင်းယား, သစ္စာယား, ဒေဝယား စသောအားဖြင့် ၂၂–မျိုးပြား၏။ ထိုအယားဟူသမျှသည် စောင့်နေသော နတ်၏အာနုဘော်ကြောင့် ဖြစ်သည်။ ထိုနတ်ကို ညှဦးဆဲရန်စီရင်သော နည်းမျိုးဖြစ်ရကား ငွေယားသတ်နည်းကို ပြဆိုသော ကျမ်းသည် အာထဗ္ဗနဗေဒင် စစ်တည်း။ ထို့ကြောင့် ဤငွေယားသတ်သော ဘူမိရတ်ကျမ်းသည် ''အာထဗ္ဗနဗေဒင်''မှ ထွက်၏ဟူပေ။

အယား ၂၂–မျိုးပြားဟန်၊ စီရင်ဟန်ကို ကျမ်းဂန်ရှိတိုင်း ပြလိုက်ဦးအံ့–

၁။ သာသနာ့ရသေ့ထားသော ငွေယားကား ကျောကသော်လည်းကောင်း၊ ဝမ်းကသော်လည်းကောင်း၊ ''ယ''အက္ခရာ ''လ''အက္ခရာ ''က'' အက္ခရာတစ်ခုခုရှိ၏။ အချိန် ၂ဝ လည်းကောင်း, ၃ဝ လည်းကောင်းရှိ၏။ မည်သည့် အခါမဆို ငွေကို ကိုင်လျှင် ယား၏။ ယူလိုမူ ဆီးဖြူရှိသျှားထင်းနှင့် မီးတိုက်။ အယားပျောက်၏။ ယူလျှင်ရ၏။

၂။ တမ္ဗရသေ့ ငွေယားကား ကျောပေါ်က တံဆိပ်နှစ်ချက်ရှိ၏။ အချိန် ၃ဝ လည်းကောင်း, ၄ဝ လည်းကောင်း ရှိ၏။ ကိုင်ရုံနှင့်မယား။ အခါသင့်သော် နှစ်ရာတွင်း ခန့် ယူ၍ပါ၏။ သတ်လိုသော် သဖန်းခါး ဆီးဖြူ, ရှိရှား, သံပရာထင်းနှင့် မီးတိုက်၍ ယူရ၏။

၃။ နာဂီသက္ခရသေ့ ငွေယားကား– ကျောက 'သ'အက္ခရာ ၃–လုံးရှိ၏။ အချိန် ၅–ရှိ၏။ အချိန်သင့်သော် တစ်ဂါဝုတ်ယူ၍ ပါ၏။ သတ်လိုသော် မြင်းမုတ်, နွားမုတ်နှင့် ပြုတ်၍ ယူရ၏။

၄။ သုရုဇနရသေ့ ငွေယားကား–ကျောတွင် 'က'အက္ခရာရှိ၏။ အချိန်တစ်ခု တွင် ၅၅–ရှိ၏။ သင့်သောအခါ တစ်တိုင်ယူ၍ ပါ၏။ သတ်ဆေးကား– ကေရာဇ်, တောင်လုံး ကျော်, ခွေးနို့, နွားနို့, ရေနှင့်ချက်။ တံလျှောက်သွယ်၍လောင်း အယားပျက်၏။

၅။ စိတြရသေ့ ငွေယားကား–ကျောပေါ်က သုပဏ္ဏတံဆိပ် ၇–ချက်ရှိ၏။ အချိန်ကား ၁–ပိဿာလည်းကောင်း၊ ၃–ပိဿာလည်းကောင်းရှိ၏။ သင့်သောအခါ၌ နှစ်ယူဇနာယူ၍ ပါ၏။ ဆေးကား ပဥ္စပတ္တကို သုရာရေနှင့် ဖျော်၊ ၃–ခါကျို။ ၉– ခါဖုတ်။ သေ၏။

၆။ က္လသိန္ဓရသေ့ ငွေယားကား– ကျောက 'လ' ၃–လုံးရှိ၏။ ကိုင်ရုံ၊ ယူရုံနှင့် မယား။ သုံးစားမှ ယား၏။ အချိန်ကား မညီ။ သင့်သောအခါ၌ ၆–ယူဇနာယူ၍ ပါ၏။ ဆေးကား ပဥ္စပတ္တကို အရက်နှင့်ကျို၍သွန်း။ သေ၏။

၇။ သေနရသေ့ ငွေယားကား–ကျောပေါ်က 'ထံ'ဟူ၍ ၃–ချက်ရှိ၏။ မယားလွန်း။ အချိန် ၁၅–ကျပ်ရှိ၏။ သုံးမှယား၏။ ၃–ယူဇနာယူ၍ပါ၏။ ဆေးကား ဖရုံခါး, ဘူးခါး, ဝံအူ, ကျွဲမုတ်, နွားမုတ်နှင့်ကျို။ တံလျှောက်သွယ်၍လောင်း သေ၏။

၈။ အင္ဒနံရသေ့ ငွေယားကား–တံဆိပ်မရှိ။ တစ်ခုလျှင် ကျပ်ချိန် ၂ဝ–ရှိ၏။ သင့်သောအခါ နှစ်ရက် သုံးရက်ယူ၍ ပါ၏။ လင်းလေကို ခါချဉ်ရေနှင့်ဖျော်။ တံလျှောက် သွယ်၍လောင်း။ သေ၏။

၉။ ကောက္ကစိန္ဓလာရသေ့ ငွေယားကား–စန္ဒီ နတ်ရုပ်ကဲ့သို့၊ အထောင့် လည်းကောင်း , အလျားလည်းကောင်းရှိ၏။ အချိန် ၆ဝ–စီရှိ၏။ သုံးရာတွင်း ယူ၍ပါ၏။ သုံးစားလျှင် သေ၏။ ဆေးကား စစ်တုံ, သမုံး, ရေဖျော်၍လောင်း။ အယားပျောက်၏။

၁ဝ။ တိစိတ္တသွာသုရသေ့ ငွေယားကား–ငွေရှိရာ၌ ရေကန်သာယာ၊ အင်းသာယာ ရှိ၏။ ကိုင်ရုံနှင့်မယား။ သုံးစားမှ ယား၏။ ချေးငှား၍ ယူသော် ခံ၏။ အချိန်ကား ၅ဝ ရှိ၏။ ဆေးကား ခုံညင်းဆံ, ရေနံ, မြင်းမုတ်, လူမုတ်နှင့် ဖျော်၍လောင်း။ သေ၏။

၁၁။ သံသာဝိသုရသေ့ ငွေယားကား– ဝမ်းက'ဝ'တံဆိပ်ရှိ၏။တစ်ခွက်လျှင် ၅၅–ကျပ်ရှိ၏။ တစ်မွန်းတည့် ယူ၍ပါ၏။ ဆေးကား မျောက်ခုံညင်း, ကင်ပွန်းပဥ္စကို ကျို၍ လောင်း။ ပြီး၏။

၁၂။ တက္ကရသေ့ ငွေယားကား– အမှတ်တံဆိပ်မရှိ။ ငွေမကြီးတွင် မည်းမည်း ထတ်ထတ်ရှိ၏။ အချိန်ကား ၅၅–ကျပ်ရှိ၏။ ကိုင်မိလျှင် ယား၏။ ဆေးကား ဖြုံးမွေး, သဖန်းခါး, ဆီးဖြူ, လူမှတ်နှင့်ဖျော်၍ ထပ်မနား တံလျှောက်သွယ်၍လောင်း။ အငွေ့ သေမှယူ။ ပြီး၏။

၁၃။ ဇုနက္ခရ ရသေ့ငွေယားကား–ဝမ်းကျောက 'သ' နှစ်ချက်ဆင့်လျက် ရှိ၏။ အချိန် ၅၅–ကျပ်ရှိ၏။ ယူသော်နှစ်တိုင်ပါ၏။ ယူလိုသော် စိန္တာမဏိဂါထာကိုမန်း။ ဆေးကားဇရစ်ခေါင်း, မယ်ဇူခေါင်း, ခွေးနို့, နွားနို့နှင့် ကြိတ်၍သတ်။

၁၄။ ကတ္တိကရသေ့ ငွေယားကား–ကျောဝမ်းက 'ဋ' နှစ်ဆင့်ရှိ၏။ ပြင်ကလည်း အရေးသားကဲ့သို့ရှိ၏။ ထောင့်မှာ 'ဝ' ကိုယ်စီရှိ၏။ သင့်သောအခါ ယူမူ နှစ်ယူဇနာ ပါ၏။ ဆေးကား ပဥ္စပတ္တကို နွားမှတ်နှင့်ကျို။ တံလျှောက်သွယ်၍လောင်း သေ၏။

၁၅။ ယသိန္ဒရသေ့ ငွေယားကား– 'ပ' 'ဖ' နှစ်ချက်ရှိ၏။ 'သော' နှစ်ချက်လည်း ရှိ၏။ မယားလွန်း။ သုံးမှ ယား၏။ သင့်သောအခါယူမူ တစ်ယူဇနာပါ၏။ ဆေးကား ဝံအူကို ကျွဲမှတ်နှင့် ကျို၍လောင်း။

၁၆။ ကောလမ္ဗရသေ့ ငွေယားကား–'ည' နှစ်ချက်ဆင့် ရှိ၏။ 'ခ' အက္ခရာရံ၏။ အချိန် ၅၀–စီရှိ၏။ ယူသော် သုံးရာတွင်း ပါ၏။ ဆေးကား ဖရုံခါး, ဘူးခါးကို နွားမှတ်နှင့် ကျို၍ လောင်း။

၁၇။ ဂန္ဓာရီရသေ့ ငွေယားကား– 'ဝ' အမှတ်ရှိ၏။ အချိန် ၅၀–ကျော်ရှိ၏။ တစ်ယူ ဇနာပါ၏။ ဝံအူ, ကျွဲမှတ်, ဖရုံခါးကို ကျို၍ တံလျှောက်နှင့်လောင်း။

၁၈။ ကောကာလိကရသေ့ ငွေယားကား– စန္ဒီနတ်ရုပ်ရှိ၏။ နတ်တံဆိပ် သော်လည်း ရှိ၏။ ကြက်ခြေသော်လည်းရှိ၏။ ယူသော် သုံးရာတွင်းပါ၏။ သုံးလျှင်သေ၏။ ဆေးကားရှေးနည်း။

၁၉။ ဆေးယားမှာ– ငွေကိုကိုင်လျှင် ယား၏။

၂၀။ နတ်ယားမှာ– သုံးမှ ယား၏။

၂၁။ သစ္စာယားမှာ– ပြန်၍ အစားမထားမှ ယား၏။

၂၂။ အင်းယားမှာ–ငွေမကြီးတွင် ၄–ကွက်အင်း, ၅–ကွက်အင်း, ၈–ကွက်အင်း, ၉–ကွက်အင်း တစ်ခုခုပါ၏။ ထိုသို့သောအင်းရှိလျှင် နတ်စောင့် တန်ခိုးကြီးရှိ၏။ ထိုနတ်ကိုနိုင်မှ အယားကိုနိုင်၏။

၎င်းငွေယား, ကြေးယားတို့ကို သတ်လိုသော် ဆင်ချေး, မြင်းချေး, ကျွဲချေး, နွားချေး, ခွေးချေး, ဆိတ်ချေးတို့ကို မှတ်နှင့်ဖျော်၊ ဆင်အော်၊ ဖက်ယားငယ်၊ ပြဒါး၊ ဤသုံးပါးကို ဆေးမှာထည့်၍သတ်။ လူသေ ရေချိုးသောခုံက ဝါးကိုခြင်းကြားယက်၍ ငွေယားကို တစူးဝါးတညှပ်နှင့် ယူ၍ထည့်ပြီးလျှင် လိုရာသို့ယူ၍ မီးခဲပေါ်တွင်တင် ယခင့်ဆေးကို ရေလုံအိုးနှင့်ထည့် တစ်ဖက်မှာ သူသေပုဆိုး မီးနေ ထဘီ ၂–ပါးဖက်

တံစူဝါး တညှပ်နှင့်ကိုင်၍ ဆေးရေတွင် ချလေ။ လက်မထိစေနှင့် ဖြူတတ်သည် နူတတ်သည် ငွေအော်လိမ့်မည် အော်မှယူ။

အခြောက်ရှိလျှင် ဥဏ္ဏာလုံမွေးရှင်တော် ဂါထာနှင့် ရေကိုမန်း၍ စည်းသား။ တံစူးဝါးကို လေး, မြားပြု၍ ရှစ်မျက်နှာလာသမျှကို ပစ်၊ ဦးနှိမ်အကျော်။ မွေးရှင်တော် ဂါထာကား–

ဩြောင်း ဟေဟေ တိသျှတ္တ–တိသျှတ္တ။ ဗန္ဓတ္တ–ဗန္ဓတ္တ။ မာရေယျ–မာရေယျ။ ဝါရေယျ–ဝါရေယျ။ နိဝါရေယျ–နိဝါရေယျ။ နိရုန္ဓေယျ–နိရုန္ဓေယျ။ ဗြဟ္မဒတ္တံ–ဗြဟ္မဒတ္တံ၊ ဒေဝဒတ္တံ–ဒေဝဒတ္တံ၊ ဥဏ္ဏာလောမာ မုနိသွားဟုံဟုံ။

ဩြောင်း ဟတ္ထိ အဿ သီဟ ယက္ခ ဗျဂ္ဃ ဒီပိ သံသုမာရ ဓနုဂ္ဂ သတ္တိ အသနိ အဂ္ဂိ ဥဒက ရာဇ စောရ အပ္ပိယ သပ္ပနာဂ ယက္ခ ဇော်ဂနီ။

ဩြောင်း–ကုရုတေ–ကုရုတေ။ ဆိန္ဒန္တု–ဆိန္ဒန္တု။ ဘိန္ဒန္တု–ဘိန္ဒန္တု။ အတ္ထင်္ဂမန္တု–အတ္ထင်္ဂမန္တု။ အဝင်္ဂမိသု၊ အဝင်္ဂမိသု၊ ဝိဒ္ဓံသေန္တု– ဝိဒ္ဓံသေန္တု။ ဒေဝဒတ္တံ–ဒေဝဒတ္တံ၊ ဗြဟ္မဒတ္တံ–ဗြဟ္မဒတ္တံ၊ ဥဏ္ဏာလောမာ မုနိ အာနုဘာဝေန သဗ္ဗေ အန္တရာယာ ဝိနဿန္တု အသေသတော။

ရွှေယား, ငွေယား တို့ကိုယူနိုင်သော ဗောဓိသတ္တ ကန့်လန့်ကာ ဆေးကား ချင်းရွေးသံ, ဆိတ်ဖူး, လင်းလေ, ယင်းတိုက်မြစ်ခေါက်, ဆေးဒါန်း, ကန့်တိုက်, ကညင်ဆံ ဆေးအားလုံးကို အမျှ ရေပူနှင့်ကြိတ်။ ဂ–အိမ် ပုံးရည်နှင့်ဖျော် သံသပိတ်နှင့် နွေးရုံ ချက်ပြီးလျှင် ရွှေယား, ငွေယားတို့ကို တံစူးဝါးနှင့်ညှပ်၍ယူ ၎င်းရေတွင်ချ အေးလျှင်သွန် ပြင်းစွာခြောက်လှမူကား ယခင်ကန့်လန့်ကာဆေးကို မျက်စိမှာကွက် လက်ဝါး ဖဝါးသုတ်၊ ရင်ဘတ်တွင် လူရုပ်ရေး နောက်လက်ပြင်တွင် နေရုပ်ရေး ဥမင်သို့ဝင်လေ၊ တူးလေ၊ တော်လည်းသကဲ့သို့ ဆင်သံ မြင်းသံ အမြောက်သံ သေနတ်သံ ဘီးလူသံ ကျားသံကို ကြားမူ နားနှစ်ဖက်ကို ဆေးရည်နှင့်ပက် အရာရာမျိုး မြင်ယောင်ထင်သော် ကြဖု အိမ်မွေ့သီး မျက်စိမှာကွက်။ ဦးနှိမ်အကျော်။

**ဥုံခွဿပြဿ ခွန်ပြသတ္တိ ဂုရုမာရီ နှိမ်ဆရာနှိမ်။ ။ ဇေရကျော် မာရကျော် ရကျော်ရကျော်တိ ဒေဝရည်။**

**ဆေးကား။** ။ ဆိတ်ဖူး၊ လင်းလေ၊ မုန်ညင်းဆံ၊ တမာညွန့်၊ နွားမြေရင်းခေါင်း၊ ကြဖု၊ အိမ်မွေ့သီး၊ တြိကဋုက်သုံးပါး၊ မုတ်– သည်ဆေးစုကို နွားနက်မုတ်နှင့်ကြိတ် လုံး၍ထား လိုသောအခါ ပုံးရည်နှင့်ဖျော် တံစူဝါးကို အရိန္ဒမာလုံ့သွားလုပ် ယခင် ဆေးကို လူး။ မန္တန် ဂ–အုပ်စုပ် အရပ်ရှစ်မျက်နှာ စိုက်၍ထား ဤဆေးနှင့် စည်းဝိုင်း အခြောက် ကြီးသော် ဓားလုံကိုနုတ်၍ ထိုးခုတ်လေ ဖုတ်ပြိတ်တစ္ဆေ မြေဘီလူး ဟူသမျှပျက်၏။ ။ ဖုတ်ကား ဖုတ်နှိမ်ကြီး။ ။ဤကား ပမာဏပြုလောက်သော စာဟောင်းထွက်နည်းတည်း။

❖❖❖❖❖

၄၂၉။ မိဋ္ဌာန်သေသတ်လောင်းလျာမြတ်၊ ဘယ်နတ်ဘယ်ပြဟ္မာတွင်နည်း။ (၉၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဝေံပါရမီယော ပူရေန္တာ ဒီဃာယုကဒေဝလောကေ နိဗ္ဗတ္တာ မဟာဗောဓိ သတ္တာ နသက္ကာတ္တေ ပါရမီယော ပူရေတုန္တိ အက္ခီနိ နိမ္မီလိတွာ အဓိမုတ္တိကာလံ ကတွာ မနုဿလောကေနိဗ္ဗတ္တန္တိ။ အယံကာလကိရိယာ အညေသံ န ဟောတီတိ။**

ဟူ၍ ဒီဃနိကာယ် သမ္ပသာဒနီယသုတ် အဋ္ဌကထာ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ ဘုရားလောင်းတို့သည် ပါရမီဖြည့်သောအခါ အသက်ရှည်စွာသော နတ်ပြည် ပြဟ္မာ့ပြည်တို့၌ ဖြစ်ရသောအခါ ''ငါသည် ဤနတ်ပြည်၌ ပါရမီဖြည့်ခြင်းငှာ မတတ်ကောင်း ချေသေး''ဟု နှလုံးပြု၍ ဆိတ်ငြိမ်သော ဗိမာန်အတွင်းသို့ ဝင်၍ စုတေချင်သော စိတ်ရှိလျက် မျက်စိကို မှိတ်၍ စုတေခဲ့ပြီးသော် ဤလူ့ပြည်၌ ဖြစ်လာကုန်၏။ ဤသို့သော သေခြင်းသည်ကား ဘုရားလောင်းမှ တစ်ပါးကုန်သော သူတို့အား မဖြစ်ကုန်။ ဘုရားလောင်းတို့သည်သာလျှင် ပြုဖူးသော ပါရမီတော် အဟုန်ကြောင့် နှလုံးသွင်းတိုင်း ဖြစ်နိုင်ကုန်၏ ဟူလိုသည်။

ထို၏ အဖွင့်ဖြစ်သော ဋီကာ၌လည်း–

**ဗောဓိသတ္တာယေဝ ကိရ ဒီဃာယုကဒေဝလောကေ ဌိတာ တ္ထစဋ္ဌိတဿ မေဗောဓိသမ္ဘာရ သမ္ဘရဏံ န သမ္ဘဝတီတိ။ ပ။ ဗောဓိသတ္တာနံ အဓိပ္ပါယောနာမ သမိဇ္ဈန္တိ။** ဟူ၍ မိန့်၏။

**အနက်ကား။** ။ ကိရ၊ အကြောင်းနှင့်တကွ ပြလိုက်ဦးအံ့။ ဗောဓိသတ္တာယေဝ၊ ဘုရားလောင်းတို့သည်သာလျှင်။ ဒီဃာယုက ဒေဝလောကေ၊ အသက်ရှည်သော နတ်ပြည် ပြဟ္မာ့ပြည်၌။ ဌိတာ၊ တည်ကုန်လျက်။ တ္ထ၊ ဤနတ်ပြည် ပြဟ္မာ့ပြည်၌။ ဌိတဿ၊ တည်သော။ မေ၊ ငါ့အား။ ဗောဓိသမ္ဘာရသမ္ဘရဏံ၊ သဗ္ဗညုတဉာဏ်၏ အဆောက်အဦး ဖြစ်သော ပါရမီသည်။ နသမ္ဘဝတိ၊ မဖြစ်။ တ္ထတိ၊ ဤသို့နှလုံးသွင်း၍။ တတ္ထ၊ ထိုနတ်ပြည် ပြဟ္မာ့ပြည်၌။ ဝါသေန၊ နေခြင်းဖြင့်။ နိဗ္ဗိဒမာနသာ၊ ငြီးငွေ့သော နှလုံးရှိကုန်သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။ တဒါ၊ ထိုအခါ၌။ ဝိမာနံ၊ ဗိမာန်၏အတွင်းသို့။ ပဝိသိတွာ၊ ဝင်၍။ အက္ခီ၊ မျက်စိကို။ နိမ္မီလိတွာ၊ မှိတ်၍။ တ္ထတိ၊ ဤကာလမှ။ ဥဒ္ဓံ၊ အထက်၌။ မေ၊ ငါ၏။ ဇီဝိတံ၊ အသက်သည်။ နပဝတ္တတု၊ မဖြစ်စေသတည်း။ တ္ထတိ၊ ဤသို့။ စိတ္တံ၊ စိတ်ကို။ အဓိဋ္ဌာယ၊ ဆောက်တည်၍။ နိသီဒန္တိ၊ နေကုန်၏။ စိတ္တာဓိဋ္ဌာန သမနန္တရမေဝ၊ စိတ်ကို ဓိဋ္ဌာန်သည်၏ အခြားမဲ့၌သာလျှင်။ မရဏံ၊ သေခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ကသ္မာ၊ အဘယ့်ကြောင့် နည်းဟူမူကား။ ပါရမိဓမ္မာနံ၊ ပါရမီတရားတို့၏။ ဥက္ကံသပတ္တိယာ၊ အထွတ်အထိပ်သို့ ရောက်ခြင်းကြောင့်။ တသ္မိံ တသ္မိံ အတ္တဘာဝေ၊ ထိုထိုသို့သော ကိုယ်အဖြစ်၌။ အဘိညာသမာပတ္တီဟိ၊ အဘိညာဉ်

သမာပတ်တို့ဖြင့်။ သန္တာနဿ၊ ခန္ဓာအစဉ်ကို။ ဝိသေသိတတ္တာ၊ အထူးပြုအပ်သည်၏ အဖြစ်ကြောင့်တည်း။ အတ္တသိနေဟဿ၊ ကိုယ်ချစ်ခြင်း၏။ တနုဘာဝေန၊ ခေါင်းပါးသည်၏ အဖြစ်ကြောင့်လည်းကောင်း၊ သတ္တေ၊ သတ္တဝါတို့ကို။ မဟာကရုဏာယ၊ အလွန်သနားခြင်း၏။ ဥဠာရဘာဝေ နစ၊ များမြတ်သည်၏ အဖြစ်ကြောင့် လည်းကောင်း။ အဓိဋ္ဌာနဿ၊ အဓိဋ္ဌာန်ခြင်း၏။တိက္ခဝိသဒဘာဝပတ္တိယာ၊ ထက်မြက်စင်ကြယ်သော အဖြစ်သို့ ရောက်ခြင်းကြောင့် လည်းကောင်း။ ဗောဓိသတ္တာနံ၊ ဘုရားလောင်းတို့၏။ အဓိပ္ပါယောနာမ၊ အလိုမည်သည်။ သမိဇ္ဈန္တိ၊ ပြည့်စုံကုန်၏။

ဤသို့အဋ္ဌကထာ, ဋီကာတို့၌ နတ်ဘုံပြဟ္မာ့ဘုံတို့၌ဖြစ်သော ဘုရားလောင်းတို့သည် စုတေလိုသော စိတ်ရှိသော် ထိုခဏ၌ စိတ်ကိုဓိဋ္ဌာန်၍ စုတေနိုင်ကြောင်းကိုသာ လာသည်။ မည်သည့်နတ်၊ မည်သည့်ပြဟ္မာ့ဘုံမှ လာနိုင်၏ဟူ၍ အသီးအခြား မဆို။ ယင်းသို့မဆို သော်လည်း သဘောယုတ္တိကိုစာသော် ကာမာဝစရ နတ်ရွာခြောက်ထပ်။ တတိယစျာန် တိုင်ရုံသော ပြဟ္မာကိုးရပ်မှသာလျှင် လာနိုင်၏ ဟူ၍ မှတ်ရာသည်။ ဝေဟပ္ဖိုလ်၊ သုဒ္ဓါဝါသ တို့မှကား မလာပြီ။

အဋ္ဌကထာပါဌ်, ဋီကာပါဌ်တို့၌ ''ဒေဝလောကေ''ဟု သာမညရှိလျက် အဘယ့်ကြောင့် 'ပြဟ္မာ'ဟု ယောဇနာသနည်း ဟူငြားအံ့ ၎င်းသုတ်ဋီကာ၌-

> တထာ ဟိ အမှာကံ မဟာသတ္တော ဣမသ္မိံ ယေဝ ကပ္ပေ
> နာနာဇာတီသု အပရိဟီနဇ္ဈာနော ပြဟ္မလောကေ နိဗ္ဗတ္တော အပ္ပမေယျံ
> ကာလံ တတ္ထ ဌတွာ တတော စဝိတွာ မနုဿလောကေ နိဗ္ဗတ္တော။

ဟူသော လဒ္ဒဂုဏ် စကားကိုမြင်၍ ပြဟ္မာပါထည့်၍ ယောဇနာအပ်သတည်း။

◆◆◆◆◆

## ၄၃၀။ ဒုဿမည်မှတ်၊ စေတီမြတ်၊ တည်လတ်ဘယ်အပေါ်တွင်နည်း။(၉၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-ဘုရားလောင်း တောထွက်၍ အနော်မာ မြစ်ကမ်းယံတွင် ဆံတော်ပယ်ပြီးသော် ဃဋီကာရ ပြဟ္မာကပ်လှူသော ကြာသင်္ကန်းဖြင့် ရဟန်းပြုသောအခါ လဲတော်မူသော ပုဆိုးကို ဃဋီကာရပြဟ္မာမင်း ယူဆောင်၍ အကနိဋ္ဌဘုံတွင် စေတီပြုကာ ကိုးကွယ်ကြောင်းကိုသာ ဇိနာလင်္ကာရ, ဗုဒ္ဓဝင်စသော ကျမ်းဂန်တို့၌ လာသည်။ မည်သည့်အရပ်၌ မည်သည့်အပေါ်တွင် တည်လုပ်ကြောင်းကို ကျမ်းဂန်မတွေ့ချေ။

◆◆◆◆◆

## ၄၃၁။ပကတိဆတ်ဆတ်၊အားတော်မြတ်၊ပေါင်းလတ်သချ်ာ ဘယ်မျှနည်း။(၉၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ကာလာဝကဆင် ကုဋေ တစ်ထောင်။ ဂင်္ဂေယျဆင် ကုဋေတစ်ရာ။ ပဏ္ဍရဆင် ကုဋေတစ်ဆယ်။ တမ္ဗဆင်

တစ်ကုဋေ။ ပိင်္ဂလဆင် တစ်သန်း။ ဂန္ဓဆင် တစ်သိန်း။ မင်္ဂလာဆင်တစ်သောင်း။ ဟေမဆင် တစ်ထောင်။ ဥပေါသထဆင် တစ်ရာ။ ဆဒ္ဒန်ဆင် ဆယ်စီး။ ယောကျ်ားကုဋေတစ်သောင်း တို့၏အားကို မြတ်စွာဘုရား ဆောင်တော်မူနိုင်၏။

ကျမ်းလာကို ဆိုလိုက်ဦးအံ့-

**ကာလာဝကဉ္စ ဂင်္ဂေယျံ၊ ပဏ္ဍရံ တမ္ဗပိင်္ဂလံ။**

**ဂန္ဓမင်္ဂလဟေမဉ္စ၊ဥပေါသထ ဆဒ္ဒန္တိမေဒသာတိ**ဟူ၍ လည်းကောင်း။

**တတ္ထ ကာလာဝကန္တိ ပကတိဟတ္ထိကုလံ ဒဋ္ဌဗ္ဗံ၊ ယံ ဒသန္နံ ပုရိသာနံ ကာယဗလံ၊တံ ဧကဿ ကာလာဝကဿဟတ္ထိနော ယံ ဒသန္နံ ကာလာဝကာနံ၊ တံ ဧကဿ ဂင်္ဂေယျဿာတိ ဣမိနာနုသာရေန သေသဟတ္ထိကုလာနံပိ ဗလံ ဒဋ္ဌဗ္ဗံ။ ယံ ပန ဒသန္နံ ဆဒ္ဒန္တာနံ ဗလံ၊ တံ ဧကဿ တထာ ဂတဿ။**

ဟူ၍ မဇ္ဈိမနိကာယ် မဟာသီဟနာဒသုတ် အဋ္ဌကထာ၌ လာသည်။

**အဓိပ္ပါယ်အကျဉ်းကား။** ။ ကာလာဝကဆင်, ဂင်္ဂေယျဆင်, ပဏ္ဍရဆင်, တမ္ဗဆင်, ပိင်္ဂလဆင်, ဂန္ဓဆင်, မင်္ဂလဆင်, ဟေမဆင်, ဥပေါသထဆင်, ဆဒ္ဒန်ဆင်ဟူ၍ ဆယ်မျိုးရှိသည်။

ထိုတွင် ပကတိသော ဆင်မျိုးသည် ကာလာဝကဆင်မည်၏။ အကြင် ယောကျ်ား တစ်ကျိပ်တို့၏အားသည် ရှိ၏။ ထိုယောကျ်ားတစ်ကျိပ်တို့၏ အားကို ကာလာဝကဆင် တစ်စီးသည် ဆောင်နိုင်၏။ အကြင်ကာလာဝကဆင် ဆယ်စီးတို့၏ အားသည်ရှိ၏။ ထိုကာလဝကဆင် ဆယ်စီးတို့၏အားကို ဂင်္ဂေယျဆင်တစ်စီးသည် ဆောင်နိုင်၏။ ဂင်္ဂေယျဆင် ဆယ်စီးတို့၏အားကို ပဏ္ဍရဆင်တစ်စီး ဆောင်နိုင်၏။ ပဏ္ဍရဆင် ဆယ်စီးတို့၏အားကို တမ္ဗဆင်တစ်စီး ဆောင်နိုင်၏။ တမ္ဗဆင် ဆယ်စီးတို့အားကို ပိင်္ဂလဆင်တစ်စီး ဆောင်နိုင်၏။ ပိင်္ဂလဆင် ဆယ်စီတို့၏ အားကို ဂန္ဓဆင်တစ်စီး ဆောင်နိုင်၏။ ဂန္ဓဆင် ဆယ်စီးတို့၏အားကို မင်္ဂလဆင်တစ်စီး။ မင်္ဂလဆင်ဆယ်စီးတို့၏အားကို ဟေမဆင်တစ်စီး။ ဟေမဆင် ဆယ်စီးတို့၏အားကို ဥပေါသထဆင်တစ်စီး။ ဥပေါသထဆင်ဆယ်စီးတို့၏အားကို ဆဒ္ဒန်ဆင်တစ်စီး ဆောင်နိုင်၏။ ဆဒ္ဒန်ဆင် ဆယ်စီးတို့၏အားကို ဘုရားသခင်ဆောင်နိုင်၏ ဟူလိုသည်။

ယင်းသို့သောအားသည် ဘုရားဖြစ်မှ ပြည့်စုံသည်မဟုတ်၊ အလောင်းတော် ကပင် ပြည့်စုံ၏။

ထို့ကြောင့် အပဒါန်အဋ္ဌကထာ၌-

**ဗောဓိသတ္တော ပန ထာမဗလသမ္ပန္နော ဟတ္ထိဂဏနာယ ကောဋိသဟဿဟတ္ထီနံ ဗလံဓာရေတိ။ ပုရိသဂဏနာယ ကောဋိဒသ သဟဿ ပုရိသာနံ ဗလံ ဓာရေတိ။** ဟူ၍ မိန့်တော်မူသည်။

❖❖❖❖❖

## ၄၃၂။ ဥစ္စာပွားမြတ်၊ ခေါင်းဆေးလတ်၊ အမှတ် ဘယ်ကရက်နေ့နည်း။ (၉၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တန်းခူးလဆန်း တစ်ရက်နေ့ ခေါင်းဆေးမူ ဖျားနာပျောက်အံ့။

ကဆုန်လဆန်း တစ်ရက်နေ့ ခေါင်းဆေးမူ ဘေးလွတ်အံ့။

နယုန်လဆန်း တစ်ရက်နေ့ ဆေးမူ ချမ်းသာရအံ့။

ဝါဆိုလဆန်း တစ်ရက်နေ့ ဆေးမူ ချမ်းသာများရအံ့။

ဝါခေါင်လဆန်း တစ်ရက်နေ့ ဆေးမူ နတ်တို့မစအံ့။

တော်သလင်းလဆန်း သုံးရက်, လေးရက်, ငါးရက်, ခုနစ်ရက်နေ့ဆေးမူ သက်ရှည် ချမ်းသာအံ့။

သီတင်းကျွတ် လဆန်း ငါးရက်, ခြောက်ရက်နေ့ ဆေးမူ ဘေးခပ်သိမ်း ပျောက်အံ့။

တန်ဆောင်မုန်းလဆန်း တစ်ရက်, ခုနစ်ရက် ဆေးမူ အသက်ရှည်အံ့။

နတော်လဆန်း တစ်ရက်နေ့ ဆေးမူ အသက်ရှည်စွာ ဥစ္စာပွားအံ့။

ပြာသိုလဆန်း တစ်ရက်နေ့ ဆေးမူ တန်ခိုးရှိအံ့။

တပို့တွဲလဆန်း တစ်ရက်နေ့ ဆေးမူ ချမ်းသာများအံ့။

တပေါင်းလဆန်းတစ်ရက်နေ့ ဆေးမူ အသက်ရှည်အံ့။

(လ–ဖို့ခေါင်းဆေးရာသောကျမ်း)

တနင်္ဂနွေနေ့ခေါင်းဆေးမူ မြောက်သို့မျက်နှာမူ၍ဆေး။ ပုန်းညက်ခုနစ်ပင် ပူဇော်။ ရွှေငွေရအံ့။ စစ်ထိုးသော် အောင်အံ့။

တနင်္လာနေ့ ဆေးမူ ကင်ပွန်း ခုနစ်ညွန့်နှင့်ဆေး။ အရှေ့မြောက်သို့ မျက်နှာပြုလေ။ သူတကာချစ်အံ့။

အင်္ဂါနေ့ ဆေးမူ အောင်မဲညိုပွင့်နှင့် အရှေ့သို့ မျက်နှာပြု၍ဆေး။ လာဘ်ရအံ့။

ဗုဒ္ဓဟူးနေ့ ဆေးမူ ရေသကျည်းရွက်နှင့် အရှေ့သို့ မျက်နှာပြု၍ဆေး။ ရွှေငွေရအံ့။

ကြာသပတေးနေ့ ဆေးမူ အရှေ့မြောက်သို့ မျက်နှာမူ၍ဆေး။ လာဘ်ရအံ့။

သောကြာနေ့ ဆေးမူ ချင်းစိမ်း, သဖန်းခါး, ရှိသျှားထည့်၍ အရှေ့တောင်သို့ မျက်နှာပြု၍ဆေး။ လာဘ်ကြီးရအံ့။

စနေနေ့ ဆေးမူ ကင်ပွန်းခုနစ်ညွန့်နှင့် အရှေ့မြောက်သို့ မျက်နှာပြု၍ဆေး။ မင်းပေးသော လာဘ်ရအံ့။ (နေ့–ဖို့ခေါင်းဆေးရာသောကျမ်း)။

❖❖❖❖❖

## ၄၃၃။ ယာစာဝိမာသ်၊ရောက်ဆတ်ဆတ်၊တော်လတ်ကြောင်းကွဲ ဘယ့်ကြောင့်နည်း။(၉၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သက္ကရာဇ်ကို ၁၉-ခုစား၍ အကြွင်း ၂-ခု။၅-ခု။ ၈-ခု။၁၀-ခု။ ၁၃-ခု။ ၁၆-ခု။ ၁၈-ခု ကြွင်းသော နှစ်၌ တစ်လလွန်အပ်သောကြောင့် အဓိမာသ်ကြံ့သည် မည်၏။ ထိုအဓိမာသ် ခုနစ်ပါးတို့တွင် ဖုသျှုသောဠသ နှစ်ပါးသည် ယာစာဒိမာသ် မည်၏။ အပတ္တာမာသ်လည်း မည်၏။ အကြွင်းငါးပါးသည် ပတ္တာဓိမာသ်မည်၏။ ထိုအဓိမာသ် ခုနစ်ပါးတွင် တစ်ပါးပါးကြံ့သော နှစ်-လ၌လည်း ရက်ငင် သင့်၊ မသင့်အားဖြင့် နှစ်ပါးအပြား ရှိသည်တွင် ဝါဆိုလပြည့်နေ့ ဥတ္တရာသန် နက္ခတ်ကိုမှီမူ ရက်မငင်ရ၊ မမှီမူ ရက်ငင်ရ၏။ ဤသို့ အကျဉ်းအားဖြင့် မှတ်ရမည်။

◆◆◆◆◆

## ၄၃၄။ စန်းကျော်စီးလတ်၊ ဗေဒင်တတ်၊ အမှတ်မူလမည်သို့နည်း။(၉၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ရထည်းပူဇော်၊ မေးခဲ့သော်မူ၊ မချော်မပျက်၊ ရောက်သက်တည်ကာ၊
သတ္တာဗီသ၊ စားပြီးမှလျှင်၊ သေသကိုမူ၊ စတုရပါဒ်၊ တူရာမှတ်၍၊
စန်းမြတ်ကိုချ၊ မှန်လှတည့်တည့်၊ နံ၏ဉစ်အိမ်၊ ကသစ်အိမ်ထက်၊
ကြိမ်သော်လည်းကောင်း၊ တစ်ကြောင်းဟောရာ၊ မေးလာသူ့သက်၊
မယွက်တည်ထ၊ မူလနက္ခတ်၊ ရောမှတ်ပြီးခါ၊ တစ်ရာရှစ်စား၊ မစား
လောက်လျှင်၊ စားခြေတွင်၌၊ နုတ်ကျင်တုံလတ်၊ အကြွင်းမြတ်ကို၊ ၄-
ပါဒ်နှင့်စား၊ လဒ်ကားနက္ခတ်၊ အကြွင်းပါဒ်တည့်၊ နက္ခတ်တူရာ၊ စန်းတပ်
ပါလော့၊ မူလာလက်က၊ စန်းထက်ကျမူ၊ လာဘာလာဘ်သပ်၊ အထပ်
ထပ်လျှင်၊ အလပ်မရှိ၊ အကျိအခဲ၊ ကဲကဲပိုပို၊ လိုပါသမျှ၊ ပြည့်စုံလှလျက်၊
သုခကြီးကျယ်၊ အသွယ်သွယ်သည်။ ။ မိုးလယ်လသို့ အရောင်တည်း။

ဤနည်းကို စန်းကျော်ဟောနည်းဟု ဆို၏။

◆◆◆◆◆

## ၄၃၅။ အဿာသတေတ်၊ ပါနတေတ်၊ ဖြစ်လတ် စ-ဆုံး ဘယ်တွင်နည်း။(၉၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ထွက်သက်၏ အစကား ချက်၊ အဆုံးကား နှာသီးဖျား။

ဝင်သက်၏အစကား နှာသီးဖျား၊ အဆုံးကား ချက်တည်း။

◆◆◆◆◆

၄၃၆။ ပဋိစ္စသမုပ္ပါဒ်၊ သမုပ္ပါဒ်၊ မိန့်ရှတ်တရားကိုယ် ဘယ်မျှနည်း။(၉၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အဝိဇ္ဇာ, သင်္ခါရ, ဝိညာဉ်, နာမ် ရုပ်, သဠာယတန, ဖဿ, ဝေဒနာ, တဏှာ, ဥပါဒါန်, ဘဝ, ဇာတိ, ဇရာ မရဏဟူ၍ အင်္ဂါအားဖြင့် ၁၂-ပါး ရှိသည်တွင်-

အကုသိုလ် ဒွါဒသ၌ရှိသော မောဟသည် အဝိဇ္ဇာမည်၏။ ။ကုသိုလ် စေတနာ ၂၁-ခု။ အကုသိုလ်စေတနာ ၁၂-ခုအားဖြင့် ၃၃-ပါးသော စေတနာသည် သင်္ခါရမည်၏။ စိတ်တစ်ခုယုတ် ကိုးဆယ်သည် ဝိညာဉ်မည်၏။ ။ စေတသိက် ဒွေးပညာသ၊ ရုပ် အဋ္ဌဝီသသည် နာမ်ရုပ်မည်၏။ ပသာဒရုပ် ၅-ခု။ စိတ် ကျေနနဝုတိသည် သဠာယတန မည်၏။ ။ စိတ်တစ်ခုယုတ် ကိုးဆယ်၌ ရှိသော ဖဿသည် ဖဿမည်၏။ ။ စိတ် တစ်ခုယုတ် ကိုးဆယ်၌ ရှိသော ဝေဒနာသည် ဝေဒနာမည်၏။ လောဘမူစိတ် ၈-ခု၌ ရှိသော လောဘသည် တဏှာမည်၏။ ၎င်း လောဘမူစိတ်၌ ရှိသော လောဘ, ဒိဋ္ဌိသည် ဥပါဒါန်မည်၏။

ဘဝ၏ အရသည် ကမ္မဘဝ, ဥပပတ္တိဘဝဟူ၍ နှစ်ပါးအပြားရှိ၏။ ထိုနှစ်ပါးတွင် သင်္ခါရအရဖြစ်သော ကုသိုလ် အကုသိုလ် စေတနာ ၃၃-ခုသည် ကမ္မဘဝမည်၏။

ဥပပတ္တိဘဝသည်လည်း - ကာမဘဝ, ရူပဘဝ အရူပဘဝ, သညီဘဝ, အသညီ ဘဝ, နေဝသညီနာသညီဘဝ, ဧကဝေါကာရဘဝ, စတုဝေါကာရဘဝ, ပဉ္စဝေါကာရ ဘဝအားဖြင့် ၉-ပါး အပြားရှိ၏။

ထိုကိုးပါးတို့တွင် ကာမဝိပါက်တေဝီသ၊ စေတသိက်ပဉ္စတိံသ၊ ကမ္မဇရုပ်ဝီသ သည် ကာမဘဝမည်၏။ ရူပဝိပါက် ၅-ခု၊ စက္ခုဝိညာဉ်ဒွေး၊ သောတဝိညာဉ်ဒွေး၊ သမ္ပဋိစ္ဆိုင်းဒွေး၊ သန္တီရဏ ၃-ခု၊ အာဝဇ္ဇန်းဒွေး၊ စေတသိက်ပဉ္စတိံသ၊ ဃာနာဒိတ္တယ၊ ကလာပ်ဝဲ့သော၊ ပုမ္ဘော ကြဉ်သော ကမ္မဇရုပ်ပန္နရသသည် ရူပဘဝမည်၏။ အရူပဝိပါက် ၄-ခု၊ စေတသိက်တိံသသည် အရူပဘဝမည်၏။ နေဝသညာနာသညာယတနဝိပါက် ကြဉ်သော လောကီဝိပါက် ကေတိံသ၊ စေတသိက်တိံသ ကမ္မဇရုပ်ဝီသသည် သညီဘဝ မည်၏။ ဇီဝိတဆက္ကဇီဝိတနဝကကလာပ်ရုပ်သည် အသညီဘဝမည်၏။ ။ နေဝသညာ နာသညာယတနဝိပါက် တစ်ခု။ စေတသိက်တိံသသည် နေဝသညီနာ-သညီဘဝ မည်၏။ ။အသညီဘဝ၏ အရသည် ရူပက္ခန္ဓာတစ်ပါးသာ ရှိသောကြောင့် ဧကဝေါကာရဘဝမည်၏။ ။ အရူပဘဝ၏ အရသည် နာမက္ခန္ဓာလေးပါးရှိသောကြောင့် စတုဝေါကာရဘဝမည်၏။ ကာမဘဝ၊ ရူပဘဝ၏အရသည် ပဉ္စဝေါကာရဘဝမည်၏။

ဇာတိသည် ရုပ်၏ဇာတိ၊ နာမ်၏ဇာတိအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုတွင် နိပ္ဖန္နရုပ် တို့၏။ (ဝါ) စတုဇရုပ်တို့၏ ဖြစ်ဆဲသည် ရုပ်၏ဇာတိမည်၏။ ။ နာမက္ခန္ဓာလေးပါးတို့၏ ဖြစ်ဆဲသည် နာမ်၏ ဇာတိမည်၏။

ဇရာသည်လည်း - ရုပ်၏ဇရာ, နာမ်၏ဇရာအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုတွင် နိပ္ဖန္နရုပ်တို့၏ ရင့်ခြင်းသည် ရုပ်၏ဇရာမည်၏။ နာမက္ခန္ဓာလေးပါးတို့၏ ရင့်ခြင်းသည် နာမ်၏ ဇရာမည်၏။

မရဏသည်လည်း-ရုပ်၏မရဏ, နာမ်၏မရဏအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုတွင် နိပ္ဖန္နရုပ်တို့၏ ပျက်ခြင်းသည် ရုပ်၏မရဏမည်၏။ နာမက္ခန္ဓာလေးပါးတို့၏ ပျက်ခြင်းသည် နာမ်၏ မရဏမည်၏။

သောက, ပရိဒေဝ, ဒုက္ခ, ဒေါမနဿ, ဥပါယာသ တည်းဟူသော တရားတို့သည်ကား- ဇာတိ၏ အကျိုးဆက်မျှသာ ဖြစ်သောကြောင့်လည်းကောင်း, ဇရာမရဏနှင့် အနိဋ္ဌလက္ခဏာချင်း တူသောကြောင့်လည်းကောင်း အင်္ဂါအားဖြင့် မရေတွက်အပ်ကုန်။

ထိုတရားတို့တွင် ဒေါသမူဒွေး၌ရှိသော ဝေဒနာစေတသိက်သည် သောကမည်၏။ဆွေမျိုးသာချင်းတို့ ပျက်စီးရာ၌ ငိုကြွေးမြည်တမ်းသဖြင့် ဖြစ်သော ဝိပလ္လာသ စိတ္တဇသဒ္ဒသည် ပရိဒေဝမည်၏။ ဒုက္ခသဟဂုတ် ကာယဝိညာဉ်၌ ရှိသော ဝေဒနာ စေတသိက် သည် ဒုက္ခမည်၏။ ဒေါသမူ ဒွေး၌ရှိသော ဝေဒနာစေတသိက်သည် ဒေါမနဿမည်၏။ ၎င်း ဒေါသမူဒွေး၌ရှိသော ဒေါသစေတသိက်သည် ဥပါယာသ မည်၏။

ဤသို့ အသီးသီးသော တရားကိုယ်ကို ကောက်အပ်၏။ (ဓာတုကထာ)။

''တရားကိုယ်ဘယ်မျှနည်း''ဟူသော အမေးပုစ္ဆာ၏အဖြေ ဝိသဇ္ဇနာကား- နိဗ္ဗာန်မှ တစ်ပါးသော ပရမတ္ထတရားသုံးပါးလုံးသည် ပဋိစ္စသမုပ္ပါဒ်၏ တရားကိုယ်ပင်တည်းဟု ဖြေအပ်၏။

❖❖❖❖❖

၄၃၇။ သညာကေတ်၊ ထူးနာနတ်၊ ပြားလတ် ဘယ်သို့ခွဲမည်နည်း။(၉၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ပဋိသန္ဓိဝိညာဏဿ ဌာနံ ဝိညာဏဋ္ဌိတိ နာမသာ သတ္တဝိဓာ ဟောတိ၊ နာနတ္တကာယ နာနတ္တသညီ၊ နာနတ္တကာယ ကေတ္တသညီ။ ကေတ္တကာယ နာနတ္တသညီ။ ကေတ္တကာယ ကေတ္တသညီ။ ဟေဋ္ဌာတိသော အာရုပ္ပဘူမိယောတိ။**

ဤသို့ စသည်ဖြင့် အင်္ဂုတ္တိုရ် အဋ္ဌကထာစသည်၌ လာသောကြောင့် ပဋိသန္ဓေဝိညာဉ်၏ တည်ရာသည် ဝိညာဏဋ္ဌိတိ မည်၏။

ထို ဝိညာဏဋ္ဌိတိသည်-

နာနတ္တကာယ နာနတ္တသညီ၊
နာနတ္တကာယ ကေတ္တသညီ၊

ကေတ္တကာယ နာနတ္တသညီ၊
ကေတ္တကာယ ကေတ္တသညီ၊
အာကာသာနဥ္စာယတန၊
ဝိညာဏဥ္စာယတန၊
အာကိဉ္စ **ညာ** ယတန–
အားဖြင့် ၇–ပါး **အ**ပြားရှိ၏။

ထိုတွင် လူ့ပြည် နတ်ပြည်အားဖြင့် ၇–ပါးသော သုဂတိဘုံသည် သတ္တဝါတို့ ကိုယ်သဏ္ဍာန်လည်း အထူးထူးအပြားပြား။ ပဋိသန္ဓေလည်း အထူးထူးအပြားပြား ရှိသည်ဖြစ်၍ နာနတ္တကာယ နာနတ္တသညီမည်၏။

ပထမဈာန် ၃–ဘုံ၊ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသုရကာယ် ဟူသော အပါယ် လေးဘုံ။ ဤ ၇–ဘုံသည် သတ္တဝါတို့ကိုယ်သဏ္ဍာန်ကား အထူးထူးအပြားပြား ရှိ၏။ ပဋိသန္ဓေမူကား ပထမဈာန် ၃–ဘုံ၌ ပထမဈာန် ဝိပါက်စိတ် တစ်ခုသာ၊ အပါယ် လေးဘုံ၌ အဟိတ် အကုသလဝိပါက် သန္တီရဏစိတ်တစ်ခုသာ ပဋိသန္ဓေရှိသည်ဖြစ်၍ **နာနတ္တကာယ ကေတ္တသညီ** မည်၏။

ဒုတိယဈာန် ၃–ဘုံသည် သတ္တဝါတို့ ကိုယ်သဏ္ဍာန် အရောင်အဝါကားတူ၏။ ပဋိသန္ဓေစိတ်ကား ဒုတိယဈာန်ဝိပါက်၊ တတိယဈာန်ဝိပါက် နှစ်ပါးဖြစ်၍ **ကေတ္တကာယ နာနတ္တသညီ** မည်၏။

တတိယဈာန် ၃–ဘုံ၊ ဝေဟပ္ဖိုလ်ဘုံ၊ သုဒ္ဓါဝါသ ၅–ဘုံတို့သည် သတ္တဝါတို့ ကိုယ်သဏ္ဍာန်လည်း တူသည်။ ပဋိသန္ဓေစိတ်လည်း စတုက္ကနည်းအားဖြင့် စတုတ္ထဈာန် ဝိပါက် တစ်ပါးသာ ဖြစ်ရကား **ကေတ္တကာယ ကေတ္တသညီ** မည်ကုန်၏။

အောက် အရူပ ၃–ဘုံလည်း ဝိညာဏဋ္ဌိတိ တစ်ပါးစီပင်ဖြစ်သည်။

**ဘုံကိုးဝ ဟူရာ၌** ယခင်ဝိညာဏဋ္ဌိတိ ၇–ပါးတွင် အသညသတ် ဘုံကို တစ်ရပ်။ နေဝသညာ နာသညာယတနဘုံကို တစ်ရပ်ထည့်၍ ၉–ပါးသော သတ္တဝါသ ဖြစ်သတည်း။

ထို့ကြောင့် ရှေးဆရာတို့သည်–

လူ့ပြည်နှင့်နတ်၊ သတ်လျှင် နာ–နာ။ ပထမဈာန်၊ လေးကန်ပယ်ခွင်၊ သတ်လျှင်နာဧ၊ ဒွေးဈာန် ၃–ရပ်၊ ဧနာဟပ်၊ အသညသတ်ပြီ၊ အသညီ၊ ကြွင်းပြီ နဝါ၊ ဧဧသာ၊ အရူပါမှ၊ ဘုံလေးဝ၊ သတ္တဝါသာ၊ ဘုံကိုးရှာဟု၊ စိတ်ဖြာ ဝေဖန်အပ်သတည်း။

ဟူ၍မိန့်ကုန်၏။

❖❖❖❖❖

**၄၃၈။ နိရောဓမြတ်၊ ဝင်ဆတ်ဆတ်၊ သတ်၍မသေ ဘယ့်ကြောင့်နည်း။(၁၀၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''သမာပတ္တိယာနုဘာဝတော န သက္ကောတိ ဃာတေတုံ''**

ဟူ၍ အဘိဓမ္မာအဋ္ဌကထာတို့၌ မိန့်ရကား သမာပတ်၏ တန်ခိုးအာနုဘော်ကြောင့်ပင် သတ်၍ မသေသည် ဟူပေ။

❖❖❖❖❖

**၄၃၉။လောင်မင်းသိဒ္ဓတ်၊စိုးစံမှတ်၊ ပြည်မြတ်အကျယ် ဘယ်မျှနည်း။(၁၀၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကပိလဝတ်ပြည်၏ လျား–နံ အကျယ် အဝန်းကို ကျမ်းဂန်တို့၌ ဆိုသည်ကို သတိမမူမိ။ ရာဇဝင်စာတမ်းတို့၌ကား အလျား အနံ သုံးယူဇနာ ကျယ်သောဟူ၏။

❖❖❖❖❖

**၄၄၀။ နော်ရထာမြတ်၊ တည်တုံလတ်၊ စွယ်ဓာတ်ရှင်တော် ဘယ်မျှနည်း။(၁၀၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရွှေစည်းခုံ တစ်ဆူ,
တန့်ကြည့်တောင်ဖျား တစ်ဆူ,
လောကနန္ဒာ တစ်ဆူ,
တူရွှင်းတောင်ထိပ်၌ တစ်ဆူ,
ပြက်တောင်ထိပ်၌ တစ်ဆူ–

ဤ ငါးဆူသော ရှင်တော်မြတ် ဟူပေ။

**အကြောင်းကို အမြွက်မျှ ပြဆို လိုက်ဦးအံ့။** ။ အနော်ရထာ မင်းစောသည် သိန်းခိုကျွန်း သဃ်ဗောဓိမင်း၏ အထံမှ ပင့်ဆောင်၍ရခဲ့သော စွယ်တော်ကို ရွှေနန်းတော်ရှေ့၌ ရတနာအတိ မွမ်းမံသော ပြာသာဒ်ထက်၌ ကျိန်းဝပ်စေ၍ မပြတ်ပူဇော်တော်မူသည်။

ရှင်အရဟံလည်း မင်းကြီးအား ''စွယ်တော်မြတ်ကို နန်းတော်တွင် ထား၍ ကိုးကွယ်သည်ထက် စေတီတည်ရသော် သာသနာ ငါးထောင်ပတ်လုံး သတ္တဝါ အပေါင်းတို့ အကျိုးများစွာ ဖြစ်ကုန်လတ္တံ့''ဟု မိန့်တော်မူ၏။ မင်းကြီးလည်း ''ကောင်းပါပြီ''ဟု ဝန်ခံ၍ စွယ်တော်မြတ်ကို ဆင်ဖြူထက်၌ ရတနာပြာသာဒ်ဖြင့် တင်ပြီးသော် ''စွယ်တော် ကျိန်းဝပ်တော်မူလိုသောအရပ်၌ ဆင်ဖြူဝပ်စေသော်''ဟု အဓိဋ္ဌာန်၍ လွှတ်၏။ ဆင်ဖြူလည်း နဖူးသင်းကျစ်တော်ဓာတ် ဌာပနာရာ ရွှေစည်းခုံသို့ တက်၍ ဝပ်၏။ မင်းလည်း ထိုစွယ်တော်ကို ရွှေစည်းခုံ၌ ဌာပနာ၏။

ဌာပနာဆဲအခါ ''ငါသည် နောင်ဘုရားအဖြစ်သို့ ရောက်မည်မှန်လျှင် စွယ်တော် တစ်ဆူပွားစေသော''ဟု မိဋ္ဌာန်၏။ စွယ်တော်လည်း တစ်ဆူပွား၍ ဆင်ဖြူထက်တွင် တင်၍ ယခင်ကဲ့သို့ မိဋ္ဌာန်ပြု၍ လွှတ်ပြန်သော် ဆင်ဖြူသည် တန့်ကြည့်တောင်ဖျားသို့ တက်၍ ဝပ်လေ၏။ ထိုအရပ်တွင် စေတီတည်၍ ဌာပနာ၏။

ဌာပနာဆဲအခါ ရှေးနည်းမိဋ္ဌာန်၍ စွယ်တော်တစ်ဆူ ပွားပြန်၏။ ထိုစွယ်တော်ကို ဆင်ဖြူတွင်တင်၍ ယခင်ကဲ့သို့ မိဋ္ဌာန်၍ လွှတ်ပြန်လျှင် သိန်းခိုကျွန်းမှ သဘော်ဆိုက်လာသော လောကနန္ဒာ အရပ်တွင် ဝပ်လေ၏။ ထိုအရပ်၌ စေတီတည်၍ ဌာပနာပြန်၏။

ဌာပနာဆဲ၌ ရှေးနည်းမိဋ္ဌာန်ပြန်သော်· စွယ်တော်တစ်ဆူ ပွားပြန်၏။ ထိုစွယ်တော်ကို ဆင်ဖြူတွင်တင်၍ ယခင်ကဲ့သို့ လွှတ်ပြန်သော် တူရွင်းတောင်ဖျားတွင် ဝပ်လေ၏။ ထိုတောင်ဖျား၌ စေတီတစ်ဆူတည်၍ ဌာပနာ၏။

ဌာပနာဆဲ၌ မိဋ္ဌာန်ပြန်လျှင် စွယ်တော်တစ်ဆူ ပွားပြန်၏။ ထိုစွယ်တော်ကို ဆင်ဖြူတွင် တင်၍ လွှတ်ပြန်သော် ဆင်ဖြူသည် အရှေ့အရပ်သို့သွား၍ သာလျောင်းတောင်ထက်၌ တစ်ခဏမျှလျောင်းပြီးလျှင် သက်၍ ခရွေတောင်ထက်သို့ တက်လေ၏။ ထိုကမှ ပြက်တောင်ထက်သို့ တက်လေ၏။ အနော်ရထာမင်းလည်း ထိုအရပ်တွင် စေတီတစ်ဆူတည်၍ ဌာပနာ၏။

သာလျောင်းတောင်၊ ခရွေတောင်တို့တွင်လည်း ''ငါ့ကိုစေတီတည်စေလိုသည်'' ဟု အမှတ်ရှိ၍ သရီရဓာတ်တော် ဌာပနာ၍ စေတီတည်တော်မူသည်။

❖❖❖❖❖

## ၄၄၁။ သူ၏အဝတ်၊ ကိုင်ငင်ချုတ်၊ ဆုံးဖြတ်လျော်ငွေ ဘယ်မျှနည်း။(၁၀၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အကြင်မိန်းမ၊ ရမ္မက်ကြွ၍၊ ယောက်ျားအဝတ်၊ ဆွဲငင်ချုတ်မူ၊ ဖြူဆွတ်သာခွါ၊ သုံးကျပ်သာဖြင့်၊ ကြင်နာရှိသေ၊ ကန်တော့စေလော့။ (ဝိနိစ္ဆယ)

ကညာစာရှ၊ ပျိုနုနု၏။ အဖုရင်မှာ၊ စုံနှစ်မြွာကို၊ မနာလိုပေ၊ ဆုပ်ဆွဲချေက၊ ငွေနှစ်ဆယ်လျော်၊ ပါးနမ်းသော်ကား၊ ရွှေလျော်ရည်ရွှဲ၊ နှစ်ကျပ်ခွဲတည့်၊ ဝတ်လထဘီ၊ ဖွင့်လှစ်ချီက၊ သီဂီသုံးကျပ်၊ အလျော်တပ်ရှင့်၊ တပ်အပ်နှဲရှက်၊ ရင်ခွင်ထက်ဝယ်၊ ပိုက်ဖက်နှဲခွေ၊ လက်တင်ချေသော်၊ ငွေခုနစ်ကျပ်၊ ငါးမူးထပ်ဟု၊ ဓမ္မသတ်စာဟောင်း၊ ဆုံးဖြတ်ကြောင်းဖြင့်၊ လမ်းကောင်းထင်စွာ၊ ရှိသည်တာကြောင့်၊ မိစ္ဆာစာရ၊ အရာကျသား၊ မိန်းမနှစ်ကိုယ်၊ ပျော်ကြောင်းသိပ်လည်း၊ မအိပ်လေရာ။ ။ (မနုလက်ာ)

❖❖❖❖❖

## ၄၄၂။ ကုရုမလွတ်၊ အမာရွတ်၊ ကတ်ဖိုမည်သို့ ကဲမည်နည်း။(၁၀၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သရောစေးဆို၊ ရှိန်းခိုရှားစောင်း၊ အစေးလောင်း၍၊ ၎င်းထက်ဝက်၊ ကတ်ဖိုစွက်မှ၊ မာခက်ရှိလတ်၊ အမာရွတ်တွင်၊ ခြောက်ကြိမ်တင်က၊ လျင်လျင်ဆောစွာ၊ လွတ်ချမ်းသာလိမ့်။

❖❖❖❖❖

## ၄၄၃။ ကပိလဝတ်၊ သာတုလွတ်၊ စိုးမှတ်မင်းဆက်ဘယ်မျှနည်း။(၁၀၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကပိလဝတ်ပြည်ကို အစတည်ထောင်သော ဥက္ကာမုခ မင်းမှစ၍ မင်းပြုသော မင်းတို့၏ အစဉ်ကား–

ဥက္ကာမုခမင်း၏သားတော် နိပုရမင်း၊ ၎င်းသားတော် စန္ဒိမမင်း၊ ၎င်းသားတော် စန္ဒမုခမင်း၊ ၎င်းသားတော် သိဝိရာဇ်မင်း၊ ၎င်းသား သဥ္စယမင်း၊ ၎င်းသား ဝေဿန္တရာမင်း၊ ၎င်းသား ဇာလီမင်း၊ ၎င်းသား သီဟဝမင်း၊ ၎င်းသား သီဟရာဇ်မင်း၊ ဤသို့ သားစဉ်မြေးဆက် ဆက်၍ မင်းပြုကြသဖြင့် ဘုရားခမည်းတော် သုဒ္ဓေါဒန မင်းတိုင်အောင် မင်းဆက် ပေါင်းရှစ်သောင်း နှစ်ထောင်တစ်ကျိပ် နှစ်ပါးတည်းဟု ဒီပဝင်၌ ဂါထာလာ၏။

ထို့ကြောင့် နားတော်သွင်း၌–

ကပိလဟု၊ မည်ရဘုန်းဟော့၊ ရှင်ရသေ့လျှင်၊ ပြု၍တည်ညီ၊ ပြည်ဌာနီကို၊ ကပိလဝတ်၊ မော်ကွန်းမှတ်၍၊ သက်ပြတ်လုမျှ၊ မောင်နှမတို့၊ တူကွစုံပေါင်း၊ စံကြကြောင်းကို၊ ဆင့်လောင်းဖခင်၊ ကြားလေချင်သော်၊ ကျွမ်းကျင်လေဖြစ်၊ ငါ့သားချစ်တို့၊ မင်းစစ်ပီလှ၊ စွမ်းနိုင်စွဟု၊ မြွက်ဟသွန်းသွန်း၊ မိန့်ရွှေ ခွန်းကြောင့်၊ ပုံ့မွန်းသောင်းခွင်၊ သာကီဝင်ဟု၊ လွန်ထင်ကျော်ဟိုး၊ မြတ်နွယ် မျိုးတွင်၊ နန်းရိုးမှန်စွာ၊ အစဖြာသည်၊ ဥက္ကာမုခ၊ နိပုရထည့်၊ မမျှဘုန်းဝှန်၊ သားစန္ဒိမ၊ နေလနှုန်းရန်၊ စန္ဒမုခ၊ နံ့မျှထင်ရှား၊ သားသိဝိရာဇ်၊ ရန်မြစ် ဖြတ်လှည်း၊ သားသိဥ္စည်းက၊ ကျော်သည်းတန်ခွန်၊ သားဝေဿန်နှင့်၊ သားမွန် ဇာလီ၊ နှိုင်းပြီဖက်ကွာ၊ သီဟဝါက၊ သည်းချာတမွတ်၊ သီဟဿရ၊ ယင်းကဆက်မှန်၊ သောင်းရှစ်ပြန်တွင်၊ ကဲလွန်နှစ်ထောင်၊ နှောင်းဆုံး ဆောင်သား၊ မင်းခေါင်နရိန်၊ ဇေယျသိမ်သည်၊ ဘုန်းရှိန်တည့်ပျံ့မွှေး၊ စံငြိမ့်လေး။ ဟူ၍ စပ်သည်။

ဤ ရာဇဝင်၌လာသော သိဋ္ဌည်း, ဝေဿန္တရာ,ဇာလီမင်းတို့သည် ငါတို့ ဘုရားလောင်းပင်လော ဟူငြားအံ့။ ဇာတ်တော်၌ ''သိဝိတိုင်း၊ စေတုတ္တရာပြည်''ဟူ၍ လာသည်။ ဤမှာ ကပိလဝတ်ပြည်တွင် ဖြစ်သောကြောင့် ဘုရားလောင်းပင်ဟု မဆိုသာ။ အမည်တူကြ၍သာ ဖြစ်သည်ဟု ဆရာကြီးတို့ မိန့်ကုန်၏။

❖❖❖❖❖

## ၄၄၄။ ခေမာမည်မှတ်၊ မိန်းမမြတ်၊ မိန့်ရွတ် ဘယ်တေဒဂ်နည်း။(၁၀၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တေဒဂ္ဂံ ဘိက္ခဝေ မမ သာဝိကာနံ မဟာပညာနံ ဘိက္ခုနီနံ ယဒိဒံ ခေမာ။

ဘိက္ခဝေ၊ ရဟန်းတို့။ မမ၊ ငါဘုရား၏။ သာဝိကာနံ၊ တပည့်မ ဖြစ်ကုန်သော။ မဟာပညာနံ၊ ကြီးကျယ်များမြတ်သော ပညာရှိကုန်သော။ ဘိက္ခုနီနံ၊ ရဟန်း မိန်းမတို့တွင်။ ယဒိဒံ–ယာ အယံ ခေမာ၊ အကြင် ခေမာမည်တွင် ဘုရင်ဗိမ္ဗိသာရ ငါ့ဒကာ၏ တောင်ညာတင်ထား မိဖုရားကြီး ဖြစ်ဖူးသော မိန်းမသည်။ အတ္ထိ၊ ရှိ၏။ တံ–သော ခေမာ၊ ဤ ခေမာဘိက္ခုနီသည်။ အဂ္ဂံ အဂ္ဂေါ၊ သူတစ်ထူးထက် ကျူး၍ပညာ ကြီးကျယ်စွာ၏။ (အင်္ဂုတ္တိုရ်ပါဠိတော်)

ဝတ္ထုစကားပြေကို ဇိနတ္ထပကာသနီတွင် ရေးခဲ့ပြီ။

❖❖❖❖❖

## ၄၄၅။ ဝင်္ကီသမြတ်၊ ရိုးခေါက်လတ်၊ ပြောမှတ်အရိုး ဘယ့်ကြောင့်နည်း။(၁၀၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မန္တန်၏ တန်ခိုးအာနုဘော်ကြောင့် စကားပြောသကဲ့သို့ ထင်၏ဟူပေ။

**အကြောင်းကို ဆိုလိုက်ဦးအံ့**– ထိုဝင်္ကီသမထေရ်၏ အလောင်းတော်သည် ဤကမ္ဘာမှပြန်၍ရေသော် ကမ္ဘာတစ်သိန်းအထက်၌ ပဒုမုတ္တရဘုရား ဖြစ်တော်မူသောအခါ ဟံသာဝတီပြည်ဝယ် သူကြွယ်တစ်ဦး၏ သားဖြစ်၍ တစ်နေ့သောအခါ များစွာသော ပရိသတ်တို့နှင့်တကွ ဘုရားအထံတော်သို့ ကပ်၍ တရားတော်ကို နာလတ်သော် ဘုရားကိုယ်တော်မြတ်လည်း ပဋိဘာန်ရှိလှသော ရဟန်းတစ်ပါးအား တေဒဂ်ထားသည်ကို မြင်လေသဖြင့် ဤအရှင်ကဲ့သို့ ဖြစ်ချင်သော ဆန္ဒရှိရကား ဘုရားရှင်ထံ၌ ဆုပန်ခြင်းကို ပြု၏။ ''အကျွန်ုပ်သည် ယခုဘဝပြုရသော ကုသိုလ် ကံကြောင့် သံသရာဘဝ၌ လှူပြည်နတ် ရွာ၌သာများစွာကျင်လည်ရ၍ နောင်ဘုရားရှင်တို့ သာသနာတော်၌ ဂါထာဗန္ဓ အကုံးအဖွဲ့ ပညာ လျင်ကုန်သော တပည့်အပေါင်းထက် ကဲလွန်သော သာဝကရဟန္တာ ဖြစ်လိုသော'' ဟု ဆုတောင်း၏။ မြတ်စွာဘုရားလည်း ဖြစ်လတ္တံ့သော အခြင်းအရာဖြင့် ဗျာဒိတ်စကား ကြားတော်မူ၏။

သူကြွယ်လည်း အသက်အတိုင်းနေ၍ စုတေလေသော် လူ့ပြည်၊ နတ်ပြည်၌ ကျင်လည်ခဲ့၍ ငါတို့ ဂေါတမဘုရားပွင့်တော်မူသောအခါ သာဝတ္ထိပြည်၌ ဥစ္စာပေါ များသော ပုဏ္ဏားမျိုး၌ဖြစ်လာ၍ ဝင်္ဂီသဟူသော အမည်ကိုမှည့်၏။ အရွယ်သို့ ရောက်လတ်သော် ဆရာ့ထံ၌ ဗေဒင်အတတ်တို့ကို သင်ပြီး၍ ဆရာကို နှစ်သိမ့်စေသဖြင့် ဆဝသီသမည်သော မန္တန်ကိုသင်၏။ ထိုမန္တန်၏တန်ခိုးကား– သေလေပြီးသောသူ၏ ဦးခေါင်းရိုးကို လက်သည်းဖြင့် ခေါက်၍ မန္တန်ကိုစိပ်လျှင် ''ဤသူကား ငရဲပြည်၌ဖြစ်၏။ ဤသူကား တိရစ္ဆာန်ဖြစ်၏။ ဤသူကား ပြိတ္တာဖြစ်၏။ ဤသူကား လူ့ပြည်၌ ဖြစ်၏။ ဤသူကား နတ်ပြည်၌ဖြစ်၏''ဟု ပြောဆိုနိုင်၏။ ။ ယုံကြောင်းသက်သေကို ပြဦးလော့ဟု ဆိုပြန်လျှင် ယခင်မန္တန်ကို စိပ်၍ မှန်၌ကြည့်လျှင် ဖြစ်တိုင်းပင်မြင်စေ၏။

အမျိုးတူသော ပုဏ္ဏားငယ်တို့သည် ဤဝင်္ဂီသလုလင်၏ အတတ်ကား အသက် မွေးလောက်သော အတတ်ပေတည်း။ ဤသူကိုဆောင်၍ အရပ်ထက်ဝန်းကျင်သို့ လှည့်လည်အံ့ဟု ကြံကြ၍ ဖုံးလွှမ်းသောယာဉ်ဖြင့် ထိုဝင်္ဂီသကို ထမ်း၍ မြို့ရွာနိဂုံးသို့ လှည့်လည်လာကြသော် ရောက်တိုင်း၊ ရောက်တိုင်းသောအရပ်၌ ပုဏ္ဏားလုလင်တို့သည် လူစုဝေးရာသို့ဝင်၍ ''အကြင်သူသည် ဝင်္ဂီသပုဏ္ဏားကို ဖူးမြင်ရအံ့။ ထိုသူသည် ဥစ္စာ ကိုမူလည်း ရရာ၏။ နတ်ရွာသို့မူလည်း ရောက်ရာ၏။ လွန်လေပြီးသော မိဘ ညာတကာ တို့၏လားရာ ဂတိကိုလည်း သိရာ၏။ ထိုသို့သော ပုဏ္ဏားမြတ်ကို ဘယ်သူတွေ့လို သနည်း''ဟု မေး၏။

မြို့သူရွာသားတို့ကလည်း ''ငါတို့ တွေ့မြင်ပါရစေ''ဟု ဆိုသော် ထိုသူတို့ကို ဆရာ့ထံသို့ခေါ်ခဲ့၍ ''ဤဇမ္ဗူဒိပ်ကျွန်း၌ ငါတို့ဆရာနှင့်တူသော ပညာရှိမည်သည် မရှိ။ တစ်နှစ်ထက်ကလည်းကောင်း၊ နှစ်နှစ်၊ သုံးနှစ်ထက်ကလည်းကောင်း သေလေသော မိဘ သား မြေးတို့၏ အရိုးကိုပြကြကုန်လော့။ ''ဤသူသည် ဤမည်သောဂတိ၌ ဖြစ်သည်ဟု ဆိုလတ္တံ့သတည်း''ဟု ချီးပပြောဆိုကြကုန်၏။

ဝင်္ဂီသပုဏ္ဏားလည်း မိမိထံသို့ရောက်လာကုန်သော လူများတို့အား ယုံမှားကင်း စိမ့်သောငှာ အထူးထူးသောနည်းနာဖြင့် ချမ်းသာရေး၊ စီးပွားရေးတို့ကိုလည်းကောင်း လွန်လေပြီးသော မိဘ ဆွေမျိုးတို့၏အရိုးကိုခေါက်၍ လားရာဂတိကိုပြဆိုသော ဆဝသီသ မန္တန်ဖြင့်လည်းကောင်း, အသီးသီး မေးသမျှကိုပင် ပြဆိုပေ၏။ ထိုသူတို့၏ အထံမှ တစ်ရာသော အသပြာ တစ်ထောင်သော အသပြာတို့ကိုလည်း ရပေ၏။ အသပြာများစွာရသောအခါ ထိုပုဏ္ဏားငယ်တို့သည် ဝင်္ဂီသကို ဆောင်လျက် သာဝတ္ထိပြည်သို့ ပြန်လာကြကုန်၏။

ဤသို့သောနည်းဖြင့် ဥစ္စာရှာကာနေသည်တွင် ဘုရားသခင်ကို အနာထပိဏ် သူဌေး ပင့်၍ ဇေတဝန်ကျောင်းတော်သို့ ရောက်သော် ကိုယ်တော်မြတ်၏ ဂုဏ်ကျေးဇူး ကိုသာ များစွာသောသူတို့ ချီးမွမ်းကြသော အသံကိုကြား၍ ဝင်္ဂီသပုဏ္ဏားသည် မိမိ၏ အချင်းပုဏ္ဏားတို့အား ဤသို့ဆို၏။ ''အချင်းတို့– ရှေးသောအခါ များစွာသော

သူတို့သည် ငါ၏ကျေးဇူးဂုဏ်ကို များစွာ ပြောဆိုချီးပကြ၏။ ယခုမူကား ဘုရားဂေါတမ၏ ပညာရှိခြင်း၊ သီလ သမာဓိရှိခြင်း ကျေးဇူးဂုဏ်သတင်းကိုသာ လွန်စွာ ချီးမွမ်းကြကုန်သည်။ ပညာရှိသော သူတို့၏အထံသို့ ဆည်းကပ်ရခြင်းသည် အလွန်ကောင်းမြတ်၏။ ထို့ကြောင့် သင်တို့နှင့်တကွ သွား၍ ဘုရားသခင်ကို ဖူးမြင်ကြအံ့''ဟူ၍ ဆို၏။

ထိုစကားကို ကြားကြသော် အချင်းပုဏ္ဏားတို့ကလည်း ''အရှင်ဝင်္ဂီသ– အရှင်ဂေါတမ၏ အထံသို့ သွား၍မသင့်၊ ဘယ့်ကြောင့်နည်းဟူမူကား ထိုဘုရားဂေါတမသည် သာယာဖျောင်းဖျသော စကားဖြင့် သူတစ်ပါးတို့အား မိမိ၏အလုပ်အကျွေး ဖြစ်အောင် သွေးဆောင်တတ်၏''ဟု ဆိုကုန်၏။

ဝင်္ဂီသလည်း ထိုစကားကို နားမထောင်မူ၍ ဘုရားအထံသို့ ဆည်းကပ်လေပြီးလျှင် သင့်ရာနေရာ၌ နေ၍ ''အရှင်ဘုရား၊ ကိုယ်တော်မြတ်ကို အလွန်ပညာရှိသော ပုဂ္ဂိုလ်ဟူ၍ ပြောဆို ချီးမွမ်းကြပါသည်။ အကျွန်ုပ်သည် ဤသာဝတ္ထိပြည်၌ ပညာရှိတစ်ယောက်ပင်တည်း။ ပညာချင်း နှီးနှောပါရစေ။ အရှင်မြတ်ကသာလျှင်လည်း ကျွန်ုပ်ကို မျှတော်မူပါ။ ကျွန်ုပ်ကသာလျှင်လည်း အရှင်မြတ်ကို လျှုပါအံ့''ဟု လျှောက်၏။

ဘုရားသခင်ကလည်း ''ဝင်္ဂီသ–သင်သည် အဘယ်သို့သော အတတ်ဝိသေသကို တတ်သနည်း'' ဟုမေး၏။ ''အရှင်ဘုရား၊ အကျွန်ုပ်ကား အများတတ်သော ဗေဒင်ကို လည်း တတ်ပါသည်။ အရိုးကိုခေါက်လျှင် လားရာဂတိကို သိတတ်သော ဆဝ သီသမန္တန်ကိုလည်း တတ်ပါသည်''ဟု လျှောက်၏။

ထိုအခါ ဘုရားကိုယ်တော်မြတ်က သေ၍ တစ်နှစ်မြောက်ပြီးသော ငရဲသို့ သွားရသော သူတစ်ဦး၏ ဦးခေါင်းရိုးကိုလည်းကောင်း၊ လူ့ပြည်၌ဖြစ်သော သူတစ်ဦး၏ ဦးခေါင်းရိုးကိုလည်းကောင်း၊ နတ်ပြည်၌ဖြစ်သော သူတစ်ဦး၏ ဦးခေါင်းရိုးကို လည်းကောင်း၊ နိဗ္ဗာန်ယူသော ရဟန္တာတစ်ပါး၏ ဦးခေါင်းရိုးကိုလည်းကောင်း တန်ခိုးဖြင့် ယူ၍ ပြ၏။

ဝင်္ဂီသပုဏ္ဏားလည်း ရှေးဦးစွာ အရိုးကိုလက်သည်းဖြင့်ခေါက်၍ မန္တန်ကို စိပ်ပြီးသော် ''အရှင်ဂေါတမ–ဤသတ္တဝါကားငရဲသို့သွားပါသတည်း''ဟု လျှောက်၏။ ဘုရားသခင် ကလည်း ''ဝင်္ဂီသ မှန်ပေပြီ။ သင်သိမြင်ပေစွ''ဟု ချီးမွမ်း၍ ဤဒုတိယ အရိုးကို ဆိုဦးလော့ဟု မေး၏။

ဝင်္ဂီသပုဏ္ဏားလည်း မန္တန်ကိုစိပ်၍ လက်သည်းဖြင့်ခေါက်ပြီးလျှင် အရှင်ဘုရား ဤသတ္တဝါကား လူ့ပြည်၌ ဖြစ်ပါသတည်း''ဟု လျှောက်၏။ ဘုရားသခင်ကလည်း ''ဝင်္ဂီသ၊ သင်သိပေစွ၊ ဤတတိယအရိုးကို ဆိုဦးလော့''ဟု မေး၏။ ဝင်္ဂီသ ရှေးနည်း ခေါက်ပြီးလျှင် ''အရှင်ဘုရား၊ ဤသတ္တဝါကားနတ်ရွာသို့ သွားသောသူတည်း''ဟု လျှောက်ပြန်၏။ ဘုရားသခင်ကလည်း ယခင်ကဲ့သို့ ချီးမွမ်း၍ ''စတုတ္ထအရိုးကို ဆိုဦးလော့'' ဟု မေးပြန်၏။

ဝဏ္ဏီသလည်း ရှေးနည်းခေါက်၍ မေးပြန်သော် သိရန်အကြောင်းကို တစ်စုံတစ်ခုမျှ မထင်ရကား ဆိတ်ဆိတ်နေ၏။ ဘုရားသခင်လည်း ''သင်ဆိုလော့၊ သင်ဆိုလော့''ဟု တိုက်တွန်းတော်မူ၏။ ဝဏ္ဏီသလည်း အဖန်ဖန် မန္တန်ကို စိပ်၍ ခေါက်ပါသော်လည်း မသိနိုင်ရကား ပရိသတ်တို့အား ရှက်နိုးစွာလျက် ချွေးဖြာဖြာ စီးထွက်၍ ဆိတ်ဆိတ်သာ နေ၏။ ဘုရားသခင်ကလည်း ''သင်မဆိုနိုင် ပြီလော''ဟု မေး၏။ မဆိုနိုင်ပါကြောင်းကို လျှောက်လျှင် ဘုရားသခင်က ''သင်သည်မှန်ကန်သော စကားရှိ၏။ သူတော်ကောင်း ပဏ္ဍိတ်ပီစွ၊ ဤသို့ ဝစီသစ္စာ ရှိသောသူမှ ထူးမြတ်သော ပညာကို ရရာသတည်း''ဟု မိန့်တော်မူ၏။

ဝဏ္ဏီသပုဏ္ဏားကလည်း ''အရှင်ဘုရားသိလျှင် ဆိုတော်မူပါလော့''ဟု လျှောက်သော်–

**စုတိံ ယော ဝေဒိ သတ္တာနံ၊ ဥပပတ္တိံ စ သဗ္ဗသော။**
**အသတ္တံ သုဂတံ ဗုဒ္ဓံ၊ တမဟံ ဗြူမိ ဗြာဟ္မဏံ။**
**ယဿ ဂတိံ န ဇာနန္တိ၊ ဒေဝါ ဂန္ဓဗ္ဗမာနုသာ။**
**ခီဏာသဝံ အရဟန္တံ၊ တမဟံ ဗြူမိ ဗြာဟ္မဏံ။**

ဟူသော ဓမ္မပဒဂါထာဖြင့် ရဟန္တာပုဂ္ဂိုလ်၏ အရိုးဖြစ်ကြောင်း နိဗ္ဗာန်သို့ ရောက်ကြောင်းကို ပြဆိုတော်မူလျှင် ''အရှင်ဘုရား၊ အတတ်တစ်ခုကိုယူ၍ အတတ်တစ်ခုကို ပေးရသောသူအား ယုတ်ခြင်းမည်သည်မရှိ။ အကျွန်ုပ်ကလည်း တစ်ခုသောအတတ်ကို ဆက်ကပ်ပါမည်။ အရှင်ဘုရားကလည်း နိဗ္ဗာန်လားသူ၏ အရိုးကို သိစေတတ်သော ဤအတတ်ကို ပေးတော်မူပါ''ဟု လျှောက်၏။

ဘုရားသခင်ကလည်း ''ဝဏ္ဏီသ၊ ငါတို့ကား အတတ်ချင်းလှယ်သော မည်သည်မရှိ၊ တတ်လိုမူကား သင်ကြားသည်ပင်တည်း''ဟု မိန့်တော်မူလျှင် ''အရှင်ဘုရား အကျွန်ုပ်အား သင်တော်မူပါ''ဟု လျှောက်၍ လက်ကို ယှက်ကာ ရှိသေစွာ နေ၏။

ဘုရားသခင်ကလည်း ''ဝဏ္ဏီသ၊ သင်တို့၏အယူ၌ အဖိုးအများထိုက်သော အတတ်ကိုလည်းကောင်း၊ အဖို့အနည်းငယ်ထိုက်သော အတတ်ကိုလည်းကောင်း၊ သင်ရသောအခါ ဆရာတို့အား ဥစ္စာပစ္စည်းကို ပေးရခြင်း၊ဆရာ့အမှုကို ပြုရခြင်းဟူသော ပရိကံသည် ရှိသည် မဟုတ်လော''ဟု မေး၏။ ''အရှင်ဘုရား၊ ပရိကံရှိသည် မှန်၏။ ဟု လျှောက်လျှင် ''သင်တို့ အမျိုး၌ကဲ့သို့ ငါတို့ထံ၌ကား ဥစ္စာပစ္စည်းတို့ကို ပေးရခြင်း, ဆရာ့အမှုကို ပြုရခြင်းသည်မရှိ။ သို့ရာတွင်မူကား ငါနှင့် အသွင်တူ ရဟန်းပြုလုပ်သော သူကိုသာ ပညာသင်လေ့ရှိ၏။ ထို့ကြောင့် သင်သည် အတတ်ကိုလိုမူကား ရဟန်းသာ ပြုလုပ်လော့''ဟုမိန့်တော်မူ၏။

ပုဏ္ဏားတို့မည်သည်လည်း ဗေဒင်အတတ်၌ ရောင့်ရဲသော မည်သည်မရှိရကား ဝဏ္ဏီသပုဏ္ဏားလည်း ဘုရားရှင်ထံ၌ ဗေဒင်သင်ခြင်းအကျိုးငှာ များစွာသော အရန် ပုဏ္ဏားတို့အား အခွင့်ပန်ကြား၍ ရဟန်းပြုလေ၏။

ဘုရားသခင်လည်း ''ပေဒင်၏ရှေးဦး ပရိကံမန္တန်ကို သင်ဦးလော့''ဟု မိန့်တော်မူ၍ ကေသာလောမာ စသော ဒွတ္တိံသာကာရကို ပြတော်မူ၏။ ထိုဝင်္ဂီသလည်း ပညာ ကြီးလှသော ပုဂ္ဂိုလ်ဖြစ်ရကား ဒွတ္တိံသတရားကို အားထုတ်သဖြင့်ပင်လျှင် ဝိပဿနာ ဉာဏ်မြင်၍ လေးအင်သော မဂ်တရားဖြင့် ခပ်သိမ်းသော အကုသိုလ်ကို ပယ်ခွါလျက် ရဟန္တာအဖြစ်သို့ ရောက်လေ၏။

အရန့်ပုဏ္ဏားတို့လည်း ခုနစ်ရက်ကြာလေသော် ဆရာဝင်္ဂီသ အထံသို့ သွား၍ ''ဘုရားဂေါတမအထံ၌ အတတ်သင်သည်ကား တတ်ပါပြီလော''ဟု မေး၏။ ''ငါကား တတ်ပါပြီ''ဟု ဆိုလျှင် ''တတ်မူ အရပ်တစ်ပါးသို့လှည့်၍ ဥစ္စာရှာကြအံ့'' ဟုဆိုပြန်၏။ ဝင်္ဂီသလည်း ''အချင်းတို့ ငါကား ဥစ္စာမရှာလိုပြီ။ ငါ၏ကိစ္စသည် အပြီးကျမြောက်ပြီ။ သင်တို့သာလျှင် ငါကဲ့သို့ ရဟန်းပြုဦးလော့''ဟု ဆို၏။

ထိုအခါ ပုဏ္ဏားတို့ကလည်း ''အရှင်ဂေါတမကား မိမိနောက်ပါဖြစ်အောင် လှည့်ပတ်တတ်သည်။ အလိုသို့မလိုက်ပါနှင့်ဟု မှာဆိုသည်ကို သင်မနေဘဲ ရှင်ဂေါတမ၏ အလိုသို့လိုက်ခဲ့သည်၊ သင့်ထံသို့ ငါတို့မလာပြီဟု ဆို၍ ပြန်ကြလေ၏။

ထိုအခါမှစ၍ ဝင်္ဂီသမထေရ်လည်း ဘုရားရှင်ထံသို့ နိယံမပြတ် ဆည်းကပ်သောအခါ မြင်ရာအရပ်က ရှိခိုးလျက် လမင်း၏ဥပမာ၊ နေမင်း၏ဥပမာ၊ ကောင်းကင်၏ ဥပမာ၊ မဟာသမုဒ္ဒရာ၏ဥပမာ၊ ဆင်ပြောင်ကြီး၏ ဥပမာတို့ဖြင့် ဂါထာအရာ လည်းကောင်း၊ အထောင်လည်းကောင်းဖွဲ့၍ ဘုရားကျေးဇူးတော်ကို ချီးကျူး အံ့ဩလျက်သာ ဆည်းကပ်၏။

ယင်းသို့ ဂါထာစုဏ္ဏိယ အကုံးအဖွဲ့၌ သာယာချောင် လျှင်မြန်ကောင်းမြတ်သော ဉာဏ်နှင့်ပြည့်စုံလှသောကြောင့် –

**''ဧတဒဂ္ဂံ ဘိက္ခဝေ မမသာဝကာနံ ပဋိဘာနဝန္တာနံ ယဒိဒံ ဝင်္ဂီသော''**

ဟူ၍ ပဋိဘာနဝန္တ ဧတဒဂ်အရာ၌ ထားတော်မူသည်။ ။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ဓမ္မပဒတို့၌ လာ၏။

ဤဝတ္ထု၌ ဝင်္ဂီသပုဏ္ဏားသည် ခေါင်းရိုးကို ခေါက်၍မေးသော် မန္တန်၏ အာနုဘော်ကြောင့် လားရာဂတိကို သိရာသည်ကို အရိုးပြောသည်နှင့်တူရကား ဥပစာရုဋ္ဌီအားဖြင့် ''အရိုးပြောသည်''ဟု ဆိုလေသည်။

❖❖❖❖❖

## ၄၄၆။ တိရစ္ဆာန်ဇာတ်၊ ဖြစ်တုံလတ်၊ နတ်ဘွဲ့ရ၏မည်သူနည်း။(၁၀၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကောသိယော၊ ခင်ပုပ်ငှက်တည်း။ သိကြားမင်းသည် ကောသိယသူဌေးမှ စုတေ၍ဖြစ်ရကား ''ကောသိယ''ဟူသော အမည်ကို ရ၏။ ခင်ပုပ်ငှက်သည်လည်း ''ကောသေ အယတိ ပဝတ္တတီတိ ကောသိ

ယော''ဟူသော ဝစနတ္ထုနှင့်အညီ၊ သစ်ခေါင်းတည်းဟူသော အိမ်၌တည်နေ ဖြစ်ပွား တတ်သောကြောင့် ''ကောသိယ'' ဟူသောအမည်ကို ရ၏။ ထို့ကြောင့် ခင်ပုပ်ငှက်သည် တိရစ္ဆာန်ဇာတ်ဖြစ်လျက် သိကြားနတ်၏ ဘွဲ့အမည်ကို ရ၏ဟူပေ။

တစ်နည်းလည်း ဘူရိဒတ် နဂါးမင်းသည် မြေကြီးအထုနှင့်တူသော ပညာရှိ ရကား သိကြားမင်းကပင် ''သင်သည် ဘူရိဒတ္တ အမည်တွင်စေ''ဟု ဘွဲ့ပေးရ လေသည်။

❖❖❖❖❖

## ၄၄၇။ သေဒမောစနတ်၊ ဂါထာမြွတ်၊ ပိဋကတ်တွင် ဘယ်မျှနည်း။(၁၀၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဝိနည်းပါဠိ အဋ္ဌကထာ၌ လိမ္မာသော ပုဂ္ဂိုလ်တို့မှ ချွေးယိုအောင် ကြံရသောကြောင့် သေဒမောစနမည်သော ဂါထာသည် ပရိဝါ ပါဠိတော်၌ ဂါထာအရေအတွက်အားဖြင့် ''တေစတ္တာလီသ- လေးဆယ့်သုံးဂါထာ'' လာ၏။ ပါဠိအနက်ကိုလိုမူ ထိုကျမ်း၌ယူလေ။

❖❖❖❖❖

## ၄၄၈။ ယံ-တံ နိယတ်၊ အနိယတ်၊ ဇာတ်တူဂုဏ်ကွဲကောင်းလိမ့်နည်း။(၁၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

> အနိယတ်နှင့် နိယတ်နှစ်တန် အနက်ပြန်မူ နာမ်ကိုနာမ်ချင်း မကင်း စေအပ် ဇာတ်ကို ဇာတ်သာ ဂုဏ်မှာဂုဏ်ပင် ဒြပ်မြင်လည်း ယင်းလျှင်ဒြပ် စွဲမြဲမှတ်-'' (နိယံ)

❖❖❖❖❖

## ၄၄၉။ ဟုတွာ-ပါဠိ၊ ရှိတုံလတ်၊ နိဗ္ဗတ္တိနှင့်မည်သို့နည်း။(၁၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဟုတွာဟူသော ပုဒ်လည်း ဖြစ်ခြင်းကိရိယာ၊ နိဗ္ဗတ္တိပုဒ်လည်း ဖြစ်ခြင်းကိရိယာကို ဟောရကား ဤနှစ်ပါးသည် အဘယ်သို့ ပုဗ္ဗကာလကိရိယာ၊ အပရကာလကိရိယာ ဖြစ်နိုင်အံ့နည်း-ဟူမူ တုန ပစ္စည်း၊ တွာနပစ္စည်း၊ တွာပစ္စည်းတို့သည် လက္ခဏာအနက်, ဟိတ်အနက်တို့၌လည်း ဖြစ်ရကား ဤဟုတွာ-၌ တွာပစ္စည်းသည် ပုဗ္ဗကာလကိရိယာကို မဟော၊ လက္ခဏာအနက်ကို ဟော၏။ ထို့ကြောင့် ''သက္ကော၊ သိကြားမင်းသည်၊ ဟုတွာ ဟောန္တော၊ ဖြစ်သည်ရှိသော်။ နိဗ္ဗတ္တိ၊ နတ်ပြည်၌ဖြစ်၏'' ဤသို့ သမ္ဗန်ရမည်။

တစ်နည်းလည်း- ဟုတွာ-ပုဒ်, နိဗ္ဗတ္တိ-ပုဒ် နှစ်ပါးသည် ဖြစ်ခြင်းကိရိယာ ဟူသော ဘောအနက်ကိုချည်း ဟောရကား သက္ကောပုဒ်၌ ဆဋ္ဌီအနက်၌ ပဌမာသက်၏။ ဟုတွာ ၌ တွာ ပစ္စည်းသည်လည်း ကိရိယာဝိသေသနအနက် ဖြစ်၏။ ထို့ကြောင့် ''သက္ကော ဟုတွာ-သက္ကဿ ဘာဝေန၊ သိကြားမင်း၏ အဖြစ်ဖြင့်။ နိဗ္ဗတ္တိ၊ နတ်ဘုံ၌ဖြစ်၏'' ဤသို့ သမ္ဗန်ရမည်။

ထို့ကြောင့် သဒ္ဒတ္ထဘေဒစိန္တာ၌–

**ဘာဝလက္ခဏဟေတွတ္ထာ၊ တွာန္တာဒီနံ ယထာက္ကမံ။**

**ဒွိန္နံ ပဋိစ္စ ဘာဝတ္ထံ၊ ဆဋ္ဌျတ္တေ ပဌမာ ထဝ်ါ။** ဟူ၍ မိန့်အပ်၏။

တွာန္တာဒီနံ၊ တွာ–ပစ္စည်း, အန္တ–ပစ္စည်း အစရှိသည်တို့၏။ ယထာက္ကမံ၊ အစဉ်အတိုင်း။ ဘာဝလက္ခဏဟေတွတ္ထာ၊ ဘာဝလက္ခဏအနက်, ဟိတ် အနက်ရှိကုန်သည်။ ဟောန္တိ၊ ကုန်၏။ အထဝ်ါ၊ တစ်နည်းကား။ ဒွိန္နံ၊ နှစ်ပါးကုန်သော ပုဒ်တို့၏။ ဘာဝတ္ထံ၊ ဘောအနက်ကို။ ပဋိစ္စ၊ စွဲ၍။ ဆဋ္ဌျတ္တေ၊ ဆဋ္ဌီအနက်၌။ ပဌမာ၊ သည်။ ဟောတိ၊ ၏။

❖❖❖❖❖

၄၅၀။ လူသတ်–ဒန်သတ်၊ သစ်ပင်သတ်၊ ထောင်းသတ်ကြောင်းကွဲမည်သို့နည်း။ (၁၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပညတ်သံမျှဖြစ်၍ အကြောင်းကို မရှာသင့်ပြီ။

❖❖❖❖❖

၄၅၁။ ဖောင်းဝတ်–ပွင့်ဝတ်၊ ရာဇဝတ်၊ လူဝတ်၊ ရှင်ဝတ်ဘယ်သို့နည်း။ (၁၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဖောင်းဝတ်၌ ဝတ်သဒ္ဒါသည် အဖြူကိုဟော၏။ ပွင့်ဝတ်၌ သေးဖွဲ့သည်ကို ဟော၏။ ရာဇဝတ်စသည်၌ ကျင့်ဝတ်ကို ဟော၏။

❖❖❖❖❖

၄၅၂။ ချစ်ကျွမ်းဝင်မှတ်၊ ထမ်းပလတ်၊ နတ်ရုပ်ထင်သည်ဘယ်စိတ်နည်း။ (၁၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''လောဘမူ ဒိဋ္ဌိဂတသမ္ပယုတ် အသင်္ခါရိကစိတ်''ဟူပေ၏။

အသုဘကို သုဘ, အနိစ္စကို နိစ္စ, အသုခကို သုခ, အနတ္တကို အတ္တဟူ၍ ထင်မှတ်ခြင်းသည် ဒိဋ္ဌိ၏လက္ခဏာ ဖြစ်ရကား ထမ်းပလတ်လောက် မလှသည်ကို လှသည်ဟု ထင်ခြင်းသည် ဒိဋ္ဌိလက္ခဏာပင်ဟု မှတ်အပ်၏။

❖❖❖❖❖

၄၅၃။ ဝေပူတောင်မြတ်၊ ဇောတိရသ်၊ နတ်ပေါင်းဘယ်မျှစောင့်သနည်း။ (၁၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တံ မဏိရတနံ ကုမ္ဘီရော နာမ ယက္ခော ကုမ္ဘဏ္ဍ သတသဟဿပရိဝါရော ရက္ခတိ။

တံ မဏိရတနံ၊ ထိုမဏိဇောတိရသ် ပတ္တမြားရတနာကို။ ကုမ္ဘဏ္ဍ သတသဟဿ ပရိဝါရော၊ ကုမ္ဘဏ်တစ်သိန်း အခြံအရံရှိသော။ ကုမ္ဘီရော နာမ ယက္ခော၊ ကုမ္ဘီရ အမည်ရှိသော နတ်ဘီလူးသည်။ ရက္ခတိ၊ စောင့်၏။

ဤသို့ ဝိဓုရဇာတ်၌ လာသောကြောင့် ကုမ္ဘဏ်တစ်သိန်း စောင့်၏ဟု ဖြေ။

❖❖❖❖❖

**၄၅၄။ သံသရာဝဋ်၊ ဝိဂြိုဟ်မှတ်၊ ကောက်လတ်အရ မည်သို့နည်း။(၁၁၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သံ ပုနပ္ပုနံ သရတိ ပဝတ္တတီတိ သံသာရော။

ယော သဘာဝေါ၊ သည်။ သံပုနပ္ပုနံ၊ အဖန်တလဲလဲ။ သရတိ ပဝတ္တတိ၊ ဖြစ်တတ်၏။ ဣတိ၊ ကြောင့်။ သံသာရော၊ မည်၏။ ခန္ဓာ, အာယတန, ဓာတ်အစုရ၏။

သံ-သဒ္ဒါ ပုနပ္ပုန အနက်ဟောကြောင်းကို ကေကွရကောသဋီကာ၌-

''သန္ဓာဝတိ သံသရတီတိအာဒီသု ပုနပ္ပုနကိရိယာယံ ဟောတိ''

ဟူ၍ မိန့်၏။

**ခန္ဓာနဥ္စ ပဋိပါဋိ၊ ဓာတုအာယတနာန စ။**

**အဗ္ဗောစ္ဆိန္နံ ဝတ္တမာနာ၊ သံသာရောတိ ပဝုစ္စတိ။**

ဟူသော အဋ္ဌသာလိနီကိုမှီ၍ အရကောက်ကို သိရာသည်။

❖❖❖❖❖

**၄၅၅။မာတိကာပါဌ်၊ခေါင်းစဉ်လတ်၊ကျမ်းမြတ် 'မာ'ကားဘယ်ဟောနည်း။(၁၁၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''မာတာ ဝိယာတိ မာတိကာ''ဟု ဋီကာဆရာတို့ မိန့်ရကား မာသဒ္ဒါသည် အမိ-ဟူသော အနက်ကို ဟော၏။

❖❖❖❖❖

**၄၅၆။ မာသောစိပါဌ်၊တေမိဇာတ်၊ဆတ်ဆတ်'မာ'ဟောဘယ်ကိုနည်း။(၁၁၈)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''မာ သောစိ မာ ပရိဒေဝီတျာဒီသု ပဋိသေဓေ''ဟု မိန့်ရကား မာ-သဒ္ဒါကား မြစ်ခြင်းအနက်ကို ဟော၏။

❖❖❖❖❖

**၄၅၇။ မာတင်္ဂပါဌ်၊ဆင်မျိုးမြတ်၊ဟောလတ်သည် 'မာ'ဘယ်ကိုနည်း။(၁၁၉)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ''မတ္တံ ဝိယ ဂစ္ဆတီတိ မာတင်္ဂေါ'' ဟူရကား မတ္တ-အနက်ကို ဟော၏။

❖❖❖❖❖

**၄၅၈။ မာဃောနက္ခတ်၊သိကြားမတ်၊မိန့်လတ် 'မာ' စုံဘယ်သို့နည်း။(၁၂၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မာတလိ, မာဃောတိ အာဒီသု မာ-သဒ္ဒေါ မာတရိ ဟောတိ။ တတ္ထ ဟိ မာ-မာတာ ဝိယ သတ္တာနံ ဟိတသုခံ တလတိ ဝိဒဓာတီတိ မာတလိ။ ဒေဝပုတ္တ ဝိသေသော။

**မာ မာတာ ဝိယ ပရဇနာနံ ဟိတာသုခံ ဃရတိ အာသိသတီတိ မာယော။ မနုဿဝိသေသော။ ။ ကေက္ခရကောသ ဋီကာမိန့်၏။**

❖❖❖❖❖

**၄၅၉။မာရော-မာရ်နတ်၊ဟောသတတ်၊ယင်းပါဌ်'မာ'ဟောမည်သို့နည်း။(၁၂၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''မာနေန အရန္တိ ဂစ္ဆန္တီတိ မာရော''ဟူရကား-မာနကို ဟော၏။

❖❖❖❖❖

**၄၆၀။ လူတို့ပညတ်၊လေချွန်နတ်၊သည်နတ်ဘယ်ဘုံ သွင်းမည်နည်း။(၁၂၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- နတ်ပြိတ္တာမျိုးဖြစ်၍ စကားကို ကောင်းစွာ မဆိုနိုင်။ လေချွန်သကဲ့သို့ အသံယဲ်သာ ထွက်သည်။ ၎င်းနတ်ကို ''လေချွန်နတ်''ခေါ်သည်။ ထိုနတ်လည်း စတုမဟာရာဇ်သို့ သွင်းရမည်။

အဘယ်ကိုထောက်၍ သွင်းသနည်းဟူမူကား-

**ဌပေတွာ နိဇ္ဈာမတဏှိကာဒိပေတေ နေရယိကသတ္တေ စ သဗ္ဗေ ဝိနိပါတိကာ ပိသာစာ ယက္ခဒေဝါစ ယမရာဇာဒယော ဝေမာနိကာ စ စာတုမဟာရာဇိ-ကေသု သင်္ဂဟံ ဂတာ။**

ဟူသော ဋီကာတို့ကို ထောက်၍ သွင်းသည်ဟူပေ။

နိဇ္ဈာမတဏှိကာဒိပေတေ။ နိဇ္ဈာမတဏှိက အစရှိသော ပြိတ္တာမျိုးတို့ကိုလည်းကောင်း။ နေရယိကသတ္တေ စ၊ ငရဲသူ သတ္တဝါတို့ကိုလည်းကောင်း။ ဌပေတွာ၊ ထား၍။ သဗ္ဗေ၊ အလုံးစုံကုန်သော။ ဝိနိပါတိကာစ။ ဝိနိပါတိက အမည်ရကုန်သော နတ်ပြိတ္တာတို့သည်လည်းကောင်း။ ပိသာစာ စ၊ မြေဖုတ်ဘီလူးတို့သည် လည်းကောင်း။ ယက္ခဒေဝါ စ၊ ဘုမ္မစိုး, ရက္ခစိုးစသော နတ်တို့သည်လည်းကောင်း။ ယမရာဇာဒယော၊ ယမမင်း အစရှိကုန်သော။ ဝေမာနိကာစ၊ ဝေမာနိကနတ်တို့သည်လည်းကောင်း။ စတုမဟာ ရာဇိကေသု။ စာတုမဟာရာဇ်နတ်တို့၌။ သင်္ဂဟံ၊ ရေတွက်အပ်သော အဖြစ်သို့။ ဂတာ၊ ရောက်ကုန်၏။

ဤစကား၌ နတ်ပြိတ္တာနှင့် အသုရကာယ် ပြိတ္တာသည် အဘယ်သို့ထူးသနည်း ဟူမူကား- အကြင်သူသည် ဤလူ၏ဘဝ၌ ခိုးဝှက်ခြင်း, သတ်ဖြတ်ခြင်း, လုယက် နှိပ်စက်ခြင်းဖြင့် ရအပ်သော ပစ္စည်းဥစ္စာဖြင့် စွန့်ကြဲပေးကမ်းခြင်း တည်းဟူသော ဒါနကို ပြု၏။ ငါးပါးသော နိစ္စသီလတို့တွင် သုံးပါးကိုသော်လည်းကောင်း၊ လေးပါးကို သော်လည်းကောင်း ကောင်းစွာ ဆောက်တည်၍ တစ်ပါး နှစ်ပါးကို လွန်ကျူးသဖြင့် ကျင့်၏။ နှုတ်ဖြင့် ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်၍ ကိုယ်စိတ်တို့ဖြင့် မရိုညွတ် ခြင်းကို ပြု၏။ ထိုသို့ ပြုအပ်သော ကံသည် ကုသိုလ်, အကုသိုလ် နှစ်ပါးရောယှက် သောကြောင့် မိဿကကံမည်၏။

ထို ကံ အကျိုးပေးသောအခါ– အကုသိုလ်ကံသည် အကယ်၍ ရှေ့ဆောင်၍ ပေးသည်ဖြစ်အံ့– အပါယ်ဘုံ အဝင်ဖြစ်သော အသုရကာယ် ပြိတ္တာဖြစ်ရ၏။

ကုသိုလ်ကံသည် ရှေ့ဆောင်၍ ပေးသည်ဖြစ်အံ့–နတ်မျိုး၌ အကျုံးဝင်သော ဝေမာနိက ပြိတ္တာ ဖြစ်ရ၏။

အသုရကာယ် ပြိတ္တာမှာ– ဒုဂ္ဂတိ အဟိတ် ပုဂ္ဂိုလ်ဖြစ်၍ မကျွတ်ထိုက်။ နတ်ပြိတ္တာ တို့မှာ– အချို့ကား သုဂတိ အဟိတ်, အချို့ကား ဒွိဟိတ်, အချို့ကား တိဟိတ်ဖြစ်၍ ကျွတ်ထိုက်၏။ ဤသည့်လျှင် အထူးတည်း။ ကိုယ်ခန္ဓာနှင့် စည်းစိမ်ချမ်းသာကို ခံရခြင်းတို့ကား မထူးပြားကြ။ အလားတူသည်သာတည်း။

နတ်ပြိတ္တာမှာ–ချမ်းသာကိုစံခိုက် တန်ခိုးကြီး၏။ ထိုနတ်ပြိတ္တာတို့သည် အချို့ကား မြို့ရွာ၏အနီး မြေကြီးကျင်းတို့၌လည်းကောင်း, သုသာန်ဇရပ် သစ်ပင်ရင်း စသည်တို့၌ လည်းကောင်း, တောအုပ်တောင်ခြေတို့၌လည်းကောင်း, ငရဲပြည်အနီး၌ လည်းကောင်း နေကြကုန်သည်။ ထိုဝေမာနိက နတ်ပြိတ္တာတို့ကို အုပ်ချုပ်စီရင်သော သူကား– ယမ မင်းတည်း။

အဘယ့်ကြောင့် ယမမင်းတွင်သနည်းဟူမူကား လူပြည်ကစုတေ၍ ငရဲခံခြင်းငှာ အနီးသို့ ရောက်လာလျှင် ငရဲထိန်းတို့သည် ဆွဲငင်ခေါ်ဆောင်၍ ယမမင်းထံ၌ အစစ်ခံ စေ၏။ အကုသိုလ် အားကြီးသသူဖြစ်အံ့။ ယမမင်းကလည်း သက်မပေးနိုင်။ ထိုသူ ကလည်း မိမိပြုခဲ့သော ကောင်းမှုအနည်းငယ်ကို အဘယ်ကိုမျှ သတိမရ မဖော်ပြနိုင် ငေးမှိုင်လျက်သာနေ၏။ ထိုအခါ များစွာသော ငရဲထိန်းတို့သည် အပြစ်အလျောက် စီရင်ကုန်၏။

အကုသိုလ်ပါး၍ ကုသိုလ်ကံ အားကြီးသသူဖြစ်အံ့။ ထိုသူပင် သတိမရ သော်လည်း ယမမင်းက ''သင်သည် ဤမည်သောအရပ်၌ ဤသို့သော ကောင်းမှုကို ပြုသောကာလ ငါ့အား အမျှဝေသည် မဟုတ်လော။ သင်၏ကောင်းမှုကို ဘယ့်ကြောင့် မေ့သနည်း။ သင်နှလုံးသွင်းလော့'' ဟု သတိရစေသဖြင့် ကံအားလျော်စွာ သုဂတိ သို့သာ လားရလေ၏။

ဤသို့ ရောက်လာကုန်သောသူတို့အား ပြုခဲ့သော ကောင်းမှုကိုသတိ အမှတ်ပေးဝေတတ်သောကြောင့် ထိုဝေမာနိက ပြိတ္တာမင်းကို ''ယမမင်း''ဟု ဆိုသတည်း။

> **ယထူပစိတေ ပုညကမ္မေ ယမေတီတိ ယမော။ တဿ ယမဿ။ ဝေမာနိကပေတာနံ ဇာတဝတော ရညော။ တေနာဟ ''ယမရာဇာ နာမ ဝေမာနိကပေတရာဇာ''တိ။**

ဟူ၍ ဥပရိပဏ္ဏာသ အဋ္ဌကထာ၌ မိန့်၏။

ယထူပစိတေ၊ အကြင် အကြင် ဆည်းပူးအပ်ကုန်သော၊ ပုညကမ္မေ၊

ကောင်းမှုကံတို့ကို။ ယမေတိ နိယမေတိ၊ အမှတ်ရစေတတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ သော၊ ထိုနတ်မင်းသည်။ ယမော၊ ယမမည်၏။ ဝေမာနိကပေတာနံ၊ ဗိမာန်နှင့်တကွ နေရသော ပြိတ္တာတို့ထက်။ ဇာတဝေဘော။ အဖြစ်မြတ်သော။ ရညော၊ မင်းတည်း။ တေန၊ ထို့ကြောင့်။ ယမရာဇာ နာမ ဝေမာနိက ပေတရာဇာတိ၊ ရာဇာဟူ၍။ အာဟ၊ ဟောတော်မူပြီ။

ဤသို့ ကျမ်းလာသည်ကို ထောက်၍လေ့ချွန်နတ်သည် ယမမင်း၏ အုပ်စုဖြစ်သော ဝိနိပါတိက အသုရာ နတ်ပြိတ္တာမျိုးဖြစ်၍ စာတုမဟာရာဇ်၌ ဝင်သည်ဟု သိရ၏။

ဤ၌ တစ်ဝက်မျှလောက်သော ရေးအဖြေစာ ရှိသည်။ ရှိပါသော်လည်း ''ခုတ်ရာတစ်ပါး၊ ရှရာတခြား''ဆိုသကဲ့သို့သာများ၍ အသစ်ဖြေလိုက်သည်။

**''အတ်''ကာရန်ပုစ္ဆာ ၁၂၂ပုဒ် အဖြေပြီး၏။**

❖❖❖❖❖

## (၁၄) ''အိတ်''ကာရန်ပုစ္ဆာ ၁၉-ပုဒ်အဖြေ

### ၄၆၁။ ဘုရားသပိတ်၊ ရောင်ဖိတ်ဖိတ်၊ ဖုံးပိတ် ဘယ်ဖြင့် ပြီးသနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဗုဒ္ဓဝင်အဋ္ဌကထာ၊ အပဒါန် အဋ္ဌကထာ၊ အင်္ဂုတ္တိုရ်အဋ္ဌကထာတို့၌- တပုဿဘလ္လိက ကုန်သည်တို့၏ မုန့်ဆွမ်းကို ခံအံ့သောအခါ စာတုမဟာရာဇ် နတ်မင်းကြီး လေးယောက်တို့သည် ဣန္ဒနီလာကျောက်ညိုဖြင့်ပြီးသော သပိတ်ကို ကပ်လာ ကြောင်းကိုသာ ဆိုသည်။ မည်သို့သော အဖုံးပါသည်ဟူ၍ ကျမ်း၌ မပြချေ။ ကျမ်းပြ မှုလည်း သိနိုင်မည်။ ပါဠိကို အထက်က ရေးခဲ့ပြီ။

❖❖❖❖❖

### ၄၆၂။ တုဏှီဆိတ်ဆိတ်၊ နေဘိတ်ဘိတ်၊ စိတ်ပုန်းသိကြောင်း မည်သို့နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

စိတ်ပုန်းကို သိရသော အခြင်းအရာသည်-

ပရစိတ္တဝိဇာနန အဘိညာဉ်ဖြင့်သိခြင်း,
ဒေဝိဒ္ဓိဖြင့် သိခြင်း,
ဝိဇ္ဇာမယိဒ္ဓိဖြင့် သိခြင်း,
ဗေဒင်အတတ်ဖြင့် သိခြင်း,

ဟူ၍ လေးပါးအပြားရှိ၏။ ထိုလေးပါးတို့တွင်-

ဘုရားသခင်တို့၏ သူတစ်ပါးစိတ်ကို သိခြင်းသည် ပရစိတ္တဝိဇာနန အဘိညာဉ်ဖြင့် သိ၏။

လောကီ ဈာနလာဘီ ပုဂ္ဂိုလ်တို့၏ သူတစ်ပါးစိတ်ကို သိခြင်းသည် လောကီဖြစ်သော စေတောပရိယ အဘိညာဉ်ဖြင့် သိ၏။

သိကြား, စတုလောကပါလနတ်တို့၏ သူတစ်ပါးစိတ်အကြံကို သိခြင်းသည် ဒေဝိဒ္ဓိဖြင့်သိ၏။

အတတ်သည် ဝိဇ္ဇာဓိုရ်တို့၏ သူတစ်ပါးစိတ်အကြံကို သိခြင်းသည် မန္တန်ဆေးဝါးတို့၏ တန်ခိုးအာနုဘော် တည်းဟူသော ဝိဇ္ဇာမယိဒ္ဓိဖြင့် သိ၏။

သေတဝိဇ္ဇာ, နိမိတ္တ ဝိဇ္ဇာ တတ်သောသူတို့သည် ဗေဒင်ဟောနည်းဖြင့် သူတစ်ပါး စိတ်ကိုသိ၏ဟူပေ။

ဘိညာဉ်, တန်ခိုး၊ ဆေးမျိုး, ဗေဒင်။ ဤလေးအင်၊ သူ့တွင်စိတ်ကို သိကြောင်းတည်း။

❖❖❖❖❖

## ၄၆၃။ သတ္တဝါစိတ်၊ ဘုရားစိတ်၊ ဘယ်စိတ်သာ၍ လျင်သနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဗုဒ္ဓါနဥ္စဘဝင်္ဂပရိဝါတော လဟုကော။ ဒန္တာဝရဏံ သုဖုသိတံ။ မုခါဒါနံ သိလိဋ္ဌံ။ ဇိဝှါ မုဒုကာ သဒ္ဒေါ မဓုရော။ ဝစနံ လဟုပရိဝတ္တံ။ တသ္မာ တံ မုဟုတ္တံ ဒေသိတမတ္တမ္ပိ ဗဟုကော ဟောတိ။**

အစရှိသည်ဖြင့် အဋ္ဌသာလိနီ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ဘုရားသခင်တို့အား ဘဝင်ကျခြင်းသည် လျင်၏။ နှုတ်ခမ်းတော်နှစ်ဖက်သည် ကောင်းစွာထိနိုက်၏။ ခံတွင်းကို ဖွင့်ခြင်း, ပိတ်ခြင်း စသည်သည် ဖြည်းညင်း၏။ လျှာတော်သည် နူးညံ့၏။ အသံတော်သည် အလွန်သာယာ၏။ စကားတော်သည်လျင်မြန်သော အဖြစ်ရှိ၏။ ထို့ကြောင့် တစ်မုဟုတ်မျှ ဟောတော်မူသော တရားတော်သည် ဤဒီဃနိကာယ်, မဇ္ဈိမနိကာယ် ပမာဏရှိသည် ဖြစ်၏ဟူ၍ ဆိုသောကြောင့် သတ္တဝါတို့၏စိတ်ထက် ဘုရားသခင့်စိတ်သည် အဆအရာ မကသာ၍ လျင်မြန်၏ဟု သိရမည်။

ဤအဋ္ဌကထာပါဌ်၌ ဘုရားသခင်၏စကားတော် လျင်ကြောင်းကိုသာ တိုက်ရိုက်ပါသည်။ စိတ်လျင်ကြောင်းကို မပါတကားဟူငြားအံ့–အကျိုးဖြစ်သော စကားတော်၏ လျင်ကြောင်းကိုဆိုသဖြင့် အကြောင်းဖြစ်သော ဝိညတ္တိသမုဋ္ဌာပက စိတ်၏လျင်ဟန်သည်လည်း ဖလာနုမာနနည်း, အဝုတ္တသိဒ္ဓိနည်းအားဖြင့် ပြီးပြည့်စုံတော့သည် ဟူပေ။

တစ်နည်းလည်း–ဘဝင်ကျခြင်း၏ လျင်ဟန်ကို တိုက်ရိုက်ဆိုသဖြင့် ထိုအကြား၌ ဖြစ်သော ဝီထိစိတ်တို့၏ လျင်မြန်သော အဖြစ်သည်လည်း ပရိကပ္ပသိဒ္ဓိနည်းအားဖြင့် ပြီးပြည့်စုံတော့သည် ဟူပေ။

❖❖❖❖❖

၄၆၄။ ဖန်ဆင်းသည့်စိတ်၊ မရှုစိတ်၊ ဝင်ချိတ်ပစ်လိုက် ဘယ့်ကြောင့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဆရာ၏မေးလိုသော အာဘောဂကိုပင် မဆင်ခြင်မိချေ။

❖❖❖❖❖

၄၆၅။ လေ့ကြောင့်သောင်မြိတ်၊ ရောက်တိတ်တိတ်၊ ဘယ်ဟိတ် ဆိုပါလေလိမ့်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- နာဝါယ၊ လေ့ကြောင့်၊ တီရံ၊ ကမ်းသို့၊ ပါပုဏိ၊ ရောက်၏၊ သမ္ပာပကဟိတ်ဟူပေ။

❖❖❖❖❖

၄၆၆။ သဒ္ဒါကိတ်လိတ်၊ အာမေဍိတ်၊ ဝိစ္ဆာမည်သို့ ပြားသနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''အာ ပုနပ္ပုနံ မေဍိတံ အာမေဍိတံ'' ဟူသည်နှင့်အညီ တစ်ခု တည်းသော အနက်ကိုလျက် ဘယ, ကောဓ-စသော အကြောင်းကြောင့် အထပ်ထပ် ဆိုခြင်းသည် ''အာမေဍိတ်''မည်၏။

ထိုအာမေဍိတ်သည်-

**ဘယေ ကောဓေ ပသံသာယံ၊ တုရိတေ ကောတူဟလစ္ဆ ရေ။**
**ဟာသေ သောကေ ပသာဒေ စ။ ကရေ အာမေဍိတံ ဗုဓော။**

ဟူသော အဘိဓာန်နှင့်အညီ၊ ကြောက်ခြင်း, အမျက်ထွက်ခြင်း, ချီးမွမ်းခြင်း, အလျင်တလိုဖြစ်ခြင်း, အုတ်အုတ်ကျက်ကျက် ဖြစ်ခြင်း, အံ့ဖွယ်သရဲရှိခြင်း, ရွှင်ခြင်း, စိုးရိမ်ခြင်း, ကြည်လင်ခြင်း, ကဲ့ရဲ့ခြင်း, အလွန်ဖြစ်ခြင်း, မမြတ်နိုးခြင်းဟူသော တစ်ဆယ့်နှစ်ပါးသော အရာတို့၌ ဖြစ်၏။

''ဘိန္နေ အတ္ထေ ဗျာပိတုံ ဣစ္ဆာဝိစ္ဆာ''ဟူသည်နှင့်အညီ ပြားသော အနက်တို့ကို နှံ့စေခြင်းငှာ နှစ်ကြိမ်ထပ်၍ဆိုခြင်းသည် ''ဝိစ္ဆာ''မည်၏။

ထိုဝိစ္ဆာသည်-ဂုဏဝိစ္ဆာ, ဒဗ္ဗဝိစ္ဆာ, ကိရိယာဝိစ္ဆာအားဖြင့် သုံးပါး အပြားရှိ၏။ ထိုသုံးပါးတွင် ဂုဏ်အားဖြင့်နှံ့စေခြင်းငှာ နှစ်ကြိမ်ဆိုခြင်းသည် ဂုဏဝိစ္ဆာမည်၏။ ပြယုဂ်ကား ''ဂါမော ဂါမော ရမဏီယော''တည်း။ ။ဒြပ်အားဖြင့် နှံ့စေခြင်းငှာ နှစ်ကြိမ်ဆိုခြင်းသည် ဒဗ္ဗဝိစ္ဆာမည်၏။ ပြယုဂ်ကား ''ဂါမေ ဂါမေ ဇလံ အတ္ထိ''တည်း။ ။ ကိရိယာအားဖြင့် နှံ့စေခြင်းငှာ နှစ်ကြိမ်ဆိုခြင်းသည် ကိရိယာဝိစ္ဆာမည်၏။ ပြယုဂ်ကား ''ဒိနေ ဒိနေ သဇ္ဈာယတိ''အစရှိသည်တည်း။

❖❖❖❖❖

### ၄၆၇။ ပရောပုရိသ်၊ ပေါင်း၍ကျိတ်၊ ခွဲစိတ်ရေတွက် ဘယ်မျှနည်း။ (၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဝတ္တမာန်ဝိဘတ် တစ်ဆယ့်နှစ်လုံးတွင် ပရဿပုဒ်ခြောက်လုံး၌ တိ, သိ, ထ၊ တစ်ဝါရ၊ တိ, မိ,မ၊ တစ်ဝါရ။ မိ, သိ, မ၊ တစ်ဝါရ၊ တိ, သိ, မိ, မ၊ တစ်ဝါရ။ တိ, အန္တိ, သိ, ထ, မိ, မ၊ တစ်ဝါရအားဖြင့် ငါးပါးအပြားရှိ၏။

အတ္တနောပုဒ်၌လည်း-တေ, သေ, ဝှေ၊ တစ်ဝါရ။ တေ, ဧ,မှေ၊ တစ်ဝါရ။ သေ, ဧ,မှေ၊ တစ်ဝါရ။ တေ, သေ, ဧ, မှေ၊ တစ်ဝါရ၊ တေ, အန္တေ, သေ, ဝှေ, ဧ, မှေ၊ တစ်ဝါရ အားဖြင့် ငါးပါးအပြားရှိ၏။

ဤသို့ ဝတ္တမာန်ဝိဘတ်၌ ဆယ်ပါးပြားသတည်း။

ဤအတူ ကြွင်းသောဝိဘတ်ခုနစ်သွယ်တို့၌လည်း ဆယ်ပါးစီဖြစ်ရကား အလုံးစုံကို ပေါင်းသော် ပရောပုရိသ်သည် ''ရှစ်ဆယ်''ဖြစ်သတည်း။

❖❖❖❖❖

### ၄၆၈။ ဥဒ္ဒစ္စမြိတ်၊ စေတသိက်၊ ပဋိသန်ကင်း ဘယ့်ကြောင့်နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**''ပဋိသန္ဓိဒါနသဘာဝါဘာဝတော နာကမုတီတိ''**

စသည်ဖြင့် ဋီကာကျော်မိန့်ပြီ။

တွေ့၊ ဤအကုသိုလ်တရား၌။ ဥဒ္ဓစ္စသ၊ ၏။ ပဋိသန္ဓိနာကမုနေ၊ ပဋိသန္ဓေကို မပင်ခြင်း၌။ ကာရဏံ၊ အကြောင်းသည်။ ကိံပန၊ အသို့နည်း။ အဓိမောက္ခ ဝိရဟေန အဓိမောက္ခမှကင်းခြင်းကြောင့်။ သဗ္ဗဒုဗ္ဗလမ္ပိ၊ အလုံးစုံအောက်အားနည်းသော်လည်း။ ဝိစိကိစ္ဆာသဟဂတံ၊ ဝိစိကိစ္ဆာနှင့်တကွဖြစ်သောကံသည်။ ပဋိသန္ဓိံ၊ ပဋိသန္ဓေကို။ အာကမုတိ၊ ငင်သေး၏။ အဓိမောက္ခသမ္ပယောဂတော၊ အဓိမောက္ခနှင့် ယှဉ်ခြင်းကြောင့်။ တတော၊ ထိုဝိစိကိစ္ဆာထက်။ ဗလဝန္တမ္ပိ၊ အားရှိသော်လည်း။ ဥဒ္ဓစ္စံ၊ ဥဒ္ဓစ္စစေတနာသည်။ ပဋိသန္ဓိံ ကို။ နာကမုတိ၊ မငင်သနည်း။ ဣတိပုစ္ဆာယံ၊ သည်။ သတိ၊ သော်။ ပဋိသန္ဓိဒါန သဘာဝါဘာဝတော၊ ပဋိသန္ဓေကိုပေးခြင်းသဘော၏ မရှိသည်၏ အဖြစ်ကြောင့်။ နာကမုတိ၊ မငင်။ ဣတိ၊ ဤသို့။ ဝိဿဇ္ဇေတဗ္ဗော၊ ၏။ ဤကား အကျဉ်းဖြစ်သော အဖြေ။

ဟိယသ္မာ၊ အကြင့်ကြောင့်။ ဗလဝံ၊ အားရှိသောကံသည်။ ပဋိသန္ဓိံ၊ ပဋိသန္ဓေကို။ အားကမုတိ၊ ငင်၏။ ဒုဗ္ဗလံ၊ အားနည်းသောကံသည်။ နာကမုတိ၊ မငင်။ ဣတိ၊ သို့။ အယံဝိစာရဏာ၊ ဤသို့သောဆင်ခြင်ခြင်းကို။ ပဋိသန္ဓိဒါန သဘာဝေသုယေဝ၊ ပဋိသန္ဓေကို ပေးခြင်းသဘောရှိသော တရားတို့၌သာလျှင်။ လဗ္ဘတိ၊ ရအပ်၏။ ယဿ ပန၊အကြင်ဥဒ္ဓစ္စနှင့်ယှဉ်သော ကံ၏ကား။ပဋိသန္ဓိဒါနသဘာဝေါယေဝ၊

ပဋိသန္ဓေကိုပေးခြင်း သဘောသည်ပင်လျှင်။ နတ္ထိ၊ မရှိ။ တဿ၊ ထိုဥဒ္ဒစ္စကံ၏။ ဒုဗ္ဗလဘာဝေါ၊ အားနည်းသော အဖြစ်ကို။ ပဋိသန္ဓိအာကပုနေ၊ ပဋိသန္ဓေကို ငင်ခြင်း၌။ န ကာရဏံ၊ အကြောင်းမဟုတ်။ တသ္မာ၊ ထို့ကြောင့်။ ဗလဝန္တမ္ပိ၊ အားရှိသော်လည်း။ ဥဒ္ဒစ္စသဟဂတံ၊ ဥဒ္ဒစ္စနှင့်တကွ ဖြစ်သောကံသည်။ ပဋိသန္ဓိံ ကို။ နာကပုတိ၊ မငင်။ ။ဤကားအကျယ်ဖြေ။

ဥဒ္ဒစ္စသဟဂတဿ၊ ဥဒ္ဒစ္စနှင့်တကွဖြစ်သောကံ၏။ ပဋိသန္ဓိဒါနသဘာဝေါ၊ ပဋိသန္ဓေကို ပေးတတ်သော သဘောသည်။ နတ္ထိ၊ မရှိ။ က္လတိတော် ဝစနံ၊ ဤသို့သောစကားကို။ ကထမ္ပန ဉာတဗ္ဗံ၊ အဘယ်သို့ သိအပ်သနည်း။ က္လတိစောဒနာ၊ သည်။ သတိ၊ သော်။ ဒဿနေန ပဟာတဗ္ဗေသု၊ သောတာပတ္တိမဂ် ပယ်အပ်သော တရားတို့၌။ အနာဂတတ္တာ။ မလာအပ်သည်၏ အဖြစ်ကြောင့်။ ဉာတဗ္ဗံ၊ ၏။ က္လတိ၊ ဤသို့။ ဝိဿဇ္ဇေ တဗ္ဗော၊ ၏။ ။ဤကားနောက်ဆင့်ဖြေ။

**အဓိပ္ပါယ်အကျဉ်းကား။** ။ဥဒ္ဒစ္စစေတနာသည် အဓိမောက္ခနှင့်ယှဉ်ခြင်းကြောင့် ဝိစိကိစ္ဆာထက် အားကြီးပြားသော်လည်း ပဋိသန္ဓေကို ပေးခြင်းသဘော မရှိသောကြောင့် ပဋိသန္ဓေကို မငင်နိုင်။ ထိုသို့ပဋိသန္ဓေကို ပေးခြင်းသဘောမရှိသောအဖြစ်ကိုလည်း သောတာပတ္တိမဂ်ဖြင့် ပယ်အပ်သော ဒဿနေနပဟာတဗ္ဗတရား၌ မဟောသောကြောင့် သိအပ်၏ဟုလိုသည်။

❖❖❖❖❖

## ၄၆၉။ စုတေ့နီးစိတ်၊ သုံးနိမိတ်၊ ဆုံးပိတ်ရဟန္တာ ထင်လိမ့်နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ရဟန္တာတို့အား နိဗ္ဗာန်ယူသောအခါ စုတိ၏ အနီးဖြစ်သော စိတ်တို့သည် နိဗ္ဗာန်ကိုသာ အာရုံပြုရကား ''နိမိတ်သုံးပါးသည် မထင်ပြီ''ဟု ဖြေ။ ဤ၌ အဓိပ္ပါယ်ကို သိသာအောင် ဆိုလိုက်ဦးအံ့- အလုံးစုံသော သတ္တဝါတို့အား သေခါနီးကာလ၌ နိမိတ်သုံးပါးတို့တွင် တစ်ပါးပါးသည် ကံအားလျော်စွာ ထင်မြဲဟု ဆိုသော်လည်း နောင်ပဋိသန္ဓေ မနေလတ္တံ့သော ရဟန္တာတို့အား ထင်ပါဦး အံ့လောဟူသော စောဒနာကို ဖြေလို၍ ဋီကာကျော်၌-

> **ယထာရဟန္တိ တံတံဂတီသု ဥပ္ပဇ္ဇနကသတ္တာနုရူပံ။ ကတ္ထစိ ပန အနုပ္ပဇ္ဇမာနဿ ခီဏာသဝဿ ယထောပဋ္ဌိတံ နာမရူပဓမ္မာဒိကမေဝ စုတိ ပရိယောသာနာနံ ဂေါစရဘာဝံ ဂစ္ဆတိ။ န ကမ္မ ကမ္မနိမိတ္တဒယော။**

ဟူ၍ မိန့်သည်။

**အနက်ကား။** ။ ယထာရဟန္တိ၊ ယထာရဟံဟူသည်ကား။ တံတံဂတီသု၊ ထိုထိုသို့သော ဂတိတို့၌။ ဥပ္ပဇ္ဇနကသတ္တာနုရူပံ၊ ဖြစ်ထိုက်သော သတ္တဝါအားလျော်စွာ။ ကမ္မံ ဝါ၊ ကံသည်လည်းကောင်း။ ကမ္မနိမိတ္တံ ဝါ၊ ကမ္မနိမိတ်သည်လည်းကောင်း။ ဂတိ နိမိတ္တံဝါ၊ ဂတိနိမိတ်သည်လည်းကောင်း။ ပစ္စုပဋ္ဌာတိ၊ ရှေးရှုထင်၏။ ပန၊ မထင် သည်ကိုဆိုလိုက်အံ့။ ကတ္ထစိ၊ တစ်စုံတစ်ခုသော ဂတိ၌။ အနုပ္ပဇ္ဇမာနဿ၊

မဖြစ် ထိုက်သော။ ဝါ၊ မဖြစ်လတ္တံ့သော။ ခီဏာသဝဿ၊ ရဟန္တာပုဂ္ဂိုလ်အား။ ယထောပဋ္ဌိတံ၊ အကြင်အကြင် ထင်တိုင်းသော။ နာမရူပဓမ္မာဒိကမေဝ၊ နာမ်ရုပ်တို့၏ အနိစ္စသဘော အစရှိသည်သာလျှင်။ စုတိပရိယောသာနာနံ၊ စုတိအဆုံးရှိသော မရဏာသန္နဝီထိ စိတ်တို့၏။ ဂေါစရဘာဝံ၊ အာရုံ၏အဖြစ်သို့။ ဂစ္ဆတိ၊ ရောက်၏။ ကမ္မ ကမ္မနိမိတ္တာဒယော။ ကံ, ကမ္မနိမိတ် အစရှိသည်တို့သည်။ ဂေါစရဘာဝံ၊ အာရုံ၏အဖြစ်သို့။ န ဂစ္ဆတိ၊ မရောက်။

**အဓိပ္ပါယ်ကား။** ။ ထိုထိုသို့သော ဂတိတို့၌ ဖြစ်ထိုက်သော သတ္တဝါအားလျော်စွာ သာလျှင်နိမိတ်သုံးပါးတွင် တစ်ပါးပါးသည် ထင်၏။ တစ်စုံတစ်ခုသော ဘဝဂတိ၌ မဖြစ်လတ္တံ့သော ရဟန္တာပုဂ္ဂိုလ်ကား အကြင်အကြင် ဝိပဿနာဉာဏ်ဖြင့် တင်၍ ထင်ခဲ့တိုင်းသော နာမ်ရုပ်တရားတို့၏ ခယဝယသဘောသာလျှင် စုတိအဆုံးရှိသော မရဏာသန္န ဝီထိစိတ်တို့၏အာရုံအဖြစ်သို့ ရောက်၏။ ကံ, ကမ္မနိမိတ်, ဂတိနိမိတ် သုံးပါးတို့တွင် တစ်ပါးပါးသည် အာရုံအဖြစ်သို့ မရောက်ပြီဟူလိုသည်။

ဤအရာ၌ ဆရာတို့ဝါဒကွဲသည်ကား များ၏။ အဘယ်သို့ ကွဲသနည်းဟူမူကား–''ပဋိသန္ဓေ, ဘဝင်, စုတိစိတ်တို့သည် ဘူမိဇာတိ, သမ္ပယုတ္တဓမ္မသင်္ခါရ အာရုံ အားဖြင့်တူမြဲ–ဟု အဋ္ဌကထာဆရာပင်ဆိုရကား ရဟန္တာ၏စုတိသည်လည်း ထင်တိုင်း သောသင်္ခါရတို့၏ ခယ ဝယ သဘောစသည်ကို အာရုံမပြုသင့်၊ အကယ်၍ပြုသည်ဖြစ်အံ့၊ ပဋိသန္ဓေ, ဘဝင်နှင့် စုတိသည် အာရုံမတူဖြစ်၍ အဋ္ဌကထာနှင့် ဆန့်ကျင်ရာ၏။ ထို့ကြောင့် ''စုတိပရိယောသာနာနံ''ဟူသော ဋီကာပါဌ်ကို အတဂ္ဂုဏာသမာသ်ကြံ၍ အညပုဒ်၏ အရကို စုတိမှ တစ်ပါးသော ဝီထိစိတ်ယူရမည်။ ထိုစိတ်တို့၏ အာရုံသာလျှင် ထင်တိုင်းသော သင်္ခါရတို့၏ ခယဝယသဘောဖြစ်သည်။ စုတိမူကား ယူမြဲတိုင်းသော နိမိတ်သုံးပါးတွင် တစ်ပါးပါးပင်ဖြစ်သင့်သည်''ဟူ၍ ဟံသာဝတီဆင်ဖြူရှင် လက်ထက် ရေးသော အဖေဂ္ဂုသာရဒီပနီဆရာ ဆိုသည်။

ထိုကဲ့သို့ ပေါက္ကံဆရာတော်လည်း အယူရှိသည်။ ထို့ကြောင့် အဘိဓာန်ဋီကာကို စီရင်သော စတုရင်္ဂဗလ အမတ်က ဤပြဿနာကို ကဗျာစီ၍ မေးလျှောက်ရာ၌ ငင်းပေါက္ကံ ဆရာတော်က–

> တို့စောထွက်လျှင်၊ မချွတ်နိဗ္ဗာ၊ ဝင်သောခါ၌၊ အနိစ္စာ–ဒုက္ခ၊ အနတ္တ–
> သာ၊ ဈာန်အင်္ဂါကို၊ ပစ္စဝေက္ခဏာဇော၊ လျှင်လျှင်စောမှ၊ တီတောအောင်ထွန်၊
> မစ္စုမာရ်ကို၊ လွန်ခဲ့ကျော်ဘိ၊ စုတိတော်စိတ်၊ အတိတ်နှင်နှင်၊ သုံးပါးတွင်တွင်၊
> ထင်၏တစ်။ ဂတိနိမိတ်၊ တိဟိတ်ပဋိသန္ဓေ၊ ယူနေသောခါ၊ တုသိတာမှ၊
> ပဥ္စာလောကန၊ ကြည့်ပြီးမှလျှင်၊ ဘဝပြောင်းလာ၊ ဤကြောင်းချာကို ပညာ
> ရှိထွေ ကြံမိစေလော့၊ သန္ဓေဘဝင်၊ သုံးအင်စုတိ တူဘိအာရုံ ပြုတုံမချွတ်
> ပရမတ်သည်။ ဟောမှတ်ကေန်သာတမုံ့ဟူ၍ ဖြေဆိုသည်။

ဤသို့ ပမာဏပြုလောက်သော ဆရာတို့ပင် ဘုရားရဟန္တာတို့၏ စုတိစိတ်သည် နိမိတ်သုံးပါးတွင် တစ်ပါးပါးကို အာရုံပြုကြောင်းကို ပြဆိုသောကြောင့် နောက်နောက်သော ပညာရှိတို့လည်း ထိုဆရာတို့၏ နည်းတူပင် ယူသူလည်း ယူသည်။ ဝိထိလက်ရိုးကို စီရင်သော နန်းကျောင်းဆရာ, တောင်တွင်းကျော် ဆရာတို့ကား စုတိနှင့်တကွသော မရဏာသန္နစိတ် ဟူသမျှသည် ထင်တိုင်းသော သခ်ီရကို အာရုံပြုသည်ဟု သင်ရိုးပြုကြသည်။

ဤစွယ်စုံကျော်ထင် ပုစ္ဆာကိုစီရင်သော ကျည်းကန်ဆရာကြီးလည်း မုံရွေးဆရာ အမေး ၅၅-ရပ်ကို ဖြေဆိုရာ၌ စုတိစိတ်သည် နိဗ္ဗာန်ကို အာရုံပြုကြောင်းဖြင့် ဖြေဆိုသည်။ ဤသို့ဝါဒ ကွဲပြားကြသည်။

ဤသို့ ကွဲပြားကြရာ၌ ဆင်ခြင်ရာသည်ကား-အဖေဂ္ဂုဋ္ဌီကာ, ပေါက္ကံဆရာတော်တို့၏ စကားအတိုင်း စုတိမှတစ်ပါးသော မရဏာသန္နစိတ်တို့သာလျှင် ထင်တိုင်းသော သခ်ီရကို အာရုံပြု၍ စုတိစိတ်သည် ဂတိနိမိတ်ကို အာရုံပြုခဲ့သော် ထိုဂတိနိမိတ်လည်း ပစ္စုပ္ပန်ရူပါရုံဖြစ်ရကား ထိုရူပါရုံသည် စုတိတည်းဟူသော စိတ်တစ်ချက်သာ အသက်ရှိခဲ့ရာ၏။ ယင်းသို့စိတ်တစ်ချက်သာ အသက်ရှိခဲ့သော် ''တာနိ ပန သတ္တရသ စိတ္တက္ခဏာနိ ရူပဓမ္မာနမာယူ''ဟူသော အဋ္ဌကထာ စကားနှင့်လည်းဆန့်ကျင်ရာ၏။ ဘယ့်ကြောင့်နည်းဟူမူ ဝိညတ်ဒွေး, လက္ခဏာရုပ်မှ တစ်ပါးသော ရုပ်တို့သည် သတ္တရသာယုက ဖြစ်ကြောင်းကိုသာလာသည်။ ထို့ကြောင့် အဖေဂ္ဂုဆရာတို့၏ စကားသည် ငါးတစ်ကိုသာမြင်၍ ကြော့ကွင်းကို မမြင်သကဲ့သို့ ဖြစ်သည်။

ပရိနိဗ္ဗာနသုတ် အဋ္ဌကထာ၌-

**''သန္တိမာရဗ္ဘာတိ အနုပါဒိသေသံ နိဗ္ဗာနံ အာရဗ္ဘ ပဋိစ္စသန္ဓာယ ယံ ကာလံ အကရိ''**

စသည်ဖြင့် ဘုရားသခင်နိဗ္ဗာန်ကို အာရုံပြု၍ စုတိကြောင်းကို ဆိုသည်။ ထိုစကားနှင့်လည်း ဆန့်ကျင်ရာသည်။ ထို့ကြောင့် အဖေဂ္ဂုဆရာတို့၏ဝါဒသည် သာရမရှိ ထင်ပေသည်။ ဝိထိလက်ရိုးဆရာတို့၏စကားအတိုင်း စုတိနှင့်တကွသော မရဏာ သန္နစိတ်တို့သည် ထင်တိုင်းသော သခ်ီရဟု ဆိုအပ်သော နိဗ္ဗာန်ကို အာရုံပြု၏ဟု မှတ်ရာသည်။

ထိုသို့ ယူမူ-''ပဋိသန္ဓိဘဝင်္ဂ၊ တထာ စဝနမာနသံ''ဟူသော ဂါထာနှင့် ညီပါတော့အံ့လော-ဟူငြားအံ့၊ ဤဂါထာစကားသည် ဘဝမဆုံးသေးသော သူကိုသာ ရည်၍ ဆိုသော စကားဖြစ်ရကား ထိုစကားနှင့်မညီသော်လည်း အပြစ်မရှိပေ။

❖❖❖❖❖

## ၄၇၀။ အရူပမြိုတ်၊ စုတေ့ဖိတ်၊ ဒွိဟိတ်ဘယ့်ကြောင့် မဖြစ်သနည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''တိက္ခေန ဥပစာရဇာဝနာနုဘာဝေန ဒွိဟေတုကပဋိသန္ဓိကော န ဟောတိ''**

ဟူ၍ နိပုဏသာရတ္ထ ဒီပနီမိန့်ရကား အရူပဈာန်၏အဖို့၌ ပရိကံ, ဥပစာ, အနုလုံ၏ အဖြစ်ဖြင့် ကျသော ဥပစာရဇာဝနာ၏ ထက်သန်သော အာနုဘော်ကြောင့် ထိုမှစုတေ၍ ကာမဘုံ၌ ဖြစ်ရသော်လည်း ဒွိဟိတ် မဖြစ်၊ တိဟိတ်သာ ဖြစ်ရ၏ဟူပေ။

❖❖❖❖❖

## ၄၇၁။ ကုသိုလ်ချင်းပိတ်၊ တပ်၍ချိတ်၊ နိဿပစ္စည်း မည်သို့နည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နိဿယပစ္စည်းသည် သဟဇာတနိဿယ၊ ပုရေဇာတနိဿယ အားဖြင့် နှစ်ပါးအပြားရှိ၏။

ထိုတွင် သဟဇာတနိဿယ ဖြစ်အံ့ အလုံးစုံသော ပဝတ္တိပဋိသန္ဓေ နာမက္ခန္ဓာ လေးပါး၊ စိတ္တဇ၊ ပဋိသန္ဓေကမ္မဇ၊ ဗာဟိရ၊ အာဟာရဇ၊ ဥတုဇ၊ အသညတ်ကမ္မဇ၊ ပဝတ္တိကမ္မဇ အားဖြင့် ရစွမ်းသော မဟာဘုတ်ဘေးပါး၊ ပဉ္စဝေါကာရ ပဋိသန္ဓေနာမက္ခန္ဓာ။ ယဒယဝတ္ထု ဤတရားတို့သည် သဟဇာတနိဿယပစ္စည်းတပ်သော တရားမည်ကုန်၏။ အလုံးစုံသော ပဝတ္တိ ပဋိသန္ဓေ နာမက္ခန္ဓာလေးပါး။ စိတ္တဇ၊ ပဋိသန္ဓေကမ္မဇ၊ ဗာဟိရ၊ အာဟာရဇ၊ ဥတုဇ၊ အသညသတ်ကမ္မဇ၊ ပဝတ္တိကမ္မဇအားဖြင့် ဉပါဒါရုပ်နှင့်တကွ အလုံးစုံသော မဟာဘုတ်လေးပါး။ ပဉ္စဝေါကာရ ပဋိသန္ဓေ နာမက္ခန္ဓာ ဟဒယဝတ္ထု၊ ဤတရားတို့သည် ပစ္စယုပ္ပန် ဖြစ်သော တရားမည်ကုန်၏။

ထိုပစ္စည်း ပစ္စယုပ္ပန် နှစ်ပါးတို့တွင် ဆိုအပ်ပြီးသော ပစ္စည်းတရားတို့သည် ဆိုအပ်ပြီးသော ပစ္စယုပ္ပန်တရားတို့အား သဟဇာတနိဿယ သတ္တိဖြင့် ကျေးဇူးပြုပေ၏။

ဤသို့ ပစ္စည်း, ပစ္စယုပ္ပန်ကိုသိမှ အထက်ပစ္စည်းတပ်ဟန်ကို သိမည်။ မနောဒွါရာဝဇ္ဇန်း, မဟာကုသိုလ်ရှစ်ခု, နာမက္ခန္ဓာလေးပါးတို့တွင် တစ်ပါးတစ်ပါးသော နာမက္ခန္ဓာသည် ပဉ္စဝေါကာရဘုံ၌ ဖြစ်သောအခါ သုံးပါး သုံးပါးသော နာမက္ခန္ဓာ, စိတ္တဇရုပ်တို့အား။ စတုဝေါကာရဘုံ၌ကား သုံးပါး သုံးပါးသော နာမက္ခန္ဓာအားသာ။ သုံးပါး သုံးပါးသော နာမက္ခန္ဓာသည် ပဉ္စဝေါကာရဘုံ၌ ဖြစ်သောအခါ တစ်ပါး တစ်ပါးသော နာမက္ခန္ဓာ, စိတ္တဇရုပ်တို့အား။ စတုဝေါကာရ ဘုံ၌ကား တစ်ပါး တစ်ပါးသော နာမက္ခန္ဓာအား။ လေးပါးသော နာမက္ခန္ဓာသည် စိတ္တဇရုပ်တို့အား သဟဇာတ နိဿယ သတ္တိဖြင့် ကျေးဇူးပြုပေ၏ ဟူလိုသော်။ ဤသို့ ပစ္စည်းတပ်၏ ဟူပေ။

❖❖❖❖❖

## ၄၇၂။ အံသာညိတ်ညိတ်၊ပြည့်ရှဲဖိတ်၊လိတ္တာဘယ့်ကြောင့်ခေါ်သနည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''လိက္ခံ တာယတိ တောယာတိ လိတ္တာ''

တောယ၊ ဤသချာအစိတ်ဖြင့်။ လိက္ခံ၊ ဂြိုဟ်ယှဉ်သောနက္ခတ်ကို။ တာယတိ၊ စောင့်တတ်၏။ ဣတိတသ္မာ၊ ထိုသို့ စောင့်ကြောင်းဖြစ်သော သတ္တိကြောင့်။ သာ၊ ထိုအစိတ်သည်။ လိတ္တာ၊ လိတ္တာမည်၏။ လိက္ခ–သဒ္ဒူပပဒ၊ တာ–ဓာတ်၊ တု–ပစ္စည်း။

ဤသို့သော ဝစနတ်နှင့်ညီစွာ၊ ယူဇနာ သုံးသန်းရှိသော ရာသီစက်၌ ဤဂြိုဟ်သည် ဤနက္ခတ်သို့ ရောက်ပြီဟု သိကြောင်း၊ မှတ်ကြောင်း၊ စောင့်ကြောင်း ဖြစ်၍ လိတ္တာမည်၏ ဟူလိုသည်။

ဘယ်သို့ စောင့်သနည်း–ဟူမူကား တနင်္ဂနွေဂြိုဟ်သည် ယခုမည်သည့် နက္ခတ်နှင့် ယှဉ်သည်၊ မည်သည့်နဝင်းကို စီးသည်ဟု သိလိုသော် သုဘတ္တာတိုက်ကို တည်၊ ရာသီကို သုံးဆယ်မြှောက်၊ အံသာတက်၊ ခြောက်ဆယ်မြှောက်၊ လိတ္တာတက်၊ လိတ္တာပုံဖြစ်၏။ ဤလိတ္တာပုံကို ရှစ်ရာစား၊ လဒ်ကား နက္ခတ်၊ အကြွင်းကို နှစ်ရာ စားလဒ်ကားပါဒ်ရ၏။ ဤ နက္ခတ်, ပါဒ်နှင့်ယှဉ်၏ဟု သိရ၏။

တနင်္လာ ဂြိုဟ်ယှဉ်ကို သိလိုသော်–သုဘတ္တာ စန်းကိုတည်၊ ရာသီကို သုံးဆယ် မြှောက်၊ အံသာတက်ခြောက်ဆယ်မြှောက်၊ လိတ္တာတက်၊ လိတ္တာပုံဖြစ်၏။ ၎င်းလိတ္တာ ပုံကိုရှစ်ရာစား၊ လဒ်ကားနက္ခတ်၊ အကြွင်းကိုနှစ်ရာစား လဒ်ကားပါဒ်ရ၏။ ဤနက္ခတ်နှင့် ယှဉ်သည်ဟု သိရ၏။ အင်္ဂါစသော ဂြိုဟ်တို့၏ အယှဉ်ကိုလည်း ဗျူဟာ ဂြိုဟ်စဉ်ကို တည်၍ ဤနည်းတူ တွက်သဖြင့်သိရ၏။ ဤသို့ နက္ခတ်အယှဉ်အရောက်ကို သိကြောင်း စောင့်ကြောင်းဖြစ်၍ 'လိတ္တာ'ခေါ်၏ ဟူလိုသည်။

ဤဝစနတ်၌ လိက္ခ သဒ္ဒါသည် သက္ကဋ္ဌဘာသာ၌ ရိက္ခသဒ္ဒါကို အက္ခရာလှည့်၍ ခေါ်သောနည်းဟု မှတ်ရမည်။ ရိက္ခ သဒ္ဒါ၏ နက္ခတ်ဟောဖြစ်ကြောင်းကိုလည်း ''ရိက္ခ ဇောတိ တံ တာရာ''ဟူသော အမရကောသ ပါဠိဖြင့် သိအပ်သည်။

တစ်နည်းလည်း ''လိနာနိ အဝယဝါနိ တာယတိ တောယာတိ လိတ္တာ'' တောယ၊ ဤသချာအစိတ်ဖြင့်။ လိနာနိ၊ သိမ်မွေ့ သေးဖွဲ သိနိုင်ခဲကုန်သော။ အဝယဝါနိ၊ အစိတ်ငယ်တို့ကို။ တာယတိ၊ စောင့်တတ်၏။ ဣတိ၊ ထိုသို့ စောင့်ကြောင်း ဖြစ်သောကြောင့်။ လိတ္တာ၊ လိတ္တာ မည်၏။ ဤသို့သော ဝစနတ်နှင့်ညီစွာ ခဏ, လယ, ခရာ, ပြန်, ဗီဇနာ ဟူသော အစိတ်ငယ်တို့ကို စောင့်ကြောင်းဖြစ်သောကြောင့် လိတ္တာ မည်၏ ဟူလိုသည်။

စောင့်ဟန်ကား-မျက်စိတစ်မှိတ်သည် တစ်ခဏမည်၏။ ဆယ်ခဏသည် တလယ မည်၏။ ဆယ် လယသည် တစ်ခရာမည်၏။ ဆယ်ခရာသည် တစ်ပြန်မည်၏။ အသက် တစ်ရှူ ဟူလိုသည်။ ထိုအသက်ခြောက်ရှူသည် တစ်ဗီဇနာမည်၏။ ဗီဇနာ တစ်ဆယ့် ငါးသည် တစ်ပါဒ်မည်၏။ လေးပါဒ်သည် တစ်လိတ္တာမည်၏။

ဤလိတ္တာကို တစ်စုံတစ်ခုဖြင့် တီးခတ်၍ မှတ်အပ်သောကြောင့် မဂဓအေလိုဖြင့် ဃဋီ။ နာဠီ။ မြန်မာလိုဖြင့် နာရီဟုခေါ်သည်။

ထို့ကြောင့် တစ်နာရီသော် ဗီဇနာအားဖြင့် ခြောက်ဆယ်။ အသက်ရှူဟူသော ပြန်အားဖြင့် သုံးရာ့ခြောက်ဆယ်။ ခရာအားဖြင့် သုံးထောင့်ခြောက်ရာ၊ လယအားဖြင့် သုံးသောင်းခြောက်ထောင်။ ခဏအားဖြင့် သုံးသိန်းခြောက်သောင်းရှိသည်။

လိတ္တာ ဘယ့်ကြောင့် ခေါ်သနည်းဟူသော ပုစ္ဆာကဲ့သို့ ရာသီဘယ့်ကြောင့် ခေါ်သနည်း။ အံသာ ဘယ့်ကြောင့်ခေါ်သနည်း။ နာရီဘယ့်ကြောင့် ခေါ်သနည်း အစရှိသည်ဖြင့် ပုစ္ဆာထုတ်သင့်ရကား ထိုပုစ္ဆာတို့၏ အဖြေကို ဆိုဦးအံ့၊ ရာသီသဒ္ဒါသည် အစုအပုံကို ဟောသော၊ အံသာသဒ္ဒါသည် အဖို့အစိတ်ကို ဟောသော ရုဠီသဒ္ဒါ ဖြစ်သောကြောင့် ဝိဂြိုဟ်မရကောင်း။ တစ်နှစ်အဖို့၌ ရာသီစက်သို့ နေမင်းပတ်လေသော ရက်ပေါင်းသုံးရာ ခြောက်ဆယ့်ငါးရက်နှင့် တစ်ဆယ့်ငါးနာရီ တစ်ပါဒ်ကို တစ်ဆယ့်နှစ်စု ပြု၍ တစ်စုကို တစ်ရာသီခေါ်သည်။ ထိုတစ်ရာသီကို အစုသုံးဆယ်ပြုပြန်၍ တစ်စုကို တစ်အံသာ ခေါ်သည်။ ထိုတစ်အံသာကို အစုခြောက်ဆယ် ပြုပြန်၍တစ်စုကို တစ်လိတ္တာ ခေါ်သည်။ ထို့ကြောင့် ဝေါဟာရရက်ထက် အံသာရက်က တစ်ပါဒ်နှင့် သုံးဗီဇနာ ကြီးသည် ဝေါဟာရနာရီထက် လိတ္တာနာရီဗီဇနာကြီး လေသည်။

## ပါဒ်ဗီဇနာ မည်ကြောင်းကား

### ''ကံသာဒီနိ နဃ္ဃန္တိ တ္တော့တိနာဠိ''

တ္တော၊ ဤအခါ၌။ ကံသာဒီနိ၊ ကြေးနင်း, မောင်း ခေါင်းလောင်း,စည်ပုတ်တို့ကို။ နဃ္ဃန္တိ၊ တီးခတ်ကြကုန်၏။ က္လတိ၊ ထိုသို့ တီးခတ်ရာ ဖြစ်သော သတ္တိကြောင့်။ သော ကာလော၊ ထိုအခါသည်။ နာဠိ၊ နာဠီမည်၏။

### ''နဝဂ်ဝသေန ပတ္တရိယတေတိ ပါဒေါ''

ယောအဝယဝေါ၊ အကြင်အစိတ်ကို။ နဝဂ်ဝသေန၊ နဝင်း၏ အစွမ်းဖြင့်။ ပတ္တရိယတေ၊ ဖြန့်အပ်၏။ က္လတိ၊ ထို့ကြောင့်။ ပါဒေါ၊ ပါဒ်မည်၏။ ပထဓာတ်၊ တ-ပစ္စည်း။

## ဝိဘဇိတွာ ဇာနီတဗ္ဗာတိ ဗီဇနာ

ယော အဝယဝေါ၊ အကြင်အစိတ်ကို။ ဝိဘဇိတွာ၊ စိတ်ဖြာဝေဖန်၍။ ဇာနိတဗ္ဗာ၊ သိအပ်ကုန်၏။ က္လတိ၊ ထို့ကြောင့်။ ဗီဇနာ၊ ဗီဇနာမည်၏။ ဝိ ပုဗ္ဗ၊ ဉာဓာတ်၊ ယုပစ္စည်း။ ဝကို ဗပြု၊ ဗီဇနာပြီးသည်။

## ''ပဋ္ဋိ ပုနပ္ပုနံ အနတီတိ ပြန္နာ''

ပဋ္ဋိပုနပ္ပုနံ၊ တုံ့ပြန် တုံ့ပြန်အဖန်ဖန်။ အနတိ၊ ရှူတတ်၏။ ဣတိ၊ ထို့ကြောင့်။ ပြန္နာ၊ ပြန္နာမည်ကုန်၏။ ပဋ္ဋိ-ပုဗ္ဗ၊ အန-ဓာတ်၊ အ-ပစ္စည်း။ ထွက်သက် ဝင်သက် နှစ်ပါးလုံးရ၏။

## ''ဟတ္ထံ ခဥ္ဆန္တီတိ ခရာ''

ဟတ္ထံ၊ လက်ကို။ ခဥ္ဆန္တိ၊ ခွေတတ်ကုန်၏။ ဣတိ၊ ထို့ကြောင့်။ ခရာ၊ ခရာမည်ကုန်၏။

## ''ဟတ္ထံ ခဥ္ဆေတွာ အရန္တီတိ ဝါ ခရာ''

ဟတ္ထံ၊ လက်ကို။ ခဥ္ဆေတွာ၊ ခွေ၍။ အရန္တိ၊ သိကုန်၏။ ဣတိ၊ ထို့ကြောင့်။ ခရာ၊ ခရာမည်ကုန်၏။ လက်တစ်ချိုး ဟူလိုသည်။

**အမိပ္ပါယ်လိုရင်းကား။** ။ တစ်ရာသီ တစ်ရာသီ၌ရှိသော နက္ခတ်တို့ကို နဝင်းဂြိုဟ်ကိုးလုံး၏ အစဉ်ဖြင့် ဟောဆိုခြင်းငှာ ကိုးစိတ်ပြု၍ ဖြန့်အပ်သောအစိတ်ကို ''တစ်ပါဒ်''ဟု ခေါ်သည်။ ထိုတစ်ပါဒ်ကို တစ်ဆယ့်ငါးစိတ်ပြုပြန်သည်ကို အထူးဝေဖန်၍ သိအပ်သောကြောင့် ''ဗီဇနာ'' ခေါ်သည်။ ထိုဗီဇနာကို လူတို့၏ အသက်ရှူဖြင့် နှိုင်းရှည့်သော် ခြောက်ရှူသာ ရှိရကား တစ်ဗီဇနာကို ခြောက်စိတ်စိတ်၍ တစ်စိတ်ကို ''တစ်ပြန်''ဟု ခေါ်သည်။ ထိုကို ဆယ်စု စုပြန်၍ တစ်စုကို လက်တစ်ချိုးခန့်မျှရှိရကား တစ်ခရာ''ဟူ၍ ခေါ်သည်။ ဤခရာကို ဆယ်စုစုပြန်၍ တစ်စုကို ''တစ်လယ'' လည်းခေါ်သည်။ ''တစ်မုဟုတ်''လည်းခေါ်သည်။ ထိုကို ဆယ်စု စုပြန်၍ တစ်စုကို ''တစ်ခဏ''လည်းခေါ်သည်။ ''တစ်မတြာ''လည်း ခေါ်သည်။

ဤသို့ ဗေဒင်၌ခေါ်သော ဝေါဟာရတို့၏အကြောင်းကို သိအပ်သတည်း။

❖❖❖❖❖

## ၄၇၃။ ဆေးသုံးပါးကြိတ်၊ ပြောင်ဖိတ်ဖိတ်၊ ရွှေမြိတ်ဆိုးရန်ဘယ်ဆေးနည်း။ (၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဒုတ္တာ, လက်ချား, စိန် သည် သုံးပါးကို သံပရာရေနှင့် ဖျော်၍ ရွှေမြိတ်ကိုသုတ် အသစ်ကဲ့သို့ရှိပြန်၏။

❖❖❖❖❖

## ၄၇၄။ ရောင်တဖိတ်ဖိတ်၊ သင်္ဂနိက်၊ လျှံထိတ်ဘယ်ကျောက်မျိုးကနည်း။ (၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**မတ္တမြားမျိုးကား-** ဝဇိရက္ခန်, ဂေါမူလာ, ကွမ်းပြင်ရေ, မင်သခံ, တေလီ, ရှိန်းဂို ဟူ၍ ခြောက်ပါးရှိ၏။ ထိုတွင်-

**ဝဇိရကန္ဒနီသည်**– ရဲရဲခြင်းခြင်းနီ၏။ ရွှေတစ်ကျပ်ထက် တင်လောက်မူ သိင်္ဂနိက် ရွှေငါးကျပ်ထိုက်၏။

**ဂေါမူလာကား**– ခရမ်းပွင့် ဝတ်ဆံကဲ့သို့ရှိ၏။ ရွှေတစ်ကျပ်ထက် တင်လောက်မူ သိင်္ဂနိက်ရွှေလေးကျပ် ထိုက်၏။

**ကွမ်းပြင်ရေကား**– ကွမ်းသွေးအဆင်းကဲ့သို့ ရှိ၏။ ရွှေတစ်ကျပ်ထက် တင်လောက်မူ သိင်္ဂနိက်ရွှေ ငါးကျပ်ထိုက်၏။

**မင်းသခံကား**– သားစိမ်းတစ်ကဲ့သို့ရှိ၏။ ရွှေတစ်ကျပ်ထက်တင်လောက်မူ သိင်္ဂနိက်ရွှေ နှစ်ကျပ်ထိုက်၏။

**တေလီအဆင်းကား**= နီလည်းမနီလွန်း၊ ခပ်ညိုညိုရှိ၏။ ရွှေတစ်ကျပ်ထက် တင်လောက်မူ သိင်္ဂနိက်ရွှေ နှစ်ကျပ်ထိုက်၏။

**ရှိန်းကိုအဆင်းကား**– ယုန်သွေးပေါက်ကဲ့သို့ ခြင်းခြင်းပြောက်ပြောက် ထိန်ထိန် တောက်၏။ ရွှေတစ်ကျပ်ထက် တင်လောက်မူကား၊ အဖိုးသိင်္ဂနိက် ရွှေတစ်ရာတန်၏။

ဤပတ္တမြားခြောက်မျိုးကား ဆူးပန်းပွင့်, ခေါင်ရမ်းပွင့်နှင့်တူသော သိင်္ဂနိက် ရွှေရောင် ထွက်သည်ချည်းတည်း။

❖❖❖❖❖

## ၄၇၅။ နေတ္တိကျမ်းမြတ်၊ ခက်ကိလိဋ်၊ အဓိဋ္ဌာန ဟာရမည်သို့နည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား= သုတ်၌လာသောတရားတို့ကို သာမည ဝိသေသအားဖြင့် အထူးမကြံမူ၍ သုတ်၌လာသောအတိုင်း သာမည ဝိသေသကို ထုတ်ခြင်းလက္ခဏာရှိသော ဟာရသည် အဓိဋ္ဌာနဟာရမည်၏။

❖❖❖❖❖

## ၄၇၆။ ကြိတ်ကြိတ်လိတ်လိတ်၊ ယွင်းမဖိတ်၊ ပရိက္ခာဟာရမည်သို့နည်း။(၁၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သံဝဏ္ဏေတဗ္ဗ သုတ်၌လာသော တရားတို့ကို ဟေတု–အကြောင်း, ပစ္စယ–အကြောင်းအားဖြင့် ထုတ်ခြင်း လက္ခဏာ ရှိသော ဟာရသည် ပရိက္ခာဟာရမည်၏။ ထုတ်ဟန်ကို နေတ္တိ အဋ္ဌကထာတို့၌ ထင်ရှားရှိပြီ။

❖❖❖❖❖

## ၄၇၇။ ကိရိယာဆိတ်၊ ကတ္တားဟိတ်၊ ကျမ်းမြတ် ဘယ်တွင်ရှိသနည်း။(၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နယလက္ခဏာဝိဘာဝနီတွင် ကာကောလောကနနည်း၌ ''ရညော ပဟိတော ဒူတော'' ဟူ၍ရှိ၏။

ရှိဟန်ကား–

ယော ကာရေတိ သဟေတု။ ။ ယော ကာရကော၊ အကြင်ကာရကသည်။ ကတ္တာရံ၊ ကတ္တားတစ်ပါးကို။ ကာရေတိ၊ ပြုစေတတ်၏။ သော၊ ထိုပြုစေတတ်သော ကာရကသည်။ ဟေတု၊ ဟိတ်လည်းမည့်၏။ ကတ္တာ စ၊ ကတ္တားလည်းမည့်၏–ဟူ၍ ကစ္စည်းဆရာ ဆိုတော်မူသည်နှင့်အညီ ''သာမိကော ပုရိသံ သြဒနံ ပါစာပေတိ'' ဟူသော ပြယုဂ်၌ သာမိကောသည် ပုရိသံဟူသော ကတ္တားတစ်ပါးကို စေခိုင်းတတ်သောကြောင့် ဟေတုကတ္တားမည့်၏။ ပယောဇက ကတ္တားလည်းမည့်၏။ ပုရိသံကား စေခိုင်းအပ် သောကြောင့် ပယောဇက ကတ္တားမည့်၏။ ဤကတ္တား နှစ်ပါးသည် ပါစာပေတိ၌ ချက်ချင်းကိရိယာကိုပြီးစေ၏။ ဤဥဒါဟရုဏ်ကား ကိရိယာ မဆိတ်သော ကတ္တား ဟိတ်တည်း။

ရညော၊ မင်းသည်။ ပဟိတော၊ စေအပ်သော။ ဒူတော၊ တမန်တည်း ဟူ၍လည်းကောင်း။ ရညော၊ မင်းသည်။ ဒူတော၊ တမန်ကို။ ပဟိတော၊ စေအပ်၏ဟူ၍ လည်းကောင်း။ ယောဇနာအပ်သော ကာကောလောကန နည်း၌ ရညောသည် ဒူတောကို စေခိုင်းတတ်သောကြောင့် ဟေတု ကတ္တားမည့်၏။ ပယောဇက ကတ္တားလည်းမည့်၏။ ဤကတ္တားဟိတ်ကို ပဟိတောဟူသော ကိတ်ပုဒ်၌သာ စပ်ရသောကြောင့် အာချာတ် ကိရိယာ ဆိတ်၏။ ယင်းသို့ ကိရိယာဆိတ်သော ဟေတု ကတ္တားကို သတိရစိမ့်သောငှာ ပုစ္ဆာပြုလေသည်။

❖❖❖❖❖

## ၄၇၈။ မြီးတံခါးပိတ်၊ သွယ်မြိတ်မြိတ်၊အဟိတ်ဘယ်ဆင် ဆိုပိမ့်နည်း။(၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အမြီးတံခါးပိတ်သကဲ့သို့ ရှိသောဆင်သည် ''ကုလဘိန္ဒဆင်''မည့်၏။မစီးမနင်းကောင်းဟူ၍ ဆင်ကြန်၌ လာသည်။

❖❖❖❖❖

## ၄၇၉။ သန္ဓေအဟိတ်၊ စူဠလိပ်၊ သပိတ်မည့်၏ ဘယ်ဇာတ်နည်း။(၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဆီအဆင်းရှိသော သပိတ်နှင့် တူသော ကိုယ်ရောင်ရှိသောကြောင့် ''ပတ္တိက'' အမည်ရကြောင်းကို ဘူရိဒတ် ဇာတ်တော်၌ လာသည်။

ဤ၌လည်း ရှေးအဖြေစာ၌–လေ့ကြောင့်သောင်မြိတ်၊ သဒ္ဒါကိတ်လိတ်၊ ဆေးသုံးပါးကြိတ်၊ ဤသုံးပုဒ်မျှသာ တွေ့မိသည်၊ အဝသေသာ၊ နောက်ဖြေသာ။

''အိတ်''ကာရန်ပုစ္ဆာ ၁၉–ပုဒ် အဖြေပြီး၏။

❖❖❖❖❖

## (၁၅) ''အုတ်''ကာရန်ပုစ္ဆာ ၁၇-ပုဒ်အဖြေ

### ၄၈၀။ အာဒါသမုခ်၊ မိန့်တော်ထုတ်၊ နှုတ်ထွက်တရားဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဂေါဏော ပုတ္တော ဟယော စေဝ၊ နင်္ဂုကာရော ဂါမဘောဇကော။
ဂဏိကာရ တရုဏီ သပ္ပော၊ မိဂေါတိတ္တိရ ဒေဝတာ။
နာဂေါ တပသီနော စေဝ၊ အထော ဗြာဟ္မဏမာဏဝါတိ။

ဟူ၍ ဥဒ္ဒေသဂါထာလာသည်နှင့် အညီ-

ဂါမဏိစန္ဒအမတ် ငှားအပ်သော နွားတရား,
ကိုယ်ဝန်ဆောင်ဖွားသော သားတရား,
လက်ကျိုးသော မြင်းတရား,
ကျူထရံသည် သားအဖ တရား,
ရွာသူကြီး တရား,
ပြည့်တန်ဆာမ တရား,
အိမ်ထောင်ရစ မိန်းမငယ် တရား,
မြွေမေးသော တရား,
သမင်မေးသော တရား,
ခါမေးသော တရား,
ရုက္ခစိုးမေးသော တရား,
နဂါးမေးသောတရား,
ရသေ့မေးသော တရား,
အတတ်သင်ပုဏ္ဏားတို့ မေးသော တရား,

ဤတစ်ဆယ့်လေးပါးသော တရားတို့တည်းဟု ဖြေ။

❖❖❖❖❖

### ၄၈၁။ ပုလ္လိင်မယုတ်၊ ရွှေနှုတ်ထုတ်၊ ပိဂုံတ် ဘယ်ကြောင့်ပြေးသနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ရွှေနှုတ်ထွက်ဖြစ်သော မဟော်ဇာတ်၌ တက္ကသိုလ် ဆရာ့ထံတွင် အတတ်သင်လေသော ပိင်္ဂုတ္တရလုလင်သည် ပုလ္လိင်မယုတ်သော ယောကျ်ားစစ်ဖြစ်လျက် ဒိသာပါမောက္ခဆရာ ထိမ်းမြားလိုက်သော ဆရာ့သမီးကိုလျက် မစုံမက်ဘဲ ပစ်စွန့်၍ ဘယ့်ကြောင့်ပြေးသနည်း-ဟု မေးသည်။

သော ပန မာဏဝေါ ဒုဗ္ဘဂေါ ကာလကဏ္ဏီ။ ကုမာရိကာ ပန မဟာပုညာ။ တဿ တံ ဒိသွာဝ စိတ္တံ န အလ္လီယတိ။

ဟူ၍ မဟော်ဇာတ်၌ လာသည်။

52
B

**အနက်ကား။** ။ သောပနမာဏဝေါ၊ ထို ပိင်္ဂုတ္တရ လုလင်သည်ကား။ ဒုဗ္ဘဂေါ၊ ရှေးကပြုသည့် ကောင်းမှုချည်းစည်း ဘုန်းတန်းနည်းသော။ ကာလကဏ္ဏီ၊ သူယုတ် သူညံ့တည်း။ ကုမာရိကာပန၊ သတိုးသမီးသည်ကား။ မဟာပုညာ၊ ကြီးသောဘုန်းရှိ၏။ တသ္မာ၊ ထို့ကြောင့်။ တဿ၊ ပိင်္ဂုတ္တရလုလင်အား။ တံ၊ ထိုသတို့သမီးကို။ ဒိသွာဝ၊ မြင်ရ၍လည်း။ ဝါ၊ မြင်ကတည်းကလျှင်။ စိတ္တံ၊ စိတ်သည်။ နအလ္လီယတိ၊ မကပ်ငြိ။

ဝိဒေဟရာဇ်မင်းကြီးက ဥဒုမ္ဗရဒေဝီ လျှောက်ဆိုသောစကားကို မယုံ၍ အလောင်းတော် မဟော်သုခမိန်ကို မေးရာတွင် သုခမိန်က–

**သဒ္ဒဟာမိ မဟာရာဇ ပုရိသော ဒုဗ္ဘဂေါ သိယာ။**
**သိရီ စ ကာလကဏ္ဏီ စ၊ န သမေတိ ကုဒါစနံ။**

ဟူသောဂါထာဖြင့် လျှောက်၏။

မဟာရာဇ မင်းမြတ်။ ဒေဝိယာ၊ မိဖုရား၏။ ဝစနံ၊ စကားကို။ သဒ္ဒဟာမိ၊ အကျွန်ုပ်ယုံပါ၏။ ပုရိသော၊ ယောကျ်ားသည်။ ဒုဗ္ဘဂေါ၊ ဘုန်းကံနည်းပါးသည်။ သိယာ၊ ဖြစ်ရာ၏။ စ၊ လောကဓမ္မတာ ဖြစ်တတ်စွာသောသဘောကို လျှောက်ဆိုဦးအံ့။ သိရီစ၊ ဘုန်းကျက်သရေရှိသော သူသည်လည်းကောင်း။ ကာလကဏ္ဏီစ၊ ဆင်းရဲထိုက်သော သူယုတ်သူမွဲသည်လည်းကောင်း။ ဧတေ၊ ဤသူနှစ်ဦးတို့သည်။ ကုဒါစနံ၊ တစ်ရံ တစ်ဆစ်မျှ။ နသမေတိ၊ မညီကြတတ်။ ဣတိအာဟ၊ ဤသို့ သံတော်ဦးတင်၏။

❖❖❖❖❖

## ၄၈၂။ အလင်္ကာထုတ်၊ ယတိပြုတ်၊ စ–ပုဒ်ဘယ်တွင်ထားမည်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**စာဒီ ပုဗ္ဗပဒန္တာဝ၊ နိစ္စံ ပုဗ္ဗပဒဿိတာ။**
**ပါဒယော နိစ္စသမ္ဗန္ဓာ၊ ပရာဒီဝ ပရေန တု။**

နိစ္စံ၊ အမြဲ။ ပုဗ္ဗပဒဿိတာ၊ ရှေးပုဒ်ကိုသာ မှီကုန်သော။ စာဒီ၊ စ–အစရှိသော နိပါတ်ပုဒ်တို့သည်။ ပုဗ္ဗပဒန္တာဝ၊ ရှေ့ပုဒ်၏ အစိတ်ကဲ့သို့။ ဝါ၊ ရှေ့ပုဒ်၏ အဆုံးကဲ့သို့။ ဟောန္တိ၊ ကုန်၏။ တု၊ ထိုမှို့။ ပရေန၊ နောက်ပုဒ်နှင့်။ နိစ္စသမ္ဗန္ဓာ၊ အမြဲစပ်အပ်ကုန်သော။ ပါဒယော၊ ပ–အစရှိသော ဥပသာရပုဒ်တို့သည်။ ပရာဒီဝ၊ နောက်ပုဒ်၏ အစကဲ့သို့။ ဝါ၊ နောက်ပုဒ်၏ အစိတ်ကဲ့သို့။ ဟောန္တိ၊ ကုန်၏။

**အဓိပ္ပါယ်ကား။** ။ စ–အစရှိသော နိပါတ်ပုဒ်တို့သည် ရှေ့ပုဒ်၏အဆုံး၌သာ တည်မြဲဖြစ်၏။ ပ–အစရှိသော ဥပသာရပုဒ်တို့သည် နောက်ပုဒ်၏အစ၌သာ တည်မြဲဖြစ်၏။ ထို့ကြောင့် ရှေ့ပုဒ်၌ စ–အစရှိသည်နှင့် ယှဉ်ခဲ့သော် ထို စ–အက္ခရာ၏

နောက်၌သာ ယတိဖြတ်ရာ၏။ နောက်ပုဒ်၌ ပ–အစရှိသည်ကို ယှဉ်ခဲ့သော် ထို ပ–အက္ခရာတို့၏ ရှေ့၌သာ ယတိဖြတ်ရာ၏။ ယင်းသို့ မဖြတ်မူ၍ စ–၏ ရှေ့၌ ဖြတ်ခဲ့သော်လည်းကောင်း, ပ၏နောက်၌ ဖြတ်ခဲ့သော်လည်းကောင်း, ယတိဟီန ဒေါသဖြစ်၏ ဟူလိုသည်။

ဥဒါဟရဏ်ကား

**မုနိန္ဒံ တံ သဒါ ဝန္ဒာ၊ မျနန္တမတိ မုတ္တမံ။**
**ယဿ ပညာစ မေတ္တာစ၊ နိဿီမာတိ၊ ဝိဇမ္ဘတိ။**

ယဿ၊ အကြင် မြတ်စွာဘုရား၏။ ပညာစ၊ ပညာတော်သည်လည်းကောင်း။ မေတ္တာ စ၊ မေတ္တာတော်သည်လည်းကောင်း။ နိဿီမာ၊ အနန္တဖြစ်သော ဥ ယျာဓံတရား, အနန္တဖြစ်သော သတ္တဝါကို အာရုံပြုသောကြောင့် အပိုင်းအခြား မရှိသည်ဖြစ်၍ အတိဝိဇမ္ဘတိ၊ အလွန်တင့်တယ်၏။ အနန္တမတိမာ၊ အဆုံးမဲ့သော ပညာရှိထသော။ ဥတ္တမံ၊ မြတ်သော။ တံ မုနိန္ဒံ၊ ကို။ သဒါ၊ အခါခပ်သိမ်း။ ဝန္ဒာမိ၊ ၏။

ပယ်အပ်သော ဥဒါဟရဏ်ကား

**မဟာမေတ္တာ မဟာပညာ၊ စ ယတ္ထ ပရမောဒယာ။**
**ပဏာမာမိ ဇိနံ တံ ပ–ဝရံ ဝရဂုဏာလယန္တိ။**

ယတ္ထ–ယသ္မိံ ဇိနေ၊ အကြင်ဘုရား၌။ မဟာမေတ္တာ စ၊ မြတ်သောမေတ္တာသည် လည်းကောင်း။ မဟာပညာစ၊ မြတ်သော ပညာသည်လည်းကောင်း။ ပရမောဒယာ၊ အလွန် ပွားကုန်သည်။ ဟောန္တိ၊ ကုန်၏။ ဝရဂုဏာလယံ၊ မြတ်သော ကျေးဇူးတော်၏ တည်ရာ ဖြစ်ထသော။ ပဝရံ၊ သော။ တံ ဇိနံ၊ ကို။ ပဏာမာမိ၊ ရှိခိုးပါ၏။ ဤဂါထာတို့ဖြင့် သိရာ၏ဟူပေ။

❖❖❖❖❖

## ၄၈၃။ နိပ္ဖန္နပုဒ်၊ အဓိပ္ပာယ်ထုတ်၊ မယုတ်ငါးမည် အဘယ်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဝိသာဏီ ဟူသော နိပ္ဖန္နပုဒ်လုံး၏ အနက်သည် သကတ်, ဒြပ်, လိင်, သချ်ာ, ကာရက အားဖြင့် ငါးပါးအပြားရှိ၏။

ထိုတွင် ဦးချိုဒြပ်သည် မိမိဟောရင်းအနက်ဖြစ်၍ သကတ်မည်၏။ ။နွား ဒြပ်သည် ဒြပ်မည်၏။ ။ သန့်ရှင်းသော အခြင်းအရာဟု ဆိုအပ်သော ဝိသဒါ ကာရသည် ပုလ္လိင်မည်၏။ ။ ဒြပ်ကိုမှီသော တစ်ခုတည်းသော အခြင်းအရာဟု ဆိုအပ်သော အာကာရ ပညတ်သည် ကေဝုစ်သချ်ာမည်၏။ သွားခြင်းကြိယာကို ပြီးစေတတ်သော နွားဒြပ်၏ ကြိယာနိပ္ဖါဒနသတ္တိသည် ကတ္တုကာရက မည်၏။

ဤသို့စသည်ဖြင့် ဂုဏသဒ္ဒါ, ဒဗ္ဗသဒ္ဒါ, ကြိယာသဒ္ဒါ, ဇာတိသဒ္ဒါ, နာမသဒ္ဒါတို့၌ ငါးပါးစီထုတ်ရာသည်။ ဤသဒ္ဒါငါးမျိုး၌ ကာရကခြောက်ပါးစီ

ရကောင်းသောကြောင့် ကာရကပေါင်းသုံးဆယ်ပြားဟန်ကိုလည်း သမ္ဗန္ဓစိန္တာဋီကာတို့၌ မိန့်လေပြီ။

❖❖❖❖❖

၄၈၄။ နဝရတ်သမုတ်၊ ကျမ်းကထုတ်၊ ဂေါမုတ်ဘယ်ကျောက်မျိုးတို့နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဂေါမုတ္တဟု၊ နာမထင်ရှား နှစ်ပါးနွယ်လာ၊ ကျောက်မျိုးမှာကား၊ ဦးစွာပထမ၊ အစပြုရာ၊ အဆင်းမှာမူ၊ ကောင်းစွာ နနွင်း၊ သားသို့ဝင်း၏၊ မယွင်းမချွတ်၊ ရွှေတစ်ကျပ်ထက်၊ သပ်ယပ်ရှုသာ၊ တင်လောက်ပါမူ၊ မဟာသင်္ဂီ၊ ရွှေနီကောင်းမြိုက်၊ သုံးကျပ်ထိုက်၏၊ စဉ်လိုက်ဂေါမုတ်၊ ဖော်ထုတ်ခေါ်ကြ၊ ဆင်းရူပကား၊ ပျပျဝါသွယ်၊ နွားကျင်ငယ်သို့၊ ကျင်ဝယ်ရွှေကောင်း၊ တင်လောက်ရှောင်းမူ၊ ပေါင်းခုနစ်ကျပ်၊ ကြီးမြတ်အမှန်၊ ရွှေစင်တန်သည်၊ ကေန်လွှန်သန့်ရှင်းလှည့်သော။

ဟူ၍ မဏိသျှုတ္တရကျမ်း၌လာရကား ဂေါမုတ်သည် အခြားကျောက်မျိုးသို့မဝင်၊ အသီးသော ကျောက်မျိုးပင် ဟူပေ။

❖❖❖❖❖

၄၈၅။ ဗုဇ္ဈတိပုဒ်၊ ဗုဒ္ဓေါထုတ်၊ မိန့်နှုတ်ဘယ်အဖွင့်ပေနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဓာတုဝိဂ္ဂဟ, ဓာတွတ္ထဝိဂ္ဂဟအားဖြင့် နှစ်ပါးတို့တွင် မိမိဓာတ်ရင်းဖြင့် ဝစနတ်ပြုသောကြောင့်ဓာတုဝိဂ္ဂဟမည်၏။

❖❖❖❖❖

၄၈၆။ဇာနတိပုဒ်၊ ဗုဒ္ဓေါထုတ်၊ ရွှေနှုတ် ဘယ်သံဝဏ္ဏနာနည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗုဓ–ဓာတ်၏အနက်ဖြင့် ဝစနတ္ထပြုသောကြောင့် ဓာတွတ္ထဝိဂ္ဂဟမည်၏။

❖❖❖❖❖

၄၈၇။ နေတ္တိကျမ်းဟုတ်၊ သဘောထုတ်၊တိပုက္ခလနည်း ဘယ်သို့နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**လောဘာဒီဟိ သံကိလေသော၊ ဝေါဒါနေ ဣတရာဒီဟိ။**
**တိပု ဝိယ ခလတီတိ၊ တိပုက္ခလောဝ သော မတော။**

ဟူသော ဂါထာနှင့်အညီ၊ သံကိလေသပက္ခ၌လောဘအစရှိသည်တို့ဖြင့် ဝေါဒါနပက္ခ၌ အလောဘ, အဒေါသဟူသော ကုသိုလ်တရားတို့ဖြင့် ခဲမသည်။

တစ်ပါးသောစာတ်တို့ကို ညီညွတ်အောင် ချော်သကဲ့သို့ ချော်တတ်သောနည်းကို တိပုက္ခလနည်း ဟူ၍ သိအပ်၏ဟူလို။

လောဘကိုယူလျှင်–လောဘနှင့်အတူ ဖြစ်တတ်သော တရားအပေါင်းကိုလည်း ရသည်။ ဒေါသကိုယူလျှင်–ဒေါသနှင့်အတူ ဖြစ်ဖက်ဖြစ်သော တရားအပေါင်းကိုလည်း ရသည်။ မောဟကိုယူလျှင်–အကုသိုလ်တရားအားလုံးကို ရသည်။ အလောဘ, အဒေါသ အမောဟကိုယူလျှင် သောဘဏ စိတ်, စေတသိက်တို့ကို အကုန်ရသည်။

ဤသို့ ရောနှောပေါင်းစပ်ခြင်းသည် ခဲမ ချော်သကဲ့သို့ ဖြစ်၏ဟူလိုသည်။

❖❖❖❖❖

## ၄၈၈။ သဘောမဟုတ်၊ နေတ္တိထုတ်၊ ယုတ္တိဟာရ မည်သို့နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ခပ်သိမ်းသော သံဝဏ္ဏေတဗ္ဗဓမ္မ တို့၏ သဒ္ဒါအားဖြင့်လည်းကောင်း, အနက်အားဖြင့်လည်းကောင်း, သင့်သည်၊ မသင့်သည်ကို စိစစ်ခြင်း လက္ခဏာရှိသော ဟာရသည် ယုတ္တိဟာရမည်၏ အကျယ်ကို လိုမူ နေတ္တိ အဋ္ဌကထာ၌ ယူ။

❖❖❖❖❖

## ၄၈၉။ သံလွန်မမြုတ်၊ လည်ကိုနှုတ်၊ အဟုတ် ဘယ်မကောင်းကျိုးနည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပုစ္ဆာ အာဘော်ကို မကြံမိ။

❖❖❖❖❖

## ၄၉၀။ ဝိတက္ကပုဒ်၊ မပဟောနုတ်၊ တိက်မုတ်တရား ဘယ်မျှနည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပထမပုဒ်၏ အရနှင့် သမ္ပယုတ် ဖြစ်သော ဝိစာရစေသိက် ငါးဆယ့်ငါးခုသည် တိက်မုတ် အကြွင်းတည်း။

❖❖❖❖❖

## ၄၉၁။ ဥပဓိဟုတ်၊ လေးပါးထုတ်၊ ဘယ်ပုဒ်ဆိုတို့ ပါအံ့နည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''နိရုပဓိ၊ ဥပဓိလေးရပ် မကပ်သောနိဗ္ဗာန်။ ဥပဓဝိဝေကော၊ ဥပဓိလေးပါးမှ ဆိတ်သော နိဗ္ဗာန်''ဤပုဒ်ကို ဆိုမည်ဟူပေ။

**အကျယ်ဆိုဦးအံ့။** ။ဥပဓိသည် ကာမုပဓိ,ခန္ဓုပဓိ, ကိလေသုပဓိ, အဘိသင်္ခါရုပဓိ ဟူ၍ လေးပါးရှိ၏။ ထိုတွင် ကာမဂုဏ်ငါးပါးတို့သည် စိတ္တသုခ၏ ဖြစ်ရာ ဖြစ်သောကြောင့် ''ဥပဓီယတိ ဧတ္ထ သုခန္တိ ဥပဓိ''ဟူသော ဝစနတ္ထကြောင့်

ဥပမိမည်သည်။ ခန္ဓာငါးပါးတို့သည် ဒုက္ခတို့၏ ဖြစ်ရာဖြစ်သောကြောင့် ခန္ဓုပမိမည်သည်။ ကိလေသာတို့သည် အပါယဒုက္ခ၏ တည်ရာဖြစ်သောကြောင့် ကိလေသုပမိမည်သည်။ ကုသိုလ် အကုသိုလ် စေတနာသည် ဘဝဒုက္ခ၏ တည်ရာဖြစ်သောကြောင့် အဘိသင်္ခါ ရုပမိမည်သည်။ နိဗ္ဗာန်ကား ထိုမှဆိတ်သောကြောင့် ဥပမိဝိဝေကမည်သည်။

❖❖❖❖❖

## ၄၉၂။ သဟေတုဒုက်၊ ဆင့္ဒုပုဒ်၊ သမ္ပယုတ်တရား ဘယ်မျှနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**နဟေတု ခေါ ပန ဓမ္မာ သဟေတုကာပိ။ အဟေတုကာပိ။**

န ဟေတု ခေါ ပန၊ ဟိတ်ကားမမည်ကုန်။ သဟေတုကာပိ၊ သမ္ပယုတ်ဟိတ်သာရှိကုန်သော။ ဓမ္မာ၊ တို့သည်။ သံဝိဇ္ဇန္တိ၊ ရှိကုန်၏။

န ဟေတု ခေါပန၊ ဟိတ်လည်းမမည်ကုန်။ အဟေတုကာပိ၊ သမ္ပယုတ်ဟိတ်လည်းမရှိကုန်သော။ ဓမ္မာ၊ တို့သည်။ သံဝိဇ္ဇန္တိ၊ ကုန်၏။

ပထမပုဒ်အရကား– သဟိတ်စိတ် ကေသတ္တတိ၊ ဟိတ်ခြောက်ပါး ကြဉ်သော စေတသိက် ဆစတ္တာလီသရ၏။ ခန္ဓာလေးပါး, အာယတနနှစ်ပါး, ဓာတ်နှစ်ပါး, သစ္စာနှစ်ပါး။

ဒုတိယပုဒ် အရကား– အဟိတ်စိတ် အဋ္ဌာရသ။ ဆန္ဒကြဉ်သော အညသမာန်း စေတသိက် ဒွါဒသ။ ရုပ်, အဋ္ဌဝီသ၊ နိဗ္ဗာန်ရ၏။ ခန္ဓာငါးပါး။ အာယတနတစ်ဆယ့်နှစ်ပါး။ ဓာတ် တစ်ဆယ့်ရှစ်ပါး။ သစ္စာနှစ်ပါးဖြစ်၏။ ထိုနှစ်ပါးတွင် ပထမပုဒ်အရသာလျှင် ပုစ္ဆာ၏ အဖြေဖြစ်၏။

❖❖❖❖❖

## ၄၉၃။ မဟန္တရဒုက်၊ ဆင့္ဒုပုဒ်၊ ဝိပ္ပယုတ်ပေါင်း ဘယ်မျှနည်း။(၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**စိတ္တသမုဋ္ဌာနာ ဓမ္မာ။ နော စိတ္တသမုဋ္ဌာနာ ဓမ္မာ။**

စိတ္တသမုဋ္ဌာနာ၊ စိတ်လျှင် ဖြစ်ကြောင်းရှိကုန်သော။ ဓမ္မာ၊တို့သည်။ သံဝိဇ္ဇန္တိ၊ ကုန်၏။ နောစိတ္တသမုဋ္ဌာနာ၊ စိတ်လျှင်ဖြစ်ကြောင်းမရှိကုန်သော။ ဓမ္မာ၊တို့သည်။ သံဝိဇ္ဇန္တိ၊ ကုန်၏။

ပထမ။ ပ။ ကား– စေတသိက် ဒွေပညာသ။ စိတ္တဇရုပ် သတ္တရသ။ ခန္ဓာလေးပါး။ အာယတန ခြောက်ပါး။ ဓာတ်ခြောက်ပါး။ သစ္စာလေးပါးတည်း။

ဒုတိယာ။ ပ။ ကား–စိတ်တစ်ခုယုတ် ကိုးဆယ်။ ကမ္မဇရုပ်ဝီသာ။ ဥတုဇရုပ် ပန္နရသာ။ အာဟာရဇရုပ် စုဒ္ဒသာ။ နိဗ္ဗာန်ရ၏။ ခန္ဓာနှစ်ပါး။ အာယတနနှစ်ပါး။ ဓာတ် တစ်ဆယ့်ရှစ်ပါး။ သစ္စာနှစ်ပါးတည်း။

ဤအရကောက်ကိုသိလျှင် ဓာတုကထာနည်းအားဖြင့် သမ္ပယုတ်ကို လည်းကောင်း, ဝိပ္ပယုတ်ကိုလည်းကောင်း ထုတ်၍ ပါဠိဆိုနိုင်လောက်ပြီ။ ၎င်းပါဠိကို ရေးလျှင် ကျယ်ပြန့်တော့မည်ဖြစ်၍ မရေးလိုက်ပြီ။

❖❖❖❖❖

## ၄၉၄။ မပြုမပြုတ်၊ နိမိတ်နှုတ်၊ ဖော်ထုတ်ဘယ်နည်း၊ ဆိုပိမ့်နည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကိုယ်တိုင်မပြုဘဲ သူတစ်ပါးကို ပြုစိမ့်သောငှာ ဆိုအပ်သော ပရိယာယ် နည်း, အမွှက် အရိပ်အရောင်ဟု ဆိုအပ်သော သြဘာသနည်း,

နိမိတ်ပြအပ်သော နိမိတ္တကမ္မနည်း တို့တည်းဟု ဖြေ။

ဤနည်းတို့သည် အဘယ်အရာ၌ ဖြစ်သနည်းဟူမူကား– ရဟန်းတို့ သစ်ပင် စိုက်သောအရာ ဝါဆိုကျောင်း လိုသောအရာ စသည်တို့၌ ဖြစ်၏။ ဖြစ်ဟန်ကို ဝေဖန်၍ ပြလိုက်ဦးအံ့။

**''တတ္ထ ပန အကပ္ပိယဝေါဟာရော, ကပ္ပိယဝေါဟာရော, ပရိယာယော, သြဘာသော, နိမိတ္တကမ္မန္တိ ဣမာနိပဉ္စ ဇာနိတဗ္ဗာနိ''**

အစရှိသည်ဖြင့် လာသော ပါရာဇိကဏ် အဋ္ဌကထာပါဠိနှင့်အညီ–

မဆိုအပ်သောစကားတည်းဟူသော အကပ္ပိယဝေါဟာရ,
ဆိုအပ်သော စကားတည်းဟူသော ကပ္ပိယဝေါဟာရ,
ပရိယာယ်ပြုခြင်းတည်းဟူသော ပရိယာယ,
အမွှက်အရိပ် ဆိုခြင်းတည်းဟူသော သြဘာသ,
နိတ်ပြုခြင်း တည်းဟူသော နိမိတ္တကမ္မအားဖြင့် ငါးပါးတို့တွင်–

အကြင်ရဟန်းသည် လူ, သာမဏေတို့အား ''ဤ သစ်ပင်ကို ခုတ်လော့၊ ဖြတ်လော့၊ ဤနေရာ၌ တွင်းတူးလော့၊ ဤပန်းပင်ကို စိုက်လော့''စသည်ဖြင့် ပြောဆို စေခိုင်းခြင်း, မိမိကိုယ်တိုင် ပြုခြင်းသည် အကပ္ပိယ ဝေါဟာရ မည်၏။

''ဤသစ်ပင်ကို ရှင်အောင်ပြုလော့။ လျော်စွာသိလော့။ ဤတွင်းကို သင်ဖြစ် စေလော့။ ဖြစ်အောင်သိလော့''စသည်ဖြင့် ပြောဆိုစေခိုင်းခြင်းသည် ကပ္ပိယ ဝေါဟာရ မည်၏။

ပညာရှိသောသူသည် ဤနေရာ၌ ပန်းပင်စိုက်မူ၊ ဤသစ်ပင်ကို စိုက်မူ မကြာမီ ကျေးဇူးခံရလတ္တံ့။ ဤသို့ စသည်ဖြင့် ဆိုခြင်းသည် ပရိယာယ်စကားမည်၏။

အကြင်ရဟန်းသည် သစ်ပင်စိုက်လိုသော ဌာန၌ ပေါက်တူး, တူရွင်း စသည်ကို လည်းကောင်း, ပန်းပင်ငယ်ကိုလည်းကောင်းဆောင်ယူ၍ထား၏။ ထိုအမြွက်ကို လူသာမဏေတို့မြင်လျှင် ဤသစ်ပင်ကို ဤနေရာတွင် စိုက်စေလိုသတည်းဟု သိ၍ စိုက်လာ၏။ ဤသို့ အရောင်ပြခြင်းသည် ဩဘာသမည်၏။

ပေါက်တူး, တူးရွင်း စသည်ကိုလည်းကောင်း, မျိုးစေ့ သစ်ပင်ကိုလည်းကောင်း ဆောင်ယူ၍ လူ, သာမဏေတို့အား အပ်ခြင်း, အနီး၌ ထားခြင်း, လျော်သောနေရာကို ပြခြင်းတို့သည် နိမိတ္တကမ္မမည်၏။

ဤငါးပါးတို့တွင် ဖလပတ္တ ပရိဘောဂ အလို့ငှာမူကား- အကပ္ပိယ ဝေါဟာရ, ကပ္ပိယဝေါဟာရနှစ်ပါးသည် မအပ်။ အကြွင်း သုံးပါးကား အပ်၏။

ဆာယတ္တ, ဝနတ္တ, အာရာမတ္တအလို့ငှာမူကား-အကပ္ပိယ ဝေါဟာရ တစ်ပါးသာ မအပ်။ အကြွင်းလေးပါးဖြင့် ပြုအပ်၏ ဟူ၍မိန့်တော်မူသည်။

❖❖❖❖❖

## ၄၉၅။ ဝိသေသျပုဒ်၊ ဝိဂြိုဟ်ထုတ်၊ မယုတ် ဘယ်ပဌာနနည်း။(၁၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဝိသေသျပုဒ်၊ ဝိဂြိုဟ်လုပ်သော်၊ ဂုဏ်ပုဒ်အနေ၊ ဝိသေသန၊ များပဒတွင်၊
စိတ်ကလိုမူ၊ တစ်ခုခု၊ စွဲပြုထည့်မြဲပေ။

ဝိသေသနကို၊ ဝိဂြိုဟ်ဆိုသော်၊ ထိုဝိသေသျ၊ ပဌာန ထည့်ကြ မြဲပုံသေ။

❖❖❖❖❖

## ၄၉၆။ ဥုံဖွမန်းမှုတ်၊ မန္တန်စုတ်၊ ဓီတုတ်ဂါထာ ဘယ်မျှနည်း။(၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''ဥုံ ဓိဠမာတာ ပုဒ္ဓေါ ဆာယာစရိမိ''ဟူ၍ လည်းကောင်း,

ဥုံ မီးမီး။ မဟာမီးမီး။ အိနဝံကာ အီ မီးမီးမီး''ဟူ၍ လည်းကောင်း,

ရှေးစာဟောင်းများတွင် ရေးထားသည့် ဂါထာမန္တန်နှစ်မျိုး တွေ့ဖူး၏။ ၎င်း ဂါထာ မှန် မမှန်ကို သိလိုမူ ပုစွန်တွင်းကို ကြည့်၍မန်း၊ သုံးဆယ့်ခုနစ်အုပ်စေ့လျှင် ပုစွန်ထွက်ရ၏။ ရေကိုမန်း၍ ထိပ်ချင်ကိုလောင်း ထိပ်ကျွတ်၏''ဟူ၍ အမှာရှိသည်။

ရှေးအဖြေစာ၌ ပုလ္လိင်မယုတ်၊ အလင်္ကာထုတ်၊ ဤနှစ်ပုဒ်သာ အဖြေပါသည်။

''အုတ်''ကာရန်ပုစ္ဆာ ၁၇-ပုဒ်အဖြေ ပြီး၏။

❖❖❖❖❖

53
A

## (၁၇) ''အပ်''ကာရန်ပုစ္ဆာ ၂၁-ပုဒ် အဖြေ

၄၉၇။ နတ်သာဖူးအပ်၊ လူမစပ်၊ ရောင်လျှပ်ဘုရား ဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တာဝတိံသာနတ်ပြည်၌ စူဠာမဏိစေတီတော် တစ်ဆူ,

အကနိဋ္ဌဗြဟ္မာ့ဘုံ၌ ဒုဿစေတီတော် တစ်ဆူ,

ဇမ္ဗူဒိပ်ကျွန်း မဇ္ဈာဂိရိ တောင်ထိပ်၌ မဟောသရနတ်တို့ ကိုးကွယ်သော ရုပ်ပွားတော် တစ်ဆူ,

ဤသုံးဆူသော စေတီကိုကား နတ်တို့သာ ဖူးရ၏။ လူ မဖူးရချေ။

တာဝတိံသာ၌ စူဠာမဏိစေတီသည် အဘယ်အခါက ဖြစ်သနည်း ဟူမူကား-

**ဗောဓိသတ္တော သဟ မောဠိယာ စူဠံ ဂဟေတွာ''သစာဟံ သမ္ဗုဒ္ဓေါ ဘဝိဿာမိ၊ အာကာသေ တိဋ္ဌတု။ နောစေ ဘူမိယံ ပတတူ''တိ အန္တလိက္ခေ ခိပိ။ သာ စူဠာယောဇနပ္ပမာဏံ ဌာနံ အဗ္ဘုဂ္ဂန္တွာ အာကာသေ အဋ္ဌာသိ။ သက္ကော ဒေဝရာဇာ ဒိဗ္ဗစက္ခုနာ ဩလောကေတွာ ယောဇနိယရတနစင်္ကောဋကေန သမ္ပဋိစ္ဆိတွာ တာဝတိံသာဘဝနေ စူဠာမဏိစေတိယံ နာမ ပတိဋ္ဌာပေသိ။**

ဟူ၍ အပဒါန်အဋ္ဌကထာ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ သိဒ္ဓတ်မင်းသား ဘုရားအလောင်းတော်သည် အနော်မာ မြစ်ကမ်း ခုံစထက် ထက်ဝယ် ထိုင်တော်မူ၍ ဦးခေါင်းထက် ဆံစည်းကို စွဲသော သန်လျက်ဖြင့် ဖြတ်လှီးပြီးလျှင် မကိုဋ်နှင့် တကွသော ဆံစည်းကိုကိုင်၍ ''ငါသည် စင်စစ်မချွတ် ဘုရားဖြစ်လတ္တံ့. မှန်မူကား ဤဆံစည်းသည် ကောင်းကင်ပြင်၌ တည်စေသတည်း။ မဖြစ်မူကား မြေသို့ကျစေသတည်း''ဟု ဓိဋ္ဌာန်၍ကောင်းကင်ယံသို့ ပစ်လိုက်၏။ ထိုဆံစည်းသည် တစ်ယူဇနာမျှ လောက်သော အရပ်သို့ တက်လေ၍ ကောင်းကင်၌ ပန်းဆိုင်း ဆွဲသကဲ့သို့ တည်၏။ သိကြားမင်းသည် နတ်မျက်စိဖြင့်ကြည့်၍ တစ်ယူဇနာ မျှလောက်သော ရတနာ ပန်းတောင်းဖြင့် ခံယူ၍ တာဝတိံသာနတ်ပြည်၌ စူဠာမဏိ စေတီကိုတည်၍ ကိုးကွယ်၏ဟူ၏ ဟူလိုသည်။ ပမာဏကို မည်မျှဟူ၍ မဆို။

ထူပဝင်၌ကား-

**''ပဋိဂ္ဂဟေတွာ စ ပန ဒေဝလောကံ နေတွာ သိနေရုမုဒ္ဓနိ တိယောဇနပ္ပမာဏံ။ ဣန္ဒနီလမဏိမယံ စူဠာမဏိစေတိယံ နာမ အကာသိ''**

ဟူ၍ ခံပြီးသော ဆံတော်ကို နတ်ပြည်သို့ဆောင်၍ မြင်းမိုရ်တောင်ထိပ်၌ သုံးယူဇနာပမာဏရှိသော ဣန္ဒနီလာ မြသိုဖြင့် ပြီးသော စူဠာမဏိစေတီကို တည်၏ ဟူ၍ ဆိုသည်။

53
B

ထို့ကြောင့် ပျို့ဆရာတို့သည်–

မြစ်ကမ်းသောင်ဝယ်၊ ဆံတော်ပယ်၍၊ မိုးလယ်ရပ်ခွင်၊ မြှောက်လိုက်တင်က၊ ကောင်းကင်ရစ်ဝဲ၊ ပန်းဆိုင်းဆွဲသို့၊ နတ်ပွဲညီညာ၊ ဌာပနာသည်။ ။ စူဠာမဏိ ပုထိုးတည်း။ ဟူ၍ စပ်သည်။

ဖြုဟ္မာ့ပြည်၌ စေတီ ဘယ်အခါဖြစ်သနည်းဟူမူ–

''ဃဋိကာရော မဟာပုရိသေန ဃဋ္ဋိတသာဋကံ ဂဟေတွာ ဗြဟ္မလောကေ ဒွါဒသယောဇနိကံ ဒုဿထူပံ အကာသိ''

ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကထာ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ ဃဋိကာရဗြဟ္မာသည် မိမိကပ်လာသော ကြာသက်နိုးဖြင့် ဘုရားလောင်းရဟန်းပြုလေသော် လဲချွတ်တော်မူသော ကိုယ်ဝတ်ပုဆိုးတော်ကို ယူဆောင်၍ မိမိ၏နေရာဖြစ်သော အကနိဋ္ဌဘုံ၌ တစ်ဆယ့်နှစ်ယူဇနာရှိသော ဒုဿ စေတီကို တည်၍ ကိုးကွယ်လေသည်။

မဏ္ဍာဂိရိ တောင်ထိပ်၌ကား– မဟေသရမည်သော ဘုမ္မစိုးနတ်မင်းကြီးသည် ဘုရားသခင် ဟိမဝန္တာသို့ ကြွသောအခါတွင် ရောက်လာ၍ ဘုရားနှင့် ကိုယ်ဝှက်တမ်း ကစားသဖြင့် မိမိရှုံးလေရကား ဘုရားကိုယ်တော်မြတ်ကို ဆည်းကပ်ကိုးကွယ်ခြင်းငှာ ခွင့်တောင်း၍ အခွင့်မရသော် ''ကိုယ်တော်စား ကိုးကွယ်ပါရစေ''ဟု တောင်းပန်သဖြင့် ရုပ်သွင်တော်နှင့်တူစွာ ရတနာဆင်းတုပြု၍ ကိုးကွယ်ရလေသည်။ ဤအကြောင်းကို လောကပညတ္တိကျမ်းတို့၌ လာသည်။

ထို့ကြောင့် သာမုဒြိကကျမ်း၌–

ကျော်ပျံ့ပုန်ထိပ်၊ ကျွန်းလုံးညိတ်မျှ၊ ပရမိသွာ၊ နတ်ဒေဝါမူ၊ မဏ္ဍာဂိရိ၊ မဏိရောင်စွတ်၊ တောင်ထွတ်တောင်ဖျား၊ ဘုရားရုပ်ဇာတ်၊ မွေ့မြတ်ဆူဆူ၊ ညွတ်ကြည်ဖြူ၍၊ အိမ်သူဇနီး၊ သမီးမကွာ၊ သားငါးရာနှင့်၊ သောတာပတ္တိ၊ မဂ်ဉာဏ်ရှိသား၊ သမာဓိမျို့၊ နှစ်လို့နှစ်လှိုင်း၊ ဂိုဏ်းနှင့်တကွ၊ ပဥ္စတမွဲ၊ ဒေဝံဒေဝေါ်၊ ဘွဲ့ဘော်ဟောထုတ်၊ သဘောဟုတ်သား၊ ဝိသုဒ္ဓိထွတ်၊ နတ်ထက်နတ်ကို၊ ဆယ်မြတ်လက်မိုး၊ တင်ရွက်ကျိုးသည်၊ ရှိခိုးသုံးကြိမ်နှူးညွတ်တည်း။ ဟူ၍ စပ်ဆိုသည်။

❖❖❖❖❖

## ၄၉၈။တစ်ဆယ့်ခြောက်ထပ်၊အိပ်မက်ရပ်၊သည့်ကပ် စ–ဆုံးဘယ်ခါနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကောသလမင်းကြီး၏ အိပ်မက် တစ်ဆယ့်ခြောက်ချက်သည် ဘယ်အခါမှစ၍ ဖြစ်လတ္တံ့ နည်းဟုမေးရာ၌။ ဤအိပ်မက်၏ သရုပ်အကျယ်ကို ကေနိပါတ် ဇာတ်ကျမ်း အဋ္ဌကထာတွင်လာသည်။

တစ်ဆယ့်ခြောက်ချက်ဟူသည်ကား–

**ဥသဘာ ရုက္ခာ ဂါဝိယော ဂဝါစ။**
**အသော စ ကံသော သိင်္ဂါလီ စ ကုမ္ဘော။**
**ပေါက္ခရဏီ စ အပါကံ စန္ဒနံ၊**
**လာဗူ နိသီဒန္တိ သိလာ ပ္လဝန္တိ။**
**မဏ္ဍူကိယော ကဏှသပ္ပေ ဂိလန္တိ၊**
**ကာလိ သုဝဏ္ဏာ ပရိဝါရယန္တိ။**
**ကသာဝကာ ဧဠကာနံ ဘယာတိ၊**
**ဝိပရိယာသော ဝတ္တတိ နယိဒမတ္ထံ။** ။ဟူ၍ ဥဒ္ဒေသဂါထာလာသည်။

**အဓိပ္ပါယ်အကျဉ်းကား။** ။ ကောသလမင်းကြီးသည် တစ်ညဉ့်တွင်း၌ တစ်ဆယ့် ခြောက်ချက်သော အိပ်မက်ကို မြင်၍ ပုဏ္ဏားတို့ကိုမေးသော် ''မင်း၏ လည်းကောင်း, မိဖုရားတို့၏ လည်းကောင်း, တိုင်းပြည်၏လည်းကောင်း အန္တရာယ်သည် ဖြစ်လတ္တံ့။ သဗ္ဗစတုက္ကယဇ်ကို ပူဇော်ပါ''ဟု လျှောက်ကြ၍ ယဇ်ပူဇော်ခြင်းငှာ များစွာသော လူသူ ဆင်မြင်းတို့ကို ဖမ်းယူစေ၍ ပြည်အလုံး အုတ်အုတ်ကျက်ကျက် ဖြစ်ရာတွင် မလ္လိကာ မိဖုရားက အကြောင်းကိုမေးမြန်း၍ သိသောအခါ များစွာ အပြစ်တင်၍ ''အရှင်မင်းကြီး ဤအိမ်မက်အကြောင်းကို ဘုရားသခင်အားသာ မေးလျှောက်ပါလော့။ ဘုရားထက် သိသော ပညာရှိ အဘယ်မှာ ရှိတော့အံ့နည်း'' ဆို၍ ဘုရားထံတော်သို့ သွားကြပြီးလျှင် ဤသို့လျှောက်ထား၏။

အရှင်ဘုရား၊ ဒကာတော်သည် ညဉ့်အခါက တစ်ဆယ့်ခြောက်ခါတိုင်အောင် အိပ်မက်မြင်မက်သောကြောင့် ထိုအိပ်မက်တို့၏ အကျိုးအပြစ်တို့ကို သိချင်ပါသည်''ဟု လျှောက်၏။ ဘုရားသခင်ကလည်း– ''မင်းကြီး သင်၏အိပ်မက်တို့ကို ဆိုလော့''ဟု ခွင့်ပေးရာတွင်–

**အရှင်ဘုရား ရှေးဦးအိပ်မက်ကား။** မျက်စဉ်းရောင်ကဲ့သို့ ညိုမှောင်သော နွားလား လေးစီးတို့သည် အရပ်လေးမျက်နှာမှ လာ၍ ဝှေ့ကြခြင်းငှာပြုသည်ကို လူအများတို့သည် ရှုကြကုန်အံ့–ဟု မင်းရင်ပြင်သို့ စည်းဝေး လာကြကုန်သည်။ ထိုအခါ နွားတို့သည် မဝှေ့ဘဲ မြည်တွန်ဟိန်းဟဲ၍သာ ရှောင်လွှဲကြလေကုန်သည်''ဟု လျှောက်၏။

ဘုရားသခင်ကလည်း–''မင်းကြီး၊ ဤအိပ်မက်ကား သင်မင်းကြီး၏ လက်ထက်၌ အကျိုးဖြစ်လတ္တံ့သည်မဟုတ်၊ နောင်သောအခါ တရားမစောင့်သော အဓမ္မိကမင်း, အဓမ္မိကလူတို့၏ လက်ထက်၌ ကုသိုလ်တရား လျော့ပါး၍ အကုသိုလ် တရားများသော ကာလ၌ ဖြစ်လတ္တံ့။ ထိုအခါ မိုးတို့သည် ကောင်းစွာ ရွာအံ့သောအဟန်ဖြင့် ခြိမ်းမည် ချုန်းထစ်၍ မရွာဘဲ ရှောင်လွှဲပြေပျောက်လတ္တံ့။ လူတို့သည် ဝတ်မွတ်ရှားပါး ကုန်လတ္တံ့။ ဤသို့ဖြစ်အံ့သော ပုဗ္ဗနိမိတ်''ဟု မိန့်တော်မူ၏။

**ဒုတိယ မြင်မက်သည့်ကား။** ''အရှင်ဘုရား–ငယ်သော သစ်ပင်, ချုံပင်တို့သည် မြေကိုဖောက်ထွင်း၍ တစ်ထွာတစ်တောင်မျှ တက်၍ ပွင့်ကုန် သီးကုန်၏ဟု ဆို၏။ ''မင်းကြီး–ဤအိပ်မက်အလိုကား–လောကသည် ဆုတ်ယုတ်သောကာလ လူတို့ အသက်တမ်း ယုတ်သောကာလ၌ ဖြစ်လတ္တံ့။ နောင်အခါ သတ္တဝါတို့သည် ထက်သောရာဂ ရှိကုန်လတ္တံ့။ အရွယ်သို့ မရောက်သေးသော သတို့သမီးငယ်တို့သည် ယောကျ်ားသို့သွား၍ ဥတုလာခြင်း, ကိုယ်ဝန်ဆောင်ခြင်း, သားသမီးပွားစီးခြင်းတို့သည် ဖြစ်ကုန်လတ္တံ့''ဟု မိန့်တော်မူ၏။

**တတိယ မြင်မက်သည့်ကား။**''အရှင်ဘုရား–နွားမကြီးတို့သည် ယနေ့ ဖွားသစ်စကြီး ဖြစ်သော နွားငယ်တို့၏ နို့ကို စို့ကုန်၏''ဟု လျှောက်၏။''မင်းကြီး–ဤအိပ်မက် အလိုကား– နောင်သောအခါ လူတို့တွင် ကြီးသော သူတို့အား အရိုအသေပြုခြင်း ကင်းသောကာလ၌ ဖြစ်လတ္တံ့။ ထို သတ္တဝါတို့သည် အမိ, အဖ, ယောက္ခမ ယောကျ်ားသူ, ယောက္ခမ မိန်းမသူတို့၌ ရှက်ခြင်းကင်းသည်ဖြစ်၍ မိမိအလိုပင် ဥစ္စာစည်းစိမ်ကို စီရင်လျက် ဝတ်ရာ စားရာကိုမျှ ကြီးသောသူတို့အား ပေးလိုမှသာ ပေးလတ္တံ့။ မပေးလိုသည်ရှိသော် မပေးလတ္တံ့။ သက်ကြီးမိဘတို့သည် ကိုးကွယ်ရာ မဲ့သည်ဖြစ်၍ အလိုအတိုင်း မပြည့်စုံ သဖြင့်ငယ်သော သားသမီး ချွေးမတို့၏အလိုသို့သာ လိုက်၍ အသက်ရှည်လတ္တံ့''ဟု မိန့်တော်မူ၏။

**စတုတ္ထ မြင်မက်သည့်ကား။**''အရှင်ဘုရား–ဝန်ကို ရွက်ဆောင်နိုင်သော ခွန်အား ဗလနှင့် ပြည့်စုံသော နွားကြီး အဆက်ဆက်တို့ကို မကမူ၍ နွားငယ်တို့ကိုသာ ကကုန်၏။ ဝန်ကိုရွက်ဆောင်ခြင်းငှာ မတတ်နိုင်၍ လှည်းကို စွန့်လျက် ရပ်ကုန်သည် မြင်မက်၏''ဟု လျှောက်၏။

''မင်းကြီး–ဤအိပ်မက်အလိုကား နောင်သောအခါ အဓမ္မိကမင်းတို့ လက်ထက်၌ ဖြစ်ကုန်လတ္တံ့။ အဓမ္မိက မင်းတို့သည် ပညာရှိကုန်သော အစဉ်အဆက်၌ လိမ္မာကုန်သော အမှုဆောင်ရွက်ခြင်းငှာ စွမ်းနိုင်သော အမတ်ကြီးတို့အား စည်းစိမ်ဥစ္စာကို မပေးလတ္တံ့။ တရားစီရင်ရာအရပ်၌ ပညာရှိကုန်သော စီရင်ခြင်းငှာ စွမ်းနိုင်သော ကြီးရင့်ကုန်သော အမတ်တို့ကိုမထား။ ငယ်သောပညာမရှိသော အစဉ်အဆက်၌ မလိမ္မာသော အမှုကို မဆောင်ရွက်နိုင်သော အမတ်ငယ်တို့ကိုသာ စည်းစိမ်ချမ်းသာကို ပေးလတ္တံ့။ တရားစီရင်ရာ၌လည်း ပညာမရှိကုန်သော၊ စီရင်ခြင်းငှာ မစွမ်းနိုင်သော ငယ်နုသော သူတို့ကိုသာ ထားကုန်လတ္တံ့။ ထိုအမတ်မိုက် တရားသူကြီးမိုက်တို့သည် မင်းတို့အား တရားနှင့် လျော်–မလျော်ကိုလည်း မသိကုန်သည် ဖြစ်၍ စည်းစိမ်ချမ်းသာကို ထားအံ့သောငှာ မတတ်နိုင်။ မင်း၏အမှုကို ပြီးစီးစိမ့်သောငှာ လည်း မတတ်နိုင်၍ အမှုကို ပစ်စွန့်ကုန်လတ္တံ့။ ပညာရှိသော အမတ်တို့သည်လည်း စည်းစိမ်ချမ်းသာကို မရခြင်းကြောင့် ကိစ္စကို ပြီးစီးစိမ့်သောငှာ တတ်နိုင်သော်လည်း

''ငါတို့အား ထိုအမှုမှ အပဖြစ်ကုန်၏။ အမတ်ငယ်တို့သာ သိကုန်လတ္တံ့။ ဖြစ်လေသမျှတို့ကို စောင့်ရှောက်ကုန်လတ္တံ့''ဟု ထိုမင်းတို့အား ပယ်စွန့်ကုန် လတ္တံ့''ဟုမိန့်တော်မူ၏။

**ပဥ္စမ မြင်မက်သည်ကား။**''အရှင်ဘုရား-ခံတွင်းနှစ်ခုရှိသော မြင်းသည် နံပါးနှစ်ဖက်၌ မုယောနှံကို ပေးကြကုန်သော် နှစ်ခုသော ခံတွင်းဖြင့် စားသည် ကို မြင်မက်၏''ဟု လျှောက်၏။

''မင်းကြီး-ဤ အိပ်မက်အလိုကား- နောင်သောအခါ အဓမ္မိကမင်းတို့သည် ဖြစ်ကုန်လတ္တံ့။ ထိုအခါ အဓမ္မိက ဗာလရာဇာမင်းတို့သည် တရားမစောင့်၊ လျှပ်ပေါ်သော သူတို့ကို တရားစီရင်ရာ၌ ထားလတ္တံ့။ ထိုအခါ ထိုတရားသူကြီးမိုက်တို့သည် ကောင်းမှု, မကောင်းမှု၌ မခန့်မကြောက်သည် ဖြစ်၍ နှစ်ဖက်သားတို့၏ တံစိုးကို စား၍တရားစီရင်ကုန် လတ္တံ့''ဟု မိန့်တော်မူ၏။

**ဆဋ္ဌ မြင်မက်သည်ကား။** ''အရှင်ဘုရား-လူများတို့သည် အဖိုးတစ်သိန်း ထိုက်သော ရွှေခွက်ကို သုတ်သင်၍ ''ဤရွှေခွက်၌ ကျင်ငယ်ကို စွန့်ပါလော့''ဟု မြေခွေး တစ်ကောင်အား ဆောင်၍ ကပ်၏။ ထိုရွှေခွက်၌ ကျင်ငယ်စွန့်သည်ကို မြင်မက်၏''ဟု လျှောက်၏။

''မင်းကြီး-ဤ အိပ်မက်အလိုကား- နောင်အခါ တရားမစောင့်သော အဓမ္မိက ရာဇာမင်းတို့သည် အမျိုးကောင်းသားတို့အား ရွံရှာကုန်သဖြင့် စည်းစိမ်ကို မပေးလတ္တံ့။ အမျိုးကောင်းသားတို့သည် ဆင်းရဲကုန်လတ္တံ့။ အမျိုးယုတ်သော သူတို့သည် အစဉ်အစိုးရကုန်သည်ဖြစ်၍ ''အမျိုးယုတ်သော သူတို့အားမှီ၍ အသက်မွေးရတော့မည်'' ဟု သမီးကို ပေးကုန်လတ္တံ့။ အမျိုးကောင်းသမီးတို့သည် အမျိုးယုတ်သူတို့နှင့် ပေါင်းဖော်ခြင်းသည် ရွှေခွက်ကို မြေခွေး ကျင်ငယ်စွန့်သည်နှင့်တူလတ္တံ့''ဟု မိန့်၏။

**သတ္တမမြင်မက်သည်ကား။**''ယောကျ်ားတစ်ယောက်သည် ကြိုးကိုကျစ်၍ ခြေရင်း၌ ထား၏။ ထိုယောကျ်ားနေသော အင်းပျဉ်အောက်၌ အိပ်သော မြေခွေးငယ်တစ်ကောင်သည် ထိုသူမမြင်စဉ် ကြိုးကိုစားသည်ကို မြင်မက်၏'' ဟု လျှောက်၏။

''မင်းကြီး နောင်သောအခါ မိန်းမတို့သည် ယောကျ်ားတို့၌ လျှပ်ပေါ်သော **ပုရိသလောလ,** သေသောက်ခြင်း၌ လျှပ်ပေါ်သော **သုရာလောလ,** တန်ဆာဆင်ခြင်း၌ လျှပ်ပေါ်သော အလင်္ကာရလောလ၊ ခရီးသွားခြင်း၌ လျှပ်ပေါ်သော **ဝိသိခါလောလ,** အစား၌ လျှပ်ပေါ်သော **အာမိသလောလ,**တို့သည် ဖြစ်ကုန်လတ္တံ့။ သီလသီတင်းမဲ့ကုန်သည်ဖြစ်၍ လင်သည် လယ်လုပ် ကုန်သွယ်၍ ဆင်းရဲငြိုငြင်စွာရသော ဥစ္စာတို့ကို သယောက်လင်တို့နှင့်တကွ သေသောက် ကုန်လျက် ပန်းနံ့သာ နံ့သာပျောင်းတို့ဖြင့် ဆင်၍ အမှုကြီးငယ်ကိုမျှ မပြုဘဲ အိမ်ထရံ၏ အထက် အဖို့ဖြင့်လည်းကောင်း, အပေါက်ရှိရာအရပ်တို့ဖြင့်လည်းကောင်း သယောက်လင်ကို ဆောင်၍ နက်ဖြန်

ပျိုးအုံ့သော မျိုးမျှကို ထောင်းထုပြီးလျှင် ယာဂု ထမင်း ခဲဖွယ်စသည် ပြုလုပ် စား[illegible]သောက်၍ ပျက်စီးလတ္တံ့''ဟု မိန့်တော်မူ၏။

**အဋ္ဌမ မြင်မက်သည့်ကား။** ''အရှင်ဘုရား–အိမ်တံခါး၌ အချည်းနှီးသော များစွာသော အိုးဖြင့်ရံအပ်သော ရေပြည့်သော အိုးကြီးတစ်လုံးကို အမျိုးလေးပါးတို့သည် အရပ်ရှစ်မျက်နှာမှ ရေကိုဆောင်၍ ပြည့်သော အိုးကြီး၌သာလျှင် လှံ့၍ပြည့်စေကုန်၏။ အဖန်တလဲလဲ ထိုအိုး၌သာလျှင် ရေကိုလောင်းကြကုန်၏။ အချည်း နှီးသော အိုး၌ကား ရေလောင်းမည်ကို ဝေးစွ၊ ကြည့်သူမျှ မရှိ''ဟူ၍ လျှောက်၏။

''မင်းကြီး– နောင်အခါ လူတို့သည် ယုတ်ကုန်အံ့။ တိုင်းပြည် မြို့ရွာတို့သည် သြဇာမရှိကုန်လတ္တံ့။ မင်းတို့သည် ဆင်းရဲကုန်လတ္တံ့။ ကမ္ဘာနာ ဖြစ်လတ္တံ့။ ထိုမင်း၏ ဘဏ္ဍာတိုက်၌ တစ်သိန်းမျှသော အသပြာသာလျှင် ဖြစ်ကုန်လတ္တံ့။ ဤသို့ ဆင်းရဲသော မင်းတို့သည် ခပ်သိမ်းသော ဇနပုဒ်သားတို့ကို မင်းမှုကိုသာ ပြုစေကုန်လတ္တံ့။ ဇနပုဒ်သားတို့လည်း မင်းမှုဖြင့် နှိပ်စက်ကုန်သောကြောင့် မိမိတို့အမှုကို မပြုကုန်လတ္တံ့။ မိမိတို့အမှုကို စွန့်ပစ်၍ မင်းမှုကိုသာပြုရကုန်လတ္တံ့။ မင်း၏အကျိုးငှာသာလျှင် ကောက်ပဲတို့ကို စိုက်ပျိုးစေလျက်၊ စောင့်ကုန် ရိတ်ကုန်နယ်ကုန်လျက်၊ ကြံခင်းကို ပြုကုန်သော သူတို့သည် ယန္တရားကို ပြုကုန်၍ တင်လဲစည်းကို ချက်ကုန်လျက်၊ ပန်းခင်းစသည်တို့ကို ပြုကုန်၍ ထိုပန်းခင်းမှဖြစ်သော ပန်းတို့ကို ဆောင်ကုန်၍ မင်း၏ကျီကြတို့၌ သာလျှင် ပြည့်စေ ကုန်လတ္တံ့။ မိမိတို့အိမ်၌ အချည်းနှီးသော ကျီးကြတို့သာ ဖြစ်ကုန်လတ္တံ့''ဟု မိန့်တော်မူ၏။

**နဝမ မြင်မက်သည့်ကား။**''အရှင်ဘုရား–ကြာမျိုးငါးပါးဖြင့် ဖုံးလွှမ်းသော နက်သော ထက်ဝန်းကျင်မှ ရေဆိပ်ရှိသော ရေကန်တစ်ခု၌ ထက်ဝန်းကျင်မှ အခြေနှစ်ခု, အခြေ လေးခုရှိသော သတ္တဝါအပေါင်းတို့သည် သက်၍ သောက်ကုန်၏။ ထိုရေကန်၏လည်း အလယ်၌ နက်သောရေသည် နောက်၏။ အနားဝန်းကျင် အခြေနှစ်ခု, အခြေ လေးခုရှိသော သတ္တဝါတို့၏ နင်းရာ သက်ရာအရပ်၌ ကြည်၏''ဟု လျှောက်၏။

''မင်းကြီး–နောင်အခါ မင်းတို့သည် တရားမစောင့်ကုန်။ ဆန္ဒအစရှိသော အဂတိသို့ လိုက်ကုန်လျက် မင်းပြုလတ္တံ့။ တရားနှင့်အညီ စီရင်ဆုံးမခြင်းသည် မရှိလတ္တံ့။ တံစိုးစား၍ ဥစ္စာ၌ မက်မောရ၍ တိုင်းသူပြည်သူတို့၌ ခန္တီမေတ္တာမရှိ၊ ရှန့်ရင်း ကြမ်းတမ်းစွာ ကြံညှစ် ယန္တရားကဲ့သို့ နှိပ်စက်၍ အထူးထူးသော ဥစ္စာအခွန် အတုတ်တို့ကို ဖြစ်စေကုန်လတ္တံ့။ ထိုသူတို့သည် အခွန်အတုတ် မပေးနိုင်ကုန်သည်ဖြစ်၍ ရွာနိဂုံး ဇနပုဒ်တို့ကို စွန့်၍ ရွာငယ်၌သာ နေကုန်လတ္တံ့။ တိုင်းလယ် ရွာကြီးတို့သည် ဆိတ်ငြိမ်၍ ရွာစွန်ရွာနား စည်ပင်လတ္တံ့''ဟု မိန့်တော်မူ၏။

**ဒသမ မြင်မက်သည့်ကား။**''အရှင်ဘုရား တစ်အိုးတည်းသာ ချက်သောထမင်းသည် သုံးစုထားသကဲ့သို့၊ တစ်စုကား နပ်၏။ တစ်စုကားဆတ်၏။ တစ်စုကား ကောင်းစွာ ကျက်သည်ကို မြင်မက်၏''ဟု လျှောက်၏။

''မင်းကြီး–နောင်သောအခါ မင်းတို့သည် မတရားသည် ဖြစ်အံ့။ မင်းတို့သည် မတရားသည်ရှိသော် အမတ်ပုဏ္ဏား သူကြွယ် နိဂုံး ဇနပုဒ်သားတို့သည်လည်း တရားမစောင့်ကုန်လတ္တံ့။ ထိုသူတို့ကို စောင့်ကုန်သော နတ်, ပူဇော်ခံထိုက်သော နတ်, အာကာသစိုးနတ်, ရုက္ခစိုးနတ်တို့သည်လည်း တရားမစောင့်ကုန်သည် ဖြစ်လတ္တံ့။ တရားမစောင့်သော မင်းတို့ လက်ထက် ပြည်ရွာ တိုင်းကားတို့၌ လေတို့သည် မညီမညွတ် ပြင်းစွာ လာလတ္တံ့။ အာကာသ၌ ဗိမာန်တို့သည် တုန်လှုပ်ကုန်လတ္တံ့။ ထိုသို့ တုန်လှုပ်သည် ရှိသော် နတ်တို့သည် အမျက်ထွက်၍ မိုးကို မရွာစေကုန်လတ္တံ့။ ရွာသော်လည်း အနှံ့မရွာ။ အလုံးစုံအနှံ့ပင် ရွာသော်လည်း စိုက်ခြင်း ကြဲခြင်း၏ ကျေးဇူးဖြစ်အောင် မရွာ။ တိုင်းတစ်ခု၌ လည်းကောင်း, ရွာတစ်ခု၌လည်းကောင်း, တစ်ဖက်ဆည်ကန် တစ်ခု၌ လည်းကောင်း, အိုင်တစ်ခု၌လည်းကောင်း တစ်ပြိုင်နက် မရွာ။ တစ်ဖက်ဆည်ကန်၏ အထက်အဖို့၌ ရွာသည်ရှိသော် အောက်အဖို့၌မရွာ။ အောက်အဖို့၌ ရွာသော် အထက်အဖို့၌ မရွာ။ တစ်ခုသော အဖို့၌ အလွန်ရွာလွန်းသဖြင့် ကောက်ပဲပျက်၏။ တစ်ခုသော အဖို့၌ မရွာသဖြင့် ညှိုးငယ်သေပျောက်၏။ တစ်ခုသော အဖို့၌ ကောင်းစွာရွာ၍ ပြည့်စုံခြင်း ဖြစ်လတ္တံ့''ဟု မိန့်တော်မူ၏။

**ကောဒသမ မြင်မက်သည်ကား။**''အရှင်ဘုရား–အဖိုးတစ်သိန်း ထိုက်သော စန္ဒကူးနှစ်ကို ရက်တက်ရည်ဖြင့် ရောင်းဝယ်သည်ကို မြင်၏'' ဟု လျှောက်၏။

''မင်းကြီး–နောင်အခါ ငါဘုရား၏ သာသနာတော် လျှောကျသောအခါ၌ ပစ္စည်း လေးပါးတို့ကို မက်မောကုန်သော အလဇ္ဇီ ရဟန်းတို့သည် ပစ္စည်းဟူသော အကြောင်းကြောင့်သာလျှင် တရားဟောကုန်လတ္တံ့။ ပစ္စည်းလေးပါးမှ လွတ်၍ ဝဋ်ဆင်းရဲမှ ထွက်မြောက်စိမ့်သောငှာ နိဿရဏပက္ခ၌ တည်၍ နိဗ္ဗာန်သို့ ရှေးရှုပြု၍ ဟောခြင်းငှာ မစွမ်းနိုင်လတ္တံ့''ဟု မိန့်တော်မူ၏။

**ဒွါဒသမ မြင်မက်သည်ကား။**''အရှင်ဘုရား–အချည်းနှီးသော ဘူးတောင်းတို့သည် ရေ၌နစ်သည်ကို မြင်၏''ဟု လျှောက်၏။

''မင်းကြီး–နောင်သောအခါ အဓမ္မိကမင်းတို့ လက်ထက် ယွင်းပျက်ဖောက်ပြန်၍ မင်းတို့သည် အမျိုးကောင်းသားတို့အား စည်းစိမ်ကို မပေးမူ၍ အမျိုးယုတ်သော သူတို့ကိုသာလျှင် စည်းစိမ်ပေး၍ အစိုးရသည် ဖြစ်ကုန်လတ္တံ့။ ထိုအမျိုးကောင်းသားတို့သည် ဆင်းရဲကုန်သောကြောင့် ပြောဆိုသောစကားသည် မင်း၏ရှေ့မှောက်, အမတ်၏ ရှေ့မှောက်, တရားဆုံးဖြတ်ရာတို့၌ မတည်လတ္တံ့။ ဘူးတောင်း နစ်လေသကဲ့သို့ အမျိုးကောင်း သားတို့၏ စကားသည် နစ်မြုပ်၍ အမျိုးယုတ်သော သူတို့၏စကား သာလျှင် ပေါ်၍ တည်ရလတ္တံ့။ ရဟန်း သံဃာတို့၏ အစည်းအဝေး အမှုကြီးငယ်ပြုရာ ဝိနည်းဆုံးဖြတ်ရာ အရပ်တို့၌လည်း ဒုဿီလ ပါပပုဂ္ဂိုလ်တို့၏ စကားသာလျှင် တည်ရလတ္တံ့။ လဇ္ဇီသူမြတ် ရဟန်း အမျိုးကောင်းသားတို့၏ စကားသည် မတည်လတ္တံ့''ဟု မိန့်တော်မူ၏။

**တေရသမ မြင်မက်သည်ကား။**''အရှင်ဘုရား–ကြီးစွာသော စုလစ်မွမ်းချွန် ပမာဏ ရှိသော တစ်ခဲနက်သော ကျောက်သည် လှေကဲ့သို့ ရေဝယ် ပေါလောပေါ်သည်ကို မြင်မက်၏''ဟု လျှောက်၏။

''မင်းကြီး– နောင်သောအခါ အဓမ္မိကရာဇာမင်းတို့သည် အမျိုးယုတ်သော သူတို့အား စည်းစိမ်ကိုပေး၍ အမျိုးမြတ်သောသူတို့သည် ဆင်းရဲကုန်၏ ထိုအမျိုးမြတ် သော သူတို့၌ တစ်စုံတစ်ယောက်သောသူတို့သည် ရှိသေခြင်းကို မပြုလတ္တံ့။ မင်း၏ ရှေ့မှောက် စသည်တို့၌ သူမြတ်တို့၏စကားသည် သက်ဝင်၍ မတည်နိုင်ကုန် လတ္တံ့ ဆိုပါသော်လည်း ပျက်ရယ်မှုပြုသည်သာ ဖြစ်လတ္တံ့။ သံဃာအစည်းအဝေး၌လည်း သီလရှိသော ရဟန်းတို့ကို အရိုအသေ ပြုအပ်၏–ဟု မအောက်မေ့ကုန်လတ္တံ့။ ထိုလဇ္ဇီသူတော် ရဟန်းတို့ စကားသည် သက်ဝင်၍ မတည်နိုင်လတ္တံ့''ဟု မိန့်တော်မူ၏။

**စုဒ္ဒသမ မြင်မက်သည်ကား။**''သစ်မည်စည်ပွင့်မျှသော ဖားမတို့သည် ကြီးစွာ လျင်သော အဆိပ်ရှိသော မြွေကို လျင်စွာလိုက်၍ ကြာရိုး ကဲ့သို့ ဖြတ်၍ အသားကို စားမျိုကုန်သည်တို့ကို မြင်မက်၏''ဟု လျှောက်၏။

''မင်းကြီး–နောင်သောအခါ လောက၌ လူတို့သည် ကိလေသာ ထူပြော ကုန်သည် ဖြစ်၍ ကိလေသာ၏ အလိုသို့လိုက်ကုန်သည်ဖြစ်၍ မယားတို့၏အလိုသို့ လိုက်ကုန်လတ္တံ့။ အိမ်၌ အမှုလုပ်သော သူမှစ၍ ရွှေ ငွေအလုံးစုံကို ထိုမယားတို့အား သာလျှင် ဆောင်နှင်းကုန်လတ္တံ့။ ရွှေ ငွေတို့၏ အချင့်အချိန် အရပ်ရပ်တို့ကို သိလို၍ အဘယ်နည်းဟု မေးသည်ရှိသော် ''များလိုများ နည်းလိုနည်း သင့်အား ဤလုံ့လဖြင့် ဘယ်အတွက် ရှိအံ့နည်း။ သင်သည် ငါ၏ အိမ်၌ရှိသည် မရှိသည်ကို သိချင်သေး သလော''ဟု ဆို၍ အထူးထူး အပြားပြားဖြင့် ဆဲရေး၍ နှုတ်လှံထိုးခြင်းတို့ဖြင့် သိပ်နယ်၍ ကျွန်းသပေါက်ကဲ့သို့ အလိုအတိုင်းပြု၍ မိမိ၏အစိုးရခြင်းကို ဖြစ်လတ္တံ့''ဟု မိန့်တော်မူ၏။

**ပန္နရသမ မြင်မက်သည်ကား။**''ဆယ်ပါးသော မသူတော် တရားတို့နှင့် ပြည့်စုံသော ရွာ၌ ကျက်စားသော ကျီးကို ရွှေဟင်္သာတို့ ခြံရံသည်ကို မြင်မက်၏''ဟု လျှောက်၏။

''မင်းကြီး–နောင်အခါ မင်းတို့သည် ဆင်အတတ် အစရှိသည်တို့၌ မလိမ္မာကုန်။ စစ်ထိုးခြင်း၌ မရဲရင့်ကုန်။ ထိုမင်းတို့သည် မိမိ၏ မင်းအဖြစ်၌ ပျက်စီးခြင်းကို ရွံရှာသည် ဖြစ်၍ အမျိုးမြတ်သော သူတို့အား စည်းစိမ်ချမ်းသာကို မပေးမူ၍ မိမိခြေရင်းစောင့် ဖြစ်ကုန်သော ဆတ္တာသည် အစရှိကုန်သော ယုတ်သောသူတို့အားသာ စည်းစိမ်ချမ်းသာ ကို ပေးကုန်လတ္တံ့။ အမျိုးအနွယ်မြတ်သော သူတို့သည် မင်း၏ အိမ်၌ တည်ရာကို မရသည်ဖြစ်၍ အသက်ကို မွေးပါစိမ့်သောငှာ အမျိုးယုတ်သော သူတို့အထံမှာပင် ခြံရံခစားရလတ္တံ့''ဟု မိန့်တော်မူ၏။

54 **သောဠသမ မြင်မက်သည်ကား။** ''အရှင်ဘုရား–သစ်တို့သည် ဆိတ်တို့ကိုစားကုန်၏။
A ယခုအခါကား ဆိတ်တို့သည် သစ်တို့ကို လိုက်၍ ရှပ်ရှပ်ဝါး၍စားသည်ကိုလည်း

မြင်မက်၏။ ထိုမှတစ်ပါး သစ်တို့သည် ဆိတ်တို့ကို အဝေးကမြင်၍ ကြောက်လန့်ကုန်သည် ဖြစ်၍ ချုံပုပ္ပေါင်းတို့သို့ ပုန်းအောင်းသည်ကို ပင် မြင်မက်၏''ဟု လျှောက်၏။

''မင်းကြီး–နောင်အခါ အဓမ္မိကတို့လက်ထက် အမျိုးယုတ်တို့သည် မင်းနှင့်ကျွမ်းဝင်၍ အစိုးရသည် ဖြစ်ကုန်လတ္တံ့။ အမျိုးကောင်းသားတို့အား ဆင်းရဲကုန်လတ္တံ့။ အမျိုးယုတ်တို့သည် မင်းနှင့် အကျွမ်းဝင်သည်ဖြစ်၍ မင်းကို မိမိတို့ စကားကိုယူစေ၍ တရားဆုံးဖြတ်ရာ စသည်တို့၌ အားရှိကုန်သည်ဖြစ်၍ အမျိုးမြတ်တို့အား အစဉ်အဆက်မှလာသော လယ်, ယာ စသည်တို့ကို ''ငါတို့၏ ဥစ္စာတည်း''ဟု တရားပြု၍ အကျိုးမြတ်သော သူတို့သည်လည်း ''သင်တို့၏ ဥစ္စာမဟုတ်''ဟု တရားပြိုင်ဆိုင်သည်ရှိသော် ကြိမ်နှယ်တို့ဖြင့် ပုတ်ခတ်စေ၍ လည်၌ကိုင်၍ ထုတ်စေ၏။ ကိုယ်နှင့်တန်မတန်ကိုလည်း မသိ။ ငါတို့နှင့်တကွ ငြင်းခုံရာသလော။ ယခုပင် မင်းကို လျှောက်၍ လက်, ခြေဖြတ်ခြင်း စသည်တို့ကို ပြုစေအံ့ဟု ခြိမ်းခြောက်၏။ ထိုသူတို့ကို ကြောက်သောအားဖြင့် ကိုယ်၏ ဥစ္စာဖြစ်သော လယ်,ယာတို့ကို ယူတော်မူပါလော့–ဟု ဆောင်နှင်းခဲ့၍ မိမိအိမ်၌ ကြောက်လန့်သဖြင့် အိပ်နေရကုန်လတ္တံ့။ ယုတ်မာသော အလဇ္ဇီရဟန်းတို့လည်း သီလ ရှိသော ရဟန်းတို့ကို အလိုအတိုင်း နှိပ်စက်ကုန်လတ္တံ့။ သီလရှိသော ရဟန်းတို့သည် ကိုးကွယ်ရာ မရကုန်သဖြင့် တောသို့ဝင်၍ ချုံပုပ္ပေါင်းရှိသော အရပ်တို့၌သာ ပုန်းအောင်း၍ နေကုန်ရလတ္တံ့''ဟု မိန့်တော်မူ၏။

ဤသို့ မိန့်တော်မူပြီးလျှင်– ''ယခုအခါ၌သာ သင်သည် မြင်မက်သည်မဟုတ်၊ ရှေးမင်းတို့သည်လည်း ဤကဲ့သို့ပင် မြင်မက်ဖူးကုန်သည်''ဟု မိန့်တော်မူပြီးလျှင် အတိတ်ကို ဆောင်တော်မူ၏။

ထိုဇာတ်၌ ဗာရာဏသီမင်းသည် အိပ်မက် ၁၆–ပါးကိုမြင်၍ ပုဏ္ဏားတို့ကို မေးသော် မဖြေနိုင်၍ ''အန္တရာယ်ကြီးစွာ ဖြစ်လတ္တံ့။ သတ္တဝါတို့ကို သတ်၍ ယဇ်နတ်တင်လော့'' ဟု ဆို၏။ မင်းလည်း ထိုစကားကိုယုံ၍ သတ္တဝါတို့ကို သတ်မည်ပြု၏။ လုလင် တစ်ယောက်သည် ''ဤအမှုသည် မဟုတ်တန်ရာ''ဟု ပညာရှိကိုရှာသောအခါ ငါတို့ ဘုရားလောင်း ရသေ့ကိုတွေ့၏။ မင်းနှင့်လုလင်သည် ဘုရားလောင်းရသေ့သို့ ကပ်၍ အိပ်မက်အခြင်းအရာ အကြောင်းတို့ကို မေးလျှောက်၏။ ရသေ့လည်း ဘုရားသခင် ဖြေသကဲ့သို့ ဖြေပေ၏။ သတ္တဝါတို့သည် ချမ်းသာရကုန်၏။ ''အိပ်မက် မြင်သောမင်းကား အာနန္ဒာ။ လုလင်ကား သာရိပုတြာ။ အိပ်မက်ဖြေသော ရသေ့ကား ငါဘုရား ဖြစ်တော်မူ၏''ဟု ဇာတ်ကို ပေါင်းတော်မူ၏။

စကားပြေလှုအောင်ဆိုသော် ကျယ်မည်စိုး၍ အလျဉ်မပြတ်ရုံမျှ၊ ကောက်ကာခန်ကာ ဆိုလိုက်ပေသည်။ ဤကား ကောသလမင်းကြီး မြင်မက်သော အိပ်မက်တည်း။

ဤအိပ်မက်ကို ဖြေရာ၌ မည်သည့်ကာလ အစဖြစ်၍ မည်သည့်ကာလ အဆုံးဖြစ်မည်ဟု ဘုရားဟောတော်မမူ ''အဓမ္မိကမင်းတို့၏ လက်ထက်ဖြစ်မည်''ဟူ၍သာ 54 B

ဟောတော်မူသောကြောင့် အဋ္ဌကထာ, ဋီကာဆရာတို့လည်း အခါကို မပိုင်းခြားနိုင်ကြ။ အဝမ္ပမင်း မင်းပြုသောအခါ ဟူသမျှ၌ပင် ဖြစ်မည်ဟု ယူရန်ရှိ၏။

❖❖❖❖❖

## ၄၉၉။ အဝတ်ကဲရပ်၊ ငွေနှစ်ကျပ်၊ သွင်းအပ်ကြေးနီ ဘယ်မျှနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ငွေစင် တစ်ပိဿာတွင် ကြေးနီ တစ်ဆယ့်နှစ်ကျပ်, နှစ်မတ် သွင်းသည်ကို အဝက်ကဲ ခေါ်ရကား ငွေကျပ်ချိန် တစ်ဆယ်တွင် ကြေးနီ ငါးမတ်သွင်းသည်။ ငွေချိန် နှစ်ကျပ်တွင် ကြေးတစ်မတ် သွင်းသည် ဟူပေ။

ဤစကား၌ ငွေကဲတွက်နည်းကို ပြဆိုလိုက်ဦးအံ့–

ငွေတစ်ပိဿာတွင် ကြေးနီ တစ်ကျပ်။ ငွေတစ်ဆယ်လျှင် ကြေးနီ တစ်မူး သွင်းသည်ကို တစ်မူးကဲခေါ်သည်။

ငွေတစ်ပိဿာတွင် ကြေးနီနှစ်ကျပ်။ ငွေတစ်ဆယ်လျှင် ကြေးနီနှစ်မူး သွင်းသည်ကို နှစ်မူးကဲခေါ်သည်။

ဤနည်းတူ သုံးမူးကဲ၊ လေးမူးကဲ၊ ငါးမူးကဲ၊ ခြောက်မူးကဲ၊ ခုနစ်မူးကဲ၊ ရှစ်မူးကဲ၊ ကိုးမူးကဲ တို့၌လည်း သိရမည်။

ငွေတစ်ပိဿာလျှင် ကြေးနီ တစ်ဆယ်။ ငွေတစ်ဆယ်လျှင် ကြေးနီ တစ်ကျပ်သွင်း ကို တစ်ဆယ်ကဲခေါ်သည်။

ငွေတစ်ပိဿာလျှင် ကြေးနီ နှစ်ဆယ်၊ ငွေတစ်ဆယ်လျှင် ကြေးနီ နှစ်ကျပ်သွင်းကို နှစ်ဆယ်ကဲခေါ်သည်။

ဤနည်းတူ သုံးဆယ်ကဲ၊ လေးဆယ်ကဲ၊ ငါးဆယ်ကဲ၊ခြောက်ဆယ်ကဲ၊ ခုနစ်ဆယ်ကဲ၊ ရှစ်ဆယ်ကဲ၊ ကိုးဆယ်ကဲ တို့၌လည်း သိရမည်။

ငွေတစ်ပိဿာလျှင် ကြေးနီ တစ်ဆယ့်နှစ်ကျပ်, နှစ်မတ်။ ငွေတစ်ဆယ်လျှင် ငါးမတ် သွင်းသည်ကို ငါးမတ်ကဲခေါ်သည်။

ငွေတစ်ပိဿာလျှင် ကြေးနီ တစ်ဆယ့်ငါးကျပ်။ ငွေတစ်ဆယ်လျှင် ကြေးနီတစ်ကျပ်, နှစ်မတ် သွင်းသည်ကို တစ်ဆယ့်ငါးကျပ်ကဲ ခေါ်သည်။

ငွေတစ်ပိဿာလျှင် ကြေးနီ နှစ်ဆယ့်ငါးကျပ်။ ငွေတစ်ဆယ်လျှင် ကြေးနီ နှစ်ကျပ်, နှစ်မတ်သွင်းသည်ကို အစိတ်ကဲခေါ်သည်။

ဤနည်းတူ သုံးဆယ့်ငါးကျပ်ကဲ၊ လေးဆယ့်ငါးကျပ်ကဲ၊ ငါးဆယ့် ငါးကျပ်ကဲ၊ ခြောက်ဆယ့်ငါးကျပ်ကဲ၊ ခုနစ်ဆယ့် ငါးကျပ်ကဲ၊ ရှစ်ဆယ့် ငါးကျပ်ကဲ၊ ကိုးဆယ့်ငါးကျပ်ကဲတို့ကို သိရမည်။

ယင်းသို့ဖြစ်၍ ရှက်နီစစ်တွက်လိုသော် တမူးမှစ၍ ကိုးမူးကဲတိုင်အောင် ပြောက်ကိန်း တစ်ရာ။ စားကိန်းမှာကား တစ်မူးကဲ၌ တစ်ရာ့တစ်။ နှစ်မူးကဲ၌ တစ်ရာ့နှစ်။ သုံးမူးကဲ၌ တစ်ရာ့သုံး။ လေးမူးကဲ၌ တစ်ရာ့လေး။ ငါးမူးကဲ၌ တစ်ရာ့ငါး။ ခြောက်မူးကဲ၌ တစ်ရာ့ခြောက်။ ခုနစ်မူးကဲ၌ တစ်ရာ့ခုနစ်။ ရှစ်မူးကဲ၌ တစ်ရာ့ရှစ်။ ကိုးမူးကဲ၌ တစ်ရာ့ကိုး ဟူ၍မှတ်။

တစ်ဆယ်ကဲမှ ကိုးဆယ်ကဲတိုင်အောင် ပြောက်ကိန်းတစ်ဆယ်။ စားကိန်းမှာ တစ်ဆယ်ကဲ၌ တစ်ဆယ့်တစ်။ နှစ်ဆယ်ကဲ၌ တစ်ဆယ့်နှစ်။ သုံးဆယ်ကဲ၌ တစ်ဆယ့်သုံး။ လေးဆယ်ကဲ၌ တစ်ဆယ့်လေး၊ ငါးဆယ်ကဲ၌ တစ်ဆယ့်ငါး။ ခြောက်ဆယ်ကဲ၌ တစ်ဆယ့်ခြောက်။ ခုနစ်ဆယ်ကဲ၌ တစ်ဆယ့်ခုနစ်။ ရှစ်ဆယ်ကဲ၌ တစ်ဆယ့်ရှစ်၊ ကိုးဆယ်ကဲ၌ တစ်ဆယ့်ကိုး ဟူ၍မှတ်။

မတ်စွန်းရှိသော အကဲစု၌ စားခြေပြောက်ခြေကို မတ်ဖွဲ့ရမည်ဖြစ်၍ ငါးမတ်ကဲမှစ၍ ကိုးဆယ့်ငါးကျပ်ကဲတိုင်အောင် ပြောက်ကိန်း လေးဆယ်။ စားကိန်းမှာ ငါးမတ်ကဲ၌ လေးဆယ့်ငါး။ တစ်ကျပ်နှစ်မတ်ကဲ၌ လေးဆယ့်ခြောက်။ နှစ်ကျပ်ငါးမတ်ကဲ၌ ငါးဆယ်။ သုံးဆယ့်ငါးကျပ်ကဲ၌ ငါးဆယ့်လေး။ လေးဆယ့်ငါးကျပ်ကဲ၌ ငါးဆယ့်ရှစ်။ ငါးဆယ့်ငါးကျပ် ကဲ၌ ခြောက်ဆယ်နှစ်။ ခြောက်ဆယ့်ငါးကျပ်ကဲ၌ ခြောက်ဆယ့်ခြောက်။ ခုနစ်ဆယ့် ငါးကျပ်ကဲ၌ ခုနစ်ဆယ်။ ရှစ်ဆယ့်ငါးကျပ်ကဲ၌ ခုနစ်ဆယ့်လေး။ ကိုးဆယ့်ငါးကျပ်ကဲ၌ ခုနစ်ဆယ့်ရှစ် ဟူ၍မှတ်။

ငွေချိန်ကျပ်ရေ တည်ပေတုံပြောက် လိုရာငွေ၏ ဖွဲ့ပြောက်ခြေနှင့်ပင် ပြောက်
မဖောက် စားခြေ စားတို့လေ လဒ်ငွေရှက်နီရ။ ဤနည်းနှင့် ရှက်နီစစ်လေ။

ဈေးရင်းငွေ၏ ကျပ်ရေတည်လတ် ဆတ်လိုငွေ၏ စားခြေပြောက်လျှင်း
ဈေးရင်းစားချေ စားတို့ပေ လဒ်ငွေ ပေးဖို့ရ။ မီးရှုတ် မီးတက်။

ဤကား နောက်သားတို့ နည်းရစိမ့်သောငှာ အကျဉ်းပြလိုက်သည်။

❖❖❖❖❖

## ၅၀၀။ ပလလည်းစပ်၊ တောမြိုင်ရပ်၊ ဝါကပ် ကျောင်းတော် ရှိလိမ့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တတြသုဒံ ဘဂဝါ ပါလိလေယျကံ ဥပနိဿာယ ရက္ခိတဝန သဏ္ဍေ သဒ္ဒသာလရုက္ခမူလေ ပါလိလေယျကေန ဟတ္ထိနာ ဥပဋ္ဌဟမာနော ဖာသုကာ ဝဿာဝါသံ ဝသိ။ (ဓမ္မပဒအဋ္ဌကထာ)

ဒသမံ ပါလိလေယျကဝနသဏ္ဍေ ဝသိ။

(ဗုဒ္ဓဝင် အဋ္ဌကထာ။ အပဒါန်အဋ္ဌကထာ)

ဤသို့ ကျမ်းလာသောကြောင့် မြတ်စွာဘုရားသည် ဆယ်ဝါမြောက်အံ့သော ဝါ၌ ပါလိလေယျက ဆင်ကို အမှီပြု၍ ထိုဆင် စောင့်နေအပ်သော တောအုပ်၏အတွင်း အင်ကြင်းပင်ကြီး၏ အရင်း၌ ပါလိလေယျက ဆင်မင်း၏ အလုပ်အကျွေးကို ခံလျက် ချမ်းသာစွာ ဝါကပ်တော်မူသည်။ ဝါဆိုရန် ကျောင်းတော်မရှိဟူ၍ သိအပ်၏။

ကျောင်းမရှိသော် ဝါမကပ်သင့်ကြောင်းကို ရဟန်းတို့အား ပညတ်သည် မဟုတ်လော။ ပညတ်တိုင်းဘယ့်ကြောင့် ကိုယ်တော်မကျင့်သနည်း ဟူငြားအံ့- ကိုယ်တော်မှာ ဓမ္မိဿရ ဖြစ်သောကြောင့် အပြစ်မရှိ ဟူပေ။

❖❖❖❖❖

## ၅၀၁။ ကံငွေ့မစပ်၊ မမြင်အပ်၊ ကလာပ်ရှစ်ပါး အဘယ်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''လေ တည်းဟူသော ဝါယောဓာတ်၌ရှိသောဥတုဇ အဋ္ဌကလာပ်တည်း'' ဟုဖြေ။

လေ၌ အဋ္ဌ ကလာပ်ရုပ် ရှိကြောင်းကို အဘယ်ကိုထောက်၍ သိအပ် သနည်းဟူမူ-

**''ဥဏှာသမယေ ဝါတပါနံ ဝိဝရာပေတွာ ဝါတေန သရီရံ ပဟရာပေတွာ ဌိတော မန္ဒမန္ဒေ ဝါတေ ပဟရန္တော ကိဋ္ဌာပိ တတ္ထ ပထဝီပိ အတ္ထိ၊ တေဇောပိ အတ္ထိ၊ ဝါတမေဝ အာဘုဇတိ''**

ဟူ၍ အဋ္ဌသာလိနီ၌ မိန့်အပ်ပြီ။

ဥဏှာသမယေ၊ ပူအိုက်သောအခါ၌။ ဝါတပါနံ၊ လေသောက်တံခါးကို။ ဝိဝရာပေတွာ၊ ဖွင့်လှစ်၍။ ဝါတေန၊ လေဖြင့်။ သရီရံ၊ ကိုယ်ကို။ ပဟရာပေတွာ၊ ခပ်စေ၍။ ဌိတော၊ တည်သောသူကို။ မန္ဒမန္ဒေ၊ ညင်းညင်းသော။ ဝါတေ၊ လေသည်။ ပဟရန္တော၊ ခပ်သည်ရှိသော်။ တတ္ထ၊ ထိုခပ်သောလေ၌။ ပထဝီပိ၊ ပထဝီ ဓာတ်သည်လည်း။ ကိဋ္ဌာပိ အတ္ထိ၊ အကယ်၍ရှိ၏။ တေဇောပိ၊ တေဇောဓါတ် သည်လည်း။ ကိဋ္ဌာပိအတ္ထိ၊ အကယ်၍ရှိ၏။ တထာပိ၊ ထိုသို့ရှိငြားသော်လည်း။ ဝါတမေဝ၊ ဝါယောဓာတ်ကိုသာလျှင်။ အာဘုဇတိ၊ နှလုံးသွင်း၏။

ဤပါဌ်တို့၌ 'ပိ'သဒ္ဒါဖြင့် ကြွင်းသော ရုပ်ခြောက်ပါးကို ပေါင်းသည်။ ဘယ့်ကြောင့်နည်းဟူမူ-အဋ္ဌကလာပ်ရုပ်သည် အသီး အသီးခွဲ၍ မဖြစ်သော ကြောင့်တည်း။

❖❖❖❖❖

## ၅၀၂။ ဖဝါးတော်ရပ်၊ မြူမကပ်၊ ဖြူလုပ်စောထီး ဘယ့်ကြောင့်နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပညဝန္တံ၊ ပညာရှိသောသူတို့သို့။ ဥပသင်္ကမ္မ၊ ဆည်းကပ်၍။ ကုသလာဒီနံ၊ ကုသိုလ်အစရှိသော တရားတို့ကို။ ပုစ္ဆနာ၊ ဆွေးနွေးမေးမြန်းစုံစမ်းတော်မူခဲ့ဖူးသောကြောင့်။ သုခုမစ္ဆဝိတာစ၊ သိမ်မွေ့သောအရေရှိသောအဖြစ်သည်လည်းကောင်း။ ကာယေ၊ ကိုယ်တော်၌။ ရဇောဇလ္လံ၊ မြူမှုံညစ်ကြေးသည်လည်းကောင်း။ နုပလိမ္ပတိ၊ မလိမ်းကပ်။

ဤကား အလုံးစုံသော ကိုယ်တော်၌ မြူမကပ်သော အကြောင်းတည်း။

ဖဝါးတော်၌ မြူမကပ်သောအကြောင်းကို လက္ခဏာသုတ်၌ တိုက်ရိုက်မတွေ့။ ရှေးဆရာတို့၏ ဂါထာမူကား ဤသို့တွေ့ဖူး၏။

**ဂစ္ဆတော ဗုဒ္ဓသေဋ္ဌဿ၊ ဟေဋ္ဌာ ပါဒတလာ မုဒု။**
**သမံ သံဖုသတေ ဘူမိံ ရဇသာ နုပလိမ္ပတိ။**

ဂစ္ဆတော၊ ကြွတော်မူသော။ ဗုဒ္ဓသေဋ္ဌဿ၊ မြတ်စွာဘုရား၏။ ဟေဋ္ဌာ၊ အောက်ဖြစ် သော။ ပါဒတလာ။ ဖဝါးတော်အပြင်သည်။ မုဒု၊ နူးညံ့သိမ်မွေ့၏။ သမံ၊ အညီအမျှ။ ဘူမိံ မြေကို။ သံဖုသတေ၊ ကောင်းစွာထိ၏။ ရဇသာ၊ မြူဖြင့်။ နုပလိမ္ပတိ၊ မလိမ်းကပ်။

ဤ၌လည်း ဖဝါးတော်တွင် မြူမကပ်ကြောင်းကား ''အလွန်နူးညံ့သိမ်မွေ့သောကြောင့်'' ဟု စကားကျ၏။ ရှေးကုသိုလ်ကိုကား မပြချေ။

❖❖❖❖❖

## ၅၀၃။ ပုဆစ်ထက်ကြွပ်၊ လက်သုံးသပ်၊ ရပ်လျက် မှီကြောင်းဘယ်ကံနည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပုဗ္ဗေသု၊ ရှေးရှေးသောအဖြစ်တို့၌။ အယံ၊ ဤသူသည်။ ဣဒံ၊ ဤဝတ္ထုကို။ အရဟတိ၊ ထိုက်၏။ ဣတိ၊ ဤသို့။ ပုရိသဝိသေသဇာနနာ၊ ပုဂ္ဂိုလ်ထူး၏ ကျေးဇူးဂုဏ်ကိုသိသဖြင့်။ အနုဂ္ဂဟတော၊ ချီးမြှင့်တော်မူဖူးသည်၏ အဖြစ်ကြောင့်။ ဌိတောဝ၊ ရပ်၍သာလျှင်။ ဇာဏုံ၊ ပုဆစ်တော်ကို။ ဂဏှာတိ၊ လက်ဖြင့်သုံးသပ်တော်မူနိုင်၏။ ။ ငင်းလက္ခဏာသုတ်။

❖❖❖❖❖

၁၀၄။စည်သွယ်ချောသပ်၊နုဖပ်ဖပ်၊စေ့စပ်လက်ချောင်းဘယ့်ကြောင့်နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရှေးရှေးဘဝတို့၌ သူတစ်ပါးတို့အား ပေးကမ်းခြင်း,
ချစ်ဖွယ်သောစကားကို ဆိုခြင်း,
သူ၏ အကျိုးစီးပွားကို ကျင့်ခြင်း,
ခက်ထန်သောသူတို့အား နူးညံ့ပြေပြစ်အောင် ဆုံးမခြင်း,
ကိုယ်နှင့် ထပ်တူထားခြင်း

တည်းဟူသော သင်္ဂဟဝတ္ထုတို့ဖြင့် ချီးမြှောက်တော် မူခဲ့ဖူးသောကြောင့် မုဒုတရုဏ ဟတ္ထ လက္ခဏာကို ရတော်မူသည်။ ။ အနန္တဂုဏာသာရ။

❖❖❖❖❖

၁၀၅။ ရှစ်ပါးအရပ်၊ လောင်းမကပ်၊ ဇာတ်ရပ်များ၏ မည်သို့နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပစ္စန္တဇော အရူပိနော၊ ဝိကလင်္ဂေါ အသညဇော။**
**မိစ္ဆာဒိဋ္ဌိ တိရစ္ဆာနော၊ ပေတော နေရယိကော ပိစ။**
**ဣမေဝ အဋ္ဌ ဝဇ္ဇကာ။**

ပစ္စန္တဇော၊ သာသနာတော် မတည်သော ပစ္စန္တရစ်၌ ဖြစ်ခြင်း။ အရူပိနော၊ နာမ်သာရှိ၍ ရုပ်မရှိသော အရူပလေးဘုံ၌ဖြစ်ခြင်း။ ဝိကလင်္ဂေါ၊ လက်, ခြေ, မျက်စိ, နား အစရှိသော အင်္ဂါတစ်ပါးပါး ချို့သောသူ ဖြစ်ခြင်း။ အသညဇော၊ ရုပ်သာရှိ၍ နာမ်မရှိသော အသညသတ်ဘုံ၌ ဖြစ်ခြင်း။ မိစ္ဆာဒိဋ္ဌိ၊ နိယတမိစ္ဆာဒိဋ္ဌိအမျိုး၌ ဖြစ်ခြင်း။ တိရစ္ဆာနော၊ တိရစ္ဆာန်အမျိုး၌ ဖြစ်ခြင်း။ ပေတော၊ ပြိတ္တာဘုံ၌ဖြစ်ခြင်း။ နေရယိကောပိ စ၊ ငရဲကြီးရှစ်ထပ်၌ ဖြစ်ခြင်း။ ဣမေဝ အဋ္ဌ၊ ဤရှစ်ပါးသော အရပ်တို့သည် သာလျှင်။ ဝဇ္ဇကာ၊ အပြစ်ရှိသော အရပ်မည်ကုန်၏။

ဤအရပ်ရှစ်ပါးတို့သို့ ဘုရားအလောင်းတော်တို့ မရောက်မကပ်ဟု ဆိုသည်။ ငုံးမင်း, ခါမင်း, ကျေးမင်း, သမင်မင်း အစရှိသော တိရစ္ဆာန် ဖြစ်ရသောဇာတ်ကား အလွန်များ၏။ အဘယ်သို့ သိနိုင်ပါအံ့နည်းဟု မေးလိုသည်။

အဖြေကား – ဤရပ်ပြစ်ရှစ်ပါးသို့ အလောင်းတော်တို့ကို မရောက် မကပ်ကြောင်း ကို ကျမ်းဂန်မလာ။ တစ်ဆယ့်ရှစ်ပါးသောအရပ်သို့ မကပ် မရောက်ကြောင်း ကိုသာ ကျမ်းဂန်၌ လာသည်ဟု ဖြေ။

တစ်ဆယ့်ရှစ်ပါး ဟူသည်ကား–

န ဇစ္စန္ဓော၊ န ဇစ္စဗဓိရော၊ န ဥမ္မတ္တကော၊ န ဧဠမူဂေါ၊ န ပီဌသပ္ပီ၊ န မိလက္ခေသု ဥပ္ပဇ္ဇတိ၊ န ဒါသိကုစ္ဆိယံ နိဗ္ဗတ္တတိ၊ န

နိယတမိစ္ဆာဒိကော၊ န လိင်္ဂပရိဝတ္တိ၊ နအစနန္တရိယကမ္မိကော၊ န ကုဋ္ဌီ၊ န တိရစ္ဆာနယောနိယံ ဝဋ္ဋကတော ပစ္ဆိမတ္တဘာဝေါ၊ န ခုပ္ပိပါသိက, နိဇ္ဈာမတဏှိကပေတာ ကာလကဉ္ဇိကပေတေသု ဥပ္ပဇ္ဇတိ၊ န အဝီစိနိရယေ၊ န လောကန္တရနိရယေ၊ န ကာမာဝစရေသု မာရော။ န ရူပါဝစရေသု အသညီဘာဝသုဒ္ဓါဝါသေသု ဥပ္ပဇ္ဇတိ၊ န အန္တိမဘဝေသု၊ န အညံ စက္ကဝါဠံ သင်္ကမတိ။

ဟူ၍ သုတ္တနိပါတ် အဋ္ဌကထာ၊ ဗုဒ္ဓဝင်၊ အပဒါန်ကျမ်းတို့၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ ဗျာဒိတ်ရပြီးသော ဘုရားအလောင်းတို့သည်
ပဋိသန္ဓေအားဖြင့် မျက်စိကန်းသည် ဖြစ်တော်မမူ။
ပဋိသန္ဓေအားဖြင့် နားပင်းသည် ဖြစ်တော်မမူ။
ပဋိသန္ဓေအားဖြင့် ရူးသွပ်သည် ဖြစ်တော်မမူ။
အရိယိုသည် ဖြစ်တော်မမူ။
ဆွံ့အသည် ဖြစ်တော်မမူ။
တောတွင်း, တောင်တွင်းဟူသော လူရိုင်းမျိုးတို့၌လည်း ဖြစ်တော်မမူ။
ကျွန်မဝမ်း၌ ဖြစ်တော်မမူ။
နိယတမစ္ဆဒိဋ္ဌိ အယူရှိသော အမျိုး၌ ဖြစ်တော်မမူ။
ယောကျ်ားလိင်မှသည် မိန်းမလိင်,(မိန်းမလိင်မှသည် ယောကျ်ားလိင်) သို့ ပြန်လည်၍ ဖြစ်တော်မမူ။
အာနန္တရိယကံ ငါးပါးတွင် တစ်ပါးပါးကိုမျှ ပြုတော်မမူ။
နူနာရှိသည် ဖြစ်တော်မမူ။
တိရစ္ဆာန်အမျိုး၌ ဖြစ်သော်လည်း ငယ်စွအဆုံး ငုံးအောက်ငယ်သော တိရစ္ဆာန်, ကြီးစွအဆုံး ဆင်ပြောင်ကြီးထက် ကြီးသော တိရစ္ဆာန် ဖြစ်တော်မမူ)။
ပြိတ္တာအမျိုးတွင်လည်း ခုပ္ပိပါသိကပြိတ္တာ, နိဇ္ဈာမတဏှိကပြိတ္တာ, ကာလကဉ္စိက ပြိတ္တာတို့၌ ဖြစ်တော်မမူ။
အဝီစိ ငရဲ၌လည်းကောင်း, လောကန္တရက်ငရဲ၌လည်းကောင်း ဖြစ်တော်မမူ။
ကာမာဝစရနတ်တို့တွင် မာရ်နတ် ဖြစ်တော်မမူ။
ရူပါဝစရဘုံတို့တွင် သုဒ္ဓါဝါသ ငါးဘုံ၌ဖြစ်တော်မမူ။
အသညသတ်ဘုံ၌လည်း ဖြစ်တော်မမူ။
(အဆုံးစွန်သော ဘဝ၌) ဤစကြဝဠာမှတစ်ပါး အခြားစကြဝဠာ၌လည်း ဖြစ်တော်မမူ။
ဤတစ်ဆယ့်ရှစ်ပါးသော အရပ်တို့သည် အလောင်းတော်တို့ မဖြစ်ထိုက်သော အဘဗ္ဗဋ္ဌာန မည်ကုန်၏။

ယခင် ရပ်ပြစ်ရှစ်ပါးသည် ဤအဘဗ္ဗဋ္ဌာန တစ်ဆယ့်ရှစ်ရပ်၌ ဝင်သည်။ ဝင်သော်လည်း တိရစ္ဆာန်အမျိုး၌ ငုံးအောက်အယုတ်, (ဆင်ပြောင်ထက် အလွန်) ဟူ၍ ပမာဏထားလျက်ပြသောကြောင့် ထိုအတိုင်းသာ ယူမှတ်ရမည်ဟု ဖြေ။

❖❖❖❖❖

## ၅၀၆။ကောင်းခြင်းသုံးရပ်၊မြင်းနှင့်စပ်၊မွေးအပ် ဘယ်သုံးပါးတို့နည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အစပ်ငါးပါး ဟူသော်ကား–

သမင်လှမ်းဟူသော မြင်းရေးတစ်ပါး,
အသာသွားဟူသော မြင်းရေးတစ်ပါး,
ဆင်ရဲဟူသော မြင်းရေးတစ်ပါး,
အရိုင်းပြေး ဟူသော မြင်းရေးတစ်ပါး,
အပြင်းပြေး,အခုန်အလွှားပြေးဟူသော မြင်းရေးတစ်ပါး,

ဤငါးပါးသော မြင်းရေးသည် အစပ်ငါးပါးမည်၏။

ထိုတွင် မလန့်မဖျပ်သော သမင်တို့သည် အလိုလိုတော၌ သွားသကဲ့သို့ သွားစေသော အခြင်းအရာဖြင့် စီးသောမြင်းရေးသည် သမင်လှမ်းမည်၏။

ထိုထက်လွန်၍ သွားစေသော မြင်းရေးသည် နူးညံ့သောအပြေး ဖြစ်သောကြောင့် အသာသွားမည်၏။

အင်တန်နှင်၍သွားစေသော မြင်းရေးသည် ဆင်ရဲမည်၏။

မြင်းဇက်ကို မကိုင်မူ၍ ဥဗျိုင်းပျံသကဲ့သို့ သွားစေသော မြင်းရေးသည် အရိုင်းပြေး မည်၏။

ကြိမ်ကို ပြင်းစွာခတ်၍ မြင်းစွမ်း ရှိ, မရှိကို သိစေအံ့ဟု ပြင်းစွာပြေးစေသော မြင်းရေးသည် လည်းကောင်း, အခုန်ရော၍ ပြေးစေသော မြင်းရေးသည်လည်းကောင်း အပြင်းပြေးမည်၏။

ဤသို့ အစပ်ငါးပါးရှိသည်တွင် ရှေ့သုံးပါးကား ကောင်းသောစီးခြင်းတည်။

စီးရာအရပ်သုံးပါးကား–ဇက်–၁၊ နင်းကြိုး–၁၊ ကလည်း–၁၊ ဤသုံးပါးတည်း။ အကျယ်မှာ မြင်းကြန်စာရှိပြီ။

ခြေလေးဘက်ဖြူ၍ မျက်နှာအဆင်း ခြသေ့်နှင့်တူသော မြင်းကို အလျားလေးတောင်, လုံးပတ် သုံးထွာရှိသောတိုင်ဖြင့် အနောက်မျက်နှာ၌ ချည်မှုကား ရွှေ, ငွေ,ဥစ္စာ ပြည့်စုံလျက် ရန်တကာ အောင်အံ့သော မြင်းတည်း။

ရွှေးနီစိမ်းကဲ့သို့ မွဲနက်သောအဆင်းရှိ၍ လက်ယာပေါင်တွင် တံသင်းကဲ့သို့ ရှိသော မြင်းကား ထောက်ရာခုံတိုင်မည်၏။ အလျားငါးတောင် လုံးပတ်နှစ်ထွာတိုင်ဖြင့် အရှေ့ကချည်းမူကား ပရိက္ခရာ, ဥစ္စာလာပ်သပ်, ထပ်ထပ်တိုးပွား လွန်များပြားလျက် အသက် ရှည်ရာသော မြင်းတည်း။ ရန်မာန်ခပ်သိမ်း အလွန်ငြိမ်းအံ့။

နှာရှုပ်ကင်းသန်းကဲ့သို့ ရှိမူကား ဖွေပျက် ဖွေကျော်တည်း။ မျောက်လုပ်သား ကိုးတောင်ထွာ လက်နှစ်သစ်ခုံ တိုင်လုပ်၍ အိမ်၏အနောက်တောင့်ထောင်မှာ ချည်။ ဥစ္စာစည်းစိမ် တက်အံ့။ ဤကား မွေးအပ်သော မြင်းသုံးမျိုးတည်း။

❖❖❖❖❖

၅၀၇။ လည်လပ်မြီးထပ်၊မြင်းမွေးအပ်၊ကြပ်ခြင်း သုံးပါးအဘယ်နည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရင်ဘတ်၌ ဖွေရှိမူကား ချွန်းတောင်းမည်၏။ ထိုမြင်းကိုမွေး၍ ဘေးလွတ်စေလို မူကား ရှားခုံတိုင် အလျားလေးတောင်၊ လုံးပတ်ငါးထွာနှင့် လက်လေး သစ်လုပ်၍ အိမ်တောင်ကချည်။ ဘေးရန်မရှိ။ ထိသည်အနာ၊ ပျောက်ပေရာ၏။

လက်နှစ်ဖက်ဖြူ၍ အမြီးကူသောမြင်းကား ဒဏ်ထိအံ့။ လွတ်လိုမူကား သက်န်းသား အလျားလေးတောင်၊ လုံးပတ်ငါးထွာခုံတိုင်လုပ်၍ အနောက်မျက်နှာက ချည်။

လေးမျက်နှာက၊ လာသည်ရန်စစ်၊ တဖန်နှစ်လိမ့်၊ မပြစ်လာနိုင်၊ ထိုင်ကာ ပျောက်မည် အလားတည်း။

နောက်ခြေနှစ်ဖက်၊ သက်သက်ဖြူ၍၊ နောက်မြီးကူလည်း၊ ဤနည်းအတူ၊ အဆင်းဖြူက၊ သက်တူကြင်ရ၊ မိန်းမရတနာ၊ မကြာရအံ့ မလွဲတည်း။

ဦးခေါင်းနှင့်နား၊ မေးဖျားပါးချပ်၊ ဤနှစ်ရပ်၌၊ ရှိလတ်ဖွေကို၊ လွတ်လိုမူကား၊ မြောက်လုပ်သားကို၊ အလျားလေးတောင်၊ လုံးပတ်တစ်ထွာ လက်လေးသစ်၊ ခုံတိုင်စိုက်၍ အနောက်တောင်ထောင့်က ချည်ရမူကား ဘေးလွတ်ရှား၍များအံ့ လာဘ်သပ်ပကာ တည်း။

အမွေးသန့်စင်၊ နောက်တင်ညှံ့လျက်၊ ကျင်ငယ်ထွက်ကို၊ လက်ယာနံ့တောင်း၊ လျောင်း၍အိပ်မှတ်၊ ဤမြင်းမြတ်ကို၊ မချွတ်မွေးမြူ၊ ထိုသူသည်ကား၊ အမည်သင်းကျပ်၊ ဤသစ်ထပ်၍၊ မချွတ်ကောင်းမည်အလားတည်း။

ဤသို့ မြင်းကြန်စာတွင် ဆို၏။ မှတ်လိုသူတို့ မှတ်ပါစေခြင်းငှာ ပုစ္ဆာကိုလွန်၍ ဖြေလိုက်သည်။

❖❖❖❖❖

55
B

## ၅၀၈။ နှစ်ပါးတစ်ချပ်၊ မအိပ်အပ်၊ အပ်အောင် ဘယ်သို့ အိပ်မည်နည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ယာ ပန ဘိက္ခုနီ၊ အကြင်ရဟန်းမိန်းမသည်။ ဧကမဉ္စေ၊ တစ်ညောင်စောင်း တည်း၌။ ဒွေ၊ နှစ်ယောက်၊ တုဝဋ္ဋေယျုံ၊ အိပ်ကုန်ငြားအံ့။ တဿာ၊ ထိုဘိက္ခုနီမအား။ ပါစိတ္တိယံ၊ ပါစိတ် အာပတ်သင့်၏။

ဤသိက္ခာပုဒ်၏ အနာပတ္တိဝါရ၌–

ဧကာ ဘိက္ခုနီ၊ တစ်ယောက်သောဘိက္ခုနီသည်။ သယန္တေ၊ အိပ်သည်ရှိသော်။ ဧကာ ဘိက္ခုနီ၊ တစ်ယောက်သော ဘိက္ခုနီလည်း။ နိသီဒတိ၊ ထိုင်၍နေအံ့။ အနာပတ္တိ၊ အာပတ်မသင့်။ ရဟန်းယောကျ်ား၌လည်း ဤနည်းတူ တစ်ပါးအိပ်ခိုက် တစ်ပါးထိုင်၍ နေလျှင် အပ်၏ဟု မှတ်ရမည်။

❖❖❖❖❖

## ၅၀၉။ ပစ္စန္တရပ်၊ ထပ်ဖိနပ်၊ အပ်၏ဘယ့်ကြောင့် ခွင့်ပြုသနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ကြမ်းတမ်းသောမြေ, မညီညွတ် သောမြေရှိသောကြောင့် ပစ္စန္တရစ်အရပ်တို့၌ အထပ်ထပ်ချုပ်အပ်သော ဂုဏင်္ဂုဏူပါဟန မည်သော ဖိနပ်ကို ခွင့်ပြုတော်မူသည်။ (မဟာဝါပါဠိ)။

ပုဂ္ဂလောဒိဿ, ဘေသဇ္ဇောဒိဿ, ကာလောဒိဿ, ဒေသောဒိဿတည်း ဟူသော ဩဒိဿ ပညတ်လေးပါးတို့တွင်–

နွားဖြစ်ဖူးသောရဟန်းသည် စမြုံ့ပြန်တတ်သောကြောင့် စမြုံ့ပြန်စိမ့်သောငှာ ခွင့်ပြုတော်မူသည်ကား ''ပုဂ္ဂလောဒိဿပညတ်''မည်၏။

မွေခဲသောအခါ၌ သစ်ခက်စိမ်းကို ချိုးခြင်း, ပြာဖုတ်ခြင်း, ဘင်မြေကိုယူခြင်းကို ခွင့်ပြုတော်မူသည်ကား ''ဘေသဇ္ဇောဒိဿ''မည်၏။

ပစ္စန္တရစ်အရပ်၌ နွေအခါ လခွဲအတွင်း အလိုရှိတိုင်း ရေချိုးရန် ခွင့်ပြုတော်မူ သည်ကား ''ကာလောဒိဿ''မည်၏။

ပစ္စန္တရစ်အရပ်၌ အထပ်ထပ်သော ဖိနပ်ကိုသုံးဆောင်ရန် ခွင့်ပြုတော်မူ သည်ကား ''ဒေသောဒိဿ''မည်၏။

❖❖❖❖❖

## ၅၁၀။ သေသေသပ်သပ်၊ ပြားပြားဝပ်၊ ယုန်ဝပ်တုပ်ဝပ် မည်သို့နည်း။(၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ယုန်ဝပ်မှာ ခြေနှစ်ဖက်ကို ကိုယ်အောက်ဖိ၍ ထားသည်။ တုပ်ဝပ်မှာ–နံဘေးကိုကွေး၍ ထားသည်။ ဤသို့ထူး၏ ဟူပေ။

❖❖❖❖❖

## ၅၁၁။ နေ့ရက်ငင်အပ်၊ မငင်အပ်၊ စေ့စပ်ဗေဒင် မည်သို့နည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဤအရာ၌ လထပ်ရခြင်း, ရက်ငင်ရခြင်း၏အကြောင်းကို သိသာအောင် ထင်စွာပြ လိုက်အံ့-

ရှေးပညာရှိတို့ ပညတ်သောလသည် သူရိယမာသ, သာဝဏမာသ, စန္ဒြမာသ ဟူ၍ သုံးပါးအပြားရှိ၏။ ထိုသုံးပါးတို့တွင် နေမင်းသည် မိဿရာသီ၏ အစမှစ၍ နက္ခတ် စက်ကိုမှီလျက် သွားသမျှကာလကို ရေတွက်သော် သုံးရာ့ခြောက်ဆယ့် ငါးရက်နှင့်တစ်ဖန် မိဿရာသီသို့ မရောက်တတ်သေး၊ တစ်ရက်ခန့်ကို အစိတ်ရှစ်ရာပြု၍ နှစ်ရာ့ခုနစ်စိတ် ကုန်အောင် သွားပြန်မှ ယခင့်နေရာဟောင်းသို့ ရောက်၍ တစ်ပတ် လည်သည်။ ထိုနှစ်ရာ့ ခုနစ်စိတ်ကို နာရီဖွဲ့သော် ဆယ့်ငါးနာရီ, သုံးဆယ့်တစ်ဗိဇနာနှင့် ခရာသုံးဆယ် ရှိသည်။ ထိုသို့ တစ်ရက်အဖို့ကို အစိတ်ရှစ်ရာစိတ်၍ နှစ်ရာ့ခုနစ်စိတ်တွင် ပိုင်းဖြတ်သင့်ရကား သုံးရာခြောက်ဆယ့်ငါးရပ်ကိုလည်း ထိုနှစ်ရာ့ခုနစ်စိတ်နှင့် သမ ဘာဂဖြစ်စိမ့်သောငှာ ရှစ်ရာမြှောက်ပြီးလျှင် ယခင့်နှစ်ရာ့ ခုနစ်စိတ်နှော၍ တစ်နှစ် သွားကြမတ် နှစ်သိန်း ကိုးသောင်း နှစ်ထောင့်နှစ်ရာ ခုနစ်ခု ဖြစ်သတည်း။ ထိုကြမတ်ကို တစ်ဆယ့်နှစ်စုပြု၍ တစ်စုလျှင် တစ်ရာသီ။ ထိုတစ်ရာသီ၌ အဿရက် သုံးဆယ်ဖြင့် ပိုင်းခြားအပ်သော လသည် ''သူရိယမာသ''မည်၏။

ရှေ့လပြည့်ကျော် တစ်ရက်မှစ၍ နောက်လပြည့်တိုင်ရုံ ပိုင်းခြားအပ်သော ဝေါဟာရ ရက် သုံးဆယ်သည် ''သာဝဏမာသ''မည်၏။

နေနှင့်လ ထပ်၍ သွားသည်မှစ၍ နောက်တစ်ဖန် ထပ်လျက် သွားပြန်သည် တိုင်အောင် လကွယ်နှစ်ခုဖြင့် ပိုင်းခြားအပ်သော နှစ်ဆယ့်ကိုးရက်နှင့် သုံးဆယ့်တစ်နာရီ သည် ''စန္ဒြမာသ''မည်၏။ တိထိ လည်းမည်၏။ ထိုသို့ လ-သုံးမျိုးပြားသောကြောင့် ရက်သည်လည်း အံသာရက်, ဝေါဟာရရက်, တိထိရက်ဟူ၍ သုံးပါး ပြားသတည်း။

ထို သုံးပါးတို့တွင် အံသာရက်အောက် ဝေါဟာရ ရက်သည် တစ်နေ့တစ်နေ့၌ သုံးပါဒ်ခုနစ်ဗိဇနာ, လေးခရာ ငယ်သည်။ ၎င်း အံသာရက်၏ အောက်တိထိရက်သည် တစ်နာရီ, သုံးပါဒ်, ခုနစ်ဗိဇနာ ငယ်သည်။

ထို့ကြောင့် တစ်လ တစ်လသော် စန္ဒြမာသထက် သူရိယမာသသည် ၅၆- နာရီ လွန်သည်။ နှစ်နှစ်နှင့်ရှစ်လ တစ်ဆယ့်ခြောက်ရက် လေးနာရီ ရောက်သောအခါ နာရီပေါင်း တစ်ထောင့်ရှစ်ရာ နှစ်ဆယ့်လေးနာရီ လွန်သည်ဖြစ်၍ စန္ဒြမာသက လပြည့်တော့သည်။ ထိုလသည် ဝေါဟာရကို လွန်လေသောလ ဖြစ်သောကြောင့် ''အဓိမာသ်''ဟု ခေါ်သည်။

ထိုအဓိမာသ်တစ်ခု၌ ရသောနာရီပေါင်း ၁၈၂၄-ကို တွက်ပုံကျဉ်းစိမ့်သောငှာ ရှစ်ခုဖြင့် ချုံး၍ လဒ် ၂၂၈-ခုဖြစ်လေသည်။ ထိုနာရီပေါင်း ၁၂၈၄ကို တည်၍ တစ်နေ့၌ နာရီ ၆၀-ဖြစ်ရကား ၆၀-စား လဒ်ရ ၃၀သည် ရက်ပေါင်းဖြစ်၏။ လပြည့်သောကြောင့်

မာသကိန်းတစ်ခု တက်လေသည်။ အစွန်း ၂၄-နာရီ လွန်သည်။ ထို ၂၄-နာရီသုံးကြိမ် လွန်သောအခါ ရက်ပိုတစ်ခုရ၍ အချာဟ ဆို၏။ ထိုအချာဟ မြင်သောအခါ နယုန်လ၌ တစ်ရက်သွင်း၍ ရက်ငင်ရသည်။

အဓိမာသ် တစ်ပါး၏ အသက်ကို တွက်လျှင် နှစ်နှစ်နှင့်ရှစ်လဆယ့်ခြောက်ရက် သုံးနာရီ ၅၅-ဗီဇနာ ၇-ခရာရသည်။

ထို့ကြောင့် နိဿယသိန္ဓုကျမ်း, သိဒ္ဓန္တသိရောမဏိကျမ်း, မလမာသကျမ်းတို့၌-

**ဒွတ္တိံသဘိ မိတေ မာသေ၊ ဒိနေသောဠသဘိ တထာ။**
**ဃဋိကာနံ စတုက္ကေန၊ ပတတျေကော ဓိ မာသကော။**

ဟူ၍ ဆိုသည်။

ဒွတ္တိံသဘိ၊ ၃၂-လတို့ဖြင့်။ မိတေ၊ နှိုင်းရှည့်အပ်သော။ မာသေ၊ လတို့ဖြင့် လည်းကောင်း။ ဒိနေသောလသဘိ၊ တစ်ဆယ့်ခြောက်ရက်တို့ဖြင့်လည်းကောင်း။ တထာ၊ ထိုမှတစ်ပါး။ ဃဋိကာနံ၊ နာရီတို့၏။ စတုက္ကေန၊ လေးခုဖြင့်လည်းကောင်း။ ဧကော၊ တစ်ကြိမ်သော။ အဓိမာသကော၊ လလွန်သည်။ ပတတိ၊ ကျ၏။ ဝါ၊ ပြို၏။

ယင်းသို့ သူရိယမာသနှင့် စန္ဒမာသ မညီရှိသည်ကို မကွဲမပြားစေဘဲ ယှဉ်တွဲကာ သွား၍ လစဉ်ရာသီစောင့်နက္ခတ်နှင့် ယဥ်ညီညွတ်မှန်ကန်စေခြင်းငှာ ဝါဆိုလတွင် လွန်သောလကို ထပ်၍ ''အဓိမာသ''ဟု ရှေးပညာရှိတို့ ပညတ်ကြသည်။

ထို အဓိမာသ်သို့ရောက်လျှင် ပြက္ခဒိန်တွင် အမာဝသီနှစ်ထပ် ဖြစ်ခြင်းသည် မြဲ၏။ ဘယ့်ကြောင့်နည်းဟူမူ အဓိမာသ်ပြိုသောလ၏ အခြားမဲ့၌ အမာဝသီ နှစ်ထပ်ဖြစ်မြဲ တည်း။

ဗိုလ်၌ကား မာသကိန်း တစ်ဆယ့်သုံးလတိုးသည်လည်း ရှိ၏။ မတိုးသည်လည်း ရှိ၏။ အဓိမာသ်ပြိုမပြိုကိုကား ရက်ဗိုလ်တွက်ရိုးဖြင့် သိရ၏။ အကြင်နှစ်၌ အဓိမာသ် ပြိုခြင်း, အမာဝသီနှစ်ထပ်ဖြစ်ခြင်း, မာသကိန်း တစ်ဆယ့်သုံးလတိုးခြင်း အကြောင်း သုံးပါး ညီအံ့-ထိုနှစ် အတာမတက်မီ အဓိမာသ်ပြိုသည်ဟူ၍ သိအပ်၏။ အဓိမာသ် မပြိုဘဲ မာသကိန်း တစ်ဆယ့်သုံးလတိုးသောနှစ်၌ မိဿရာသီတွင် အမာဝသီနှစ်ထပ် ဖြစ်သည် များ၏။

အဓိမာသ်လည်း မပြို မာသကိန်းလည်း တစ်ဆယ့်သုံးလ မတိုးဘဲ ရက် ၂၉-မြင်သောနှစ်၌ ပြိဿရာသီတွင် အမာဝသီနှစ်ထပ်ဖြစ်သည်များ၏။

အဓိမာသ်လည်းမပြို မာသကိန်းလည်း တစ်ဆယ့်သုံးလမတိုးဘဲ ရက်လွန် နှစ်ဆယ့်ရှစ်မြင်သောနှစ်၌ မေထုန်ရာသီတွင် အမာဝသီ နှစ်ထပ်ဖြစ်သည်များ၏။

ထိုသို့ အဓိမာသ်မပြိုဘဲ ပြိဿရာသီ မေထုန်ရာသီတို့၌ အမာဝသီနှစ်ထပ် ဖြစ်သမျှသည် လငင်မြဲဖြစ်သော ဝါဆိုလသို့ မရောက်မီ အဓိမာသ်ပြိုလေသောကြောင့် လထပ်သင့်သည်သာတည်း။ ထိုသို့ ထပ်ရသော အဓိမာသ်ကို ''အပတ္တာအဓိမာသ်''ဟု

ဆိုထိုက်၏။ အဓိမာသ်ပြီး၍ မာသကိန်း တစ်ဆယ့်သုံးလတိုးမှ လင်ငရသည်ကို ''ပတ္တာအဓိမာသ်''ဟု ဆိုထိုက်၏။

အမာဝသီနှစ်ထပ်မြင်ခြင်း၏ လက္ခဏာကိုကား နိဏ္ဏယသိန္ဓုကျမ်း၌–

**ကာဠသတ္တေ ယသ္မိံမာသေ၊ န သင်္ကြန္တိ ဒိဝါကရော။**
**သင်္ကြန္တိ ဒွယမေဝ ဝါ၊ မလမာသောတိ ဝိညေယျော။**
**အာဟသော အာသုံတု အတြ၊ မာသော တြယော ဒသေဝ စေတိ။**

ဟူ၍ မိန့်အပ်ပြီ။

ကာဠသတ္တေ၊ ကာဠဆရာစီရင်အပ်သော ကျမ်း၌။ အာဟ၊ ဆိုလတ်သည်ကား။ ယသ္မိံမာသေ၊ အကြင်လ၌။ ဒိဝါကရော၊ တနင်္ဂနွေဂြိုဟ်သည်။ နသင်္ကြန္တိ၊ မပြောင်းလေအံ့။ သင်္ကြန္တိဒွယမေဝဝါ၊ သင်္ကြန်နှစ်ကြိမ်မူလည်းပြောင်းလေအံ့။ သော၊ ထိုလကို။ မလ မာသောတိ၊ လပုပ်ဟူ၍။ ဝိညေယျော၊ သိအပ်၏။ တု၊ ထိုသို့ဖြစ်ခဲ့သော်။ အတြ၊ ဤ မလမာသ သင့်သောနှစ်၌။ မာသော၊ စန္ဒြမာသသည်။ တြယောဒသ၊ တစ်ဆယ့် သုံးလ တို့သည်။ အာသုံ၊ ဖြစ်ကုန်ပြီ။

ဤသို့ သင်္ကြန်ပြောင်းခြင်း ကင်းသော လသင်္ကြန်နှစ်ကြိမ်ပြောင်းသော လတို့သည် လပုပ်၊ လပိုဖြစ်၍ အမာဝသီ နှစ်ထပ်ဖြစ်သည်မည်၏။ ယင်းသို့ အမာဝသီ နှစ်ထပ်ဖြစ်သည်ကို မြင်သောအခါ၌ လင်ငရသောအကြောင်းကို ရာဇမတ္တဏ်ကျမ်း၌–

**''ယဒါ့ မာဝသီဒွယံ ဒိဋ္ဌံ၊ တဒါ ဒွိရာသဋ္ဌံပရိကပ္ပယေတ်''**

ဟူ၍ ဆိုသည်။

ယဒါ၊ အကြင်အခါ၌။ အမာဝသီဒွယံ၊ အမာဝသီနှစ်ထပ်ကို။ ယဒိဒိဋ္ဌံ၊ အကယ်၍ မြင်ငြားအံ့။ တဒါ၊ ထိုအခါ၌။ ဒွိရာသဋ္ဌံ၊ ဝါဆိုနှစ်လ ထပ်သည်ကို။ ပရိကပ္ပယေတ်၊ ကြံရာ၏။

ငင်း ရာဇမတ္တဏ်၌ ''စမ္ဗော မိဂသိရေ မာသေ'' စသည်ဖြင့် ရှေးဆိုခဲ့သော စကားသည် ကာလလျားလျှင် တိမ်းပါးရာသောကြောင့် ''ယဒါ့မာဝသီဒွယံ'' ဟူသော မုချစကားကို နောက်ဆိုပြန်သည် ဟု မှတ်ရာသည်။ (ဤကား လ ထပ်ရခြင်း၏ အကြောင်း စကားတည်း။)

ရက်ငင်ရခြင်း၏အကြောင်းကား–တစ်နှစ်လျှင် အဝမာန် ခြောက်ကြိမ်ဖြို၍ ဒိန္နက်သဲ ခြောက်ရက် ရသည်ကိုစွဲ၍ ရက်မစုံ ခြောက်လပြုရသည်တွင် ရုံခါဒိန္နက်သဲ ငါးကြိမ်သာ ရလျက် ရက်မစုံ ခြောက်လပြုမြဲ ပြုလေသောကြောင့် ဝေါဟာရနှင့် ဃဋီ မညီရှိသည်ကို ညီစေခြင်းငှာ ရက်ငင်ခြင်းကို ပြုရသည်။ ငင်ရမည့်အခါကိုကား လထပ်သော နှစ်နောက် ဝါဆိုလပြည့်နေ့၌ ပုဏ္ဏာတိထီ တစ်ဆယ့်ငါးလုံး မပြည့်သော် ရက်ငင်၍ နယုန်လ၌ ရက်စုံ ကွယ်စေရမည်။ ရက်စုံမငင်ဘဲ တိထီတစ်ဆယ့်ငါးလုံး ပြည့်သော် မငင်ရပြီ။

ထို့ကြောင့် ရာဇမတ္တဏ်၌–

**ဒွိရာသလေ ယဒါကာလေ၊ ပုဏ္ဏမိယံ တိထိ ဘဝေတ်။**
**ပန္နရသီ ယဒျပုဏ္ဏော၊ ဒိနာကမုံပြကပ္ပယေတ်။ ။**

ဟူ၍ ဆိုသည်။

ယဒါ ကာလေ၊ အကြင်အခါ၌။ ဒွိရာသဠေ၊ ဝါဆိုလနှစ်လ ထပ်ခြင်းသို့။ ပတ္တေ၊ ရောက်လတ်သော်။ ပုဏ္ဏမိယံ၊ လပြည့်နေ့၌။ တိထိ၊ တိဗထိသည်။ ပန္နရသီ၊ ၁၅–လုံးသည်။ ဘဝေတ်၊ ဖြစ်ရာ၏။ အပုဏ္ဏော၊ ၁၅–မပြည့်သည်။ ယဒိသျတ်၊ အကယ်၍ ဖြစ်ငြားအံ့။ ဒိနာကမုံ၊ ရက်ငင်ခြင်းကို။ ပြကပ္ပယေတ်၊ ကြံရာ၏။

လောကဒီပနီ၌ ဝိနည်း ဋီကာတို့နှင့်ညှိ၍ ဆိုဆုံးဖြတ်သည်ကား ဤသာသနာတော်၌ နက္ခတ်ကို ပဓာနပြု၍ ယူအပ်၏။ နေမင်းသည် ဝါဆိုလပြည့်နေ့၌ ဖုသျှ, အသလိဿ နက္ခတ်တို့နှင့် ယှဉ်လျက် ကြကင်၍သွားအံ့၊ လသည် ဥတြာသဠ်နက္ခတ်နှင့် ယှဉ်လျက် မကရရာသီသို့ ရောက်အံ့၊ ဤသို့သွားမှု နေလနှစ်ပါးသည် နိုင်းရှည့်မိသည် မည်၏။ ထို့ကြောင့် အကြင်လလွန်သင့်သောနှစ်၌ ဒုတိယဝါဆိုလပြည့်နေ့ လပြည့်ကျော် တစ်ရက်နေ့၌ ဥတြာသဠ်နှင့်လည်းကောင်း၊ ပုဏ္ဏတိထိ ၁၅–လုံးနှင့်လည်းကောင်း ညီစေရာ၏။ လပြည့်ကျော် နှစ်ရက်နေ့မှ ညီသည်ဖြစ်အံ့ နယုန်လကွယ်နေ့၌ ပန္နရသီ ဥပုသ်ပြုရာ၏။ ဤသို့ သာသနာကျမ်း, လောကီကျမ်းတို့ကို ထောက်၍ နေ့ရက်ငင်အပ် မငင်အပ်ကို ဆိုသောစကားသည် သာမဗေဒင်မှထွက်၏ ဟူပေ၏။

❖❖❖❖❖

## ၅၁၂။ ယာမာနတ်ရပ်၊ စက်တော်ကွပ်၊ ကပ်၍ဘယ်တွင် တည်သနည်း။(၁၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**"တီဏိ ခေါ ပန ဘဂဝတော ပါဒစေတိယာနိ လင်္ကာဒီပေ ကော်။**
**ဇမ္ဗုဒီပေ ယောနကရဋ္ဌေ ဒွေတိ–"**

စသည်ဖြင့် သာရတ္ထသင်္ဂဟ၌ လာသောကြောင့် မြတ်စွာဘုရား၏ ခြေတော်ရာသည်–

သီဟိုဠ်ကျွန်း၌တစ်ဆူ,
ဇမ္ဗူဒိပ်ကျွန်း သစ္စဗန္ဓတောင်၌ တစ်ဆူ,
နမ္မဒါမြစ်နား၌ တစ်ဆူ,

ဤသုံးဆူရှိသည် ဟူ၍သာ ဆိုသည်။ ယာမာနတ်ပြည်၌ ပါဒစေတီရှိကြောင်းကို ကျမ်းဂန်မဆို။ ထိုထိုမှတ်စု စာငယ်များ၌ "ဇမ္ဗူမှာ ဒွေး, ယာမာ ဧ" ဟူ၍ စပ်ဆိုသည်ကိုတွေ့ဖူး၏။ ပမာဏ မပြုလောက်သောကြောင့် မှချရှိ၏ဟု မဆိုသာချေ။

❖❖❖❖❖

## ၅၁၃။ ခြေရာမကပ်၊ ကောင်းကင်ရပ်၊ ဟောအပ် ဘယ်သူ့ကိုပေနည်း။(၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သုဘဒ် အမည်ရှိသော ပရိဗိုဇ်ကြီးကို ဟော၏ဟူပေ။

**အကြောင်းကိုဆိုလိုက်ဦးအံ့။** ။ဘုရားသခင်သည် ကုသိနာရုံပြည် မလ္လာမင်းတို့၏ အင်ကြင်းပင်စုံကြား၌ ရတနာညောင်စောင်းဖြင့် လျောင်းတော်မူ၍ လူရဟန်းဖြစ်ကုန်သော ပရိသတ်တို့အား တရားဩဝါဒဖြင့် ဆုံးမတော်မူ၍ ညဥ့်ပထမယံလွန်သဖြင့် အသံဆိတ်တော်မူသောအခါ ကုသိနာရုံပြည်၌ နေသော သုဘဒ်ပရိဗိုဇ်ကြီးသည် ယနေ့ည ပစ္ဆိမယံ၌ပင် ဘုရားသခင် နိဗ္ဗာန်ဝင်တော့အံ့ ဟု သတင်းကြား၍ လျင်စွာ လာခဲ့ပြီးလျှင် ရှင်အာနန္ဒာ၏အထံသို့ကပ်၍ ဤသို့တောင်းပန်၏ "အရှင်အာနန္ဒာ၊ အကျွန်ုပ်သည် သက်ရွယ်အားဖြင့် ကြီးကုန်သော အစဉ်အဆက်ကို ပြောဆိုတတ်ကုန်သော ဆရာ၏ဆရာဖြစ်ကုန်သော ပရိဗိုဇ်ကြီးတို့၏အထံမှ ဆုံးမသံစကားကို ဤသို့ကြားဖူးပါသည်။ ဤလူ့ရွာ၌ ကိလေသာခပင်းကို အကြွင်းမဲ့ ပယ်သင်၍ လေးအင်သောသစ္စာကို ကောင်းစွာ သိမြင်တတ်သော မြတ်စွာဘုရားတို့သည် တစ်ရံတစ်ခါမျှ ဖြစ်လာခြင်းငှာ အလွန်ရှား၏။ အကယ်၍ ဖြစ်လာငြားက ယုံမှားရှိသမျှကို ပျောက်စေရာ၏ ဟူ၍ ကြားဖူးပါသည်။ ထို့ကြောင့် အရှင်တို့ဆရာ ဂေါတမ၌ အကျွန်ုပ်အလွန်ကြည်ညိုပါသည်။ ယင်းသို့ ကြည်ညိုလျက် တစ်ရက် တစ်ည တစ်ခဏမျှ မဆည်းကပ်ရပါသေး။ ယနေ့ည မိုးသောက်ယံ၌ပင် နိဗ္ဗာန်ဝင်လတ္တံ့ဟု ကြား၍ ငါ၏ယုံမှားခြင်းကို အရှင်ဂေါတမ တစ်ပါးသာ ပယ်နိုင်ရာသည်။ ကြာလျှင် မတွေ့ရချေပြီဟုကြံ၍ လျင်မြန်စွာ လာခဲ့ပါသည်။ အရှင်အာနန္ဒာ၊ အကျွန်ုပ်တောင်းပန်ပါ၏။ မြတ်စွာဂေါတမကို ဖူးမြင်ပါရစေ။ ခွင့်ပေးတော် မူပါ"ဟု တောင်းပန်၏။

ရှင်အာနန္ဒာကလည်း– သာသနာတော်မှ အပဖြစ်သော တိတ္ထိတို့သည် မိမိတို့၏ အယူကိုသာ မြဲမြံစွာ ယူကုန်၏။ ထိုအယူကို ပယ်ရှားအောင် တရားဟောရသော် ဘုရားကိုယ်တော် ပင်ပန်းခြင်း ဖြစ်လိမ့်မည်ဟု အောက်မေ့၍ "ငါ့ရှင်သုဘဒ်၊ အကြောင်းမသင့် အခွင့်မသာပြီ။ မြတ်စွာဘုရားကို မညှဉ်းဆဲလိုလင့်။ ကိုယ်တော်မြတ် ပင်ပန်းလှသည်"ဟု ဆိုပေ၏။

ထိုသုဘဒ် ပရိဗိုဇ်ကလည်း အခွင့်ကိုလိုသော် သူကြည်ညိုအောင် ပြုအပ်လှပေသည်ဟု နှလုံးထား၍ ဝပ်တွားခယစွာ ရှင်အာနန္ဒာကို သုံးကြိမ်မြောက်အောင်တောင်းပန်၏။ အရှင်အာနန္ဒာကလည်း ခွင့်မပေးဘဲ သုံးကြိမ်မြောက်အောင်ပင်တားမြစ်၏။

ယင်းသို့ သုဘဒ် တောင်းပန်သောစကားကို ဘုရားကိုယ်တိုင် ကြားတော်မူလျှင် သုဘဒ်၏ အကျိုးငှာပင် ပြင်းစွာသော အားထုတ်ခြင်းဖြင့် လာသည်ဖြစ်သောကြောင့်

''ချစ်သားအာနန္ဒာ၊ မတားမြစ်ပါလင့်၊ ငါဘုရားကို ဖူးမြင်ပါစေ၊ ပြဿနာ မေးလိုသော်လည်း မေးပါစေ''ဟု မိန့်တော်မူ၏။

ထိုအခါ အရှင်အာနန္ဒာကလည်း ''ငါ့ရှင်သုဘဒ် မြတ်စွာဘုရားသည် သင့်အား ခွင့်ပေးတော်မူပြီ၊ ဝင်လော့၊ ဝင်လော့''ဟု ဆိုပေသည်။

ထိုစကားကိုကြားသော် သုဘဒ်ပရိဗိုဇ်လည်း အားရဝမ်းသာ ဘုရားရှိရာသို့ ကပ်ပြီးသော် ကိုယ်တော်မြတ်အား လျောက်ပတ်သော ပဋိသန္ထာရ စကားကို ဆိုပြီးမှ ''အရှင်ဘုရား၊ အကျွန်ုပ် သံသယတစ်ခုရှိပါသည်၊ ထိုပြဿနာကို သိသာအောင် ဖြေတော် မူပါ၊ ဤလူ့ရွာ၌ ဂိုဏ်းဆရာပြုလုပ်ကုန်သော ပူရဏကဿပ အစရှိကုန်သော သူတို့သည် မိမိတို့ဝန်ခံသော အတိုင်း အလုံးစုံသော တရားကို သိနိုင်ပါကုန်၏လော။ ထိုသူတို့ ကျင့်အပ်သော အကျင့်သည် ကောင်းကျိုးရှိပါ၏လော။ အဘယ်သူတို့၏ အယူ အကျင့်သည် ကောင်းသနည်း။ အဘယ်သူတို့၏ အယူအကျင့်သည် မကောင်းသနည်း။ ကျွန်ုပ် အမှန် သိလိုပါသည်''ဟု လျှောက်၏။

ဘုရားသခင်ကလည်း– ''အချင်းသုဘဒ်၊ ဤစကားကို ငါဘုရားဖြေဆိုခြင်းငှာ အကြောင်းမသင့်။ ဤစကားကို ထားဘိလော့။ သင် သိသာအောင် ငါဟောအံ့။ အကြင် သူ၏အယူသည် ဟုတ်မှန်၍ ကျင့်ကြံသော စာရိတ္တ ကောင်းသည်ဖြစ်အံ့။ ထိုသူတို့၏ သာသနာ၌ သောတာပန်ကိုလည်းကောင်း, သကဒါဂါမ်ကိုလည်းကောင်း, အနာဂါမ်ကို လည်းကောင်း, ရဟန္တာကိုလည်းကောင်း, ဈာနလာဘီပုဂ္ဂိုလ်ကို လည်းကောင်း, အခါခပ်သိမ်း ရဘိရာ၏။ ဈာန်, မဂ်မရမူ၍ သေလွန်သော်လည်း နတ်ပြည် သုဂတိသို့ လားရာ၏။ အယူမမှန်၍ ကျင့်ကြံသော စာရိတ္တ မကောင်းသည် ဖြစ်အံ့–မဂ္ဂဋ္ဌာန်, ဖလဋ္ဌာန်, ဈာန်ရပုဂ္ဂိုလ်တို့ စင်စစ်မဖြစ်နိုင်ရာ။ ကိလေသာ ညစ်ကြေးကို ကင်းဝေစေတတ်သော အဋ္ဌင်္ဂိကမဂ္ဂ ပဋိပဒါကိုမျှ မရလေရာ''ဟု မိန့်တော်မူပြီးမှ–

**အာကာသေဝ ပဒံ နတ္ထိ၊ သမဏော နတ္ထိ ဗာဟိရေ။**
**ပပဉ္စာဘိရတာ ပဇာ၊ နိပ္ပပဉ္စာ တထာဂတာ။**

**အာကာသေဝ ပဒံ နတ္ထိ၊ သမဏော နတ္ထိ ဗာဟိရေ။**
**သင်္ခါရာ သဿတာ နတ္ထိ၊ နတ္ထိ ဗုဒ္ဓါန မိဉ္ဇိတံ။**

ဟူသော နှစ်ဂါထာကို ဟောတော်မူ၏။

**အနက်ကား။** ။ သုဘဒ္ဒ၊ သုဘဒ်။ အာကာသေ၊ ကောင်းကင်ပြင်၌။ ပဒံ၊ ခြေရာသည်။ နတ္ထိဣဝ၊ မရှိသကဲ့သို့။ ဗာဟိရေ၊ ငါဘုရား၏သာသနာတော်မှ အပ၌။ သမဏော၊ ကိလေသာကို ကောင်းစွာ ငြိမ်းစေသောရဟန်းသည်။ နတ္ထိ၊ မရှိ။ ပဇာ၊ သတ္တဝါတို့သည်။ ပပဉ္စာဘိရတာ၊ သံသရာဝဋ်ကိုချဲ့ထွင်တတ်သော တဏှာ, မာန, ဒိဋ္ဌိ အစရှိသော ပပဉ္စတရား၌ မွေ့လျော်ကုန်၏။ တထာဂတာ၊ ငါဘုရားတို့သည်။

နိပ္ပပဉ္စာ၊ တဏှာ, မာန, ဒိဋ္ဌိ စသော ပပဉ္စတရားမရှိကုန်။ သုဘဒ္ဒ၊ သုဘဒ်။ အာကာသေ၊ ကောင်းကင်ပြင်၌။ ပဒံ ခြေရာသည်။ နတ္ထိက္ကာ၀၊ မရှိသကဲ့သို့။ ဗာဟိရေ၊ ငါဘုရား၏ သာသနာတော်မှ အပ၌။ သမဏော၊ ရဟန်းသည်။ နတ္ထိ၊ မရှိ။ သင်္ခတာ၊ ပြုကုန်သော။ သင်္ခါရာ၊ သင်္ခါရတရား တို့သည်။ နတ္ထိ၊ မရှိကုန်။ ဗုဒ္ဓါနံ၊ ဘုရားသခင်တို့အား။ ဣဉ္ဇိတံ၊ တဏှာ, မာန, ဒိဋ္ဌိ, စသော ကိလေသာဖြင့် တုန်လှုပ်ခြင်းသည်။ နတ္ထိ၊ မရှိ။

ဤဂါထာဖြင့် ကောင်းစွာဟောပြသော တရားစကားကို ကြားရလျှင် သုဘဒ်ပရိဗိုဇ်လည်း ဘုရားကျေးဇူးကို အထူးသဖြင့် ချီးပ၍''အရှင်ဘုရား၊အကျွန်ုပ်သည် ကိုယ်တော်မြတ်သာသနာ၌ ရဟန်းပြုလိုပါသည်''ဟု လျှောက်လေသော် ကိုယ်တော်မြတ်လည်း ''အချင်းသုဘဒ်-တိတ္ထိဖြစ်ဖူးသော သူသည် ငါ၏သာသနာသို့ ဝင်လိုမူ လေးလပတ်လုံး ပရိဝါသ်နေရသည်။ လေးလလွန်၍ အဇ္ဈာန်သွင်းပြီးမှ ရဟန်းပြုရချေသည်။ သို့ရာတွင်ကား ငါဘုရားသည် ပုဂ္ဂိုလ်အထူးကိုလည်း သိတော်မူ၏''ဟု မိန့်တော်မူ၏။''အရှင်ဘုရား-အရှင့်တပည့်သား သံဃာတော်တို့သည် အကယ်၍ ရဟန်းပြုတော်မူပါသည် ဖြစ်အံ့-အကျွန်ုပ်လေးလကို မဆိုထား၊ လေးနှစ်ပက်လုံး ပရိဝါသ်နေပါအံ့'' ဟု လျှောက်၏။

ဘုရားသခင်လည်း အရှင်အာနန္ဒာကို ခေါ်တော်မူ၍ ''ချစ်သားအာနန္ဒာ-သာသနာ၌ အာသာအလွန်ရှိသော သုဘဒ်ကို ယခုပင် ရဟန်းပြုလော့''ဟု မိန့်တော်မူ၏။

အရှင်အာနန္ဒာလည်း သင့်ရာသို့ခေါ်၍ ဆံမုတ်ဆိတ်ကို ပယ်ရိတ်ပြီးလျှင် သရဏဂုံ သီလပေး၍ ဘုရားရှင်ထံသို့ ဆောင်ပြီးလျှင် ပဥ္စင်းခံစေ၍ ကမ္မဋ္ဌာန်းကို ပေးတော်မူလိုက်၏။

သုဘဒ်ပရိဗိုဇ်လည်း ထိုဥယျာဉ်တွင်း၌ စင်္ကြံသွားလျက် ကမ္မဋ္ဌာန်းကိုအားထုတ်သဖြင့် ထိုညဉ့်ပင် ရဟန္တာဖြစ်လေ၏။

ဤသုဘဒ်ပရိဗိုဇ်ကား ''ဥဒိစ္စ မဟာသာလ ပုဏ္ဏားမျိုးမှ အဝတ်ဖြူဆည်း၍ ရဟန်းပြုသောသူ'' ဟူ၍ ဒီဃနိကာယ်အဋ္ဌကထာ၌ လာသည်။

ဓမ္မပဒအဋ္ဌကထာ၊ ထေရသကဏ်ဋီကာတို့၌ကား-''ဝက်ဖနေပုဒ်၌ မုဆိုးသမီးဆာဝါနှင့် ဥပက သင့်မြတ်ရာတွင် မြင်သောသား''ဟူ၍ ဆိုသည်။ ကျမ်းမညီကြ။

❖❖❖❖❖

## ၅၁၄။ တစ်ပြိုင်နက်စပ်၊ မချုပ်အပ်၊ ကလာပ်ဆို၏ ဘယ်ရုပ်နည်း။(၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- စိတ္တဇရုပ်သက်သက်ဖြစ်သော ဝိညတ်ဒွေးတို့တည်း။ 56 B

ဤဝိညတ်ဒွေးတို့သည် စိတ္တဇကလာပ်ခြောက်စည်းတို့တွင် ကာယဝိညတ္တိနဝက ကလာပ်, ဝစီဝိညတ္တိသဒ္ဒဒသကကလာပ် အဖြစ်ဖြင့် ဖြစ်၏။ ယင်းသို့ဖြစ်လျက် ဝိညတ်မှ တစ်ပါးသော အဝိနိဗ္ဘောဂရုပ်, သဒ္ဒရုပ်တို့မှာ သတ္တရသာယုက ရှိ၏။ ဝိညတ်ရုပ်တို့ကား စိတ္တာနုပရိဝတ္တိဓမ္မ ဖြစ်၍ စိတ်နှင့်အတူဖြစ်ခြင်း, ချုပ်ခြင်းရှိရကား မိမိ၏ ကလာပ်ဖော် ရုပ်တို့နှင့် ချုပ်ခြင်းမတူ။ ဘယ်သို့မူ၍ ကေပ္ပါဒ, ကေနိရောဓ, ကေနိဿယ, သဟဝုတ္တိ ဖြစ်နိုင်အံ့နည်း။ ဤ လက္ခဏာလေးပါးမရှိကလည်း ဘယ်သို့ကလာပ်ဖြစ်တော့အံ့နည်းဟု စောဒနာလိုသည်။

ဤစောဒနာကား အဋ္ဌကထာ ဋီကာ, ယောဇနာ, ဂဏ္ဌိ ဟူသမျှ၌မရှိ။ အတိသုခုမ နိဗ္ဗေဓိကဉာဏ်ရှင်ဖြစ်၍ ဆင်ခြင်မိသောကြောင့် စောဒနာပေးသည်။ အဖြေကိုကား ဘုရားမှတစ်ပါးသောသူတို့သည် စွမ်းနိုင်မည်မထင်။

❖❖❖❖❖

## ၅၁၅။ ဆွမ်းကပ် ကော်ကပ်၊ မင်းသို့ကပ်၊ ဝါကပ် ဘယ်သို့ခြားသနည်း။(၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဆွမ်းကပ်ဟူသောစကား၌ ကပ်–သဒ္ဒါသည်–ပေးခြင်းအနက်ကို ဟော၏။
ကော်ကပ်–၌ ကပ်ငြိခြင်းအနက်ကိုဟော၏။
မင်းသို့ကပ်–၌ ဆည်းကပ်ခြင်း, အနီးနေခြင်းကိုဟော၏။
ဝါကပ်–၌ ငြိမ်သက်စွာ နေခြင်းအနက်ကို ဟော၏ဟူပေ။

❖❖❖❖❖

## ၅၁၆။ ကြာတိုက်ပွင့်ချပ်၊ သန္ဓေကပ်၊ ကျမ်းရပ်လာသူ ဘယ်မျှနည်း။(၂၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဥပ္ပလဝဏ်၏အလောင်းဖြစ်သော ပဒုမဝတီ မိဖုရား
အာသက်ာမင်းသမီး,
ကုမုဒ္ဒမာလာမင်းသမီးလေးဦး,
ပေါက္ခရသာတိ ပုဏ္ဏား
ဤခုနစ်ဦးတို့ကို တွေ့ဖူး၏။

❖❖❖❖❖

## ၅၁၇။ နဲ့လျှင်ကားသပ်၊ နိုင်လျှင်ထပ်၊ ကြပ်လျှင်သပ်ပင်း ဘယ်သို့နည်း။(၂၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

စိုက်သည်တိုင်တဲ့။ မနိုင်နွဲ့။ ဓားနဲ့ သပ်၍သွင်း။
နိုင်ပြီးရှိခဲ့၊ နောင်မနွဲ့၊ သပ်နဲ့ထပ်ကာပင်း။

ဤ၌လည်း– ''နှစ်ပါးတစ်ချပ်။ မအိပ်အပ်။ အပ်အောင်ဘယ်သို့အိပ်မည်နည်း'' ဟူသော ပုစ္ဆာတစ်ခု အဖြေကိုသာ ရှေးစာ၌ တွေ့သည်။

''အပ်''ကာရန်ပုစ္ဆာ ၂၁–ပုဒ်အဖြေပြီး၏။

❖❖❖❖❖

## (၁၇) ''အိပ်''ကာရန်ပုစ္ဆာ ၅–ပုဒ်အဖြေ

**၅၁၈။မန်းတောင်ပေါ်ထိပ်၊စက်တော်နိုပ်၊တံဆိပ်ကွယ်ကြောင်းဘယ်သို့နည်း။(၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''မန္တလေးဟု ဆိုအပ်သော၊ မန်းတောင်ထိပ်၌ ဘုရားသခင်ရပ်တန့်၍ ရတနာပုရမြို့ကို ဗျာဒိတ်ပေးတော်မူသည်။ ယင်းသို့ရပ်ရာ၌ ခြေတော်စက်ရာ ထင်သင့်လျက် မထင်ဘဲ ကွယ်လေသည်ကား ဘယ်အကြောင်းကြောင့်ကွယ်သနည်း''ဟု မေးသည်။

**ဂစ္ဆတော ပန သမ္ဗာသမ္ဗုဒ္ဓဿ အက္ကန္တပဒံ န ပညာယတိ။ ကသ္မာ။ သုခုမတ္တာ မဟာဗလဝတာယ မဟာဇနာနုဂ္ဂဟေန စ။ ပ။ တသ္မာ အက္ကန္တဋ္ဌာနေ ယော ပဒဝလဉ္ဇော ဘဝေယျ။ သော အန္တရဓာယတေတိ။**

ဟူ၍ အင်္ဂုတ္တရ စတုကနိပါတ် အဋ္ဌကထာ၌လာသည်။

**အနက်ကား။** ။ ဂစ္ဆတော၊ သွားတော်မူသော။ သမ္ဗာသမ္ဗုဒ္ဓဿ၊ မြတ်စွာဘုရား၏။ အက္ကန္တပဒံ ပန၊ နင်းတော်မူသော ခြေရာတော်သည်ကား။ န ပညာယတိ၊ မထင်။ ကသ္မာ၊ အဘယ်ကြောင့်နည်းဟူမူကား။ သုခုမတ္တာ စ၊ သိမ်မွေ့သည်၏ အဖြစ်ကြောင့် လည်းကောင်း။ မဟာဗလဝတာယ စ၊ ကြီးသောအားရှိတော်မူသည်အဖြစ်ကြောင့် လည်းကောင်း။ မဟာဇနာနုဂ္ဂဟေနစ၊ လူများအပေါင်းကို ချီးမြှောက်လိုသဖြင့် လည်းကောင်း။ ဣမေဟိ တီဟိ ကာရဏေဟိ၊ ဤသုံးပါးသော အကြောင်းတို့ကြောင့်။ နပညာယတိ၊ မထင်။ ဟိ၊ အကျယ်ဆိုလိုက်ဦးအံ့။ ဗုဒ္ဓါနံ၊ မြတ်စွာဘုရားတို့အား။ သုခုမစ္ဆဝိတာယ၊ သိမ်မွေ့သောအရည်ရှိတော်မူသည်၏ အဖြစ်ကြောင့်။ တူလပိစုနော၊ လဲဝါဂွမ်း၏။ ပတိတဋ္ဌာနံဝိယ၊ ကျရာအရပ်ကဲ့သို့။ ဟောတိ၊ ဖြစ်၏။ ပဒဝလဉ္ဇံ၊ ခြေရာတော်သည်။ နပညာယတိ၊ မထင်။ စ၊ အကြောင်းတစ်ပါးလည်း။ ဗလဝတော၊ အားကြီးသော။ သိန္ဓဝဿ၊ သိန္ဓောမြင်း၏။ ပဒုနိမိပတ္တေပိ၊ ပဒုမ္မာကြာရွက်၌လည်း။ အက္ကန္တမတ္တမေဝ၊ နင်းကာမျှသာလျှင်။ ဟောတိယထာ၊ ဖြစ်သကဲ့သို့။ ဧဝံတထာ၊ ထို့အတူ။ မဟာဗလဝတော၊ အားကြီးတော်မူသော။ တထာဂတဿ၊ ဘုရားသခင်၏။ အက္ကန္တဋ္ဌာနံ၊ နင်းရာအရပ်သည်။ အက္ကန္တဋ္ဌာန မတ္တမေဝ၊ နင်းရာအရပ်မျှသာလျှင်။ဟောတိ၏။ တတ္ထ၊ ထိုနင်းရာအရပ်၌။ ပဒဝလဉ္ဇံ၊ ခြေတော်ရာသည်။နပညာယတိ၊မထင်။စ၊ အကြောင်းတစ်ပါးလည်း ဗုဒ္ဓါနံ၊

မြတ်စွာဘုရားတို့၏။ အနုပဒံ၊ ခြေတော်ရာသို့ အစဉ်လျှောက်၍။ မဟာဇနကာယော၊ လူများအပေါင်းသည်။ ဂစ္ဆတိ၊ သွားသည်ဖြစ်အံ့။ တတ္ထ၊ ထိုခြေဖြင့် သွားသော ခရီးအစဉ်၌။ သတ္ထု၊ မြတ်စွာဘုရား၏။ ပဒဝလဉ္ဇံ၊ ခြေတော်ရာကို။ ဒိသွာ၊ မြင်၍။ မဒ္ဒိတုံ၊ နင်းအပ်သောငှာ။ အဝိသဟန္တာ၊ မဝံ့သည်ဖြစ်၍။ ဂမနဝေလ္လေဒေါ၊ အသွား အလာ ပြတ်သည်။ ယသ္မာ၊ အကြင့်ကြောင့်။ ဘဝေယျ၊ ဖြစ်ခဲ့ရာ၏။ တသ္မာ၊ ထိုကြောင့်။ အက္ကန္တဋ္ဌာနေ၊ နင်းတော်မူရာအရပ်၌။ ယောပဒဝလဉ္ဇော၊ အကြင် ခြေတော်ရာသည်။ ဘဝေယျ၊ ဖြစ်ငြားအံ့။ သောပဒဝလဉ္ဇော၊ ထိုခြေတော်ရာသည်။ အန္တရဓာယတေ၊ ကွယ်ပျောက်လေ၏။

ဤသို့ ကျမ်းလာသောကြောင့် ခြေတော်ရာသည် အကြောင်းသုံးပါးကြောင့် ကွယ်ပျောက်သည်ဟု သိရာသည်။

❖❖❖❖❖

## ၅၁၉။ ထွက်သည့်အရိပ်၊ ရောင်ချိပ်ချိပ်၊ စေ့စိပ်ဘယ်ရှပ် ဆိုမည်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရူပါနံ–သနိဒဿနရုပ်ဖြစ်သည် ဟူပေ။

❖❖❖❖❖

## ၅၂၀။ သုံးလူ့မျှော်ထိပ်၊ ငါးမာရ်နှိပ်၊ စိပ်ရန် ပုတီးရှိလိမ့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပုတီးရှိကြောင်းကို ကျမ်းဂန်၌ မတွေ့ဖူးချေ။ အကယ်၍ ပုတီးဆောင်တော်မူသည်ဖြစ်အံ့၊ ထိုပုတီးကို ''မည်သည့် ဒါယကာ လှူသည်၊ မည်သို့သုံးဆောင်တော်မူသည်၊ မည်မျှလောက် ကျိုးရှိသည်၊ မည်သည့်ရဟန်း အမွေခံရသည်''ဟု ကျမ်းဂန်လာရာ၏။ ယင်းသို့ မလာ သောကြောင့် ဘုရားမှာ ပုတီးမရှိ ဟူ၍ သိသင့်သည်။

❖❖❖❖❖

## ၅၂၁။ ညောင်ဗောဓိထိပ်၊ ရွက်စိပ်စိပ်၊ အရိပ်ဘယ်မျှ ထွက်သနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နိဂြောဓ ပရိမဏ္ဍလ လက္ခဏာကို ခံယူရာမဟာတရုတ္တမ ရက္ခအဓိပတိဖြစ်ရကား အစောက် အမြင့်နှင့် အရိပ်နေသည် တမျှတည်းရှိသောကြောင့် အရိပ်သံတောင် ''တစ်ရာရှိ၏''ဟု သိရာသည်။

ထိုအရိပ်ဟူသည်လည်း– မွန်းတည့်အခါထွက်သော အရိပ်ကိုသာပြဆိုသည်။ နံနက်အခါ, ညအခါထွက်သော အရိပ်ကိုကား လူတို့ကိုယ်ရိပ်သွားသကဲ့သို့ ထွက်၏ဟူ၍ သိရမည်။

ဘယ်သို့ထွက်မည်နည်းဟူမူ–လူတို့၏အရိပ်သည် အလွန်အားဖြင့် လေးတောင်သာရှိလျက် နေထွက်စ၌ ခုနစ်ဆယ့် ခုနစ်ဖဝါး။ နေဝင်ကျသော်လည်း ခုနစ်ဆယ့် ခုနစ်ဖဝါးတိုင်တိုင်ရသည်။ ဗောဓိပင်၏အစောက်ကား သံတောင်တစ်ရာဖြစ်၍ လူရိပ်နှစ်ဆယ့်ငါးပြန်ရှိရကား ယခင့်ခုနစ်ဆယ့် ခုနစ်ဖဝါးကို နှစ်ဆယ့်ငါးနှင့်မြှောက် ၁၉၂၅–ဖဝါးအရိပ်ထွက်၏ဟု သိရာသည်။

❖❖❖❖❖

## ၅၂၂။ မိန်းမနှစ်ကျိပ်၊ ပျော်ကြောင်းသိပ်၊ အိပ်၍ လင်သူဘယ်ပြစ်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကိုယ်ပိုင်မိန်းမမှတစ်ပါး မာတုရက္ခိတ ပိတုရက္ခိတ စသော မိန်းမနှစ်ကျိပ်တို့ ပျော်ကြောင်း သိပ်သည်ကို အိပ်မိသော ယောကျ်ားကား ကာမေသုမိစ္ဆာစာရ ကမ္မပထဖြစ်လေသည်။

ထို့ကြောင့်–

မိစ္ဆာစာရ၊ အရာကျသား၊ မိန်းမနှစ်ကျိပ်၊ ပျော်ကြောင်းသိပ်လည်း၊ မအိပ်လေရာ၊ အာနန္ဒာသည်၊ ကမ္ဘာသိန်းပြည့်၊ ဖြည့်သားပါရမီ၊ အလျာပီလျက်၊ မထိလေးစား၊ သူ့မယားကို၊ ပြစ်မှားချေက၊ ရောရုဝတွင်၊ ကာလမြင့်ထွေ၊ ကုဋေတစ်သိန်း၊ တွက်ကိန်းမက၊ ခံပြီးမှလျှင်၊ စာဂယုတ်မာ၊ ဤလူ့ရွာ၌၊ မိစ္ဆာယစ်နှုန်း၊ နပုန်းလည်းဖြစ်၊ မျိုးစေ့ပစ်နှင့်၊ ယုတ်ညစ်စွာဘိ၊ ဣတ္ထိဘာဝ၊ ကြိမ်ကြိမ်ရ၏။

ဟူ၍ ပညာရှိတို့စပ်ဆိုလေသည်။ ရှေးအဖြေမပါ။ အသစ်သာ။

''အိပ်''ကာရန်ပုစ္ဆာ ၅–ပုဒ် အဖြေပြီး၏။

❖❖❖❖❖

## (၁၈) ''အုပ်''ကာရန်ပုစ္ဆာ ၄–ပုဒ်အဖြေ

## ၅၂၃။ သုမေဓာအုပ်၊ စိုးပိုင်ချုပ်၊ ရေမြှုပ် ကုဋေဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နဂရေ အမရဝတိယာ၊ သုမေဓောနာမ ဗြာဟ္မဏော။
နေကကောဋိ သန္နိစယော၊ ပဟူတဓနဓညဝါ။
ဝေါဟံ စိန္တယိတွာန၊ နေကကောဋိသတံ ဓနံ။
နာထာနာထာနံ ဒတွာန၊ ဟိမဝန္တမုပါဂမိ။

အမရဝတိယာ၊ အမရဝတီအမည်ရှိသော။ နဂရေ၊ ပြည်၌။ သုမေဓောနာမ၊ သုမေဓာအမည်ရှိသော။ ဗြာဟ္မဏော၊ ပုဏ္ဏားသည်။ ပဋိဝသတိ၊ နေ၏။ နေကကောဋိ- သန္နိစယော၊ သိုမှီးအပ်ဖွသော အကုဋေများစွာသော ဥစ္စာလည်းရှိ၏။ ပဟူတဓနဓညော၊ အပသုံးဆောင်ရာ များလှစွာသော ဥစ္စာ စပါးလည်းရှိ၏။

တဒါ၊ ထိုသုမေဓာဖြစ်သောအခါ၌။ အဟံ၊ ငါဘုရားသည်။ ဝေ၀စိန္တယိတွာန၊ ဤသို့ ကိုယ်၏အဖြစ် ဥစ္စာ၏အဖြစ်တို့ကို စိစစ်ကြံစည်၍။ နေကကောဋိသတံ၊ ကုဋေအရာ များလှစွာသော။ ဓနံ၊ ဥစ္စာကို။ နာထာနာထာနံ၊ ကိုးကွယ်ရာရှိသောသူ, ကိုးကွယ်ရာမဲ့သော သူတို့အား။ ဒတွာန၊ ပေးလှူခဲ့၍။ ဟိမဝန္တံ၊ ဟိမဝန်တောချောင် တောင်ဓမ္မိကအရပ်ဌာနသို့။ ဥပါဂမိ၊ ကပ်လေ၏။

ဤသို့ ဗုဒ္ဓဝင်ပါဠိ၌ ဟောတော်မူရကား သုမေဓာ ပုဏ္ဏား၌ မြေမြှုပ်ဥစ္စာသည် ကုဋေအရာမက ရှိ၏ဟု သိရမည်။

သူကြွယ်သုံးပါးတွင် သုမေဓာသည် အဘာယ်သူကြွယ်မျိုးနည်း ဟူငြားအံ့။

**တေသု ခတ္တိယမဟာသာလာနာမ ဟေဋ္ဌိမန္တေန ကောဋိသတံ နိဓာနဓံ ဟောတိ။ တယော ကဟာပဏကုမ္ဘာ ဝဠဉ္ဇနတ္ထာယ ဂေဟမဇ္ဈေ ရာသိံ ကတွာ ဌပိတာ ဟောန္တိ။**

**ယေသံ ဗြာဟ္မဏာနံ အသီတိကောဋိဓနံ နိဟိတံ ဟောတိ။ ဒိယဍ္ဎော ကဟာပဏကုမ္ဘော ဝဠဉ္ဇနတ္ထာယ ဂေဟမဇ္ဈေ ရာသိံ ကတွာ ဌပိတော ဟောတိ။ တေ ဗြာဟ္မဏမဟာသာလာနာမ။**

**ယေသံဂဟပတီနံ စတ္တာလီသကောဋိဓနံ နိဟိတံ ဟောတိ။ ကဟာပဏ ကုမ္ဘော ဝဠဉ္ဇနတ္ထာယ ဂေဟမဇ္ဈေ ရာသိံ ကတွာ ဌပိတော ဟောတိ။ တေ ဂဟပတိ မဟာသာလာနာမ။**

ဟူ၍ သဂါထာဝဂ္ဂ သံယုတ်အဋ္ဌကထာ၌ လာသည်။

အဘိဓာန်၌လည်း–

**ကောဋိနံ ဟေဋ္ဌိမန္တေန၊ သတံ ယေသံ နိဓာနဂံ။**
**ကဟာပဏာနံ ဒိဝသ၊ ဝဠဉ္ဇော ဝီသတမ္ဗဏံ။**
**တေ ခတ္တိယမဟာသာလာ၊ သီတိကောဋိ ဓနာနိ တု။**
**နိဓာနဂါနိ ဒိဝသ–ဝဠဉ္ဇောစ ဒသမ္ဗဏံ။**

**ယေသံ ဒွိဇမဟာသာလာ၊ တဒုပမေ နိဓာနဂေ။**
**ဝလဉ္ဇေစ ဂဟပတိ–မဟာသာလာ ဓနေ သိယုံ။**

ဟူ၍လာသည်။

ယေသံ၊ အကြင်မင်း သူကြွယ်တို့အား။ ဟေဋ္ဌိမန္တေန၊ ယုတ်သော အပိုင်း အခြားဖြင့်။ နိဓာနဂံ၊ မြေ၌မြှုပ်ထားအပ်သော ဥစ္စာသည်။ ကဟာပဏာနံ၊ သပြာတို့၏။

ကောဋ္ဌိနံသတံ၊ ကုဋ္ဌေတစ်ရာသည်။ ဟောတိ၊ ဧ၏။ ဒိဝသဝဠဉ္ဇော၊ နေ့တိုင်းသုံးဆောင်အပ်သော ဥစ္စာသည်။ ဝီသတမ္ဗဏံ၊ အမ္ဗဏနှစ်ဆယ်သည်။ ဟောတိ၊ ဧ၏။ တေ၊ ထိုမျှလောက်သော ဥစ္စာရှိသော သူကြွယ်တို့သည်။ ခတ္တိယ မဟာသာလာ၊ မင်းသူကြွယ်မည်ကုန်၏။

ယေသံ၊ အကြင်ပုဏ္ဏားသူကြွယ်တို့အား။ နိခါနဂါနိ၊ သိုမှီးမြှုပ် ထားအပ်ကုန်သော၊ ဥစ္စာတို့သည်။ အသီတိကောဋ္ဌိဓနာနိ၊ ကုဋ္ဌေရှစ်ဆယ်တို့သည်။ ဟောန္တိ၊ ကုန်၏။ ဒိဝသဝဠဉ္ဇော၊ နေ့တိုင်း သုံးဆောင်အပ်သော ဥစ္စာသည်။ ဒသမ္ဗဏံ၊ ဆယ်အမ္ဗဏရှိသည်။ ဟောတိ၊ ဧ၏။ တေ၊ ထိုသူကြွယ်တို့သည်။ ဗြဲဟ္မဏမဟာသာလာ၊ ပုဏ္ဏား သူကြွယ်မည်ကုန်၏။

ယေသံ၊ အကြင် အသည် သူကြွယ်တို့အား။ တဒုပမေ၊ ထိုပုဏ္ဏား သူကြွယ်၏ ထက်ဝက်ဖြစ်ကုန်သော။ နိခါနဂေ စ၊ မြေမြှုပ်ဥစ္စာတို့သည်လည်းကောင်း။ ဝဠဉ္ဇေ စ၊ နေ့တိုင်း သုံးဆောင်အပ်သော ဥစ္စာတို့သည်လည်းကောင်း။ သိယုံ၊ ရှိသည်ဖြစ်ကုန်၏။ တေ၊ ထိုသူကြွယ်တို့သည်။ ဂဟပတိမဟာသာလာ၊ အသည် သူကြွယ် မည်ကုန်၏။

ဤသို့ ကျမ်းဂန်လာသောကြောင့် သုမေဓာပုဏ္ဏား ဘုရားအလောင်းတော်သည် သူကြွယ်သုံးမျိုးတို့တွင် မြေမြှုပ်ဥစ္စာပင် ကုဋ္ဌေအရာမကရှိရကား ခတ္တိယ မဟာသာလ ဖြစ်သည် ဟူ၍ သိအပ်၏။ ထို့ကြောင့် အရှင်သီလဝံသထေရ်မြတ် စပ်ဆိုသည့် ဆုတောင်းခန်း၌–

> ကုဋ္ဌေတိသာ၊ အရာမက၊ ရွှေငွေစသား၊ တောင်မျှစုန့်စုန့်၊ နုန့်နုန်းဖြိုးဖြိုး၊ ကြွယ်ပိုးထိုး၍၊ ထမ်းပိုးလှင်ကန်၊ မြတ်သတ်ကျန်လျက်၊ လုပ်ခွန်ကုန်ရင်း၊ ဝင်သွင်းမစဲ၊ မိုးသို့ဖွဲ့၏။ ဖြင်းပြုံပြည့်စုံ၊ မကုန်တောင်းအောင်၊ ဆောင်သား စီးပွား၊ တောင်ကြီးဖျားသို့၊ ကြွားကြွားပုံ့ပုံ့၊ ဝန်တုံ့ဝန်တို၊ အုတ်နှယ်ဖို၍၊ အမိုအကဲ၊ အကွဲကွဲတည့်၊ မြေထဲဥမင်၊ တွင်းတွင်လည်းမြှုပ်၊ ကြွယ်ပုပ် ကြွယ်စပ်၊ မလပ်ကြကျီ၊ အိမ်ဘီ အိမ်လျှောင်၊ ထုပ်ခေါင်လည်းတိုင်၊ မနိုင် မကန်၊ ရေဆန် စပါး၊ စည့်ချည်းထား၍၊ မအားခြေချ၊ စည်ပင်လှသည်။ ထိုမျှဓန ရာသီတည်း။
>
> ဟူ၍ စပ်တော်မူသည်။

အမ္ဗဏ ဟူသည်ကား–ယခုလူတို့ သုံးစွဲသော ဆယ့်ခြောက်စလယ်ရှိသော စိတ်ဖြင့် ဆယ့်တစ်စိတ်ဝင်သော တောင်းသည် 'တစ်အမ္ဗဏ'မည်၏။ ထို တစ်အမ္ဗဏ ရှိသော တင်းဖြင့် နံနက်က အတင်းနှစ်ဆယ် ခြင်၍ သုံးသော် နေလုံး ပျောက်သောအခါ အတင်းလေးဆယ် ဝင်လာသည်–ဟု ဆိုလိုသည်။ အကြွင်းကိုလည်း ဤနည်းတူပင် မှတ်ရမည်။

သံယုတ်အဋ္ဌကထာ ပြရာ၌ 'တစ်ကုမ္ဘ'ဟူသည်လည်း အဘယ်နည်း ဟူမူကား–

"ကုမ္ဘောနာမ ဒသမ္ဗဏံ ဒွေ ဒေါဏာဝိကာ သတ္တဝီသတိမာနိကာ"

ဟူ၍ ဇာတ်ငိုကာ၌ လာသောကြောင့်၊ အမ္ဗဏအားဖြင့် ဆယ်အမ္ဗဏ၊ လူတို့ သုံးဆောင်သော တင်းအားဖြင့် နှစ်ဆယ့်ခုနစ်တင်း နှစ်စိတ် ဝင်သော တောင်းကြီးသည် ကုမ္ဘမည်၏။

◆◆◆◆◆

## ၅၂၄။ သမင်ညွန့်တုပ်၊ စကားလုပ်၊ ကျားခုပ် လွတ်ပါလေလိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–လွယ်၏ဖြေ။

ဝတ္ထုကား။ ။ ရှေးသောအခါ တစ်ခုသော တောင်ဝှမ်း တောအုပ်၌ မြေခွေးသား အမိတစ်စုတို့သည် လည်းကောင်း, သမင်သားအမိတစ်စုတို့သည် လည်းကောင်း နေသတည်း။ ထို၏အနီး၌ ဝက်သင်း တစ်ထောင်တို့သည်လည်း နေသတည်း။ ယင်းသို့ နေရာ ကျားတစ်စီးလာ၍ တစ်နေ့လျှင် ဝက်တစ်စီးတစ်စီး ယူ၍စား၏။ ထိုသို့စားသည်ကို ခွေးမနှင့် သမင်မတို့မြင်လျှင် ဤသို့ တိုင်ပင်ကြ၏။ "ကျားသည် ငါတို့ထံသို့ လာလျှင် မကိုက်ဝံ့အောင် နေရာကောင်းကနေ၍ ခြောက်လှန့်မှ သင့်မည်။ သင် သမင်မလည်း သတိရှိစေ"ဟု ဆို၍ ခွေးမသည် တစ်ခုသော ထူးခေါင်း၌ ဝပ်၍ နေ၏။ သမင်မကား ရေအိုင် ညွန့်ပွက်၏ အလယ် တစ်ခုသော ကုန်းငယ်၌ နေ၏။

ကျားသည် ဝက်တို့ကို စားခြင်းငှာ လာလေသော် ဝက်တို့သည် အကြံရ၍ စည်းကြပ်ကြပြီးမှ သုံးစုခွဲ၍ အစွယ်ချင်းယှဉ်ကာ၊ ယှဉ်ကာဖြင့် ခံလင့်၏။

ယင်းသို့ ခံလင့်သော် ကျားသည် ဝက်သင်းသို့ မဝင်ဝံ့၍ ခွေးထံသို့လာလေသော် မြေခွေးမက မိမိသားတို့ကို မှာထား၏။ "ကျားနှံ့ရလျှင် သင်တို့က "အမိ– ဟင်းမျိုး သားကို စားလိုပါသည်။ ယမန်နေ့က စားရသော ဟင်းမျိုးသားသည် မဆူပါ။ ဆူသော ဟင်းမျိုးကို ကိုက်၍ပေးပါ၊ ကိုက်၍ပေးပါ"ဟု ညီညာကြွေးကြော် ဟစ်အော်ကြ"ဟု မှာထား သည်နှင့် ထိုခွေးငယ်တို့က အမိသင်တိုင်းအော်ကြ၏။ ခွေးမကလည်း "ကျားမှ လာစေ ရေမျိုကို ငါခဲ၍ ပေးမည်"ဟု ကြုံးဝါး၏။ ထိုစကားကြားသော် ကျားလည်း ဟုတ်အံ့ထင်၍ ကြောက်လန့်ရကား သမင်မ ရှိရာသို့ သွားပြန်၏။

သမင်မလည်း ညွန့်လယ်ကောင် ကုန်းကနေ၍ "ဟယ်ကျား–သင်သည် ငါ့ချိုဖျား၌ အသက်ကုန်လိုသလော။ အသက်ရှည် ချမ်းသာနေလိုပါမူ ငါ့ထံသို့ မလာလင့်"ဟု ဆို၏။ ထိုအခါ ကျားက "နင်သည် ဘယ်အခါက ငါတို့ကို အာခံရဖူးသနည်း"ဟု ပြင်းစွာ အမျက်ထွက်၍ သမင်မ ရှိရာသို့ ရောက်အောင် တစ်ဟုန်းတည်း ခုန်လေလျှင် သမင်မလည်း ကုန်းခြေညွန့်စသို့ ပြေး၍ ဝပ်လေသဖြင့် ကျားသည် အားလွန်၍ ညွန့်ပွက်၌ နစ်လေ၏။ သမင်မလည်း ကျား၏ ကျောပေါ်သို့တက်၍ ခုန်သဖြင့်

ကျားသည် ညွန့်၌ မြုပ်၍ သေရလေ၏။ ထို့ကြောင့် ကျားခုပ်လွှတ်၏ဟူပေ၏။ ရှေးစကားတည်း။

❖❖❖❖❖

၅၂၅။ မြွေရှိပခြုပ်၊ ထည့်ကြွက်နုပ်၊ နာမ်ရုပ်မသေ ဘယ့်ကြောင့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- မြွေမျိုးတို့သည် အမိတို့က သား, သမီးတို့အား ဩဝါဒသုံးပါးဖြင့် ဆုံးမ ပေးမြဲဖြစ်သတည်း။

ချစ်သားတို့- စားဖွယ်ကို ရငြားသော်လည်း ဆောဆောလျင်လျင် မစားရာ။ ဆင်ခြင်တိုင်းထွာ၍ ဖြည်းဖြည်းသာ စားရာ၏။

လုံခြုံသောနေရာ၌ အိပ်လိုငြားသော်လည်း ဆောဆောလျင်လျင် မအိပ်ရာ၊ သူတစ်ပါးနောက်မှသာ အိပ်ရာ၏။

အရပ်တစ်ပါး လည့်လိုငြားသော်လည်း အမှတ်မဲ့ မသွားတည့်ရာ။ ရန်သူကို ကြည့်ရှုဆင်ခြင်၍ သွားရာ၏။

ဤသုံးပါးသော ဩဝါဒကို ဆုံးမမြဲတည်း။

တစ်ရံသောအခါ တောင်ပို့ခေါင်း၌နေသော မြွေငန်းတစ်ကောင်ကို အလမ္မာယ်သမားတို့ ဖမ်း၍ ထမ်းတောင်း ပခြုပ်ဖြင့် ဆောင်ယူလေ၏။ မြွေကို တာရှည်ပြ၍ အခယူသဖြင့် အသက်မွေးခြင်းငှာ အလမ္မာယ်သမားတို့က စားဖွယ်ဖြစ်သော ငါးကို လည်းကောင်း, ဖားကို လည်းကောင်း ပခြုပ်ထဲသို့ ထည့်၍ကျွေး၏။ မြွေလည်း မိဘတို့ ဆုံးမလိုက်သောအတိုင်း ကြံတွေး၍ ဖြည်းဖြည်းသာ စား၏။

တစ်နေ့သ၌ ကြွက်ရှင်တစ်ကောင်ကိုထည့်လိုက်သော် ''ဤသတ္တဝါကား သွားရှိသည်ဖြစ်၍ မာသောသစ်သားကိုလည်းကောင်း, မြေကိုလည်းကောင်း ကိုက်ဖောက်နိုင်၏။ ငါ့ကိုကြောက်သဖြင့် ဤပခြုပ်ကိုဖောက်၍ ထွက်လတ္တံ့။ ဤကြွက်ထွက်သော အပေါက်ဖြင့် ငါသည် ထွက်ရလတ္တံ့။ ထို့ကြောင့် ဤကြွက်ကို ငါမစားသင့်သေး''ဟု တွေးတောသဖြင့် မကိုက်ဘဲ ငြိမ်သက်စွာနေ၏။

ကြွက်လည်း မြွေကိုမြင်လျှင် ကြောက်လှသဖြင့် အခွေထက်၌ ယောက်ယက်ခတ်မျှ ပြေးတည့်၍ တစ်ခုသောအထောင့်ကို ကိုက်၏။ အပေါက်ထွက်လောက်သောအခါ ထွက်ပြေးလေ၏။

မြွေလည်း လူမြင်စဉ်အခါ ငြိမ်သက်စွာနေ၍ ညဥ့် လူအိပ်သောအခါမှ ထိုကြွက်ထွက်ရာ အပေါက်ကို ချဲ့၍ ထွက်သဖြင့် သက်ရှည်ချမ်းသာနေရဖူး၏။

ဤထုံးကိုမှီ၍ ကြွက်၏ နာမ်ရုပ် မသေခြင်းသည် မိဘစကားကို မှတ်ယူနာသော မြွေလိမ္မာနှင့် တွေ့လေသောကြောင့် မသေသည်ဟု ဖြေရာ၏။

❖❖❖❖❖

57
B

## ၅၂၆။ ကျီးနှင့်ခင်ပုပ်၊ စိတ်မချပ်၊ ရုတ်ရက်ရန်ဖြစ် ဘယ့်ကြောင့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ကျီးနှင့်- ခင်ပုပ်ငှက်တို့၏ ရန်ဖြစ် ကြသောအကြောင်းကို ပြသောထုံးသည် လောကုတ္တရာကျမ်း၌ လာသော ထုံးစံ, လောကီစာ၌ လာသော ထုံးစံအားဖြင့် နှစ်မျိုးရှိ၏။ ထိုတွင်-

### လောကုတ္တရာကျမ်း၌လာသော ထုံးစံကား

ကမ္ဘာဦးအခါ လူတို့ရွာတွင်လည်း မဟာသမ္မတမင်းကို မင်းမြှောက်ကြ၏။ တောသုံး တောင်၌နေသော အခြေလေးခု သတ္တဝါတို့တွင်လည်း ခြင်္သေ့မင်းကို မင်းမြှောက်ကြ၏။ ရေသတ္တဝါတို့တွင် အာနန္ဒာမည်သော ငါးကို မင်းမြှောက်ကြ၏။ ထိုအခါ ငှက်သတ္တဝါ တို့သည် ဟိမဝန္တာ၌ တစ်ခုသော ကျောက်ဖျာပေါ်တွင် စည်းဝေး ကြ၍ ''ကြည်းသတ္တဝါ, ရေသတ္တဝါအပေါင်းတို့သည် အသီးအသီး မင်းတင်ကြပြီး၊ ငါတို့ငှက်မျိုးတွင် 'မင်း' မတင်ရသေး။ အဘယ်သူကို မင်းတင်ရ အံ့နည်း''ဟု တိုင်ပင်ကြ၏။

ထိုအခါ အချို့ငှက်က ခင်ပုပ်မျိုးသည် သစ်ခေါင်း၌သာ ငြိမ်သက်စွာနေ၏။ သူ၏အသက်ကိုလည်း သတ်ခြင်းမရှိ၊ သူ၏ဥစ္စာကိုလည်း ယူလေ့ စားလေ့မရှိ။ သတိ သမာဓိနှင့် ပြည့်စုံ၏။ ညဉ့်အခါမှထွက်၍ ကျက်စားသည်ဖြစ်၍ တစ်ပါးသော ရန်သူတို့ ကိုလည်း သိနိုင်၏။ ထို့ကြောင့် ခင်ပုပ်ငှက်ကို မင်းတင်သော် လျော်လတ္တံ့''ဟု ဆိုကုန်၏။

ထိုအခါ ကျီးငှက်တစ်ကောင်သည် ''ဤခင်ပုပ်ငှက်ကား ယုတ်သော အဆင်း သဏ္ဌာန် ရှိ၏။ အမျက်မထွက်ဘဲမြင်လျှင် မြေဘီလူးကဲ့သို့ ပြူးတူးသော မျက်စိဖြင့် ကြောက်မက်ဖွယ်ရှိ၏။ တစ်စုံတစ်ခုသော အရေးအရာဖြင့် အာဃာတဖြစ်ခဲ့သော် ဘယ်သူမျှ မကပ်ဝံ့ ဖြစ်လတ္တံ့။ ထို့ကြောင့် မသင့်ချေ''ဟု ဆို၏။

''ထိုသို့ မသင့်သော် ဘယ်ငှက်ကို မင်းတင်သင့်သနည်း''ဟုမေးမြန်းကြပြန်လျှင် ''ဥဒေါင်းသည် အဆင်းလည်းလှ၏။ အသံလည်းသာ၏။ မင်းပြုစေသော် သင့်လတ္တံ့'' ဟု ဆိုပြန်၏။

ထိုစကားကိုကြားလျှင် ဥဒေါင်းသည် အမြီးအတောင်ကို ချီ၍ က,၏။ ယင်းသို့ က, သောအခါ ဤငှက်သည် ''ယခုကပင် ရှင်ပြမြူးတူးခြင်းလွန်၏။ ကျွန်ခြေမတည်တံ့၊ ဘယ်မှာ မင်းပြု၍ လျော်အံ့နည်း''ဟု ဆိုကြပြန်၏။

ဤသို့ အသီး အသီး ရွေးပြီးသည့်နောက်မှ ရွှေဟင်္သာကို မင်းတင်ကြ၏။

ဤအခါမှစ၍ ခင်ပုပ်တို့သည် ''ငါတို့ မင်းဖြစ်သင့်လျက် ဤကျီးမည်းသည် ဆဲရေး ကဲ့ရဲ့သောကြောင့် ငါတို့ မင်းမပြုရသည်''ဟု ဒေါသရန်ငြိုးထား၍ ကျီး၏ သားငယ်ဟူ သမျှကို ညဉ့်အခါ လိုက်၍ ကိုက်သတ်လေသတည်း။

ကျီးကလည်း- ခင်ပုပ်ကိုမြင်လျှင် ထက်ဝန်းကျင်မှ ထိုးဆွပ်ကြသတည်း။

ဤကား စတုက္ကနိပါတ် ဇာတ်၌လာသော အကြောင်းတည်း။

## လောကီအကြောင်းကား

တစ်ရံသောအခါ ခင်ပုပ်ငှက်သည် လူ၏လယ်၌စပါးကိုစား၍ လယ်စောင့်သားသည် လောက်လေးနှင့် ပစ်သဖြင့် စအိုတွင် လောက်စာတစ်လစ်ရှိ၍ မအီပ်နိုင်ရှိလေသော် "အဘွေကျီး၊ ငါ၏ရောဂါကို ချမ်းသာအောင်ပြုပါ"ဟုဆိုလျှင် "ဥဩသည် အလွန်ဆေးတတ်၏။ ဥဩဆရာကိုခေါ်၍ကုမှ ချမ်းသာရမည်"ဟု ပြော၏။ "သင်၏ဆရာဥဩကို ကုပါစေ"ဟု တောင်းပန်လျှင် ကျီးလည်း ဥဩထံသို့သွား၍ "ခင်ပုပ်အားဆေးကုပါ"ဟု ဆို၏။

ထိုအခါ ဥဩက "ခင်ပုပ်ငှက်သည် သူ၏ ကျေးဇူးကိုလည်း မသိတတ်၊ ငါမကုလို" ဟု ဆို၏။ ကျီးကလည်း "အဘွေ ကုသာ ကုလော့။ ဆေးခမရသော် ငါပေးမည်"ဟု အာမခံ၏။

ထိုအခါ ဆရာဥဩလိုက်၍ အနာကိုကြည့်ရှုသော် စအိုတွင် လောက်စာကိုမြင်၍ "သင် ခင်ပုပ်သည် ရေ၌ တစ်နေ့စိမ်ရမည်"ဟု ဆို၏။ ခင်ပုပ်လည်း ဥဩဆိုတိုင်း စိမ်လေသော် မြေလောက်စာသည် ရွံ့ဖြစ်၍ ကြေကျသဖြင့် ချမ်းသာရလေ၏။ ချမ်းသာ ပြီးသော် ခင်ပုပ်က "ဤဥဩသည် ငါ့ကို တစ်စုံတစ်ခုသောဆေးရည် ဆေးဖတ်ဖြင့် တိုက်ရသည်မဟုတ်၊ ငါရေ၌ မြုပ်၍ အလိုလိုသာလောက်စာကြေမွ၍ ထွက်သည်။ ထို့ကြောင့် ငါ ဆေးခမပေးသင့်"ဟု ကြံ၍သစ်ခေါင်း၌သာ အောင်းကာနေလေ၏။

ထိုအခါ ကျီးက ဇီးကွက်ကို "ခင်ပုပ်ငှက်သည် မင်းတို့နှင့် အသွင်တူသည်ခေါ်ပေးပါ"ဟု ဆို၏။ ဇီးကွက်ကလည်းကောင်းပြီ" ဝန်ခံ၍ ခေါ်ပါသော်လည်းခင်ပုပ်သည် သစ်ခေါင်းက မထွက်လာရကား "ကြည့်ကွဲ-ကြည့်ကွဲ"ဟု ကြွေးကြော်၏။ ကျီးလည်း ခင်ပုပ်၌ ဆေးခတောင်း၍ မရသော် ဥဩထံ၌ ဝန်ခံမိပေရကား၊ ဖွားတိုင်းဖွားတိုင်းသော ဥဩ၏ သားကို ကျီးထိန်းရလေသတည်း။

ထို့ကြောင့် "ဤ ခင်ပုပ်သည် အလွန်ဆိုး၏။ ချင်းတို့ကြောင့် ငါတို့ ဥဩကျွန်ဖြစ်ရလေသည်"ဟု နှလုံးပိုက်၍ ခင်ပုပ်ကိုမြင်လျှင် ထက်ဝန်းကျင်မှရံ၍ ထိုးဆွပ်ကြသည်။ ဤကား လောကီစာ၌ လာသော အကြောင်းတည်း။

◆◆◆◆◆

## ၅၂၇။ တထာဂတုပ်၊ ကျမ်းအချုပ်၊ စီလုပ်ဘယ်ကျွန်းဖြစ်ပေနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ငါတို့ ဇမ္ဗူဒိပ်ကျွန်း မြန်မာနိုင်ငံ ရတနာပုရမြို့နေ "အရှင်သာရဒဿီထေရ်" ရေး စီးရင်သော ကျမ်းတည်း။

◆◆◆◆◆

၅၂၈။ မောင်းထုပ်ဦးထုပ်၊ အိမ်လျှောက်ထုပ်၊ ဖက်ထုပ် ပိုက်ထုပ် မည်သို့နည်း။(၆)

၅၂၉။ ခြေကုပ်လက်ကုပ်၊ နွားချိုကုပ်၊ ကုပ်ခြင်းမည်သို့ခြားသနည်း။(၇)

၅၃၀။ ထီးကုပ်တင်းကုပ်၊ စာရင်းကုပ်၊ ပေါင်းကုပ်လှည်းကုပ်မည်သို့နည်း။(၈)

၅၃၁။ ကွကွကုပ်ကုပ်၊ အနေကုပ်၊ သံကုပ် အိုးကုပ်မည်သို့နည်း။(၉)

ဟူသော အမေးပုစ္ဆာလေးခု၌ အဖြေဝိသဇ္ဇနာကား- ဤပုစ္ဆာများကို ဖြေရန် အဓိပ္ပါယ်မရှိ၊ ပသတ်စပ်အင်းကို သိရှိမှုဆိုသော ပုစ္ဆာဖြစ်သည်။

ဤပုစ္ဆာစုလည်း ရှေးအဖြေစာ၌ မပါ။

**''အုပ်'' ကာရန်ပုစ္ဆာ-၉ပုဒ် အဖြေပြီး၏။**

◆◆◆◆◆

## (၁၉) ''အန်'' ကာရန်ပုစ္ဆာ ၁၁၀-ပုဒ်အဖြေ

၅၃၂။ သဗ္ဗညုဉာဏ်၊ အမြင်သန်၊ ယှဉ်ဟန်ဘယ်စိတ်နှင့်ပေနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဉာဏသမ္ပယုတ္တ ကာမဝစရ ကိရိယာနိစေဝ ကိရိယာဘိညာ ဝေါဋ္ဌဗ္ဗန ဥ္ပေတိသဗ္ဗထာပိ သဗ္ဗာလမ္ဗဏာနိ၊ ။ သင်္ဂြိုဟ်။**

**ကိ္ရိယာဇဝနာနံ ဟိ သဗ္ဗညုတဉာဏဒ်ဝသပ္ပဝတ္တိယံ ဝေါဋ္ဌဗ္ဗနစသ တံတံပုရေစာရိက ဝသပ္ပဝတ္တိယံ န စ ကိဉ္စိ အဂေါစရံ နာမ အတ္ထိ။ ။ ဋီကာကျော်။**

ဉာဏသမ္ပယုတ္တကာမာဝစရကိရိယာနိစေဝ၊ဉာဏသမ္ပယုတ္တကာမာဝစရကိရိယာ စိတ်လေးခုတို့သည်လည်းကောင်း။ ကိရိယာဘိညာဝေါဋ္ဌဗ္ဗနဥ္စ၊ ကိရိယာအဘိညာဉ်စိတ်, ဝုဋ္ဌောစိတ်သည်လည်းကောင်း။ ဣတိ ဣမာနိ ဆစိတ္တာနိ၊ ဤခြောက်ပါးသော စိတ်တို့သည်။ သဗ္ဗထာပိ ခပ်းသိမ်းသောအချင်းအရာအားဖြင့်လည်း သဗ္ဗာလမ္ဗဏာနိ၊ ခပ်သိမ်းသောတရားလျှင် အာရုံရှိကုန်၏။

ဟိ၊ ထင်စွာဆိုဦးအံ့။ ကိရိယာဇဝနာနံ၊ ကိရိယာ ဇောတို့၏။ သဗ္ဗညုတ ဉာဏ-ဒိဝသပ္ပဝတ္တိယံ၊ သဗ္ဗညုတဉာဏ် အစရှိသော ကိစ္စဖြင့် ဖြစ်ခြင်း၌၊ ဝေါဋ္ဌဗ္ဗနသသ၊ ဝုဋ္ဌော စိတ်၏လည်း။ တံတံ ပုရေစာရိကဝသပ္ပဝတ္တိယံ၊ ထိုထိုသို့သော ဉာဏ်တို့၏ ရှေ့သွားကိစ္စဖြင့် ဖြစ်ခြင်း၌။ ကိဉ္စိ၊ တစ်စုံတစ်ခုသော။ အဂေါစရံနာမ၊ အာရုံ မပြုနိုင်သော တရား မည်သည်။ န အတ္ထိ၊ မရှိ။

သဗ္ဗညုတဉာဏမ္ပန ကာမာဝစရဓမ္မံ လောကီယမေဝါတိ။

သဗ္ဗညုတဉာဏမွှန၊ သဗ္ဗညုတ ဉာဏ်သည်ကား။ ကာမာဝစရ ဓမ္မံ၊ ကာမာဝစရ တရားဖြစ်သော။ လောကိယမေဝ၊ လောကီစိတ်၌ ရှိသောဉာဏ်တည်း။ ဣတိ၊ ဤသို့။ ဒဋ္ဌဗ္ဗံ၊ မှတ်အပ်၏။ မဟာသီဟနာဒသုတ် အဋ္ဌကထာ လာသောကြောင့် မဟာကိရိယာ စိတ်၌ယှဉ်သော ဉာဏ်ကို သဗ္ဗညုတဉာဏ်ဟူ၍ ဆိုအပ်၏။ ။

❖❖❖❖❖

## ၅၃၃။ စွဲပဋိသန်၊ ဇောနိကန်၊ လေးတန် အပါယ်ချဖြိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပဋိသန္ဓေစိတ်၏နောက် တစ်ဆယ့်ခြောက်ချက်သော ဘဝင်၊ မနောဒွါရာဝဇ္ဇန်း အခြားမဲ့၌ကျသော ဘဝနိကန္တိကဇောသည် အပါယ် ပဋိသန္ဓေကို ပေး၏လော ဟူ၍ မေးသည်။

ကမ္မဝေဂုက္ခိတ္တာ သတ္တာယ အာဂန္တုက ဘာဝေန ပုရေတရမေဝ ပဝတ္တနတော တာယ ဝသပ္ပဝတ္တိယံ အနိဋ္ဌဝိပါကံပိ န ဒေတိ။

ဟူသော အနုဋီကာနှင့်အညီ၊ ရှေးကံအဟုန်သည် ပစ်ချအပ်သော သတ္တဝါအား တစ်ပါးသော ဇောတို့၏ ရှေးဦးစွာ အာဂန္တုက အဖြစ်ဖြင့် ဖြစ်ရသောကြောင့် ထိုဘဝ နိကန္တိက ဇောသည် ပဋိသန္ဓေကို မဆိုထားဘိ ပဝတ္တိ၌ အနိဋ္ဌဖြစ်သော ဝိပါက်ကိုမျှ မပေးနိုင်ဟု သိအပ်၏။

❖❖❖❖❖

## ၅၃၄။ သီဟိုဠ်ရပ်ဌာန်၊ တို့ထိပ်ပန်၊ ဈာန်ဝင်ရပ်ပေါင်း ဘယ်မျှနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**တတိယံ ပဋ္ဌသတာဘိက္ခု ပရိဝါရော အာဂန္တာ မဟာစေတိယဋ္ဌာနေ စ ထူပါရာမ စေတိယ ဋ္ဌာနေ စ မဟာဗောဓိပတိဋ္ဌိတဋ္ဌာနေ စ မဟိယင်္ဂဏ စေတိယဋ္ဌာနေ စ ဒီဃဝါပိ စေတိယဋ္ဌာနေစ မုဒုင်္ဂဏစေတိယဋ္ဌာနေ စ ကလျာဏီစေတိယဋ္ဌာနေ စနိရောဓသမာပတ္တိံ သမာပဇ္ဇိတွာ နိသီဒိ။**

ဟူ၍ သမန္တပါသာဒိကအဋ္ဌကထာ၌လာသောကြောင့် ဘုရားသခင်သည် သီဟိုဠ် ကျွန်းသို့ တတိယ ကြွတော်မူသောအခါ၌ မဟာစေတီတည်ရာ၊ ထူပါရာမ စေတီတည်ရာ၊ မဟာဗောဓိ ဒက္ခိဏသာခါတည်ရာ၊ မဟိယင်္ဂဏစေတီတည်ရာ၊ ဒီဃဝါပိစေတီတည်ရာ၊ မုဒုင်္ဂဏ စေတီတည်ရာ ကလျာဏီ စေတီတည်ရာ ဤခုနစ်ဌာနတို့၌ နိရောဓသမာပတ်ကို ဝင်စား၍ နေတော်မူသည်။

❖❖❖❖❖

## ၅၃၅။ ဓာတုနိဗ္ဗာန်၊ ဝေကန်၊ အမှန်ဘယ်လ ရက်နေ့နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဓာတုပရိနိဗ္ဗာနံ နာမ အနာဂတေ သာသနန္တရဓာနေ ဘဝိဿတိ။

ဟူသော ဗုဒ္ဓဝင်အဋ္ဌကထာတို့နှင့်ညီစွာ ဓာတ်တော်တို့၏ အဆုံး ဝင်ခြင်းသည် နောင်အခါ သာသနာတော် ငါးထောင် အစေ့တွင် ဖြစ်လတ္တံ့ဟူ၍ ဆိုသည်။ ရက်နေ့ကို တိုက်ရိုက်မပြချေ။

ယင်းသို့ မပြချေသော်လည်း သာသနာတော် ၅၀၀၀–ကို လဖြင့် ရေတွက်သော် လပေါင်းခြောက်သောင်း ရှိသည်။ ရက်ဖြင့် ရေတွက်သော် တစ်သန်းရှစ်သိန်းရှိသည်။ ဘုရားသခင်သည် ၁၄၈–ခုနှစ်၊ ကဆုန်လပြည့်၊ အင်္ဂါနေ့ ပရိနိဗ္ဗာန် ပြုတော်မူသောကြောင့် ထိုလပြည့်ကျော် တစ်ရက်မှစ၍ ရေတွက်သဖြင့် အနှစ် ငါးထောင်၊ လပေါင်း ခြောက်သောင်း၊ ရက်ပေါင်းတစ်သန်း၊ ရှစ်သိန်းတို့သည် ကဆုန်လပြည့် သောကြာနေ့တွင် ပြည့်ရာသည်။ ထိုနေ့တွင်ပင် ဓာတုနိဗ္ဗာန်ဖြစ်မည်ဟု သိသင့်၏။

❖❖❖❖❖

## ၅၃၆။ သောတ္ထိအင်းလွန်၊ နဖူးစွန်၊ ရှိပြန်သမုတ် မည်သို့နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ကညာယ သောတ္ထိကော ယဿာ၊ နလာဋေ ဝိမလေ သုဘော။**
**ကုလ္လဂွရိ သာ ဝိဇာနိယတ်၊ နိစ္စတံ သုခ မေဓတေ။**

ယဿာ ကညာယ၊ အကြင် သတို့သမီးအား။ သောတ္ထိကော၊ သုံးတောင်ထက် ချွန် အလွန်တင့်တယ်သော၊ သောတ္ထိ အင်းအရေးနှင့် တူသော အရေးအကြောင်းသည်။ သုဘော၊ ရှုချင့်စဖွယ် တင့်တယ် ဖြိုးမောက်သော။ ဝိမလေ၊ မှဲ့မည်း ညစ်ကြေး ကင်းဝေး သော။ နလာဋေ၊ နဖူးပြင်၌။ အတ္ထိ၊ ရှိသည်ဖြစ်အံ့။ သာကညာ၊ ထိုသတို့သမီးကို။ ကုလ္လဂွရိ၊ စိုးရစင်စစ် ဖြစ်လတ္တံ့သော ကုလ္လဂွရိမည်၏ဟူ၍။ ဝိဇာနိယတ်၊ သိအပ်၏။ နိစ္စတံ၊ အမြဲ။ သုခံ၊ စည်းစိမ်ဥစ္စာ ချမ်းသာစွာ။ မေဓတေ၊ ကြီးပွား စည်ပင်ရာ၏။ ။ သာမုဒြိက မည်သော လက္ခဏာ ကျမ်း၌ ဆိုသည်။

❖❖❖❖❖

## ၅၃၇။ စင်စစ်အမှန်၊ တိရစ္ဆာန်၊ နိဗ္ဗာန်ဘယ့်ကြောင့် ရသနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဆင်ဖြူစစ် ရှိသော ပြည်ရွာ၌ မိုးလေကောင်းသည်၊ စစ်မက်ငြိမ်းသည်၊ သတ္တဝါတို့ ဝပြောသည်၊ အနာကင်းသည်။ ငြိမ်းချမ်းသာယာသည်၊ ဤမျှလောက် အကျိုးကို ပြည်သူတို့ ခံရမည်ဖြစ်၍ ဆင်ကို နိဗ္ဗာနပစ္စယဟု အမည် သမုတ်ကြသည်။ ဤသို့ တိစ္ဆာန် ဖြစ်သော ဆင်လျက် နိဗ္ဗာန အမည်ရသည်ကို ရည်၍ ပုစ္ဆာပြုသည်။

❖❖❖❖❖

## ၅၃၈။ ခြောက်ခုအိုင်မွန်၊နောတတ်သွန်၊ပြွန်ကား ဘယ်ကထွက်သနည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အရှေ့မျက်နှာ ခြင်္သေ့ခံတွင်းပြွန်မှ ထွက်သောရေသည် တစ်ခုသောချိုင့်ဝှမ်းရာ၌ တည်လေသဖြင့် အိုင်ဖြစ်ပြန်သည်ကို သီဟပ္ပပါတအိုင် ဆိုသည်။ အနောက်မျက်နှာ မြင်းခံတွင်းမှ ထွက်သောရေပြွန်သည် တစ်ခုသော ချိုင့်ဝှမ်းရာ၌ တည်လေသဖြင့် ဖြစ်သော အိုင်ကို မန္ဒာကိနီအိုင်ဆိုသည်။ တောင်မျက်နှာ ဆင်ခံတွင်းပြွန်မှ ထွက်သော ရေသည် တစ်သွယ်ခွဲ၍ တောင်ရံခုနစ်ထပ်၏ အောက်သို့ ၎ုပ်လျက် တစ်ခုသော အကွက်၌တည် လေသော အိုင်ကို ဆဒ္ဒါန်အိုင်ဆိုသည်။ မြောက်မျက်နှာနွားခံတွင်းပြွန်မှ ထွက်ကျ၍ တည်သော အိုင်ကို ကုဏာလအိုင်ဆိုသည်။ ဤသို့ လောကဒီပက အစရှိသော စာငယ်တို့၌ လာသည်။ တစ်ပါးသော ကဏ္ဏမုဏ္ဍအိုင်၊ ရထကာရအိုင် တို့ကိုကား မလာ။ တောင်မျက်နှာ ဆင်ခံတွင်းဟူသော စကားသည် သံယုတ်အဋ္ဌကထာနှင့် ညီ၏။

သာရတ္ထဒီပနီ၌ကား– တောင်မျက်နှာ နွားခံတွင်း ပြွန် ရှိကြောင်းကို ဆိုသည်။

❖❖❖❖❖

## ၅၃၉။ သုံးဆယ့် တစ်တန်၊ ဘုံရပ်ဌာန်၊ စီးကန်ဘယ်မျှ ပြာသနည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သုံးဆယ့်တစ်ဘုံသို့ စီးဝင်တတ်သောကံသည် အကုသိုလ်ကံ တစ်ဆယ့်နှစ်ပါး၊ ကာမာဝစရကုသိုလ်ကံ ရှစ်ပါး။ ရူပါဝစရကုသိုလ်ကံ ငါးပါး၊ အရူပါဝစရ ကုသိုလ်ကံ လေးပါး၊ ဤသို့အားဖြင့် နှစ်ဆယ့်ကိုးပါးပြားသတည်း။

ဤကံနှစ်ဆယ့်ကိုးပါးသည် သေးသေးတင် ရေးသင့်သော ကံဖြစ်လျက် နသတ် ကာရန်ဖြင့် ဘယ့်ကြောင့် ဆိုသနည်းဟူငြားအံ့ ''အဒြဝံဝိဒြဲဝံဝိယ ဝေါဟရတိ'' ဟူသော အလင်္ကာ၌ကဲ့သို့ မြေ၌ရေတည်သော နသတ်ကန်သည် ထန်စွာသော ရေဟုန်ဖြင့်စီး၍ အသီးသီးသောဌာန၌ ရေအိုင်ရေတွင်းဖြစ်ရာသကဲ့သို့၊ မသတ်ဖြစ်သော ပရမတ်ကံသည် လည်း သုံးဆယ့်တစ်တန်သော ဌာန၌ ရေအိုင်နှင့်တူသော သတ္တဝါဖြစ်လေသောကြောင့် သဒိသူပစာရအားဖြင့် နသတ်ကန်ဆိုလေသည်ဟူပေ။

❖❖❖❖❖

## ၅၄၀။ ဗျာဒိတ်တွေ့ဟန်၊ ပြဟ္မာပြန်၊ နှစ်တန် တွေ့နိုင်ပါလိမ့်နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နှစ်တန်သာမက အများပင် တွေ့နိုင်၏ဟူပေ။ ဤစကားတွင် ထင်စွာဆိုဦးအံ့–

ယာ ပုဗ္ဗေ ဗောဓိသတ္တာနံ၊ ပလ္လင်္ကဝရမာဘုဇေ။
နိမိတ္တာနိ ပဒိဿန္တိ၊ တာနိ ပဇ္ဇ ပဒိဿရေ။

အစရှိသော ဂါထာဖြင့် ကမ္ဘာတစ်သောင်းခြောက်ထောင် အသက်ရှည်သော သုဒ္ဓါဝါသ ဗြဟ္မာတို့သည် လာလတ်ကုန်၍ ''အရှင် သုမေဓာ၊ ရှေးဘုရားလောင်းတို့သည် ဗျာဒိတ်ခံ၍ မြတ်သောထက်ဝယ်ကို ခွေသော ကာလ၌ အကြင် ၃၂-ပါးသော နိမိတ်တို့သည် ထင်ကုန်၏။ ထို ၃၂-ပါးသော နိမိတ်တို့သည် အရှင် ရသေ့လက်ထက်လည်း ထင်လတ်ကုန်ပြီ။ အရှင်သည် စင်စစ်မချွတ် ဘုရားဖြစ်လတ္တံ့ဟူ၍ နိမိတ်စကား ပြန်ကြားကုန်သည်။

ငါတို့ဘုရားမှာ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းထက်က ဗျာဒိတ်ခံရသည်။ ငါတို့ ဘုရား၏ ရှေးဖြစ်သော ဘုရားတို့ကား ထို့ထက်လွန်၍ ကာလရှည်ရာသည်။ ထို ရှေးဘုရားတို့ သဒ္ဓါဓိက ဝီရိယာဓိက ဖြစ်ခဲ့သော် ရှစ်သင်္ချေ, တစ်ဆယ့်ခြောက်သင်္ချေ ထက်ပင် ဗျာဒိတ်ခံရရာသောကြောင့် ထို သုဒ္ဓါဝါသဗြဟ္မာတို့သည် ဘုရားလောင်း နှစ်ဆက် တွေ့နိုင်ပါအံ့လောဟု မေးသည်။ ကကုသန်, ကောဏာဂုမ်, ကဿပဘုရား တို့သည် အရှင်ဂေါတမဘုရားနှင့် ကမ္ဘာတူပွင့်ကြသည်။ ထို့အထက်ဘုရားတို့တွင် ၉၁-ကမ္ဘာထက် ဝိပဿီဘုရားပွင့်သည်။ ၉၄-ကမ္ဘာထက် သိခီပွင့်သည်။ ၃၁-ကမ္ဘာထက် ဝေဿဘူပွင့် သည်။ ဝိပဿီဘုရားရှင် တပည့်ဖြစ်သော သူတို့ပင် သုဒ္ဓါဝါသဗြဟ္မာဖြစ်၍ ယခုငါတို့ ဘုရားလက်ထက်တိုင် ရှိကြောင်းကို ပါရာဇိကဏ် အဋ္ဌကထာ၌-

**တေသံယေဝ သာဝကာ တဒါဝေ တေရဟိစ သုဒ္ဓါဝါသဘူမိယံ ဌိတာ။ န အညေသံ။ ပရိနိဗ္ဗုတတ္တာ-စသည်ဖြင့်လာသည်။**

ယင်းသို့ ဘုရားခုနစ်ဆူတိုင် မီသော ဗြဟ္မာရှိလျှင် ဘုရားလောင်းတို့ ဗျာဒိတ်ခံသည် ကိုလည်းနှစ်ဦး သုံးဦး ခုနစ်ဦးပင် မီလိုက်သော ဗြဟ္မာရှိမည် မချွတ်ပြီ။ ဤယုတ္တိကို ထောက်၍ သိရာ၏။

❖❖❖❖❖

## ၅၄၁။ မဂ်ဖိုလ်ကေန်၊ ရပြီမှန်၊ တိရစ္ဆာန် ဘယ့်ကြောင့် ဖြစ်သနည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- လူမှတစ်ပါးသော ဂဠုန်, နဂါး, သိကြား, ဂန္ဓဗ္ဗ, ဗြဟ္မာစသော သူတို့သည် သာသနာ၌ ရဟန်းပြုခြင်းငှာ မထိုက် သောကြောင့် တိရစ္ဆာန်အလားသာ ဖြစ်ရကား တိရစ္ဆာနသဒ္ဒါဖြင့် သင်္ဂြိုဟ်ရမည်ဟူ၍-

**ဧတ္ထ စ တိရစ္ဆာနဂတောတိ ယဿ ဥပသမ္ပဒါ ပဋိက္ခိတ္တတ္တာ သက္ကံ ဥပါဒါယ သဗ္ဗာပိ ဒေဝါ တိရစ္ဆာနေသွေဝ သင်္ဂယှန္တိ။**

ဟူ၍ ဝိနည်းအဋ္ဌကထာတို့၌ ဆိုသောကြောင့် ထိုသကြားမင်းတို့လည်း သောတာပတ္တိဖိုလ်ကို ရပြီးသူဖြစ်လျက် ဘယ့်ကြောင့် တိရစ္ဆာန်ဟု ရေတွက်အပ်ပြန် သနည်းဟု မေးလိုသည်။ ရဟန်းပြုခြင်းငှာ မထိုက်သော အဖြစ်ချင်းတူသောကြောင့် ကေဒေသ သဒိသူပစာရအားဖြင့် တိရစ္ဆာန်ဆိုအပ်၏ဟူပေ။

58
A

❖❖❖❖❖

၅၄၂။ သေကြောင်းကေန်၊ သတ်ကြဟန်၊ ဉာဏ်ဟုဘယ့်ကြောင့်ဟောသနည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဉာဏ်နှင့်ကြံ၍သိသောကြောင့်ပင် ဉာဏ်ဟု ဟောသည်ဖြေ။

ဤ၌ အဓိပ္ပါယ်ကို သိလွယ်အောင် ဆိုဦးအံ့–

အနာထပိဏ်သူဌေး၏ ကျွန်မတစ်ယောက်သည် အဖိုးတစ်သိန်းထိုက်သော တန်ဆာကိုဆင်၍ ဥယျာဉ်သို့ သွားလေသော် ခိုးသားတစ်ယောက်သည် ဥစ္စာ၌ တပ်မက်၍ ထိုမိန်းမကို မေးခေါ်နှုတ်ဆက်ပြီးလျှင် ငါး အမဲစသော စားဖွယ်ကိုပေး၍ ဖြားယောင်း ပြီးမှ ဆိတ်ကွယ်ရာသို့ ခေါ်၏။ ကျွန်မကလည်း ကိလေသာအားဖြင့် ဖြားယောင်း ခေါ်ဆောင် သည်မှတ်၍ ခေါ်ရာအရပ်သို့ လိုက်လေသော် ဖုံးကွယ်ရာသို့ ရောက်လျှင် ကိုယ်တွင်ဆင်သော တန်ဆာကို ယူမည်ဟု ကြံမှန်းကိုသိ၍ "အမောင်– အစာဖြင့် လည်းကောင်း, သေဖြင့်လည်းကောင်း ယစ်မူးသဖြင့် ခြောက်သွေ့သော ကိုယ်ရှိ၏။ ရေသောက်ပါရစေ။ ရေတွင်း၌ ရေငင်ပါ"ဟု ဆို၍ ကြိုးနှင့် အိုးကိုပြ၏။ ခိုးသူလည်း ရေငင်အံ့သောငှာ ကြိုးနှင့်အိုးကို ဆွဲ၍ ကိုယ်ကို ညွတ်ကိုင်းလေသော် ထိုခဏ၌ တွန်းချ လိုက်၍ ကြီးစွာသော အုတ်ခဲဖြင့် ခေါင်းထက်သို့ချ၍ သေစေ၏။ ထိုအကြောင်းကို သခင်မဖြစ်သော ပုညလက္ခဏာဒေဝီအား ကြားလျှောက်လျှင် သူဌေးမလည်း အနာထပိဏ် သူဌေးအား ကြားပေ၏။ သူဌေးကြီးလည်း ဘုရား သခင်အား လျှောက်ထားလေ၏။ ထိုစကားကို ကြားလျှင် ဘုရားသခင်ကလည်း–

**န ခေါ ဂဟပတိ ဣဒါနေဝ သာ ဒါသီ ဌာနုပ္ပတ္တိကာယ ပညာယ သမန္နာဂတာ ပုဗ္ဗေပိ သမန္နာဂတာယေဝ။**

အစရှိသော စကားဖြင့် "သူဌေးကြီး၊ ဤကျွန်မသည် ယခုအခါ၌သာ ပညာရှိသည် မဟုတ်၊ ရှေးအခါ၌လည်း ပညာနှင့် ပြည့်စုံသည်သာတည်း။ ထိုယောကျ်ားကို ယခုသာ သတ်သည်မဟုတ်၊ ရှေးအခါ၌လည်း သတ်ဖူးပြီ"ဟု မိန့်တော်မူ၍ ရှေးအတိတ်ကို ဆောင်တော်မူ၏။

လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းကြီးသည် မင်းပြုသည် ရှိသော် ထိုပြည်၌ သုလသာ အမည်ရှိသော ပြည့်တန်ဆာမသည် ရှိ၏။ အလွန် လှပသော အဆင်းအရောင်လည်း ရှိ၏။ ကျေးကျွန်ဥစ္စာလည်း များစွာရှိ၏။ တစ်ည တစ်ည၌ တစ်ထောင်မျှလောက်သော အသပြာကိုပေး၍ မွေ့လျော်ရ၏။ ဤပြည်၌ ဆင်ပြောင် ကြီးအားနှင့်တူသော အဆင်းအင်္ဂါနှင့်ပြည့်စုံသော သတ္တုက မည်သော ခိုးသူသည် သူကြွယ် သူဌေးတို့၏အိမ်၌ ဥစ္စာကိုခိုးယူကာ အသက်မွေး၏။ တစ်နေ့သ၌ ပြည်သူတို့ ညီညွတ်၍ ဖမ်းကြသဖြင့် သတ္တုကခိုးသားကို မိလေလျှင် ပြည့်ရှင် မင်းကြီးအား သတ်စိမ့်သောငှာ အပ်ပေ၏။ မင်းကြီးလည်း မြို့ဝန်ကိုအပ်၍ "ခရီးလမ်းဆုံ ဟူသမျှ၌ ရိုက်ခတ်၍သတ်ရာ သင်္ချိုင်းသို့ ဆောင်လေ"ဟု အာဏာပေး၏။ မြို့ဝန်လည်း

မင်း၏ အာဏာရှိတိုင်း ဆောင်ယူလေသော် သုလသာ ပြည့်တန်ဆာမနေသော တိုက်ဝသို့ရောက်၍ သုလသာမြင်လျှင် ကိလေသာဖြင့် လွန်စွာခင်မင်သော စိတ်ရှိရကား ထောင်သား ထောင်မှူးတို့အား အသပြာဥစ္စာပေး၍ ဤယောက်ျားကို ရာဇဝတ်မှ လွှတ်ပါမည့် အကြောင်းဖြင့် တောင်းပန်၍ ယူ၏။ သတ္တုကသည် မိမိအိမ်သို့ ရောက်သောအခါ ကောင်းမွန်စွာသော အဝတ်တန်ဆာကို ဆင်ယင်စေ၍ ကောင်းမွန်စွာ စားသောက်စေပြီးလျှင် လင်ပြု၍ ထား၏။ သတ္တုကခိုးသားလည်း သုလသာ၏ အိမ်၌ ငြိမ်သက်စွာ သုံးလ၊ လေးလ နေပြီးသော် ''ငါသည် ဤ၌နေ၍ မမွေ့လျော်နိုင်၊ ဤမိန်းမ၌ စီရင်သော တန်ဆာတို့ကို ငါယူ၍ ပြေးပြီးလျှင် ဝေးရာအရပ်၌သာ ငါ့အလို အတိုင်း မွေ့လျော်အံ့''ဟုကြံ၍ သုလသာအား ဤသို့ဆို၏။ ''အိမ်ရှင်မ–ငါ့ကို မင်းကြီး သတ်အံ့ဟု သုသာန်သို့ ဆောင်လေသောအခါ ငါသည် ခိုးသားချတောင်၌နေသော နတ်တို့ကို ဤဘေးမှ လွှတ်အောင် မစတော်မူပါ။ ကျွန်ုပ်ချမ်းသာလျှင် ထူးမြတ်စွာ ဗလိနတ်စာပြုပါအံ့ဟု တောင်းပန်ခဲ့ပေသည်။ ယခု ချမ်းသာလျက် ဗလိနတ်စာ မပြုရသေး။ ရှင်မနှင့်အတူ သွား၍ နတ်အား ပူဇော်ပါရစေ''ဟု ဆို၏။ သုလသာလည်း ''ကောင်းပါပြီ''ဟု ဝန်ခံ၍ ပူဇော်ရန် ဝတ္ထုကို ပြင်ဆင်ပြီးမှ ကျေးကျွန်သင်းပင်းနှင့်တကွ ခိုးသားချတောင်သို့ သွားကြလေ၏။ တောင်ရင်းသို့ ရောက်သော် ''ငါတို့နှစ်ယောက်သာ တောင်ပေါ်သို့ တက်ပါရစေ'' ဆို၍ ကျေးကျွန်တို့ကို တောင်အောက်၌ ထားခဲ့၍ တောင်ဖျားသို့ တက်လေပြီးမှ ကမ်းပါးပြတ်၏ အနီးတွင် ပူဇော်ဖွယ်ကိုချ၍ ''သုလသာ သင်၌ ဆင်ယင်သော တန်ဆာကို ချွတ်လော့။ သင့်အား ငါသတ်တော့မည်''ဟု ဆို၏။ သုလသာလည်း အထူးထူးသော စကားဖြင့် ဖျောင်းဖျ တောင်းပန်သော်လည်း မနေ၊ သတ်မည်ဟူ၍သာ ဆိုလေသော် ''ဤသူကား ငါ့အား အသက်ကိုမပေးပြီ။ ဥပါယ်ရှာ၍ ချင့်, ကိုသာ ဦးစွာသတ်မှ ချမ်းသာရာ ရတော့မည်''ဟု ကြံ၍ ထိုခိုးသူကို ကြည်ဖြူရိုသေဟန်ဖြင့် တောင်းပန် ခယ၏။ ''အမောင် သတ္တုက– အမောင့်ကို မြင်ကတည်းကပင် ကြင်နာစုံမက်လှ၍ ကျွန်ုပ်သေတွင်းက ထုတ်ယူပါသည်။ သို့ပါလျက် အမောင် မနှစ်သက်သောကြောင့် သတ်ရက်လေသည်။ ယခုမှစ၍ အမောင်နှင့် မပေါင်းဖော်ရပြီ၊ ဖြစ်သောကြောင့် လက်ယာရစ်လှည့်၍ ဦးတိုက်ပါရစေ။ ကျွန်ုပ် လုပ်ဆောင်သော စားဖွယ်ခဲဖွယ်၌ စားသည်ကို မြင်ပါရစေ။ ဤဝတ္ထုများကို စားပါ''ဟု ဆို၏။ သတ္တုကလည်း စိတ်ချ၍ ပါသမျှ ခဲဖွယ်ဘောဇဉ်တို့ကို ထိုင်လျက်ပင် စားနေ၏။ ထိုအခါ သုလသာသည် ဖက်ယမ်း နမ်းရှုပ်ကာ လက်ယာရစ်လှည့်၍ ရှိခိုးပြီးမှ နောက်ကနေ၍ ချောက်ကမ်းပါးပြတ်သို့ တွန်းချလိုက်သဖြင့် သတ္တုက ခိုးသားသေခြင်းကို ရောက်လေ၏။ ထိုအခြင်းအရာကို တောင်စောင့်နတ်တို့ မြင်သဖြင့် ရွှင်လန်း ဝမ်းသာလျက်–

န ဟိ သဗ္ဗေသု ဌာနေသု၊ ပုရိသော ဟောတိ ပဏ္ဍိတော။
ဣတ္ထီပိ ပဏ္ဍိတာ ဟောတိ၊ တတ္ထ တတ္ထ ဝိစက္ခဏာ။

အစရှိသာဂါထာဖြင့် အဆွေတို့၊ ခပ်သိမ်းသော အရာတို့၌ ယောက်ျားသာလျှင် ပညာရှိသည်မဟုတ်၊ မိန်းမသည်လည်း ပညာရှိပေသည်တကား။ အကျိုးရှိရာကို လျင်စွာ ကြံနိုင်ပေ၏တကား။ သုလသာသည် သတ္တုက ခိုးသား၏ရန်ကို အမြန်အောင်နိုင် ပေပြီတကား။ အကြင်သူသည် ဤလူ့ပြည်၌ အကျိုးစီးပွားများအံ့သော အရာကို လျင်စွာသိ၏။ ထိုသူသည် ရန်သူဖြစ်သော သတ္တုက ခိုးသား၏ လက်မှ လွတ်အောင် ကြံဆောင်သော သုလသာကဲ့သို့ ကျဉ်းမြောင်းရာမှ လွတ်အောင် ကြံဆောင်ရာ၏။

ဤဂါထာတို့ဖြင့် တောင်စောင့်နတ်တို့သည် သုလသာကို လွန်စွာ ချီးမွမ်းကြကုန်၏။

ဤသို့လျှင် ''ဤကျွန်မသည် ယခုအခါ၌သာ ပညာရှိသည်မဟုတ်၊ ရှေးသော အခါ၌လည်း ပညာရှိပေသာတည်း''ဟု ထပ်ဆင့်၍ ချီးမွမ်းတော်မူသည်။

ဤအရာ၌ မိမိသေအံ့သော အကြောင်းကိုသိ၍မသေစိမ့်သောငှာတတ်နိုင်သည်ကိုပင် ဉာဏ်ပညာရှိ၏ဟု သဂါယနာ သုံးတန်တင်သော အဋ္ဌနိပါတ် ဇာတ်ကျမ်း၌ လာသည်။

ဓမ္မပဒအဋ္ဌကထာ၊ အင်္ဂုတ္တိုရ်အဋ္ဌကထာတို့၌လည်း ကုဏ္ဍလကေသီ ဘိက္ခုနီ၏ အလောင်းသည် သတ္တုက အမည်ရသော ခိုးသားကို သုလသာ၏နည်းတူပင် သတ်ခဲ့ဖူးလေသောကြောင့် တခ်ဏုပ္ပတ္တိ ဉာဏ်ရှိကြောင်းကို လာသည်။

ဤသို့ လာသည်ကို ထောက်၍ ''သေကြောင်းကေန်၊ သတ်ကြဟန်၊ ဉာဏ်ဟု ဘယ့်ကြောင့် ဟောသနည်း''ဟု အမေးပြုသည်။

ဘယ်သို့ အာဘော်ရှိသနည်း ဟူမူ- 'ဉာဏ်'ဟူသည်ကား ပညိန္ဒြေ စေတသိက်ပင် ဖြစ်သည်။ ထိုစေတသိက်သည် သောဘဏစိတ် ၄၇-ပါးတို့၌သာ ယှဉ်သည်။ အကုသိုလ် တို့၌ မယှဉ်။ သူ့ကို သတ်ရာ၌ကား အကုသိုလ် ဒေါသဇောသာ ဖြစ်သည်။ ထိုဒေါသဇော စိတ်၌လည်း ပညာမယှဉ်ချေ။ ထိုသို့မယှဉ်ဘဲလျက် သေအောင် သတ်သော အရာကို ပညာရှိ၏ဟု ဘုရားဟောပြန်သည်။ အဘယ့်ကြောင့် ဟောသနည်းဟု အာဘော်ရှိ၍ မေးသည်။

အဖြေကား-သတ်အံ့ဟု ကြံသောအရာသည် ပညာစေတသိက်မဟုတ် မဆိုသာ၊ ဘယ့်ကြောင့်နည်းဟူမူ ထိုပညာယှဉ်သော ၄၇-ခုသော စိတ်တို့တွင် မဟာကုသိုလ်စိတ် ၄-ခုသည် အရဟတ္တဖိုလ်မှတစ်ပါး အလုံးစုံကိုပင် အာရုံပြုသည်။ မဟာကိရိယာစိတ် ၄-ခုသည် အလုံးစုံသော စိတ် တစ်ခုယုတ် ၉၀၊ စေတသိက် ဒွေပညာသ၊ ရုပ်အဋ္ဌဝီသ၊ နိဗ္ဗာန် ပညတ်ကို အာရုံပြုသည်။ ထို့ကြောင့် ပညာလည်း အကုသိုလ်ဓမ္မဟူသမျှကို အာရုံပြုနိုင်သည်ပင် ဖြစ်သည်။ သတ်ဆဲသော ကာလ၌သာ ဒေါသမူဝီထိကျသည်။ ထိုဝီထိ၌သာ ပညာမယှဉ်။ ရှေးအံ့ဖို့ဖြစ်သော သတ်အံ့ဟု ကြံသော ဝီထိတို့ကား ပညာနှင့်ယှဉ်သော ကုသိုလ်စိတ်တို့ပင် ဖြစ်သင့်ရကား

ထိုရှေးစိတ်၌ ယှဉ်သော ပညာကို ရည်၍ 'ဉာဏ်'ဆိုကြောင်းကို ဘုရားဟောတော်မူသည်ဟု ဖြေ၏။

အကုသိုလ်ကို အာရုံပြု၍ ကုသိုလ်ဖြစ်ကြောင်းကိုကား ပဋ္ဌာန်းပဥ္စာဝါရ၌–

**ပါဏံ ဟန္တွာ တံ ပစ္စဝေက္ခတိ... ဒါနံ ဒေတိ–**

စသည်ဖြင့် ဟောတော်မူပြီ။

ဤပါဠိတော်၌ အသက်သတ်ခြင်းကို ပြုသောသူသည် ထိုအကုသိုလ်ကံကို အာရုံပြု၍ ကြောက်လန့်ရကား ထိုမကောင်းမှုမှ ပျောက်စိမ့်သောငှာ ဒါနကိုလည်းကောင်း, သီလကိုလည်းကောင်း, ဘာဝနာကိုလည်းကောင်း အားထုတ်၏။ ယင်းသို့ ကြံစည် ကြောက်လန့်သော ကာလ ကျရောက်သော ကုသိုလ်ဇောသည် ယခင်ပြုမိသော ပါဏာတိ ပါတ အကုသိုလ်စိတ်ကိုလည်းကောင်း, ကံကိုလည်းကောင်း အာရုံပြု၏။ ဤကဲ့သို့ အသက်ကိုသတ်အံ့ဟု ကြံခြင်းစသည်တို့၌ ပညာရှိသော သတ္တဝါသည် မိမိပညာဖြင့် လိုရာအကြောင်းဖြစ်သော ကိစ္စကို သိတတ်သော ဇောစိတ် ဖြစ်သည်။ ထို့နောက်မှ ပါဏာတိပါတကံကို စီမံသော ဒေါသဇောစသည်တို့ ဖြစ်သည်။ ဤသို့ယူမှ သုတ္တန်နှင့် အဘိဓမ္မာ ညီညွတ်မည်။

❖❖❖❖❖

## ၅၄၃။ယုဂန်ထက်လွန်၊ အဿကဏ်၊ဟောပြန်နေမိ ဘယ့်ကြောင့်နည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပါရာဇိကကဏ် အဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၊ အင်္ဂုတ္တရ အဋ္ဌကထာ စသော ကျမ်းကြီးတို့၌ အဿကဏ် တောင်ကို ပြင်စွန်းထား၍ ယုဂန်တောင်ကို အတွင်းစွန်း ထား၍ ပြပါသည်။

နေမိဇာတ်၌ကား သုဒဿန တောင်ကို ပြင်စွန်း၊ အဿကဏ်, တောင်ကို အတွင်းစွန်းထား၍ ဘယ့်ကြောင့် ဟောပြန်သနည်းဟု မေးလိုသည်။

နေမိမင်းကြီး မေးသောအခါ မာတလိနတ်သားသည်–

**သုဒဿနော ကရဝီကော၊ ဤသဓရော ယုဂန္ဓရော။**
**နေမိန္ဓရော ဝိနတကော၊ အဿကဏ္ဏော ဂိရိဗြဟာ။**

**ဧတေ သီဒန္တရေ နဂါ၊ အနုပုဗ္ဗ သမုဂ္ဂတာ။**
**မဟာရာဇာနမာဝါသာ၊ ယာနိ တွံ ရာဇ ပဿသိ။**

ဟူသော ဂါထာဖြင့် အရှင်နေမိမင်းကြီး ဤတောင် ခုနစ်ထပ်တို့တွင် ပြင်ဆုံး ပတ်ရံသော တောင်သည်ကား သုဒဿနတောင်မည်၏။ ထို့ထက် ဆတက်မြင့်၍ တစ်ဆင့်ပတ်သော တောင်ကား ကရဝီကတောင် မည်၏။ ထို့ထက် ဆတက်မြင့်၍ တစ်ဆင့်ရံပြန်သော တောင်ကား ဤသဓရတောင်မည်၏။ ထို့ထက်ဆတက်မြင့်၍

တစ်ဆင့်ရံပတ်သော တောင်ကား ယုဂန္ဓရတောင်မည်၏။ ထို့ထက် ဆတက်မြင့်၍ တစ်ဆင့်ရံပတ်သော တောင်ကား နေမိန္ဓရတောင် မည်၏။ ထို့နောက် တစ်ထပ်ပတ်ရံ၍ တည်သောတောင်ကား ဝိနတကတောင်မည်၏။ ထို့နောက် တစ်ထပ်ပတ်၍ ရံပြန်သော တောင်ကား အဿကဏ်တောင် မည်၏။ ထိုတောင်တို့၏ အကြား၌ သီဒါတို့သည်လည်း ခြားကာရှိကုန်၏– ဟူ၍ နေမိမင်းကြီးအား လျှောက်ကြောင်းကို ဇာတ်အဋ္ဌကထာ လာသည်။

တစ်ပါးသော ကျမ်းတို့၌ကား အဿကဏ်တောင်ကို ပြင်စွန်း၊ ယုဂန်တောင်ကို အတွင်းစွန်း အမြင့်ဆုံးထား၍ လာသည်။ ယင်းသို့ ကျမ်းမညီမညွတ်လာခြင်းသည် အဘယ့်ကြောင့်နည်းဟု မေးသည်။

နေမိဇာတ်၌ လာသော တောင်စဉ်အမည်သည် နေမိမင်းကြီးမေးသောကာလ တွင်သော အမည်ဖြင့် မာတလိနတ်သား လျှောက်ကြားသည်။ တစ်ပါးသော ဝိနည်း၊ သုတ်၊ အဘိဓမ္မာတို့၌ လာသော အမည်တို့ကား ကမ္ဘာပေါ်ဦးက ရသော အမည် ဖြစ်သည်ဟု သာရတ္ထဒီပနီဋီကာ၌ မိန့်၏။

> **တဒါ သတ္တာနံ ပရိဗန္ဓပဗ္ဗတာနံ ပရိဝတ္တနနာမတ္တာ။ တဒါ ဟိ သဗ္ဗဗာဟိရဿ ပဗ္ဗတဿ သုဒဿနောတိနာမံ ဇာတံ။ဟူ၍လည်းကောင်း။**
>
> **ဝိနယအဋ္ဌကထာယံ ပန မူလနာမဝသေန ''ယုဂန္ဓရော ဤသဓရော၊ ကရဝီကော သုဒဿနော။ နေမိန္ဓရော ဝိနတကော၊ အဿကဏ္ဏော ဂိရိ ဗြဟာ''တိ အဉ္ဉောယေဝ အနုက္ကမော အာဂတော။ အာဒိကပ္ပကာလေ ဟိ သိနေရုအန္တရဿ ပဗ္ဗတဿ ယုဂန္ဓရောတိ နာမံ ဇာတံ။ ဟူ၍ မိန့်သတည်း။**

တဒါ၊ ထိုနေမိမင်းကြီး မေးသောအခါ၌။ သတ္တာနံ၊ ခုနစ်လုံးကုန်သော။ ပရိဗန္ဓပဗ္ဗတာနံ၊ မြင်းမိုရ်တောင်ကိုရံသော တောင်တို့၏။ ပရိဝတ္တနနာမတ္တာ၊ အမည်ပြန်လည်၍ တည်သည်၏ အဖြစ်ကြောင့်။ ဝုတ္တံ၊ ဆိုအပ်၏။ ဟိသစ္စံ၊ မှန်၏။ တဒါ၊ ထိုအခါ၌။ သဗ္ဗဗာဟိရဿ၊ အလုံးစုံ၏ ပြင်ဖြစ်သော။ ပဗ္ဗတဿ၊ တောင်၏။ သုဒဿနောတိနာမံ၊ သုဒဿနတောင်ဟူသောအမည်သည်။ ဇာတံ၊ ဖြစ်၏။ ဝိနယအဋ္ဌကထာယံ ပန၊ ဝိနည်းအဋ္ဌကထာ၌ကား။ မူလနာမဝသေန၊ ကမ္ဘာဦး၌ ဖြစ်သောအမည်ရင်း၏ အစွမ်းအား ဖြင့်။ ယုဂန္ဓရော။ ပ။ ဂိရိဗြဟာတိ၊ ယုဂန္ဓရော။ ပ။ ဂိရိဗြဟာဟူ၍။ အဉ္ဉော၊ တစ်ပါးသာလျှင် ဖြစ်သော။ အနုက္ကမော၊ အစဉ်သည်။ အာဂတော၊ လာ၏။ ဟိသစ္စံ၊ မှန်၏။ အာဒိကပ္ပကာလေ၊ ကမ္ဘာဦးကာလ၌။ သိနေရုအန္တရဿ၊ မြင်းမိုရ်တောင် အနီး ဖြစ်သော၊ ပဗ္ဗတဿ၊ တောင်၏။ ယုဂန္ဓရောတိနာမံ၊ ယုဂန္ဓိုရ်ဟူသော အမည်သည်။ ဇာတံ၊ ဖြစ်၏။

❖❖❖❖❖

## ၅၄၄။ သက်တစ်ရာမှန်၊ စားလေဟန်၊ ဆန်ကား စေ့ပေါင်း ဘယ်မျှနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နှစ်ပေါင်းတစ်ရာတည့်၊ တစ်ဆယ့်နှစ်လနှင့်မြှောက်၊ လပေါင်း တစ်ထောင့်နှစ်ရာ ဖြစ်၏။ တစ်လတစ်တင်းကုန်စားလျှင် တင်းပေါင်း တစ်ထောင့်နှစ်ရာရှိ၏။ ဆန်တစ်တင်းလျှင် စေ့ပေါင်း ခုနစ်သိန်း ခြောက်သောင်း ရှစ်ထောင်ရှိရကား ထိုတင်းပေါင်း တစ်ထောင့်နှစ်ရာကို တည်၍ ခုနစ်သိန်း ခြောက်သောင်း ရှစ်ထောင်နှင့်မြှောက်၊ ဆန်စေ့ပေါင်း ကိုးဆယ့်နှစ်ကုဋေ တစ်သန်း၊ ခြောက်သိန်း ရ၏။ နှစ်ပေါင်းတစ်ရာစားသော် ဤမျှလောက် ဆန်စေ့ကုန်၏ ဟူပေ။

❖❖❖❖❖

## ၅၄၅။ စကားမပြန်၊ တိရစ္ဆာန်၊ ပြောဟန်ဘယ်ချိန် ရောက်မည်နည်း။(၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မည်သည့်ကာလ၌ တိရစ္ဆာန်တို့ စကားပြောသည်။ မည်သည့်ကာလ၌ စကားမပြောဟူ၍ ပိဋကတ်သုံးပုံအဝင် ဖြစ်သော ကျမ်းတို့၌ လာသည်ကို မတွေ့မိချေ။ သမင်မင်းဇာတ်, လင်းတမင်းဇာတ်, ကျေးမင်းဇာတ် စသော များစွာသော ဇာတ်တို့၌ လူတို့ဘာသာဖြင့် စကားပြောကြောင်း တရားဟောကြောင်းကို ''မနုဿဘာသာယဘာသတိ'' စသည်ဖြင့် လာသည်။

လောက သင်္ကေတဖြင့် မှတ်သားကြသော ပုရာဏ်ကျမ်းတို့၌ကား– လူတို့အသက် အသင်္ချေမှစ၍ တစ်ထောင်တမ်း နေသည်တိုင်အောင် အတတ်ပညာများကြသည်။ ဘာသာမျိုးကို သိသည်ဖြစ်၍ တိရစ္ဆာန်တို့နှင့် စကားပြောနိုင်သည်။ ထိုအောက် ကာလ၌ကား ပညာရှားပါး၍ တိရစ္ဆာန်တို့၏ စကားကို နားမလည်ကုန်။ တစ်ရာတည်းအောက်ယုတ်သော ကာလ၌ကား လူအချင်းချင်း စကားကိုမျှ အမျိုးခြားမှုနားမလည်ကြဟု ဆိုသည်။ ထိုစကားသည် မှန်၏။ သီဟိုဠ်ကျွန်း မဟာဂါမ၌ ကာကဝဏ္ဏ မင်းကြီးလက်ထက် သူအိုး တစ်ယောက်သည် သဗ္ဗရုဒဇာနနမန္တန်ကိုတတ်၍ ပျားကြီး, ပျားငယ်တို့ ငြင်းခုံပြောဆိုသော စကားကို နားလည်ကြောင်းကို မဟာဝင်၌ ဆိုသည်။ ဗာရာဏသီမင်းသည် နဂါးပေးခဲ့သော သဗ္ဗရုဒဇာနနမန္တန်ကို ရ၍ ပိုး၊ ပုရွက်၊ ယင်းတို့ ပြောသော စကားကို နားလည်ကြောင်းကို ပဥ္စကနိပါတ် ဇာတ်၌ ဆိုသည်။ ထို့ကြောင့် ကာလမရွေး တိရစ္ဆာန်တို့သည် ချင်းတို့ဘာဝဖြင့် စကားဆိုကြသည်ချည်း ဖြစ်သည်။ လူတို့ကသာ ပညာပါးရှား၍ နားမလည်ကြ။ ပညာ ကြီးသော သူတို့မှာ နားလည်ပါ၏ဟု ဆိုရာသည်။

❖❖❖❖❖

## ၅၄၆။ အဒိန္နာဒါန်၊ သိက္ခမာန်၊ သင့်ရန် အာပတ်ဘယ်မျှနည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပဥ္စသီငါးပါးတွင် ဝိကာလ ဘောဇနကို ထည့်၍ ခြောက်ပါးသော သီလဖြင့် ဝတ်ဖြူစည်း၍ နေရသော မိန်းမကို

''သိက္ခမာန်''ဟု ဆိုသည်။ ထိုသိက္ခမာန်တို့အား သင့်ရန် အာပတ်ကို ပညတ်တော်မမူ၊ လူတို့ကဲ့သို့ သီလပျက်လျှင် ပြန်၍ ကျင့်ရသည်သာ ရှိသည်။

❖❖❖❖❖

## ၅၄၇။ ကင်း၏သားမွန်၊ စိုးဆက်မှန်၊ ကေန် ဘယ်တိုင်းဌာနနည်း။(၁၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ကင်း၏သား ဖြစ်သော စဏ္ဍပဇ္ဇောတမင်း စိုးအုပ်ရသည့် တိုင်းပြည်ကား အဝန္တိတိုင်း၊ ဥဇ္ဇေနီပြည်တည်း။ ထိုမင်း၏ မယ်တော်သည် စံရာတိုက်ခန်း၌ လေသာနန်းတံခါးကို ဖွင့်၍ အိပ်စက်ရာ ကင်းသတ္တဝါ သည် အင်္ဂါဇာတ်၏ အနီးဖြင့်ရစ်လျက် တက်သွားသည်ကို နှစ်သိမ့်ခြင်း ပီတိနှင့်တကွ ရာဂ ရမ္မက်ဖြစ်၍ ထိုနေ့ပင် ပဋိသန္ဓေရသဖြင့် စဏ္ဍပဇ္ဇောတမင်းကို ဖွားသည်။ ထို့ကြောင့် ကင်းသံည် တည်ရင်း ပဋိသန္ဓေ၏ မူလဖြစ်ရကား ထိုမင်းသည် ထောပတ်ကို အလွန်ကြောက်သည်ဟူ၍ ဝိနည်းမဟာဝါ ပါဠိတော်၊ ၎င်းအဋ္ဌကထာတို့၌ လာသည်။

❖❖❖❖❖

## ၅၄၈။ စလေသူ့ကျွန်၊ မင်းခွေးမွန်၊ လူတန် အမျိုး ဘယ်ကနည်း။(၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား--ဥမျိုးဖြစ်သော ရန်သိဃ်မင်း၏သား ညီအစ်ကိုနှစ်ယောက်တွင် ညီအငယ် သိန်းခို၏သား ဖြစ်ရကား ပေါက္ကံနန်းရိုး ဥမျိုးမင်း ပင်တည်းဟုဖြေ။ ထိုအကြောင်းကို အမြွက်မျှ ဆိုလိုက်ဦးအံ့-

ခဆပဥ္စ သက္ကရာဇ်ကို ချေပြီးနောက် ကိုးဆယ့်ခြောက်နှစ်တွင် သိန်းခွန်မင်းနှင့် သိန်းခိုမင်း ညီနောင် နန်းလုကြ၏။ သုံးလတိုင်သောအခါ အစ်ကို သိန်းခွန်နိုင်၍ မင်းပြု သဖြင့် သိန်းခိုသည် ပြေးရ၍ စလေအရပ်၌ ပုန်း၍ နေရ၏။ ယင်းသို့နေရာ မိမိသမီးမှ မင်းခွေးကို ဖွား၍ အရွယ်ရောက်သော် မိဘတို့ ဆင်းရဲလှသောကြောင့် ငခွေးကို သူကြွယ်တစ်ဦးထံ၌ ရောင်းရ၏။

ထိုငခွေးသည် ဝတ်ကောင်းစားလှ ကွမ်း ပန်း နံ့သာ အလွန်ကြိုက်၏။ တစ်ရံသော အခါ အရှင်သူကြွယ် လှေသွားသဖြင့် ငခွေးကို လှေထိုးထည့်၏။ ပုဂံသို့ ရောက်မည့်နေ့ ညဉ့်တွင် အိပ်မက်ကြီးစွာ မြင်၍ မိုးသောက်လျှင် လှေထိုး၍ ဆန်ခဲ့သော် မုနောလင်ပန်းကို ဝါးထိုးမိသည်နှင့် ငြိ၍ပါလာ၏။ ငခွေးလည်း ''ငါ့အိပ်မက် ကြီးမြတ် လှသည်။ ဤမျှနှင့် ကျေလေတော့မည်''ဟု ဝါးကို ခါ၍ ချခဲ့၏။ ပုဂံသို့ ရောက်သော် မင်း၏ဆရာဖြစ်သော ပုဏ္ဏားထံသို့ အိပ်မက်မေးရန် သွားလေလျှင် ပုဏ္ဏား မရှိခိုက် ဖြစ်၍ ပုဏ္ဏေးမကို အကြောင်း ပြန်၏။ ပုဏ္ဏေးမကလည်း ''ဘုန်းကြီးမည်၊ အသက် ရှည်မည်'' ဆိုလိုက်၏။ ငခွေးလည်း မှတ်မှတ်ရရ မဖတ်ပါသောကြောင့် မျက်နှာမလှဘဲ ဆင်းသွားရ၏။ ထိုခဏ၌ ပုဏ္ဏား ရောက်လာ၍ ''ငါမရှိခိုက် ဘယ်သူလာသနည်း''ဟု မေး၍ ပုဏ္ဏေးမက အကြောင်းကို ပြန်ကြားလျှင် ''သင် ဤကဲ့သို့ ဖတ်ရာသလော''

ဟု မယားဆံထုံးကို လှီး၍အောက်သို့ ပစ်ချလိုက်၏။ လမ်းသို့ရောက်သော ခဏ၌ ဆံထုံးကို မိုးကြိုးပစ်၏။ ပုဏ္ဏားလည်း ထိုလုလင်ကို ခေါ်စေ၍ ရောက်လျှင် ''အမောင် လုလင်ကား အဘယ်အရပ်သားနည်း။ အဘယ် အမျိုးအနွယ်နည်း၊ အမောင့် အိပ်မက်ကား ထက်မြက်သောအကျိုး ရှိသည်။ သီတင်း သီလကို ဆောက်တည်ပါ။ မကြာခင် ဤပေါက္ကံပြည်ကြီး၌ မင်းဖြစ်လတ္တံ့။ အမောင် မင်းဖြစ်သောအခါ ငါ့တို့ကို မမေ့ပါလင့်''ဟု ဆိုလိုက်၏။

ငခွေးလည်း ကုန်စလယ်ရောင်းဝယ်ပြီး၍ မိမိအရပ်သို့ စုန်ရောက်လျှင် မင်းဖြစ်ချင်သော ဆန္ဒနှင့် စာပေကြည့်၍သာ နေရကား သူကြွယ်သည် ညှဉ်းပန်း၍ ပူပြင်းစွာစေ၏။ သည်းမခံနိုင်သောအခါ ထွက်ပြေးလာ၍ တန္ဒက်မင်းထံမှာ ခစားလေ၏။ မင်းကြီးလည်း အသွင်အပြင်ကို မြင်သော် သနားတော်မူသည်ဖြစ်၍ မြင်းခံထည့်လေ၏။ မင်းကြီးသည် မြင်းကို ချစ်တတ်လှသောကြောင့် မောင်းမငယ် တစ်ယောက်နှင့် မြင်းတင်းကုပ် ညှဉ့်နေ့မပြတ်လာ၏။

တစ်ရံသောအခါ မင်းကြီးက မြင်းခံကိုခေါ်၍ ''မြင်းချေးတို့ကို ဝေးစွာသွန်ရသောထက် ဤတင်းကုပ်အနီးတွင် တွင်းကြီး နက်စွာတူး၍ ချသွန်ပြီးလျှင် သွေ့ရာက မီးတိုက်''ဟု မိန့်တော်မူ၏။ မြင်းခံလည်း မင်းကြီးအမိန့်အတိုင်းပြု၏။ တစ်နေ့သ၌ မောင်းမငယ်နှင့် မြင်းခံစကားဝင်ကြသဖြင့် ညလာသောအခါ မင်းကြီးကို မြင်းချေးတွင်း၌ တွန်းချ၍ သတ်လေ၏။ မြင်းခံလည်း မိဖုရားမောင်းမတို့ကို အလိုသို့ပါအောင် ခြိမ်းခြောက်၍ မင်းပြုလေ၏။

ထိုငခွေးကား–ဘုရားရှင် တန့်ကြည့်တောင်သို့ ကြွသောအခါ တောင်စောင့် ဘီးလူးဖြစ်၍ အင်ဖက်သုံးချပ်ကို ထီးပြု၍ မိုးကာဖူးသောကြောင့် ''ဤဘီးလူးသည် ပေါက္ကံပြည်၌ မင်းသုံးကြိမ်ဖြစ်လတ္တံ့''ဟူ၍ ဗျာဒိတ်ရဖူးသောသူ ဖြစ်ရကား ဘုန်းတန်ခိုးကြီး၏။ အာဏာကြီး၏။ အမျက်စောင်းမာန်ကြီး၏။ အစားကြူး၏။ မှူးမတ်ဗိုလ်ပါတို့ အလွန်ကြောက်ရ၏။ စလေအရပ်၌ သခင်ဖြစ်သော သူကြွယ် ညှဉ်းပန်းဖူးသည်ကို အငြိုးထား၍ သူကြွယ်အားလည်း သတ်လေ၏။ အမည်တူသမျှကို ဖမ်းဆီး၍ ရေကန်ဝယ် ကူးစေပြီးသော် ဆင်ပေါ်ကနေ၍ လှံနှင့်ထိုးသော ဟူ၏။

ထိုသို့ ပြုဖန်များ၍ အမတ်ဗိုလ်ပါတို့ နှလုံးနာသောကြောင့် ဆင်ကဲကို တံစိုးပေး၍ ရေကန်၌ ရေကစားစဉ် က, ဆိုင်းသော ကြိုးကိုဖြတ်၍ ရေကန်တွင်ကျစေ၏။ မှူးမတ်ဗိုလ် ပါတို့လည်း ညွန့် တစ်ယောက် တစ်လက်ဖက်စီနှင့် ပစ်၍ အနိစ္စရောက်လေ၏။ ထိုကန်ကို ယခုတိုင် ''ညွန့်တစ်လက်ဖက်ကန်'' ဟု ခေါ်ကုန်၏။ ဤမင်းကား အိမ်နိမ့် ၃၀။ စည်းစိမ် ၂၅။ သက်တော် ၅၅နှစ်တွင် အနိစ္စရောက်၏။

အမျိုးကိုမေးသောကြောင့် ဒ္ဒအမျိုးကို သိသာရုံ ဖြေသင့်သော်လည်း နောက်သားတို့ ပညာပွားစကား ရစိမ့်သောငှာ အကြောင်းအရာနှင့်တကွ ပြဆိုလိုက်သည်။

59
A

❖❖❖❖❖

၅၄၉။ ပုစွန်လက်မှန်၊ စည်အလွန်၊ မြည်တွန်ဘယ်မျှ ကြာသနည်း။(၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ပုစွန့်လက်မဖြစ်သော အာလမ္ဗရစည်၏အသံသည် ယူဇနာတစ်ရာ နှစ်ရာ တိုင်အောင် ကြား၏။

ဤ၌လည်း အကြောင်းကို ဆိုလိုက်ဦးအံ့-

ဟိမဝန္တာတောဝယ် ကုဋ္ဌိရ အမည်ရှိသော အိုင်၌ ကောက်နယ်တလင်းမျှ လောက်သော ပုစွန်တစ်ကောင်သည်ရှိ၏။ ထိုပုစွန်သည် အိုင်သို့ ဆင်း၍ ရေသောက် ကုန်သော ဆင်အပေါင်းတို့တွင် နောက်ကျသောဆင်ကို တစ်နေ့တစ်ကောင်စီဆွဲ၍ ရေထဲ၌နှစ်၍ သေစေပြီးမှ ထိုဆင်၏ အသားကို စားကာနေ၏။

ဆင်တရွေ့တရွေ့ပါးသဖြင့် ဘုရားလောင်းဆင်မင်းသည် ဤ၌ရန်သူ ရှိချေသည်ဟု ဆင်ခြင်မိ၍ ဆင်တို့ကိုစည်းဝေစေပြီးသော် တစ်နေ့သ၌ မိမိနောက်ချန်၍ နေသဖြင့် ခြေကို ပုစွန်ညှပ်လာသောအခါ မှာဆိုပြီးသောဆင်တို့ကို နှာမောင်းချင်း ယှက်ကာ ယှက်ကာ ဆွဲစေလျက် ကြည်းထက်သို့တင်၍ ဆင်အပေါင်းတို့ကို ညက်ညက် ကြေအောင် နင်းစေ၏။ ထိုပုစွန်၏ လက်မ နှစ်ချောင်းတို့သည် ကျိုးပြုတ်၍ တစ်ခုသော အရပ်၌ ကျလေ၏။

ထိုအိုင်သည် ဂင်္ဂါမြစ်နှင့် တစပ်တည်းသော ရေရှိရကား မိုးရွာ၍ ဂင်္ဂါမြစ်ပြည့် သောအခါ ထိုအိုင်သည်ပြည့်၏။ မြစ်၌ ရေနည်းသောအခါ အိုင်မှရေသည် လျှောလေ သဖြင့် ဂင်္ဂါသို့ သက်ဆင်း၏။ ထိုသို့သက်သောအခါ ထိုပုစွန်လက်မနှစ်ချောင်းတို့သည် ပါလေ၍ ဂင်္ဂါမြစ်ဖြင့် မျောလေသော် လက်မတစ်ချောင်းသည် မြောက်သမုဒ္ဒရာသို့ပါ၍ အသုရာတို့ယူပြီးလျှင် အာလမ္ဗရမည်သော စည်ကြီးပြု၍ တီးကုန်၏။ လက်မ တစ်ချောင်း သည် လူတို့နေရာသို့ရောက်၍ ဥတ္တရာပထတိုင်း ဒသဘာတိက မင်းညီနောင် တစ်ကျိပ် တို့သည် ဆယ်ယူပြီးလျှင် အာလိင်္ဂမုဒိင်္ဂမည်သော မုရိုးစည်ပြု၍တီး၏။ ထိုစည်၏ အသံသည် အလွန်ထက်သည်ဖြစ်၍ ယူဇနာ တစ်ရာ နှစ်ရာတိုင်အောင်ကြား၏။

တစ်ရံသောအခါ အသုရာတို့နှင့် သိကြားမင်း စစ်ထိုးရာတွင် အသုရာတို့ ရှုံးသည် ဖြစ်၍ ထိုအာလမ္ဗရစည်ကို ပစ်၍ပြေးကြ၏။ သိကြားမင်းသည် ထိုစည်ကို သိမ်းယူ၍ နတ်ပွဲသဘင်စသည်၌ တီးစေ၏။ ထိုစည်၏အသံသည် အာလမ္ဗရမည်သော မိုးကဲ့သို့ ထစ်ကြိုးကြည်းဟည်းလျက် မြေကြီးတစ်ပြင်လုံးနှံ့၏၊ ဤအကြောင်းကို တိကနိပါတ် ကက္ကဋ ဇာတ်၌ လာသည်။

ထို့ကြောင့် ဇာတ်ပေါင်းလင်္ကာ၌-

ရှေးဖျားမဆွ၊ ကုဋ္ဌိရဟု၊ ကန်မဉ္ဇဝယ်၊ ကြောက်ဖက်ဖွယ်တည့်၊ ကောက်နယ်တလင်း၊ မြေခင်းရှိလောက်၊ ကြီးမြောက်စွာလှ၊ ကက္ကဋကို၊ ပုဗ္ဗသမ္ဘာ၊ ဖူးမုံအာသား၊ ပွင့်လျာဘုန်းရှိ၊ ဆင်ဟတ္ထိလျှင်၊ နင်းမိအားကိုး

ရွှပ်ရွှပ်ချိုး၍၊ စဉ်ကျိုးဘိန္န၊ မြစ်သို့ကျသော်၊ လက်မအစုံ၊ မျောလေတုံ၏။ ကြိုက်ကြုံထိုခါ၊ အသုရာတို့၊ မဟာသမုဒ်၊ ဝဲစုတ်ရေကြောင်း၊ ဝင်လေ ရှောင်းသော်၊ တစ်ချောင်းအကြွေ၊ ဆယ်ရလေ၏။ မည်ထွေသာလှ၊ ဝှန်ပေါက် ပြလျက်၊ စည်မ စည်ကြီး၊ စည်ဘေရီးဟု၊ ပြုပြီးဆုံးမှ၊ ဝါသဝနှင့်၊ တွေ့ကြ ရန်မွေ၊ နတ်စစ်မြေ၌၊ ရှုံးလေရကား၊ ပစ်စွန့်သွားသော်၊ သိကြားဝတြဘူ၊ ယူလေတုံလျှင်း၊ မိုးအုန်းအင်းနှင့်၊ ထုတ်ချင်းအသံ၊ ရပ်ဝေးပျံ့သား၊ အာလမ္ဗရ၊ တွင်ထမည်ခေါ်၊ ထိုစည်ကျော်ကား၊ ထွန်းပေါ် တန်ခိုး ပျံ့၏တည်း။ ဟူ၍ ရှင်ရဋ္ဌသာရ စပ်လေသည်။

❖❖❖❖❖

၅၅၀။ သုံးဆယ့်ခြောက်တန်၊ပုစ္ဆာမှန်၊ကျမ်းဂန် ဘယ်ကထွက်သနည်း။(၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပုစ္ဆာ ဝိသဇ္ဇနာမည်သော ကျမ်းက ထွက်သည်။

❖❖❖❖❖

၅၅၁။ ငြိမ်းရိုးကေန်၊ ပြည်နိဗ္ဗာန်၊ ပဒဋ္ဌာန်မည်သို့ ဆိုမည်နည်း။(၂၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သန္တိလက္ခဏံ နိဗ္ဗာနံ၊ အစ္စုတိရသံ၊ အနိမိတ္တပစ္စုပဋ္ဌာနံ၊ နိဿရဏ ပစ္စုပဋ္ဌာနံ ဝါ၊ နိဗ္ဗာနဿ ပဒဋ္ဌာနံ န လဗ္ဘတိ။ န ကေနစိ ကာရဏေန နိဗ္ဗာနံ ဥပ္ပဇ္ဇတီတိ အာယသ္မာ နာဂသေနတ္ထေရော အာဟ။

(အဘိဓမ္မတ္ထသင်္ဂဟဒီပနီ)

နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ သန္တိလက္ခဏံ၊ ငြိမ်းအေးခြင်း လက္ခဏာရှိ၏။ အစ္စုတိရသံ၊ မရွေ့နိုင်သော ကိစ္စရှိ၏။ အနိမိတ္တပစ္စုပဋ္ဌာနံ၊ နိမိတ်ကင်းသောအဖြစ်ဖြင့် ထင်သော အခြင်းအရာရှိ၏။ ဝါ၊ တစ်နည်းကား။ နိဿရဏပစ္စုပဋ္ဌာနံ၊ ဝဋ္ဋမှထွက်မြောက်ခြင်းလျှင် ထင်သော အခြင်းအရာရှိ၏။ နိဗ္ဗာနဿ၊ နိဗ္ဗာန်တရား၏။ ပဒဋ္ဌာနံ၊ နီးစွာသော အကြောင်းကို။ န လဗ္ဘတိ၊ မရအပ်။ ကေနစိကာရဏေန၊ တစ်စုံတစ်ခုသော အကြောင်းကြောင့်။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ န ဥပ္ပဇ္ဇတိ၊ မဖြစ်။ ဣတိ၊ ဤသို့။ အာယသ္မာ၊ သက်တော် ရှည်သော၊ နာဂသေနတ္ထေရော၊ အရှင်နာဂသိန် မထေရ်သည်။ အာဟ၊ ဆိုပြီ။ အဋ္ဌသာ လိနီ၊ ဝိသုဒ္ဓိမဂ်ကျမ်းတို့၌လည်း ဤနည်းတူပင် လာသောကြောင့် နိဗ္ဗာန်၌ ပဒဋ္ဌာန်ကို မရအပ်ဟု မှတ်ရမည်။

❖❖❖❖❖

## ၅၅၂။ ဌကလာပ်မှန်၊ ဝေကန်၊ ပစ္စယုပ္ပန် သဘော ဘယ်မျှနည်း။(၂၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ''ကိဉ္စိ ဘိယျော''ဟု ဖြေအပ်၏။

တဝ ဝစနေ၊ သင်၏စောဒနာစကား၌။ ဝတ္တဗ္ဗံ၊ ဆိုဖွယ်သည်။ အတ္ထိ၊ ရှိ၏။ ကိဉ္စိ၊ စိုးစဉ်းမျှသာ ဖြစ်ခဲ့၏။ အပရိပုဏ္ဏံ၊ မပြည့်စုံသေး။ တံ အဝသိဋ္ဌ စောဒနံ၊ ထိုစောဒနာ ကြွင်းကို။ ဘိယျော၊ လွန်စွာ။ တွံ၊ သင်စောဒကသည်။ ဗြူဟိ၊ ဆိုဦးလော့ ဟူလိုသည်။

ဘယ့်ကြောင့် ဤသို့ဆိုသနည်း ဟူမူကား– နှစ်ဆယ့်လေးပါးသော ပစ္စည်းတွင် မည်သည့်ပစ္စည်း၏ ပစ္စယုပ္ပန်ဖြစ်သနည်း ဟူ၍ မေးသင့်သည်ကို မမေးသောကြောင့် လည်းကောင်း။ စိတ္တဇ၊ ပဋိသန္ဓေကမ္မဇ၊ ဗာဟိရ အာဟာရဇ၊ ဥတုဇ၊ အသညသတ် ကမ္မဇ၊ပဝတ္တိကမ္မဇအားဖြင့် ရစွမ်းသော အဋ္ဌ–ကလာပ်တွင် မည်သည့်ကလပ်ဟူ၍လည်း မမေးသော ကြောင့်လည်းကောင်း စောဒကဆရာပင် အာဘော်ရှိတိုင်း ကဗျာဖြင့် မဆိုနိုင်ရာ ရောက်သောကြောင့် ဝဇိရဗုဒ္ဓိ စသော ဋီကာစကားတို့နှင့် ဦးစွာ ''ကိဉ္စိ ဘိယျော''ဟု စောဒနာတံ့ဖြင့် ဖြေသတည်း။

ရှေးပညာရှိတို့သည် ဤသို့သော စောဒနာတံ့ဖြင့် ဖြေရိုးရှိပါ၏လောဟူငြားအံ့– ဘုရားအလောင်းတော် မဟော်သဓမိန်သည် နွားထီးမွေးသော သားကို ပေးရမည်ဟု ဝိဒေဟရာဇ်မင်း တောင်းသောအခါ ပြဿနာ တံ့ဖြေကြောင်း၊ သဲကိုလွန်ကျစ်၍ ပေးရမည်ဟု တောင်းသောအခါ ပြဿနာတံ့ ဖြေကြောင်းများသည်လည်းကောင်း ဇာတ်၌ရှိ၏ ဟူပေ။

❖❖❖❖❖

## ၅၅၃။ ပရိက္ခရာရှစ်တန်၊ ကြာကမှန်၊ ဆွတ်ရန် အညှာရှိလိမ့်နည်း။(၂၂)

ဟူသောအမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–တတ္ထ၊ ထိုမဟာဗောဓိပေါက် လတ္တံ့သောအရပ်၌။ ပုဗ္ဗနိမိတ္တံ၊ပုဗ္ဗနိမိတ်သည်။ ဟုတွာ၊ဖြစ်၍။ ဧကော၊ တစ်ခုသော။ ပဒုမိနိဂစ္ဆော၊ ပဒုမ္မာကြာရုံသည်။ ဥပ္ပဇ္ဇတိ၊ ဖြစ်၏။ တသ္မိံ၊ ထိုကြာပင်၌။ ပုပ္ဖာ၊ အပွင့်တို့သည်။ ဗုဒ္ဓ ဂဏနာယ၊ ဘုရားအရေအတွက်ဖြင့်၊ ပုပ္ဖန္တိ၊ ပွင့်ကုန်၏။ တာနိခေါ။ ထိုကြာပွင့်တို့သည်။ ကေသို ယေဝနာဠေ၊ တစ်ခုသော အရိုး၌သာလျှင်။ ကဏ္ဏိကာဗဒ္ဓါနိ၊ အချက်ဖြင့် ဖွဲ့အပ်ကုန်သည်။ ဟုတွာ၊ ဖြစ်၍။ ဥပ္ပဇ္ဇန္တိ၊ ဖြစ်ကုန်၏။ တသ္မိံ၊ ထိုကြာပွင့်၌။ အဋ္ဌ ပရိက္ခရာ၊ ရှစ်ပါးသော ပရိက္ခရာတို့သည်။ အာဂတာ၊ ရောက်ကုန်၏။

ဤသို့သုတ်မဟာဝါ အဋ္ဌကထာတို့၌လာသည်။ ဆွတ်ရန် အညှာနှင့် ပါသော အကြောင်းကို မလာ။ သံသေဒဇ သတ္တဝါတို့ သစ်သီးသစ်ပွင့်၌ ပါသကဲ့သို့ပင် ပါလာ၏ ဟု ယူဖွယ်ရှိသည်။

❖❖❖❖❖

## ၁၅၄။ ထွက်ဝင်သက်မှန်၊ သည်နှစ်တန်၊ ငြိမ်းဟန်မည်သည့် ပုဂ္ဂိုလ်တို့နည်း။ (၂၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အမိဝမ်း၌ ကိန်းအောင်းသောပုဂ္ဂိုလ်၊ ရေမွန်းသော ပုဂ္ဂိုလ်၊ မိန်းမော တွေးဝေသောပုဂ္ဂိုလ်၊ သေသောပုဂ္ဂိုလ်၊ စတုတ္ထဈာန်ကို ဝင်စားသော ပုဂ္ဂိုလ်၊ နိရောဓသမာပတ်ကို ဝင်စားသော ပုဂ္ဂိုလ်၊ ရူပဘုံ၌ ဖြစ်သော ပုဂ္ဂိုလ်၊ အရူပဘုံ၌ ဖြစ်သော ပုဂ္ဂိုလ် ဤရှစ်ဦးသော ပုဂ္ဂိုလ်တို့၌ အဿာသ ပဿာသ တည်းဟူသော ကာယသင်္ခါရသည် မဖြစ်၊ ဗလဝါရမ္မဏ ဖြစ်သော ပုဂ္ဂိုလ်တို့၌သာ ဖြစ်၏၊ ဟူ၍ သင်္ခါရယမိုက်အကောက်၌ လာသည်။

❖❖❖❖❖

## ၁၅၅။ ငရဲကပြန်၊ မောဂ္ဂလာန်၊ လိုက်ဟန်ငရဲမီး မှန်လိမ့်နည်း။ (၂၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရှင်မောဂ္ဂလာန် ငရဲမီး လိုက်ကြောင်းကို ယုံကြည်လောက်သော ကျမ်းနိုင်တို့၌ မတွေ့။ ပြောစဉ်မျှသာ ကြားဖူးသည်။

❖❖❖❖❖

## ၁၅၆။ စုတေ့ပြီးမှန်၊ ရက်ခြားပြန်၊ သန္ဓေ မယူကြလိမ့်နည်း။ (၂၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**တသ္မိံ နိရုဒ္ဓါဝသာနေ တဿာနန္တရမေဝ ပဋိသန္ဓိသင်္ခါတံ**
**မာနသံ ဥပ္ပဇ္ဇမာနမေဝ ပတိဋ္ဌာတိ ဘဝန္တရေ။ အဘိဓမ္မတ္ထသင်္ဂြိုဟ်။**

တသ္မိံ၊ ထိုစုတိစိတ်သည်။ နိရုဒ္ဓါဝသာနေ၊ ချုပ်ပြီးသော အဆုံး၌။ တဿ၊ ထိုစုတိစိတ်၏။ အနန္တရမေဝ၊ အခြားမဲ့၌သာလျှင်။ ပဋိသန္ဓိသင်္ခါတံ၊ ပဋိသန္ဓေဟု ဆိုအပ်သော။ မာနသံ၊ စိတ်သည်။ ဥပ္ပဇ္ဇမာနမေဝ၊ အသစ်ဖြစ်ဆဲ ဖြစ်၍သာလျှင်။ ဘဝန္တရေ၊ ဘဝအသစ်၌။ ပတိဋ္ဌာတိ၊ တည်၏။

တသ္မိံနိရုဒ္ဓေကို ဥပ္ပဇ္ဇမာနေမေဝ ပတိဋ္ဌာတိနှင့် စပ်သောကြောင့် ပါဠိကို စပ်၍ထား သည်။ ပါဠိမမှန် မထင်သင့်။

ထို့ကြောင့် မဏိသာရမဉ္ဇူ၌–

**တသ္မိန္တိ ဧတ္ထ နိရုဒ္ဓေတိ သေသော၊ တဿ စ ဥပ္ပဇ္ဇမာနမေဝ**
**ပတိဋ္ဌာတီတိ ဣမေဟိ သမ္ဗန္ဓော ဟု မိန့်၏။**

**တဿာနန္တရမေဝါတိဣမိနာ အနန္တရဘာဝါဒိမတံ ပဋိက္ခိပတိ။**
**ဋီကာ။**

**အဓိပ္ပါယ်ကား။** ။ သင်္ကြိုဟ်ပါဠိ၌ နိရုဒ္ဓါဝသာနေဆိုလျှင် ပြီးပြီးလျက် တဿာနန္တရမေဝ ဟူသော ပုဒ်ကို ဘယ်ကြောင့် ဆိုပြန်သနည်းဟူမူ–သတ္တ ဝါတို့သည် စုတိကျသည်၏ အခြားမဲ့၌ ပဋိသန္ဓေမနေတည့်သေး။ အမိ၏ ဥတုလာသောကာလ, ယောက်ျားနှင့် ကိုယ်လက် နီးနှောသောကာလကို ငံ့သဖြင့် အကြားတွင် ခုနစ်ရက်လည်း ကောင်း၊ ရှစ်ရက်လည်းကောင်း၊ ကိုးရက်စသည်လည်းကောင်း တည်နေရသော အန္တရာဘဝ ရှိသေး၏ဟု အယူရှိသော တိတ္ထိတို့၏ ဝါဒကို စင်စေလိုသောကြောင့် တဿာနန္တရမေဝ ဟူသောပုဒ်ကို ဆိုတော်မူသည်။ စင်စစ်ကား–စုတိကျပြီး အခြားမဲ့ ၌ပင် ပဋိသန္ဓေတည်လေတော့သည်။ ဘဝအခြား မရှိပြီဟုလိုသည်။

❖❖❖❖❖

## ၅၅၇။ အဗ္ဘန္တရမှန်၊ သရက်လွန်၊ ကျေးမွန်ဘယ်ကျေး စားဖူးသနည်း။(၂၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အကြောင်းကို သိသာအောင် ဇာတ်ဒေသနာ အတ္ထုပ္ပတ္တိကို ဆိုလိုက်ဦးအံ့–

ဘုရားသခင်သည် သာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ သီတင်းသုံးနေတော်မူ သောအခါ ကပိလဝတ်ပြည်မှ ယသောဓရာမိဖုရားသည် ဤသို့ကြံ၏ ''ငါ၏ ငယ်ကြင် အရှင်ဖြစ်သော သိဒ္ဓတ်မင်းသားသည် ရဟန်းပြု၍ ဘုရားအဖြစ်သို့ ရောက်တော်မူပြီ။ ငါ့သားရာဟုလာလည်း သာမဏေပြု၍ သူ့သခင်ထံ၌ နေလေပြီ။ ငါတစ်ယောက်တည်း လူ့ဘောင်၌ နေသဖြင့် အဘယ်ပြုတော့အံ့နည်း။ ရဟန်းပြု၍ သာဝတ္ထိပြည်သို့ သွားပြီးလျှင် ဘုရားသခင်ကိုလည်းကောင်း, သားရာဟုလာကို လည်းကောင်း မပြတ် ရှုမြော်ကာနေအံ့''ဟု အကြံဖြစ်၍ ရဟန်းမိန်းမတို့၏ ကျောင်းသို့ သွား၍ ရဟန်းပြု ပြီးလျှင် ဆရာဥပဇ္ဈာယ်တို့နှင့်တကွ သာဝတ္ထိပြည်သို့ လာခဲ့၏။ ရောက်လျှင် ဘုရား ရှင်ကို လည်းကောင်း သားရာဟုလာကိုလည်းကောင်း ဖူးမြင်ကြည့်ရှု၍ ဘိက္ခုနီမတို့၏ ကျောင်း၌နေ၏။ ရာဟုလာလည်း မယ်တော်ထံသို့ တစ်နေ့ မပြတ်သွား၍ ဖူးမြင်၏။

တစ်ရံသောအခါ ဗိမ္ဗာထေရီအား ဝမ်း၌လေရောဂါသည် ပြင်းစွာထရကား ဖူးမြင်အံ့သောငှာ လာသော ရာဟုလာ သာမဏေကို ရုတ်တရက် နှုတ်မဆက်နိုင်ဘဲ လျောင်းလျက်သာ နေ၏။ ထိုအခါ သားရာဟုလာက ''အဘယ်ဝတ္ထုကိုရမှ ဤရောဂါ လွတ်မည်နည်း''ဟု မေး၏။ ''သရက်အဖျော်ရသော် လွတ်လတ္တံ့''ဟု ဆိုလျှင် လျင်စွာ လာခဲ့၍ မိမိ၏ဆရာဖြစ်သော အရှင်သာရိပုတ္တရာအား အကြောင်းကို ပြန်ကြား၏။ အရှင်သာရိပုတ္တရာလည်း ရာဟုလာကို ဇရပ်၌နေနှင့်စေ၍ မင်းအိမ်သို့ သွားလေပြီးသော် မင်းကြီးမေးသောကာလ သရက်သီးမှည့်ရလိုကြောင်းကို ဆို၏။ ကောသလမင်းလည်း ဥယျာဉ်တော်၌ သရက်သီးမှည့်ကို ယူစေ၍ သကာရည်ဖြင့် ဖျော်ပြီးသော် သပိတ်တော် ပြည့်အောင်ထည့်၍ကပ်၏။ အရှင်မြတ်လည်း ထိုသပိတ်ကို ဆောင်ခဲ့၍ ဇရပ်၌နေသော ရာဟုလာအားပေး၏။ ရာဟုလာလည်း ဆောင်ခဲ့၍ မယ်တော်ကို သုံးဆောင်စေသော် ဝမ်းလေရောဂါသည် ချမ်းသာလေ၏။

ကောသလမင်းလည်း ရှင်သာရိပုတ္တရာသည် မဘုဉ်းပေးဘဲ ယူသွားသည်ကို စုံစမ်းစေ၍ အကြောင်းမျိုးကို သိလေသော် ဤသို့ကြံ၏ "ဘုရားသခင်သည် အကယ်၍ ရဟန်းမပြုသည် ဖြစ်အံ့။ လေးကျွန်းလုံးကို အစိုးရသော စကြဝတေးမင်း ဖြစ်ရာသည်။ သားတော်ရာဟုလာလည်း ပရိဏာယက သားကြီးဖြစ်ရာသည်။ ယသော်ဓရာလည်း မိဖုရားကြီး ရတနာ ဖြစ်ပေရာသည်။

ထိုသို့ဖြစ်ခဲ့သော် အလုံးစုံသော စကြဝဠာတိုက်အတွင်းသည် သူတို့၏ တိုင်းပြည် ဖြစ်၍ ငါတို့ကား ခြေရင်းအလုပ်အကျွေးသာ ဖြစ်ရာလိမ့်မည်။ ယခုမူကား ရဟန်းပြု၍ ငါတို့ကိုမှီကာ နေလာလျက် ငါတို့မေ့လျော့၍ နေခြင်းသည် မသင့်ပေ တကား" ဟု ကြံလျက် ထိုနေ့မှစ၍ ဗိမ္ဗာထေရီအား သရက်အရသာကို မပြတ်လှူစေ၏။

ယင်းသို့ ရှင်သာရိပုတ္တရာသည် ဗိမ္ဗာထေရီအား သရက်အဖျော်ပေး၍ လေနာ လွှတ်ကြောင်း စကားကို ဘုရားသခင် ကြားသိတော်မူသော် ဘုန်းတော်ကြီးလှသော ဘုရားလည်း "ချစ်သားတို့၊ ယခုအခါ၌သာလျှင် သာရိပုတ္တရာသည် ဗိမ္ဗာထေရီအား သရက်အဖျော်ပေး၍ ချမ်းသာရစေသည်မဟုတ်၊ ရှေးအခါ၌လည်း ထူးမြတ်စွာသော အဗ္ဗန္တရ သရက်ကိုပေး၍ ချမ်းသာရစေသည်သာတည်း"ဟု မိန့်တော်မူ၍ ရှေးအတိတ်ကို ဖော်တော်မူ၏။

ချစ်သားတို့၊ ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ် အမည် ရှိသော မင်းသည် အတုလဒေဝီ အမည်ရှိသော မိဖုရားနှင့် မင်းပြုလေသတည်း။ ထိုအခါ ငါဘုရားလောင်းသည် ဥဒိစ္စပုဏ္ဏားမျိုး၌ဖြစ်၍ အရွယ်သို့ ရောက်လေသော် တက္ကသိုလ် ပြည်သို့သွား၍ အတတ်ပညာသင်သဖြင့် တတ်မြောက်လျှင် မိခင် ဖခင်တို့ထံ ပြန်လာ၍ လုပ်ကျွေးနေထိုင်ပြီးမှ မိဘတို့ သေလွန်လေသော် ရသေ့ရဟန်းပြု၍ တစ်ခုသော တောအုပ်၌နေ၏။ ဈာန်အဘိညာဉ်ကိုလည်းရ၏။ သံဝေဂဖြစ်၍ တောထွက် လာသမျှသော သူတို့အား ရသေ့ ရဟန်း ပြုပေးသဖြင့် မရှည်မြင့်မီပင် ရသေ့ ငါးကျိပ် အခြံအရံကို ရ၏။

တစ်ရံသောအခါ ချဉ်ဆား မှီဝဲခြင်းငှာ ဗာရာဏသီပြည်သို့ လာ၍ မင်း၏ ဥယျာဉ်၌ နေကြ၏။ ထိုရသေ့တို့၏ သီလတန်ခိုးကြောင့် သိကြားမင်း၏ နေရာ တုန်လှုပ်လေသော် ရသေ့တို့ကို မင်းကြီးနှင့်အောင် ပြုအံ့ဟု ကြံ၍ သန်းခေါင်ယံ၌ မိဖုရားစံရာ တိုက်ခန်းသို့ ဝင်ပြီးသော် သိကြားမင်းသည် ကိုယ်ထင်ပြလျက် ဤသို့ဆို၏။ "မိဖုရား၊ သင်သည် ဟိမဝန္တာ၌ နတ်တို့သုံးဆောင်ခြင်းငှာ ထိုက်သော အဗ္ဗန္တရ သရက်သီးကို စားရအောင်ပြု၍ စားလော့၊ သင့်အား စကြဝတေးမင်း၏ အလောင်း ဖြစ်သော သားကောင်းရတနာကို ရလတ္တံ့"ဟု ပြောကြား၏။ မိဖုရားလည်း ထိုအကြောင်းကို မင်းကြီးအားလျှောက်ထား လေသော် မင်းကြီးသည် သရက်သီးအလို့ငှာ မင်းချင်းတို့ကို ဥယျာဉ်သို့ လွှတ်၍ "သရက်နှစ်ပင်၏ အကြား၌ ရောက်သော သရက်သီး တို့ကို ယူချေ"ဟု စေ၏။ မင်းချင်းတို့လည်း သွား၍ရှာကုန်သော် သရက်သီး ဟူသမျှတို့ကို

သိကြားတန်းခိုးဖြင့် ကွယ်ဝှက်၍ ထားသောကြောင့် မရခဲ့ရကား အသီးမရှိကြောင်းကို လျှောက်လျှင် ဘယ်သူစား၍ကုန်သနည်း ဟု မေး၏။ ''ရသေ့တို့ စား၍ ကုန်ပါသည်''ဟု လျှောက်သော် မင်းကြီးသည် အမျက်ထွက်၍ ရသေ့တို့ကို ဥယျာဉ်မှ နှင်ထုတ်စေ၏။ သိကြားမင်းသည် မိမိကြံတိုင်း ပြည့်စုံလေ၏။

မိဖုရားကား ထိုသရက်သီး၌ အလွန်အာသာ ရှိသည်ဖြစ်၍ နာကျင်ယောင် ဆောင်လျက် အိပ်စက်ကာသာနေလေသော် မင်းကြီးသည် ပညာရှိသော မှူးမတ် ပုဏ္ဏားတို့ကို ခေါ်၍ ''အဗ္ဗန္တရသရက်သီးရှိသောအဖြစ်ကို သိကြကုန်၏လော''ဟု မေး၏။ ပုဏ္ဏားတို့ ကလည်း ''အရှင်မင်းကြီး အဗ္ဗန္တရမည်သော သရက်ပင်သည် ဟိမဝန္တာတော၌ ဆဒ္ဒန်အိုင်ကိုရံသော တောင်စဉ် ခုနစ်ထပ်တို့၏ အကြား၌ လည်းကောင်း, မဏ္ဍာဂိရိတောင်ကိုရံသော တောင်စဉ်တို့၏ အကြား၌ လည်းကောင်း ရတနာရွှေဂူသည် ရှိ၏။ ထိုရွှေဂူ၏ အဝ၌ ပေါက်လျက် ရှိ၏။ အသီးကို နတ်မင်းတို့ သာလျှင် သုံးဆောင် ပရိဘုတ်၏ဟူ၍ ကြားဖူးပါသည်''ဟု လျှောက်၏။ မင်းကြီးလည်း ''ယင်းသို့ဖြစ်သော် အဘယ်သူ ဆောင်ယူနိုင်အံ့နည်း''ဟု မေး၏။ ပုဏ္ဏားတို့ကလည်း ''လူသားကား မရောက်နိုင်ရာ၊ ကျေးသားကို စေသော်သာ ရောက်နိုင်ရာ လတ္တံ့''ဟု လျှောက်၏။

ထိုအခါ မင်းအိမ်တော်၌မွေးသော ယဉ်ကျေးလိမ္မာ၍ လူ့ဘာသာကိုသိသော အားအစွမ်း ဗလနှင့် ပြည့်စုံသော ကျေးသားတစ်ကောင်သည် ရှိ၏။ ထိုကျေးသားကို ခေါ်ပြီးလျှင် သကာအဖျော်တို့ကိုလည်းကောင်း, ပျားလူးပေါက်ပေါက်တို့ကို လည်းကောင်း စားစေ၍ ''ငါ့သား ကျေးမြတ်သည် ဟိမဝန်တောအရပ်ဝယ် ရွှေတောင်၏ အကြား၌ ရောက်သော အဗ္ဗန္တရ သရက်သီးကို ရအောင်ဆောင်ယူပါချေ''ဟု စေတော်မူ၏။

ကျေးသားသည်လည်း ''ကောင်းပါပြီ''ဟု ဝန်ခံလျက် အရှင်မင်းကြီးအား ဝပ်တွား ရှိခိုးပြီးမှ ကောင်းကင်ခရီးဖြင့် ပျံလေ၍ ဟေမာန်တောင်ခြေ၌ နေသော ကျေးသားတို့၏ အသင်းသို့ ရောက်လေ၍ ထိုသရက်သီးရှိရာ အရပ်ကို မေးသော် ထိုကျေးသားတို့က ''ငါတို့မသိကုန်''ဟု ဆို၏။ ထိုမှတစ်ဖန် ပျံလေ၍ နှစ်ခုမြောက်သော တောင်စဉ်၏ အတွင်းသို့ ရောက်၍ ထို၌ မေးပြန်သော် မသိကြရကား သုံးခုမြောက်သော တောင်စဉ်၏ အတွင်းသို့ ပျံလေ၏။ ထို့နောင် လေးခုမြောက်၊ ငါးခုမြောက်၊ ခြောက်ခု မြောက်သော တောင်စဉ်၏ အတွင်းသို့ ပျံလေ၏။ ထို၌နေသော ကျေးသားတို့ကို မေး၍ မသိဟု ပြောကြပြန်လျှင် ခုနစ်ခုမြောက်သော တောင်စဉ်အတွင်းသို့ ပျံပြန်လေ၍ ထို၌နေသော ကျေးသားတို့ကို မေးသောအခါ ''ငါတို့ ထိုသရက်ပင်ကိုသိ၏။ ဤမည်သော ရွှေတောင်၏ အကြား၌ ရှိ၏''ဟု ဆိုကြသော်–အဆွေတို့၊ ကျွန်ုပ်သည် ဤသရက်သီးအလို့ငှာ လူ့ပြည်ကလာခဲ့ရပါသည်။ တစ်လုံးမျှဆောင်ယူ၍ ပေးကြပါ''ဟု ဆို၏။ ထိုကျေးသားတို့ကလည်း အဆွေကျေး– ဤအဗ္ဗန္တရ သရက်ကား သာမညခဲခက်သည်မဟုတ်၊ ဝေဿဝဏ်နတ်မင်းကြီး၏ ပရိဘုတ်ရာ ဖြစ်၍ အပင်ရင်းမှသည်

အဖျားတိုင်အောင် သံကွန်ယက် ခုနစ်ထပ် ရံ၍ထား၏။ အကုဋေမက များစွာသော နတ်ကုမ္ဘဏ်တို့ စောင့်ရှောက်ရ၏။ သူတို့ထံသို့သွားမူ ကိုယ်အသက်ကို ရတော့မည် မဟုတ်ပြီ။ အဝီစိနှင့်တူသော အရပ်ကို သင် မတောင့်တလင့်ဟု ဆိုကြ၏။

ထိုအခါ ဗာရာဏသီမင်း၏ ကျေးကလည်း ''သင်တို့ မလိုက်ဝံ့ပါမူ သစ်ပင် ကိုသာ ညွှန်ပြပါလော့''ဟု တောင်းပန်၍ မိမိချည်း ပျံလေပြီးလျှင် သရက်ပင်ရင်း အနီး၌ နားနေ၍ ညဥ့်သန်းခေါင်ယံ၌ ကုမ္ဘဏ်ဘီလူးတို့ အိပ်စဉ် သရက်ပင်ရင်းသို့ကပ်၍ သံကွန်ယက်ကြားဖြင့် အသာအသာတက်လေပြီးမှ အသီးနှစ်လုံးကိုဆွတ်၏။ သံကွန် ယက်ချင်း ထိသောအသံကို ကုမ္ဘဏ်ဘီလူးတို့ကြား၍ နိုးသဖြင့် ထိုကျေးသားကို ဖမ်းကြ လေသော် ဘီလူးတို့မိ၍ အချို့က ''ဤကျေးသားကို အစိမ်းပင် ဝါးအံ့''ဟု ဆို၏။ အချို့ကလည်း ''လက်ဝါးတွင်နယ်၍ ကြေစေအံ့''ဟု ဆို၏။ အချို့ကလည်း ''ရင်ကိုခွဲ၍ မီးကင်အံ့''ဟု ဆို၏။ ထိုစကားကို ကျေးသားကြားလျှင် မထိတ်လန့်ဘဲ ဤသို့ဆို၏ ''အစ်ကို ရက္ခိုသ်တို့– အစ်ကိုတို့သည် ဘယ်သူ့ကျွန်နည်း''ဟု မေး၏။ ''ငါတို့ကား ဝေဿဝဏ် နတ်မင်း၏ ကျွန်တော်မျိုးတို့တည်း''ဟု ဆိုသော် –

''အစ်ကိုတို့လည်း နတ်မင်းကြီး၏ ကျွန်တော်။ ငါလည်း ဗာရာဏသီမင်း၏ ကျွန်တော်ရင်း ဖြစ်ပါသည်။ မင်းကျွန်ချင်း တူပါသည်။ ထောက်ညှာသင့်ပါ၏။ အစ်ကို တို့လည်း အသက်ကိုစွန့်၍ အရှင့်အမှုကို ထမ်းရပါသည်။ ငါလည်း ထိုနည်းတူ အသက်ကို စွန့်၍ ထမ်းရပါသည်။ ငါ၏ အရှင်ဖြစ်သော မင်းကြီးသည် ဤသရက်သီးကို လိုသောကြောင့် ငါ့ကိုစေလိုက်သည်။ ထိုစေသောအခါကပင် ငါသည် မင်းကြီးအား အသက်ကိုနှင်း၍ လာခဲ့သည်။ အကြင်သူသည် မိခင် ဖခင်တို့၏လည်းကောင်း, အရှင်၏ လည်းကောင်း ကိစ္စအလို့ငှာ အသက်ကိုစွန့်၍ အမှုကို ထမ်းဆောင်၏။ ထိုသူသည် ရန်မာန်ခပ်သိမ်းကို လွန်နိုင်သည်သာတည်း။ သေသော်လည်း လူ့ရွာနတ်ပြည်၌သာ ဖြစ်ရ၏ဟူ၍ ပညာရှိသူမြတ်တို့၏ တရားစကားကို ကြားဖူးပါသည်။ ငါ့အား အစ်ကိုတို့ လွှတ်ပါလျှင်လည်း ချမ်းသာတော့မည်။ သတ်လျှင်လည်း သေ၍ လူ့ရွာနတ်ပြည်၌ ဖြစ်ရတော့မည်။ တစ်ဘဝတွင် တစ်ခါသေကြရအံ့သော သတ္တဝါချည်း ဖြစ်ကြလျက် တစ်ဦးကိုတစ်ဦး မနှိပ်စက်သင့်ပါ'' ဟုဆို၏။

**ဘတ္တု အတ္တံ ပရက္ကန္တော၊ ယံ ဌာနမဓိဂစ္ဆတိ။**
**သူရော အတ္တပရိစ္စာဂီ၊ လဘမာနော ဘဝါမဟံ။**

ဟူသော ဂါထာကိုရွတ်၏။

ဘောရက္ခသာ၊ အိုရက္ခိုသ်တို့။ ဘတ္တု၊ မိခင် ဖခင် အရှင်စိုးမင်းတို့၏။ အတ္တံ အတ္တာယ၊အကျိုးငှာ။ ပရက္ကန္တော၊ လုံ့လပြုသောကျွန်ုပ်သည်။ ယံဌာနံ၊ အကြင်စည်းစိမ် ချမ်းသာ အရာအထူးကို။ အဓိဂစ္ဆတ်၊ ရ၏။ သူရော၊ ရဲရင့်သည်ဖြစ်၍။ အတ္တ ပရိစ္စာဂီ၊ ကိုယ့်အသက်ကို စွန့်သော။ အဟံ၊ ငါသည်။ တံ၊ ထိုပစ္စုပ္ပန်၌ ခြံရံစည်းစိမ်ကိုရခြင်း, လူ့ပြည်နတ်ပြည်၌ ဖြစ်ခြင်းကို၊ လဘမာနော၊ ရသည်။ ဘဝါမိ၊ ဖြစ်လေအံ့။

60
A

ဤဂါထာဖြင့် သာယာစွာ ဟောသော ကျေးသား၏ တရားစကားကို ဘီလူးတို့ ကြားလျှင် သနားကြသည် ဖြစ်၍ ''သင်ကျေးသား သွားလေတော့''ဟု လွှတ်လိုက်လျှင် ကျေးသားကလည်း ''ငါ့အသက်ကို စွန့်၍လာပါသည်။ အကျိုးမဲ့ မရှိပါစေလင့်။ သရက်သီး တစ်လုံးကို ပေးလိုက်ပါ''ဟု တောင်းသော် ''ငါတို့ကား ဤသရက်သီးကို မပေးဝံ့ချေ။ ဝေဿဝဏ် နတ်မင်းကြီးသည် အလုံးကို ရေတွက်၍ထားသည်၊ တစ်လုံးမျှ ပျောက်ခဲ့သော် ငါတို့အား အမျက်ထွက်လတ္တံ့။ အမျက်ထွက်၍ မျက်စောင်းဖြင့် ကြည့်သည် ရှိသော် ကုမ္ဘဏ်အပေါင်းတို့သည် ထောင်းထောင်းကြေမွ သေကြေရကုန်၏။ ထို့ကြောင့် ငါတို့ မပေးသာချေ။ သို့ရာတွင် ရမည့်နေရာကို ငါတို့ ညွှန်လိုက်အံ့။ အရှေ့တောင် ကွန်ယက်၌ ဇောတိရသ ရသေ့သည် မီးပူဇော်လျက် ကဥ္စနပတ္တမည်သော သခ်မ်း၌နေ၏။ ထိုရသေ့ ထံသို့ သွားလေတော့''ဟု ဆိုလိုက်၏။

ကျေးသားလည်း ဘီလူးတို့ သင်လိုက်သည့်အတိုင်း ရသေ့ထံသို့ကပ်၍ အကြောင်း မျိုးစုံကိုပြန်ပြော၍ ရသေ့အားခစားလေ၏။ ထိုအခိုက် ဝေဿဝဏ် နတ်မင်းကြီးသည် သရက်သီးလေးလုံးကို ဆရာရသေ့အား ပို့လာစေသည်ရှိသော် နှစ်လုံးကိုကား ရသေ့ စား၏။ တစ်လုံးကိုကား ကျေးသားအား စားစေ၏။ တစ်လုံးကိုကား ဆိုင်းငယ်ဖြင့် ထည့်၍ ကျေးသားလည့်၌ ဆွဲ၍ လွှတ်လိုက်၏။ ကျေးသားလည်း ကောင်းစွာဆောင်ခဲ့၍ မင်းကြီးအား ဆက်လျှင် မင်းကြီးသည် မိဖုရားအားပေး၍ စားစေမှ ချင်ခြင်းပြေငြိမ်း၏။ သားကောင်းကိုကား မရချေ။

မြတ်စွာဘုရားသည် ဤသို့သော ဇာတ်ဒေသနာကို ဆောင်တော်မူ၍ ထိုအခါ သရက်သီး၌ အာသာရှိသော မိဖုရားကား ယသောဓရာထေရီဖြစ်လာ၏။ နတ်မင်း၏ ဆရာ ဖြစ်သော ဇောတိရသရသေ့ကား သာရိပုတ္တရာ။ ကျေးသားကား အာနန္ဒာ ဖြစ်လာ၏။ ဥယျာဉ်၌နေသော ရသေ့ကြီးကား ငါဘုရားဖြစ်တော်မူ၏ဟု ဇာတ်ကို ပေါင်းတော်မူသည်။ တိကနိပါတ်၊ စတုတ္ထဝဂ်၏အစ၌ အမ္ဗဇာတ်ဟု သင်္ဂါယနာ တင်သည်။

ဤမှတစ်ပါးသော အကြောင်းကား–

ရှေးသောအခါ ဗာရာဏသီပြည်ကို အစိုးရသော ဗြဟ္မဒတ်မင်းကြီးသည် ဥယျာဉ် ကစားသွားတော်မူလေသော် နွားကျောင်းသားတို့သည် တစ်ကောင်သော ကျေးငယ်ကို ဖမ်း၍ သတ်စားအံ့သောငှာ အားထုတ်ကြစဉ် မင်းကြီးတွေ့မြင်လေ၍ ''သင်တို့ မသတ်သင့်၊ ဤကျေးငယ်ကို ငါ့အား ရောင်းလော့''ဟု ဆို၍ ဝယ်ယူလေသဖြင့် နန်းတော်သို့ ရောက်လျှင် ရွှေချိုင့်၌ ထည့်၍ မွေး၏။ ကိုယ်လုပ်မောင်းမတို့သည် စကားသင်၍ မကြာမီ လူတို့စကားကို နားလည် တတ်ပွန်လေသတည်း။

ယင်းသို့ တတ်ပွန်လိမ္မာသောအခါ ကျေးသည် ဤသို့ကြံ၏ ''ဤမင်းကြီးသည် ငါ၏သေဘေးကိုလည်း ကယ်ပေသည်။ အလွန်ကြီးမြတ်စွာသော စည်းစိမ်ကိုလည်း ပေးပေသည်။ လူ့ဘာသာကိုလည်း တတ်အောင်လည်းသင်ပေးသည်။ ကျေးဇူးတော်

အလွန်ကြီးလှ၏။ ထိုကျေးဖူးကို ဘယ်သို့ ဆပ်ပါရအံ့နည်း''ဟု ကြံ၍ ဟိမဝန္တာတော၌ ထူးဆန်းသော သစ်သီးတို့ကို ဆောင်ယူခြင်းငှာ မင်းကြီးအား လျှောက်ကြားတောင်းပန်၍ သွားလေသော် ဆဒ္ဒန်အိုင်၏အနီး ရွှေတောင်ကြီးတို့၏ အကြား၌ သိကြားမင်း၊ ဝေဿဝဏ်နတ်မင်းတို့၏ သုံးဆောင်ရန်ဖြစ်သော အမ္ဗဋ္ဌရသရက်ပင်ကို တွေ့လေ၏။ ထိုသရက်ပင်ကား အလွန်အရသာရှိသည်ဖြစ်၍ နတ်သုဓာဘုတ်နှင့်တူ၏။ လျှာ၌ထိလျှင် တစ်ထောင် မျှလောက်သော အကြောကို နှံ့၍ အိုသောသူသော်လည်း ပျို၍ ၁၆-နှစ်ရွယ်ကဲ့သို့ ဖြစ်ပြန်၏။ ယင်းသို့သော ဂုဏ်သတ္တိကြောင့် အသီးရှိ၍ မှည့်သောအခါ ငှက်တို့လာ၍ မယူမစားရအောင် သံပြားကွန်ယက်ဖြင့် အုပ်၍ ဘီလူးကုမ္ဘဏ် တစ်ထောင် စောင့်ရ၏။ ယခင့်ကျေးသားလည်း ထိုသရက်သီး၏ သတ္တိကို နတ်ဘီလူးတို့ စကားဖြင့် ကြားသိရ၍ အနီး၌ ချောင်းမြောင်းကာ နေ၏။

တောစောင့်နတ်တို့သည် နတ်မင်းကြီးအား ဆက်ရန်ယူခြင်းငှာ သံကွန်ယက်ဖွင့်သောအခါ လျင်စွာ သုတ်ယူ၍ လာခဲ့၏။ ဗာရာဏသီပြည်သို့ ရောက်လျှင် အရှင်မင်းကြီးအား သရက်သီး၏ ဂုဏ်ကျေးဇူးကို လျှောက်ကြား၍ ဆက်၏။ မင်းကြီးလည်း ဝမ်းမြောက်လှသည်ဖြစ်၍ မျိုးစေ့ကို ဥယျာဉ်မှူးအားအပ်၍ ကောင်းမြတ် သောမြေ၌ နို့သာရေ၊ သကာရေ၊ ပြကတေ့သော ရေတို့ဖြင့် သွန်းလောင်းစေလျက် စိုက်၏။ ထိုသရက်သည် သုံးနှစ်မျှဖြင့် အသီးသီးလတ်သော် ဥယျာဉ်မှူးသည် ကောင်းစွာ စောင့်နေ၍ မှည့်လှသဖြင့် ကြွေကျလေသော် မြွေငန်းတစ်ကောင်သည် သွားလာခိုက် ကြုံသည်နှင့် ထိုသရက်သီးကို ကိုက်မိလေ၏။ အဆိပ်ရေဝင်လျက်ရှိသည်နှင့် နံနက်ကာလ ဥယျာဉ်မှူးရ၍ မင်းအားဆက်လေသော် မင်းကြီးလည်း အဆင်းအနံ့ သင်းပျံ့ကောင်းမွန်လှသည်နှင့် စားချင်သော အာသာရှိငြားသော်လည်း တရားထုံးစံစောင့်သော မင်းဖြစ်၍ မိမိမစားတည့်ဘဲ စားဦးစားကို စားစေလျှင် မြွေဆိပ်ဝင်ပြီးဖြစ်၍ ထိုခဏ၌ စားသောသူ ကံကုန်လေ၏။ ယင်းသို့ ဖြစ်သည်ကို မြင်သော် မင်းကြီးသည် မဆင်ခြင်ဘဲ လွန်စွာအမျက်ပွား၍ ကျေးသားကိုချိုင့်မှထုတ်ပြီးလျှင် ''နင်သည် ငါ၏အသက်ကို သေလေအောင် အဆိပ်သီးကို ယူဆောင်ခဲ့ရာသလော''ဟု ကွမ်းညှပ်ဖြင့် လည်ကိုညှပ်၍ သတ်လေ၏။ နောက်သစ်သီး ဂုဏ်ကျေးဇူးကို သိပြန်သောကာလမှ နောင်တ ကြီးစွာ ဖြစ်လေသည်ဟူ၍ ကာလိင်္ဂဒါသဝတ္ထု၌လာသည်။

❖❖❖❖❖

## ၅၅၈။ ဈာနင်နှင့် ဈာန်၊ ဤနှစ်တန်၊ ထူးဟန်ခြားဟန် မည်သို့နည်း။(၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဝိတက်, ဝိစာရ,ပီတိ, သုခ, ဧကဂ္ဂတာ ဤငါးပါးသည် ဈာန်၏ အစိတ်၊ ဈာန်၏ အကြောင်းဖြစ်သော ''ဈာနင်''မည်၏။ ထိုငါးပါးသော တရားတို့၏အာရုံသို့ ကပ်၍ရှုခြင်း, နီဝရဏတရားကို ပယ်ရှားဖုတ်ကြည်းနိုင်ခြင်း သတ္တိသည် ''ဈာန်''မည်၏။ ဤသို့ သတ္တိ-သတ္တိဝန္တအားဖြင့် ထူး၏ဟူပေ။

ဘယ်သို့နည်းဟူမူ–လှည်းတန်,ဝင်ရိုး,လှည်းဘီး အစရှိသော အစိတ်–အစိတ်သော ဝတ္ထုသည် ရထား၏အင်္ဂါ။ ထိုအစိတ် ပေါင်းသင်း၍ ရထားဖြစ်သောအခါ ဝန်ကိုဆောင်၍ လိုရာအရပ်သို့ ရောက်နိုင်ခြင်းသည် ရထား၏ သတ္တိ–ဖြစ်သကဲ့သို့တည်း။

ပရမတ်တရားချင်း ပမာဏပြုပါဦး ဟူငြားအံ့–

ကိစ္စ၊ ကိစ္စဝန္တဆိုရာ၌ ကျေနုဝိသတိ ဝိပါက်တို့၏ ဘဝနှစ်ပါးကို တစ်စပ်တည်းကဲ့သို့ စပ်တတ်သော သတ္တိသည် ပဋိသန္ဓေကိစ္စ မည်သည်၊ ထိုသတ္တိသည် စိတ်ဒြပ်၌ တည်သည်ဖြစ်၍ ထိုစိတ်ဒြပ်ကို ကိစ္စဝန္တ ဆိုရသကဲ့သို့တည်းဟူပေ။

**ကသိဏာဒိကံ ဈာယတိ ဥပနိဇ္ဈာယတီတိ ဈာနံ။**
**ပစ္စနီကဓမ္မေ ဈာပေတီတိ ဝါ ဈာနံ၊ ဈာနဿအင်္ဂ ဈာနင်္ဂ။**

ယံဓမ္မဇာတံ၊ အကြင်တရားသဘောသည်။ ကသိဏာဒိကံ၊ ကသိုဏ်း အစရှိသော အာရုံကို။ ဈာယတိ ဥပနိဇ္ဈာယတိ၊ ကပ်၍ ရှုတတ်၏။ ဣတိ၊ ထို့ကြောင့်။ တံ ဓမ္မဇာတံ၊ ထိုတရားသဘောသည်။ ဈာနံ၊ ဈာန်မည်၏။ ဝါ၊ တစ်နည်းကား။ ပစ္စနီကဓမ္မေ၊ ဆန့်ကျင်ဘက်ဖြစ်သော နီဝရဏတရားတို့ကို။ ဈာပေတိ၊ ဖုတ်ကြည်းတတ်၏။ ဣတိ၊ ထို့ကြောင့်။ ဈာနံ၊ ဈာန်မည်၏။ (သတ္တိရ၏)။ ဈာနဿ၊ ဈာန်၏။ အင်္ဂ၊ အစိတ်တည်း။ ဈာနင်္ဂ၊ ဈာန်၏အစိတ်။ (ဝိတက်စသော တရားအပေါင်းရ၏)။ ဤသို့ ဂဏ္ဌိဆရာတို့ မိန့်ပြီ။

❖❖❖❖❖

## ၅၅၉။ ပဥ္စဝိညာဏ်၊ တစ်ဆယ်မှန်၊ ဈာနင် ဘယ့်ကြောင့် မရသနည်း။(၂၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပဉ္စဝိညာဏာနံ ဝိတက္ကဝိရဟေန အာရမ္မဏေသု အဘိနိပါတ မတ္တတ္တာ တေသု ဝိဇ္ဇမာနာနိပိ ဥပေက္ခာ သုခဒုက္ခာနိ ဥပနိဇ္ဈာနာကာရဿ အဘာဝတော ဈာနင်္ဂဘာဝေန န ဥဒ္ဓဋာနိ။**

ဟူ၍ ဋီကာကျော် မိန့်သည်နှင့်အညီ–ပဥ္စဝိညာဉ် စိတ်တို့သည် အာရုံသို့ ရှေးရှုတင်တတ်သော ဝိတက်ကင်းခြင်းကြောင့် အာရုံတို့၌ ရှေးရှုကျကာမျှသာ ဖြစ်သောကြောင့် ထိုစိတ်တို့၌ ယှဉ်သော ဥပေက္ခာ, သုခ, ဒုက္ခဝေဒနာတို့သည် ရှိပါငြားသော်လည်း အာရုံသို့ကပ်၍ ရှုခြင်းကိစ္စ မရှိသည်၏ အဖြစ်ကြောင့် ဈာနင်၏ အဖြစ်ဖြင့် မထုတ်အပ်သတည်းဟူပေ။

❖❖❖❖❖

၅၆၀။ မြင်းမိုရ်ထွန်းဟန်၊ရောင်လေးတန်၊ဘယ်ဉာဏ်တော်ဖြင့်ဟောလိမ့်နည်း။(၂၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဝံ အနန္တာနိ စက္ကဝါဠာနိ အနန္တာ လောကဓာတုယော ဘဂဝါ အနန္တဗုဒ္ဓဉာဏေန အဝေဒိ အညာသိ ပဋိဝိဇ္ဈိ၊ ဝေမဿ ဩကာသလောကောပိ သဗ္ဗထာ ဝိဒိတော။**

ဟူသော ပါရာဇိကဏ် အဋ္ဌကထာနှင့်အညီ-အဆုံးအမ သိတတ်သော အနန္တဗုဒ္ဓ ဉာဏ်ဖြင့် သိ၍ ဒေသနာဉာဏ်ဖြင့် ဟော၏ ဟု ဖြေ၊ အနန္တဗုဒ္ဓဉာဏ်ဟူသည် သဗ္ဗညုတ ဉာဏ်ကိုဆိုသည်။

❖❖❖❖❖

၅၆၁။ ဒေါသခိုက်ရန်၊ သတ်ပုတ်မှန်၊ မြောက်စွန်ကျွန်း၌ ရှိလိမ့်နည်း။(၃၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တေ၊ ထိုမြောက် ဥတ္တရကုရုကျွန်းသူတို့သည်။ တံ ဌာနံ၊ ထိုအရပ်သို့။ သမ္ပတ္တာနံ၊ ရောက်လာကုန်သော သူတို့အား။ ဒေန္တိယေဝ၊ ပေးကုန်သည်သာတည်း။ မစ္ဆရိယစိတ္တံ နာမ၊ ဝန်တိုသောစိတ်မည်သည်။ န ဟောတိ၊ မဖြစ်။ မဟိဒ္ဓိကာ၊ တန်ခိုးကြီးကုန်သော။ ဗုဒ္ဓပစ္စေကဗုဒ္ဓါဒယောပိ၊ ဘုရား, ပစ္စေကဗုဒ္ဓါစသော ပုဂ္ဂိုလ်တို့ သည်လည်း။ တတ္ထ၊ ထို မြောက်ကျွန်းသို့။ ဂန္တွာ၊ သွား၍။ ပိဏ္ဍပါတံ၊ ဆွမ်းကို။ ဂဏှန္တိ၊ ခံကြကုန်၏။ နဟာယိတု ကာမာစ၊ ရေချိုးလိုကုန်သော သူတို့သည်လည်း။ နဒီတိတ္ထေ၊ မြစ်ဆိပ်၌။ ကေဇ္ဈံ၊ တပေါင်းတည်း။ ဝတ္ထာဘာရဏာနိ၊ အဝတ် တန်ဆာတို့ကို။ ဌပေတွာ၊ ထားကုန်၍။ နိဒိံ၊ မြစ်သို့။ ဩတရိတွာ၊ သက်၍။ နှတွာ၊ ရေချိုးပြီး၍။ ဥတ္တိဏ္ဏုတ္တိဏ္ဏာ၊ တက်ကုန် တက်ကုန်သော သူတို့သည်။ ဥပရိမံ ဥပရိမံ၊ အထက်အထက်၌၊ ဌိတံ၊ တည်သော။ ဝတ္ထာဘရဏံ၊ အဝတ်တန်ဆာကို၊ ဂဏှန္တိ၊ ယူကုန်၏။ တေသံ၊ ထိုယောကျ်ား, မိန်းမတို့အား။ ကွဒံ၊ ဤဝတ္ထုသည်။ မမ၊ ငါ၏။ သန္တကံ၊ ဥစ္စာတည်း။ ကွဒံ၊ ဤဝတ္ထုသည်။ ပရဿ၊ သူတစ်ပါး၏။ သန္တကံ၊ ဥစ္စာတည်း။ ကွတိဝံ၊ ဤသို့ ပြောဆိုခြင်းသည်။ န ဟောတိ၊ မဖြစ်။ တတော၊ ထိုဥစ္စာဟူသော အကြောင်းကြောင့်။ တေသံ၊ ထိုမြောက်ကျွန်း သူတို့အား။ ကောစိ၊ တစ်စုံတစ်ခုသော။ ဝိဂ္ဂဟော ဝါ၊ အထူးထူး ဆိုခြင်းသည် လည်းကောင်း။ ဝိဝါဒေါ ဝါ၊ ငြင်းခုံခြင်းသည် လည်းကောင်း။ န ဟောတိ၊ မဖြစ်။ ဤသို့ သာရတ္ထသင်္ဂဟကျမ်း၌ လာသည်။

❖❖❖❖❖

၅၆၂။သာဝကမွန်၊ ရှစ်ကျိပ်မှန်၊ပစ္စန္တသားပါလိမ့်နည်း။ ဝါ၊ဘယ်မျှနည်း။(၃၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သုနာပရန္တတိုင်း ဝါဏိဇ္ဇဂါမမှ ကုန်ရောင်းသွားရာ သာဝတ္ထိပြည်သို့ ရောက်၍ ရဟန်းပြုလေသော အရှင်ပုဏ္ဏထေရ်သည် ပစ္စန္တရစ်သားပင်ဖြစ်၍ သာဝကရှစ်ကျိပ်တွင်

ပစ္စန္တသားပါ၏ဟူပေ။ ဝါ၊ ဘယ်မျှနည်း–ဟူသော ပုစ္ဆာ၌ ဤအရှင်ပုဏ္ဏ တစ်ပါး သာလျှင် ပစ္စန္တသားဟု ထင်ရှားသည် ဖြစ်၍ တစ်ပါးပင်ဟု သိရမည်။

❖❖❖❖❖

၁၆၃။ တုသိတာမှန်၊ နတ်ရပ်ဌာန်၊ ရေကန်ဘယ့်နှယ် တည်လိမ့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သဗ္ဗဒေဝလောကေသု နန္ဒနဝနံ နာမ ဥယျာနံ အတ္ထိ။

ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကထာ, အပဒါန်အဋ္ဌကထာ၌ လာသည်နှင့်အညီ အလုံးစုံသော နတ်ပြည်ခြောက်ထပ်တို့၌ မွေ့လျော်စံပယ်ရာဖြစ်သော နန္ဒဝန် ဥယျာဉ်သည် ရှိကြရကား ဥယျာဉ်ရှိလျှင် ရေကန်ရှိတော့သည် မချွတ်ပြီ၊ ကမ္မဇိဒ္ဓိတန်ခိုးဖြင့် တည်သောအရာ ဖြစ်သောကြောင့် ကောင်းကင်ယံ၌ ရေကန် မတည်နိုင်ရာဟု မကြံစည်သာပြီ။ အာကာ သဋ္ဌနတ် ဟူသမျှပင် မိမိတို့၏ ဗိမာန်ဥယျာဉ် ရေကန် တည်ရာဌာနသည် အသီးသီး ရှိကြသည်ချည်းသာဖြစ်၍ တစ်ပါးနတ်ပြည်၌ ကဲ့သို့ပင် တည်သည်ဟု ယူရမည်။

❖❖❖❖❖

၁၆၄။ ပုဆိုးကေန်၊ ဖြူရိုးမှန်၊ တင်ရန် ဘယ်ဥပစာနည်း။(၃၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဂုဏ်ဖြစ်သော ဖြူသောအဆင်း၏ အဖြူဟူသော အမည်ကို ဂုဏီဖြစ်သော ပုဆိုးဒြပ်၌ တင်စားသောအားဖြင့် ဂုဏီဖြစ်သော ပုဆိုးဒြပ်ကို သေတဝတ္ထ ပုဆိုးဖြူဟု ခေါ်ဝေါ်အပ်သောကြောင့် ''ဂုဏူပစာ''မည်၏။

❖❖❖❖❖

၁၆၅။ သဒ္ဒါတစ်တန်၊ ဗျာသုံးတန်၊ ကေန် ဘယ်သဒ္ဒါတွင်နည်း။(၃၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဝိသာဏီ ဂစ္ဆတိ–ဟူသောပြယုဂ်၌ ဝိသာဏီသဒ္ဒါသည် ဝါစကသဒ္ဒါ, လက္ခဏိကသဒ္ဒါ, ဗျဉ္ဇကသဒ္ဒါဟူ၍ သဒ္ဒါသုံးပါး။ ဝစ္စတ္ထ, လက္ခဏိယတ္ထ, ဗျင်္ဂျတ္ထဟူ၍ အတ္ထသုံးပါး။ မုချဗျာပါရ, လက္ခဏိကဗျာပါရ, ဗျဉ္ဇက ဗျာပါရဟူ၍ ဗျာပါရ သုံးပါးအားဖြင့် ကိုးပါးသော ဗျာဂ်ျနည်းတို့သည် ဖြစ်ကုန်၏။

ထိုကိုးပါးတို့တွင် ဦးချိုဒြပ်ဟု ဆိုအပ်သော အနက်သည် မိမိဟောအပ်သော အနက်ရင်း ဖြစ်သောကြောင့် ဝစ္စတ္ထမည်၏။ ထိုဝစ္စတ္ထကို ဟောတတ်သော ဝိသာဏီ သဒ္ဒါသည် ဝါစကသဒ္ဒါမည်၏။ ထိုဝစ္စတ္ထကို ဟောစွမ်းနိုင်သော ဝိသာဏီသဒ္ဒါ၏ သတ္တိသည် မုချဗျာပါရမည်၏။ ဦးချိုဒြပ်ကို အမှတ်ပြုသဖြင့် ဟောအပ်သော နွားဒြပ်

တည်းဟူသောအနက်သည် လက္ခဏိယတ္တမည်၏။ထိုလက္ခဏိယတ္တကို ဟောတတ်သော ဝိသာဏီသဒ္ဒါသည် လက္ခဏိကသဒ္ဒါမည်၏။ ထိုလက္ခဏိယတ္တကို ဟောစွမ်းနိုင်သော ဝိသာဏီသဒ္ဒါ၏ သတ္တိသည် လက္ခဏိကဗျာပါရမည်၏။ ဝိသာဏီ ဂစ္ဆတိ–ဟူသော ဝါကျ၏ အစွမ်းဖြင့် ရအပ်သော လိုရာအရပ်သို့ ရောက်ခြင်းဟု ဆိုအပ်သော အနက်သည် ဗျဂ်ျတ္တ မည်၏။ ထိုဗျဂ်ျတ္တကို ဟောတတ်သော ဝိသာဏီသဒ္ဒါသည် ဗျဉ္ဇက သဒ္ဒါမည်၏။ ထိုဗျဂ်ျတ္တကို ဟောစွမ်းနိုင်သော ဝိသာဏီသဒ္ဒါ၏ သတ္တိသည် ဗျဉ္ဇကဗျာပါရမည်၏။

ဤအတူ သုက္ကော ဂစ္ဆတိ၊ ဂန္တာ–ဂစ္ဆတိ စသော ဂုဏောသဒ္ဒါ၊ ကိရိယာသဒ္ဒါတို့၌လည်း ဗျဂ်ျကိုးပါးရမည်ဖြစ်၍ မုချသဒ္ဒါငါးပါး၌ပင် ဗျာသုံးတန်ရ၏ ဟူပေ။

❖❖❖❖❖

## ၅၆၆။ ပုလ္လိင်သာမှန်၊ ဝေကန်၊ ရဟန် ဘယ်ဂိုဏ်းပေတို့နည်း။(၃၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပုရိသာဒိဂိုဏ်း, ပုမာဒိဂိုဏ်း, ရာဇာဒိဂိုဏ်း ဤသုံးပါးတို့သည် လိင်အားဖြင့် ပုလ္လိင်သာတည်း။

❖❖❖❖❖

## ၅၆၇။ အရှုပဋ္ဌာန်၊ သောတာပန်၊ ကင်းဟန်ဟိတ်ကား ဘယ်သို့နည်း။(၃၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပဋ္ဌမမဂ္ဂေါပိ ပရတော ဃောသပစ္စယာဘာဝေ သာဝကာနံ အနုပ္ပဇ္ဇနတော ဗုဒ္ဓ ပစ္စေကဗုဒ္ဓါနဉ္စ မနုဿလောကတော အညတ္ထအနိဗ္ဗတ္တနတော။ ။ ဟူ၍ ဋီကာကျော် မိန့်၏။**

**အနက်ကား။** ။ ပဋ္ဌမမဂ္ဂေါပိ၊ ရှေးဦးစွာသော သောတာပတ္တိမဂ်သည်လည်း။ ပရတော ဃောသပစ္စယာဘာဝေ၊ သူတစ်ပါးမှဖြစ်သော တရားသံတည်းဟူသော အကြောင်းမရှိသည်ရှိသော်။ သာဝကာနံ၊ မဂ်ကိုရသော သာဝကတို့၏။ အနုပ္ပဇ္ဇနတော၊ မဖြစ်ခြင်းကြောင့်။ ဗုဒ္ဓပစ္စေကဗုဒ္ဓါနဉ္စ၊ ဘုရားပစ္စေကဗုဒ္ဓါတို့၏လည်း။ မနုဿ လောကတော၊ လူ့ပြည်မှ။ အညတ္ထ၊ တစ်ပါးသောဘုံ၌။ အနိဗ္ဗတ္တနတော၊ မဖြစ် ခြင်းကြောင့်။ နုပ္ပဇ္ဇတိ၊ မဖြစ်။ ။ ဤဋီကာပါဌ်ဖြင့် ဟိတ်ကိုသိသင့်ပြီ။

❖❖❖❖❖

## ၅၆၈။ သင်္ဂြိုဟ်ကျမ်းဂန်၊ ပြည်နိဗ္ဗာန်၊နောက်စွန် ဘယ့်ကြောင့်ထားသနည်း။(၃၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**“စိတ္တစေတသိကရူပါနံ နိရောဓဒ္ဓောနဒဿနတ္ထံ နိဗ္ဗာနံ အန္တေ ဝုတ္တံ”**

ဟူသော သင်္ခေပဋီကာနှင့် အညီ–စိတ်, စေတသိက်, ရုပ်တရားတို့၏ ချုပ်ရာကို ပြခြင်းငှာ နိဗ္ဗာန်ကို အဆုံးထား၍ ဆိုအပ်သတည်း။

❖❖❖❖❖

### ၅၆၉။ ဒိဋ္ဌိနှင့်မာန်၊ ပဒဋ္ဌာန်၊ တူပြန်မပေါင်း ဘယ့်ကြောင့်နည်း။(၃၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဒိဋ္ဌိမာနာ ကေတော ကသ္မာ နုပ္ပဇ္ဇန္တီတိ။ သက္ကာယာဒီဟိ အဘိနိဝိသမာနာ ဒိဋ္ဌိ စ အဟံမာနဝသေန ပဝတ္တော မာနောစ ကေသရသီဟောဝိယ အပရေန တထာဝိဓသီဟေန ကေဂုဟာယံ ကေစိတ္တုပ္ပါဒေ နုပ္ပဇ္ဇတိ။ တသ္မာ ဝိသုံ ဝိသုံ ဥပ္ပဇ္ဇတိ။ တေ ဥဘော စေတသိကာ ဒေါသမူလာ ဒီသုပိ အတ္တတ္တနိယသိနေဟာသီသဝသေန ကေန္တလောဘပဒဋ္ဌာနဘာဝတော နုပ္ပဇ္ဇန္တိ။** ဟူ၍ သင်္ခေပဋီကာမိန့်၏။

**အနက်ကား။** ။ ဒိဋ္ဌိမာနာ၊ ဒိဋ္ဌိစေတသိက်, မာနစေတသိက်တို့သည်။ ကေတော၊ တကွနက်။ ကသ္မာ၊ အဘယ့်ကြောင့်။ နုပ္ပဇ္ဇန္တိ၊ မဖြစ်ကုန်သနည်း။ ဣတိ အယံ၊ ဤသည်ကား။ စောဒနာ၊ အမေးတည်း။ သက္ကာယာဒီဟိ၊ ငါ့ကိုယ် အစရှိသည်တို့ဖြင့်။ အဘိနိဝိသမာနာ၊ မှားယွင်းစွာနှလုံးသွင်းတတ်သော။ ဒိဋ္ဌိစ၊ ဒိဋ္ဌိ စေတသိက်သည် လည်းကောင်း၊ အဟံမာနဝသေန၊ ငါဟူသော ထောင်လွှားခြင်း၏ အစွမ်းဖြင့်။ ပဝတ္တော၊ ဖြစ်သော။ မာနော စ၊ မာန စေတသိက်သည် လည်းကောင်း။ ကေသရသီဟော၊ ကေသရာခြင်္သေ့သည်။ အပရေန၊ တစ်ပါးသော။ တထာဝိဓသီဟေန၊ ထိုသို့သဘော ရှိသော ခြင်္သေ့နှင့်။ ကေဂုဟာယံ၊ တစ်ခုတည်းသောလိုဏ်၌။ န ဝသတိ ဝိယ၊ မနေသကဲ့သို့။ ကေစိတ္တုပ္ပါဒေ၊ တစ်ခုသော စိတ္တုပ္ပါဒ်၌။ နုပ္ပဇ္ဇတိ၊ မဖြစ်။ တသ္မာ၊ ထို့ကြောင့်။ ဝိသုံ ဝိသုံ၊ အသီး အသီး။ ဥပ္ပဇ္ဇတိ၊ ဖြစ်၏။ တေ ဥဘော စေတသိကာ၊ ထိုနှစ်ပါးသော စေတသိက်တို့သည်။ အတ္တတ္တနိယသိနေဟာသီသဝသေန၊ မိမိကိုယ်ကို ချစ်ခြင်းလျှင် အရင်းရှိသည်၏အစွမ်းဖြင့်။ ကေန္တလောဘပဒဋ္ဌာနဘာဝတော၊ စင်စစ်လောဘလျှင် အကြောင်းရင်းရှိသည်၏ အဖြစ်ကြောင့်။ ဒေါသမူလာဒီသုပိ၊ ဒေါသမူစိတ် အစရှိသည်တို့၌လည်း။ နုပ္ပဇ္ဇန္တိ၊ မဖြစ်ကုန်။ ။ဤဋီကာဖြင့် သိသာလောက်ပြီ။

❖❖❖❖❖

### ၅၇၀။ ကံအတိတ်မှန်၊ ဝေကန်၊ ပစ္စုပ္ပန်ဘယ့်ကြောင့် ဆိုသနည်း။(၃၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**တတ္ထ ကမ္မနိမိတ္တံ ပစ္စုပ္ပန္နန္တိ ကသ္မာ ဝုတ္တံ။ နနု ကမ္မံ ပန အတီတမေဝ ဝါတိ၊ သစ္စံ၊ ဉာတကာဒီဟိ ပန ဥပဋ္ဌာပိတံ ဒေယျဓမ္မဝဏ္ဏာဒိကံ ပုရိမဘာဂပ္ပဝတ္တနကမ္မဿ အာရမ္မဏေန ကေသန္တတိဘာဝေန သမာနတ္တာ ကမ္မနိမိတ္တန္တိ ဝေါဟရိယတီတိ။** ။ သင်္ခေပဋီကာ။

**အနက်ကား။** ။ တွေ့ဝါကျေ၊ ဤဝါကျ၌။ ကမ္မနိမိတ္တံ၊ ကမ္မနိမိတ်ကို။ ပစ္စုပ္ပန္နန္တိ၊ ပစ္စုပ္ပန်ဟူ၍၊ ကသ္မာ၊ အဘယ့်ကြောင့်။ ဝုတ္တံ၊ ဆိုအပ်သနည်း။ ကမ္မံပန အတီတမေဝါတိ၊ ကမ္မံပနအတီတမေဝဟူ၍။ အာစရိယေန၊ အရှင်အနုရုဒ္ဓါ ဆရာသည်။ ဝုတ္တံနနု၊ ဝေသဒ္ဒါ အကန့်ပါလျက် ဆိုပါသည် မဟုတ်လော။ ဣတိ၊ ဤသို့ စောဒနာ ပြောအံ့။ သစ္စံ၊ အနုရုဒ္ဓါ ဆရာသခင်ဆိုသည်ပင် မှန်ပေ၏။ ပန၊ ယင်းသို့မှန်သော်လည်း။ ဉာတကာဒီဟိ၊ ဆွေမျိုးစသောသူတို့သည်။ ဥပဋ္ဌာပိတံ၊ ထင်စေအပ်သော။ ဝါ၊ ရှေးရှု တည်စေအပ်သော။ ဒေယျဓမ္မဝဏ္ဏာဒိကံ၊ ပေးလှူအပ်သော ဝတ္ထု၏ အဆင်းအစ ရှိသည်သည်။ ပုရိမဘာဂပ္ပ–ဝတ္တနကမ္မဿ၊ ရှေးအဖို့၌ဖြစ်သော ချုပ်လေပြီးသောကံ၏။ အာရမ္မဏေန၊ အာရုံနှင့်။ ကေသန္တတိဘာဝေန၊ တစ်စပ်တည်း ၏ အဖြစ်ဖြင့်။ ဝါ၊ တစ်သန္တာန်တည်း တည်သည်၏ အဖြစ်ဖြင့်။ သမာနတ္တာ၊ တူသည်၏အဖြစ်ကြောင့်။ ကမ္မနိမိတ္တန္တိ၊ ကမ္မနိမိတ်ဟူ၍။ ဝေါဟရိယတိ၊ ခေါ်ဝေါ်အပ်၏။ ဣတိ၊ ဤသို့ ဖြေရာ၏။

ကံ, ကမ္မနိမိတ်, ဂတိနိမိတ်ဟူ၍ သုံးပါးတို့တွင် ကုသိုလ်, အကုသိုလ် စေတနာကို ''ကံ'' ဆိုသည်။ ထိုကံ၏အာရုံဖြစ်သော ကျောင်း, ဘုရား အစရှိသော အာရုံခြောက်ပါးကို ''ကမ္မနိမိတ်'' ဆိုသည်။ လာလတ္တံ့သော ဘဝ၌ထင်သော အမိဝမ်းရေး, ပဒေသာပင် စသော ရူပါရုံကို ''ဂတိနိမိတ်''ဆိုသည်။ ထိုသုံးပါးတို့တွင် ကံသည် စေတနာတည်း ဟူသော ပရမတ္ထဓမ္မဖြစ်၍ ပြုစဉ်ကာလကဖြစ်၍ ချုပ်လေပြီ။ ထိုစေတနာကို အာရုံပြု၍ ဖြစ်သော နောက်စိတ်သည် အတိတ်ကိုသာ အာရုံပြုသင့်၏။ ယင်းသို့ဖြစ်လျက် မရဏာသန္နဇောတို့သည် ပစ္စုပ္ပန် ကမ္မနိမိတ်ကို အာရုံပြုသည်ဟု ဘယ့်ကြောင့်ဆိုသနည်းဟူ၍ စောဒနာသည်။

ကံသည် ချုပ်လေပြီးသော အတိတ်အာရုံမှန်၏။ မှန်သော်လည်း နောက် ဖြစ်သော ဝီထိစိတ်တို့၏ အာရုံသည် ယခင်ချုပ်လေပြီးသော စေတနာနှင့် အာရုံတူ တစ်စဉ်တည်းကျ သည့်၏ အဖြစ်ကြောင့် သဒိသူပစာရအားဖြင့် ထိုကံကိုပင် ပစ္စုပ္ပန် ကမ္မနိမိတ်ဟု ဆိုအပ်၏ ဟူလိုသည်။

❖❖❖❖❖

## ၅၇၁။ ဝိပါက်အမှန်၊ ဇောအပြန်၊ ဆိုဟန်ကျမ်းဂန် မည်သို့နည်း။(၄၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သဗ္ဗထာပိ ပနေတ္ထ အနိဋ္ဌေ အာလမ္ဗဏေ အကုသလ**
**ဝိပါကာနေဝ ပဉ္စဝိညာဏ သမ္ပဋိစ္ဆန သန္တီရဏ တဒါရမ္မဏာနိ။**

**ဣဋ္ဌေ ကုသလဝိပါကာနိ၊ အတိဣဋ္ဌေ ပန သောမနဿ**
**သဟဂတာနေဝ သန္တီရဏ တဒါလမ္ဗဏာနိ။**

ဟူသော အဘိဓမ္မတ္ထ သင်္ဂြိုဟ်ပါဠ်ဖြင့် အလွန်အလိုမရှိအပ်သော မစင်, ခွေးကောင် ပုပ်အစရှိသော အာရုံ။ သင့်ရုံအလိုမရှိအပ်သော အနိဋ္ဌမဇ္ဈတ္တာရုံ၌

အကုသိုလ်၏ အကျိုးဖြစ်သော ပဋိသန္ဓေဝိညာဏ်,သမ္ပဋိစ္ဆိုင်း, သန္တီရဏ တဒါရုံတို့သည် ဥပေက္ခာသဟဂုတ် သာလျှင် ဖြစ်ကုန်၏။ သင့်ရုံ အလိုရှိသော ထမင်း, အဖျော်စသော ဣဋ္ဌမဇ္ဈတ္တာရုံ၌ ကုသိုလ်၏အကျိုးဖြစ်သော ပဋိသန္ဓေဝိညာဏ်, သမ္ပဋိစ္ဆိုင်း, သန္တီရဏ, တဒါရုံတို့သည် ဥပေက္ခာသဟဂုတ်ဖြစ်ကုန်၏။ အလွန်အလိုရှိအပ်သော ဘုရားစသော အတိဣဋ္ဌာရုံ၌ကား သောမနဿသဟဂုတ်သာလျှင် ဖြစ်ကုန်သော သန္တီရဏ တဒါရုံတို့သည် ဖြစ်ကုန်၏ဟူ၍ မိန့်တော်မူသည်။

ဤအဋ္ဌကထာစကား၌ စောဒနာ သောဓနာကို ဋီကာဆရာတို့ မိန့်သည်ကား ဤသို့တည်း။

ကသ္မာ၊ အဘယ့်ကြောင့်။ အတိဣဋ္ဌာရမ္မဏေ၊ အလွန်အလိုရှိအပ်သော ဘုရားစသော အာရုံ၌။ သန္တီရဏာနိ၊ သန္တီရဏတို့သည်။ သောမနဿသဟဂတာနေဝ၊ သောမနဿ သဟဂုတ်စိတ်တို့သည်သာလျှင်။ ဟောန္တိ၊ ဖြစ်ကုန်သနည်း။ ကုသလာ ကုသလာနိဝိယ၊ ကုသိုလ်, အကုသိုလ်ဇောတို့ကဲ့သို့။ ဥပေက္ခာသဟဂတာနိပိ၊ ဥပေက္ခာ သဟဂုတ် စိတ်တို့သည်လည်း။ ဘဝေယျုံ နနု၊ ဖြစ်ကုန်ရာသည် မဟုတ်လော။ က္လတိ၊ ဤသည်ကား။ စောဒနနာ၊ စောဒနာခြင်းတည်း။

ပရိဟာရော၊ အဖြေကို။ မယာ၊ ငါသည်။ ဝုစ္စတေ၊ ဆိုလိုက်ဦးအံ့။ ယသ္မာ၊ အကြင်ကြောင့်။ ကမ္မာနုဘာဝတော၊ ရှေးကံ၏အာနုဘော်ကြောင့်။ ပဝတ္တမာနဿ၊ ဖြစ်သော။ ဝိပါကဿ၊ ဝိပါက်စိတ်၏။ အာဒါသေ၊ ကြေးမုံ၌။ မုခနိမိတ္တံဝိယ၊ မျက်နှာရိပ်ကဲ့သို့။ နိဗ္ဗိကပ္ပတာယ၊ အထူးမစီရင်အပ်သည်၏ အဖြစ်ဖြင့်။ အာရမ္မဏဿ၊ အာရုံကို။ ပကပ္ပေတွာ၊ အထူးကြံ၍။ ဂဟဏာဘာဝတော၊ ယူခြင်း၏မရှိခြင်းကြောင့်။ ယထာရမ္မဏ မေဝ၊ အာရုံ၏အတိုင်းသာလျှင်။ ဝေဒနာယောဂေါ၊ ဝေဒနာနှင့်ယှဉ်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ တသ္မာ၊ ထို့ကြောင့်။ အတိဣဋ္ဌာရမ္မဏေ၊ အလွန်အလိုရှိအပ်သော အာရုံ၌။ သန္တီရဏ တဒါရမ္မဏာနိ၊ သန္တီရဏ တဒါရုံတို့သည်။ သောမနဿသဟဂတာနေဝ၊ သောမနဿ သဟဂုတ်တို့သာလျှင်။ ဘဝန္တိ၊ ဖြစ်ကုန်၏။

ယထာရမ္မဏမေဝ၊ အာရုံအတိုင်းသာလျှင်။ ဝေဒနာယောဂေါ၊ ဝေဒနာနှင့် ယှဉ်ခြင်းသည်။ ယဒိဟောတိ၊ အကယ်ဖြစ်၍ဖြစ်အံ့။ ဧဝံသတိ၊ ဤသို့ ဖြစ်သည်ရှိသော်။ ကုသလာ ကုသလာနံပိ၊ ကုသိုလ် အကုသိုလ်ဇောတို့၏လည်း။ ယထာရမ္မဏမေဝ၊ အာရုံအတိုင်းသာလျှင်။ ဝေဒနာယောဂေါ၊ ဝေဒနာနှင့်ယှဉ်ခြင်းသည်။ ဘဝေယျ၊ ဖြစ်ရာ၏။ က္လတိ၊ ဤသို့။ အဟုတွာ၊ မဖြစ်မူ၍။ ကသ္မာ၊ အဘယ့်ကြောင့်။ ကုသလာ ကုသလဿ၊ ကုသိုလ်, အကုသိုလ်စိတ်၏။ အ ယထာရမ္မဏံပိ၊ အာရုံ၏ အတိုင်း မဟုတ်ဘဲလည်း။ ဝေဒနာယောဂေါ၊ ဝေဒနာနှင့်ယှဉ်ခြင်းသည်၊ ဟောတိ၊ ဖြစ်သနည်း။ က္လတိအယံ၊ ဤသည်ကား။ စောဒနာ၊ စောဒနာခြင်းတည်း။

ပရိဟာရော၊ အဖြေကို။ မယာ၊ ငါသည်။ ဝုစ္စတေ၊ ဆိုဦးအံ့။ ကုသလာ ကုသလာနံ ပန၊ ကုသိုလ်, အကုသိုလ်စိတ်တို့၏ကား။ မဂ္ဂေန၊ မဂ်ဖြင့်။ အပ္ပဟီန

ဝိပလ္လာသေသု၊ မပယ်အပ်သေးသော ဝိပလ္လာသရှိကုန်သော။ သတ္တသန္တာနေသု၊ သတ္တဝါသန္တာန်တို့၌။ ပဝတ္တိယာ၊ ဖြစ်ခြင်းကြောင့်။ အတိက္ကမ္တေ၊ အလွန်အလိုရှိအပ်သော။ အာရမ္မဏေပိ၊ အာရုံ၌လည်း။ ကုဋ္ဌမဇ္ဈတ္တအနိဋ္ဌာကာရတော၊ ကုဋ္ဌမဇ္ဈတ္တအခြင်းအရာ, အနိဋ္ဌ အခြင်းအရာအားဖြင့်။ အနိဋ္ဌေပိ အာရမ္မဏေ။ အနိဋ္ဌာရုံ၌လည်း။ ကုဋ္ဌကုဋ္ဌမဇ္ဈ – တ္တာကာရတော၊ ကုဋ္ဌအခြင်းအရာ,ကုဋ္ဌမဇ္ဈတ္တ အခြင်းအရာအားဖြင့်။ ဂဟဏံ၊ ယူခြင်းသည်။ ဟောတိ၊ ဖြစ်၏။ တထာတံဝစနံ၊ ထိုစကားသည်။ ဟိသစ္စံ၊ မှန်၏။ အသဒ္ဓါဒီနံ၊ မသဒ္ဓါသောသူ စသည်တို့အား။ ဗုဒ္ဓါဒီသု၊ ဘုရားအစရှိကုန်သော။ အတိက္ကဋ္ဌာရမ္မဏေသုပိ၊ အလွန်အလိုရှိအပ်သော အာရုံတို့၌လည်း။ ဥပေက္ခာဇဝနံ၊ ဥပေက္ခာဇောသည်။ ဟောတိ၊ ဖြစ်၏။ တိတ္ထိယာဒီနဉ္စ၊ တိတ္ထိအစရှိသည်တို့အားလည်း။ ဒေါမနဿဇဝနံ၊ ဒေါမနဿဇောသည်၊ ဟောတိ၊ ဖြစ်၏။ ဂမ္ဘီရပ္ပါကတိကာဒီနဉ္စ၊ နက်သော သဘောရှိကုန်သောသူ အစရှိသည်တို့အားလည်း။ ပဋိကူလာရမ္မဏေပိ၊ စက်ဆုပ်အပ်သော အာရုံ၌လည်း။ ဥပေက္ခာဇဝနံ၊ ဥပေက္ခာဇောသည်။ ဟောတိ၊ ဖြစ်၏။ သုနခါဒီနဉ္စ၊ ခွေးစသော သတ္တဝါတို့အားလည်း။ တတ္ထပဋိကူလာရမ္မဏေ၊ ထို စက်ဆုပ်အပ်သော အာရုံ၌။ သောမနဿဇဝနံ၊ သောမနဿ ဇောသည်။ ဟောတိ၊ ဖြစ်၏။

ပန၊ ဇောဖောက်ပြန်သည်မှတစ်ပါး ဝိပါက်ဖောက်ပြန်သည်ကို ဆိုဦးအံ့။ ဇဝနဿ၊ ဇော၏။ ပုရိမပစ္စာဘာဂပ္ပဝတ္တာနိ၊ ရှေ့အဖို့ နောက်အဖို့၌ ဖြစ်ကုန်သော။ ဝိပါကာနိပန၊ ဝိပါက်စိတ်တို့သည်ကား။ ယထာဝတ္ထုကာနေဝ၊ ဝတ္ထု၏ သဘော အတိုင်းတို့သာလျှင်။ ဟောန္တိ၊ ဖြစ်ကုန်၏။ ယထာဝတ္ထုကာနေဝါတိ၊ ယထာဝတ္ထုကာနေဝဟူသည်ကား။ ဝုတ္တနယေန၊ ဆိုအပ်ခဲ့ပြီးသောနည်းဖြင့်။ အနိဋ္ဌာရမ္မဏေစ၊ အနိဋ္ဌာရုံ၌လည်းကောင်း။ ကုဋ္ဌမဇ္ဈတ္တာရမ္မဏေစ၊ ကုဋ္ဌမဇ္ဈတ္တာရုံ၌ လည်းကောင်း။ သန္တီရဏတဒါရမ္မဏာနိ၊ သန္တီရဏ, တဒါရုံတို့သည်။ ဥပေက္ခာ သဟဂတာနေဝ၊ ဥပေက္ခာ သဟဂုတ်တို့သည်သာလျှင်။ ဘဝန္တိ၊ ဖြစ်ကုန်၏။ အတိ က္ကဋ္ဌေပန၊ အတိက္ကဋ္ဌာရုံ၌ကား။ သောမနဿ သဟဂတာနေဝ၊ သောမနဿ သဟဂုတ်တို့သည် သာလျှင် ဖြစ်သော။ သန္တီရဏ တဒါရမ္မဏာနိ၊ သန္တီရဏ တဒါရုံတို့သည်။ ဘဝန္တိ၊ ဖြစ်ကုန်၏။ က္လတိ အဓိပ္ပါယော၊ ဤကား အဓိပ္ပါယ်တည်း။

အဘိဓမ္မတ္ထသင်္ဂဟ ဒီပနီပါဠိကို ကျယ်အံ့စိုး၍ မရေးလိုက်သည်။ ဤစကားဖြင့် သိရာ၏။

❖❖❖❖❖

၅၇၂။ လေးဆတက်ရန်၊နှတ်သက်မှန်၊မြှောက်ရန် ဘယ်ဂဏန်းတို့နည်း။(၄၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရက်နှစ်ဆတက်၊ နှစ်နှစ်ဆတက်ဖြစ်၍ နှစ်ခုဖြင့် နှစ်ကြိမ်မြှောက်မည် ဟူပေ။

❖❖❖❖❖

## ၅၇၃။ဂဏာန်းကေန်၊ မြွောက်မည်မှန်၊မြွောက်ရန်အကျိုး ဘယ်မျှနည်း။။(၄၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရက်ကြီးသည့်အတွက် နှစ်ဆ၊ အရေအတွက် များသည့်အတွက် နှစ်ဆအားဖြင့် လေးဆတက်သည်ကို သိရခြင်းအကျိုးရှိ၏ဟူပေ။

''တတော စတုဂ္ဂုဏံ''ဟူသောပါဠိ၏ အဓိပ္ပါယ်ကား–

စတုမဟာရာဇ်၌ အနှစ်ငါးရာ။ တာဝတိံသာ၌ အနှစ်တစ်ထောင်။ ယာမာ၌ နှစ်ထောင်။ တုသိတာ၌ လေးထောင်။ နိမ္မာနရတိ၌ ရှစ်ထောင်။ ပရနိမ္မိတဝသဝတ္တီ၌ တစ်သောင်း ခြောက်ထောင် နတ်သက်ဖြစ်၍ နှစ်ဆတက်သာ ဆိုသင့်ပါလျက်၊ ဘယ့်ကြောင့်''စတုဂ္ဂုဏံ''ဟု ဆိုလေသနည်းဟူမူကား– စတုမဟာရာဇ်၌ နှစ်ရက်လျှင် တာဝတိံသာ၌ တစ်ရက်ဖြစ်သည်။ စတုမဟာရာဇ်၌ နှစ်နှစ်လျှင် တာဝတိံသာ၌ တစ်နှစ်ဖြစ်သည်။ ထိုနှစ်ကြီးဖြင့် ရေတွက်၍ နှစ်ပေါင်းတစ်ထောင်သည် တာဝတိံသာ နတ်သက်ဖြစ်ရကား ထိုနှင့်အညီ ချင့်သော် တာဝတိံသာတစ်ထောင်ကို စတုမဟာရာဇ်၌ ရာလေးလီဖြစ်၍ လေးဆက်တက်ဆိုသည်။ အထက်နတ်တို့၌လည်း ဤနည်းယူ။

◆◆◆◆◆

## ၅၇၄။ ပစ္စန္တလွန်၊ အရပ်စွန်၊ မင်းမွန်စကြာ ဖြစ်လိမ့်နည်း။။(၄၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**မိလက္ခဒေသော ပစ္စန္တော၊ မဇ္ဈိမဒေသော တု မဇ္ဈိမော။**

ဟူသော အဘိဓာန်နှင့်အညီ တောင်သူ လူရိုင်းတို့၏ နေရပ်သည် ပစ္စန္တရစ် မည်၏။ ဖြူစင်သော အကျင့်ရှိသော သူတော်ကောင်း သူမြတ်တို့၏နေရပ်သည် မဇ္ဈိမဒေသမည်၏။

ထိုမဇ္ဈိမဒေသသည် အပိုင်းအခြားအားဖြင့် အရှေ့အရပ်၌ ဇင်္ဂလနိဂုံး၏ တစ်ဖက်ဖြစ်သော အင်ကြင်းပင်ကြီး၏ ပြင်သည် ပစ္စန္တရစ်မည်၏။ အတွင်းသည် မဇ္ဈိမတိုက်မည်၏။ အရှေ့တောင်အရပ်၌ သလ္လဝတီမည်သော ချင်းတွင်းမြစ်၏ ပြင်သည် ပစ္စန္တရစ်မည်၏။ အတွင်းသည် မဇ္ဈိမတိုက်မည်၏။ တောင်အရပ်၌ သေတ. ကဏ္ဏိက မည်သော နိဂုံးရွာ၏ပြင်သည် ပစ္စန္တရစ်မည်၏။ အတွင်းသည် မဇ္ဈိမတိုက် မည်၏။ အနောက်အရပ်၌ ထုနပုဏ္ဏားရွာ၏ ပြင်သည် ပစ္စန္တရစ်မည်၏။ အတွင်းသည် မဇ္ဈိမတိုက်မည်၏။ မြောက်အရပ်၌ ဥသိရဒ္ဓဇမည်သော တောင်၏ ပြင်သည် ပစ္စန္တရစ် မည်၏။ အတွင်းသည် မဇ္ဈိမတိုက်မည်၏။ ထိုနိမိတ်ငါးရပ်ဖြင့် မှတ်အပ်သော မဇ္ဈိမ ဒေသသည် အလျားအားဖြင့် ယူဇနာသုံးရာ။ အနံအားဖြင့် ယူဇနာ နှစ်ရာ့ငါးဆယ်။ အဝန်းအားဖြင့် ယူဇနာကိုးရာရှိ၏။ ထိုအတွင်း၌သာလျှင် ဘုရားသခင်တို့သည် လည်းကောင်း, ဂဟပတိ မဟာသာလ, ဗြာဟ္မဏမဟာသာလ, ခတ္တိယမဟာ သာလ ဟူသော သူကြွယ်သုံးဦးတို့သည် လည်းကောင်း ဖြစ်ကုန်၏။ ပစ္စန္တရစ်အရပ်၌ မဖြစ်ကုန်။

ထို့ကြောင့် ခုဒ္ဒကနိကာယ် အဌကထာတို့၌–

သမ္မာသမ္ဗုဒ္ဓဿ စက္ကဝတ္တိနော တယောစ မဟာသာလာ မဇ္ဈိမဒေသေယေဝ ဥပ္ပဇ္ဇန္တိ။ ဟူ၍မိန့်သတည်း။

◆◆◆◆◆

## ၅၇၅။ သူကြွယ်သုံးတန်၊ လာကျမ်းဂန်၊ ပစ္စန္တတွင် ဖြစ်လိမ့်နည်း။(၄၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေကိုမူ အစောင်စောင် ရှာ၍ မတွေ့။ သို့သော်လည်း အထက်ပုစ္ဆာအဖြေနှင့်ပင် သိလောက်ပြီ။

◆◆◆◆◆

## ၅၇၆။နေလကြွတ်ဟန်၊သည်နှစ်တန်၊ချိန်မှန်ဘယ့်ကြောင့်ကြွတ်သနည်း။(၄၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

လမှာ ခြောက်လတစ်ကြိမ်၊ နေမှာ သုံးလတစ်ကြိမ်ကြွတ်သည်။ တစ်စုံတစ်ခု အကြောင်းရှိသော်မှ မကြွတ်ဘဲနေသည်။ ဤသို့ ချိန်မှန်ကြွတ်ခြင်းသည် ဘယ်အကြောင်းကြောင့် ဖြစ်သနည်းဟူရာ၌ ဤအကြောင်းကိုကား– လောကီဗေဒင်ကျမ်း, သင်္ကာရိုက်ကျမ်း, ပိဋကတ်ကျမ်းတို့၌ မပြချေ။ သဘောနှင့် ကြံဖွေသော် လနေတို့သည် သွားမြဲခရီးဖြင့် သွားသည်။ ရာဟုလည်း သွားမြဲခရီးဖြင့် သွားသည်ဖြစ်၍ တွေ့ချိန်မြဲ အခါ၌ တွေ့ကြိမ်သည်ဟူ၍ ဆိုသင့်သည်။

◆◆◆◆◆

## ၅၇၇။ မြေကြီးကေန်၊ လှုပ်မည်မှန်၊ ကိန်းမှန်တွက်ရိုး မည်သို့နည်း။(၄၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ထိုနှစ် ဓာတ်လေးပါးတို့၏ ဝိပရိတ်ကို သိလိုသော် ဒွေ–သတ်–ခ–ခ–နော ပဥ္စ–ဟူသော ၅၉၀၀၇၂–ကိုတည် ထိုနှစ်သက္ကရာဇ်တို့ အတိုင်းကိုနုတ်။ ၁၀၈–ခုစား။ သေသအတိုင်း စားခြေတွင်နုတ်။ အကြွင်းကို ၄–ခုစား။ သေသ ၃–ခုရှိမူ မီးဓာတ်သင့်၏။ မြို့ရွာ မီးလောင်အံ့။ ၂–ခုရှိမူ မြေဓာတ်သင့်၏။ မြေကြီးလှုပ်အံ့။ ၁–ခုရှိမူ လေဓာတ်သင့်၏။ လေထန်အံ့။ သုဉ်းမူ ရေဓာတ်သင့်၏။ ရေကြီးအံ့။ ကိန်းမှန်လက်ဖြတ်ခံ ဟောနည်းဟူ၍ အသီတိဗေဒင်ကျမ်း၌ လာသည်။

**တစ်နည်းကား**–၂၄၀၀၀၀ ကိုတည် ရောက်သော ကောဇာသက္ကရာဇ် ရှည်ရော။ သင်္ကေတ် ၈၀–တော်။ ၈–ခုစား။ သုဉ်းမူ မြေလှုပ်အံ့။ လကိုသိလိုမူ။ နှစ်ကိန်းတည်။ ရောက်သော လရာသီနှော။ ၁၂–ခုကော်။ ၈–ခုစား။ သုဉ်းမူ ထိုလလှုပ်အံ့။

**တစ်နည်းကား**–သက္ကရာဇ်ရှည်တည် ၆၀–နှော။ ၁၀၈–ခုကော်။၃၁၂–ခုစား။ အကြွင်း နှစ်ကိန်း။ ထိုနှစ်ကိန်းတည်။ ၁၀၈–ခုကော်။ ခြောက်ထပ်ထား။ ၄–ခု။ ၆–ခု။ ၈–ခု။ ၉–ခု။ ၁၂–ခု။ ၁၆–ခု အထက်က စ၍စား။ ခြောက်ထပ်လုံး သုဉ်းမူ ထိုနှစ်မြေလှုပ်အံ့။

နှစ်ကိန်းတည် ၁၂–ခုကော်။ ၁၈–ခုမြှောက်။ ၃၁၂–ခုစား။ အကြွင်းကား လကိန်း။ ထိုကိန်းတည်။ ရောက်သည့်လရာသီနှော။ ၁၈–ခုကော်။ ခြောက်ထပ်ထား။ စားမြဲစား။ ခြောက်ထပ်လုံး သုဉ်းမူ ထိုရက် လှုပ်အံ့။

လကိန်းတည် ၃၀–မြှောက်။ လဆန်း, လဆုတ်ရက်ကို ရေ၍နှော။ ၁၈–ခုကော်။ ၃၁၂–ခုစား။ အကြွင်းရက်ကိန်း။ ထိုကိန်းတည်။ ၁၈–ခုမြှောက်။ ခြောက်ထပ်ထား။ စားမြဲစား။ ခြောက်ထပ်လုံးသုဉ်းမူ ထိုရက် လှုပ်အံ့။

ရက်ကိန်းတည် ၆၀–မြှောက်။ တနင်္ဂနွေရောက်ရာ အပနာရီနှော။ ၁၈–ခုမြှောက်။ ၃၁၂–ခုစား။ အကြွင်းနာရီကိန်း၊ ထိုကိန်းတည်။ ၁၈–ခုကော်။ ခြောက်ထပ်ထား၊ စားမြဲစား၊ သုဉ်းမူထိုအချိန် နာရီကိုလှုပ်အံ့။

ပြည်ရွာဥပဒ်ကိုသိလိုသော်– သက္ကရာဇ်ရှည်တည်၊ ရွာနံအက္ခရာနှော ၁၀၈–ကော်။ ၃၁၂–ခုစား။ အကြွင်း နှစ်ကိန်းဖြစ်၏။ နှစ်ကိန်းတည်၊ ၁၀၈ ခုမြှောက်၊ ခြောက်ထပ်ထား။ ၄၊ ၆၊ ၈၊ ၉၊ ၁၂၊ ၁၆၊ စား။ သုဉ်းမူ ပြည်ရွာဥပဒ် ဖြစ်အံ့။

သက္ကရာဇ် ၁၀၇၆–ခု၊ တောင်သလင်းလဆန်း ၁၁–ရက်နေ့တွင် ငလျင်လှုပ်သည်ကို ဤကိန်းဖြင့်တွက်၍ သိသည်။ နှစ်ကိန်း ၇၂–ခု။ လကိန်း ၂၅၂–ခု။ နာရီကိန်း ၈၄–ခုရသည်။ လအနှောကား ၅–လနှောသည်။ ရက်ကား ၁၁–ရက်နှောသည်။ နေထွက်အပနာရီ ၁၇–ခုနှော၍ တွက်သည်။ နောက်ကိုလည်း ဤနည်းတွက်လေကုန်။

ငလျင်လှုပ်ခြင်း၏ အကျိုးအပြစ်ကို သိစိမ့်သောငှာ ဇောတိသတ္တကျမ်းလာစကားကို ပြဆိုလိုက်ဦးအံ့–

မြေကိုခံသော ရေ၏ လှုပ်ခြင်းကြောင့် မြေလှုပ်ခြင်းဖြစ်ရာ၌ ရှေးဆရာတို့ ပိုင်းခြား မှတ်သားသောနည်းသည်–

၁။ ဆင်ကဲ့သို့လှုပ်ခြင်း၊

၂။ ဝက်ကဲ့သို့လှုပ်ခြင်း။

၃။ မြွေကဲ့သို့လှုပ်ခြင်း။

၄။ လိပ်ကဲ့သို့လှုပ်ခြင်း အားဖြင့် လေးပါးအပြားရှိသည်။

ထိုလေးပါးတို့တွင်–

၁။ အရပ်မျက်နှာအားဖြင့် အနောက်မြောက်ထောင့်မှ အရှေ့တောင်ထောင့်သို့ လှုပ်ခြင်းသည် ဆင်ကဲ့သို့ လှုပ်ခြင်းမည်၏။

၂။ အနောက်တောင်ထောင့်မှ အရှေ့မြောက်ထောင့်သို့ လှုပ်ခြင်းသည် ဝက်ကဲ့သို့ လှုပ်ပြုခြင်းမည်၏။

၃။ အရှေ့ အနောက်လှုပ်ခြင်းသည် မြွေကဲ့သို့ လှုပ်ခြင်းမည်၏။

၄။ တောင်မြောက် လှုပ်ခြင်းသည် လိပ်ကဲ့သို့ လှုပ်ခြင်းမည်၏။

ရာသီအားဖြင့်–

၁။ မိဿ၊ ပြိဿ၊ မြိထုန်– ဤသုံးရာသီ၌ တနင်္ဂနွေရပ်စဉ် လှုပ်ခြင်းသည် ဆင်ကဲ့သို့ လှုပ်ခြင်းမည်၏။

၂။ သိဟ်၊ ကန်၊ ခနု၊–ဤသုံးရာသီ၌ တနင်္ဂနွေစဉ်လှုပ်ခြင်းသည် ဝက်ကဲ့သို့ လှုပ်ခြင်းမည်၏။

၃။ မေထုန်၊ တူ၊ ကုံ–ဤသုံးရာသီ၌ တနင်္ဂနွေရပ်စဉ် လှုပ်ခြင်းသည် မြွေကဲ့သို့ လှုပ်ခြင်းမည်၏။

၄။ ကရကဋ်၊ မကာရ၊ မိန်– ဤသုံးရာသီ၌ တနင်္ဂနွေရပ်စဉ် လှုပ်ခြင်းသည် လိပ်ကဲ့သို့ လှုပ်ခြင်းမည်၏။

အဟောကား။ ။ လိပ်ကဲ့သို့လှုပ်မှုအနာရောဂါများအံ့။ မြွေကဲ့သို့လှုပ်မူ ငတ်မွတ်ခေါင်းပါးအံ့။ ဝက်ကဲ့သို့လှုပ်မူ ချမ်းသာစီးပွားများအံ့။ ဆင်ကဲ့သို့လှုပ်မူ မိုးကောင်း၍ ချောင်းစီးအံ့။ လူတို့ဝပြောအံ့။

ထို့ကြောင့် ဇောတိသတ္တကျမ်း၌–

**ကစ္ဆပေ မရဏံ ဃောရံ၊ ဒုဗ္ဘိက္ခံ ဝါ ပိ မန္ဒရေ။**
**ပတိပုံဝါ တထာ ဂဇေ သဗ္ဗတြ စ သုခံ ဘဝေ။**

ဟူ၍ မိန့်၏။

ကစ္ဆပေ၊ လိပ်ကဲ့သို့ လှုပ်ခြင်း၌။ ဃောရံ၊ ကြမ်းတမ်းသော အနာဖြစ်၍။ မရဏံ၊ သေပျက်အံ့။ မန္ဒရေ၊ မြွေကဲ့သို့ လှုပ်ခြင်း၌။ ဒုဗ္ဘိက္ခံဝါပိ၊ ငတ်မွတ်ခေါင်းပါးအံ့။ ပတိပုံဝါ၊ ဝက်ကဲ့သို့ လှုပ်ခြင်း၌လည်းကောင်း။ တထာ၊ ထိုမှို့။ ဂဇေဝါ၊ ဆင်ကဲ့သို့ လှုပ်ခြင်း၌ လည်းကောင်း။ သဗ္ဗတြ၊ ခပ်သိမ်းသော အရပ်၌။ သုခံ၊ ချမ်းသာ ဝပြောခြင်းသည်။ ဘဝေ၊ ဖြစ်လတ္တံ့။ ။ ဤကား သာမည အဟောတည်း။

**ဝိသေသအဟောကား**

(၁) ဆင်ရုပ်၌ ၁–လုံး၊ ၂–လုံး၊ ၃–လုံး၊ ၄–လုံး၊ ၅–လုံး၊ ၆–လုံး၊ ၇–လုံးသည် နှာမောင်းနက္ခတ်။ ၈–လုံး၊ ၉–လုံး၊ ၁၀–လုံးသည် အစွယ်နက္ခတ်။ ၁၁–လုံး၊ ၁၂–လုံး၊ ၁၃–လုံး၊ ၁၄–လုံးသည် လက်ယာလက်။ ၁၅၊ ၁၆၊ ၁၇၊ ၁၈ လုံးသည် လက်ဝဲလက်။ ၁၉၊ ၂၀၊ ၂၁၊ ၂၂–လုံးသည် လက်ယာခြေ။ ၂၂၊ ၂၃၊ ၂၄၊ ၂၅၊ ၂၆ လုံးသည် လက်ဝဲခြေနက္ခတ်။ ၂၇–လုံးသည် ကျောက်ကုန်း နက္ခတ်မည်ကုန်၏။

(၂) ဝက်ရုပ်၌ ၁၊ ၂၊ ၃၊ ၄၊ ၅၊ ၆–လုံးသည် ကျောက်ကုန်းနက္ခတ်။ ၇၊ ၈၊ ၉၊ ၁၀ လုံးသည် အထက်နှုတ်သီး။ ၁၁၊ ၁၂ လုံးသည် အောက်နှုတ်သီး ၁၃၊ ၁၄– လုံးသည် မျက်စိနက္ခတ်။ ၁၅၊ ၁၆၊ ၁၇–လုံးသည် လက်ယာလက်။ ၁၈၊ ၁၉၊ ၂၀၊– လုံးသည် လက်ဝဲလက်။ ၂၁၊ ၂၂၊ ၂၃ – လုံးသည် လက်ယာခြေ။ ၂၄၊ ၂၅၊ ၂၆– လုံးသည် လက်ဝဲခြေ။ ၂၇–လုံးသည် မြီးထူးနက္ခတ် မည်၏။

(၃) မြွေရုပ်၌ ၁၊ ၂၊ ၃၊ ၄၊ ၅၊ ၆၊ ၇၊ ၈–လုံးသည် ဦးခေါင်းနက္ခတ်။ ၉– လုံးသည် နှုတ်သီးနက္ခတ်။ ၁၀–လုံးမှစ၍ ၂၇–လုံးတိုင်အောင် ကျောက်ကုန်း နက္ခတ်မည်၏။

(၄) လိပ်ရုပ်၌ တစ်လုံးမှစ၍ ၇–လုံးသည် နှုတ်သီးနက္ခတ်၊ ၈–လုံးမှစ၍ ၁၃–လုံးသည် ဦးခေါင်းနက္ခတ်မည်၏။ ၁၄၊ ၁၅၊ ၁၆၊ ၁၇–လုံးသည် ကျောက်ကုန်း နက္ခတ်မည်၏။ ၁၈၊ ၁၉–လုံးသည် ရင် နက္ခတ်မည်၏။ ၂၀၊ ၂၁၊ ၂၂၊ ၂၃– လုံးသည် ရှေ့လက်နက္ခတ်မည်၏။ ၂၄၊ ၂၅၊ ၂၆၊ ၂၇–လုံးသည် နောက်ခြေနက္ခတ်မည်၏။ ပုံရေး၍ ကြည့်လေ။

ဆင်ကဲ့သို့ လှုပ်ခြင်း၌ နာမောင်းကလှုပ်သော် ပြည်သူပြည်သား ခိုက်ရန်များအံ့။ အစွယ်လှုပ်မူ တိုင်းတစ်ပါးမှ စစ်ရောက်အံ့။ လက်ယာ လက်ခြေကလှုပ်မူ အစားဆန်ရေ ပေါ်များအံ့။ လက်ဝဲလက်ခြေက လှုပ်သော် မိုးထန်အံ့။ ရေကြီးအံ့။ အမြီးက လှုပ်သော် အသီးအနှံ ပျက်အံ့။ ကျောက်ကုန်းက လှုပ်သော် ပြည်ကြီးသေ၌နင်း မင်းတို့ဥပဒ်ဖြစ်အံ့။ ပြက္ခဒိန်နက္ခတ်ပုံမှာ ရှု၍ ဆိုလေ။

ဝက်ကဲ့သို့လှုပ်ခြင်း၌ ခေါင်းကလှုပ်မူ ပြည်သူပြည်သား အနာများအံ့။ နှုတ်သီးက လှုပ်မူ ထိုအတူတည်း။ ကျောက်ကုန်းကလှုပ်မူ အစာစပါး ပေါ်များအံ့။ အမြီးကလှုပ်မူ ငတ်မွတ်ခေါင်းပါးအံ့။

လိပ်ကဲ့သို့ လှုပ်ခြင်း၌ လက်ယာမျက်စိကလှုပ်မူ လူတို့ အနာအဖျားများအံ့။ လက်ဝဲမျက်စိက လှုပ်မူ မိန်းမတို့ ပျက်စီးအံ့။ လက်ယာမျက်စိကလှုပ်မူ သူငယ်တို့ ပျက်စီးအံ့။ လက်ဝဲ လက်ခြေ အမြီးတို့က လှုပ်မူ တိရစ္ဆာန်တို့ ဥပဒ်။ လက်ယာ လက်ခြေ ရင်ဘတ်ကလှုပ်မူ ပြည်ကြီးသေ၌နင်း မင်းတို့ နှလုံးမသာရှိအံ့။

နက္ခတ်အားဖြင့် ၆၊ ၉၊ ၁၉၊ ၂၀၊ ၂၄၊ ၂၆၊ ၂၇ လုံး၌ လှုပ်မူ အဂ္ဂိမဏ္ဍလတည်း။ မီးကြောင့် စိုးရိမ်ခြင်းဖြစ်အံ့။ အချင်း ယူဇနာတစ်ရာတိုင်အောင် လှုပ်၏။ တစ်လတိုင်အောင် မင်္ဂလာမှု မပြုရာ။ ၁၊ ၈၊ ၁၇၊ ၁၈၊ ၂၁၊ ၂၂၊ ၂၃– လုံး၌ လှုပ်မူ ပါဟေန္ဒြမဏ္ဍလတည်း။ ပြည်ထဲ လေးမျက်နှာ သာယာဝပြောအံ့။ အချင်း ယူဇနာခြောက်ဆယ်တိုင်တိုင် လှုပ်၏။ သုံးရက်တိုင်အောင် မင်္ဂလာခပ်သိမ်း မဆောင်ရာ။ ၃၊ ၅၊ ၇၊ ၁၂၊ ၁၄၊ ၁၅–လုံး၌ လှုပ်မူ ဝါယုမဏ္ဍလတည်း။ လေပြင်း ထန်အံ့၊ ယူဇနာ ရှစ်ဆယ် တိုင်တိုင် လှုပ်၏။ ၁၅–ရက် တိုင်အောင် အမှုခပ်သိမ်း မဆောင်ရာ။ ။ ၂၊ ၄၊ ၁၀၊ ၁၁၊ ၁၃၊ ၁၆၊ ၂၅–လုံးလှုပ်မူ ဝရုဏမဏ္ဍလတည်း။ ရေမိုးကောင်းအံ့။

ယူဇနာ ၄၀–တိုင်တိုင် လှုပ်၏။ ၂၇–ရက်တိုင်အောင် အမှုအရာကို မဆောင်ကောင်း။ ဤကား ဇောတိသတ္တကျမ်း, ဘုမ္မကျမ်းတို့၏ အဟောတည်း။

အပြစ်ပျောက်၍ ကောင်းကျိုးရောက်စေလိုသော်–ထီး, တံခွန်, သင်ပုတ်, ရေချမ်း ပေါက်ပေါက်, ပန်းတို့ဖြင့် ဆုတောင်းပတ္ထနာပြု၍ သမ္မာဒေဝ နတ်မြတ်တို့အားလည်း ပူဇော်ရာသည်။ တရားတော်, ပရိတ်တော်ကို နာ၍ ရတနာသုံးပါးတို့အား ပူဇော်ရာသည်။ ပြည့်ရှင်၊ ရွာရှင်မင်းတို့ မမေ့မလျော့ရာ။

လစွဲ နေ့စွဲ အခါစွဲ အဟောကား–

ရှစ်သောင်းသုံးဘော်၊ အောက်ထက်ခေါ်သား၊ အကျော်ယူဇနာ၊ ဘွဲ့သချာဖြင့်၊ မဟာပထဝီ၊ ဤသည်မြေလျက်၊ မငြိမ်သက်၍၊ အောက်ထက်တုန်ယင်၊ **တပေါင်း**တွင်၌၊ လှုပ်ကျင်အမြဲ၊ မချွတ်လွဲတည့်၊ ပြည်ထဲ ပျက်စီး၊ ဒုက္ခကြီးလိမ့်၊ တစ်သီးထိုမှ **တန်ခူး**လကား၊ ရသဩဇာ၊ တက်တိုးလာ၍၊ များစွာရန်သူ၊ ပျောက်လိမ့်ဟူ၏။ မှတ်ယူ**ကဆုန်**၊ လဥတုံမူ၊ ခုံခုံမင်မင်၊ မိုးမရွှင်၍၊ သစ်ပင်ပျက်စီး၊ လွန်ပြုန်းတီးအံ့၊ တစ်သီးထိုမှ၊ **နယုန်**လကား၊ မိန်းမကိုယ်ဝန်၊ ပျက်စီးမှန်လိမ့်၊ **တစ်တန်ဝါဆို**၊ နွယ်တာကိုကား၊ ထွက်ထားပြည့်ရှင်၊ ပြောင်းမည်အင်တည့်၊ ရေပြင်ပြည့်ဝ၊ **ဝါခေါင်**လကား၊ များလှပိုလ်လူ၊ ဆင်းရဲထူအံ့၊ မှတ်ယူမယွင်း၊ **တော်သလင်း**ကား၊ ပျက်ခြင်းမှန်ငြား၊ ပုဏ္ဏားရဟန်း၊ လွန်ပင်ပန်းလိမ့်၊ မိုးကျွင်းကုန်ကျ၊ **ဝါကျွတ်**လကား၊ မိန်းမအထွတ်၊ ဒေဝီမြတ်တို့၊ မလွတ်ခန္ဓာ၊ ပြောင်းတို့ပါ၏၊ လဝါစင်တုန်း၊ **တန်ဆောင်မုန်း**ကား၊ ပျက်ဆုံးမှန်စွာ၊ အမတ်လျာတို့၊ ဗျာပါကြီးထူ၊ စိုးရိမ်ပူလိမ့်၊ မြူဆီးကျစ၊ **နတ်တော်**လကား၊ စစ်မသဘင်၊ ပွဲကြီးယှဉ်လိမ့်၊ လတွင်**ပြာသို**၊ လှုပ်ချောက်ပြိုမူ၊ နိဂိုရ်ပြည်ထဲ၊ ပျက်ပြိုကွဲအံ့၊ **တပို့တွဲ**လ၊လှုပ်တုန်ကမူ၊ ပြည်မပျက်စီ၊ ပညာရှိတို့၊ မှတ်သိထင်စွာ၊ မလွဲရာသည်။ ။ ဤစာ ကမ္ဘာမော်ကွန်းတည်း။

ဖြစ်ဟောင်းထုံးမျှော်၊ ရှေးနှင့်လျော်သား၊ နေ့ကျော်**သူရဇ္ဇ**၊ ပထမတွင်၊ လျှင်ပညတ်၊ လှုပ်ပေလတ်မူ၊ ပြည်မြတ်ဝပြော၊ စည်ပင်ပေါအံ့၊ **စန္ဒရော**မူ၊ တက်ပြောရသာ၊ မြေဩဇာ တည့်၊ **အင်္ဂါနေ့**တွင်၊ လှုပ်လတ်ကျင်မူ၊ ခိုးသူဓားပြ၊ စစ်မက်ထ၍၊ ဒုက္ခရှိန်ပူ၊ ကြွက်ကြွက် ဆူလိမ့် ၊ ရောင်ဖြူထွန်းမြူး၊ **ဗုဒ္ဓဟူး**မှာ၊ ထိုပြည်ရွာက၊ ကညာဆင်ဖြူ၊ ပညာလူတို့၊ ရှေးရှူရောက်လာ၊ ရက်**ဇီဝ**ါကား၊ စကြာမန္တတ်၊ လေးကျွန်းနတ်နှင့်၊ အထွတ်ထိပ်ထား၊ ဘုရားမြတ်စွာ၊ ပစ္စေကာတို့၊ ယူလာသန္ဓေ၊ နေတုံလေမြောက်၊ ဆင်ဖြူရောက်အံ့၊ **သောကြာဒိနေ**၊ လှုပ်လတ်ပေမူ၊ ဘုန်းကြီးသူတို့၊ ရှေးရှူရောက်လာ၊ ပြည်ရွာချောက်ချား၊ ပျက်စီးများအံ့၊ ထင်ရှား**သော**ရာ၊ လှုပ်လေပါမူ၊ ဉစ္စာကြွယ်ဖြိုး၊ သူကြွယ်မျိုးနှင့်၊ တန်ခိုးကြီးမား၊ ပုဏ္ဏားရဟန်း၊ ပျက်စီးကျွန်းဟု၊ ပြည္သွန်းထုံးမှီ၊ ရက်စဉ်စီသည်။ ။ညီစွာကြမ္မာ ဆော်ညွှန်းတည်း။

❖❖❖❖❖

၅၇၈။ ဒီရေစုန်ဆန်၊ အောက်ရပ်ဌာန်၊ ချိန်မှန်ဘယ့်ကြောင့်ဖြစ်သနည်း။(၄၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မဟာသမုဒ္ဒရာ ဝဲသြဃမှ တံပိုးကြီး သုံးခုတို့သည် မပြတ် ထွက်ကုန်သည်ဖြစ်၍ ထိုတံပိုး၏ အစွမ်းကြောင့် ကမ်းနား၌ ရေ၏ပြည့်တက်ခြင်း, ကျသက်ခြင်းဟူသော အစုန်အဆန်တို့သည် ဖြစ်ကုန်၏ဟု ဖြေ။

ဤစကား၌ အကြောင်းကို သိသာအောင် ထင်ရှားပြလိုက်ဦးအံ့–

**တတ္ထ မဟာသမုဒ္ဒေ မဟန္တံ အာဝဋ္ဋမုခံ ဟောတိ။ တထာ ဟိ အဝီစိ မဟာနိရယေ အန္တော ပစ္စမာနာနံ သတ္တာနံ ကမ္မဝသေန နိရယဒွါရံ နိစ္စ ကာလမေဝ ဝိဝရတိ ဝိဒဟတိစ အဟောသိ၊ ဝိဝဋ္ဋကာလေ မဟာနိရယတော အဂ္ဂိက္ခန္ဓော နိက္ခမိတွာ ဒွါရာဘိမုခံ အနေက ယောဇနာယာမ ဝိတ္ထာရံ ဟုတွာ သမုဒ္ဒပ္ပဒေသံ ပရိဌယတိ၊ တသ္မိံ ဌမေ့ ဥပရိ ဥဒကံ အာဝဋ္ဋာကာရေန ပရိဗ္ဘမန္တံ ဘယာနကံ မဟတာ သဒ္ဒေန ဟုတွာ နိပတတိ။ တသ္မိံ ဌာနေ ဗလဝါမုခ သမညာ ဒိဿတိ။**

အစရှိသည်ဖြင့် အင်္ဂုတ္တရနိကာယ် မဟာပနာဒသုတ် အဋ္ဌကထာ လာသည်နှင့် အညီ–

ဤ ဇမ္ဗူဒီပါကျွန်း၏ အောက်၌ တည်သော အဝီစိငရဲကြီးသည် ယူဇနာ တစ်သောင်းမျှ ကျယ်လျက် တည်၏။ ထိုငရဲကြီးသည် တံခါးလေးမျက်နှာ အပေါက်ရှိ၏။ အတွင်း၌ ကျက်ကုန်သော သတ္တဝါတို့၏ ကံအစွမ်းဖြင့် ငရဲကြီး၏ တံခါးသည် မြဲသောကာလ၌လျှင် ပွင့်လည်း ပွင့်၏။ ပိတ်လည်း ပိတ်၏။ ထိုပွင့်သောအခါ၌ ငရဲမှ ကြီးစွာသော မီးလျှံသည် ထွက်၍ များစွာသော ယူဇနာ အလျားအနံရှိသော သမုဒ္ဒရာ၏ အောက်မြေကိုလောင်၏။ ယင်းသို့ လောင်ရာအရပ်၏အထက်၌ ရေသည်ဆူ၍ တက်လတ်သဖြင့် မီးပြင်းသော ရေနွေးအိုး၌ ရေပွက်သကဲ့သို့ ဝဲပွက်၏။ အခြင်း အရာဖြင့် ပွက်ကာလည်သည်ဖြစ်၍ ကြောက်မက်ဖွယ်ရှိသော ပြင်းစွာသော အသံဖြင့် ရေလှုံလှိုင်း ပြတ်လျက်ကျ၏။ ထိုသို့ကျရာ ပွက်ရာ ရေလည်ရာအရပ်ကို ဗလဝါမုခ ဝဲသြဃဟု ဆိုသည်။

ထိုဗလဝါမုခ ဝဲပွက်မှ တက်သော ရေလှိုင်းတံပိုးသည် မဟိန္ဒဝီစိမည်သော တံပိုး။ ဂင်္ဂါဝီစိမည်သော တံပိုး။ ရောဟဏဝီစိမည်သော တံပိုးဟူ၍ သုံးပါးအပြားရှိသည်။

ထိုသုံးပါးတို့တွင် မဟိန္ဒမည်သော တံပိုးကား ယူဇနာခြောက်ဆယ် အမြင့် တက်၍ ထိုထိုအရပ်သို့ ပြေးလေသည်။ ဂင်္ဂါမည်သော တံပိုးသည် ယူဇနာငါးဆယ် အမြင့်တက်၍ ပြေးသည်။ ရောဟဏမည်သော တံပိုးသည် ယူဇနာလေးဆယ် အမြင့်တက်၍ ထိုထိုအရပ်သို့ ပြေးသည်။ ထိုတံပိုးတို့၏ အဟုန်ကြောင့် ဒီရေ ဆန်တက်ခြင်း, စုန်ဆင်းခြင်းဖြစ်သည်။ တံပိုး အကြီး, အလတ်, အငယ်ရှိသောကြောင့် ဒီရေလည်း ရေကြီး, ရေလတ်, ရေငယ်ဟူ၍ သုံးပါးရှိသည်။

ထိုသုံးပါးသော အကြောင်းကို ဓမ္မဟဒယဝိဘင်း အဋ္ဌကထာ၌–

**မဟိန္ဒဝီစိနာမ သဋ္ဌိယောဇနာနိ ဥဂ္ဂစ္ဆိ။**

**ဂင်္ဂါဝီစိနာမ ပဉ္စာသယောဇနာနိ ဥဂ္ဂစ္ဆိ။**

**ရောဟဏဝီစိနာမ စတ္တာလီသယောဇနာနိ ဥဂ္ဂစ္ဆိ။** ဟူ၍ လာသည်။

❖❖❖❖❖

## ၅၇၉။ ကျမ်းရိုးအမှန်၊ အပါဒါန်၊ သမ္ဗန်လာမြဲ ဘယ့်ကြောင့်နည်း။(၄၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပဌမံတာဝ၊ ရှိကကေန်၊ အပါဒါန်နှင့်၊ သမ္ဗန်အနေ၊ သည်နှစ်ထွေ၊ လာလေတစ်ခုခု။

ဟူ၍ နိယံဆရာတို့ မိန့်သည်။ ဘယ့်ကြောင့် လာရသနည်းဟု မေးလိုသည်။

ပဌမံ သဒ္ဒါ၊ တာဝသဒ္ဒါတို့သည် အပါဒါန်ကို ငဲ့သောပုဒ်ဖြစ်၍ အနက်ပြည့်စုံစိမ့်သောငှာ လာသည်ဟု ဖြေ။

❖❖❖❖❖

## ၅၈၀။ ကပိလ–လွန်၊ပြည်တော်မွန်၊ဘုန်းဝှန်နောက်ဆက် ဘယ်မျှနည်း။(၄၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကပိလဝတ်ပြည်၌ ဘုရားလောင်း သိဒ္ဓတ်မင်း၏နောက် ခမည်းတော် သုဒ္ဓေါဒနမင်း နန်းစံသည်။ ထိုမင်း နိဗ္ဗာန်ယူလျှင် ယောက်ဖတော် မဟာနာမ်မင်း အုပ်ချုပ်၍ နေသည်။ ယင်းသို့အုပ်ချုပ်၍နေရာ အမြိတ်–အစွန်းဖြစ်သော ဝါသဘခတ္တိယ၏ သား ဝိဋူဋ္ဌဘသည် သာကီဝင်မင်းတို့ကို ဖျက်ဆီးလေသောကြောင့် ပြည်ကြီး ပျက်စီးလေသည်။ နောက် ထီးဆက် နန်းဆက်မရှိ။

❖❖❖❖❖

## ၅၈၁။ ပြည်၏တံခွန်၊ ခေါ်မြဲမှန်၊ ကေန် ဘယ်ပုဂ္ဂိုလ် တို့နည်း။(၅၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ထွတ်မြတ်သီလ၊ အာစာရနှင့်၊ လူများကိုးရာ၊ အရိယာတွင်ခေါ်၊ ရဟန်းတော်သည်၊ တံခွန်မည်၏။

❖❖❖❖❖

## ၅၈၂။ အင်းဝရပ်ဌာန်၊ ရှမ်းစိုးဟန်၊တစ်ဖန် ဘယ်မင်း ဆက်သနည်း။(၅၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒုတိယမင်းခေါင်၊ မရှောင်ရန်စစ်၊ နှစ်ဆယ့်နှစ်ဝယ်၊ သားချစ်ဘုန်းလူ၊ ရွှေဂူဒါယကာ၊ မကြာမနဲ့၊ နှစ်ဆယ့်ငါးနှစ်၊ နတ်ဌာန်ဖြစ်ရှင့်၊ ဆက်လစ်မျိုးခြား၊

သိုဟန်ဖွားလျှင်၊ ဆယ့်ငါးစိုးဆောင်၊ အုန်းဘောင်ခုံမှိုင်း၊ ခြောက်နှစ်ဆိုင်း၍၊ သိုက်တိုင်းမလွဲ၊ မိုးပြဲနရပတိ၊ လေးနှစ်ရှိက၊ နှံ့သိဇမ္ဗူ၊ စည်သူကျော်ထင်၊ ပျော်ရွှင်မည်ပုံ၊ သုံးနှစ်စိုးလျက်၊ သတိုးမင်းစော၊ ကြာမောနန်းလယ်၊ သုံးဆယ်စိုးဖြစ်၊ နောက်နှစ်နှစ်တွင်၊ ခုနစ်နန်းထဲ၊ မင်းရဲကျော်စွာ ဆက်ပြန်လာသည်။ ။ ရှောင်ခွါတည့်စဉ်ပြေး၊ ရန်အလေး။

[နားတော်သွင်း]

❖❖❖❖❖

## ၅၈၃။ ဒွတ္တဘောင်မှန်၊ ဒွတ္တရန်၊ ဘုန်းစွန် ဘယ်မင်းမြေးမြစ်နည်း။(၅၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တကောင်းပြည်ကို အစိုးရသော သတိုးရွှေ၏သား မဟာသမ္ဘဝနှင့် စူဠသမ္ဘဝ ဖြစ်ရကား ၎င်းမင်း၏မြေး ဒွတ္တဘောင်။ မြစ် ဒွတ္တရန်။ တီ ရန်ဘောင်။ မျှော့ ရန်မန်။ ကျွတ် ရက္ခမင်းဟူပေ။

မြေးမြစ်ကိုသာ မေးငြားသော်လည်း ပါရိသေသနည်းအားဖြင့် အောက်ခုနစ်ဆက်တိုင် ဖြေလိုက်သည်။

❖❖❖❖❖

## ၅၈၄။ သိရိရာဇ်မှန်၊ စောရဟန်၊ ဗိမာန်စိုးကြောင်း မည်သို့နည်း။(၅၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ထွန်ခြစ်မင်း ကံကုန်လေသော် ညီတော် အဟုတ် အဟတ်မရှိဖြစ်၍ မိဖုရားသည် ဆရာပြု၍ ကိုးကွယ်သော ဘုန်းတော်ကြီးကို လူထွက်စေ၍ မင်းပြုစေသတည်း။ ထိုမင်းကား ပါပစုတ်မင်းသားတည်း။ အဆင်းလည်းလှ၏။ ပိဋကတ်ဗေဒင်လည်း တတ်၏။ ပုပ္ပါးစော ရဟန်းဟု တွင်၏။ ရဟန်းသံဃာတို့၏ မင်းဖြစ်ရကား သင်္ဃရာဇ်ဟု သမုတ်၏။ ထို့ကြောင့် ပုစ္ဆာ၌ ''သင်္ဃရာဇ်မှန်၊ စောရဟန်''ဟု ရှိသင့်သည်။ ''သိရိရာဇ်''ရှိသည်မှာ–အရေးပျက်မည် ထင်သည်။

နားတော်သွင်း၌လည်း–

ထွန်ခြစ်ရာဇာ၊ လူ့ဘုံခွါသော်၊ ဆရာသင်္ဃရာဇ်၊ ပြည့်ရှင်ဖြစ်၍၊ ငါးနှစ်ငါးသွယ်၊ စံပယ်တုံလစ်၊ သက္ကရာဇ်ဝယ်၊ စက်သစ် ရဟတ်၊ သိကြားမှတ်တွင်၊ ညီညွတ်တန်မှု၊ ကိန်းနှစ်စုကို၊ စေ့ငုစီမံ၊ ရောဆက်ဆံမှု၊ အာလမ္ဗိက၊ ဖြိုသင့်လှဟု–ဟူ၍ စပ်လေသည်။

ထိုမင်းလက်ထက် သက္ကရာဇ် ၅၆၂–သို့ ရောက်၍ အထက်က ဖြိုကိန်းမကျဘဲ ဖြိုခဲ့သော အင်္ဂ ဇယ ဇေ ကိန်းတစ်ရပ်, ဒေါဒေါရသ ကိန်းတစ်ရပ် ဤနှစ်ရပ်ကို

ရောမှ ၁၃၃၀–ဟူသော အာလမ္ဗိကကိန်းနှင့် ကြိုက်၍ နှစ်ခုကြွင်းထားပြီးလျှင် သက္ကရာဇ် ၅၆၀–ကို ဖြိုလေသည်။ ယခုကောဇာဒီဃသည် ထိုဖြိုကြွင်းမှ လာသော သက္ကရာဇ် ပင်တည်း။

❖❖❖❖❖

## ၅၈၅။ မတွန်တွန်တွန်၊ တွန်တွန်တွန်၊ တွန်ခုနစ်ဆက်၊ ဘယ်မင်းနည်း။(၅၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဤတွန်ခုနစ်ဆက်ကို စာဟောင်းစာတမ်း မတွေ့ဖူးချေ၊ ယခုတွန်တေးခေါ်သော မြို့၌ အထက်ကမင်းခုနစ်ဆက်ပြုဖူးသည်။ ထိုမင်းကား– တွန်ရာဇာကြီး တွန်ရာဇာငယ်, တွန်ကံကောင်း, တွန်ကံထိုက်, တွန်ဝိဒူ, တွန်ဝိဇ္ဇာ, တွန်နဘူဟူသော အမည်ရှိသည် ဟူ၍ သူဟောင်းတို့ စကားကို ကြားဖူးသည်။

❖❖❖❖❖

## ၅၈၆။ ကုသိုလ်ချင်းမှန်၊ တပ်ကြပြန်၊ အနန္တရပစ္စည်း မည်သို့နည်း။(၅၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပုရိမာ ပုရိမာ ကုသလာ ဓမ္မာ ပစ္ဆိမာနံ ပစ္ဆိမာနံ ကုသလာနံ ဓမ္မာနံ အနန္တရပစ္စယေန ပစ္စယော။**

ဟူ၍ ပဋ္ဌာန်းပါဠိတော်၌ ဟောတော်မူသောကြောင့် ရှေးရှေးသော ကုသိုလ် ဇောသည် နောက်နောက်သော ကုသိုလ်ဇောအား အနန္တရသတ္တိဖြင့် ကျေးဇူးပြုပေ၏။

❖❖❖❖❖

## ၅၈၇။ ငှင်းချင်းမှန်၊ တပ်လေဟန်၊ ဈာနင်ပစ္စည်း ဘယ်သို့နည်း။(၅၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရှေးရှေးသောကုသိုလ်ဇော၌ ပါသော ဝိတက်, ဝိစာရ, ပီတိ, သုခ, ဧကဂ္ဂတာ ဟူသော ဈာန်အင်္ဂါငါးပါးသည် နောက်နောက်သော ကုသိုလ်ဇောအားလည်းကောင်း, ထိုဇောနှင့် သမ္ပယုတ်ဖြစ်သော စေတသိက် အဋ္ဌတိံသ စသော နာမက္ခန္ဓာ လေးပါး၊ ထိုစိတ္တုပ္ပါဒ်လျှင် ဖြစ်ကြောင်းရှိသော သဟိတ်စိတ္တဇရုပ်တို့အား ဈာနသတ္တိဖြင့် ကျေးဇူးပြုပေ၏။ (ပါဠိကိုလိုမူ တိကပဋ္ဌာန်းပါဠိတော်မှာယူ)။

မဟာကုသိုလ်စသော ကာမစိတ်တို့၌ ယှဉ်သော ဝိတက်, ဝိစာရ, ပီတိ, သုခ, ဧကဂ္ဂတာကိုလည်း ဈာနသတ္တိရှိသည်ဟု ဟောတော်မူသည်ပင်။

❖❖❖❖❖

## ၅၈၈။ ကျမ်းအဘိဓာန်၊ အနက်သန်၊ ဆန်သဒ္ဒါနက် ဘယ်မျှနည်း။(၅၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အဘိဓာန်ကျမ်း၌ ဆန်ကောင်းကိုဟောသော ပရိယာယ်သဒ္ဒါ မပါ။ ဆန်ကွဲ ဆန်ကျိုးကို ဟောသော ပရိယာယ်ကိုသာ ''ကဏောတု ကုဏ္ဍကော ဘဝေ'' ဟူ၍ ပါသည်။ ။ ကဏောတု၊ ဆန်ကွဲ ဆန်ကျိုးသည်ကား။ ကုဏ္ဍကော၊ ကုဏ္ဍက မည်သည်။ ဘဝေ၊ ဖြစ်၏။

စွယ်စုံကျော်ထင်ဆရာသည် သိလို၍ မေးသည်မဟုတ်၊ အဘိဓာန်ကျမ်း၌ ပွန်းတီးကြောင်း၊ ပရိယာယ် မပါသည်ကို သိလေကြောင်းကို နောက်သားတို့အား သိစေလိုသောကြောင့် မေးသည်ဖြစ်ရကား ဝိသဇ္ဇနာပြုသော ငါသည်လည်း ဆန်သဒ္ဒါ၏ ပရိယာယ်ကို အသစ်မထုတ်သင့်ပြီ။ ယင်းသို့ ဖြစ်သော်လည်း သုတေသနတို့၏ အဇ္ဈာသယ ပြည့်စိမ့်သောငှာ ထုတ်ပြလိုက်ဦးအံ့-

သာဝု၊ ဆန်။ တဏ္ဍုလော၊ ဆန်။ ဝီဟိဇော၊ ဆန်။ သလိဇော၊ ဆန်-ဟူ၍ ဆန်ပရိယာယ်လေးပုဒ်။

❖❖❖❖❖

## ၅၈၉။ ကျမ်းမောဂ္ဂလာန်၊ သဒ္ဒါသန်၊ နိဗ္ဗာန်သဒ္ဒါ ဘယ်မျှနည်း။(၅၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဤမောဂ္ဂလာန်ကျမ်း၌လည်း နိဗ္ဗာန်ဟောသဒ္ဒါ မပါလေ။

''ဝရာရကရတရဒရယမဇ္ဇမိထသကာကုနော''

ဟူသော သုတ်မှစ၍ တစ်ဆယ့်သုံးသုတ်တို့ဖြင့် န-အက္ခရာ အဆုံးရှိသော ပုဒ်တို့ကို ပြီးစေခြင်းငှာ သုတ်တည်ပါသော်လည်း နိဗ္ဗာန်ဟောသဒ္ဒါ ပြီးရာကိုပင် မကျ။ ဥဒါဟရဏ် ဝစနတ္ထ၌လည်း ထုတ်ပြတော်မမူ။

ဆင်ခြင်၍ယူသော်- သုံးဆူသော ပိဋကတ်၌ ထုတ်ခတ်ထက်အောက် မွှေနှောက် ချင်းနင်း၍ ထိုးထွင်းသိမြင်နိုင်သော ပရိယတ္တိဝိသာရဒ။ ဂမ္ဘီရ။ ပုထုလ။ စိန္တာမယဉာဏ်ရှင် ရှင်မောဂ္ဂလာန်သည် မောဂ္ဂလာန်ကျမ်းစာကို စီရင်ဆဲအခါ၌ နိဗ္ဗာနပုဒ်ကျော်ကို သတိတော် မမူမိ၍ ကြွင်းကျန်ဘိလေသည်ဟု ဆိုဖွယ်ရှိ၏။ နိဗ္ဗာန်၏ ပရိယာယ် လေးဆယ့် ခြောက်ပါးကို သိလိုမူ အဘိဓာန်မှာယူ။

❖❖❖❖❖

**၅၉၀။ ဂဠုန်ပျံမှန်၊ ဝိဂြိုဟ်သန်၊ ဉာဏ် ဝိဂြိုဟ်ပေါင်း ဘယ်မျှနည်း။(၅၉)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဉာဏ်ကို ရသော ဝိဂြိုဟ်ပေါင်း နှစ်ဆယ့်ခြောက်ပါး ပါသည်။ ပါဟန်ကား–

ပကာရေသု ဝိသယေ ပဝတ္တတီတိ ပဏ္ဍာ။

ပဏ္ဍာ ဂတာ ပဝတ္တတိ ပဏ္ဍိတာ။

ပဏ္ဍန္တီတိ ပဏ္ဍိတာ။ သန္ဒိဋ္ဌိကသမ္ပရာယိကေသု အတ္ထေသု ဉာဏဂတိယာ ဂစ္ဆတီတိ အဓိပ္ပာယော။

ပဏ္ဍာဣတိ ပဝတ္တတီတိ ပဏ္ဍိတာ။ ပဏ္ဍာသဒ္ဒူပပဒ၊ ဣ၊ ဂတိမှိ။

ဝေဒနိယာ ဝေဒိတဗ္ဗာ။ ဝိဒ ဉာဏေ။

စတ္တာရိ သစ္စာနိ ဗုဇ္ဈတီတိ ဗုဒ္ဓေါ။

ဗောဓေတာ ပဇာယာတိ ဝါ ဗုဒ္ဓေါ။

အဝိဂုဏဝိသေသေဟိ ဗုဇ္ဈိတဗ္ဗောတိ ဝါ ဗုဒ္ဓေါ။

သဗ္ဗေ သင်္ခတာ သင်္ခတေ ဓမ္မေ ဗုဇ္ဈတိ အဗုဇ္ဈိ ဗုဇ္ဈိဿတီတိ ဗုဒ္ဓေါ။

ဗုဒ္ဓံ အဿ အတ္ထီတိ ဗုဒ္ဓေါ။

အတ္တတ္ထပရတ္ထာဒိကေ အတ္ထေ ဗုဇ္ဈတီတိ ဗုဓော။

ပကာရေဟိ ဓမ္မေ ဇာနာတီတိ ပညာ။ ပပုဗ္ဗ ဉာ အဝဗောဓနေ။

နတ္ထိ မောဟော ဧတဿာ တိ အမောဟော။

ဤသို့ စသည်ဖြင့် ဉာဏ်ရ, ပညာရဝိဂြိုဟ်တို့ကို ထိုကျမ်း၌ယူလေ။ အကုန်ထုတ်ပြလျှင် ဂန္ထဘာရ ဖြစ်ရာသောကြောင့် "ပေယျာလ"ထားခဲ့သည်။

❖❖❖❖❖

**၅၉၁။ သည်းခြေကေန်၊ စားရိုးမှန်၊ ဆယ်တန်ပိုးကား၊ အဘယ်နည်း။(၆၀)**

**၅၉၂။ အဆုတ်စားဟန်၊ ပိုးခြောက်တန်၊ သိရန် ဘယ်ပိုးတို့ ပေနည်း။(၆၁)**

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား–

ပိုးမျိုးရှစ်ဆယ်ကို ဝေဖန်ရာ အထက်က "အယ်" ကာရန်ပုစ္ဆာ နံပါတ် ၈၁–မှာ ဖြေဆိုခဲ့ပြီးဖြစ်၍ ဤတွင်မဖြေပြီ။

❖❖❖❖❖

**၅၉၃။ မျက်စိတော်လွန်၊ စိမ်းညိုဟန်၊ ဘုန်းသန်ဘယ်ကောင်းမှုကြောင့်နည်း။(၆၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပုဗ္ဗေသု၊ ရှေးဘဝတို့၌၊ ဝိသဋံ၊ အမျက်ထွက်ငြား လွန်မုန်းထားလျက် သူတစ်ပါးကို ကြည့်တတ်သည်။ နစ ဟောတိ၊ မဖြစ်။ ဝိသာစိ၊ မျက်မှောင်ကုပ်မဲ မျက်စောင်းခဲ၍ ကြည့်တတ်သည်။ နစ ဟောတိ၊ မဖြစ်။ ဝိဓေယျ ပေက္ခိတာ၊

မျက်ငြိုးဟိန်း၍ စိန်းစိန်း ကြည့်တတ်သည်။ နစ ဟောတိ၊ မဖြစ်။ ယထာ၊ အကြင်သို့သော အခြင်းအရာဖြင့်။ ပေက္ခနေ၊ ရှုကြည့်လတ်သော်။ ဥဇု၊ ကိုယ်၏နှလုံး သူ၏နှလုံး ဖြောင့်သည်။ ဟောတိ၊ ဖြစ်၏။ တထာ၊ ထိုအခြင်းအရာဖြင့်။ ပသန္နံ၊ ပျံ့သည်ဖြစ်၍။ ပေက္ခိတာ၊ ရှုကြည့် တတ်သည်။ အဟောသိ၊ ဖြစ်၏။ ဥဇုမနာ၊ ဖြောင့်သော နှလုံးရှိသည်၊ အဟောသိ၊ ဖြစ်၏။ ပိယစက္ခုနာ၊ ချစ်မြတ်နိုးသော မျက်စိဖြင့်။ ဗဟုဇနံ၊ များစွာသော လူကို။ ဥဒိက္ခိတာ၊ ရှုကြည့်လတ်သည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ တေန၊ ထိုကောင်းမှု တော်ကြောင့်။ အဘိနီနေလတ္တံ၊ အလွန်စိမ်း ညိုသော မျက်စိတော်ကို။ အလဘိ၊ ရပြီ။

❖❖❖❖❖

## ၁၉၄။ ခြေတော်ညီပြန့်၊ ခြေနင်းဟန်၊ ရင်းသန် ဘယ်ကုသိုလ်ပေနည်း။(၆၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပုဗ္ဗေ၊ ရှေး၌။ မနုဿဘူတဿ၊ လူ၏အဖြစ်သည်။ သမာနော၊ ဖြစ်လတ်သော်။ ကုသလေသု၊ ကုသိုလ်ဖြစ်ကုန်သော။ ဓမ္မေသု၊ တရားတို့၌။ ဒဠှသမာဒါနော၊ မြဲမြံစွာ ဆောက်တည်သည်။ အဟောသိ။ ဖြစ်၏။ ကာယသုစရိတေစ၊ ကာယသုစရိုက်၌ လည်းကောင်း။ ဝစီသုစရိတေစ၊ ဝစီသုစရိုက်၌ လည်းကောင်း။ မနောသုစရိတေဏ၊ မနောသုစရိုက်၌လည်းကောင်း၊ ဒါန သံဝိဘာဂေစ၊ ပေးလှူခြင်း ခွဲဝေခြင်း၌ လည်းကောင်း။ သီလသမာဒါနေစ၊ သီလကို ဆောက်တည်ခြင်း၌ လည်းကောင်း။ ဥပေါသထ ဥပဝါသေ စ၊ ဥပုသ်စောင့်ခြင်း၌ လည်းကောင်း။ မေတ္တေ ယျတာယ စ၊ အမိကို ချစ်ခြင်း၌လည်းကောင်း။ ပေတ္တေယျတာယ စ၊ အဖကိုချစ်ခြင်း၌ လည်းကောင်း။ သာမညတာယ စ၊ မကောင်းမှုကို ငြိမ်းစေခြင်း၌ လည်းကောင်း။ ဗြဟ္မည တာယ စ၊ မြတ်သော အကျင့်ကို ကျင့်ခြင်း၌လည်းကောင်း။ ကုလေ၊ အမျိုး၌။ ဇေဋ္ဌာပစာ ယိကာယ စ၊ ကြီးသောသူကို အရိုအသေပြုခြင်း၌ လည်းကောင်း။ အညတရည တရေသု စ၊ အမှတ်မဲ့ တစ်ပါးပါးကုန်သော။ အဓိကုသလေသု၊ လွန်မြတ်သော ကုသိုလ်ဖြစ် ကုန်သော။ ဓမ္မေသု စ၊ တရားတို့၌ လည်းကောင်း။ အဝတ္ထိတသမာဒါနော၊ မဆုတ် နစ်သော ဆောက်တည်ခြင်းရှိသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ တေန၊ ထိုကောင်းမှုတော်ကြောင့်။ သုပ္ပတိဋ္ဌိတပါဒေါ၊ ရွှေခြေနင်းကဲ့သို့ တညီတမျှတည်းသော ဖဝါးတော်ကို။ အလဘိ၊ ရပြီ။

❖❖❖❖❖

## ၁၉၅။ ရာ့ရှစ်ကွက်မှန်၊ ရွှေစက်မွန်၊ ရဟန်ဘယ်ကောင်းမှုကြောင့်နည်း။(၆၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပုဗ္ဗေ၊ ရှေးကာလ၌။ ဗဟုဇနဿ၊ များစွာသော လူတို့၏။ သုခါဝဟော၊ ချမ်းသာကို ဆောင်တတ်သည်။ အဟောသိ၊ ဖြစ်၏။ ဥဗ္ဗေဂ ဥတ္တာသဘယံ၊ နိုးသူ

မင်း အစရှိသည့် တို့ကြောင့် ဖြစ်သော ထိတ်လန့်ခြင်း၊ ဆင်ကြမ်း၊ မြင်းကြမ်း အစ ရှိသည်တို့ကြောင့် ထိတ်လန့်ခြင်း၊ ကြောက်ခြင်းကို။ အပနုဒိတာ၊ ပယ်ဖျောက်တော် မူတတ်၏။ ဓမ္မိကာ၊ တရားနှင့်ညီသော။ ရက္ခာဝရဏဂုတ္တိမ္ပိ၊ စောင့်ရှောက်ခြင်းကိုလည်း။ သံဝိဓာယ၊ စီရင် အပ်၏။ သပရိဝါရံ၊ အခြံအရံနှင့် တကွသော။ ဒါနဥ္စ၊ အလှူကိုလည်း။ အဒါသိ၊ ပေးလှူခဲ့ဖူး၏။ တေန၊ ထိုကောင်းမှုကြောင့်။ စက္ကေနကီတပါဒေါ၊ တရာ ရှစ်ကွက်သော စက်လက္ခဏာတို့ဖြင့်ကောင်းစွာ မှတ်အပ်သော ဖဝါးတော်ရှိသည်။ အဟောသိ၊ ဖြစ်၏။

❖❖❖❖❖

## ၅၉၆။ ဖဝါးတော်လွန်၊ လက်ဝါးမှန်၊ ကွန်ယက်အလား ဘယ့်ကြောင့်နည်း။(၆၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

စတူဟိ၊ လေးပါးကုန်သော။ သင်္ဂဟဝတ္ထူဟိ၊ သင်္ဂဟဝတ္ထုတို့ဖြင့်။ မဟာဇနံ၊ လူအပေါင်းကို။ သင်္ဂဟိကော၊ ချီးမြှောက်တတ်သည်။ အဟောသိ၊ ဖြစ်၏။ ဒါနေန စ၊ ပေးကမ်းခြင်းဖြင့် လည်းကောင်း။ ပိယဝစနေ စ၊ ချစ်ဖွယ်သော စကားဖြင့် လည်းကောင်း။ အတ္ထစရိယာယ စ၊ အကျိုးစီးပွားကို ကျင့်ခြင်းဖြင့် လည်းကောင်း။ သမာနတ္တတာယ စ၊ ကိုယ်တူထပ်မျှ ထားသဖြင့် လည်းကောင်း။ ဣတိ ဣမေဟိ၊ ဤလေးပါးသော သင်္ဂဟဝတ္ထုတို့ဖြင့်။ သင်္ဂဟိကော၊ ချီးမြှောက် တတ်သည်။ အဟောသိ၊ ဖြစ်၏။ တေန၊ ထိုကြောင့်။ ဇာလိကဟတ္ထပါဒေါ၊ ရွှေကွန်ယက်နှင့် တူသော လက်ဖဝါး, ခြေဖဝါးတော်ရှိသည်။ အဟောသိ၊ ဖြစ်၏။ (လက္ခဏာသုတ်)။

❖❖❖❖❖

## ၅၉၇။ ဟိတ်လည်းတစ်ဖန်၊ ရှေ့သို့ပြန်၊ ကျမ်းဂန်ဘယ်ပုဒ် သက်သနည်း။(၆၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တသ္မာရှေ့၊ ဟိတ်နှင့်တွေ့ငြား၊ အနက်ပြား၊ ဟိတ်ကား တစ်ဖန် ရှေ့သို့ပြန် ဟူ၍– နိယံ ဟောင်း၌ မိန့်၏။

ဥဒါဟရဏ်ကား–

**နယိဒ မေဝံ။ မဂ္ဂါဓိဂမဝသေန သတ္တိတော ပဋိလဒ္ဓဿာပိ အပရဘာဂေ ပရိကမ္မဝသေနေဝ ဥပ္ပဇ္ဇနတော။ တသ္မာ သဗ္ဗဿာပိ ဈာနဿ ပရိကမ္မ သင်္ခါတ ပုဗ္ဗာဘိသင်္ခါရေန ဝိနာ ကေဝလံ အဓိကာရဝသေန အနုပ္ပဇ္ဇနတော။ အစရှိသည်တည်း။**

ဣဒံ ဝစနံ၊ ဤသင်္စောဒကစကားကို။ ဝံ ယထာ ဝုတ္တကာရဏေန၊ ဤသို့ မဂ္ဂါဓိဂမဖြင့် ရသောဈာန်, အသင်္ခါရိက သမထာနုယောဂဖြင့်ရသောဈာန်ကို သသင်္ခါရိက ဟူ၍ ဆိုသင့်သောအကြောင်းဖြင့်။ န ဒဋ္ဌဗ္ဗံ၊ မမှတ်အပ်။ ကသ္မာ၊ အဘယ့်ကြောင့်နည်းဟူ မူကား။ မဂ္ဂါဓိဂမဝသေန၊ မဂ်ကိုရသည်၏ အစွမ်းဖြင့်။

သတ္တိတော၊ မဂ်၏ အာနု ဘော်ကြောင့်။ ပဋိလဒ္ဓသာယပိ၊ ရအပ်သောဈာန်၏လည်း။ အပရဘာဂေ၊ နောက်အဖို့၌။ ပရိကမ္မဝသေနေဝ၊ ကမ္မဋ္ဌာန်းကို စီးဖြန်းခြင်း ပရိကံ၏ အစွမ်းဖြင့်သာလျှင်၊ ဉပ္ပဇ္ဇနတော၊ ဖြစ်ခြင်းကြောင့်။ န ဒဋ္ဌဗ္ဗံ၊ မမှတ်အပ်။ တသ္မာ၊ ထို့ကြောင့်။ သဗ္ဗသာယပိ ဈာနဿ၊ အလုံးစုံသော လောကီ, လောကုတ္တရာ ဈာန်၏လည်း။ ပရိကမ္မသင်္ခါတ ပုဗ္ဗာဘိသင်္ခါရေန၊ ပရိကံဟုဆိုအပ်သော ပုဗ္ဗာဘိ သင်္ခါရနှင့်။ ဝိနာ၊ ကင်း၍။ ကေဝလံ၊သက်သက်။ အဓိကာရဝသေန၊ မဂ်ကိုရသည်၏အစွမ်းဖြင့်။ အနုပ္ပဇ္ဇနတော၊ မဖြစ်ခြင်းကြောင့်။ ဝေယ်ယထာဝုတ္တကာရဏေန၊ အကြင်အကြင်ဆိုအပ်ခဲ့ပြီးသော အကြောင်းဖြင့်။ နဒဋ္ဌဗ္ဗံ၊ မမှတ်အပ်သတည်း။ (ဋီကာကျော်)။

နောက်အဖို့၌ ပြုအပ်သော ပရိကံကြောင့်သာလျှင် ဈာန်၏ ဖြစ်ခြင်းသည် ရှေ့ဟိတ်၏အရအနက်ဖြစ်၏။ အလုံးစုံသော ဈာန်၏ ပရိကံဟူသော ပုဗ္ဗာဘိသင်္ခါရနှင့် ကင်း၍ မဂ်ကိုရကာမျှဖြင့် မဖြစ်ခြင်းမရခြင်းသည် တသ္မာ–စသော နောက်ဝါကျ၏ အနက်ဖြစ်၏။ ထို့ကြောင့် တသ္မာသဒ္ဒါ၏ အနက်နှင့် ရှေ့ဟိတ်၏အနက်သည် မတူကြ။ ထိုသို့မတူသော်လည်း ''နယိဒမေဝံ ဒဋ္ဌဗ္ဗံ'' ဟူသော ဖိုလ်သို့ပြန်၍ ယူရမည် ဟူလိုသည်။

ထို့ကြောင့် နိယံသစ်၌–

တသ္မာနောင်၊ ဟိတ်နှင့်ဆောင်မူ၊ တူအောင် အနက်ကြံ။
တသ္မာရှေ့၊ ဟိတ်ကိုတွေ့၊ ပြား၍ရှိမှခံ။
နောက်သို့မသွေ့၊ ယင်းဟိတ်နေ၊ ပြန်လေမြဲမြဲမြံ။
တသ္မာကို၊ ဟိတ်၏ဖိုလ်၊ စွဲဆိုမြဲထုံးစံ။ ဟူ၍မိန့်ပြီ။

❖❖❖❖❖

၅၉၈။ ရဘိသမ္ဗန်၊ ဟိတ်ကိုပြန်၊ ကေန်ဘယ်ပကတိ တို့နည်း။(၆၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဟိတ်ဆိုက်လေရာ၊ ကိရိယာ၏၊ ကံကတ္တားကား၊ ဟိတ်၏သမ္ဗန်၊ လာမြဲမှန်၏။ နိယံ။**

ဤ၌ ဉဒါဟရဏ်ကား–

**ဝိဝိစ ဝိသေသ နယတ္တာ၊ ဝိနယနတော စေဝ ကာယဝါစာနံ။**
**ဝိနယတ္ထဝိဒူဟိ အယံ၊ ဝိနယော ဝိနယောတိ အက္ခာတော။**

အစရှိသည်တည်း။

ဤ၌ ''ဝိဝိဓ ဝိသေသ နယတ္တာ''ဟူသောဟိတ်၊ ''ဝိနယနတော'' ဟူသော ဟိတ်၏ ဆိုက်ရာ ကိရိယာကား ''အက္ခာတော''တည်း။ ဤအက္ခာတော ကိရိယာ၏ ကံကား အယံ ဝိနယောတည်း။ ဤအယံဝိနယော ဟူသောပုဒ်ကို ဟိတ်၏သမ္ဗန် လာရသော်–

ဝိနယသဿ၊ ဝိနည်းပိဋကတ်၏။ ဝိဝိဓ ဝိသေသ နယတ္တာ၊ အထူးထူးသောနည်း ထူးသောနည်းရှိသည်၏ အဖြစ်ကြောင့်၊ ဝိနယောတိ၊ ဝိနည်းဟူ၍။ အက္ခာတော၊ ဟောအပ်၏။ ဤသို့ လာရမည်။ ဤလာခြင်းကား နိယာမပကတိတည်း။

ရှေးအဖြေစာ၌ကား–''ဝိကတိကတ္တားကို ဝိဂြိုဟ်ပြုမူ ပကတိကတ္တားရမြဲ။ ပကတိကတ္တားကားသမ္ဘန်၊ ဝိကတိ ကတ္တားကား ဟိတ်ဖြစ်မြဲ။ သမ္ဗန်နှင့်ရှိက အဝေးကား အဝေးချင်း။ အနီးကား အနီးချင်း''ဟူ၍ ဖြေ၊ ဆိုင်သည်မထင် ဆင်ခြင်ကြလေ။

❖❖❖❖❖

## ၅၉၉။ သင်ကြားကျမ်းဂန်၊ အပါဒါန်၊ သမ္ဘန်တောင်းမြဲ ဘယ်တွင်နည်း။(၆၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**''အဇ္ဈေသဒ္ဒါ၊ ရှေ့မှာတင်ထား၊ ဝဇ္ဇေတွာ ဌပေတွာ သဒ္ဒါကြားမှ အပါဒါန်နှင့်၊ သမ္ဗန်တောင်းမြဲ၊ ဆိုမလွဲ''ဟူ၍ နိယံဟောင်း၌ မိန့်၏။ ဥဒါဟရုဏ်းကား–**

မံ ဝဇ္ဇေတွာ အဇ္ဈေ၊ မံ ဌပေတွာ အဇ္ဈေ။ အစရှိသည်တည်း။ မံ၊ ငါ့ကို။ ဝဇ္ဇေတွာ၊ ကြဉ်၍။ အဇ္ဈေ၊ ငါမှတစ်ပါးကုန်သောသူတို့သည်။ မံ၊ ငါ့ကို။ ဌပေတွာ၊ ထား၍။ အဇ္ဈေ၊ ငါမှတစ်ပါးကုန်သောသူတို့သည်။

ထို့ကြောင့် နိယံဋီကာ၌–

**တတ္ထ ပန နကေဟိ အဇ္ဈေ နကဿဝါ အဇ္ဈေတိ စောဒနံ ဥဒ္ဓရိတွာ မယာ အဇ္ဈေ မမ ဝါ အဇ္ဈေတိ ဝိဿဇ္ဇေတဗ္ဗောတိ အဓိပ္ပါယော။ အာစရိယာ ပန အပါဒါနံ ဝေ ဝဋ္ဋေန္တိ။** ဟူ၍ဖွင့်၏။

❖❖❖❖❖

## ၆၀၀။ ကာရကဖြစ်ပြန်၊ ပေါင်းငါးတန်၊ တင်ဟန် ဘယ်ဥပစာနည်း။(၆၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကတ္တား, ကရိုဏ်း, ကံ, သမ္ပဒါန်, အပါဒါန, ဩကာသ–ဟူသော ကာရကခြောက်ပါးတို့တွင် ကတ္တားသာလျှင် စင်စစ်အားဖြင့် ကိရိယာကို ပြီးစေတတ်သောကြောင့် မုချအားဖြင့် ကာရကမည်၏။ ကံ–အစရှိသော ငါးပါးသော ကာရကတို့သည် ကိရိယာပြီးခြင်း၏ အကြောင်းမျှဖြစ်၍ အကျိုး၏ အမည်ကို အကြောင်း၌တင်စားသော ''ဖလူပစာရ'' အားဖြင့် ကာရကမည်၏။

❖❖❖❖❖

## ၆၀၁။ အနက်ပေးဟန်၊ မြန်မာပြန်၊ သမ္ဗန်အမျိုး ဘယ်မျှနည်း။(၇၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပါဌ်ရှိတိုင်း အစဉ်ယောဇနာသော ပါဌာနုသာရီသမ္ဗန်၊
ဥပမာပုဒ်အသီးလျောက်၍ ယောဇနာသော ဥပမာသမ္ဗန်၊
ဟိတ်လောင်း၍ ယောဇနာသော ဟေတုသမ္ဗန်၊
ဥပမာလည်းကောင်း, ဟိတ်လည်းကောင်း, အစုံလောင်း၍ ယောဇနာသော
ဥပမာဟေတု သမ္ဗန်အားဖြင့် လေးမျိုးရှိ၏ဟူပေ။
[ဤကား ဆန်းဋီကာဆရာတို့ပြသော သခင်္ခေပနည်းသာတည်း]

ဂန္ထန္တရ၌လာသော နည်းတို့ကား–

**ပဌမံ ကရေ ပဒစ္ဆေဒံ၊ သမာသာဒိံ တတောကရေ။**
**သမာသာဒေါ ကတေ ပစ္ဆာ၊ အတ္ထံ နိယျာထ ပဏ္ဍိတာ။**

ဟူသော ဂါထာနှင့်အညီ–ပဒစ္ဆေဒတိကသံဝဏ္ဏနာနည်း။

**ဥပမာဏံ ကာရဏာဠ၊ ပဒတ္ထော စ ပယောဇနာ။**
**စတုဓာ ဝဏ္ဏနာ ဉေယျာ၊ တံ တံ နယာနုသာရိနာ။**

ဟူသော ဂါထာနှင့်အညီ–ဥပမာစတုက္ကသံဝဏ္ဏနာနည်း။

**ဥပေါဂ္ဃါတော ဝိဂ္ဂဟော စ၊ ပဒတ္ထောစာလနာ တထာ။**
**ပစ္စုပဋ္ဌာနန္တိ ပဉ္စ၊ နယာ ဉေယျာ နယညုနာ။**

ဟူသော ဂါထာနှင့်အညီ–ဥပေါဂ္ဃါတပဉ္စက သံဝဏ္ဏနာနည်း။

**သမ္ဗန္ဓော စ ပဒစ္ဆေဝ၊ ပဒတ္ထော ပဒဝိဂ္ဂဟော။**
**စောဒနာ ပရိဟာရော စ၊ ဆဗ္ဗိဓာ ပဒဝဏ္ဏနာ။**

ဟူသော ဂါထာနှင့်အညီ–သမ္ဗန္ဓဆက္ကသံဝဏ္ဏနာနည်း။

**သမုဋ္ဌာနံ အဓိပ္ပါယော၊ ပဒတ္ထော ဝိဓိမေဝ စ။**
**အနုရောဓော ဝိရောဓော စ၊ နိက္ကမော သတ္တဝဏ္ဏနာ။**

ဟူသော ဂါထာနှင့်အညီ–သမုဋ္ဌာနသတ္တက သံဝဏ္ဏနာနည်း။

**နိဒါနပယောဇနာနိ၊ ပိဏ္ဍတ္ထော ပဒတ္ထော တထာ။**
**သမ္ဗန္ဓော စ အဓိပ္ပါယော၊ စောဒနာ သောဓနာဋ္ဌမာ။**

ဟူသော ဂါထာနှင့်အညီ–နိဒါနဋ္ဌကသံဝဏ္ဏနာနည်း။ ဗျာပါရနဝ ဗျဂ်ျ သံဝဏ္ဏနာနည်း။ ပိဏ္ဍတ္ထ ဒသက သံဝဏ္ဏနာနည်း။ ကမေကာဒသ သံဝဏ္ဏနာနည်း။ သောဠသဟာရ သံဝဏ္ဏနာနည်းအားဖြင့် ဆယ်ပါးအပြားရှိ၏ဟူပေ။

❖❖❖❖❖

## ၆၀၂။ ရေဓာတ်မကျန်၊ ပျက်သည့်မှန်၊ လွတ်ရန် ဘယ်ဓာတ်ပေးမည်နည်း။ (၅၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပထဝီနသဿနာဗာဓာ၊ ပထဝီဓာတ်ပျက်၍ နာသော်။ ဝါယောမိတ္တာ၊ ဝါယော၏ ခင်ပွန်းဖြစ်သော။ မဓုရာ၊ ချိုသော အရသာရှိသောဆေးနှင့်။ ဒဒေယျ၊ ပေးကုရာ၏။ ဝါယောနသဿနာဗာဓာ၊ ဝါယောဓာတ်ပျက်၍ နာသော်၊ ပထဝီမိတ္တာ၊ မြေဓာတ်၏ ခင်ပွန်းဖြစ်သော။ ကာသာဝေန၊ ဖန်သောဆေးနှင့်။ ဒဒေယျ၊ ပေးကုန်ရာ၏။ အာပေါနသဿနာဗာဓာ၊ အာပေါဓာတ်ပျက်၍ နာလတ်သော်။ တေဇောမိတ္တာ၊ မီးဓာတ်၏ ခင်ပွန်းဖြစ်သော။ တိတ္တကဋုကေန၊ ခါးစပ်သော ဆေးနှင့်။ ဒဒေယျ၊ ပေးကုရာ၏။ တေဇောနသဿနာဗာဓာ၊ မီးဓာတ်ပျက်၍ နာမှုကား။ အာပေါမိတ္တေန၊ ရေဓာတ်၏ ခင်ပွန်းဖြစ်သော။ လဝနေန၊ ငန်သောဆေးနှင့်။ ဒဒေယျ၊ ပေးကုရာ၏။ အာကာသနသဿ–နာဗာဓာ၊ အာကာသဓာတ်ပျက်၍နာမှုကား။ အမ္ဗိလေန၊ ချဉ်သောဆေးနှင့်။ ဒဒေယျ၊ ပေးကုရာ၏။ (ဓာတုဝိဘာဂဒီပနီ)

❖❖❖❖❖

## ၆၀၃။ မြေဓာတ်ကေန်၊ ယွင်းဖောက်ပြန်၊ မှတ်ရန် ဘယ်လက္ခဏာနည်း။ (၅၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကဏ္ဏလန္တံ၊ နားရွက်လန်ခြင်း။ အသုတံ၊ အသံကိုမကြားခြင်း။ စက္ခုအန္ဓံ၊ မျက်စိမမြင်ခြင်း။ အဟတ္ထပါဒဂ္ဂဟဏံ၊ လက်ခြေကို မသိမ်းနိုင်ခြင်း။ ဣတိ လက္ခဏံ၊ ဤလက္ခဏာ ဖြစ်မှုကား။ ပထဝီဓာတုဝိနာသန္တိ၊ ပထဝီဓာတ်ပျက်ပြီဟူ၍။ မတံ၊ သိအပ်၏။ ဣမေ ဒိဋ္ဌေ၊ ဤလက္ခဏာတို့ကိုမြင်လေသော်။ ပဥ္စဒိဝါ၊ ငါးရက်မျှသာ။ ရက္ခတိ၊ စောင့်အံ့။

❖❖❖❖❖

## ၆၀၄။ အာပေါဓာတ်မှန်၊ ပျက်လေပြန်၊ သေဟန်ဘယ်ချိန် ဆိုပိမ့်နည်း။ (၅၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အတိဥဏှအတိသီတာ၊ လွန်စွာပူခြင်း၊ လွန်စွာ အေးခြင်းလည်းကောင်း။ အဋ္ဌိမံသနှာရု၊ အရိုး၊ အသား အကြောသည်။ သူလပဏ္ဍု၊ ထိုးကျင့်ခဲကိုက်ခြင်း၊ တောင့်မာခြင်းလည်းကောင်း။ ပေယနိသေဒေါ၊ ချွေးစေးထွက်ခြင်း လည်းကောင်း။ အဿု၊ မျက်ရည်ယိုခြင်းလည်းကောင်း။ လောဟိတဘိန္နံ၊ သွေးပုပ်ခြင်းလည်းကောင်း။ သေမှ ဗလဝါ၊ သလိပ်ဆို့ခြင်းလည်းကောင်း။ ဣတိ လက္ခဏံ၊ ဤလက္ခဏာကို။ အာပေါ ဓာတုဝိနာသန္တိ၊ အာပေါဓာတ်ပျက်ပြီဟူ၍။ မတံ၊ သိအပ်၏။ ဣမေ ဒိဋ္ဌေ၊ ဤလက္ခဏာ တို့ကို မြင်လတ်သော်။ တိဒိဝါ၊ သုံးရက်မျှသာ။ ဌဿတိ၊ တည်လတ္တံ့။ မှတ်ယူ လွယ်စိမ့်သောငှာ လက္ခဏာနှင့်တကွ ရေးသည်။

❖❖❖❖❖

## ၆၀၅။ နေတ္တိကျမ်းဂန်၊ ဖွင့်စဟန်၊ နန္ဒိယာဝဋ် မည်သို့နည်း။(၇၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နန္ဒိယာ၊ ဇလပ်ပန်းသည်။ အာဝဋ္ဋော ဝိယ၊ လည်သကဲ့သို့၊ ဧတ္ထ၊ ဤနည်း၌။ အာဝဋ္ဋော၊ လည်လျက်။ တိဋ္ဌတိ၊ တည်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ သော နယော၊ ထိုနည်းသည်။ သဘာဝတော၊ သဘောအားဖြင့်။ နန္ဒိယာဝဋ္ဋနယော၊ နန္ဒိယာဝဋ္ဋနည်း မည်၏။ဝါ၊ တစ်နည်းကား။ နဒိယာဝဋ္ဋေ၊ မြစ်ဝဲ၌။ ပဝိဋ္ဌော၊ ဝင်သော။ ဒါရုက္ခန္ဓော၊ ထင်းတုံးကဲ့သို့။ သော နယော၊ ထိုနည်းသည်။ ဟောတိ၊ ဖြစ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ နဒိယာဝဋ္ဋော၊ နဒိယာဝဋ္ဋနည်းမည်၏။

ဇလပ်ပန်းသည် အထပ်ထပ်လည်သကဲ့သို့ သံသရာ၌ အဝိဇ္ဇာ, တဏှာ နုသယတို့၏ တပြောင်းပြန်ပြန် လည်ရခြင်းသဘောသည် နန္ဒိယာဝဋ္ဋနည်း မည်၏။

ပြယုဂ်ကား–

အတီတေ တေတဝေါ ပဥ္စ၊ ဣဒါနိ ဖလပဥ္စကံ–စသည်တည်း။

❖❖❖❖❖

## ၆၀၆။ ခွေး၌တည်ဟန်၊ ဂုဏ်ခြောက်တန်၊ မှတ်ရန်အဘယ်ဂုဏ်တို့နည်း။(၇၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အနလသံ တိသန္တောသော၊ သုနိဒ္ဒါ သုပဗောဓနာ။**

**ဒဠ္ဟဘတ္တိ စ သူရဉ္စ၊ ဆ ဧတေ သွာနတော ဂုဏာ။**

သုနခေါ နာမ၊ ခွေးတို့မည်သည်ကား။ အနလသံ၊ မပျင်းရိခြင်းလည်းကောင်း။ အတိသန္တောသော၊ ကျွေးသမျှနှင့် တင်းတိမ်သော အလွန်ရောင့်ရဲခြင်းလည်းကောင်း။ သုနိဒ္ဒါ၊ အိပ်ပျော်လွယ်ခြင်းလည်းကောင်း။ သုပဗောဓနာ၊ နိုးလွယ်ခြင်းလည်းကောင်း။ ဒဠ္ဟဘတ္တိ စ၊ အရှင့်ထံ၌ မြဲမြံစွာ ခစားခြင်းလည်းကောင်း။ သူရဉ္စ၊အရှင်စေရာ မတွန့်သာဘဲ ရဲရင့်ခြင်းလည်းကောင်း။ ဧတေ ဆ၊ ဤခြောက်ပါးတို့သည်။ သွာနတော၊ ခွေးမှ။ ဂဟိတာ၊ ယူအပ်ကုန်သော။ ဂုဏာ၊ ကျေးဇူးတို့တည်း။

❖❖❖❖❖

## ၆၀၇။ တံခါးမှူးရန်၊ အင်ခြောက်တန်၊ ကျမ်းဂန်မည်သို့ လာသနည်း။(၇၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပေါရာဏာ နဝ ဇာနန္တံ၊ ဗလဝံ ပိယဒဿနံ။**

**သုစိံ ခေဒသဟံ ဒက္ခံ၊ ဒေါဝါရိကေ ဝိဓိယတေ။**

ပေါရာဏာ နဝ ဇာနန္တံ၊ လူဟောင်း လူသစ်ကိုလည်း သိတတ် ထသော။ ဗလဝံ၊ ခွန်အားလည်း ကြီးထသော။ ပိယဒဿနံ၊ ချစ်ခင် ရှုချင်ဖွယ်လည်းရှိထသော။ သုစိံ၊ စင်ကြယ်သန့်ရှင်းထသော။ ခေဒသဟံ၊ အပင်အပန်းလည်း ခံနိုင်ထသော၊

ဒက္ခံ၊ မေးမြန်းစိစစ်ခြင်း၌ လိမ္မာထသော။ တော်၊ ဤအင်္ဂါခြောက်ပါးနှင့် ပြည့်စုံသော သူကို။ ဒေါဝါရိကော၊ တံခါးမှူးအရာ၌။ ဝိဓီယတေ၊ ခန့်ထားရာ၏။

❖❖❖❖❖

## ၆၀၈။ ပုရောဟိတ်မှန်၊ ပြည့်စုံရန်၊ သုံးတန်အင်္ဂါ ဘယ်သို့နည်း။(၇၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဗေဒါဗေဒင် သတ္တညော၊ ဇပ္ပဟောမ ပရာယနော။**
**အာယုဒီဃ မေတ္တောနိစ္စံ၊ ဧသော ရာဇ ပုရောဟိတော။**

ဗေဒါဗေဒင် သတ္တညော၊ ဗေဒင် ကျမ်းကြီးကျမ်းငယ်တို့လည်း အနှံ့အစပ် တတ်ထသော။ ဇပ္ပဟောမပရာယနော၊ ယဇ်ပူဇော်ခြင်းစသော သန္တေးယတြာ၌ လိမ္မာထသော။ နိစ္စံ၊ အမြဲ။ အာယုဒီဃမေတ္တော၊ မင်းအား အသက်ရှည်ဆု မေတ္တာပြုထသော။ ဧသော၊ ဤအင်္ဂါသုံးပါးနှင့်ပြည့်စုံသော သူသည်။ ရာဇ ပုရောဟိတော၊ မင်းဆရာ ပုရောဟိတ်ပြုထိုက်၏။

❖❖❖❖❖

## ၆၀၉။ မင်းတိုင်ပင်ရန်၊ အမတ်မွန်၊ ရှစ်တန်အင်္ဂါ ဘယ်သို့နည်း။(၇၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**သုတဝါ သီလဝါ သူရော၊ ဝီရဝါ သိဒ္ဓိကော ဗလီ။**
**အလုဒ္ဓေါ ပိယရူပေါ စ၊ မန္တိနောဒ္ဓင်္ဂမုစ္စတေ။**

သုတဝါ၊ များသော အကြားအမြင်ရှိသည်။ သီလဝါ၊ သီတင်းရှိသည်။ သူရော၊ ရဲရင့်သည်။ ဝီရဝါ၊ လုံ့လရှိသည်။ သိဒ္ဓိကော၊ အမှုပြီးအောင် စီရင်နိုင်သည်။ ဗလီ၊ စွမ်းအား သတ္တိရှိသည်။ အလုဒ္ဓေါ၊ လောဘနည်းသည်။ ပိယရူပေါ၊ ချစ်ဖွယ်သော အရောင် အဆင်းရှိသည်။ ဣတိ၊ ဤသို့။ မန္တိနော၊ မင်းတိုင်ပင် ထိုက်သော အမတ်ကြီး၏။ အဋ္ဌင်္ဂံ၊ အင်္ဂါရှစ်ပါးကို။ ဥစ္စတေ၊ ဆိုအပ်၏။

❖❖❖❖❖

## ၆၁၀။ အင်္ဂါရှစ်တန်၊ အတွင်းဝန်၊ စုံရန်သင့်ချေ မည်သို့နည်း။(၇၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ရက္ခိတိန္ဒြိယံ သာရတ္တံ၊ နာနာ ဘာသာသု ကောဝိဒံ။**
**ဓမ္မရတံ မုခါပေက္ခံ၊ နာနာသိပ္ပံ ဝိသာရဒံ။**
**ကုလသီလယုတံ ဘီတံ၊ အန္တေပုရေသု ဌာပယေ။**

ရက္ခိတိန္ဒြိယံ၊ ဣန္ဒြေလည်း စောင့်စည်းထသော။ သာဓုတ္တံ၊ သဘောလည်း ကောင်းထသော။ နာနာဘာသာသု ကောဝိဒံ၊ အထူးထူးသော ဘာသာတို့၌ လိမ္မာထသော။ ဓမ္မရတံ၊ တရားနှင့်မွေ့လျော်ထသော။ မုခါပေက္ခံ၊ အရှင်၏ မျက်နှာရိပ်ကိုလည်း သိတတ်ထသော။ နာနာသိပ္ပဝိသာရဒံ၊ အထူးထူးသော အတတ်မျိုးတို့ကိုလည်း တတ်ထသော။ ကုလသီလယုတံ၊ အမျိုးတို့၏ အကျင့်နှင့် ယှဉ်ထသော။ ဘီတံ၊ အရှင်ကိုလည်း ကြောက်ရွံ့ခန့်ညားတတ်ထသော။ ဧတံ၊ ဤအင်္ဂါရှစ်ပါးနှင့် ပြည့်စုံသောသူကို။ အန္တေပုရေသု၊ နန်းတော်တွင်းတို့၌။ ဝါ၊ အတွင်းဝန်အရာတို့၌ ဌပယေ၊ ထားရာ၏။ ဤသို့ ရာဇနီတိကျမ်း၌ လာသည်။

❖❖❖❖❖

## ၆၁၁။ ရုပ်စုံမကျန်၊ ဆေးရေးဟန်၊ ပုစွန်ဆီဖော်နည်း မည်သို့နည်း။(၈၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဆေးဒန်း၊ မြေဖြူ၊ ဟသ်ပြဒါး ၎င်းသုံးပါး အမှုန့်ပြုပြီးလျှင် ဟသ်ပြဒါး ဆတူထည့်ပြန်။ ပုစွန်ဆီရောင် အကောင်းဆုံးဖြစ်၏။

❖❖❖❖❖

## ၆၁၂။တစ်ကျပ်ရွှေမွန်၊တင်လောက်မှန်၊ဖိုးတန်စိန်ကျောက်မည်သို့နည်း။(၈၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မဏိသျှတ္တရကျမ်း၌လာသော ကျောက်မျိုးကား-

နီလာမျိုးလေးပါး,
ပတ္တမြားမျိုးလေးပါး,
ဝဇိရစိန်မျိုးလေးပါး,
ဝင်သဝဏ်ဟု ဆိုအပ်သော ကြောင်မျက်ရွဲမျိုးလေးပါး,
မြကျောက်မျိုး ရှစ်ပါး,
ဂေါ်မုတ်မျိုး နှစ်ပါး,
ဥဿဖယားမျိုးငါးပါးအားဖြင့် သုံးဆယ့်တစ်မျိုးရှိ၏။

ထိုအပြားကို ခြားနား၍ သိသာအောင် ပုစ္ဆာပင်မပါသော်လည်း လင်္ကာရေးလိုက်ဦးအံ့-

ဖိုးထိုက်ကျောက်မြတ်၊ နဝရတ်ကို၊ ထုပ္ပတ်တော်ဖွေ၊ ပြလိုက်ပေအံ့၊ လေးထွေနီလာ၊ ပြားကြရာတွင်၊ နီလာခေါ်ဆို၊ ကျောက်အလိုကား၊ အောက်မည်းညိုပွင့်၊ ပန်းသို့တင့်၏။ ထပ်ဆင့်ဒုတိယာ၊ နီလာကဏ္ဍီ၊ ရှုဉ့်လက္ခဏာ၊ အပြာတွင်ဖက်၊ အညိုစွက်၏။ အမျက်နှစ်ပါး၊ သည်ကျောက်များကား၊ ကျပ်သားရွှေတိ၊ တင်လောက်ဘိမူ၊ သင်္ဂီပဋ္ဌ၊

ကျပ်တန်စွတည့်၊ ဣန္ဒနီလာ၊ လက္ခဏာကား၊ သူရိယာနေခြည်၊ ရောင်သို့တည်၏။ ရွှေရည်တစ်ကျပ်၊ တင်လောက်လတ်မူ၊ သုံးကျပ်ရွှေကောင်း၊ ထိုက်ပေရှောင်း၏။ တစ်ကြောင်းဥပနီလာ၊ သညာခေါ်ဆို၊ ကြာညိုပွင့်ရောင်၊ တစ်ကျပ်ခေါင်မှာ၊ စီမျှောင်သင့်စွာ၊ ထားလောက်ပါက၊ ရွှေသားနှစ်ကျပ်၊ အဖိုးပြတ်သည်။ မချွတ်မှန်ဖြောင့် စင်းလှည့်သော။

**ပတ္တမြားဟု**၊ လေးပါး၌တွင်၊ အလျှင်ပထမ၊ ဝဇိရခန်၊ ကျောက်မွှန်အဆင်း၊ ခြင်းခြင်းမှန်စွာ၊ နီကာသာတည့်၊ ရွှေဝါသင်္ကနိက်၊ တစ်ကျပ်ထိပ်ဝယ်၊ ပြည့်သိပ်ကေန်၊ တင်လောက်တန်မူ၊ ရွှေမှန်သုံးကျပ်၊ ထိုက်ပေလတ်၏။ ပညတ်ဝေါဟာ၊ ဂေါ်မူလာကား၊ ဝဏ္ဏာခရမ်း၊ ပွင့်သို့ရွှမ်း၏။ လုံးပန်းညီညွတ်၊ ရွှေတစ်ကျပ်ထက်၊ လျောက်ပတ်အရည်၊ တင်လောက်ပေမူ၊ စံရွှေအမှန်၊ လေးကျပ်တန်၏၊ နာမံမည်ပေး၊ ကွမ်းပြင်ရေးကား၊ ကွမ်းသွေးအဆင်း၊ နီဝင်းဝင်းတည့်၊ ရွှေသွင်းတစ်ကျပ်၊ တင်လောက်လတ်မူ၊ ငါးကျပ်သိုက်သိုက်၊ အဖိုးထိုက်၏။ ကောင်းမြိုက်သိန်းခိုရေး၊ ကျောက်အသွေးကား၊ နီတွေးအဆင်း၊ ခြင်းခြင်းပြောက်ပြောက်၊ ထိန်ထိန်တောက်၏။ ချီးမြှောက်ရွှေစင်၊ တစ်ကျပ်တွင်၌၊ ထားတင်ပေလောက်၊ ရှိလေမြောက်မူ၊ အံ့လောက်ရွှေမွှန်၊ တစ်ရာတန်သည်။ ။ အမှန်မချွတ်ယွင်းလှည့်သော။

ဝရဇိန်ဟု၊ ကျော်ရှိန်ထင်ရှား၊ မျိုးလေးပါးတွင်၊ ရှေ့ဖျားခတ္တိယာ၊ ကျောက်မျိုးမှာကား၊ ဆင်ဝါးပြိုးပြက်၊ ရိုးရိုးရက်တည့်၊ ကျပ်ထက်ရွှေမှာ၊ တင်လောက်ပါမူ၊ မှန်စွာဆယ်ကျပ်၊ ရွှေထိုက်မြတ်၏။ အလတ်ဗြာဟ္မဏာ၊ ရုပ်ဝါဖြူထဲ၊ ခပ်မွဲမွဲလျှင်၊ စို့သက်တင်သို့၊ ကျပ်တွင် ရွှေပြား၊ တင်လောက်ငြားမူ၊ ဖိုးကားထိုက်ကြွယ်၊ တစ်ဆယ်ကျပ်ပေါင်း၊ ရွှေပေးကောင်း၏။ တစ်ကြောင်းကဏ္ဍာ၊ အဆင်းမှာကား၊ မြင်ကာဖွေးဖွေး၊ သက်တင်ရေလွှတ်၊ မထွက်တတ်တည့်၊ သွယ်ညွတ်လက်လက်၊ ရိပ်သာထွက်၏။ ကျပ်ထက်ရွှေတင်၊ ထားလောက်ကျင်မူ၊ ထိုက်တင်ဖိုးမြတ်၊ ရွှေငါးကျပ်တည့်၊ ပညတ်ကိဿနာ၊ မြတ်ကောင်းမှာကား၊ ရွှေဝါအဆင်း၊ ပြိုးပြက်လင်း၏။ ကျပ်တွင်းထိပ်မောက်၊ ရွှေပေါ်လောက်မူ၊ ထိုက်လျောက်ရွှေစင်၊ တစ်ဆယ်တင်သည်။ ပေါ်ထင်လျှံညီး ဝင်းလှည့်သော။

ကြောင်မျက်ရွဲဟု၊ ကျော်သဲတရိုး၊ လေးပါးမျိုးတွင်၊ အဖိုးထိုက်စွာ၊ ကျောက်ဇေယျာကား၊ ဝါဝါအဆင်း၊ ဥနန္ဒင်းသို့၊ ထွန်းဝင်းပြိုးပြက်၊ တံခွန်ထွက်၏။ ထို့ထက်ဟော်ရတ်၊ မျက်အမြတ်ကား၊ လျှံပတ်ရွှေစင်၊ ညီးညီးရှင်၏။ ထိပ်တွင်တံခွန်ရေး၊ ထွက်လုပြေး၏။ မည်ပေးဟော်ရတ်၊ ခေါ်ပညတ်သည့်၊ ကျောက်မြတ်ရှုဖွယ်၊ မနီလွန်းထ၊ ဖြူလှမဆို၊ သက်တင်လိုတွင်၊ ထိပ်ပြင်လက်လက်၊ တံခွန်ထွက်၏။ တစ်ချက်ဘုမ္မာ၊ ကျောက်မြတ်မှာကား၊ ဝဏ္ဏာအဆင်း၊ ရွှေရည်ခြင်းသို့၊ ဝင်းဝင်းသက်တင်၊ ရေးထွက်ချင်၏။ သည့်လျှင်လေးပါး၊ ကျောက်မြတ်များကား၊ ရွှေသားကျပ်ပြင်၊ ထားလောက်လျှင်မူ၊ ရွှေစင်တစ်ရာ၊ ထိုက်ပေစွာသည်။ အာကာခေါင်ထိပ် ချည်းလှည့်သော။

**မြကျောက်အနွယ်**၊ မျိုးရှစ်သွယ်တွင်၊ အံ့ဖွယ်ရှုဉ်၊ ကျောက်ဝူလီကား၊ ဝဏ္ဏီတကွဲ၊ ခပ်စိမ်းမွဲကို၊ ရွဲပုရိသ၊ ဆိုကုန်ကြ၏။ သိင်္ဂ်ရွှေလှော်၊ တစ်ကျပ်ပေါ်တွင်၊ သင့်လျော် တင်ထား၊ လောက်ပေငြားမူ၊ လေးပါးကျပ်ဆိုက်၊ ရွှေစင်ထိုက်၏။ သမိုက် ထင်စွာ၊ ကက္ကရာကား၊ ဆင်းဝါသဏ္ဍာန်၊ သခွါးခွံသို့။ ကေန်မှတ်ဘိ၊ စိမ်းစိမ်းရှိ၏။ သိင်္ဂီကျပ်ပေါ်၊ တင်လောက်သော်မူ၊ ရွှေလှော်ငါးကျပ်၊ ထိုက်တန်လတ်၏။ တစ်ရပ်သာခွါ၊ ကျောက်မျက် မှာကား၊ ဆင်းဝါကျေးတောင်၊ မြစိမ်းရောင်တည့်၊ ထိပ်ခေါင်ရွှေသား၊ တစ်ကျပ်ဖျားထက်၊ တင်ထားဆင်ရန်၊ လောက်သည်မှန်မူ၊ မင်းစံရွှေမြတ်၊ ခုနစ် ကျပ်လျှင်၊ ဆုံးဖြတ်ထိုက်တန်၊ နေကျမှန်၏။ ကျောက်မှန်ကာလာ၊ စိမ်းလေရာတွင်၊ တစ်ခါမည်းပြောက်၊ စိုးစဉ်း လှောက်၏၊ မောက်မောက်ရွှေစင်၊ တစ်ကျပ်တွင်၌။ ထားတင်လောက်ပေ၊ ကောင်းသား ရွှေလျှင်၊ ကျပ်နေဆယ်ဆင့်၊ ထိုက်လျောက်သင့်၏။ နှိုင်းချင့်တုလွှတ်၊ ဝင်သဝတ်ဟု၊ ပညတ်တွင်ငြား၊ အမျက်အားမူ၊ ဝါးကြောအဆင်း၊ စိမ်းစိမ်းဝင်း၏။ ထွန်းလင်းရွှေတောင်၊ တစ်ကျပ်ခေါင်ထက်၊ ရွှက်ဆောင်ချီလွှား၊ တင်လောက်ငြားမူ၊ လေးပါးကျပ်ရည်၊ ရွှေထိုက်ပေ၏။ မည်ထွေကိတ္တပတ်၊ ကျောက်မျက်မြတ်ကား၊ ရပ်ခာတ်တကွဲ၊ ပိုးမဲတောင်စာ၊ လည်ကုပ်ညှာသို့၊ ဆင်းဝါ လွှန်ဘိ၊ ဆန်လုံးရှိမှု၊ ဖြစ်ဘိလသော်၊ ရွှေလှော်ခုနစ်ကျပ်၊ ထိုက်ပေလတ်သည်၊ မျက်မြတ်အနှုန်း တွင်းလှည့်သော။

**ဂေါမုတ္တ**ဟု၊ နားမထင်ရှား၊ နှစ်ပါးနွယ်လာ၊ အမျိုးမှာကား၊ ဦးစွာပထမ၊ အစပြုရာ၊ အဆင်းမှာမူ၊ ကောင်းညှာ နနွင်း၊ သားသို့ဆင်း၏။ မယွင်းမချွတ်၊ ရွှေတစ်ကျပ်မှာ၊ တင်လောက်ပါမူ၊ ရွှေဝါသိင်္ဂ၊ ထိုက်လှအဖိုး သုံးကျပ်ရိုးတည့်၊ တင်နိုးဂေါမုတ်၊ ဖော်ထုတ်ဆိုကြ၊ အဆင်းမှကား၊ ရှုပတစ်သွယ်၊ နွားကျင်ငယ်သို့၊ ကျပ်ဝယ် ရွှေကောင်း၊ တင်ကောက်ရှောင်းမူ၊ အပေါင်းခုနစ်ကျပ်၊ ကြီးမြတ်အမှန်၊ ရွှေစင်တန်သည်၊ ကေန် လွှန်သန့် ရှင်းလှည့်သော။

**ဥဿဖယား** အနွယ်ပြားသည်၊ ငါးပါး၌မှာ၊ ဇမ္ဗူနာကား၊ ဆင်းဝါနွားနို့၊ ဖြူညိုညို့တည့်၊ နှစ်လို့လျောက်ပတ်၊ ရွှေတစ်ကျပ်ထက်၊ တင်လတ်လောက်ပေ၊ ဖိုးထိုက် ရွှေကား၊ ငါးကျပ်သွား၏၊ ထူးခြား ရတ္တာ၊ ကျောက်ဆင်းမှာကား၊ မှန်စွာကျစ်လစ်၊ နွားနို့သစ်သို့၊ ရွှေစင်ကျပ်ပေါ်၊ တင်လောက်သော်မူ၊ ထိုက်လျော်ရေးနည်း၊ ငါးကျပ်ချည်း ပင်၊ ကျောက်ရှင်ပလာ၊ လက္ခဏာမူ၊ ပြာပြာရှိထွေ၊ တစ်ကျပ်ရွှေထက်၊ တင်ပေလောက် ငြား၊ အဖိုးထားမူ၊ ရွှေသားနှစ်ကျပ်၊ သင့်ဆုံးဖြတ်လော့၊ တစ်ရပ်ဘသ္မာ၊ ရုပ်ဝါဆန်းထူး၊ ထင်းရှူးအဆင်း၊ တစ်ကျပ်တွင်းဝယ်၊ ထည့်သွင်းလောက်မှန်၊ ဖိုးထိုက်တန်ကား၊ အမှန်ရှေ့လား၊ နှစ်ကျပ်သားတည့်၊ တွင်ငြားခတ္တိယာ၊ ကျောက်မျက်မှာမူ၊ စိမ်းပြာ ညိုရောင်၊ ငှက်ခါးတောင်သို့၊ အခေါင်ရွှေစင်၊ တစ်ကျပ်တွင်၌၊ တင်ထားလောက်လှ၊ သုဝဏ္ဏဟု၊ အဋ္ဌမွန်ရွှေ၊ ခြောက်ကျပ်နေသည်၊ လူ့မြေ ဂုဏ်တု–ကင်းလှည့်သော။ 64

B

စိန်မျိုးကား–ခတ္တိယာ, ဗြာဟ္မဏာ, ကဏ္ဍီ, ကိဿနာဟူ၍ လေးပါးပြား၏။ ထိုတွင်–

ခတ္တိယာ အဆင်းကား–ပြိုးပြိုးပြက်၏။ ရွှေတစ်ကျပ်ထက် တင်လောက်မူ သိဂ်နိက် ရွှေငါးဆယ့်ငါးကျပ် ထိုက်၏။

ဗြာဟ္မဏကား–အတွင်း၌ အဖြူထုတ်ချင်းရှိလျက် သက်တံရောင်ပြင်သို့ သမ်း၏။ ရွှေတစ်ကျပ်ထက် တင်လောက်မူ သိဂ်နိက်ရွှေ ငါးဆယ်တန်၏။

ကဏ္ဍီကား– ဖွေးဖွေးဖြူ၏။ သက်တံရေး မထင်တတ်။ အရိပ်ထွက်၏။ ရွှေတစ်ကျပ်တင်လောက်မူ သိဂ်နိက်ရွှေ ငါးကျပ်တန်၏။

ကိဿနာအဆင်းကား– ရွှေညိုညိုချိပ်ရည်ကပ်သကဲ့သို့ ရှိ၏။ ရွှေတစ်ကျပ်ထက် တင်လောက်မူ သိဂ်နိက်ရွှေ ကျပ်တစ်ဆယ်တန်၏။

သန္တာပုလဲမျိုးကား–အပ္ပဌ္ဌသာဖြစ်၍ မဏိရတနာတွင် မဝင်သည်။ ၎င်းကျောက်တို့၏ အပြား အကျယ်စကားကို မဏိသျှတ္တရကျမ်း၌သာ ယူလေ။

❖❖❖❖❖

## ၆၁၃။ နယ်မှန် နယ်ပြန်၊ သည်နှစ်တန်၊ နယ်ပြန်ဖတ်နည်း မည်သို့နည်း။(၈၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နယ်မှန်ကား သတ်အင်း အညီစပ်သည်။ နယ်ပြန်ကား သတ်–အင်းထူးသည်'' ဟုဖြေ။

❖❖❖❖❖

## ၆၁၄။ စာစပ်ရိုးမှန်၊ ရွှေလောင်းပြန်၊ ချဟန်အလုံး ဘယ်မျှနည်း။(၈၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အလုံးကားကား အရေအတွက်မရှိ။ အဆုံး၌ စ, တ, က, မှ, ယ, ရ ဤစာလုံး တို့ဖြင့် ချသည်ကို ရွှေလောင်း ပြန်ဆိုသည်ဟု ဖြေ။ (ကဝိပါသဏ္ဍာ)

❖❖❖❖❖

## ၆၁၅။ လဟုတစ်ဖန်၊ ဂိုဏ်းသုံးတန်၊ ပန္တိဆန်းဂိုဏ်း အဘယ်နည်း။(၈၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဥဒ္ဒိဋ္ဌာသကံ တံ ဧဝေတာ မ–ရာလှ။ ပန္တိ။

ပဿ၊ အကြင်ဂါထာ၏ [illegible] ပါသည်ဂိုဏ်းသည် လည်းကောင်း။ မ–ရာ၊ မ–ဂိုဏ်း, ရ–ဂိုဏ်းတို့သည်လည်းကောင်း။ လှ၊ လဟုသည် လည်းကောင်း။ ပဋ္ဌမပါဒ၊ အစဉ်အတိုင်း။ ၁၁ သိယုံ အကာယ်၍

ဖြစ်ကုန်အံ့။ တံ၊ ထို–ဂါထာသည်။ ဥဗ္ဗာသကံ၊ ဥဗ္ဗာသက ဂါထာမည်၏။ ပန္တိ၊ ပန္တိဆန်းတည်း။

❖❖❖❖❖

၆၁၆။ ဆန်းမစစ်ပြန်၊ ဖွဲ့သည်မှန်၊ တွင်ဟန် ဘယ်ဂါထာတို့နည်း။(၈၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**န ဒိဿတေတ္ထ ယံ ဆန္ဒံ၊ ပယောဂေ ဒိဿတေ ယဒိ။**
**ဝိသမက္ခရပါဒံ တံ၊ ဂါထာသာမညနာမတော။**

တတ္ထ၊ ဤဝုတ္တောဒယဆန်းကျမ်း၌။ ဝိသမက္ခရပါဒံ၊ မညီညွတ်သော အက္ခရာရှိသော။ ယံ ဆန္ဒံ၊ အကြင်ဆန်းသည်။ နဒိဿတေ၊ မထင်။ ပယောဂေ၊ ပြယုဂ်ထုတ်ဖော် ပါဠိတော်သည်။ ယဒိ ဒိဿတေ၊ အကယ်၍ ထင်ငြားအံ့။ တံ၊ ထိုမညီညွတ်သော အက္ခရာပါဒရှိသော ဂါထာကို။ ဂါထာသာမည နာမတော၊ ဂါထာသာမည အမည်အားဖြင့်။ ဝေဒိတဗ္ဗံ၊ သိအပ်၏။

ဤသို့ ဆန်းကျမ်းမိန့်ရကား ဆန်းမစစ်ဘဲ ဖွဲ့သော ဂါထာသည် ဂါထာသာမည မည်၏ ဟူပေ။

❖❖❖❖❖

၆၁၇။ အနက်ဆယ်တန်၊ သင်ရိုးမှန်၊ ကျမ်းဂန် ဘယ်ဝိဘတ်ပေနည်း။(၈၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဖြင့်၊ နှင့်၊ သည်၊ ကြောင့်၊ အား၊ မှ၊ ကြောင့်၊ ၏၊ ၌၊ ကြောင့်–ဟူသော အနက်ဆယ်မျိုး၌ နာ၊ သ၊ သ္မာ၊ သ၊ သ္မိံ ဟူသော ကေဝုစ်ဝိဘတ် ငါးလုံးဟူပေ။

အချို့စာ၌ ''အနက်ဆယ်တန်၊ သတ်ရိုးမှန်''ဟူ၍ တသတ်နှင့် ရှိ၏။ ထိုသို့ရှိမူ ကံအနက် ပုဗ္ဗသဒ္ဒါ၊ ကမ္မပ္ပဝစနီယမည်သော ဥပသာရပုဒ်၊ နိပါတ်ပုဒ်တို့နှင့် ယှဉ်သော သဒ္ဒါ၊ တတိယာအနက်၊ အစ္စန္တသံယောဂအနက်၊ သမ္ပဒါန်အနက်၊ အပါဒါန်အနက်၊ သတ္တမီအနက်၊ သာမိအနက်၊ ကာလဘာဝအနက်၊ ဤဆယ်ပါး၌ သက်အပ်သော ဒုတိယာ ဝိဘတ်တည်းဟု ဖြေ။

❖❖❖❖❖

၆၁၈။ ဆယ့်လေးနက်မှန်၊သက်လေပြန်၊ခေါ်ဟန် ဝိဘတ်အဘယ်နည်း။(၈၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သမ္ပဒါန်အနက်၊ ကတ္တုတ္တတတိယာ အနက်၊ နမောယောဂ အရာ၊ ဂတိ စသော ဓာတ်၏ ကံအနက်၊ နှစ်သက်ခြင်းအနက်၊ အာရှေး ရှိသော သုဓာတ်၏

အယှဉ်ဖြစ်သော အနုတ္တရအနက်၊ အနာဒရအနက်။ တုမတ္တအနက်။ တဒတ္တအနက်၊ အနုရူပအနက်။ ပဋိက္ခိတ္တအနက်။ သာမိအနက်၊ သတ္တမီအနက်၊ မြင်ခြင်းအနက်၊ ဤတစ်ဆယ့်လေးပါး သော အနက်တို့၌ သက်သော စတုတ္ထီဝိဘတ်တည်းဟု ဖြေ။

❖❖❖❖❖

## ၆၁၉။ က-က္လတင်မှန်၊ယသတ်ပြန်၊ဖတ်ဟန်ကျောက်စာ မည်သို့နည်း။(၈၈)

## ၆၂၀။ စ-က္လတင်ပြန်၊ယသတ်ဟန်၊ဖတ်ရန် ဘယ်သို့ ဆိုမည်နည်း။(၈၉)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား-

က-ပေါ်တွင် က္လ တင်၍ ယသတ်သော် (ကိယ်) ဤသို့ရေးလျှင် (ကွယ်)ဟု ဖတ်ရမည်။ စ-ပေါ်တွင် က္လတင်၍ ယသတ်သော် (စိယ်) ဤသို့ရေးလျှင် (စွယ်)ဟု ဖတ်ရမည်။

အဘယ့်ကြောင့်နည်းမူ ကျောက်စာရေးနည်း၌ ''ဝဆွဲဆိုလျှင်၊ လုံးကြီးတင်''ဟု ဆိုအပ်သောကြောင့် က္လ တင်ခြင်းသည် ဝဆွဲအရာ ဖြစ်သောကြောင့်တည်း။

❖❖❖❖❖

## ၆၂၁။ မရှယ်ပစ်ဟန်၊ ကျူး၍မှန်၊ လျော်ဒဏ်ဘယ်မျှ သင့်လိမ့်နည်း။(၉၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မရည်ရွယ်ဘဲ၊ ကျောက်ခဲလုံကန်၊ ပစ်ရာမှန်မူ၊ လျော်ဒဏ်ကြေးငွေ၊
မရှိစေဘဲ၊ စိတ်ပြေရုံမျှ၊ ဆေးဝါးခကို၊ ခံကြပစေ။ (ဖြတ်ထုံး)

ဝိနည်းတရားတော်၌လည်း-ဥဒ္ဒိဿ, အနုဒ္ဒိဿ နှစ်ပါးသည် သာဟတ္ထိက, အာဏတ္တိက, နိဿဂ္ဂိယ တည်းဟူသော သုံးပါး၌ ဖြစ်ရကား မရည်ရွယ်ဘဲ ပစ်ခတ်ရာ သတ္တဝါသေခြင်း၌ ကမ္မဗဒ္ဓ မဖြစ်ဟု ဆုံးဖြတ်၏။

❖❖❖❖❖

## ၆၂၂။ ပိယရုပ်မှန်၊ ဝေကန်၊ ခန္ဓာဖွဲ့၏ အဘယ်နည်း။(၉၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ရူပံ ရူပက္ခန္ဓောတိ ပိယရူပံ သာတရူပံ ရူပံ။ န ရူပက္ခန္ဓော ရူပဥ္စေဝ ရူပက္ခန္ဓော စ။**

ဟူသော ပဒသောဓနေဝါရပါဠိဖြင့် တဏှာ၏ အာရုံဖြစ်သော ချစ်အပ်၊ သာယာအပ်သော သဘောရှိသော အပေါင်းဖြစ်သော လောကီစိတ် ကောသိတိ။ စေတသိက် ဒွေပညာသ။ ရုပ်အဋ္ဌဝီသဟု ဆိုအပ်သော ပိယရုပ်, သာတရုပ်သည် ရုပ်သာမည မည်၏။ ရူပက္ခန္ဓာကားမမည်။ အစိတ်ဖြစ်သော ရုပ်အဋ္ဌဝီသသည် ရုပ်လည်းမည်၏။ ရူပက္ခန္ဓာလည်း မည်၏ဟု ဟောတော်မူသည်။

တစ်ဖန် သုဒ္ဓခန္ဓဝါရ၌ ''ရူပံ ခန္ဓောတိ။ အာမန္တာ''ဟူသော ပါဠိဖြင့် ရုပ်မည်သော တရားသည် ခန္ဓာမည်သလောဟု အမေးပြု၍ ရုပ်မည်သော တရားသည် ခန္ဓာ မည်သည် ချည်းဟု ဟောတော်မူပြန်သည်။ ယင်းသို့ဟောရာ ဒေသနာ၌ တဏှာ၏ အာရုံဖြစ်သော အပေါင်းဖြစ်သော စိတ်, စေတသိက်, ရုပ် ဟူသော ပိယရုပ်တို့တွင် လောကီစိတ် ကောသီတိကို ဝိညာဏက္ခန္ဓာ။ စေတသိက်ဒွေ ပညာသတ်တို့တွင် ဝေဒနာကို ဝေဒနက္ခန္ဓာ။ သညာကို သညာက္ခန္ဓာ။ ကြွင်းသော စေတသိက် ငါးဆယ်၊ ပိယ, သာတဖြစ်သော ရုပ်အစုကို သင်္ခါရက္ခန္ဓာဟူသော ရေတွက်ခြင်းဖြင့် ရေတွက်၍ အစိတ်ဖြစ်သော ရုပ်အဋ္ဌဝီသကို ရူပခန္ဓာ ဟူသော ရေတွက်ခြင်းဖြင့် ရေတွက်အပ်သည် ဖြစ်၍ခန္ဓာမည်သည်ချည်းဟု ဟောတော်မူသည်။

ထို့ကြောင့် ၎င်းယမိုက်အဋ္ဌကထာ၌–

**ရူပံ ခန္ဓောတိ ယံကိဉ္စိ ရူပံ ရူပန္တိ ဝုတ္တံ။ သဗ္ဗံ တံ ခန္ဓောတိ ဝုစ္စတိ။ တတ္ထ ယသ္မာ ပိယရူပသာတရူပသင်္ခါတံ ဝါ ရူပံ ဟောတု ဘူတုပါဒါယရူပံ ဝါ။ သဗ္ဗံ ပဉ္စသု ခန္ဓေသု သင်္ဂဟံ ဂစ္ဆတေဝ။ တသ္မာ အာမန္တာတိ ပဋိဇာနာတိ–ဟူ၍ မိန့်သည်။**

ရူပံ ခန္ဓောတိ ဧတ္ထ၊ ရူပံ ခန္ဓောဟူသော ပါဠိ၌။ ယံကိဉ္စိရူပံ၊ အလုံးစုံသော ရုပ်ကို။ ရူပန္တိ၊ ရုပ်ဟူ၍။ ဝုတ္တံ၊ ဟောတော်မူအပ်ပြီ။ တံ သဗ္ဗံ၊ ထိုအလုံးစုံသော ရုပ်ကို။ ခန္ဓောတိ၊ ခန္ဓာမည်၏ဟူ၍။ ဝုစ္စတိ၊ ဆိုအပ်၏။ တတ္ထ၊ ထိုပါဠိ၌။ ယသ္မာ၊ အကြင့်ကြောင့်။ ပိယရူပသာတရူပသင်္ခါတံ၊ ပိယရုပ်, သာတရုပ်ဟု ဆိုအပ်သော။ ရူပံ ဝါ၊ ရုပ်သည်မူလည်း။ ဟောတု၊ ဖြစ်စေ။ သဗ္ဗံ၊ အလုံးစုံသော ရုပ်ကို။ ပဉ္စသု ခန္ဓေသု၊ ငါးပါးသော ခန္ဓာတို့၌။ သင်္ဂဟံ၊ အထိုက်အလိုက် သမိုက်ပေါင်းစည်းခြင်းသို့။ ဂစ္ဆတေဝ၊ ရောက်သည်သာတည်း။ တသ္မာ၊ ထို့ကြောင့်။ အာမန္တာတိ၊ အာမန္တာ ဟူ၍။ ပဋိဇာနာတိ၊ ဝန်ခံတော်မူ၏။

ဤသို့ လာသော ပါဠိအဋ္ဌကထာတို့ကို ထောက်၍ ပိယရုပ်တို့ကို နာမက္ခန္ဓာ လေးပါးဖွဲ့၏ဟု မှတ်ရာသည်။

❖❖❖❖❖

## ၆၂၃။ စမုန်နက်ကြက်သွန်၊ ပုံးရည်မွှန်၊ ကိုယ်ဝန်သောက်ဖို့ဘယ်ချိန်နည်း။ (၉၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကြက်သွန်ဖြူဒေါင့်သိုး တစ်လုံး။ စမုန်နက်နိုင်းချင်း ပုံးရည်နှင့် ကြိတ်၊ ဟောက်မိသည့် စပေါင်းတွင် ပုံးရည်အပြည့်ထည့်၍ ၎င်းဆေးကိုဖျော် ကိုယ်ဝန်ရှိသူကို ပေါင်းသင်းနှင်းသည်၍ တိုက်ပြီးလျှင် နှင်း၍မနေနှင့် ဒေါက်သို့သင်း၍သွား ပွားလွယ်၏။ [သန္ဓာဒုတိ ဆေးကျမ်း]။

❖❖❖❖❖

၆၂၄။ အဖြူကြက်သွန်၊ ဒန့်သလွန်၊ ဆီမွှန်နှင့်လျက် ဘယ်ဆေးနည်း။(၉၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မီးယပ်သွေးမြူး၊ အမူးအမော်၊ အိပ်မပျော်က၊ ဆားလော်ပက်ကာ၊ လျက်လေပါလော့။

❖❖❖❖❖

၆၂၅။ လျောက်ဆယ်တောင်မှန်၊ အိမ်ဆင်ရန်၊ ထားဟန်ထုပ်ဘယ်မျှပေနည်း။(၉၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

လျောက်ဆယ်တောင်ဖြစ်သော် ထုပ်ကိုးတောင်လည်းကောင်း၊ ခုနစ်တောင်လည်းကောင်း ထားရာ၏။ လျောက်ဆယ်တောင်နှင့် ထုပ်ကိုးတောင်ထားသော် အဝန်းမိုက်ပေါင်း တစ်ရာ့တစ်ဆယ့်လေးရ၏။ ရှစ်ခုစားလျှင် နှစ်ခုကြွင်းရကား အခိုးသင့်၏။ ရဟန်းတို့နေရာလျော်၏။

လျောက်ဆယ်တောင်နှင့် ထုပ်ရှစ်တောင်ထားသော် အဝန်းမိုက်ပေါင်း တစ်ရာ့ရှစ်ရ၏။ ရှစ်ခုစားလျှင် လေးခုကြွင်းရကား ခွေးသင့်၏။ တောသားမုဆိုးတို့၏ နေရာ လျော်ရာ၏။

လျောက်ဆယ်တောင်နှင့် ထုပ်ခုနစ်တောင်ထားသော် အဝန်းမိုက်ပေါင်း တစ်ရာ့နှစ်မိုက်ရ၏။ ရှစ်ခုစားလျှင် ခြောက်ခုကြွင်းရကား မြည်းသင့်၏။ မြို့ရွာသူကြီးတို့နေရာ လျော်၏။

ထို့ကြောင့် ရှေးပညာရှိတို့ ဆိုသည်ကား–

ထုပ်လျောက်နှစ်ပါး၊ တောင်ဖွဲ့ထား၊ မြှောက်ငြားသုံးခုသာ။
အဋ္ဌဘာဂ၊ ကြွင်းသေသ၊ ဟောပြကျိုးပစ္စာ။
ကောဝဇ ဝါဏိဇ နေထအပ်ကုန်ရာ။
နှစ်ခုသမဏ၊ နိဝါသ၊ ဓူမသင့်သည်သာ။
သုံးခုခြင်္သေ့၊ သင့်ဓလေ့၊ ချမ်းမြေ့မင်းနေရာ။
လေးခုတောလျှိုး၊ ခွေးသင့်နိုး၊ မုဆိုးတို့နေရာ။
ငါးခုသေသ၊ ဒလိဒ္ဒ၊ ဂေါဏသင့်သည်သာ။
လယ်ယာလုပ်ငြား၊ ဆင်းရဲသား၊ အများနေအပ်ရာ။
ခြောက်ခုကြွင်းမျိုး၊ မြည်းသင့်နိုး၊ ပြည်စိုးရွာဇေဋ္ဌာ။
ခုနစ်သေသ၊ ကြွင်းလတ်က၊ ဂဇသင့်သည်သာ။
ရာဇာမစ္စ၊ နေထိုက်လှ၊ ချမ်းမြလွန်ကြင်နာ။
သုညာသေသ၊ ကြွင်းသမျှ၊ သင့်ထ ကျီးကာကာ။
ပြည့်တန်ဆာဟို့၊ မွေ့လျော်ဖို့၊ မှတ်တို့မြဲသေချာ။

ထုပ်လျော်ကစားနည်း၊ မော်ကွန်းတည်း၊ သိပ်သည်းမှတ်ကုန်ရာ။
ဤလင်္ကာကိုမှီ၍ အကြွင်းသင့်အောင် မိုက်စွန်းနှင့်ထားရမည်။

❖❖❖❖❖

၆၂၆။ နက်ခြင်းသုံးတန်၊ မြင်းဖွေကြန်၊ မှတ်ရန် ဘယ်အနက်တို့နည်း။(၉၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–
မြစ်တွေးနက်စေ။
ပေါင်ခြံနက်စေ။
နှာခေါင်းအောက်က အရိုးနက်စေ။
ဤသုံးပါးနက်မှု ကောင်းသောမြင်းတည်း။

❖❖❖❖❖

၆၂၇။ မြင်းငါးရာတန်၊ကွမ်းစားဆန်၊ပြတ်ဟန်ဘယ်မင်း ရာပြတ်နည်း။(၉၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

လွန်လေပြီးသောအခါ ကာသိတိုင်း ဗာရာဏသီပြည်၌ ဗြဟ္မဒတ်အမည်ရှိသော မင်းသည် မင်းပြု၏။ ထိုအခါ ငါတို့ ဘုရားအလောင်းတော်သည် ထိုမင်းအထံ၌ ပညာရှိသော ရာပြတ်အမတ် သူကြီးဖြစ်၍ အရပ်လေးမျက်နှာ ရှစ်မျက်နှာမှ လာကုန်သော ကုန်သည်တို့၏ ဆင်၊ မြင်း၊ ကျွဲ၊ နွား အစရှိသော သဝိညာဏက ဘဏ္ဍာ၊ ရွှေ၊ ငွေ၊ ပုလဲ၊ ပတ္တမြား အစရှိသော အဝိညာဏက ရတနာတို့ကို ထိုက်တန်ရာ အဖိုးပြတ်၏။ ရောင်းသူ၊ ဝယ်သား လူအများတို့အား မယွင်း မမှား စေရအောင် ကြပ်မ ပြတ်ဆို၍ နေ၏။

မင်းကြီးမူကား ကြမ်းကြုတ်မျက်သို့ အလိုရမ္မက်ကြီးသော သဘောရှိ၏။ ထို့ကြောင့် တစ်ရံသောအခါ ဤသို့ကြံ၏ ''ငါ့ထံ၌နေသော ဤရာပြတ်သည် ဖြောင့်မတ်သည်ကိုသာ ဆိုလေ့ရှိ၏။ သူတစ်ပါးအထံမှ ဥစ္စာလွန်၍ ပါအောင်ပင် ဆိုလေ့မရှိ။ ဤရာပြတ်ကိုထား၍ ငါ့အား စီးပွားမကြီးနိုင်ရာ။ သူ့ဥစ္စာကို ရအောင်ပြု နိုင်သော လူတစ်ယောက်ကို ရာပြတ်ထားဦးမှ သင့်မည်''ဟု ကြံ၍ ခြသေ့ံခံသော တံခါးကိုဖွင့်လျက် မြှော်လင့်ကာ နေလေသော် လျှပ်ပေါ်မိုက်မဲသော လူတစ်ဦးသည် မင်းရင်ပြင်သို့လာသည်ကို မြင်၍ ခေါ်ပြီးလျှင် ''သင်သည် ငါ၏အနီး၌နေ၍ ဘဏ္ဍာ အမျိုးမျိုးတို့ကို အဖိုးပြတ်ခြင်းငှာ စွမ်းနိုင်ပါအံ့လော''ဟု မေး၏။ ထိုသူကလည်း ''အရှင်မင်းကြီး၊ကျွန်ုပ်တတ်နိုင်ပါ၏။ အများတကာ တန်ရာအဖိုး ဆိုသည်ကိုလည်း ကျွန်ုပ်ကြားဖူးပါ၏''ဟု လျှောက်သော် မင်းလည်း ဝမ်းမြောက် ဝမ်းသာလျက် မိမိအလိုရှိရာကို ပြောကြားပြီးမှ ရာပြတ်အရာ၌ ထား၏။

ထိုအခါမှစ၍ လောလဗာလ ရာပြတ်သည် အရပ်ရပ်သော ဘဏ္ဍာစုကို အဖိုးပြတ်ဆိုသော် အဖိုးထိုက်သည်ကိုလည်း ယုတ်စေ၍ အဖိုးယုတ်သည်ကိုလည်း များစေ၍ စိတ်ထင်တိုင်းပြတ်ဆို၏။ ယင်းသို့ ပြတ်ဆိုသော်လည်း မင်းအာဏာနှင့် ဌာနန္တရ ရပြီးသူဖြစ်၍ ထိုရာပြတ်ဆိုတိုင်းပင် ရောင်းဝယ်ကြရသတည်း။

တစ်ရံသောအခါ ဥတ္တရာပထတိုင်းမှ မြင်းကုန်သည်တစ်ဦးသည် မြင်းငါးရာတို့ကို ရောင်းခြင်းငှာ ဆောင်၍ လာခဲ့၏။ ဗာရာဏသီပြည်သို့ ရောက်လေသော် မင်းကြီးထံသို့ဝင်၍ ရောင်းချင်ကြောင်းကို လျှောက်လတ်သော် ရာပြတ်ကိုခေါ်၍ ပြတ်စေ၏။ လောလ ဗာလရာပြတ်လည်း ပါသမျှသော မြင်းငါးရာတို့ကို ဆန်တစ်ကွမ်းစားသာ တန်သည်ဟု ပြတ်၏။ မင်းလည်း ဤရာပြတ်ဆိုတိုင်း ဆန်တစ်ကွမ်းစားသာ ပေးစေ၏။

ထိုအခါ မြင်းကုန်သည်သည် အလွန် နှလုံးပင်ပန်းခြင်းရှိသည်ဖြစ်၍ ရှေးရာပြတ်ဟောင်း ဘုရားအလောင်းထံသို့ လာပြီးလျှင် ''ကျွန်ုပ်တွင်ပါသော မြင်းငါးရာကိုပင် ဆန်တစ်ကွမ်းစားဖြင့် ရောင်းရသောကြောင့် ပြည်သို့ မပြန်ဝံ့ရှိချေပြီ။ အရှင်ရာပြတ်သည် အကြံပေးတော်မူပါ''ဟု တောင်းပန်၏။ ထိုအခါ ဘုရားအလောင်း ရာပြတ်ကလည်း ''အမောင်–ယခုရာပြတ်သည် လာဘ်ကို အလိုရှိ၏။ စုံမက် လောက်သော ဥစ္စာကိုပေး၍ မင်းရင်ပြင်သို့ ရောက်သောအခါ ဤဗာရာဏသီပြည်ကို အဖိုးပြတ်ဆိုပါဟု မေးလော့။ ထိုအခါ စိတ်ထင်ရာဆိုလိမ့်မည်''ဟု သင်လိုက်၏။ မြင်းကုန်သည် ယောက်ျားလည်း ဘုရားလောင်းသင်လိုက်သည့်အတိုင်း ထိုလောလဗာလ ရာပြတ်အိမ်သို့သွား၍ ပဏ္ဏာကာရ ပေးပြီးလျှင် ''အရှင်ရာပြတ်မင်း၊ မင်းရင်ပြင်၌ ကျွန်ုပ်မေးသောအခါ ဤ ဗာရာဏသီပြည်ကို အဖိုးပြတ်ဆိုနိုင်ပါကုန်လောဟု မေး၏။ ငါအဖိုးဆိုနိုင်၏ဟု ဝန်ခံလျှင် ဆိုတော်မူပါ၊ ကျွန်ုပ်မေးပါမည်''ဟု မှာထား၍ တစ်နေ့သ၌ မင်း၏ရှေ့တွင် စည်းဝေးကြလေသော် မြင်းကုန်သည်က ဤသို့မေး၏ ''အရှင်ရာပြတ်၊ ကျွန်ုပ်တွင် ပါသော မြင်းငါးရာကို တန်ရာအဖိုးနှင့် ရောင်းရပေပြီ။ ဤဗာရာဏသီပြည်၏ အဖိုးကို ကျွန်ုပ်သိလိုပါသည် ပြတ်ဆိုတော်မူပါ''ဟု တောင်းပန်၏။ ထိုအခါ လောလဗာလရာပြတ်ကလည်း ''ထီးနန်း အဆောက်အဦ ဗိုလ်လူသင်းပင်း မင်းနှင့်တကွ ယူဇနာတစ်ရာ့နှစ်ဆယ်ဝန်းလျားကျယ်သော ဤဗာရာဏသီပြည်သည် ဆန်တစ်ကွမ်းစား အဖိုးတန်သည်'' ဟု ဆိုပေ၏။ ထိုအခါ ဥတ္တရာပထ တိုင်းသားကလည်း ''အရှင်မင်းကြီး အကျွန်ုပ် ဤပြည်ကို ဝယ်လိုပါသည်။ မင်းကြီးရောင်းပါ''ဟု ဆို၏။ ထိုစကားကို ကြားသောအခါ ညီလာခံသဘင်၌ နေကုန်သော မှူးမတ် ပရိသတ်အပေါင်းတို့က ''ငါတို့သည် ရှေးရှေးကာလကမင်းသည် လည်းကောင်း၊ ပြည်သည်လည်းကောင်း အဖိုးအနန္တဖြစ်သည်ဟု ကြားဖူးပါသည်။ ယခု ရာပြတ်မင်းလက်ထက်မှ ဆန်တစ်ကွမ်းစား ထိုက်ကြောင်းကို သိရပေတော့သည်။ အလွန်အံ့ဖွယ်ရှိသော ပဏ္ဍိတယောက်ျားပေ''ဟု လက်ခုပ် လက်ဝါးတီး၍ ပြက်ရယ်ပြုကြကုန်၏။ ထိုအခါ ဗာရာဏသီမင်းသည်

အလွန်ရှက်စွာလျက် မျက်နှာကို အောက်ချ၍ လောလဗာလရာပြတ်ကို အရာမှ နုတ်သိမ်းလျက် အထက်ရာပြတ်ဟောင်းကို ပြတ်ဆိုစေရပြန်သတည်း။

ဤသို့စသည်ဖြင့် ကေနိပါတ် တဏ္ဍုလနာဠိဇာတ်၌ လာသောကြောင့် မြင်းငါးရာကို ဆန်တစ်ကွမ်းစားတန်၏ဟု ပြတ်သောသူသည် ဗာရာဏသီ ဗြဟ္မဒတ် မင်း၏ ရာပြတ်ဟု သိရာသည်။

❖❖❖❖❖

၆၂၈။ စကြာမင်းမွန်၊ ဖြစ်လေလွန်၊ ကျွန်ပင်ထင်၏ မည်သူနည်း။(၉၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**မာတုဂါမောနာမ စက္ကဝတ္တိရာဇာနံပိ အတ္တနိ ပဋိဗဒ္ဓစိတ္တံ ဉတွာ ဒါသံဝိယ သလ္လက္ခေသိ။**

မာတုဂါမောနာမ၊ မာတုဂါမတို့သည်ကား။ စက္ကဝတ္တိရာဇာနံပိ၊ စကြဝတေး မင်းကိုသော်လည်း။ အတ္တနိ၊ မိမိ၌။ ပဋိဗဒ္ဓစိတ္တံ၊ ချစ်ခင်စုံမက် ကြိုက်နှစ်သက်သော စိတ်ရှိသည်ကို။ ဉတွာ၊ သိသည်ရှိသော်။ ဒါသံဝိယ၊ ကျွန်ကဲ့သို့။ သလ္လက္ခေသိ၊ ထင်မှတ်တတ်၏။

ဤသို့ သမ္မောဟဝိနောဒနီ အဋ္ဌကထာ၌လာသည်။ ထို့ကြောင့် ကဗျာဆရာ တို့လည်း–

> မင်းမိန်းမတို့ မာနမည်သည်၊ မိမိဆည်၌၊ ချစ်ရည်စွန်းငြိ၊ ကြင်မှန်းသိက၊ ပြည်ကြီးသေဌ်နင်း၊ စကြာမင်းကို၊ အိမ်တွင်းကျွန်သွင်၊ အမှတ်ထင်၏–ဟု စပ်သည်။

❖❖❖❖❖

၆၂၉။ ငှက်ရေသောက်ပြန်၊ ဝေကန်၊ ရေပြန်ဘယ့်ကြောင့် မရှိသနည်း။(၉၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ငှက်ရေသောက်သော်လည်း ခန္ဓာကိုယ်ကို ထောက်ပံ့ရုံသာ အနည်းငယ် သောက်သည်ဖြစ်၍ ရေပြန်မဖြစ်လောက်သောကြောင့် ရေပြန်မရှိဟူပေ။

ဘယ်ကဲ့သို့နည်းဟူမူ–ကမ္ဘာဦးသားတို့သည် ထောပတ်ဃနာနှင့်တူသော မြေဆီကို စားသောက်သောအခါ၌လည်းကောင်း, မှိုဖူး, မှိုငုံ,နှင့်တူသော မြေလွှာကို စားသောအခါ၌ လည်းကောင်း, ပတာလတာနွယ်ကို စားသောအခါ၌လည်းကောင်း ကျင်းကြီး ကျင်ငယ် တို့သည် မဖြစ်ကုန်။ သလေးဆန်ကို စားသောအခါမှ ကျင်ကြီး ကျင်ငယ်ဖြစ်၍ ထိုကျင်ကြီး ကျင်ငယ်တို့၏ ထွက်ရာ ဒွါရတို့သည် ဖြစ်ရကုန် သကဲ့သို့တည်း။

❖❖❖❖❖

၆၃၀။ ဂေါနွားဆိုဟန်၊ ဘာသာပြန်၊ ကေန်အနက် အဘယ်နည်း။(၉၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဂေါ–ဟူသော မာဂဓသဒ္ဒါ။ နွား–ဟူသော မြန်မာသဒ္ဒါနှစ်ပါးသည် နွား၏ ခန္ဓာပဋ္ဌကကို ဟောသော သဒ္ဒပညတ်ချည်းဖြစ်၍ နွား၏ခန္ဓာကိုယ် တည်းဟူသော ဒြပ်သာလျှင် အနက်ဖြစ်သည်ဟူပေ။

❖❖❖❖❖

၆၃၁။ ဝက်စွယ်ရပ်ဌာန်၊ ဖြစ်ရိုးမှန်၊ ထွက်ဟန်ပုလဲ မည်သို့နည်း။(၁၀၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အထက်က ပုလဲမျိုးကို ပြရာ၌ အပြည့်အစုံ အဖြေပါပြီဖြစ်၍ ဆိုင်ရာကို ကြည့်လိုမူ ဖြေခဲ့ပြီး အဲကာရန်ပုစ္ဆာနံပါတ် ၁၉၈–၁၉၉–၂၀၀ အဖြေတို့၌ ကြည့်ကြပါလေ။

❖❖❖❖❖

၆၃၂။ အဒိန္နဒါန်၊ ကျင့်ကျူးလွန်၊ ပြုဟန် ဘယ်အာရုံသို့နည်း။(၁၀၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အဒိန္နာဒါနံ သတ္တာရမ္မဏံ သင်္ခါရာရမ္မဏံ ဝါ။**

ဟူ၍ ခုဒ္ဒကပါဌအဋ္ဌကထာ မိန့်ရကား တစ်ပါးသော သတ္တဝါတိုင်းကို လည်းကောင်း, ဘဏ္ဍာအစုစုဟူသော သင်္ခါရကိုလည်းကောင်း အာရုံပြု၏။

❖❖❖❖❖

၆၃၃။ မြေကြီးလှုပ်ရန်၊ရှစ်ပါးလွန်၊ချန်၍ဘယ့်ကြောင့် ဟောသနည်း။(၁၀၂)

ဟူသော အမေးပုစ္ဆာ၌ လိုရင်းကိုသာ မဖြေဘဲအကြောင်းနှင့်တကွ ပြလိုက်ဦးအံ့–

**ဝါယော ဓာတုပ္ပကောပေန, ဣဒ္ဓိမတော, ဣဒ္ဓိဝိကုဗ္ဗနေ, ဗောဓိ သတ္တဿ မာတုကုစ္ဆိယံ ဩက္ကမနေ, နိက္ခမနေ, အဘိသမ္ဗောဓိယံ, ဓမ္မစက္ကပ္ပ ဝတ္တနေ, အာယုသင်္ခါရ ဝေါဿဇ္ဇနေ, ပရိနိဗ္ဗာနေတိ ဣမေဟိ အဋ္ဌဟိ ကာရဏေဟိ မဟာဘူမိစာလော ဟောတိ။**

ဟူ၍ မဟာပရိနိဗ္ဗာနသုတ်၌ ဟောတော်မူသည်ကို သာရတ္ထသင်္ဂဟ၌ ထုတ်ပြသည်။

မြန်မာဘာသာကား။ ။ မြေရေကို ခံသောလေဓာတ် လှုပ်ရှားခြင်းတည်း ဟူသော ဝါယောဓာတ် ပျက်သဖြင့်လည်းကောင်း, တန်းခိုးကြီးသောသူ၏ တန်ခိုးဖန်ဆင်းခြင်းကြောင့်လည်းကောင်း၊ ဘုရားလောင်းတို့ မယ်တော်၏ဝမ်း၌ ပဋိသန္ဓေ

ယူသောကြောင့် လည်းကောင်း၊ ဖွားတော်မူသောကြောင့် လည်းကောင်း၊ ဘုရားဖြစ်တော်မူသောကြောင့် လည်းကောင်း၊ ဓမ္မစကြာတရားကို ဟောတော်မူသောကြောင့် လည်းကောင်း၊ အာယုသင်္ခါရ လွှတ်တော်မူသောကြောင့်လည်းကောင်း၊ ပရိနိဗ္ဗာန်ပြုတော်မူသောကြောင့် လည်းကောင်း၊ ဤရှစ်ပါးသော အကြောင်းတို့ကြောင့် မြေလှုပ်ခြင်းသည် ဖြစ်၏။

ထိုရှစ်ပါးတို့တွင် ပဌမအကြောင်းသည် ဥတုပျက်ခြင်းကြောင့် ဓာတ်ဖောက်ပြန်၍လှုပ်၏။ ဒုတိယအကြောင်းသည် တန်ခိုးအာနုဘော်ကြောင့် လှုပ်၏။ တတိယအကြောင်း၊ စတုတ္ထအကြောင်းတို့ကား ကုသိုလ်ကံ၏ တန်ခိုးကြောင့် လှုပ်၏။ ပဉ္စမအကြောင်းကား ဉာဏ်၏ တန်ခိုးကြောင့် လှုပ်၏။ ဆဋ္ဌမအကြောင်းကား ကောင်းချီးပေးသဖြင့် လှုပ်၏။ သတ္တမအကြောင်းကား သနားသည်၏ အဖြစ်ဖြင့် လှုပ်၏။ အဋ္ဌမအကြောင်းကား ငိုကြွေးသော အကြောင်းဖြင့် လှုပ်၏။

အယံ မဟာပထဝီ၊ ဤမြေကြီးသည်။ အပရေသုပိ၊ ဤရှစ်ပါးမှ တစ်ပါးလည်း ဖြစ်ကုန်သော။ အဋ္ဌသု ကာရဏေသု၊ ရှစ်ပါးသော အကြောင်းတို့ကြောင့်။ ကမ္ပိတ္ထ၊ တုန်လှုပ်၏။ မဟာဘိနိက္ခမနေစ၊ တောထွက်တော်မူသောအခါ၌ လည်းကောင်း။ ဗောဓိမဏ္ဍုပသင်္ကမနေစ၊ ဗောဓိမဏ္ဍိုင်သို့ ကပ်သောအခါ၌လည်းကောင်း။ ပံသုကူလဂ္ဂဟဏေစ၊ ပံသုကူသင်္ကန်းကောက်သောအခါ၌လည်းကောင်း။ ပံသုကူလဓောဝနေစ၊ ပံသုကူသင်္ကန်း လျှော်ဖွပ်သောအခါ၌ လည်းကောင်း၊ ကာဠကာရာမသုတ္တေစ၊ ကာဠကာရာမသုတ်ကို ဟောတော်မူသောအခါ၌လည်းကောင်း။ ဂေါတမသုတ္တေစ၊ ဂေါတမသုတ်ကို ဟောသောအခါ၌လည်းကောင်း။ ဝေဿန္တရဇာတကေစ၊ ဝေဿန္တရ ဇာတ်ကိုဟောသော အခါ၌လည်းကောင်း။ ဗြဟ္မဇာလေစ၊ ဗြဟ္မဇာလသုတ်ကို ဟောသောအခါ၌ လည်းကောင်း။ ဣတိဣမေသု အဋ္ဌသုဌာနေသု၊ ဤရှစ်ပါးသောအရာတို့၌။ ကမ္ပိတ္ထ၊ တုန်လှုပ်ပြီ။ [ငုင်းသာရတ္ထသင်္ဂဟ]။

မနုဿလောကေ၊ လူ့ပြည်၌။ ဘုဉ္ဇမာနာနံ၊ စည်းစိမ်ချမ်းသာကို ခံစားကုန်သော။ မဟာပုညာနံ၊ ကြီးသောဘုန်းရှိကုန်သော။ ရာဇရာဇမဟာမတ္တာဒီနံ၊ မင်း, မင်း၏အမတ် အစရှိကုန်သောသူတို့အား။ ပညာယမာနာနိ၊ ထင်လတ်ကုန်သော။ ဥက္ကာပါတဘူမိစာလ စန္ဒဂ္ဂါဟာဒီနိ၊ ဥက္ကာပျံခြင်း, မြေလှုပ်ခြင်း, လကြတ်ခြင်း အစရှိကုန်သော။ နိမိတ္တာနိ၊ နိမိတ်တို့သည်။ သိယုံ၊ ဖြစ်ကုန်၏။ ဣတိ၊ ဤသို့။ မဟာပဒါန သုတ္တဝဏ္ဏနာဒီသု၊ မဟာပဒါနသုတ် အဋ္ဌကထာ အစရှိသည်တို့၌။ ဝိသုံ၊ အသီး။ ဝုတ္တတ္တာ၊ ဆိုအပ်သည်၏ အဖြစ်ကြောင့်။ ဣတော၊ ဤဆိုအပ်ခဲ့ပြီးသော အကြောင်းရှစ်ပါးမှ။ အညေသုပိ၊ တစ်ပါးလည်းဖြစ်ကုန်သော။ ကာရဏေသု၊ အကြောင်းတို့ကြောင့်။ ပဒေသပထဝီကမ္ပနဥ္စ၊ တစ်စိတ်တစ်ဒေသ၊ မြေလှုပ်ခြင်းသည် လည်းကောင်း။ မဟာပထဝီကမ္ပနဥ္စ၊ များစွာသော မြေလှုပ်ခြင်းသည်လည်းကောင်း။ ဟောတိ၊ ဖြစ်၏။ ဣတိဝေဝံ၊ ဤသို့။ အနေကေသု၊ များစွာကုန်သော။ ပထဝီ

ကမ္မနကာရဏောသု၊ မြေလှုပ်ခြင်း၏အကြောင်းတို့သည်။ ဝိဇ္ဇမာနေသု၊ ထင်ရှားကုန်လျက်။ ကိမတ္ထံ၊ အဘယ်အကျိုးငှာ။ ဘဂဝတာ၊ မြတ်စွာ ဘုရားသည်။ အဋ္ဌေဝ၊ ရှစ်ပါးသာလျှင် ဖြစ်ကုန်သော။ ပထဝီကမ္မနကာရဏာ၊ မြေလှုပ်ခြင်း၏ အကြောင်းတို့ကို။ ဝုတ္တာ၊ ဟောတော်မူအပ်သနည်း။ ကတိအယံ၊ ဤသည်ကား။ ပုစ္ဆာ၊ အမေးတည်း။ တေသံယေဝ၊ ထိုရှစ်ပါးသော မြေလှုပ်ခြင်းတို့၏ သာလျှင်။ နိယမတ္ထာ၊ မြဲသည်၏အဖြစ်ကြောင့်။ ဝုတ္တာ၊ ဟောတော်မူအပ်ကုန်၏။ သေသာနံ၊ ရှစ်ပါးမှ ကြွင်းကုန်သော မြေလှုပ်ခြင်းတို့၏။ အနိယမတ္တာ၊ မမြဲသည်၏ အဖြစ်ကြောင့်။ နဝုတ္တာ၊ မဟောအပ်။ ကတိ၊ ဤသို့။ ဝိဿဇ္ဇေတဗ္ဗော၊ ဖြေအပ်၏။

ဝါယုမာတုကောပန, ကတ္တိဝိကုဇ္ဇန အစရှိသော အကြောင်းရှစ်ပါးတို့ကြောင့် မြေလှုပ်ခြင်းကား အမြဲအားဖြင့် အမှန်ဖြစ်သည်။ ဤမှတစ်ပါးသော အကြောင်းတို့ကြောင့် လှုပ်ခြင်းကား အမြဲမဟုတ်သောကြောင့် အလွန်ကိုချန်၍ ဟော၏ဟူလိုသည်။

❖❖❖❖❖

## ၆၃၄။ ပစ္စယုပ္ပန်၊ ဟေတုမှန်၊ ဟောရန် ဘယ်မျှရှိသနည်း။(၁၀၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဟေတုပစ္စည်း၏ ပစ္စယုဒ္ဓေသ၌ သရုပ်တို့သည် ပစ္စည်း, ပစ္စယုပ္ပန်အားဖြင့် နှစ်ပါး အပြားရှိ၏။ ထိုနှစ်ပါးတို့တွင် လောဘ, ဒေါသ, မောဟ, အလောဘ, အဒေါသ, အမောဟ ဤဟိတ်ခြောက်ပါးတို့သည် ဟေတုပစ္စည်းတပ်သော တရားမည်ကုန်၏။ သဟိတ်စိတ် ကေသတ္တတိ၊ မောဟမူဒွေး၌ မောဟကြဉ်သော စေတသိက် ဒွေပညာသ၊ သဟိတ် စိတ္တဇရုပ်၊ သဟိတ်ပဋိသန္ဓေ ကမ္မဇရုပ် ဤတရားတို့သည် ဟေတုပစ္စည်း၏ ပစ္စယုပ္ပန်ဖြစ်သော တရားမည်ကုန်၏ ဟူ၍ ပဋ္ဌာန်းရာသီစု၌ လာသဖြင့် သိရာ၏ ဟူပေ။

❖❖❖❖❖

## ၆၃၅။ နှာခေါင်းပြတ်မှန်၊ချိပ်ဆက်ပြန်၊လူတန် ဘယ်မင်းအမတ်နည်း။(၁၀၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်အမည်ရှိသော မင်းကြီးသည် မင်းမူသတည်း။ ထိုအခါ မင်း၏အထံ၌ တစ်ယောက်သော ပုဏ္ဏားသည် မင်းအား ပန်းပဲတို့က ဆက်လာသော သန်လျက်၏ ကောင်းမကောင်းသော လက္ခဏာကို ကြည့်ရှုကာ ဖတ်ဆိုရသတည်း။ ထိုပုဏ္ဏားလည်း ဆောင်လာသမျှသော သန်လျက်ကို နှာခေါင်းဖြင့် နမ်း၍ "ဤသန်လျက်ကား သံကောင်း၏။ မင်္ဂလာရှိ၏။ ဤသန်လျက်ကား သံမကောင်း။ မင်္ဂလာမရှိ" ဟူ၍ ဖတ်ဆို၏။ ထိုပုဏ္ဏားသည် စဉ်းလဲသော သဘော ရှိရကား အကြင်သူတို့၏လက်မှ တံစိုးလက်ဆောင်ကိုရအံ့။ ထိုသူတို့၏သန်လျက်ကို

ကောင်းသည် ဟု ဆို၏။ အကြင်သူ၏လက်မှ တံစိုးကိုမရအံ့။ ထိုသူ၏ သန်လျက်ကို မကောင်းဟု ကဲ့ရဲ့၏။

တစ်ရံသောအခါ ပန်ပဲတစ်ဦးသည် သန်လျက်ကို ထက်စွာလုပ်၍ ရေတ်မှုန့်ညက်တို့ကို လိမ်းကျံပြီးလျှင် သန်လျက်အိမ်၌ သွင်း၍ မင်း၏ထံသို့ ဆောင်လေသော် မင်းလည်း ထိုပုဏ္ဏားကိုခေါ်၍ ကောင်းမကောင်းကို စူးစမ်းလော့ဟု ဆို၏။ ပုဏ္ဏားလည်း သန်လျက်ကို အိမ်မှထုတ်ပြီးလျှင် အသွားကို နမ်းလေသော် ထို၌ကပ်သော ငရုတ်မှုန့်တို့သည် နှာခေါင်းသို့ဝင်၍ ထက်ဝန်းကျင်သော ကိုယ်လှုပ်လျက် ချေလတ်ရကား နှာခေါင်းသို့ သန်လျက်သွားဖြင့် ထိ၍ ပြတ်လေ၏။ မင်းကြီးလည်း ဆေးသမားတို့ကို ခေါ်၍ ကုသသဖြင့် အနာပျောက်ပါသော်လည်း နှာခေါင်းပိမ့်လျက် နေရကား နောင်မင်းပွဲသဘင်သို့ ဝင်သောအခါ ချိပ်ကိုနှာခေါင်းပုံလုပ်၍ ဆက်စပ်ပြီး ဝင်ရ၏။

ဤသို့ ကေနိပါတ် အသိလက္ခဏဇာတ်၌ လာသည်ကိုရည်၍ ပုစ္ဆာပြုရကား ဗာရာဏသီပြည့်ရှင်ဗြဟ္မဒတ်မင်း၏ အမတ်ဟူပေ၏။

❖❖❖❖❖

## ၆၃၆။ မမြင်ကျိုးကျွန်၊ လက်ညှိုးညွှန်၊ လူလွန် ဘယ်ပုဏ္ဏားနည်း။(၁၀၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

စူဠနီဗြဟ္မဒတ်မင်းကြီးသည် ထီးဆောင်းမင်းတို့နှင့်တကွ မိဓိလာပြည်ကို ရံသော အခါ မဟောသဓာက စေလွှတ်အပ်သော အနုကေဝဋ္ဋပုဏ္ဏား ဟူပေ၏။

[ထိုပုဏ္ဏား၏ လက်ညှိုးညွှန်ဟန်ကို မဟော်ဇာတ်တော်၌ ထင်ရှားပြီ။]

❖❖❖❖❖

## ၆၃၇။ နှစ်ဆယ့်ငါးတန်၊ ခိုးခြင်းမှန်၊ ခိုးဟန်မည်သို့ မည်သို့နည်း။(၁၀၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အဒိန္နာဒါနသိက္ခာပုဒ်၌ ဟောတော်မူသော ခိုးခြင်းအပြား နှစ်ဆယ့်ငါးပါး ဟူသော်ကား–

နာနာဘဏ္ဍပဉ္စက
ကေဘဏ္ဍပဉ္စက
သာဟတ္ထိကပဉ္စက
ပုဗ္ဗပယောဂပဉ္စက
ထေယျာဝဟာရပဉ္စက

ဟူ၍ ပဉ္စကအားဖြင့် ငါးပါးအပြားရှိ၏။

ထိုတွင် နာနာဘဏ္ဍာပဉ္စက ဟူသော်ကား–အာဒိယေယျ၊ ဥယျာဉ် အာရာမ် ကျောင်းကန်လယ်ယာ အစရှိသည်ကို တရားဆင်၍ ယူခြင်းလည်းကောင်း။ ဟရေယျ၊ မိမိဆောင်ခဲ့သော သူ၏ဥစ္စာကို ယူခြင်းလည်းကောင်း။ အဝဟရေယျ၊ မိမိထံ၌ နှံထားသော ဥစ္စာကို ယူခြင်းလည်းကောင်း။ ဣရိယာပထ ဝိကောပေယျ၊ ဣရိယာ ပုတ်ကို ပျက်စေ၍ ယူခြင်းလည်းကောင်း။ ဌာနာစာဝေယျ၊ တည်ရာမှရွေ့စေ၍ ယူခြင်း လည်းကောင်း။ ဣမေ၊ ဤငါးပါးတို့သည်၊ နာနာဘဏ္ဍ ပဉ္စကံ၊ အဝိညာဏက, သဝိ ညာဏက ရောထယှက်ပူး အထူးထူးသော ဘဏ္ဍာကိုယူရာ ငါးပါးအပေါင်းတို့တည်း။

ကေဘဏ္ဍပဉ္စက ဟူသော်ကား–အာဒိယေယျ၊ သူ့ကျွန်, သူ့နွား, သူ့မယားကို တရားဆင်၍ ယူခြင်းလည်းကောင်း။ ဟရေယျ၊ မိမိဆောင်ခဲ့သော ကျွန်, နွားစသည်ကို ယူခြင်းလည်းကောင်း။ အဝဟရေယျ၊ မိမိထံ၌ နှံထားသော ကျွန်, နွား စသည်ကို ယူခြင်းလည်းကောင်း။ ဣရိယာပထဝိကောပေယျ၊ ဣရိယာပုတ်ကို ပျက်စေ၍ ယူခြင်းလည်းကောင်း။ ဌာနာစာဝေယျ၊ ထားရာမှ ရွေ့စေ၍ ယူခြင်းလည်းကောင်း။ ဣမေ၊ ဤငါးပါး အပေါင်းတို့သည်၊ ကေဘဏ္ဍပဉ္စကံ၊ သဝိညာဏကဘဏ္ဍာကိုယူရာ အပြား ငါးပါး အပေါင်းတို့တည်း။

သာဟတ္ထိကပဉ္စက ဟူသော်ကား– သာဟတ္ထိကော၊ မိမိကိုယ်တိုင်ခိုးခြင်း လည်းကောင်း။ အာဏတ္တိကော၊ သူ့ကိုခိုးချေစေ၍ ခိုးခြင်းလည်းကောင်း။ နိဿဂ္ဂိယော၊ လွှတ်လိုက်သော ဝတ္ထုဖြင့် ခိုးခြင်းလည်းကောင်း။ အတ္ထသာဓကော၊ မခိုးမီက ကံမြောက် ရခြင်းတည်းဟူသော အကျိုးကို ပြီးစေတတ်သော ခိုးခြင်းလည်းကောင်း။ ဓုရနိက္ခေပေါ၊ ဝန်ချ၍ ခိုးခြင်းလည်းကောင်း။ ဣမေ၊ ဤငါးပါးတို့သည်၊ သာဟတ္ထိက ပဉ္စကံ၊ သာဟတ္ထိကပဉ္စက မည်၏။

ပုဗ္ဗပယောဂပဉ္စက ဟူသော်ကား– ပုဗ္ဗပယောဂေါ၊ သူ့ကိုစေရာ ရှေးအခါက ဖြစ်သော ခိုးခြင်းလည်းကောင်း။ သဟပယောဂေါ၊ တံသင်းကျောက်တိုင်ကို ပြောင်းသည်နှင့် တကွဖြစ်သော ခိုးခြင်းလည်းကောင်း။ သံဝိဓာဝဟာရော၊ ညီညွတ်တိုင် ပင်၍ ခိုးခြင်းလည်းကောင်း။ သင်္ကေတကမ္မံ၊ ချိန်းချက်သော အမှုကိုပြု၍ ခိုးခြင်း လည်းကောင်း။ နိမိတ္တကမ္မံ၊ မျက်မှောက်ချီခြင်း၊ လက်ပြခြင်းတို့ကိုပြု၍ ခိုးခြင်းလည်း ကောင်း။ ဣမေ၊ ဤငါးပါးတို့သည်၊ ပုဗ္ဗပယောဂပဉ္စကံ၊ ပုဗ္ဗပယောဂ ပဉ္စက မည်၏။

ထေယျာဝဟာရပဉ္စက ဟူသော်ကား– ထေယျာဝဟာရော၊ ချိန်စဉ်းလဲ, တင်းစဉ်းလဲ သပြာစဉ်းလဲ စသည်ဖြင့် ခိုးခြင်းလည်းကောင်း။ ပသယှာဝဟာရော၊ အနိုင်အထက် နှိပ်စက်ဖိစီး၍ ယူခြင်းလည်းကောင်း။ ပရိကပ္ပါဝဟာရော၊ ဥစ္စာ, အရပ်ကို ကြံစည်၍ ခိုးယူခြင်း လည်းကောင်း။ ပဋိစ္ဆန္နာဝဟာရော၊ မြက် သစ်ရွက် စသည်ဖြင့် ဖုံးလွှမ်း၍ ခိုးခြင်း လည်းကောင်း။ ကုသာဝဟာရော၊ ကမ္ပည်းတံ ပြောင်း၍ ခိုးခြင်း လည်းကောင်း။ ဣမေ၊ ဤငါးပါးတို့သည်၊ ထေယျာဝဟာရပဉ္စကံ၊ ထေယျာဝဟာရပဉ္စက မည်၏။

ဤသို့ ဝိနည်း အဋ္ဌကထာ လာသည်ကိုမှီ၍ အဒိန္နာဒါန်နှစ်ဆယ့် ငါးပါး အပြားကို သိအပ်၏။ အကျယ်ကိုကား သမန္တပါသာဒိက အမည်ရသော ပါရာဇိကကဏ် အဋ္ဌကထာ၌ ထင်ရှားစွာရှိပြီ။ ဤ၌ကား အမျိုးကောင်းသားတို့ ဆောင်ရွက်လွယ်ရုံသာ အကျဉ်းရေးလိုက်သည်။

❖❖❖❖❖

၆၃၈။ ဗိန္ဒုထိုးရန်၊ သင်္ကန်းစွန်၊ ထွာချန်ဆို၏ ကျမ်းလာနည်း။(၁၀၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ကပ္ပဗိန္ဒုကို သင်္ကန်းအနားမှ တစ်ထွာချန်၍ ထိုးရမည်''ဟု ဝိနည်း အဋ္ဌကထာ ဋီကာကျမ်းတို့၌ လာသည်ကို မတွေ့စဖူး၊ နံ့စံရေးသော ဆရာတို့ ရေးသည်ကိုသာ တွေ့ဖူးသည်။ ၎င်းကပ္ပဗိန္ဒု ထိုးဟန်ကို ပါစိတ် အဋ္ဌကထာ၌–

**တဥ္စ ပန ကပ္ပံ အာဒိယန္တေန စီဝရံ ရဇိတ္ဝာ စတူသု ဝါ ကောဏေသု တီသု ဝါ ဒွီသု ဝါ ဧကသ္မိံ ဝါ ကောဏေ မောရဿ အက္ခိ မဏ္ဍလ မတ္တံ ဝါ မင်္ကုလပိဋ္ဌိမတ္တံ ဝါ အာဒါတဗ္ဗံ။ မဟာပစ္စရိယံ ပတ္တေ ဝါ ဂဏ္ဌိယံ ဝါ န ဝဋ္ဋတီတိ ဝုတ္တံ။ မဟာအဋ္ဌကထာယံ ပန ဝဋ္ဋတိ ယေဝါတိ ဝုတ္တံ–ဟူ၍ မိန့်တော်မူသည်။**

တဥ္စ ပန ကပ္ပံ၊ ထိုကပ္ပဗိန္ဒုကိုလည်း။ အာဒိယန္တေန၊ ယူလိုသော ရဟန်းသည်။ စီဝရံ၊ သင်္ကန်းကို။ ရဇိတ္ဝာ၊ ဆိုးပြီး၍။ စတူသု ဝါကောဏေသု၊ လေးထောင့်တို့၌ လည်းကောင်း။ တီသု ဝါ ကောဏေသု၊ သုံးထောင့်တို့၌လည်းကောင်း။ ဒွီသု ဝါ ကောဏေသု၊ နှစ်ထောင့်တို့၌လည်းကောင်း။ ဧကသ္မိံ ဝါ ကောဏေ၊ တစ်ခုသော ထောင့်၌ လည်းကောင်း။ မောရဿ၊ ဥဒေါင်း၏။ အက္ခိမဏ္ဍလမတ္တံ ဝါ၊ မျက်စိ အဝန်းမျှလောက် လည်းကောင်း။ မင်္ကုလပိဋ္ဌိ မတ္တံ ဝါ၊ ကြမ်းပိုး ကျောက်ကုန်းမျှလောက် လည်းကောင်း။ အာဒါတဗ္ဗံ၊ ယူအပ်၏။ မဟာပစ္စရိယံ၊ မဟာပစ္စရိက် အဋ္ဌကထာ၌။ ပတ္တေ ဝါ၊ အနားပတ်ထက်၌ လည်းကောင်း။ ဂဏ္ဌိယံ ဝါ၊ ခါးပတ်အိမ်၌ လည်းကောင်း။ န ဝဋ္ဋ တီတိ၊ မထိုးအပ် ဟူ၍။ ဝုတ္တံ၊ မိန့်အပ်၏။ မဟာအဋ္ဌကထာယံ ပန၊ မဟာ အဋ္ဌကထာ၌ကား။ ဝဋ္ဋတိယေဝ၊ ထိုးအပ်သည်သာ။ ဣတိ ဝုတ္တံ၊ ဤသို့ဆို၏။

ကင်္ခါစသည်တို့၌လည်း ၎င်းနည်းတူပင် လာသည်။ သာရတ္ထဒီပနီ၊ ဝဇိရဗုဒ္ဓိ, ဝိမတိဋီကာတို့၌လည်း အထူးမဖွင့်ကြချေ။ ထို့ကြောင့် ကျမ်းလာပင်ဟု မဆိုနိုင်။ အာစရိယဝါဒပင် ဖြစ်သော်လည်း သင့်တင့်က ယူရမြဲဖြစ်သည်ဟူပေ။

❖❖❖❖❖

### ၆၃၉။ ဝန်တိုရိုးမှန်၊ ငြူစူပြန် ပဒဋ္ဌာန်ရင်း ဘယ်သို့နည်း။(၁၀၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဝန်တိုခြင်း ဟူသော မစ္ဆရိယ၏ ပဒဋ္ဌာန်ကား–အတ္တသမ္ပတ္တိ ပဒဋ္ဌာန်၊ မိမိ စည်းစိမ်လျှင် နီးစွာသော အကြောင်းရှိ၏။ ငြူစူခြင်း ဟူသော ဣဿ၏ ပဒဋ္ဌာန်ကား–ပရသမ္ပတ္တိပဒဋ္ဌာန် သူတစ်ပါး၏ စည်းစိမ်လျှင် နီးစွာသော အကြောင်းရှိ၏။

❖❖❖❖❖

### ၆၄၀။ ဘေးဘျမ်းကင်းရန်၊ သစ်လဲဟန်၊ ကျမ်းဂန် မည်သို့လာသနည်း။(၁၀၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဆဋ္ဌဘိညာ၊ တာပသတို့၊ လောကဉ္ဈ၍ရှာ၊ လူဗိုလ်ပါအား၊ ချမ်းသာဖို့လမ်း၊ သစ်လဲကျမ်းကို၊ ခွဲခြမ်းညွှန်ခဲ့သည်ကား၊ နေ့ခုနစ်မည်၊ ရှိသည့်အနက်၊ ရှေးဦး တနင်္ဂနွေအိမ်ဆောက်ချက်၊ ဖြိုးဝေ မြိုင်မြိုင်၊ ဦးရှုတိုင်၏၊ ဖူးခိုင်ညွှန့်ညှောက်၊ စရွေး အောက်တွင်၊ ထွာလောက်ရပ်ကွက်၊ ထိုအချက်တွင်၊ ခေါင်းသက်မျက်သေ၊ ရှိမြဲပေဟု၊ ထုတ်ဖော်ကျမ်းဆို မြွက်၏။ စည်းစိမ် အသက်အန္တရာယ်၊ ပယ်လော့ချင့်ကို၊ မပယ်လိုမူ၊ ထိုဦးရှုအား၊ ရှေ့မြောက်ပါးက၊ ထားသည့်သစ်၌၊ လဲလှယ်စိုက်မူ၊ ဖိုးထိုက်ရတနာ၊ လာဘ်ဖြိုးစွာနှင့်၊ ချမ်းသာဖြိုးမောက်ကယ်လိမ့်။

တနင်္လာဝယ် အိမ်ဆောက်ဘိ၊ တိုင်အနောက်မြောက်၊ ယက်မအောက်တွင်၊ ကြောက်ဖွယ့်မျက်ဆွေး၊ အပြစ်ပေး၍၊ သားမြေးသေစစ် ရှိ၏။ ပယ်လိုဘိက၊ ပယ်ပါစေ၊ မပယ်ချင်လည်း၊ သို့စင်ပါပ၊ တိုင့်နှယ်မျှကို၊ ဒေါသထုတ်ကာ၊ ယတြာကို၊ ကောင်းစွာ လုပ်ဆောင်၊ အရှေ့တောင်က၊ စိုက်ထောင်သန့်ရှင်း၊ သစ်များမင်းနှင့်၊ တိုင်ချင်း လဲပြောင်း၊ စိုက်တုံရှောင်းက၊ ခြေလေးချောင်းမြတ်၊ ရမချွတ်သည်၊ ဥပဒ် ပျောက်ပျက် ပြေလိမ့်။

ဘောမဝါရေ အိမ်ဆောက်လေ၊ မြောက်သစ်စင်က၊ အလယ်ကျနှင့်၊ ယက် မအောက်နား၊ မထင်ရှားဖူး၊ ပိုးမွှားပုရွက်၊ ဝင်ထွက်လောက်ရုံ၊ မှေးမှုန်မှုန်သည်၊ အမြဲခေါင်းသက်တွေ့လိမ့်၊ ငယ်သည်ဟူ၍ မပေါ့လင့်၊ ကျွဲနွားဆင်မြင်း၊ သေပျောက် ယွင်းလိမ့်၊ ချက်ချင်း ပယ်ဖြုတ်၊ သို့မဟုတ်ဘဲ၊ မနုတ်ပစ်လို၊ ပြန်သည်ဆိုမူ၊ ထိုအိမ် ဝယ်သာ၊ တောင်မျက်နှာက၊ စံ့ဉ်ကာစိုက်လစ်၊ အလယ်သစ်နှင့်၊ လှည့်ရစ် ပြန်ခေါက်၊ လဲတုံမြောက်က၊ နတ်အောက်မဆွယ်၊ ကညာမယ်ကို၊ ရဖွယ်ကိန်းခန်းသင့်၏။

ဆင်မင်းနံသော် ဗုဒ္ဓဟူး၊ ကျောင်းအိမ်ထိုနေ့၊ ဆောက်သရွေ့ကား၊ အရှေ့ မြောက်နေ၊ တိုင်အောက်ခြေက၊ မြေနှင့်နီးပါး၊ တစ်တောင်ခြားတွင်၊ ထင်ရှားအမျက်၊ ရှိအံ့ ထွက်သည်၊ ဆက်ဆက်မလွဲဖူးတည်၊ သားမြေးမထူး ချစ်သည်ကျွန်၊ ထိုအမျက်ကြောင့်၊ သေပျက်တတ်စွ၊ နတ်မယ်ချလော့၊ ပယောဂဉာဏ်၊ ကုလိုပြန်မူ၊ ရပ်ဋ္ဌာန်ဘူမိ၊ နရ တိဝယ်၊ ရှိသည့်တိုင်နှင့်၊ လဲသဖြင့်ကား၊ ယခင်ချစ်သူ၊ မသေမူ၍၊ အဖြူစုတ်ဝင်ပြန်အံ့။

66
A

ဂုရုရက်မွန်အိမ်ရာဆောက်၊ အရှေ့စွန်းက၊ ထောက်ရှည်ခွတွင်၊ ဒေါသပဌာ၊ အခေါင်းပါ၍၊ ဝမ်းနာဝမ်းဖော၊ ပဒ္ဒဝေါနှင့်၊ စိတ်သောက ကြီးရောက်အံ့၊ လျင်လျင် ပယ်ဖျောက် ထိုတိုင်ကို၊ ဗေဒင်သတ္တိ၊ ရှိ-မရှိကို၊ သိလိုသောထွေ၊ မပယ်နေလည်း၊ လယ်ဖွေကြံခိုင်၊ ခွခေါင်တိုင်နှင့်၊ အပြိုင်သိုက်မြိုက်၊ လဲ၍စိုက်မူ၊ ကိုယ်၌ရောဂါ၊ ကင်းစင်ကွာပြီး၊ ချမ်းသာမောက်ဤမိုလိမ့်။

ပူးမင်းနံဂြိုဟ် သောကြာကြိုက်၊ ကျောင်းအိမ်ကြီးငယ် ဆောက်ရာဝယ်၌ အလယ်ထောက်မ၊ ခွကစ၍၊ ထွာမျှပိုင်းခြား၊ အောက်အနားတွင်၊ စဉ်းစား၍ရှာ၊ အခေါင်းပါသည်၊ ရောဂါရင်ဝယ်ဆိုက်လိမ့်၊ ပယ်လိုပယ်လိုက်၊ နေလို့နေ၊ ယတြာ ကြောင်း၊ အဆင်ကောင်းလျှင်၊ မင်းလောင်းပျောက်ဘိ၊ ထုံးစံရှိပြီ၊ ပစ္စိမန္တ ခေါင်ထောက် မနှင့်၊ ဌာနလည်းလှည့်၊ လဲ၍ထည့်မူ၊ ရောက်မည့်ရောဂါ၊လွတ်ကင်းကွာ၍၊ ရှုသာ လျောက်ပတ်၊ တန်ဆာမြတ်ကို၊ မချွတ်ရတို့လေလိမ့်။

သောရီ စနေနေ့ကိုကား၊ နောက်တောင်မြင့်ဖြူး၊ တိုင်ထိပ်ဖူး၌၊ ဘီလူးနေရာ၊ မျက်သေးပါ၍၊ အိမ်ရာစိုးရ၊ ပုရိသလျှင်၊ ခဏသေဆုံးပါလိမ့်၊ ကံတရားလည်း မှန်စေတော့၊ သို့ဆိုကတည်း၊ လုံ့လသည်း၍၊ ပေါင်းစည်းခုခံ၊ ဥပတ္တံကြောင့်၊ ကြံစည် တိုင်းမြောက်၊ ချမ်းသာရောက်သည်၊ လန့်ကြောက်အားမလျှော့နှင့်၊ ယုတ်မာ သွမ်းသော့ ထိုသည့်တိုင်၊ နောက်မြောက်ရပ်ပျော်၊ တိုင်သူတော်နှင့်၊ နုတ်ဖော်လဲလှယ်၊ ပရိယာယ် ကြောင့်၊အန္တရာယ်ရှင်း၊ သေဘေးကင်း၍၊ ဆင် မြင်း နွား ကျွဲ၊ သောက်သောက် လဲအောင်၊ လာဘ်ပွဲ လှိုင်းကြီးလှိုင်လိမ့်၊ ပဒေသာခိုင် ဉာဏ်ပဂေး၊ လောကလူ့ဘုံ၊ သုံးမကုန်အောင်၊ ပြည့်စုံခက်လက်၊ဉာဏ်သီးရွက်ကို၊ ပြည့်နှက်ဆွတ်ခွေပေးသည်။ ။ ကံကျွေး ပါရမီတည့်လေး။ ။ ဤလင်္ကာဖြင့်သိရာ၏ဟူပေ။

❖❖❖❖❖

## ၆၄၁။ ဘူမိနက်သန်၊ အိမ်ရာကြန်၊ ရွေးရန်ထုံးစံ မည်သို့နည်း။(၁၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဘူမိနက်သန်၊ ရွေးချယ်ရန်ကို၊ ဝေဖန်စိတ်ဖွေ၊ သိသာစေပိမ့်၊ သင်းခွေပန်းတူ၊ အဆင်းဖြူ၍၊ လှိုင်ကြူအေးမြိတ်၊ ကြာတံဆိပ်နံ့၊ သင်းဖျံ့ပျံ့လျက်၊ နူးညံ့သော်ကား၊ မြေပုဏ္ဏားတည့်၊ အုတ်သားတူပြီ၊ ကြန်ကြန်နီလျက်၊ ညှီညှီသင်းဘိ၊ ရန့်ရှိမူ၊ သိရိမင်္ဂလာ၊ မြေသြဇာတည့်၊ ဝါဝါရွှေရွှေ၊ အဆင်းနေလျက်၊ ညှာကြွေရှိငြား၊ ပွင့်နံ့သွားမူ၊ ထူးပြားစွာလှ၊ မြေသမဏတည့်၊ စိမ်းမြညိုပြာ၊ မည်းရောင်လာလျက်၊ ခတ္တာပွင့်နံ့၊ ပျံ့သော်မှတ်ရေး၊ မြေသူဋ္ဌေးတည့်။ ဤလေးမျိုးမြေ၊ အိမ်တည်လေမူ၊ ရွှေငွေရတနာ၊ ဥစ္စာလည်းပွား၊ မြင်း, နွား, ကျေးကျွန်၊ အလွန်ပွားစီး၊ သားသမီးတို့၊ ဘုန်းကြီး သက်ရှည်၊ ကောင်းညွန့် စည်လိမ့်၊ နို့ရည်ထပ်မျှ၊ ဆင်းဖြူလှနှင့်၊ အေးမြချောမွတ်၊ 66 B

လွန်နုထွတ်မူ၊ မြေမြတ်ဌာန၊ ကုဋ္ဌမ္ဗတည်း၊ နေရမူကား၊ ချမ်းသာများလျက်၊ ထင်ရှားကြေငြာ၊ ကောင်းကြွယ်စွာလိမ့်၊ နီပြာရောယှက်၊ အကွက်အကွက်၊ ကျောက်ပြုတ်ဖက်၍၊ မာခက်ကြံ့ကြံ့၊ ဆပ်ပြာနံ့လျှင်၊ ပျံ့လတုံက၊ မြေဒါသတည့်၊ နေသမျှလူ၊ သက်မူရှည်လျား၊ စီးပွားချမ်းသာ၊ သင့်ရုံသာ တည့်။ လယ်ယာဥယျာဉ်၊ လုပ်ငန်းရှင်လျက်၊ အစဉ်ရှည်စွ၊ သက်မွေးရလိမ့်၊ မိဂအကွ၊ နွားမျက်စိသို့၊ နက်ဘိအေးမြ၊ ဘူဖေယဉ်၍၊ ရာဇဂေဟာ၊ နန်းတည်ပါမူ၊ အာဏာတန်ခိုး၊ နေနှယ်တိုး၍၊ လူမျိုးတကာ၊ ချစ်ကြင်နာလျက်၊ ကညာသမီး၊ ပြောင်ကြီးမုန်သောက်၊ ဆက်ကရောက်လိမ့်၊ ကြီးမြောက်တေဇော် တက်ဖြိုးတည်း။

မြေ၏သဏ္ဌာန်၊ ကျိုးပေးဟန်ကား၊ ကောင်းမွန်သာယာ၊ စည်မျက်နှာသို့၊ ညီစွာမြေ၌၊ အိမ်တည်စိုက်မူ၊ ထိခိုက်ရောဂါ၊ သောကဘယာ၊ ပြစ်ပေါင်းကွာ၏။ ပမာလိပ်ကျော၊ ကုန်းငေါငေါထက်၊ နေသောသူကား၊ သားမယားနှင့်၊ များစွာကွေကွင်း၊ မင်းလည်းမျက်ငြို၊ ကိုယ်လည်းမချမ်း၊ ဥစ္စာနွမ်းအံ့၊ တောင်ဝှမ်းကမ်းစောက်၊ အိုးခင်းမှောက်သို့၊ မလျောက်ပတ်ရာ၊ နေသည်မှာကား၊ ဥစ္စာပျောက်ပျက်၊ သားဆက်သမီး၊ ဆင်းရဲကြီးလိမ့်၊ နောက်ဘီးမြင့်မော၊ ဆင်ခြေလျှော၍၊ နေသောသူမှာ၊ ဥစ္စာထိမျှ၊ ရရ ပျောက်ပျောက်၊ ကြက်လောက်တမျှ၊ ရှားစားရအံ့၊ အိမ်ဝ၌ဝယ်၊ ဖြိုးကယ်မှောက်ဘိ၊ မြေလုံးရှိမူ၊ ကြံဘိလွယ်ကာ၊ မကြာခဏ၊ကောင်းကြွယ်ဝလိမ့်၊ အိမ်မှမြောက်ရပ်၊ ကုန်းရှိလပ်မူ၊ ရိပ္ပပ်ချောက်ချား၊ ရောဂါများအံ့၊ အိမ်ပါးအိမ့်အောက်၊ တလျောက် တွင်းကျင်း၊ နိုးနင်းနိမ့်မြင့်၊ ရှိလင့်ချေလတ်၊ သေပျောက်တတ်၏။ ကော့ညွတ် ရှိုင်းရှိုင်း၊ လောက်လေးကိုင်းသို့၊ ချိုင့်ဝှမ်းရာမြေ၊ အိမ်တည်လေမူ၊ ကျက်သေရေပွား၊ ရန်မျိုးရှားလျက်၊ သား သမီးပုံ၊ လွန်ပြည့်စုံလိမ့်၊ မြေခုံလယ်ခေါင်၊ အိမ်တည်ထောင်သော်၊ အိမ်တောင် အိမ်နောက်၊ အိမ်၏မြောက်သို့၊ ပတ်လျှောက်ရစ်ခွေ၊ တံစက်ရေလျှင်၊ စီးထွေလှည့်လျက်၊ ရှေ့သို့ဆက်မူ၊ စုံမက်ဖွယ်သာ၊ ဤနေရာကား၊ သပြာသိန်းမျှ၊ အဖိုးရလည်း၊ နဝိက္ကယာ၊ မရောင်းရာတည့်၊ ဥစ္စာပွားစီး၊ လွန်ဘုန်းကြီးလျက်၊ သီးသီးလူမျိုး၊ ခိုဝင်လျှိုးအံ့၊ ရန်မျိုးအောင်လှ၊ ဘူနာထသည်။ ။ သုခစည်ပင် ပွားတိုးတည်း။

ဤသစ်လဲကျမ်း၊ မြေရွေးကျမ်းပုစ္ဆာ၏ ပြဿနာနှစ်ရပ်ကို မှတ်သင့်လှသောကြောင့် သွင်း၍ ဖြေလိုက်သည်။

[ဤနသတ်ပုစ္ဆာတို့ကို ရှေးအဖြေစာ၌ တစ်ဝက်ခန့်ပါ၏။ ပါသော်လည်း မဆိုင်သည့် အရာသာ များသည်။]

“အန်”ကာရန်ပုစ္ဆာ ၁၁၀–ပုဒ် အဖြေပြီး၏။

◆◆◆◆◆

## "အန္န" ကာရန်ပုစ္ဆာ ၆-ပုဒ် အဖြေ။

### ၆၄၂။ နေ့တိုင်းဉာဏ်ညွှန်၊ ဘုရားကွန့်၊ အဝွန့်ဘယ်တိုင်ရောက်သနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဒိဝသေ ဒိဝသေ ပုရေဘတ္တ ပစ္ဆာဘတ္တ ပဌမယာမ မဇ္ဈိမယာမ ပစ္ဆိမ ယာမေသု ဗုဒ္ဓကိစ္စကာရဏံ။**

ဟူသော ဗုဒ္ဓဝင်အဋ္ဌကထာ, အပဒါန်အဋ္ဌကထာတို့နှင့်အညီ-

၁။ နေ့တိုင်းမပြတ် ကုဋ္ဌေနှစ်သန်း လေးသိန်းသော ဖလသမာပတ်ကို ဝင်စားတော်မူ၍ ထိုသမာပတ်မှ ထပြီးလျှင် နံနက်အခါ ရောက်လာကုန်သော လူပရိသတ်, ရဟန်းပရိသတ်တို့အား လျောက်ပတ်သော တရားဒေသနာကို ပြ၍ ဆုံးမတော်မူခြင်း၊ ကျွတ်ထိုက်သော သတ္တဝါကိုမြင်လျှင် ကိုယ်တိုင်ကြွ၍ ဆုံးမ ကယ်ချွတ်တော်မူခြင်း၊ ပင့်ဖိတ်ကုန်သော ဒါယကာတို့၏ အာမိသကို ခံတော်မူခြင်း တည်းဟူသော ပုရေဘတ္တကိစ္စ။

၂။ နေလွဲသောကာလ၌ တစ်ခဏမျှ နေ့သန့်၍ ညချမ်းသောအခါ ဆည်းကပ် လာကုန်သော ဥပါသကာ, ဥပါသိကာ, ဘိက္ခု, ဘိက္ခုနီ တည်းဟူသော ပရိသတ် လေးပါးတို့အား စရိုက်နှင့်လျော်စွာ ကမ္မဋ္ဌာန်းပေးခြင်း၊ တရားဟောခြင်း၊ ဇာတ်နိပါတ် ဒေသနာကို ကောင်းစွာညွှန်ပြခြင်း တည်းဟူသော ပစ္ဆာဘတ္တကိစ္စ။

၃။ ညဦးဦးအခါ စည်းဝေးလာကုန်သော ရဟန်းပရိသတ်တို့အား ပညတ် ထိုက်သော အကြောင်းအားလျော်စွာ သိက္ခာပုဒ်ကို ပညတ်တော်မူခြင်း။ ထိုနှင့် လျောက်ပတ်သော တရားစကားကို များစွာပြညွှန်းခြင်း၊ ရောက်လာကုန်သော အာဂန္တုက ရဟန်းတို့အား မေးမြန်း ပြောဟောတော်မူခြင်းတည်း ဟူသော ပုရိမယာမ ကိစ္စ။

၄။ မဇ္ဈိမယံအခါတွင် မေးလျှောက်လာကုန်သော၊ နတ်ပရိသတ်တို့အား ပြဿနာကို ဖြေခြင်း၊ သာသနာတော်၌ ဆန့်ကျင်ကုန်သော ရဟန်းတို့အား ကုက္ကုစ္စ ကင်းစိမ့်သောငှာ ဇာတ်နိပါတ်ဒေသနာဖြင့် ကောင်းစွာ ဖြေဖျောက်တော် မူခြင်းတည်း ဟူသော မဇ္ဈိမယာမကိစ္စ။

၅။ ပစ္ဆိမယံအခါ ရူပကာယတော်ကို သက်သာစိမ့်သောငှာ သုံးဖို့တစ်ဖို့ခန့် သီဟသေယျဖြင့် ကျိန်းတော်မူပြီးလျှင် လင်းအားကြီးအခါ၌ မဟာကရုဏာ သမာပတ်ကို ဝင်စားတော်မူ၍ ဂန္ဓကုဋိတိုက်မှသည် တစ်သောင်းသော လောကဓာတ်၏ စကြဝဠာ နရန်းထိအောင် ကျွတ်ထိုက်သော ဝေနေယျတို့ကို တစ်နေ့မပြတ် ကြည့်တော်မူခြင်း တည်းဟူသော ပစ္ဆိမယာမကိစ္စ။

ဤငါးပါးသော ဗုဒ္ဓကိစ္စတို့ကို ပြုတော်မူသည်။ ဤသို့ ကျမ်းဂန်လာ သောကြောင့် နေ့တိုင်းရှုမျှော်အပ်သော ဉာဏ်တော်ကွန်ရက်သည် စကြဝဠာ တစ်သောင်း တိုင်အောင် ရောက်၏ဟု သိရာသည်။

ထို့ကြောင့် ဓမ္မပဒအဋ္ဌကထာ၌–

ဘဂဝါ ဗလဝပစ္စူသသမယေ မဟာကရုဏာ သမာပတ္တိတော ဝုဋ္ဌာယ ပုဗ္ဗဗုဒ္ဓေသု ကတာဓိကာရာနံ ဥဿန္နကုသလမူလာနံ ဝေနေယျ ဗန္ဓဝါနံ ဒဿနတ္ထံ ဗုဒ္ဓစက္ခုနာ လောကံ ဝေါလောကေန္တော ဒသသဟဿ စက္ကဝါဠေသု ဉာဏဇာလံ ပတ္ထရိ။ ဟူ၍ ဆိုတော်မူသည်။

သာရတ္ထသင်္ဂဟ၌လည်း–

အဝသေသရတ္တိဘာဂဥ္စ ဝီတိနာမေတွာ ပစ္စူသသမယေဒသသဟဿိ– လောကဓာတုံ ဩလောကေသိ။ ။ ဟူ၍ လာသည်။ အနက်ကားလွယ်၏။

❖❖❖❖❖

၆၄၃။ ခေါင်းပြတ်၍လွန့်၊ တတွန့်တွန့်၊ စွန့်ရန်ဝိညာဉ် ကြွင်းလိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဦးခေါင်းကိုဖြတ်လိုက်သော် ကိုယ်တလွန့်လွန့်နေသော သတ္တဝါ၌ ဝိညာဉ်ကြွင်း သေးသောကြောင့် လွန့်သလောဟူရာ၌ ဝိညာဉ်မကြွင်းပြီ။ ဦးခေါင်းပြတ်သည်နှင့် တစ်ပြိုင်နက်ပင် နာမက္ခန္ဓာလေးပါး ရူပက္ခန္ဓာတရားတို့သည် ချုပ်သွားလေပြီ။ စိတ္တဇရုပ်၏ အဟုန်ကြောင့် အလုံးစုံသော ဥတုဇရုပ် အဆက်ဆက်သာ တုန်လှုပ်ခြင်း ရှိသည် ဟူပေ။

အဘယ်ကဲ့သို့နည်းဟူမူ။ အဝိညာဏက ဗာဟိရရုပ်မျှသာဖြစ်သော ကြိမ်နွယ် သစ်ခက်တို့ကို ခုတ်ဖြတ်လိုက်သော် ထိခိုက်ခြင်း၏ အာနုဘော်ကြောင့် နောက်၌ အကြာပင် တုန်လှုပ်ခြင်း ဖြစ်သကဲ့သို့တည်း။

ဦးခေါင်းပြတ်လျှင် ဝိညာဉ်ချုပ်ကြောင်းကို အဘယ်ကိုထောက်၍ သိသနည်း ဟူမူ– ဝိနယမဉ္ဇူသာ စသော ဋီကာတို့၌–

အင်္ဂေသု ဥတ္တမအင်္ဂတ္တာ ဥတ္တမင်္ဂံ။ ဟတ္ထပါဒါဒိအင်္ဂေသု ဆိဇ္ဇမာနေသုပိ ဇီဝိတံ န နိရုဇ္ဈတိ။ သီသေ ပန ဆိန္နေ တင်္ခဏေ ဝ နိရောဓော ဟောတိ။

ဟူ၍မိန့်တော်မူသောကြောင့် ဦးခေါင်းပြတ်လျှင် ရုပ်ဇီဝိတ, နာမ်ဇီဝိတနှင့် တကွသော ခန္ဓာငါးပါးတို့ ချုပ်လေ၏ဟု သိရသတည်း။

❖❖❖❖❖

၆၄၄။ပြဟ္မာလက်ဖြန့်၊သောင်းတိုက်ခန့်၊ရောင်ကွန့်အဘယ် တန်ခိုးနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မဟာပြဟ္မာတို့ လက်တစ်ချောင်းထောင်လျှင် စကြဝဠာတစ်သောင်းလုံး လင်းနိုင် ခြင်းသည် အဘယ်တန်ခိုးနည်းဟု မေးရာ၌ တန်ခိုးမျိုးသည်-

| | | | |
|---|---|---|---|
| ၁။ | အဓိဋ္ဌာနာဣဒ္ဓိ, | ၆။ | အရိယာဣဒ္ဓိ, |
| ၂။ | ဝိကုဗ္ဗနာဣဒ္ဓိ, | ၇။ | ကမ္မဝိပါကဇာဣဒ္ဓိ, |
| ၃။ | မနောမယာဣဒ္ဓိ | ၈။ | ပုညဝတောဣဒ္ဓိ, |
| ၄။ | ဉာဏဝိပ္ဖာရာဣဒ္ဓိ, | ၉။ | ဘာဝနာမယာဣဒ္ဓိ, |
| ၅။ | သမာဓိဝိပ္ဖါရာဣဒ္ဓိ, | ၁၀။ | ဝိဇ္ဇမယာဣဒ္ဓိ- |

အားဖြင့် ဆယ်ပါးအပြားရှိသည်တွင် ရှုပစျာန်ကို ရခြင်းငှာ အားထုတ်သော ကုသိုလ်ကံ၏ အကျိုးဆက်ကြောင့်ဖြစ်သော တန်ခိုးဖြစ်သောကြောင့် ကမ္မဝိပါက ဇိဒ္ဓိမည်၏ ဟူပေ။ ထိုကမ္မဝိပါကဇိဒ္ဓိသည် အထူးထူးသော သတ္တဝါတို့၌ ထိုက်သည့် အားလျော်စွာ ဖြစ်ရကား များသောအပြားရှိ၏။

ထို့ကြောင့် သာရတ္ထသင်္ဂဟ၌-

**သဗ္ဗေသံ ပက္ခီနံ၊ ဈာနံ ဝါ ဝိပဿနံ ဝါ ဝိနယေဝ အာကာသေန ဂမနံ၊ တထာသဗ္ဗေသံ ဒေဝါနံ ပဌမကပ္ပိကာနဥ္စ ကေစ္စာနံ မနုဿာနံ တထာ ပိယင်္ကရမာတာ ယက္ခိနီ ဖုဿ မိတ္တာတိ ဝေမာဒီနံ ကေစ္စာနံ ဝိနိပါတိကာနံ အာကာသေန ဂမနံ ကမ္မဝိပါကဇိဒ္ဓိနာမ။** ဟူ၍ မိန့်သတည်း။

**အနက်ကား။** ။ သဗ္ဗေသံ၊ အလုံးစုံကုန်သော။ ပက္ခီနံ၊ ငှက်တို့အား။ ဈာနံ ဝါ၊ ဈာန်ကို လည်းကောင်း။ ဝိပဿနံ ဝါ၊ ဝိပဿနာကိုလည်းကောင်း။ ဝိနာယေဝ၊ ကြဉ်၍သာလျှင်။ အာကာသေန၊ ကောင်းကင်ဖြင့်။ ဂမနံ၊ ပျံသွားနိုင်ခြင်းသည် လည်းကောင်း။ တထာ၊ ထိုမှတစ်ပါး။ သဗ္ဗေသံဒေဝါနံ၊ ခပ်သိမ်းကုန်သော နတ်တို့၏။ အာကာသ ဂမနဥ္စ၊ ကောင်းကင်ဖြင့် သွားခြင်းသည်လည်းကောင်း။ ပဌမကပ္ပိကာနံ၊ ကပ်ဦးတည်ခါ ပြဟ္မာ့ရွာမှ သက်လာကုန်သော ပြဟ္မာနတ်ပြတ် ဥပပတ်တို့၏။ အာကာသ ဂမနဥ္စ၊ ကောင်းကင်ဖြင့် သွားခြင်းသည်လည်းကောင်း။ ကေစ္စာနံ၊ အချို့ကုန်သော။ မနုဿာနံ၊ မန္ဓာတ်မင်း အစရှိကုန်သော လူတို့၏။ အာကာသဂမနဥ္စ၊ ကောင်းကင်ဖြင့် သွားခြင်းသည်လည်းကောင်း။ တထာ၊ ထိုမှတစ်ပါး။ ပိယင်္ကရ မာတာယက္ခိနီ၊ ပိယင်္ကရ၏ အမိဖြစ်သော ဘီလူးမ။ ဖုဿမိတ္တာ ဓမ္မဂုတ္တာတိ ဝေမာဒီနံ၊ ဖုဿမိတ္တာ ဓမ္မဂုတ္တာ မည်သောသူ အစရှိကုန်သော။ ကေစ္စာနံ၊ အချို့ကုန်သော။

ဝိနိပါတိကာနံ၊ ဝိနိပါတိက အသုရာတို့၏။ အာကာသေန၊ ကောင်းကင်ဖြင့်။ ဂမနဉ္စ၊ သွားခြင်းသည်လည်းကောင်း။ ကမ္မဝိပါကဇိဒ္ဓိနာမ၊ ကံအကျိုးကြောင့်ဖြစ်သော တန်ခိုးမည်၏။

ဤအဋ္ဌကထာ၌ ကောင်းကင်၌သွားခြင်းကိုသာ ကမ္မဝိပါကဇိဒ္ဓိဟူ၍ ပြသည်။ စကြဝဠာတစ်သောင်းတိုင်အောင် ထွန်းလင်းနိုင်သော အရောင်ရှိခြင်း တည်းဟူသော တန်ခိုးကို မပြခဲ့ရကား ဆရာ၏စကားသည် မေးရင်းပုစ္ဆာနှင့် ခုတ်ရာတစ်ပါး ရှရာတခြား မရှိသော ဟူငြားအံ့- ဘာဝနာဂုဏ်ဖြင့် ပြီးသော ဘာဝနာမယိဒ္ဓိသည် ဤကမ္မဝိပါကဇိဒ္ဓိ၌ ဝင်ရကား ခုတ်ရာတစ်ပါး၊ ရှရာတခြား မဖြစ်သင့်သည်ပင် ဟူပေ။

ထို့ကြောင့် ၎င်းအဋ္ဌကထာ၌-

**အပိစ ကမ္မဝိပါကဇိဒ္ဓိနာမေသာ နာဂါနံ နာဂိဒ္ဓိ၊ သုပဏ္ဏာနံ သုပဏ္ဏိဒ္ဓိ၊ ယက္ခာနံ ယက္ခိဒ္ဓိ၊ ဒေဝါနံ ဒေဝိဒ္ဓိ၊ ရာဇူနံ ရာဇိဒ္ဓိတိ ဗဟုဓာ။**

အစရှိသည်ဖြင့် ပြတော်မူသည်။

**အဓိပ္ပါယ်ကား။** ။ မြင်ရုံနှင့် သေစေတတ်သော နဂါး၊ ကိုက်သဖြင့် သေစေတတ်သော နဂါး၊ ထိသဖြင့် သေစေတတ်သော နဂါးတို့ကို မြင်၍လည်းကောင်း၊ ကိုက်၍ လည်းကောင်း သေရခြင်းသည် နဂါးတို့၏တန်းခိုးမည်၏။ သမုဒ္ဒရာထဲ၌ နေသော အလံတစ်ရာ အလံနှစ်ရာရှိသော နဂါးတို့ကို တောင်ဟုန်လေဖြင့် ရေကိုခွဲ၍ ယူနိုင်ခြင်း စသည်တို့သည် ဂဠုန်တို့၏တန်ခိုးမည်၏။ နတ်ဘီလူးတို့သည် မလာမသွား မထိပါး မပုတ်ခတ်ဘဲလျက် စောင်းမဲရုံဖြင့်လည်းကောင်း၊ ထိတ်လန့်စေရုံဖြင့် လည်းကောင်း၊ သတ္တဝါတို့ကို ပျက်စီးစေခြင်း၊ အထူးထူးသော ရုပ်အဆင်းတို့ကို မြင်စေခြင်းတို့သည် နတ်ဘီလူးတို့၏ တန်ခိုးမည်၏။ ဝေဿဝဏ္ဏနတ်မင်းသည် သောတာပန်မဖြစ်မီက မျက်စောင်းတည်းဟူသော လက်နက်ဖြင့် ကြည့်လိုက်သည် ရှိသော် အထောင်အသောင်းသော ကုမ္ဘဏ်ဘီလူးတို့၏ သေကျေပျက်စီးခြင်းသည် လည်းကောင်း၊ နေနတ်သား, လနတ်သားတို့၏ စကြဝဠာ တိုက်အလုံးကို ထွန်းလင်း နိုင်သော အရောင်ကိုရခြင်းသည် လည်းကောင်း၊ ပြဟ္မာတို့၏ လက်ပမ်းသံဖြင့် စကြဝဠာ အများကို ကြားစေနိုင်ခြင်း၊ လက်ဆယ်ချောင်း အရောင်ဖြင့် တစ်ထောင်သော လောကဓာတ်၊ တစ်သောင်းသော လောကဓာတ်တို့ကို နှံ့စပ်အောင် ထွန်းလင်းစေ နိုင်ခြင်းသည် လည်းကောင်း၊ နတ် ပြဟ္မာတို့၏ တန်ခိုးမည်၏။ ဤတန်ခိုးအပေါင်းသည် ကမ္မဝိပါကဇိဒ္ဓိချည်းဟု မှတ်ရာသည်။

❖❖❖❖❖

## ၆၄၅။ မန္ဓာတ်မင်းညွှန့်၊နတ်ပြည်ကွန့်၊အဓွန့်ဘယ်လောက် ကြာသနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဤ၌ အဓွန့်သဒ္ဒါသည် ခရီးကိုမဟော၊ နှစ်ကာလကိုဟော၏။ မန္ဓာတ်မင်း နတ်ပြည်သို့ တက်၍ နေသည်ကား ကာလဘယ်မျှလောက် ကြာသနည်း ဟူလိုသည်။

အဖြေကား– စတုမဟာရာဇ် နတ်ပြည်၌ လူတို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း ရှစ်သောင်းလေးထောင်။ တာဝတိံသာ နတ်ပြည်၌ နှစ်ပေါင်း ရှစ်သောင်း လေးထောင်။ ထို့နောက် သိကြားမင်းသုံးဆယ့်ခြောက်ဆက် လဲသည်ဖြစ်၍ နှစ်ပေါင်း ကုဋေ တစ်ရာ့နှစ်ဆယ့် ကိုးကုဋေခြောက်သန်းနေရသည်။ နှစ်စုလုံးကိုပေါင်းသော် ကုဋေတစ်ရာ့ နှစ်ဆယ့်ကိုးကုဋေ ခြောက်သန်းရှစ်သောင်းလေးထောင် နတ်ပြည်၌ ကြာ၏ဟု သိရမည်။

တွက်ပုံကား– နတ်သက် တစ်ထောင်ကိုတည်။ သုံးဆယ့်ခြောက်ခု မြှောက်။ နတ်၏အတွက်ဖြစ်သော နှစ်ပေါင်း သုံးသောင်းခြောက်ထောင်ဖြစ်၏။ နတ်သက် တစ်ထောင်လျှင် လူတို့၏အရေအတွက် နှစ်ပေါင်း သုံးကုဋေ ခြောက်သန်း ဖြစ်သော ကြောင့်၊ ထိုသုံးကုဋေ ခြောက်သန်းကိုတည်။ သုံးဆယ့်ခြောက်ခုမြှောက်။ လူတို့ အရေ အတွက်နှစ်ပေါင်း တစ်ရာ့နှစ်ဆယ့်ကိုးကုဋေ ခြောက်သန်း ဖြစ်၏။ ၎င်း နှစ်ပေါင်းတွင် စတုမဟာရာဇ်၌ နေခဲ့သော ရှစ်သောင်း လေးထောင်ကိုရော၊ နတ်ပြည်၌နေသော နှစ်ပေါင်း တစ်ရာ့နှစ်ဆယ့် ကိုးကုဋေခြောက်သန်း ရှစ်သောင်းလေးထောင်ဖြစ်၏။

တာဝတိံသာ၌နေသော နှစ်ရှစ်သောင်းလေးထောင်ကား ယခင့်သိကြား သုံးဆယ့်ခြောက်ဆက်တွင် ဝင်လေသောကြောင့် အသီးမရေတွက်သည်။

ဤဇာတ်ဒေသနာကို မနာရဖူးသောသူတို့အား ထင်ရှားစိမ့်သောငှာ ဇာတ်ဒေသနာ ကို မြန်မာပြန်လိုက်ဦးအံ့–

လွန်လေပြီးသော ကပ်ဦးအစ၌ မဟာသမ္မတမင်းသည်ဖြစ်၏။ ထိုမင်းသားကား ရောဇမင်း၊၎င်းသား ဝရရောဇမင်း။ ၎င်းသား ကလျာဏမင်း၊ ၎င်းသား ဝရကလျာဏ မင်း၊ ၎င်းသား ဥပေါသထမင်း။ ၎င်းသား မန္ဓာတ်မင်းသည်ဖြစ်၏။ ထိုမန္ဓာတ်မင်းသည် ရတနာ ခုနစ်ပါး၊ တန်ခိုးလေးပါးတို့နှင့် ပြည့်စုံလျက် စကြဝဠာ တိုက်အလုံးကို လွှမ်းဖုံး၍ မင်းပြု၏။လက်ဝဲလက်ကိုခွေ၍ လက်ယာလက်ဖြင့် လက်ပမ်းခတ်ပြီးလျှင် ကောင်းကင်သို့ ကြည့်သည်ရှိသော် အလျဉ်ထန်စွာရွာသော မိုးကြီးကဲ့သို့ မြေကြီး၌ ပုဆစ်မြုပ်မျှ လောက်သော ရတနာမိုးတို့သည် ထစ်ကြိုးလျက် ရွာရကုန်၏။ ပုံတောင်း အကန့် အကွက်တို့နှင့် ပြည့်စုံသော ကောင်းကင်မြေကို လှစ်ခွဲ၍ သွားနိုင်သော စကြာ ရတနာကို ရသည်ဖြစ်၍ ထိုစကြာရတနာကိုရှေ့တင်လျက် ကောင်းကင်ခရီးဖြင့် ဗိုလ်ပါ ပရိသတ်နှင့် တကွ လေးကျွန်းလုံးကို လှည့်လည်လျက် နံနက်စာမစားမီ ကုသဝတီ နေပြည်တော်သို့ ပြန်ရောက်နိုင်၏။ ဤအတူ တစ်နံနက်ခြင်းဖြင့် လေးကျွန်းလုံးကို လှည့်လည်နိုင်သော

ဥပေါသထ ဆင်ပျံ၊ အာဇာနေယျ မြင်းပျံတို့ကိုလည်း ရတော်မူ၏။ သမုဒ္ဒရာကမ်းနား၌ ရပ်၍ လက်ညှိုးညွှန်လျှင် ထက်ဝန်းကျင်ရှိကုန်သော ရွှေ၊ ငွေ၊ ပုလဲ၊ မျက်ရွဲ၊ ရတနာတို့သည် အစာရှိရာ ငါးလာ၍ ဟပ်သကဲ့သို့ ရွရွတွားကာလာ၍ လက်ညှိုး၌ တွယ်ရသော သူဌေးကြီး ရတနာ နှင့်လည်း ပြည့်စုံ၏။ အံ့ဖွယ် တစ်ဆယ့်နှစ်ပါးရှိသော မိဖုရားကြီးရတနာ၊ သားကြီး ရတနာတို့နှင့် လည်းပြည့်စုံ၏။ အလိုဆန္ဒဟူသမျှကို တစ်ခဏချင်းဖြင့် ပြည့်စုံ စေတတ်သော မဏိဇောတိရသ် ပတ္တမြားရတနာကိုလည်း ရတော်မူ၏။ ယင်းသို့သော ဘုန်းအာနုဘော်နှင့် ပြည့်စုံသော စကြာမင်းသည် လူတို့တွက်စစ် နှစ်ပေါင်းရှစ်သောင်း လေးထောင်တိုင်တိုင် သူငယ်၏အဖြစ်ဖြင့် မြူးတူးကစား၏။ ရှစ်သောင်း လေးထောင်တိုင်တိုင် အိမ်ရှေ့မင်း၏ အဖြစ်ဖြင့် မင်းပြု၏။ ရှစ်သောင်းလေးထောင် တိုင်တိုင် စကြဝတေးမင်း၏ စည်းစိမ်ကို ခံစား၏။

တစ်ရံသောအခါ လူ၏ရွာ၌ ကာမဂုဏ်ချမ်းသာကို ခံစားသော ကာမတဏှာကို ပြည့်စေခြင်းငှာ မတတ်နိုင်သည်ဖြစ်၍ ဆန့်ကျင်သော စိတ်ဖြစ်ရကား အမတ်များကို ခေါ်၍ တိုင်ပင်တော်မူ၏။ "အမတ်တို့၊ ငါ၏ ရှေးကောင်းမှုကြောင့်ဖြစ်သော ဤလူမင်းစည်းစိမ်သည် မြိန်နိုးဖွယ်မရှိ၊ ပျင်းရိငြီးငွေ့သောစိတ်သည် ဖြစ်၏။ ဤ့ထက်သာ၍ မွေ့လျော်ရာ စည်းစိမ်သည် အဘယ်အရပ်၌ ရှိသေးသနည်း"ဟု မေး၏။ အမတ်တို့ကလည်း "အရှင်မင်းမြတ်၊နတ်ပြည်၌ နတ်တို့၏ စည်းစိမ်သည် ဤထက်မွေ့လျော်ဖွယ် ရှိပါသေး၏"ဟု လျှောက်ကြသော် နတ်ပြည်သို့သွားခြင်းငှာ စကြာရတနာကို ရွှေကရားဖြင့် ရေသွန်း၍ တိုက်တွန်းပြီးလျှင် ထက်ဝန်းကျင်ခစားသော ပရိသတ်နှင့်တကွ စတုမဟာရာဇ် နတ်ပြည်သို့ တက်လာ၏။

ထိုအခါ စတုမဟာရာဇ် နတ်မင်းကြီးတို့သည် နတ်ပြည်တို့၌ ဖြစ်သာ အဖျော်ယမကာ ပန်းနံ့သာလက်စွဲကုန်လျက် ခရီးဦးကြိုဆိုကုန်၍ ထိုနတ်ပြည်၌ မင်းအဖြစ်ကို ပေးရကုန်၏။ နတ်သမီးအပေါင်းနှင့်တကွ ကာမချမ်းသာကို ခံစားလျက် အနှစ် ရှစ်သောင်းလေးထောင် ရှည်လျားလတ်သော် အားမရဘဲ လွန်ကဲသည်ကို တောင့်တသော တဏှာကြောင့် ဆန့်ကျင်စွာသော စိတ်ဖြစ်ပြန်၍ "ဤနေရာထက် သာလွန်၍ မွေ့လျော်ဖွယ်ရှိသော စည်းစိမ်သည် အဘယ်၌ ရှိသေးသနည်း"ဟု မေးပြန်၏။ စတုမဟာရာဇ်နတ်တို့ကလည်း "ဤထက်သာလွန်သော စည်းစိမ်သည် တာဝတိံသာ၌ ရှိပါသေး၏"ဟု လျှောက်သော် ထိုနတ်ပြည်သို့ သွားလိုသော အကြံတော်ဖြစ်ပြန်၍ တစ်ဖန် စကြာရတနာကို ရေသွန်း၍ တိုက်တွန်းပြီးလျှင် မြင်းမိုရ်ထိပ်ပြင်၌တည်သော တာဝတိံသာသို့ တက်လာပြန်၏။

သိကြားမင်းလည်း နတ်အပေါင်း ခြံရံလျက် နံ့သာ ပန်းမန်စသော ပူဇော်ဖွယ်နှင့်တကွ ခရီးဦးကြိုဆို၍ ထိုတာဝတိံသာသို့ ရောက်လျှင် မိမိတွင်ရှိသော နတ်သမီး ပရိသတ် ထက်ဝက်ကိုပေး၍ နတ်ပြည်ကိုလည်း တစ်ခြမ်းဝက်၍ မင်းမူစေ၏။ ထိုအခါ မန္ဓာတ်မင်း၏သားကြီး ဝရမင်းသည် စကြာရတနာကိုယူ၍ ပါလာသော ပရိသတ်နှင့် တကွ လူ့ပြည်သို့ ပြန်လာ၍ ကုသဝတီပြည်၌ မင်းပြုကာနေ၏။

67
A

တာဝတိံသာ နတ်ပြည်၌လည်း မန္ဓာတ်မင်း, သိကြားမင်းနှစ်ပါးတို့သည် မင်းပြိုင်မူကြ၍ လူတို့၏နှစ်ဖြင့် သုံးကုဋေခြောက်သန်းမျှကြာသော် သိကြားမင်း ကံကုန်လေ၍ နောက်သိကြားမင်းတစ်ဦး မင်းမူပြန်၏။ ဤသို့နည်းဖြင့် သိကြားမင်း သုံးဆယ့် ခြောက်ဆက်တိုင်အောင် မန္ဓာတ်မင်းသည် ပြကတေ့သော လူတို့၏ ကိုယ်ဖြင့် နတ်မင်း၏အဖြစ်ကို ပြုရ၍ မငြီးငွေ့ဘဲ နတ်ချမ်းသာကို ခံစားကာနေသည်တွင် တစ်နေ့ သ၌ ဤသို့အကြံဖြစ်၏။ ''ငါသည် ဤတာဝတိံသာ၌ ထက်ဝက်သော မင်းချမ်းသာကို ခံစားရသေး၏။ သိကြားမင်းကို သတ်၍ အလုံးစုံသော နတ်ပြည်ကို ယူရမူကား သာ၍ပျော်ပါးဖွယ် ဖြစ်လတ္တံ့''ဟု ကြံ၏။ ဤသို့ကြံသည်ကို သိကြားမင်း သိလျှင် ''ဤမင်းသည် ပျက်စီးချိန်ခါတန်၍ မကြံအပ်သော အရာကို ကြံချေပြီ။ ဤနတ် ပြည်မှ ရွေ့စေတော့အံ့''ဟု ကြံ၍ မန္ဓာတ်မင်း အိပ်ပျော်သောအခိုက် မန္ဓာတ်မင်းကို ဆောင်ခဲ့၍ ကုသဝတီပြည်၏အနီး ဥယျာဉ်ကြီး၌ ချထားလှာ၏။

ဥယျာဉ်မှူးသည် မန္ဓာတ်မင်းကြီး ရောက်လာသည်ကို မြင်လျှင် မြို့တွင်းသို့ ဝင်၍ သားတော်တို့အား အကြောင်းကို လျှောက်ကြား၏။ သားတော် မြေးတော် မှူးတော် မတ်တော်တို့လည်း ဖြဖြလာ၍ ကောင်းစွာပူဇော်ပြီးမှ မင်းပြုပါမည့် အကြောင်းဖြင့် တောင်းပန်ကြကုန်၏။

မန္ဓာတ်မင်းလည်း ''ငါမင်းမပြုလိုပြီ။ ဤဥယျာဉ်၌ ရဟန်းတရားကိုသာ အားထုတ်ကာ နေတော့အံ့''ဟု ဆို၍ သားတော်တို့ကို ဆောင်နှင်း၏။ မန္ဓာတ်မင်းလည်း ရှည်မြင့်သဖြင့် အိုခြင်းနာခြင်းသို့ ရောက်၍ အနုဋ္ဌာနသေယျဖြင့် မထနိုင်သောအခါ ဖူးမြင်လာကုန်သော မှူးမတ်တို့က ''အရှင်မင်းမြတ်– အကျွန်ုပ်တို့အား မှတ်သား လောက်အောင် မိန့်တော်မူပါ'' ဟု တောင်းပန်ကြသည်တွင် ''သင်အမတ်တို့– လူခပ်သိမ်းတို့အား ပြောကြားရစ်လေကုန်။ ငါတို့အရှင်ဖြစ်သော မန္ဓာတ်မင်းကြီးသည် အငယ်ရံကျွန်း နှစ်ထောင်နှင့်တကွသော ကျွန်းကြီးလေးရပ်ကို အုပ်ကွပ်ပိုင်စိုးရသော လူ၏ချမ်းသာ၊ စတုမဟာရာဇ်, တာဝတိံသာနတ်ရွာနှစ်ထပ်၏ ထက်ဝက်ရပ်သော စည်းစိမ်ကို စံစားလျက် နတ်ထံကို အစိုးရသော နတ်မင်းချမ်းသာကို နှစ်သချ်ာအားဖြင့် အသင်္ချေမျှလောက်ခံစားရသော်လည်း တဏှာဟူသော ရမ္မက်တရားသည် မပြည့်နိုင်ဘဲ ဆင်းရဲ တောင့်တလျက်သာ သေမင်းရွာသို့ လိုက်ရ၏။ ထို့ကြောင့် တဏှာဟူသော ဘီလူး၏ အလိုသို့ ကိုယ်နှုတ်စိတ်မပါအောင် ကောင်းစွာ ဆုံးမကြလေ။ နောက်လူ များတို့အား ပြောကြားလေ''ဟု မိန့်မှာတော်မူ၏။

ဤမန္ဓာတ်မင်းကား ငါတို့ ဘုရားအလောင်းတော်ပင်တည်း။ ကောဒသမကပ်၏ အစ လူတို့အသက်၏အစ လူတို့အသက် အသင်္ချေတမ်းအနီး၌ ဖြစ်သည်။

❖❖❖❖❖

## ၆၄၆။ တိမ်ခရီးဖွင့်၊ နေလကွန့်၊ လွှန့်၍သီဟဇာ ပြုလိမ့်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နေလတို့သည် သီဟစရိယာ, ဝါက္ကစရိယာ, နိယတုံဟူသော သွားခြင်းသုံးပါးတို့ဖြင့် မသွားကုန်။ အဂ္ဂိ, ဗုဒ္ဓဟူး, ကြာသပတေး, သောကြာ, စနေဟူသော ဂြိုဟ်ငါးလုံးတို့သာလျှင် တစ်ရံတစ်ခါ ဤသုံးပါးသော အကောက်သွားခြင်းတို့ဖြင့် သွားကုန်သည်။ နေလနှစ်ပါးမူကား တောင်မြောက်အားဖြင့် သွားမြဲတိုင်းသော ခရီးကို ဖျက်၍ သွားခြင်းတည်းဟူသော ဝါကြစရိယာ။ အောက်သို့သက်၍ သွားခြင်းတည်းဟူသော ဩက္ကမနစရိယာနှစ်ပါးဖြင့်သာ သင့်သောအခါ၌ သွားကြကုန်၏ဟု ဖြေ။

အဘယ်အခါ၌ သွားမြဲခရီးကိုဖျက်၍ သွားသနည်းဟူမူကား–

**ယဒါ ပန ရာဇာနော အဓမ္မိကာ ဟောန္တိ။ တေသံ အဓမ္မိကတာယ ဥပရာဇာ သေနာပတိပဘုတယော သဗ္ဗမနုဿာ သဗ္ဗေ ဒေဝဖြဟ္မာ နောစ အဓမ္မိကာ ဟောန္တိ၊ တဒါ တေသံ အဓမ္မိကတာယ ဝိသမံ စန္ဒိမ သူရိယာ ပရိဟရန္တိ။ တဒါ ဟိ ဗဟ္မာဗာဓတောဒိ အနိဋ္ဌ ဖလူပ နိဿယ ဘူတဿ ယထာဝုတ္တ အဓမ္မိကတာ သညိတဿ သာဓာရဏဿ ပါပ ကမ္မဿ ဖလေန ဝိသမံ ဝါယန္တေန ဝါယုနာ ပေလ္လိယမာနာ စန္ဒိမသူရိယာ သိနေရုံ ပရိက္ခိပန္တာ ဝိသမံ ပရိဝတ္တေန္တိ။ ယထာမဂ္ဂေန ပဝတ္တန္တိ။ ဝါတော ယထာမဂ္ဂေန ဝါယတိ–**

အစရှိသည်ဖြင့် အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ သာရတ္ထသင်္ဂဟတို့၌ လာသည်။

**မြန်မာဘာသာကား။** ။အကြင်အခါ၌ ပြည်ရှာကို အုပ်စိုးသောမင်းတို့သည် တရားမစောင့် မဖြောင့်မမှန်သော အကျင့်ကိုကျင့်သည် ဖြစ်ကုန်၏။ ထိုမင်းတို့၏ တရား မစောင့်ခြင်းကြောင့် အိမ်ရှေ့မင်း, စစ်သူကြီး, မှူးမတ်, ပြည်စိုးအစရှိကုန်သော သူခပ် သိမ်းတို့သည် တရားမစောင့်ကုန်။ လူကိုစောင့်သောနတ်, ထိုနတ်တို့၏ မိတ်ဆွေဖြစ်သော ရုက္ခစိုး, ဘုမ္မစိုး အစရှိကုန်သော အလုံးစုံသော နတ်ဗြဟ္မာတို့လည်း တရားမစောင့်သည်ချည်း ဖြစ်ကုန်၏။ ထိုသို့ တရားမစောင့်ကြသော ကာလ လောက၏ အစီးအပွားကို ဆောင်တတ်သော နေနတ်၊ လနတ်တို့သည် သွားမြဲတိုင်းသော ခရီးကို လွှန်၍လည်းကောင်း၊ ယုတ်၍လည်းကောင်း၊သွားခြင်းဖြင့် သွားကြကုန်၏။ ထိုအခါ လူတို့သည် အပူအချမ်း မမျှသည်ဖြစ်၍လည်းကောင်း၊ဩဇာအာဟာရပျက်သည် ဖြစ်၍ လည်းကောင်း၊ အနာရောဂါများခြင်း၊သေပျောက်ပျက်စီးခြင်းတည်းဟူသော အနိဋ္ဌဖလ တို့သည် ဖြစ်ကုန်၏။ တရားမစောင့်သော သူတို့သည် ပြုအပ်သော အကုသိုလ်ကံ၏ အစွမ်းကြောင့် ဥတုမညီညွတ်သဖြင့် ဖြစ်သောလေအဟုန်တို့သည် တိုးဝှေ့တိုက်ခတ် ရကား နတ်၏ ဗိမာန်တို့သည် လည်မြဲတိုင်းသော ခရီးဖြင့်မလည်နိုင်ကုန်။ နေ, လ နှစ်ပါးတို့လည်း လည်မြဲတိုင်းသော ခရီးဖြင့် မလည်နိုင်ကုန်။ လေးယူဇနာ, ငါးယူဇနာ, ဆယ်ယူဇနာ စသည်ဖြင့် သက်၍လည်းကောင်း၊ တက်၍ လည်းကောင်း သွားကြကုန်၏ – ဟူလိုသည်။

ဂြိုဟ်ရှစ်လုံးတို့၏ သွားခြင်းကိုပေါင်းသော် အကောက်သွားခြင်းငါးပါး ဖြစ်၏။

ထို့ကြောင့် လောကဝိဒူပျို့၌-

တရားနှင့်လူ၊ တအူဖြောင့်ဖြောင့်၊ ကိုယ်စောင့်မှန်သုံး၊ နှလုံးနှုတ်ပီ၊ တံသုတ်ညီက၊ ပထဝီနှစ်၊ မြေဆီယစ်၍၊ တူးခြစ်မခါး၊ လူတို့စားလည်း၊ ဆေးဝါးပါစဉ်၊ အချဉ်အချို၊ နာငုတ်ပြို၍၊ ထိုထို ဗျာဓိ တရိဒေါသ၊ ဒွေးဝန်းစသား၊ မြူမှုမရိပ်၊ ရေနှယ်သိပ်၍၊ တက်ဆိပ်မလူး၊ ဝဲမကူးတည့်၊ မိုးဦးလယ်နှောင်း၊ ခန့်တိုင်းကောင်း၏၊ ပဲပြောင်းစပါး၊ ဇလား တောင်း တင်း၊ စာရင်းမရှို၊ ကြွယ်ခေါင်ထိစွ၊ အဓမ္မမင်း၊ တရားကင်းမူ၊ ခပင်းလူမျိုး၊ မှောက်သည်အိုးသို့၊ စောက်ထိုးစောင်းပြီး၊ ဂြိုဟ်အစီးလည်း၊ ခရီးငါးပါး၊ အကောက်သွားဖြင့်၊ ပတ္တမြား ဆန်မှည့်၊ ပေးတည့်လက်လှမ်း၊ ကွမ်းစား ကမ်းလိမ့်၊ သွားတမ်းနက္ခတ်၊ နတ်လည်းမမှန်၊ ဘယ်ပြန်ညာကြော့၊ ဗီလာဆော့လျက်၊ သော့သော့ပျက်ဆိုး၊ သီးပွင့်မျိုးလည်း၊ ဆစ်ပိုးဆွံ့အ၊ အခွံလွှနှင့်၊ သိမ်ပြယ်သဲ့၊ ထဲနက်မဲ့လိမ့်၊ သုံးဆယ့်တစ်တိုက်၊ ဘဝင်ရိုက်ကို၊ စိုးပိုက်ပိုင်သိ၊ ထွတ်တိုင်ထိဖြင့်၊ အဓိကဂိုဏ်း၊ ဂုဏ်ပြည့်လျှိုင်းသည်၊ ဟောတိုင်းသစ္စာ မုံထွားတည်း။ ဟူ၍ စပ်လေသည်။

❖❖❖❖❖

၆၄၇။ အထက်သို့တွန့်၊ မွေးတော်ညွန့်၊ လွန့်၍ ဘယ့်ကြောင့်တက်သနည်း။ (၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မျက်နှာတော်၏ တင့်တယ်ခြင်းကို ကြည့်မျှော်သကဲ့သို့ အဖျားညွတ်လျက် အထက်သို့တက်သော၊ အညစ်အကြေးကင်းသော မွေးညင်းတော်ရှိသော ဥဒ္ဓဂ္ဂလောမ လက္ခဏာ တော်ကြီးလည်း တစ်ပါး။

လူခပ်သိမ်းတို့၏ ဖမျက်ကဲ့သို့ ဖမိုး၏အနီး၌ မတည်မူ၍ ဖမိုးထက် လက်လေးသစ်မျှလောက် တက်သဖြင့် မြင့်သော၊ ကြည့်၍မထင်သော၊ ဖမျက်တော်ရှိသော ဥဿင်္ခပါဒ လက္ခဏာတော်ကြီးတစ်ပါး။

ဤနှစ်ပါးသော လက္ခဏာတော်ကို ရခြင်းသည် ရှေးရှေးသော ဘဝများစွာက သတ္တဝါအပေါင်းတို့အား ကောင်းမြတ်သော တရား၌သာ ယှဉ်စေတတ်သောကြောင့် လည်းကောင်း၊ သူ့ထက်လွန်ကဲ၍ တရားကို ကျင့်တော်မူသောကြောင့် လည်းကောင်း ရတော်မူသည်။ [ပါဠိပါဠိကို လိုမူ လက္ခဏာသုတ်၌ ယူလေ]။

"အနံ့" ကာရန်ပုစ္ဆာ ၆-ပုဒ်အဖြေပြီး၏။

❖❖❖❖❖

(၂၁) ''အန်း'' ကာရန်ပုစ္ဆာ ၃၂–ပုဒ်အဖြေ။

၆၄၈။ သုံးလူ့ကြငှန်း၊တို့ထိပ်ပန်း၊ဘုန်းတန်း တရားကိုယ် ဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဘုန်း–ဟူသည်ကား–ဘဂ–သဒ္ဒါ၏အနက်ဖြစ်သည်။ ထို ဘဂ–သဒ္ဒါလည်း ဣဿရိယ, ဓမ္မ, ယသ, သိရီ, ကာမ, ပယတ္တတည်းဟူသော ခြောက်ပါးသော တရားတို့၌ ဖြစ်ရကား ဤဘုန်းခြောက်ပါးပင် တရားကိုယ်ဖြစ်၏ဟူပေ။

လူပြိန်းတို့ သိလွယ်အောင် ထင်စွာ ဆိုလိုက်ဦးအံ့–

**ပရမံ စဿ သကစိတ္တေ ဣဿရိယံ၊ အဏိမာလဃိမာဒိကံ ဝါ လောကိယသမ္မတံ သဗ္ဗာကာရပရိပူရံ အတ္ထိ။ ပ။ တသ္မာ ဣမေဟိ ဘဂေဟိ ယုတ္တတ္တာပိ ဘဂါ အဿ သန္တီတိ ဣမိနာ အတ္ထေန ဘဂဝါတိ ဝုစ္စတိ။**

ဟူသော ပါရာဇိကဏ်အဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ် အဋ္ဌကထာတို့ဖြင့် သိရာ၏။

**အနက်ကား။** ။ စ၊ ထင်စွာဆိုဦးအံ့။ အဿ ဘဂဝတော၊ ထိုမြတ်စွာ ဘုရားအား။ ပရမံ၊ လွန်စွာ။ သကစိတ္တေ၊ မိမိစိတ်၌။ ဣဿရိယံ၊ အစိုးရခြင်းသည်။ အတ္ထိ၊ ရှိ၏။ အဏိမာလဃိမာဒိကံ ဝါ၊ အဏုမြူမျှသော ကိုယ်တော်ကို ဖြစ်စေခြင်း, ကောင်းကင်မြေမိုး ပျံလျှိုးသွားလာနိုင်ခြင်း, ကြီးစေလိုသော် ကိုယ်တော်ဖြင့်ပင် မြေအပြင်ကို ပြည့်စေနိုင်ခြင်း, စိတ်တော်လိုရာ ကိုယ်တော်ပါ၍ ရောက်နိုင်ခြင်း, လိုလိုသမျှ မှုကိစ္စကို တစ်ခဏချင်း ပြီးစေနိုင်ခြင်း, ဝသီဘော်ငါးမျိုးကို အစိုးတရဖြစ်ခြင်း, ထိုဝသီဘော်ကိုသာ လေ့လာနိုင်ခြင်း, လူ–နတ် ရုပ်ဟန်ပုံ သဏ္ဌာန်ဖြင့် ဖန်ဆင်းနိုင်ခြင်းတည်းဟူသော။ (အာဒိဝန်ကို သွင်း၍ ယောဇနာသည်)။ လောကိယ သမ္မတံ၊ လောကီတန်ခိုးဟု သမုတ်အပ်သော။ သဗ္ဗာကာရ ပရိပူရံ ဝါ၊ အလုံးစုံသော အခြင်းအရာဖြင့် ပြည့်သောတန်ခိုးသည်လည်း။ အတ္ထိ၊ ရှိ၏။ တထာ၊ ထိုမှတစ်ပါး။ လောကုတ္တရော၊ လောကထက်လွန်မြတ်သော။ ဓမ္မော စ၊ တရားသည်လည်း။ အတ္ထိ၊ ရှိ၏။ လောကတ္တယဗျာပကော၊ လောကသုံးပါး၌ နှံ့သော။ ယထာဘုစ္စဂုဏာဓိဂတော၊ အဟုတ်အဟတ်သော ကျေးဇူးတော်ကြောင့် ရအပ်သော။ အတိ ဝိယ ပရိသုဒ္ဓေါ၊ အလွန်စင်ကြယ်သော၊ ယသော စ၊ ကျော်စောခြင်းသည်လည်း၊ အတ္ထိ၊ ရှိ၏။ ရူပကာယ ဒဿနဗျာဝဋ္ဋဇနယနပ္ပသာ–ဒဇနနသမတ္ထာ၊ အဆင်းတော်ကို မြင်ခြင်းကြောင့် ပွဲ့နှံ့သဖြင့် ဖြစ်သော မျက်စိ၏ ကြည်ညိုခြင်း ဖြစ်စေခြင်းငှာ စွမ်းနိုင်သော။ သဗ္ဗာကာရ ပရိပူရာ၊ ခပ်သိမ်းသော အခြင်းအရာတို့ဖြင့် ပြည့်သော။ သဗ္ဗင်္ဂပစ္စင်္ဂသိရီ စ၊ အလုံးစုံသော အင်္ဂါကြီးငယ်တို့၏ ပြည့်စုံခြင်း အသရေသည်လည်း။ အတ္ထိ၊ ရှိ၏။ ယံ ယံ အတ္တဟိတံ ဝါ၊ အကြင် အကြင်၊ ကိုယ်တော်တို့၏ အကျိုးစီးပွားကို လည်းကောင်း။

ယံ ယံ ပရဟိတံ ဝါ၊ အကြင် အကြင် သူတစ်ပါးတို့၏ အကျိုးစီးပွားကို လည်းကောင်း။ တေန ဘဂဝတာ၊ ဤမြတ်စွာဘုရားသည်။ ဣစ္ဆိတံ၊ အလိုရှိ၏။ ပတ္ထိတံ၊ တောင့်တ၏။ တသ္သ တသ္သ ဟိတဿ၊ ထိုထိုသော အကျိုးစီးပွား၏။ တထေဝ၊ ထိုတောင့်တ တိုင်းသာလျှင်။ အဘိနိပ္ဖန္နတ္တာ၊ ပြီး၏ အဖြစ်ကြောင့်။ ဣ ဋ္ဌိ တတ္တနိပ္ဖတ္တိ သညိတော၊ လိုအပ်သော အကျိုး၏ ပြီးခြင်းဟူ၍ မှတ်အပ်သော။ ကာမော စ၊ အလိုတော် သည်လည်း။ အတ္ထိ၊ ရှိ၏။ သဗ္ဗလောက ဂရုဘာဝနိပ္ဖတ္တိဟေတုဘူတော၊ ခပ်သိမ်းသော လောက၏ ဆရာ၏ အဖြစ်ကို ပြီးစေခြင်း၏ အကြောင်းဖြစ်၍ ဖြစ်သော။ သမ္မာဝါယာမသင်္ခါတော၊ သမ္မာဝါယာမဟု ဆိုအပ်သော။ ပယတ္တော စ၊ လုံ့လတော် သည်လည်း။ အတ္ထိ၊ ရှိ၏။ ဣမေဟိ ဆဟိ ဘဂေဟိ၊ ဤခြောက်ပါးသော ဘဂတရား တို့နှင့်။ တသ္မာ ယုတ္တတ္တာပိ၊ ထိုသို့ယှဉ်သည်၏ အဖြစ်ကြောင့်လည်း။ အဿ၊ ထို မြတ်စွာဘုရားအား။ ဘဂါ၊ ခြောက်ပါးသော ဘုန်းတော်တို့သည်။ သန္တိ၊ ရှိကုန်၏။ ဣတိ ဣမိနာ အတ္ထေန၊ ဤသို့သော အနက်ကြောင့်။ ဘဂဝါတိ၊ ဘဂဝါဟူ၍။ ဝုစ္စတိ၊ ဆိုအပ်၏။

ဤအဋ္ဌကထာဖြင့် ထင်စွာ သိအပ်၏ဟူပေ။

❖❖❖❖❖

## ၆၄၉။ အရိယာမှန်း၊ ဂါထာပန်း၊ ဆန်း ဂိုဏ်းအမျိုးဘယ်မျှနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဘဇသာ သဗ္ဗဂလဟူ၊ ပဉ္စမေ သဏ္ဌိတာ ဂဏာ။**
**အရိယာဒိမှိ ဝိညေယျာ၊ ဂဏော ဣဓ စတုက္ကလော။**

ဘဇသာ၊ ဘဂိုဏ်း, ဇဂိုဏ်း, သဂိုဏ်း တို့သည်လည်းကောင်း။ သဗ္ဗဂလဟူ၊ အလုံးစုံ ဂရုရှိသော မဂိုဏ်း, အလုံးစုံ လဟုရှိသော နဂိုဏ်းတို့သည်လည်းကောင်း။ ဣမေ ပဉ္စဂဏာ၊ ဤငါးပါးသော ဂိုဏ်းတို့သည်၊ အရိယာဒိမှိ၊ အရိယာ စသော မတ္တာဝုတ္တိ ဂါထာ၌။ သဏ္ဌိတာ၊ ကောင်းစွာတည်ကုန်၏ ဟူ၍။ ဝိညေယျာ၊ သိအပ်ကုန်၏။ ဣဓ၊ ဤအရိယာ စသော ဂါထာ၌။ ဂဏော၊ ဂိုဏ်းသည်။ စတုက္ကလော၊ လေးမတ္တာ ရှိ၏။

ဤသို့ ဆန်းကျမ်း၌ လာသောကြောင့် အရိယာဂါထာ၌ ဆန်းမျိုးကား မပြား၊ ဂိုဏ်းမျိုးကား လေးမတ္တာရှိသော ဘ–ဂိုဏ်း, ဇ–ဂိုဏ်း, သ–ဂိုဏ်း အလုံးစုံ ဂရု–လဟုရှိသော မ–ဂိုဏ်း န–ဂိုဏ်းအားဖြင့် ငါးပါး အပြားရှိ၏ ဟူပေ။

❖❖❖❖❖

## ၆၅၀။ သစ်သီးရွှန်းရွှန်း၊ တစ်လုံးမှန်း၊ ပဋ္ဌာန်းပစ္စည်း ဘယ်မျှနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သစ်သီး အဆင်း တည်းဟူသော ရူပါရုံ၊ အနံ့ တည်းဟူသော ဂန္ဓာရုံ။ အရသာတည်းဟူသော ရသာရုံ။ နူးညံ့သော အတွေ့တည်းဟူသော ဖောဋ္ဌဗ္ဗာရုံ၊ ဝါးသောအခါ ကြွပ်ကြွပ်မြည်သော အသံတည်းဟူသော သဒ္ဒါရုံတို့သည် သုံးဆောင်သော သူ ပဉ္စ ဝိညာဏဝီထိ, မနောဒွါရိကဝီထိစိတ်တို့အား အာရမ္မဏပစ္စည်း လည်းကောင်း, အာရမ္မဏပုရေဇာတပစ္စည်းလည်းကောင်း ဖြစ်၏။ သစ်သီး၌ရှိသော ဩဇာသည် အာဟာရပစ္စည်းလည်း ဖြစ်၏။ အာရမ္မဏူပနိဿယ။ ပကတူပနိဿယပစ္စည်း။ ပုရေဇာတတ္ထိပစ္စည်း။ ပုရေဇာတ ဝိဂတပစ္စည်း ထိုက်၏ဟူပေ။ ထို့ကြောင့် တစ်လုံးသော သစ်သီးသည် ခုနစ်ပစ္စည်းထိုက်၏။

❖❖❖❖❖

## ၆၅၁။ တစ်ရာစီထွန်း၊ စောက်အဝန်း၊ မယွန်းတာပေါင်း ဘယ်မျှနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အလျား တာတစ်ရာ၊ အနံ တာတစ်ရာ၊ စောက် တာတစ်ရာရှိသော တိုက်ကို တစ်တာစီစဉ်၍ ထားသော် တာပေါင်းဘယ်မျှရှိသနည်း–ဟု မေးလိုသည်။

အတွက်ကား အလျား တာတစ်ရာကိုတည်၊ အနံ တာတစ်ရာနှင့်မြှောက်၊ စောက် တာတစ်ရာလည်း ထပ်၍မြှောက်၊ တာပေါင်း ''တစ်သန်း''ရှိ၏ ဟူပေ။ အနည်းငယ် ကိုလည်းကောင်း, အများကိုလည်းကောင်း ဤနည်းတူချည်း တွက်ရမည်။

❖❖❖❖❖

## ၆၅၂။ စက္ကဝါဝန်း၊ ကျယ်သွန်းသွန်း၊ ညွန်းသော် လက်သစ် ဘယ်မျှနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ဆတ်သွားအနန်း၊ စပယ်ပန်း၊ အဝန်းစက္ကဝါ''ဟူ၍ ဆရာတို့ မိန့်သည်နှင့် အညီ ယူဇနာ (သုံးသန်း ခြောက်သိန်း တစ်သောင်း သုံးရာငါးဆယ်) သချ်ာကို တည်၍ တစ်ယူဇနာလျှင် လေးဂါဝုတ်ရှိသောကြောင့် လေးခုမြှောက်။ ဂါဝုတ်ပေါင်း (တစ်ကုဋေ လေးသန်း လေးသိန်း လေးသောင်း တစ်ထောင့်လေးရာ) ဖြစ်၏။ တစ်ဂါဝုတ်လျှင် ဥသဘ ရှစ်ဆယ်ရှိသောကြောင့် ၎င်းဂါဝုတ်ပေါင်းကို ရှစ်ဆယ် မြှောက်ပြန်၊ ဥသဘပေါင်း (ကုဋေတစ်ရာ့ တစ်ဆယ့်ငါးကုဋေ ငါးသန်း သုံးသိန်း တစ်သောင်း နှစ်ထောင်) ဖြစ်၏။ တာနှစ်ဆယ်လျှင် တစ်ဥသဘ ဖြစ်ရကား ဥသဘနှစ်ဆယ်မြှောက်ပြန်။ တာပေါင်း (ကုဋေ နှစ်ထောင့် သုံးရာ့ ဆယ်ကုဋေ ခြောက်သန်း နှစ်သိန်း လေးသောင်း) ဖြစ်၏။ တစ်တာလျှင် ခုနစ်ထောင်ရှိရကား

ယခင့် တာပေါင်းကို ခုနစ်ခု မြှောက်။ တောင်ပေါင်း (ကုဋေ တစ်သောင်း ခြောက်ထောင့် တစ်ရာ့ ခုနစ်ဆယ့်လေးကုဋေ သုံးသန်း ခြောက်သိန်း ရှစ်သောင်း) ဖြစ်၏။ ၎င်းတောင်ပေါင်းကို တည်။ တစ်တောင်လျှင် နှစ်ဆယ့်လေးလက်သစ် ရှိသောကြောင့် နှစ်ဆယ့်လေးခုမြှောက်။ လက်သစ်ပေါင်း (ကုဋေ သုံးသိန်း ရှစ်သောင်း ရှစ်ထောင့် တစ်ရာ့ ရှစ်ဆယ့်လေးကုဋေ ရှစ်သန်း သုံးသိန်း နှစ်သောင်း) ဖြစ်၏။ ဤမျှလောက် လက်သစ်ရှိ၏ ဟူပေ။

❖❖❖❖❖

## ၆၅၃။ စစ်ကိုင်းတည်ထွန်း၊ဘုံရိပ်မွှန်း၊စောယွမ်း နန်းထက်ဖွားလိမ့်နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– နန်းထက်ဖွားပင် ဖြစ်သည်ဟုဖြေ။

ထိုမင်း၏ အကြောင်းကို အမြွက်မျှ ဆိုလိုက်ဦးအံ့–

ပင်လယ်မြို့၌ တစ်စီးရှင် သီဟသူ မင်းမူသောအခါ မြောက်ဘက် လင်းယဉ်ရွာ၌ အသည်သမီး တစ်ယောက်သည် အဆင်းအင်္ဂါ လက္ခဏာကြီးငယ်နှင့် ပြည့်စုံ၏။ အရွယ်သို့ ရောက်လျှင် မိဘတို့က သင့်တင့်သော ယောကျ်ားတစ်ယောက်နှင့် ပေးစား၍ များမကြာ သားတစ်ယောက် မြင်လျှင် လင်သည်လည်းကောင်း, မိဘတို့သည် လည်းကောင်း ကြမ္မာကုန်လေ၏။ မိဘတို့နှင့် လင်မရှိလျှင် ထိုမိန်းမငယ်သည် ''ငါ၏ အဆင်းအင်္ဂါနှင့်ကို ဆင်းရဲနိုင်မည်လော''ဟူ၍ မြောက်ဘက်အရပ်ကသည် တောင်ဘက် ပင်လယ်အရပ်သို့ သွား၍ နေလေ၏။

တစ်ရံသောအခါ တစ်စီးရှင်သီဟသူသည် ပင်လယ်မြို့ကို မင်းပြုသောအခိုက် တောကစားအံ့ဟု သွားတော်မူရာဝယ် ထိုမိန်းမငယ်ကို မြင်လေ၏။ မိန်းမငယ်လည်း ရှေးပြုဖူးသော ကုသိုလ်ကံသည် အကျိုးပေးချိန်တန်ပြီဖြစ်၍ မင်းကြီးသည် အလွန် တိမ်းညွတ်တော်မူရကား မင်းချင်းတစ်ယောက်ကို ခေါ်စေ၍ ''ဤမိန်းမငယ်တွင် လင်မရှိသလော''ဟု မေးတော်မူ၏။ မိန်းမငယ်ကလည်း ''ကျွန်ုပ်မိဘ ထိမ်းမြားသော လင်သည် သားတစ်ယောက်မြင်လျှင် ကြမ္မာကုန်လေသည်။ ယခု ကျွန်ုပ်တွင် လင်မရှိ၊ နှစ်နှစ်အရွယ် သားငယ်တစ်ယောက်သာ ရှိပါသည်''ဟု နားတော်လျှောက်၏။ သီဟသူလည်း သူငယ်မ၏ အဆင်းပြင်လျာကို မြင်ကတည်းက နှလုံးတိမ်းညွတ်လှသည် ဖြစ်၍ နန်းတင်လေ၏။

နန်းတင်၍ များမကြာမီ သန္ဓေရှိ၍ နေ့လစေ့လျှင် အသခ်ယာစောယွမ်းကို မျက်နှာမြင်၏။ နောက် သမီးတော် စောပုလဲကို ဖွားမြင်ရာတွင်မှ ထိုမိန်းမသည် ''ရတနာပုံ'' ဟူသောအမည်နှင့် မြောက်နန်းနေရ၏။ ၎င်းမြောက်နန်းမိဖုရားသည် မိန်းမမြတ်ဖြစ်ရကား မင်းကြီးသာ၍ မြတ်နိုးတော်မူ၏။ သားတော် အသခ်ယာစောယွမ်း ကိုလည်း အလွန် သနားတော်မူသည်ဖြစ်၍ အရွယ်ရောက်သောအခါ သားတော်ကြီးတို့

ဝမ်းမနည်းရအောင် ပရိယာယ်ရှာ၍ များစွာသော ဆင်ကောင်း, မြင်းကောင်း, ကျေးကျွန်ကောင်းတို့ကို အပ်နှင်း၍ စစ်ကိုင်းမြို့ကို တည်နေစေ၏။ ခမည်းတော်လွန်၍ သက္ကရာဇ် ၆၈၄-ခုရှိသောအခါ ထီးနန်းအသီးထူ၍ မင်းမူလေ၏။ [အကျယ်ကို မဟာရာဇဝင်၌ ယူလေ]

❖❖❖❖❖

၆၅၄။ သာသနာထွန်း၊ သီဟိုဠ်ကျွန်း၊ ဦးစွန်းတည်စ ဘယ်မင်းနည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သီဟဗာဟု၊ စောနတ်တု၏။ မျက်ရှုသားလှ၊ ဝိဇယလျှင်၊ ဒသနောက်ပါ၊ ခုနစ်ရာနှင့်၊ လင်္ကာဒီပ၊ ပဏ္ဏိယသို့၊ လာလမည်ထူး၊ တိုင်းမှကူး၍၊ နတ်မျိုး လည်းမ၊ တည်ထောင်ကြပြီ။ [ရာဇဝင်ချုပ်လင်္ကာ]။

❖❖❖❖❖

၆၅၅။ သစ်ကြီးရှန်းရှန်း၊ လေးပင်ထွန်း၊ အဝန်းဘယ်မျှစီတို့နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ရှေ့ကျွန်းကုက္ကို၊ ထိန်ပျိုနောက်မြေ၊ ပဒေသာမြောက်၊ ဝေဝေမောက်လျက်၊ တောင်ရောက်မြေငူ၊ သပြေဟူရှင့်၊ အယူဇနာ၊ တရာစွင့်စွင့်၊ ညီစွာမြင့်၏။

ဟူ၍ မဟာသာရပျို့၌ လာသည်နှင့်အညီ- သစ်ကြီးလေးပင်သည် ယူဇနာ တစ်ရာစီမြင့်ရကား အရိပ်နေအချင့်လည်း တစ်ရာပင်ရှိသင့်သည်ဖြစ်၍ အဝန်းသုံးလီ ပြန်သောအားဖြင့် ယူဇနာ သုံးရာစီရှိ၏ဟု သိရမည်။

လင်္ကာနှင့်သာ ဆရာဖြေ၍ ကျမ်းသာဓကကို မပြသော် အဘယ်သို့ ယုံကြည်နိုင်အံ့ နည်း ဟူငြားအံ့-

**''သာခါ မဏ္ဍလဝင္ဋံ တီဏိ ယောဇနသတာနိ။ ခန္ဓော ပဉ္စဒသယောဇနာ- ဝဋ္ဋော''** ဟူ၍ သာရတ္ထသင်္ဂဟ၌ မိန့်အပ်ပြီ။

❖❖❖❖❖

၆၅၆။ ရွှေညောင်ကြငှန်း၊ ညွန့်လန်းလန်း၊ တွက်ခန်းရွက်ပေါင်းဘယ်မျှနည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ပတ္တော၊ ရွက်ချပ်သည်။ ဒွိသတကောဋိယော၊ ကုဋေနှစ်ရာ့ခြောက်ချပ်ရှိ၏ ဟူ၍ ဗောဓိရှိနိုးတို့၌ လာသည့်အတိုင်း သိရာ၏ဟု ဖြေ။

❖❖❖❖❖

**၆၅၇။ နှစ်သုံးဆယ်မှန်း၊ ကမ္မဋ္ဌာန်း၊ စီးဖြန်းမင်္ဂရ ဘယ်သူနည်း။(၁၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သီဟိုဠ်ကျွန်း ရောဟဏဇနပုဒ်၌နေသော မဟာရက္ခိတထေရ်ဟူပေ။

အကြောင်းကို အမြွက်မျှ ဆိုဦးအံ့–

သီဟိုဠ်ကျွန်း မဟာဝိဟာရ ကျောင်းတိုက်၌နေသော တိပိဋကစူဠာဘယ အမည်ရှိသော ထေရ်သည် အဋ္ဌကထာကိုထား၍ ဘုရားဟော ပါဠိ၌ နိကာယ်ငါးရပ်လုံးကို ဆောင်၏။ တစ်ရံသောအခါ ထိုဆရာသည် ''ငါဆောင်သော ပိဋကတ်သုံးပုံကို အကုန်ပြန် လိုပါသည် အဘယ်ပုဂ္ဂိုလ် တရားနာလိုသနည်း''ဟု စည်လှည့်စေ၏။

ထိုစကားကို ကြားသော် ထိုမထေရ်၏ ဥပဇ္ဈာယ်ဆရာသည် ဤသို့ဆို၏ ''ချစ်သား အဘယ–သင်သည် ပိဋကတ်သုံးပုံကို ပြန်လိုသည်ဟု စည်လှည့်ကြောင်းကို ငါကြားသည်၊ မှန်သလော''ဟု မေး၏။ အဘယထေရ်လည်း မှန်ကြောင်းကို လျှောက်လျှင် ''ချစ်သား အဘယဆရာကောင်းတို့၏ အထံမှ အဆုံးအဖြတ်ကို ကြားနာရအောင် သင်ပြန်လိုမူ ဂင်္ဂါမြစ်၏ တစ်ဖက်ဖြစ်သော ရောဟဏဇနပုဒ် တုလာဝါရကျောင်း၌ အဋ္ဌကထာနှင့်တကွ ပိဋကတ်သုံးပုံကို ဆောင်သော မဟာရက္ခိတထေရ်၏ အထံသို့သွား၍ ပြန်လေ''ဟု ဆိုပေ၏။ ထိုစကားကိုကြားသော် အဘယထေရ်လည်း ''ကောင်းပါပြီ''ဟု ဝန်ခံ၍ ထိုဆရာ့ထံသို့ သွားလေ၏။

မဟာရက္ခိတထေရ်က ''ငါ့ရှင် ဘယ့်ကြောင့်လာသနည်း''ဟု မေးလျှင် ''အရှင်ဘုရား၏ တရားအဆုံးအဖြတ်ကို နာခြင်းငှာ လာပါသည်''ဟု လျှောက်၏။ ထိုအခါ မဟာရက္ခိတထေရ်လည်း ''ငါ့ရှင် အဘယ ဒီဃနိကာယ်, မဇ္ဈိမနိကာယ်၌ အဓိပ္ပါယ် အနက်တို့ကို သံဃာတို့ ငါ့အား မပြတ်မေးသောကြောင့် နှုတ်သို့ တက်၏။ ကြွင်းသော နိကာယ်သုံးကျမ်းတို့ကို မသရဇ္ဈာယ်သည်ကား အနှစ်သုံးဆယ်ရှိပြီ။ ကမ္မဋ္ဌာန်းကိုသာ လေ့လာ၍ လစ်လပ်ချေသည်။ သို့သော်လည်း သင်ညအခါ ပြန်ဆိုလျှင် နေ့ကို သင့်အား ငါဟောအံ့''ဟု မိန့်ပေ၏။

ထိုစကားကိုကြားသော် အဘယထေရ်လည်း ကောင်းပါပြီဟု ဝန်ခံ၍ ညည၌ ပြန်ဆို၏။ ထို၏ အဓိပ္ပါယ်ကို နေ့နေ့အခါ မဟာရက္ခိတထေရ်လည်း ဟောကြားပေး၏။ ရွာသူ ရွာသားတို့လည်း များစွာတရားနာကြ၏။ တရားဟော၍ ဆုံးသောအခါ မဟာရက္ခိတထေရ်လည်း ကပ်စိတ် ထက်နေ၍ ''ငါ့ရှင်အဘယ၊ ငါ့အား ကမ္မဋ္ဌာန်းကို ဟောဦးလော့'' ဟု ဆို၏။ ထိုအခါ အဘယထေရ်ကလည်း ''အရှင်ဘုရား၏နှုတ်မှ ကျွန်ုပ်သင်ရပါသည်။ ဘယ်သို့ ကျွန်ုပ် ဟောနိုင်ပါအံ့နည်း''ဟု လျှောက်လျှင် ''ငါ့ရှင်အဘယ ပြီးပြီးသော ကိစ္စရှိသောသူအား အကြောင်းထူးတစ်ပါး ဖြစ်သည်သာတည်း။ ဟောသာ ဟောလော့''ဟု တောင်းပန်လျှင် အဘယထေရ်လည်း သိသမျှကိုပင် ဟောရလေ၏။ ထိုဒေသနာကို ကြားနာရသဖြင့် မဟာရက္ခိတထေရ်လည်း အထက်မဂ် 68 B

သုံးပါးကိုရ၍ ကိစ္စပြီးမြောက်လေ၏၊ ဤအကြောင်းကို ဝိသုဒ္ဓိမဂ် အဋ္ဌကထာ ဂန္ထ ပလိဗောဓအရာ၌ လာသည်]။

**တစ်နည်းကား။** ။ သီဟိုဠ်ကျွန်းဝယ် ရွာအနီး တောင်ခေါင်း၌နေသော မဟာသိဝထေရ်တည်း ဟုဖြေ။

ထိုမထေရ်၏အကြောင်းကား– မဟာဝိဟာရတိုက်၌ သီတင်းသုံး၍ ပိဋကတ် သုံးပုံကို အဋ္ဌကထာနှင့်တကွ ဆောင်ပြီးလျှင် တစ်ဆယ့်ရှစ်ရပ်သော ဂိုဏ်းကြီးတို့ကို စာပို့၍နေသော မဟာသိဝမည်သောမထေရ်သည်ရှိ၏။ ထိုမထေရ်၏အထံ၌ ဩဝါဒကို ခံ၍ သုံးသောင်းမျှသော ရဟန်းတို့သည် ကမ္မဋ္ဌာန်းကို အားထုတ်သဖြင့် အရဟတ္တဖိုလ်သို့ ရောက်ကြ၏။

ထိုသုံးသောင်းတို့တွင် တစ်ပါးသော ပိဏ္ဍပါတိက ရဟန်းသည် ဤသို့ ကြံ၏။ ''ငါ၌ရသော ဂုဏ်ကျေးဇူးတို့ကား အတိုင်းမသိကုန်ပြီ၊ ငါ့ဆရာ၏ သန္တာန်၌ကား အဘယ်မျှလောက် ရှိပါလိမ့်နည်း''ဟု ဆင်ခြင်သော် ကလျာဏ ပုထုဇဉ်မျှသာ ဖြစ်သေးသည်ဟု မြင်၍ ''ကျေးဇူးရှင်ဖြစ်သော ငါတို့ဆရာသည် သူတစ်ပါးတို့၏ ကိုးကွယ်ရာသာ ဖြစ်၍ မိမိ၏ ကိုးကွယ်ရာကို မပြုနိုင်ချေ။ ငါသည် သတိရစေအံ့''ဟု ကြံပြီးလျှင် ညချမ်းအချိန်တွင် ကောင်းကင်ခရီးဖြင့်လာ၍ ဆရာ၏ ကျောင်းအနီး၌ သက်ပြီးလျှင် ဆရာ့ထံသို့ ကပ်၍ ပြုအပ်သမျှသော အာစရိယဝတ်ကို ပြုပြီးလျှင် အနီး၌ထိုင်နေ၏။

ထိုအခါ မဟာသိဝထေရ်က ''ငါ့ရှင်ပိဏ္ဍပါတိက၊ သင်သည် အဘယ်ဆန္ဒဖြင့် ငါ့ထံသို့လာသနည်း''ဟု မေး၏။ ထိုရဟန်းကလည်း ''အရှင်ဘုရားထံတွင် တစ်ခုသော အနုမောဒနာကို သင်ခြင်းငှာ လာပါသည်။ ခွင့်ပြုတော်မူပါ''ဟု လျှောက်၏။ မထေရ် ကလည်း ''ငါ့ရှင် ငါကား အားလပ်သောအခွင့်မရှိ၊ သူတစ်ပါးထံ၌သာ သင်လေ လော့''ဟု ဆို၏။ ''အရှင်ဘုရား အားလပ်သောအခါ မရသာသော် ကိုယ်တော်သည် ကမ္မဋ္ဌာန်းစင်သို့ ဝင်သောအခါ၌ သင်ပါရစေ''ဟု လျှောက်၏။ ''ဤအခါ၌လည်း ငါအခွင့်မပြုနိုင်''ဟု ဆိုလျှင် ''အရှင်မြတ် ဆွမ်းခံသောအခါ လမ်းခရီး၌ သင်ပါ ရစေ''ဟု လျှောက်၏။ ထိုအခါလည်း ငါခွင့်မပြုနိုင် ဆိုပြန်လျှင် ''အရှင်မြတ် သင်္ကန်းရုံသောအခါ၌ သင်ပါရစေ။ ဆွမ်းခံအံ့ဟု သပိတ်ထုတ်သောအခါ၌ပင် သင်ပါ ရစေ။ ဆွမ်းစားဇရပ်သို့ ဝင်သောအခါ၌ပင် သင်ပါရစေ။ ယာဂုသောက်သော အခါ၌ပင် သင်ပါရစေ၊ ဆွမ်းစားပြီး၍ လက်ဆေးသောအခါ၌ပင် သင်ပါရစေ''ဟု ဆို၏။ ဤသို့ စသည်ဖြင့် အရဏ်တက်သည် တိုင်အောင် ကာလကိုချင့်၍ ခွင့်တောင်း၏။ မထေရ်လည်း ခွင့်တောင်းသမျှပင် ''ငါကား မအားလပ်၊ သူတစ်ပါး ထံ၌သာ သင်လေ''ဟု ဆို၏။ ထိုအခါ ပိဏ္ဍပါတိက ရဟန်းက ''အရှင်ဘုရား၊ကိုယ်တော်သည် ကျွန်ုပ်အားလည်း သနားတော်မမူ။ ကိုယ့်ကိုယ်ကိုလည်း သနားတော်မမူ။ သူတစ်ပါးကိုသာ သနားတော်မူရှာ၏''ဟု ဆိုပြီးလျှင် ကြည်လင်စွာ ရှိခိုးဦးလျှက် ကောင်းကင်ခရီးဖြင့် ပြန်လေ၏။

ထိုအခါ မဟာသိဝထေရ်သည် ဤသို့ကြံ၏ ''ဤပိဋကပါတိကရဟန်းကား အနုမောဒနာ သင်ဖွယ်ရာမရှိ။ ငါ့ကို သတိပေးလို၍သာ ခွင့်တောင်းလာသည်။ ငါ့အား ကောင်းစွာ လမ်းပြသော ချွန်းတောင်းနှင့် တူပေသော သူတည်း''ဟု သိ၍ ''ယခုအခါ၌ ငါ၏ ကိစ္စပြီးအောင် ရွက်ဆောင်တော့အံ့''ဟု ကြံပြီးလျှင် သပိတ်သင်္ကန်းကို ပြင်၍ အနီး၌ ထားပြီးမှ ညဦးယံ၊ သန်းခေါင်ယံကာလ၌ သင်ယူလာသမျှသော ရဟန်းတို့အား ပရိယတ်တရားကို ပို့ချပြီးသော် အတန်ငယ် ကျိန်း၍ မိုးသောက်သောအခါ၌ ပါဠိ သင်လာသော ရဟန်းတစ်ပါးအား ပို့ချ၍ ထိုရဟန်းနှင့်အတူ ကျောင်းမှထွက်ပြီးလျှင် ရွာ၏ အနီးဖြစ်သော တောင်ခေါင်းသို့ဝင်၏။

ဤအရှင်မြတ် နှလုံးသွင်းကား ''ငါသို့သော ဗဟုသုတနှင့်ပြည့်စုံသော ပုဂ္ဂိုလ်သည် အရဟတ္တဖိုလ်ကို အားထုတ်ရမူ နှစ်ရက်သုံးရက်မျှဖြင့် ကိစ္စပြီးငြိမ်း ရာသည်။ ပြီးငြိမ်းသောအခါမှ လျင်စွာ ပြန်မည်''ဟု နှလုံးပြု၍ စာသင်တပည့်တို့အား ဘယ်စကားမျှ မပြောဘဲ ကိစ္စတစ်ပါးဖြင့် တစ်မုဟုတ်မျှ သွားသကဲ့သို့ ဝါဆိုလဆန်း ဆယ့်သုံးရက်နေ့ နံနက်အခါ၌ ထွက်၍ တောင်ခေါင်းသို့ ဝင်ပြီးလျှင် စင်္ကြံသွားလျက် ကမ္မဋ္ဌာန်းစီးဖြန်း၏။ပင်ပန်းလှသောအခါမှ အိပ်ရာ၌ လျောင်း၍ နိုးသောကာလ စီးဖြန်းမြဲ စီးဖြန်း၏။ ဤသို့သောနည်းအားဖြင့် ကြိုးစားအားထုတ်ပါသော်လည်း မဂ်ရိပ် ဖိုလ်ရိပ်ကို တဆိတ်မျှ မမြင်ဘဲ ဝါလကုန်လေ၏။

ဝါတွင်းသုံးလကုန်၍ သီတင်းကျွတ်လပြည့်သို့ ရောက်သောအခါ မဟာသိဝ ထေရ်သည် ဤသို့ကြံဆင်ခြင်၏။''ငါသည် နှစ်ရက် သုံးရက်ဖြင့်သာ အရဟတ္တဖိုလ် ချမ်းသာကို ယူအံ့ဟု လာသည်။ ယခုမှာ ဝါကျွတ်၍ ပဝါရဏာနေ့သို့ပင် ရောက်ချေပြီ။ ငါ၏ သီတင်းသုံးဖော်တို့သည် စင်ကြယ်သော ဝိသုဒ္ဓိပဝါရဏာကို ပြုကုန်လတ္တံ့။ ငါမူကား အားထုတ်ပါသော်လည်း အရာမထင် မစင်မကြယ်သေး။ ငါ၏ရှေးကံသည် နည်းလှချေ တကား''ဟု များစွာ ဝမ်းနည်းကြေကွဲလျက် မျက်ရည်တရွဲရွဲကျ၏။

ထိုနေ့၌ ပြကတေ့သော ပဝါရဏာကို ပြုပြီး၍ ညအခါ ဤသို့ကြံပြန်၏။ ''ဣရိယာ ပုတ်လေးပါးကို ထားသဖြင့် ငါ့အား အရဟတ္တဖိုလ်သို့ မရောက်နိုင်ရာ၊ ညောင်စောင်း၌ လျောင်းခြင်း ဣရိယာပုတ်ကိုပယ်၍ ထိုင်ခြင်း, သွားလာခြင်း ဣရိယာပုတ်ဖြင့်သာ အခါကို ငါလွန်စေအံ့။ အရဟတ္တဖိုလ်သို့ မရောက်သမျှ ကျောချ၍ ငါမလျောင်းပြီ၊ ခြေကိုလည်း မဆေးပြီ''ဟု အဓိဋ္ဌာန်ထား၍ ရဟန်းတရားကို အားထုတ်၏။ စင်္ကြံ သွားဖန်များသဖြင့် ခြေဖဝါးကွဲအက်ရုံမက ထက်ဝန်းကျင်မှ ဖွားရရွားထသော ဆောက်ရိုး ကဲ့သို့ အသားတို့ သည် ဖွားရရွားထသည်ဖြစ်၍ ပပ်ကြား ပပ်သေးမှ သွေးတို့သည် ယိုထွက်ကုန်၏။ အသားမထွက်ရအောင် ဆူးတို့ဖြင့် ချုပ်စပ်၍ ထားရ၏။ ထိုသို့ ဖြစ်သည် ကိုမြင်၍ ရွာတွင် သူငယ်တို့သည် စကားကျိန်ဆိုဖွယ်ရှိလျှင် အရှင်မဟာသိဝထေရ်ကဲ့သို့ ငါ၏ခြေ ဖြစ်စေသော''ဟု ကျိန်ကုန်၏။

ဤသို့နည်းအားဖြင့် နက်ဖြန်ရနိုး၊ သန်ဘက်ရနိုးကြိုးစားအားထုတ်ပါသော်လည်း နှစ်ဆယ့်ကိုးနှစ်ကြာ၍မျှ ရဟန္တာဖြစ်စိမ့်သောငှာ မတတ်နိုင်၊ သုံးဆယ်ပြည့်သော ဝါ၏ ပဝါရဏာအဖိတ်နေ့ည၌ တံကဲပျဉ်ကို မှီ၍ ရပ်ပြီးလျှင် ဤသို့ကြံဆင်ခြင်၏။ ''ငါကား နှစ်ရက် သုံးရက်မျှဖြင့် ကိစ္စကို ပြီးစေအံ့ဟု ထွက်လာသည်။ နှစ်ပေါင်းသုံးဆယ် ကြာချေပြီ။ ရဟန္တာအဖြစ်သို့လည်း မရောက်နိုင်။ ငါသည် ဤကိုယ်၏အဖြစ်၌ စင်စစ် မဂ်ကို ရထိုက်သောသူ ဟုတ်မည်မထင်။ စင်ကြယ်သော သီတင်းသုံးဖော်တို့နှင့် ဝိသုဒ္ဓိ ပဝါရဏာကို ငါမပြုရနိုင်ချေ တကား''ဟု များစွာ နှလုံးမသာခြင်း ဖြစ်လျက် မျက်ရည် ယိုစီး၏။

ထိုအခါ အနီး၌နေသော နတ်သမီးတစ်ယောက်သည် မထေရ်၏အပါး၌ များစွာငို၍ ရပ်၏။ မထေရ်က ''သင် ဘယ်သူနည်း''ဟု မေးသော် ''အကျွန်ုပ် နတ်သမီးပါတည်း'' ဟု လျှောက်၏။ ''ဘယ့်ကြောင့် သင်ငိုသနည်း''ဟု မေးပြန်လျှင် ''အရှင်ဘုရား– မဂ်တရားတို့ကို ငိုလျှင် ရလိမ့်မည် ထင်သောကြောင့် တစ်ခု နှစ်ခုသော မဂ်ဖိုလ်ကို လိုချင်၍ ငိုပါသည်''ဟု လျှောက်၏။

ထိုစကားကို ကြားသောအခါ မဟာသိဝထေရ်သည် မိမိကိုယ်ကို ဤသို့ ဆိုဆုံးမ၏၊ ''အချင်းမဟာသိဝ၊ သင်၏ဖြစ်အင်ကို အမြင်ငြီးသောကြောင့် နတ်သမီးပင် ပြက်ရယ် ပြုချေပြီ၊ သင်၏ စိတ်ကို ပြုပြင်၍ ယခင်အားထုတ်မြဲသော ဝိပဿနာ တရားကို ကြိုးစားဦးလော့''ဟု ဆုံးမ၍ အနတ္တ, အနိစ္စ လက္ခဏာကို ဆင်ခြင်လျှင် ထိုနေရာတွင်ပင် လေးအင်သော မဂ်ဉာဏ်ဖြင့် နိဗ္ဗာန်ကို မြင်သိ၍ ပဋိသမ္ဘိဒါ လေးပါးနှင့်တကွ အရဟတ္တဖိုလ်သို့ ရောက်လေ၏။

ထိုအခါမှ လွန်စွာဝမ်းမြောက်လှလျက် ''ငါ၏ကိစ္စကား ပြီးပြီ။ ယခုအခါ မသန့်စွာသော ဤခြေကို ဆေး၍အိပ်တော့အံ့''ဟု ကြံ၍ ကျောင်းကို သုတ်သင်ပြီးလျှင် ညောင်စောင်းကိုခင်းခဲ့၍ ရေရှိရာသို့ ချဉ်း၍ ခြေဆေးအင်းပျဉ်ထက် ရပ်လေသော် မထေရ်၏တပည့်တို့သည် ငါတို့ဆရာကား နှစ်ပေါင်းသုံးဆယ်ကြာအောင် လွန်စွာ အားထုတ်ခြင်းဖြင့် ကိစ္စပြီးပါပြီလော''ဟု ဆင်ခြင်သဖြင့် ပြီးကြောင်းကို မြင်ကြသော် ''ငါတို့ကဲ့သို့သော တပည့်များရှိပါလျက် ဆရာသည် မိမိခြေကို မိမိဆေးခြင်းငှာ မသင့် ပေတကား''ဟု အများဝန်းရံကာ ခြေဆေးခြင်းငှာ ကပ်လာကြ၏။ မထေရ်လည်း ''တပည့်တို့–သင်တို့ ဆိုင်းဦးလော့။ ငါ၏ခြေကို ငါပင်ဆေးအံ့''ဟု ဆို၏။

သိကြားမင်းလည်း ထိုခဏ၌သိ၍ သုဗိတာနှင့်တကွ လာပြီးလျှင် ထက်ဝန်းကျင် နေသော ရဟန်းတို့အား ဆုတ်ရှားစိမ့်သောငှာ သုဗိတာကို ရှေ့တင်၍ ''အရှင်ဘုရား တို့နှင့် မလျော်သော ဝိသဘာဂ ပုဂ္ဂိုလ်လာသည်။ ရှားပါ၊ ရှားပါ''ဟု ဆိုပြီးလျှင် အရှင်မြတ်ထံသို့ ကပ်၍ ''ခြေတော်ကို အကျွန်ုပ်ဆေးခြင်းငှာ စောင့်နေသည် ကြာပါပြီ။ ကျွန်ုပ်ဆေးပါရစေ''ဟု လျှောက်၏။

မထေရ်မြတ်ကလည်း ''သိကြားမင်း–လူတို့၏ ကိုယ်မည်သည်ကား အလွန် စက်ဆုပ်ဖွယ်ရှိ၏။ နတ်တို့အား ယူဇနာတစ်ရာကပင် သူကောင်ပုပ်ကဲ့သို့ ထင်တတ်၏။ ငါ၏ခြေကို ငါဆေးအံ့''ဟု ဆိုလျှင် ''အရှင်ဘုရား–ဤစကားလည်း မှန်၏။ သို့ရာတွင် အရှင်မြတ်၏ သီလရနံ့ကား နတ်ပြည်ခြောက်ထပ်နှင့်တကွ ဗြဟ္မာနှစ်ဆယ်ကို လွှမ်း၍ တည်၏။ ထို့ကြောင့်သာလျှင် အကျွန်ုပ်လာပါသည်''ဟု လျှောက်ပြီးလျှင် မိခင်သည် သား၏ခြေကို ဆုပ်သကဲ့သို့ လက်တစ်ဖက်ဖြင့် သုံးသပ်သော် နတ်၏ အာနုဘော်ကြောင့် မလျော်သော အညစ်အကြေးနှင့်တကွ ကွဲပပ်သမျှ ရောဂါသည် ပျောက်၍ ပြကတေ့ နူးညံ့သော အဖြစ်သို့ ရောက်လေ၏။ ထိုအခါ မဟာသိဝထေရ် လည်း ရည်မှတ်သော အတိုင်း သီတင်းသုံးဖော်တို့နှင့်တကွသော ဝိသုဒ္ဓိပဝါရဏာကို ပြုလေ၏။ ဤသို့ သုတ်မဟာဝါ အဋ္ဌကထာ၌ လာသည်။

❖❖❖❖❖

၆၅၈။ သူ့အားပြည့်ွန်း၊ စေတိုက်တွန်း၊ တွင်မှန်း ဘယ်ကတ္တားပေနည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သယံကတ္တား၊ ဟေတုကတ္တား၊ ကမ္မကတ္တားအားဖြင့် သုံးပါးတို့တွင် သူ့အား တိုက်တွန်းတတ်သော ကတ္တားသည် ကိရိယာပြီးခြင်း၏ အကြောင်းဖြစ်သောကြောင့် ဟေတုကတ္တားမည်၏။ ပြယုဂ်ကား ''သာမိကော ပုရိသံ ဩဒနံ ပါစာပေတိ'' အစရှိသည် တည်း။

ပယောဇက ကတ္တား၊ ပယောဇ္ဇက ကတ္တားအားဖြင့် နှစ်ပါးတို့တွင် တိုက်တွန်း တတ်သော ကတ္တားသည် ပယောဇက ကတ္တားမည်၏။ ၎င်း ဥဒါဟရုဏ်ပင်။

❖❖❖❖❖

၆၅၉။ ကိုးရာအဝန်း၊ မဇ္ဈေထွန်း၊ ကျမ်းညွှန်းနိမိတ် ဘယ်မျှနည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပုရတ္ထိမာယ ဒိသာယ ဇင်္ဂလံ နာမ နိဂမော။ တဿပရေန မဟာ သာလော။ တတော ပရံ ပစ္စန္တိမာ ဇနပဒါ။ ဩရတော မဇ္ဈေ။ ဒက္ခိဏပုရတ္ထိမာယ ဒိသာယ သလ္လဝတီ နာမ နဒီ။ တတော ပရံ ပစ္စန္တိမာ ဇနပဒါ။ ဩရတော မဇ္ဈေ။ ဒက္ခိဏာယ သေတကဏ္ဏိကံ နာမ နိဂမော။ တတော ပရံ ပစ္စန္တိမာ ဇနပဒါ။ ဩရတော မဇ္ဈေ။ ပစ္ဆိမာယ ဒိသာယ ထုနံ နာမ ဗြာဟ္မဏဂါမော။ တတော ပရံ ပစ္စန္တိမာ ဇနပဒါ။ ဩရတော မဇ္ဈေ ဥတ္တရာယ ဒိသာယ ဥသီရဒ္ဓဇော နာမ ပဗ္ဗတော၊ တတော ပရံ ပစ္စန္တိမာ ဇနပဒါ။ ဩရတော မဇ္ဈေ။ အယံ မဇ္ဈိမဒေသော နာမ။ အာယာ

**မေန တိယောဇနေသတာနိ။ ဝိတ္ထာရေန အမုတေယျာနိ ယောဇနသတာနိ၊ ပရိက္ခေပေန နဝယောဇနသတာနိ ဟောန္တိ။**

ဟူ၍ ပရမတ္ထဇောတိကာမည်သော ခုဒ္ဒကပါဌအဋ္ဌကထာ လာသည်နှင့်အညီ အရှေ့အရပ်၌ ဇင်္ဂလအမည်ရှိသော နိဂုံး၏ပြင်ဘက်၌ အင်ကြင်းပင်ကြီးသည် ရှိ၏။ ထို အင်ကြင်းပင်ကြီး၏ ပြင်ဘက်သည် ပစ္စန္တရစ်။ အတွင်းသည် မဇ္ဈိမဒေသမည်၏။ အရှေ့တောင်အရပ်၌ သလ္လဝတီမည်သော ချင်းတွင်းမြစ်သည် ရှိ၏။ ထိုမြစ်၏ ပြင်ဘက်သည် ပစ္စန္တရစ်။ အတွင်းသည် မဇ္ဈိမဒေသမည်၏။ တောင်အရပ်၌ သတကဏ္ဏိကမည်သော နိဂုံးသည် ရှိ၏။ ထိုနိဂုံး၏ ပြင်ဘက်သည် ပစ္စန္တရစ်။ အတွင်းသည် မဇ္ဈိမဒေသမည်၏။ အနောက်အရပ်၌ ထုနမည်သော ပုဏ္ဏားရွာသည်ရှိ၏။ ထိုရွာ၏ အပြင်ဘက်သည် ပစ္စန္တရစ်။ အတွင်းသည် မဇ္ဈိမဒေသမည်၏။ မြောက်အရပ်၌ ဥသီရဒ္ဓဇ တောင်သည်ရှိ၏။ ထိုတောင်၏ ပြင်ဘက်သည် ပစ္စန္တရစ်။ အတွင်းသည် မဇ္ဈိမ ဒေသမည်၏။

ယင်းသို့ နိမိတ်ငါးရပ်ဖြင့် မှတ်အပ်သော တောင်မြောက် အလျားအားဖြင့် ယူဇနာသုံးရာ။ အရှေ့ အနောက် အနံအားဖြင့် ယူဇနာနှစ်ရာ့ငါးဆယ်။ အဝန်း ယူဇနာ ကိုးရာရှိသော အရပ်သည် မဇ္ဈိမဒေသမည်၏။

အရှေ့ဇင်္ဂလ၊ ရှေ့တောင်က၊ သလ္လဝတီချာ။
တောင်ဆီ သေတ၊ နောက် ထုန၊ မြောက်က ဥသီရဒ္ဓဇာ။
နိမိတ်ငါးရပ်၊ ပိုင်းခြားမှတ်၊ တွင်းရပ် မဇ္ဈိမာ။

◆◆◆◆◆

## ၆၆၀။ ရွှေလမင်းဆန်း၊ ဥတုထွန်း၊ ခေါ်မှန်း ဘယ်မိန်းမပေနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပဒုမိနီ အန္ဓမလံ၊ ဝဏ္ဏမလဥ္စ စိတြိနီ။**
**သင်္ခိနီ သာတမလဥ္စ၊ ဟတ္ထိနီ ပုဏ္ဏမာသိယံ။**

ပဒုမိနီ၊ ပဒုမိနီ မိန်းမမျိုးကား။ အန္ဓမလံ၊ လပြည့်ကျော် ရှစ်ရက်မှသည် လကွယ်တိုင်ရုံ အတွင်း၌ ဥတုလာ၏။ စိတြိနီ၊ စိတြိနီမိန်းမမျိုးကား။ ဝဏ္ဏမလဥ္စ၊ လပြည့်ကျော်တစ်ရက်ကသည် ရှစ်ရက်အတွင်း၌ ဥတုလာ၏။ သင်္ခိနီ၊ သင်္ခိနီမိန်းမမျိုးကား။ သာတမလဥ္စ၊ လဆန်းတစ်ရက်ကသည် လဆန်းရှစ်ရက်အတွင်း၌ ဥတုလာ၏။ ဟတ္ထိနီ၊ ဟတ္ထိနီမိန်းမမျိုးကား။ ပုဏ္ဏမာသိယံ၊ လဆန်းရှစ်ရက်မှသည် လပြည့်နေ့ အတွင်း၌ ဥတုလာ၏။

ဤသို့ သျှတ္တရဂါထာလာရကား လဆန်း၌ ဥတုထွန်းသော မိန်းမသည် သန်နီနှင့် ဟတ္ထနီမျိုးမည်၏။ ။ [ပုစ္ဆာ၌ ''ဥတုသွန်း''ဟူ၍ရှိသော် လျော်မည် ထင်သည်။]

❖❖❖❖❖

## ၆၆၁။ ဥဇနာမုန်း၊ ပင်းယနန်း၊ သိမ်းမြန်းဘယ့်လောက် ကြာသနည်း။(၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

> ခြောက်ရာ့ခုနစ်ဆယ်၊ လေးခုဆွယ်၍၊ တုံ့ဖယ်တောင်သို့၊ နတ်ညွှန်ပို့၍၊ ရွှေမြို့ပင်းယ၊ တည်ထောင်ကြပြီး၊ ဖြူလွယာဦညင်၊ တစီးရှင်ဟု၊ နန်းစွင်တစ်ဆယ်၊ စည်းစိမ်ကြွယ်က၊ သက်လုယ် ဥဇနာ၊ လေးဖြာငါးနှစ်၊ ညီချစ်လွန်းထင်၊ ငါးစီးရှင်မူ၊ ဥကင်ကိုးနှစ်–

ဟူ၍ နားတော်သွင်း၌ စပ်သည်။

❖❖❖❖❖

## ၆၆၂။ သဝန်ကြီးမြန်း၊ တောင်ငူနန်း၊ ကိန်းခန်း ဘယ်သက္ကရာဇ်နည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဇေယျဝမှနတိုင်း ကေတုမတီမည်သော တောင်ငူပြည်ကြီးကို သက္ကရာဇ် (သူလာအံ့) ဟူသော ၆၄၁–ခုတွင် ပုဂံနန်းရိုးဖြစ်သော သဝန်ကြီးကို တည်ထောင်စ ပြုသည်။ သဝန်ကြီးမှ စ၍ မင်း ၂၉–ဆက်မြောက် သက္ကရာဇ် ၈၄၇–ခုတွင် မဟာသီရိ ဇေယျသူရမင်းသည် ဦးရီးတော် စည်သူငယ်ကို လုပ်ကြံ၍ မင်းပြုသည်။ အဝဘုရင် ဒုတိယမင်းခေါင်လည်း ထီးဖြူဆောင်း၍ မင်းသီးပြုလေဟု မင်းမြှောက် တန်ဆာငါးပါးကို ပေးတော်မူသည်။ သက္ကရာဇ် ၈၅၃–ခု နတ်တော်လဆန်း ၁၂–ရက်။ သောကြာနေ့။ ကြာသပတေး မြေခံ၊ နက္ခတ် ၂၆–လုံး။ ဃဋီ ၂၀။ ပြိစ္ဆာတွင် လဂ်နှင့်အတူ တနင်္ဂနွေ, သောကြာ, ရာဟု။ ဓနုတွင် အင်္ဂါ, ဗုဒ္ဓဟူး။ မကာရတွင် စနေ။ မေထုန်တွင် ကြာသပတေး။ မိန်တွင် စန်းရပ်လျက် မိုးသောက်ရောင်ဖြူလာတွင် ဒွါရာဝတီမြို့ကို တည်၍ နေသည်။ တောင်ငူမြို့ကိုကား အသက်ကိုစွန့်၍ ယူရသော မြို့ဖြစ်သည်ဟု ခမည်းတော်မင်း မဟာသန်ယာကို ဆောက်နှင်း၍ နေရသည်။ [ဤကား စကား အလျဉ်းသင့်၍ အမေးမပါဘဲ ရေးလိုက်သည်။]

❖❖❖❖❖

**၆၆၃။ အရှေ့မြောက်ယွန်း၊ သေန်စွန်း၊ ထွန်းလိမ့်ဘယ်မြို့သိုက်ပေနည်း။(၁၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အရိမဒ္ဒနာမည်သော ပေါက္ကံမြို့၏သိုက် ဟူပေ၏။

အကြောင်းကို ဆိုလိုက်ဦးအံ့-

ဘုရားသခင် ထင်ရှားရှိတော်မူသောအခါ မဇ္ဈိမဒေသ အရပ်မှ ဒေသစာရီ ကြွချီတော်မူသော် တန့်ကြည့်တောင်သို့ ရောက်လျှင် တောင်ဖျား၌ ရပ်တန့်၍ အရှေ့မြောက်သို့ ကြည့်တော်မူ၏။ ထိုအခါ ဧရာဝတီမြစ်နား ကမ်းပါးပြင်ဘက်၌ ပေါက်ပင် တစ်ပင် ပေါက်၍ ထိုပေါက်ပင်ဖျား၌ ဥဖျိုင်းနှင့် ကျီးမည်း နားနေလျက် ပေါက်ပင်လတ်၌ ဖွတ် ပြိတ္တာ လျှာနှစ်ခွလည်း နေ၏။ ပေါက်ပင်ရင်း၌ ဖားသူငယ်လည်း ဝပ်လျက်ရှိ၏။ ထိုကိုမြင်သော် ပြုံးတော်မူ၏။ ညီတော်အရှင်အာနန္ဒာက ပြုံးတော်မူသော အကြောင်းကို လျှောက်ရာတွင် ဘုရားသခင်လည်း ''ချစ်သားအာနန္ဒာ-ငါဘုရား ပရိနိဗ္ဗာန်ပြုသည် နောက် ၆၅၁-ခုနှစ် ရောက်သောအခါ ဤအရပ်သည် ပြည်ကြီးဖြစ်လတ္တံ့။ ပေါက်ပင်ဖျား၌ ဥဖျိုင်းနှင့်ကျီးမည်းနားသော အလိုကား ထိုပြည်၌ အလျှုသီတင်း သုံးများလတ္တံ့။ ပေါက်ပင်ခွ၌ ဖွတ်ပြိတ္တာလျှာနှစ်ခွနေသည့် အလိုကား ထိုပြည်သူတို့သည် လယ်ယာမလုပ်ဘဲ ရောင်းဝယ်၍သာလည်းကောင်း, ပြောဆို၍သာလည်းကောင်း အသက်မွေးသောအားဖြင့် မမှန်စကား သုံးသည်ဖြစ်၍ သစ္စာယွင်းယိုလတ္တံ့။ ပေါက်ပင်ရင်း၌ ဖားနေသည့် အလိုကား ထိုပြည်သူတို့သည် ဖားနှယ်ငြိမ်းချမ်း၍ သာယာရွှင်လန်း ကြလတ္တံ့။ ထိုပြည်ကို တည်စပြုသော သမုဒ္ဒရာဇ်မင်း လက်ထက် ငှက်ကြီး, ဝက်ကြီး, ကျားကြီး, ရှုးပျံတို့သည်လည်း မင်းမူလတ္တံ့။ ထိုငှက်, ဝက်,ကျား, ရှုးတို့ကို အဖ နေနတ်၊ အမိ နဂါးမင်းသမီး ဤသူ နှစ်ဦးကိုစွဲ၍ ဖြစ်သော ဘုန်း လက်ရုံး အာဏာနှင့် ပြည့်စုံသော မင်းသားတစ်ဦးသည် ခွင်းလတ္တံ့။ ယခု ငါဘုရားအား အင်ဖက်သုံးချပ်ကို ထီးပြုလျက် နေကာ၍လိုက်သော တောင်စောင့် ဥပါကြီးသည် ဤပြည်၌ မင်းသုံးကြိမ်ဖြစ်လတ္တံ့ဟု ဗျာဒိတ်ထားတော်မူ၏။

ထို့ကြောင့် 'အရှေ့မြောက်ယွန်း၊ သေန်စွန်း၌၊ ပြည်ကြီးထွန်းလတ္တံ့''ဟူသော သိုက်ဗျာဒိတ်သည် ပေါက္ကံပြည်၏ သိုက်ဗျာဒိတ်ဟူ၍ မှတ်အပ်၏။

◆◆◆◆◆

**၆၆၄။ ထုံးနှင့် ဆေးဒန်း၊အမျှမှန်း၊လန်းလန်း ဘယ်အရောင်ပေနည်း။(၁၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- နီသာရောင်ဖြစ်၏ဟူပေ၏။

◆◆◆◆◆

**၆၆၅။ သက်တံရောင်သန်း၊ နီမြန်းမြန်း၊ ပန်းရောင်ဘယ်သို့ ဖော်မည်နည်း။(၁၈)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဆေးဒန်းတစ်စု။ ဟသ်ပဒါးသုံးစု။ ချိပ်ရေ အင်တန်ပြက်။ ပန်းရောင်ဖြစ်၏။ (တစ်နည်းကား) တိန်းညက်ရေတွင် ဟသ်ပဒါး, ဆေးဒန်း အင်တန်ပြက်။ ပန်းရောင် ဖြစ်၏ ဟူပေ။

❖❖❖❖❖

**၆၆၆။ ညွန့်ဖူးညွန့်လန်း၊ အဆန်းဆန်း၊ ခေါ်မှန်းအစပ် ဘယ်သို့နည်း။(၁၉)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

စာချီ စာဖြတ်၊ အဆုံးသတ်၌၊ အသတ်နှင့်သာ၊ ချသည်မှာမူ၊ ညွန့်ရှင် ဟူ၏။ သတ်မူ မမှတ်၊ ရောလတ် သည့်ကို၊ ပေါက်ပြဆိုရှင့်။ ထိုအချမှာ၊ ၅မပါဘဲ၊ သာယာချိုမြ၊ ၏လေချသော်၊ ညွန့်ဖူးခေါ်လော့၊ ထိုရော်အချ၊ ကနှင့်တကား၊ ခေါ်ကြညွန့်လန်း၊ ထူးဆန်းထွေလာ၊ ဟူသည်မှာကား၊ ဆုံးမှာအချ၊ သုံးပါဒပင်၊ မညီချင်တည့်၊ သည့်ပြင်ပုလဲသွယ်၊ သတ်ရောလှယ်လိမ့်၊ မှတ်ဖွယ်ရွှေလောင်းပြန်၊ ချဟန်စ တ၊ ကမရတည်း၊ ဝသတ်ဆုံးလျှင်၊ ညွန့်တုံးတွင်ရှင့်၊ သည့်ပြင်တမည်၊ နေခြည်ရောင်ပြေး၊ စာစပ်ရေးကား၊ လေးဝဂ္ဂါဒိ၊ အမြစ်ရှိလိမ့်၊ သိရိထွန်းညိတ်၊ ဖျောက်ဆိတ်လလယ်၊ ဟူသည့်ဝယ်ကား၊ အသတ်များ၏၊ အဖျားကောက်ချီ၊ တလီကုတ်စ၊ ဟူသမျှ၌၊ စသည့်ကိုသာ၊ ခေါ်စပါရှင့်၊ ကာရန်မမှတ်၊ အသတ်မညီ၊ အချီမမျှ၊ ရှိက တထူး၊ ကဏ္ဍုဆူးတည့်၊ နည်းထူး၍မှာ၊ မဆိုရာ။ ဟူသော လင်္ကာဖြင့် သိရာ၏ ဟူပေ။

❖❖❖❖❖

**၆၆၇။ စာရေးတော်မှန်း၊ အင်ခြောက်ခန်း၊ ရှင်လန်းဘယ်အင်္ဂါတို့နည်း။(၂၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သင်္ကေဥဂ္ဂဟိတဒက္ခော၊ သီဃလေခီ သုလိခိတော။**
**မေဓာဝီ ဝါကျပဋုကော၊ ဒက္ခော လေခကော ဌပေ။**

သင်္ကေဥဂ္ဂဟိတဒက္ခော၊ တစ်ကြိမ်ဆိုလျှင် ထိုစကားကို မှတ်ယူခြင်း၌ လိမ္မာထသော။ သီဃလေခီ၊ လက်ရေးလည်းမြန်ထသော။ သုလိခိတော၊ လက်ရေးလည်း ကောင်းစွာ တင့်တယ်ထသော။ မေဓာဝီ၊ လျင်သောပညာလည်းရှိထသော။ ဝါကျပဋုကော၊ စကားလည်း တတ်ထသော။ ဒက္ခော = စာပေအစီအကုံး၌လည်း လိမ္မာထသော တော်၊ ဤအင်္ဂါခြောက်ပါးနှင့် ပြည့်စုံသောသူကို။ လေခကော၊ စာရေး တော်ကြီးအရာ၌။ ဌပေ၊ ထားရာ၏။

❖❖❖❖❖

၆၆၈။ သူကြီးကျင့်ခန်း၊ အံ့ဘနန်း၊ ဂုဏ်ဆန်းခြောက်ပါး မည်သို့နည်း။(၂၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ခမာ ဇာဂရိယုဋ္ဌာနံ၊ သံဝိဘာဂေါ ဒယိက္ခနာ။**

**နာယကဿ ဂုဏာ ဧတေ၊ ဣစ္ဆိတဗ္ဗာ ဟိတတ္ထိနာ။**

ခမာ၊ သည်းခံခြင်းလည်းကောင်း။ ဇာဂရိယာ၊ နိုးကြားခြင်းလည်းကောင်း။ ဥဋ္ဌာနံ၊ ထကြွလျှင်လျှားပေါ့ပါးခြင်းလည်းကောင်း။ သံဝိဘာဂေါ၊ ဝေဖန် ခွဲခြမ်း ပေးကမ်းတတ်ခြင်း လည်းကောင်း။ ဒယာ၊ သူတစ်ပါးတို့အား သနားခြင်းလည်းကောင်း။ ဣက္ခနာ၊ ကြည့်ရှု စောင်မခြင်းလည်းကောင်း။ ဣတိ၊ ဤသို့။ နာယကဿ၊ အကြီးအမှူးပြုလုပ်သောသူ၏။ ဧတေ ဂုဏာ၊ ဤဂုဏ်ခြောက်ပါးတို့ကို။ ဟိတတ္ထိနာ၊ အစီးအပွားကို အလိုရှိသောသူသည်။ ဣစ္ဆိတဗ္ဗာ၊ ပြည့်စုံအောင် အလိုရှိအပ်၏။ (ရာဇနီတိ၊ ဓမ္မနီတိ)။

❖❖❖❖❖

၆၆၉။ ခြင်္သေ့မယွန်း၊ တိဝန်းဝန်း၊ မချွန်းမေးတော် ဘယ့်ကြောင့်နည်း။(၂၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သမ္ဖပ္ပလာပံ ပဟာယ သမ္ဖပ္ပလာပါ ပဋိဝိရတော အဟောသိ။ ကာလဝါဒီ ဘူတဝါဒီ အတ္ထဝါဒီ ဓမ္မဝါဒီ ဝိနယဝါဒီ နိဓာနဝတိံ ဝါစံ ဘာသိတာ ကာလေန သာပဒေသံ ပရိယန္တဝတိံ အတ္ထသဉှိတံ တေန သီဟဟနုကာ ဇာတာ။**

ဟူသော ပါဠ်နှင့်အညီ– အကျိုးမဲ့သော စကားကို ပြောဆိုခြင်းမှ ပယ်၍ သမ္ဖပ္ပလာပမှ ကြဉ်တော်မူသည်လည်း ဖြစ်ဖူး၏။ လျောက်ပတ်သော ကာလ၌သာ ဆိုလေ့ ရှိသည်။ ဟုတ်မှန်သော စကားကိုသာ ဆိုလေ့ရှိသည်။ အကျိုးစီးပွားနှင့်စပ်သော စကားကိုသာဆိုလေ့ရှိသည်။ ကုသိုလ်တရားနှင့် စပ်သော စကားကိုသာ ဆိုလေ့ရှိသည်။ ဆုံးမခြင်းနှင့်စပ်သော စကားကိုသာ ဆိုလေ့ရှိသည် ဖြစ်ခဲ့ဖူး၏။ နှလုံး၌ မှတ်သား အပ်သော အကြောင်း သက်သေနှင့်တကွသော အပိုင်းအခြားရှိသော၊ အကျိုးစီးပွားနှင့် စပ်သော စကားကိုသာလျှင် လျောက်ပတ်သောအခါ၌ ဆိုတော်မူသည် ဖြစ်ခဲ့ဖူး၏။ ထိုအကြောင်းကြောင့် ခြင်္သေ့မင်း၏ မေးနှင့်တူသော မေးတော် လက္ခဏာရှိတော်မူ သည်ဖြစ်၏။ (လက္ခဏသုတ်)။

❖❖❖❖❖

၆၇၀။ သာသနာရှုန်းရှုန်း၊ သီဟိုဠ်ကျွန်း။ ပွင့်လန်းဘယ်ချိန် စသနည်း။(၂၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သီဟိုဠ်ကျွန်းကို လူနေဖြစ်အောင် တည်ထောင်ပြုစုရသော ဝိဇယဗာဟုမင်း၏ နောက် ခြောက်ဆက်မြောက်ကျသော ဒေဝါနံပိယတိဿမင်း၏လက်ထက် သက္ကရာဇ် သာသနာ ၂၃၆–ခုနှစ်၊ နယုန်လပြည့်နေ့မှစ၍ သာသနာတော် သက်ဆင်းသတည်း။

ထို့ကြောင့် ပါရာဇိကဏ် အဋ္ဌကထာ၌–

တဿာဝသာနေ အသောကော ရဇ္ဇံ ကာရေသိ။ တဿ ပုရေ အဘိသေကာ စတ္တာရိ အဘိသေကတော အဋ္ဌာရသမေ ဝဿေ ဣမသ္မိံ ဒီပေ မဟိန္ဒတ္ထေရော ပတိဋ္ဌိတော။ ဧဝမေတေန ရာဇဝံ သာနုသာရေန ဝေဒိတဗ္ဗမေဝေတံ "သမ္ဗုဒ္ဓသမ္ဗုဒ္ဓဿ ပရိနိဗ္ဗာနတောဒွိန္နံ ဝဿသတာနံ ဥပရိ ဆတ္တိံ သတိမေ ဝဿေ ဣမသ္မိံဒီပေ ပတိဋ္ဌဟိ"တိ။ ဟူ၍ မိန့်တော်မူသည်။

မြန်မာဘာသာကား။ ။ ဇမ္ဗူဒိပ်ကျွန်း၌ ဗိန္ဒုသာရမင်းကြီး ၂၈– နှစ်မင်းပြုသည်၏ အဆုံး၌ အသောကမင်းသည် မင်းအဖြစ်သို့ရောက်၏။ ထိုမင်းသည် အဘိသိက်မခံမီ ၄–နှစ်။ အဘိသိက်ခံပြီးနောက် ၁၈–နှစ်မြောက်၌ မဟိန္ဒထေရ်သည် သီဟိုဠ်ကျွန်းသို့ ကြွသည်ဖြစ်၍ ရာဇဝင်အစဉ်ဖြစ်သော နှစ်ပေါင်းကို ရေတွက်သော် ဘုရားပရိနိဗ္ဗာန် လွန်တော်မူသော နှစ်မှစ၍ ၂၃၆–နှစ်ပြည့်ဖြစ်သော နယုန်လပြည့်နေ့၌ သီဟိုဠ်ကျွန်းသို့ သာသနာတော် သက်ဆင်းစဖြစ်သတည်း ဟူလိုသည်။

◆◆◆◆◆

## ၆၇၁။ သီဟိုဠ်က စွန်း၊ဇမ္ဗူကျွန်း၊တည်ထွန်း ဘယ်ချိန်ရောက်သနည်း။(၂၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သာသနာတော် ၉၃၀–ပြည့်နှစ်တွင် အရှင်ဗုဒ္ဓဃောသ သီဟိုဠ်သို့ကူး၍ သီဟိုဠ် ဘာသာဖြင့် ရေးသားလေသော ပိဋကတ်သုံးပုံပါဠိတော်၊ အဋ္ဌကထာတို့ကို မဂဓပြန်၍ ယူဆောင်ခဲ့သဖြင့် သုဝဏ္ဏဘူမိမည်သော သထုံပြည်သို့ရောက်သည်။ ထိုမှသည် အရိမဒ္ဒနာမည်သော ပုဂံပြည်သို့ အနော်ရထာပင့်ဆောင်ယူ၍ ရောက်သည်ဟူ၍ စူဠဝင်, ဗုဒ္ဓဃောသုပ္ပတ္တိ, သာသနာဝင် စာတို့၌လာသည်။

◆◆◆◆◆

## ၆၇၂။ ရွှေဝရုပ်ခန်း၊ သတိုးမြန်း၊ နန်းပြိုင် ဘယ်မင်းရှိသနည်း။(၂၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တောင်တွင်းတစ်နန်း။ တောင်ငူတစ်နန်း။ ပြည်တစ်နန်းရှိသည်ဟု ရာဇဝင်တွင် ဆိုသည်။

◆◆◆◆◆

## ၆၇၃။ တစ်လုံးစီမှန်း၊ ဂရုတန်း၊ ဆန်းဂိုဏ်း ဘယ်ဂါထာတို့နည်း။(၂၆)

## ၆၇၄။ နှစ်လုံးစီမှန်း ၊ ဂရုတန်း၊ ဆန်း၏အမည်ဘယ်သို့နည်း။(၂၇)

## ၆၇၅။ ပတိဋ္ဌာဆန်း၊ မ ဂိုဏ်းတန်း၊ ခေါ်မှန်းဂါထာအဘယ်နည်း။(၂၈)

၆ရ၆။ ပြဟတီဆန်း၊ ဂိုဏ်းသုံးခန်း၊တွင်မှန်း ဘယ်ဂိုဏ်းပေတို့နည်း။(၂၉)

ဟူသော အမေးပုစ္ဆာလေးခု၌ အဖြေဝိသဇ္ဇနာကား-

တစ်ပါဒ၌ ဂရုတစ်လုံးစီသာရှိသောဂါထာသည် လိလာဂါထာ မည်၏။ ဥတ္တာဆန်းတည်း။ ထို့ကြောင့် ဆန်းငြိကာ၌-

ဂေါ လိလာ။ ယထာ၊ ကံ၊ မေ၊ သံ၊ ဘူ။ ဟူ၍ဆို၏။

ဂရုနှစ်လုံးရှိသောဂါထာသည် ယာတာဂါထာမည်၏။ ထို့ကြောင့် ဆန်းငြိကာ၌-

ဂါ ယာတာ။ ယထာ။ ကောတော၊ သတ္တာ၊ ဗုဒ္ဓါ၊ ဓမ္မော။ အစ္စုတဆန်းဟူ၍ ဆို၏။

မဂါသောဘာ၊ ယထာ။ သော ဟံ ဗုဒ္ဓံ ပူဇေသံသော။ ဓမ္မံ သံဃံ နိသေသသင့်။ သောဘာဂါထာ၊ ပတိဋ္ဌာဆန်းဟူ၍ ဆို၏။

ပြဟတီဆန်း၌ ၉-လုံးဘွဲ့ဂါထာ နှစ်မျိုးတည်း။ ရ-ဂိုဏ်း, န-ဂိုဏ်း, သ-ဂိုဏ်း ဤသုံးဂိုဏ်းစဉ်၍ ရှိသောဂါထာသည် ဟလမုခီဂါထာ မည်၏။

နဂိုဏ်းနှစ်ခု၊ မဂိုဏ်းတစ်ခုရှိသော ဂါထာသည် ဘုဇဂသုသုဂါထာ မည်၏။ ထို့ကြောင့် ဝုတ္တောဒယ၌-

**ရာ န သာ ယဒိ ဟလမုခီ။**

**ဘုဇဂသုသု မတာ နာ မော။ ။ ပြဟတီ။**

ဟူ၍ သုတ်တည်၏။

ယဿာ၊ အကြင်ဂါထာ၏။ စတူသု ပါဒေသု၊ လေးပါဒတို့၌။ ရာနသာ၊ ရဂိုဏ်း, နဂိုဏ်း, သဂိုဏ်းတို့သည်။ ပဋိပါဋိ၊ အစဉ်အတိုင်း။ ယဒိ သိယုံ၊ အကယ်၍ ဖြစ်ကုန်အံ့။ အယံ၊ ဤဂါထာသည်။ ဟလမုခီ၊ မြင်းဟီသံနှင့်တူသောကြောင့် ဟလမုခီဂါထာ မည်၏။

ယဿာ၊ အကြင်ဂါထာ၏။ စတူသု ပါဒေသု၊ လေးပါဒတို့၌။ နာ၊ နဂိုဏ်းနှစ်ခုတို့သည် လည်းကောင်း။ မော၊ မဂိုဏ်းသည်လည်းကောင်း။ ပဋိပါဋိ၊ အစဉ်အတိုင်း။ ယဒိ သိယုံ၊ အကယ်၍ ဖြစ်ကုန်အံ့။ အယံ၊ ဤဂါထာသည်။ ဘုဇဂသုသု၊ မြွေတွန်သံနှင့် တူသောကြောင့် ဘုဇဂသုသု ဂါထာမည်၏။ ပြဟတီ၊ ပြဟတီဆန်းတည်း။

◆◆◆◆◆

၆ရရ။ ဝိတက်တိက်စွန်း၊ပစ္စည်းတွန်း၊ညွှန်းသော်သချ်ာ ဘယ်မျှနည်း။(၃၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သဝိတက္ကတိက်၌ပစ္စည်းတွန်းကား အလွန်ကျယ်ဝန်း၏။ ဤ၌ စေ့စုံစွာ ရေးခဲ့သော် ပဋ္ဌာန်းကို မလေ့လာဖူးသော မန္ဒပညာတို့ စိတ်ရှုပ်စရာသာ ရှိတော့မည်။ ပဋ္ဌာန်းကို သင်ကြားလေ့လာဖူးသော သူတို့မှာလည်း ၎င်းကျမ်းရင်း အလာနှင့်ပင် သိသာပြီဖြစ်သည်။ ထို့ကြောင့် ဤအဖြေမှာ မရေးလိုက်ပြီ။

◆◆◆◆◆

၆၇၈။ မေးပါးစွန်းစွန်း၊ မြင်း၌ထွန်း၊ အစွန်းသုံးပါး အဘယ်နည်း။(၃၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မေးစွန်း, ပါးစွန်း, ခွါစွန်းဟူ၍ သုံးပါးတည်း။

တစ်နည်းလည်း– ရှေ့ခြေဆစ်၊ နောက်ခြေဆစ် အစွန်း, ပါးစွန်း, နားစွန်းဟူ၍ သုံးပါးတည်း။ ဤသည်လျှင် အစွန်းသုံးပါးဟူပေ။

❖❖❖❖❖

၆၇၉။ သိဒ္ဓတ်စံခန်း၊ သုံးဆောင်မှန်း၊ ရွှေနန်းတိုင်းထွာ ဘယ်မျှနည်း။(၃၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ရာဇာ ဗောဓိသတ္တဿ တိဏ္ဏံ ဥတူနံ အနုစ္ဆဝိကေ ရမ္မ သုရမ္မ သုဘ နာမကေ တယော ပါသာဒေ ကာရေသိ ဧကံ နဝဘုမ္မိကံ၊ ဧကံ သတ္တ ဘုမ္မိကံ၊ ဧကံ ပဉ္စ ဘုမ္မိကံ။ တယောပါသာဒါစ ဥဗ္ဗေဓေန သမပ္ပမာဏာ အဟေသုံ။ ဘုမ္မိကာသု ပန နာနတ္တာ ဟောတိ။**

ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကထာ၌ လာသည်။

**အနက်ကား**။ ။ ရာဇာ၊ သုဒ္ဓေါဒနမင်းကြီးသည်။ ဗောဓိသတ္တဿ၊ ဘုရားအလောင်း သိဒ္ဓတ်မင်းအား။ တိဏ္ဏံဥတူနံ၊ မိုး,ဆောင်း, နွေလ သုံးဝသော ဥတုတို့တွင်။ အနုစ္ဆဝိကေ၊ သင့်လျော်လျောက်ပတ်ကုန်သော။ ရမ္မ သုရမ္မ သုဘ နာမကေ၊ ရမ္မ, သုရမ္မ, သုဘ အမည်ရှိကုန်သော။ တယောပါသာဒေ၊ သုံးဆောင်သော ပြာသာဒ်တို့ကို။ ကာရေသိ၊ ပြုစေ၏။ ဧကံ၊ တစ်ဆောင်သော သုဘပြာသာဒ်သည်။ နဝဘုမ္မိကံ၊ ဘုံကိုးဆင့်ရှိ၏။ ဧကံ၊ တစ်ဆောင်သော သုရမ္မပြာသာဒ်သည်။ သတ္တဘုမ္မိကံ၊ ဘုံခုနစ်ဆင့်ရှိ၏။ ဧကံ၊ တစ်ဆောင်သော ရမ္မပြာသာဒ်သည်။ ပဉ္စဘုမ္မိကံ၊ ဘုံငါးဆင့်ရှိ၏။ တယောပါသာဒါစ၊ သုံးဆောင်သော ပြာသာဒ်တို့သည်ကား။ ဥဗ္ဗေဓေန၊ အမြင့်အားဖြင့်။ သမပ္ပမာဏာ၊ တူမျှကုန်သည်။ အဟေသုံ၊ ဖြစ်ကုန်၏။ ဘုမ္မိကာသု ပန၊ ဘုံအဆင့်တို့သည်ကား။ နာနတ္တာ၊ အလုပ်အဆောင် ဆင်းရောင်ခမ်းနား ထူးပြားသောအဖြစ်သည်။ ဟောတိ၊ ဖြစ်၏။

အပဒါန်အဋ္ဌကထာ၊ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ သုတ္တနိပါတ် ပဗ္ဗဇသုတ် အဋ္ဌကထာတို့၌လည်း ဤနည်းတူသာ မိန့်ဆိုကြကုန်သည်။ လက်သစ်တောင်တာဖြင့် တိုင်းထွာ၍ မဆိုကုန်။ ယင်းသို့ ကျမ်းဂန်မဆိုဘဲ လွန်ကဲ၍ သိနိုင်မည့် အရာမဟုတ်။ ထိုသို့ မဟုတ်လျက် ဆရာပုစ္ဆာ ပြုခြင်းသည်။ ပရိပီလနဒေါသသာ ဖြစ်ရာလေသည်ဟုဖြေ။

"အန်း"ကာရန်ပုစ္ဆာ ၃၅–ပုဒ်အဖြေပြီး၏။

❖❖❖❖❖

## ၆၈၀။ ရှင်နာဂသိန်၊ ဘုန်းကြောင့်မှိန်၊ မာလိန်မင်းကြီးကျွတ်လိမ့်နည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သော ရာဇာ မိလိန္ဒဝိဟာရံ ကာရာပေတွာ နာဂသေနတ္ထေရဿ နိယျာဒေတွာ ကောဋိသတသဟဿာနဉ္စ ဘိက္ခူနံ မဟာဒါနံ ဒတွာ အတ္တနော ပုတ္တဿ ရဇ္ဇံ နိယျာဒေတွာ အဂါရသ္မာ အနာဂါရိယံ ပဗ္ဗဇိတွာ နစိရဿေဝ အရဟတ္တဖလံ သစ္ဆာကာသိ။** ။ ဟူ၍ မိလိန္ဒပဉှာ၌လာသည်။

**အဓိပ္ပါယ်ကား။** ။ ထို မိလိန္ဒမင်းကြီးသည် အရှင်နာဂသိန် ဖြေဆိုသော ပြဿနာ၌ လွန်စွာ ကြည်ညိုသည်ဖြစ်၍ မိလိန္ဒဝိဟာရမည်သော ကျောင်းကြီးကို ဆောက်လုပ်၍ အရှင်နာဂသေန မထေရ်အား ဆောက်နှင်းလှူဒါန်း၍ လေးပါးသော ပစ္စည်းတို့ဖြင့် ထောက်ပံ့ပြုစုလျက် ကုဋေတစ်သန်းမျှလောက်သော ရဟန်းတို့အားလည်း လှူဒါန်း ပူဇော်ပြီး၍ မိမိ၏ သားကြီးအား မင်းအဖြစ်ကို ဆောက်နှင်းပြီးလျှင် မိမိသည် အိမ်ရာထောင်သောလူ၏ ဘောင်မှ အိမ်ရာမထောင်သော ရဟန်းဘောင်၌ ရဟန်းပြု သဖြင့် မကြာမြင့်မီပင် အရဟတ္တဖိုလ်သို့ရောက်၍ နိဗ္ဗာန်ကို မျက်မှောက်ပြုရလေ၏။ ။ ဤသို့ဆိုရကား မိလိန္ဒမင်းကြီးသည် အကျွတ်တရား ရလေပြီဟူပေ။

❖❖❖❖❖

## ၆၈၁။ ပဉ္စမာလိန်၊ တာဝတိန်၊ နေရှိန်ထွန်းပါ လေလိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မြင်းမိုရ်တောင်၏ အာလိန် ငါးဆင့်ကိုလည်းကောင်း, တာဝတိံသာနတ်ပြည်ကို လည်းကောင်း နေမင်း၏ အရောင်အရှိန်တို့သည် မထွန်းဟူပေ။

ဘယ့်ကြောင့် မထွန်းသနည်း ဟူငြားအံ့–နေဝိမာန်သည် ကြေးမုံကို မှောက်၍ ထားဘိသကဲ့သို့ အောက်မျက်နှာဖြင့်သာ အလင်းရောင်ကို ဖြစ်စေသည်။ နံပါးကို လည်းကောင်း, အထက်ကိုလည်းကောင်း အလင်းရောင်မဖြစ်စေနိုင် ဟူ၍ သာရတ္ထဒီ–ပနီဋီကာ, လောကဒီပနီတို့၌ ဆိုသောကြောင့် နံပါးအရပ်၊ အထက်အရပ်တို့၌ အရောင် မထွန်းဟူပေ။

တာဝတိံသာနတ်ပြည်ကို မထွန်းသော် ရှိတန်စေ၊ အာလိန်ငါးဆင့်သည် နေ၏ အောက်အဖို့၌ တည်ရကား ထွန်းသင့်ပါ၏ ဟူငြားအံ့–ယုဂန္ဓိုရ်တောင်နှင့် ကွယ်ကာ၍ တည်ရကား မထွန်းနိုင်ဟု သိရာ၏ ဟူပေ။

❖❖❖❖❖

၆၈၂။ မြင်းမိုရ်ရောင်ရှိန်၊ တောင်ဂိရိန်၊ ကျပ်ချိန် ဘယ်မျှရှိသနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဤပြဿနာ၌ သိဖွယ်ရာကား ပညာကြီးသောသူတို့၏ အရာဖြစ်၍ သိမ်မွေ့၏။ စေ့စေ့ နှလုံးသွင်းရမည်။

**သိနေရုပဗ္ဗတုတ္တမော ဘိက္ခဝေ စတုရာသီတိသဟဿာနိ**
**အဇ္ဈောဂါဠှော မဟဏ္ဏဝေ၊ တာဝဒေဝ အစ္စုဂ္ဂတော။**

အစရှိသော ပါဠိတော်ဖြင့် ''မြင်းမိုရ်တောင်သည် သီဒါ သမုဒ္ဒရာအတွင်း၌ နစ်သည်လည်း ယူဇနာ ရှစ်သောင်းလေးထောင် ရေမှပေါ်လျက် အထက်သို့ မြင့်သည်လည်း ယူဇနာရှစ်သောင်း လေးထောင်ရှိသည်''ဟူ၍ ဟောတော်မူသည်။

ထိုတောင်၏ အချင်းပမာဏသည်ကား အဋ္ဌကထာ ဆရာတို့က-

**န ကေဝလဥ္စေတ္ထ ဥဗ္ဗေဓောဝ၊ အထ ခေါ အာယာမဝိတ္ထာရတောပိဿ တတ္တကာယေဝ ဝုတ္တံ။**

ဟူသော ပါဌ်ဖြင့် ''အရပ် အစောက်သာလျှင် ယူဇနာ ရှစ်သောင်း လေးထောင် ရှိသည်မဟုတ်။ အချင်းဖြစ်သော အလျားအနံ အားဖြင့်လည်း ရှစ်သောင်းလေးထောင် ရှိသည်'' ဟူ၍ မိန့်၏။

ထိုတောင်သည် လေးထောင့်မဟုတ်၊ အဝန်း အလုံးဖြစ်သည်။ မုရိုးစည် သဏ္ဍာန်ကဲ့သို့ အလယ်ပူလျက် အထက်သို့လည်းကောင်း၊ အောက်သို့လည်းကောင်း တရွေ့တရွေ့ရှူးသည်ဟူ၍ ဇိနာလင်္ကာရ စသည်တို့၌ ဆိုသည်။

သာရတ္ထဒီပနီဋီကာတို့၌ကား- ''အာလိန် ငါးထပ်တွင် တစ်ခု၊ တစ်ခုသော အာလိန်အပြင်သည် ယူဇနာ ငါးထောင်စီ ကျယ်သည်။ ထိုအပြင်၌ နဂါး၊ ဂဠုန်တို့၏ ပြည်တည်သည်ဟူ၍ ဆိုသောကြောင့် အာလိန်တစ်ဆင့်မှ တစ်ဆင့်သည် ယူဇနာ တစ်သောင်းစီ ကြွ၍တက်သည်။ အာလိန်ငါးဆင့်၏ အထက်၌ကား ယူဇနာ ငါးသောင်း ကိုးထောင်မျှ အချင်းရှိသည်။ အထက်ကိုလည်း မုရိုးစည်ကဲ့သို့ တရွေ့တရွေ့ ရှူးပြန် လေသည်ဖြစ်၍ တာဝတိံသာ တည်ရာသို့ ရောက်သောအခါ ယူဇနာငါးသောင်း ကျော်ခန့် သာရှိ၏'' ဟူ၍ ဆိုသည်။ ထိုဋီကာ၏ အလိုအားဖြင့် မြင်းမိုရ်တောင်သည် ပစ္စယာ ငါးဆင့်နှင့် တည်သော စေတီကဲ့သို့ အထက်သို့ ချွန်လျက် တည်သည်ဟု ယူဖွယ်ရှိသည်။

သုတ္တန်ဋီကာတို့၌ကား- ရင်းဖျား တစ်သွန်းတည်း ယူဇနာရှစ်သောင်း လေးထောင် နှင်နှင်ရှိသည်ဟု ဆိုသည်။ ထိုဆရာတို့၏ အလိုအားဖြင့် ဖျာသရိုင်ကို လိပ်၍ ထောင်သကဲ့သို့တည်သည်ဟု ယူဖွယ်ရှိသည်။

ထိုသုတ္တန် ဋီကာတို့၏ အလိုသို့လိုက်၍ ကဗျာဆရာတို့လည်း–

နှစ်သိန်း ငါးသောင်း၊ နှစ်ထောင်ပေါင်းနှင့်၊ လုံးလျှောင်း ကြွခိုင်၊ သရိုင် လည်ဟန်၊ စည်သင်္ကြာန်သို့။ ။ ဟူ၍ စပ်ဆိုသည်။

ထိုစည်းသင်္ကြာန်ဖြင့် တည်ဟန် တောင်၌ ကျပ်ချိန်ကို တွက်သော်–အမြင့် ယူဇနာ (တစ်သိန်း ခြောက်သောင်း ရှစ်ထောင်) ကိုတည်။ လေးခုမြှောက်။ ဂါဝုတ်ပေါင်း (ခြောက်သိန်း ခုနစ်သောင်းနှစ်ထောင်) ဖြစ်၏။ ထိုကို ရှစ်ဆယ်မြှောက်၊ ဥသဘပေါင်း (ငါးကုဋေ သုံးသန်း ခုနစ်သိန်း ခြောက်သောင်း) ဖြစ်၏။ ထိုကို နှစ်ဆယ်မြှောက်။ တောင်ပေါင်း (ကုဋေတစ်ရာ့ ခုနစ်ကုဋေ ငါးသန်း နှစ်သိန်း) ဖြစ်၏။ ထိုကို ခုနစ်ခုမြှောက် တောင်ပေါင်း (ကုဋေခုနစ်ရာ့ ငါးဆယ့် နှစ်ကုဋေခြောက်သန်း လေးသိန်း) ဖြစ်၏။ ထိုကို နှစ်ဆယ့်လေးလက်သစ်မြှောက် လက်သစ်ပေါင်း (ကုဋေတစ်ထောင့် တစ်ဆယ့်ငါးသန်း ခြောက်သိန်း) ဖြစ်၏။ ဤကား အစောက်၌ ရအပ်သော လက်သစ်ပေါင်းတည်း။ ထိုလက်သစ်ပေါင်းကို ထားဦး။ အဝန်းယူဇနာ (နှစ်သိန်း ငါးသောင်း နှစ်ထောင်)ကိုတည်။ လေးခုမြှောက်။ ဂါဝုတ်ဖြစ်၏။ ထိုကို ရှစ်ဆယ်မြှောက်။ ဥသဘပေါင်းဖြစ်၏။ ထိုကို နှစ်ဆယ်မြှောက် တာပေါင်းဖြစ်၏။ ထိုကို ခုနစ်ခုမြှောက်။ တောင်ပေါင်းဖြစ်၏။ ထိုကို နှစ်ဆယ့်လေးခုမြှောက်။ လက်သစ် ပေါင်းဖြစ်၏။ ထိုအဝန်း လက်သစ်ပေါင်းကို သုံးခုစား။ လဒ်ကား အချင်း လက်သစ် ပေါင်းဖြစ်၏။ ထိုအချင်း လက်သစ်ပေါင်းကို တည်။ သင်္ချာတူနှင့် မြှောက်။ လေးခုစား။ လဒ်ကို သုံးဆယ့် သုံးခုမြှောက်။ အစောက် လက်သစ်ပေါင်းလည်း မြှောက်။ အားလုံး လက်သစ်ပေါင်းရ၏။

စတုရန်း တစ်လက်သစ်လျှင် ကျပ်ချိန် နှစ်ကျပ်တွက်ရိုးရှိရကား ယခင် လက်သစ် ပေါင်းကို နှစ်ခုမြှောက်။ ဤမျှလောက် ကျပ်ချိန်စီး၏ဟု သိရာသည်။

ရှေးဆရာကား–ဤအရာ၌ မြင်းမိုရ်ပမာဏရှိသော သရိုင်ကြီးကိုပြု၍ ထိုသရိုင်၌ စပါးအပြည့်ထည့်ပြီးသော် ထိုစပါးစေ့ ပေါင်းကို တွက်၏။

တွက်ဟန်ကား သရိုင်ကြီးအဝန်းယူဇနာ (နှစ်သိန်း ငါးသောင်း နှစ်ထောင်) ကိုတည်။ လေးခုမြှောက်။ ဂါဝုတ်ပေါင်းဖြစ်၏။ ထိုကိုရှစ်ဆယ်မြှောက်။ ဥသဘပေါင်း ဖြစ်၏။ ထိုကို နှစ်ဆယ်မြှောက်။ တာပေါင်းဖြစ်၏။ ထိုကို ခုနစ်ခုမြှောက်။ တောင်ပေါင်းဖြစ်၏။

သရိုင်အစောက်ယူဇနာ (ရှစ်သောင်းလေးထောင်)ကိုတည်။ လေးခုမြှောက်။ ဂါဝုတ်ပေါင်းဖြစ်၏။ ထိုကို ရှစ်ဆယ်မြှောက်၊ ဥသဘပေါင်း ဖြစ်၏။ ထိုကို နှစ်ဆယ်မြှောက်၊ တာပေါင်းဖြစ်၏။ ထိုကို ခုနစ်ခုမြှောက် တောင်ပေါင်းဖြစ်၏။

အဝန်းတောင်ပေါင်းကို သုံးခုစား လဒ်ကား အချင်းဖြစ်၏။ ထိုအချင်းကို သင်္ချာတူနှင့် မြှောက်ရကို လေးခုစား။ လဒ်ကို သုံးခုမြှောက်။ အစောက် တောင်ပေါင်း နှင့်လည်းမြှောက်။ တောင်ပေါင်းဖြစ်၏။ စတုရန်းတစ်တောင်လျှင် စပါးနှစ်တင်း ဝင်ရကား တောင်ပေါင်းကို နှစ်ခုမြှောက်။ စပါးတင်းပေါင်းဖြစ်၏။ ၎င်းတင်းပေါင်းကို

တည်။ တစ်တင်း၏ စေ့ပေါင်း (အနုနဝိဇ္ဇဂါ)ဟူသော (သုံးသိန်းရှစ်သောင်းလေးထောင်) နှင့် မြှောက်။ စပါးစေ့ပေါင်း ဖြစ်၏။ ၎င်းကိုနှစ်ခုမြှောက်။ ဆန်စေ့ပေါင်းဖြစ်၏။ ၎င်းဆန်စေ့ပေါင်းကို လေးခုစား။ လဒ်ကားရွေးပေါင်း ဖြစ်၏။ ဤရွေးပေါင်းကို တစ်ရာ့နှစ်ဆယ်စား။ လဒ်ကားကျပ်ပေါင်း ဖြစ်၏။ ဤသို့ တွက်သည်။

ထိုဆရာ၏တွက်ခြင်းသည် နည်းရလောက်ပေ၏။ အမှန်သို့ကား မကျရာ။ ဘယ့်ကြောင့်နည်းမူ- ဆန်ကိုထည့်သော်လည်း ဆန်တစ်လုံးနှင့် တစ်လုံးသည် မှစပ်။ ခြားလျက်ရှိသောကြောင့်တည်း။ အဘယ်ကိုထောက်၍ သိရသနည်းဟူမူ-ဆန်အပြည့် ထည့်သော အိုး၌ ရေလောင်းသော် အိုးတစ်ဝက်ခန့်ရေဝင်ပြန်သောကြောင့် ခြားရှိသည်ကို သိရသတည်း။ ထို့ကြောင့် ယခင့်ကျောက်စိုင် တွက်နည်းဖြင့်သာ တွက်ယူရာ၏။

သာရတ္ထဒီပနီဆရာကို့၏ ဝါဒအားဖြင့် အထက်သို့ ချွန်၍တက်သော မြင်းမိုရ်တောင်၏ ကျပ်ချိန်ကို တွက်လိုသော်-အစောက် ယူဇနာကိုတည်။ ယခင်ကဲ့သို့မြှောက်။ လက်သစ်ပေါင်းရစေ။ အချင်းယူဇနာကိုတည်။ သုံးခုမြှောက်။ အဝန်းဖြစ်၏။ အဝန်းကို လက်သစ်တိုင်အောင်မြှောက်။ ထိုတွင် အစောက်လက်သစ်ပေါင်းနှင့်မြှောက်။ ထိုကို နှစ်ခုစား။ လဒ်ကို လက်သစ်ပေါင်းဟုထား။ ထိုကို နှစ်ခုမြှောက်။ ကျပ်ချိန်ပေါင်း ဖြစ်၏။

> နှမ်း, ဆန်, စပါး၊ ထားသည်ကျီဝန်း၊ တွက်ရိုးလမ်းကား၊ ထုတ်သန်း
> တောင်ပေါင်းတည်၊ မြှောက်သည်သချ်ာတူ။
> စာမူစတု၊ လဒ်အစုကို၊ သုံးခုနှင့်မြှောက်၊ မြင့်အစောက်၊ မြှောက်၍တစ်ဖန်ယူ။
> ထိုသချ်ာအား၊ ဒွေမြှောက်လွှား၊ စပါးတင်းပေါင်းဟူ။

ဤကျီဝန်းတွက်နည်းအတိုင်း မြင်းမိုရ်တောင်၌လည်း တွက်ရမည်။ အဝန်းအဝိုင်း ဆိုသမျှ၌ ဤနည်းတူချည်းတွက်။

❖❖❖❖❖

## ၆၈၃။ နီလာကြောင်စိန်၊ ရောင်ထိန်ထိန်၊ ဝတ်ချိန် ဘယ်တိထိပေနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

နံနက်အခါ၊ နီလာမြသား၊ ပတ္တမြားနှင့်၊ ဆယ်ပါးကြောင်မြတ်၊ ထိန်လျှပ်သန္တာ၊ ဆင်ဝတ်ရာ၏။ အခါနေလွဲ၊ ပုလဲဂေါ်မုတ်၊ ဥဿဖယားစိန်၊ ဝရဇိန်လျှံလူ၊ ဆင်ရမူကား။ ဗိုလ်လူခပ်သိမ်း၊ ညွှတ်တိမ်းစုံမက်၊ ပဏ္ဏာဆက်လိမ့်၊ ဟူ၍ ဗေဒင်ကျမ်းတို့၌ အချိန်အားဖြင့် ဝတ်ရာသည်ကို လာသည်။

စိန်နှင့်ပတ္တမြား၊ ကျောက်နှစ်ပါးကို၊ ရှေ့ဖျားနန္ဒာ၊ တိထိမှာ၌၊ ဝတ်ရာမှန်လှ၊ ဂေါမုတ္တနှင့်၊ ဥဿဖယား၊ ကျောက်နှစ်ပါးမှာ၊ ဘဒြာတိထိ၊ ယှဉ်မှီဝတ်မြဲ၊ ပုလဲဇေယျာ၊ သန္တာနှင့်ကြောင်၊ ဝတ်ဆောင်ရိတ္တာ၊ ကျောက်နီလာကား၊ ပုဏ္ဏာကြိုက်ကြုံ၊ ဆင်ဝတ်တုံမူ၊ လူ့ဘုံပေါ်ထင်၊ ကောင်းကျိုးမြင်လိမ့်၊ ဤတွင် အမျက် ဆင်ရိုးတည်း။

70
B

ဤသို့ဗေဒင်ကျမ်း, မဏိသျှုတြကျမ်းတို့၌ လာသည်ကိုထောက်၍ သိရာ၏ ဟူပေ။

❖❖❖❖❖

၆၈၄။ ရောင်တရှိန်ရှိန်၊ တောက်လောင်ထိန်၊ ဣန္ဒနီမျိုး ဘယ်မျှနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဣန္ဒနီလာ ကျောက်ကား အဆင်းအားဖြင့်–အနီ, အဖြူ, အညို, အနက်ဟူ၍ လေးပါးအပြားရှိ၏။

ထိုတွင် အနီကား မင်းနှင့်ထိုက်၏။ အဖြူကားပုဏ္ဏား၊ အညိုကား သူဌေး၊ အနက်ကား သူဆင်းရဲတို့နှင့် ထိုက်၏။ ဤသို့ မဏိသျှုတြစာ၌ ဆိုသောကြောင့် ဣန္ဒနီလာ လေးပါးရှိ၏ ဟူပေ။

❖❖❖❖❖

၆၈၅။ မီးပန်းထိန်ထိန်၊ဆောင်းဦး‌ြန်၊တာဝတိန် စိန်ပန်းဘယ်သို့နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တာဝတိံသာ၌ စူဠာမဏိစေတီတော်ကို နတ်တို့ပူဇော်သည်နှင့် တူသောကြောင့် တာဝတိန်စိန်ပန်းပွင့်မည်သော မီးပန်းပွင့်ဖော်နည်းကား–ယမ်းတစ်ဆယ်၊ မီးသွေး လေးကျပ်၊ သံငါးကျပ်၊ ကန့်နှစ်မတ် အကုန်ကျွေး၍ ကျည်တွင်နှက်၊ ပဒေသာကဲ့သို့ မီးပွင့်ထွက်၏။

❖❖❖❖❖

၆၈၆။ ရန်မုဋ္ဌလိန်၊ ညီ ဘေရိန်၊ ဘုန်းရှိန်ဘယ်တိုင် စိုးသနည်း။ (၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဤ၌ 'ဘယ်တိုင်'' ဟူသော စကားသည် အစ္စန္တသံယောဂမျိုးဖြစ်၍ ကာလကို လည်းကောင်း၊ အဓွန့်ကိုလည်းကောင်း ရသည်။ ထိုတွင် ကာလကိုရည်၍ မေးမူ သီရိ ခေတ္တရာပြည်၌ ဒွတ္တဘောင်နွယ် မင်းကိုးဆက် ပြီးသည့်နောက်၊ တေပါးမင်း, ပါပိရန်, ရန်မုက္ခ, ရန်သိဃ် ဤမင်းလေးဆက်နောက်၊ ရန်မုဋ္ဌလိန်မင်းသည် သာသနာတော် ၅၆၈–ခုတွင်မင်းဖြစ်၍ ၁၅–နှစ် မင်းပြုသည်။ ၎င်းနောက် ညီဘေရိန်မင်းသည် နောင်တော် လွန်သည့် နောက်မှ သာသနာ သက္ကရာဇ် ၅၈၃– ခုတွင် မင်းဖြစ်၍ ၁၂–နှစ်ပတ်လုံး စိုးအုပ်သည်။

အခွန့်ကိုရည်၍ မေးသည်ဖြစ်အံ့ ထိုမင်းတို့ပိုင်သော နိုင်ငံအပိုင်းအခြားကို ဆိုသော ဇမ္ဗုတံဆိပ် စာအလာဖြင့် သိရာ၏။

❖❖❖❖❖

၆၈၇။ ပေဒင်အချိန်၊ ပြက္ခဒိန်၊ တာရှိန်ဘယ်မျှ ရက်နေ့နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ယမန်နှစ် အတာကြမတ်ဟောင်းကို တည်၊ သတ်ခန်းစမှ နုတ်။ အကြွင်းနှစ်သစ် ကြမတ်ဖြစ်၏။ မနုတ်လောက်မူ ရှစ်ရာကူ၍ နုတ်။ အကြွင်း ကြမတ်သစ်ဖြစ်၏။ ရှစ်ရာကူသော နှစ်၌ တော်တုလဲဟူသော ၃၆၆–ရက်နှင့် အတာတက်၏ဟူပေ။

❖❖❖❖❖

၆၈၈။မိုးကြိုးပုဆိန်၊ပြင်းဟုန်ရှိန်၊ထိန်ထိန်လောင်မီး ဘယ့်ကြောင့်နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အသနိ ပန နဝဝိဓာ ဟောန္တိ အသညာ, ဝိစက္ကာ, သတေရာ, ဂဂ္ဂရာ, ကပိသီသာ, မစ္ဆဝိလောဠိကာ, ကုက္ကုဋကာ. ဒဏ္ဍမဏိကာ သုက္ခာသနီတိ။**

ဟူ၍ သုတ်မဟာဝါ မဟာပရိနိဗ္ဗာနသုတ် အဋ္ဌကထာ၊ ၎င်းဋီကာတို့၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ မိုးကြိုးတို့သည် ကိုးပါးအပြားရှိကုန်၏။ ကိုးပါး ဟူသည်ကား–

အသံပြင်းစွာ မပြဲဘဲကျသော အသညာ မိုးကြိုး။

တစ်ဖက်သွား နှစ်ဖက်သွား စက်ဝန်း စသည်ဖြင့်ကျသော ဝိစက္ကာမိုးကြိုး။

လှျပ်စစ်နွယ်ကဲ့သို့ ကျသော သတေရာမိုးကြိုး။

ဂျက်ဂျက်မြည်လျက်ကျသော ဂဂ္ဂရာမိုးကြိုး။

မျောက်မျက်နှာမော်သကဲ့သို့ကျသော ကပိသီသမိုးကြိုး။

ငါးမြူးသကဲ့သို့ကျသော မစ္ဆဝိလောဠိကမိုးကြိုး။

ကြက်ပျံသကဲ့သို့ကျသော ကုက္ကုဋကမိုးကြိုး။

လုံ့ဒဏ်ခတ်သကဲ့သို့ကျသော ဒဏ္ဍမဏိကာမိုးကြိုး။

လောင်မီးဖြစ်၍ကျသော သုက္ခာသနိမည်သော မိုးကြိုး–

အားဖြင့် ကိုးပါးအပြားရှိသည်။

ထိုကိုးပါးတို့တွင် သုက္ခာသနိမည်သော မိုးကြိုး ၏ လက္ခဏာကို အဋ္ဌကထာ ဆရာပြသည်ကား-

**သုက္ခာသနိ နာမ ပတိတဋ္ဌာနံ သမုဂ္ဃါတေတိ။ ဒေဝေ ဝဿန္တေပိ သဇောတိဘူတာယ ဥဒကေန အတေမေတဗ္ဗတော သုက္ခာသနီတိ ဝုတ္တော။ ဟူ၍ ပြသည်။**

သုက္ခာသနိနာမ၊ သုက္ခာသနိမည်သည်ကား။ ပတိတဋ္ဌာနံ၊ ကျရာအရပ်ကို။ သမုဂ္ဃါတေတိ၊ အကြွင်းမဲ့ ပျက်စီးစေ၏။ ဒေဝေ၊ မိုးသည်။ ဝဿန္တေပိ၊ ရွာလျက်လည်း။ သဇောတိဘူတာယ၊ မီးလျှံနှင့်တကွ။ ပတတိ၊ ကျ၏။ ဥဒကေန၊ ရေဖြင့်။ အတေမေတဗ္ဗတော၊ မစွတ်သည်၏ အဖြစ်ကြောင့်။ သုက္ခာသနီတိ၊ သုက္ခာသနိဟူ၍။ ဝုတ္တော၊ ဆိုအပ်၏။

ထိုမိုးကြိုးလောင်မီးတို့သည် တန်ခိုးရှိသော သိကြားမင်း, စတုမဟာရာဇ် နတ်မင်း, နတ်ဘီလူး, နဂါး အစရှိသည်တို့၏ အာနုဘော်ကြောင့် ဖြစ်ရကား သိကြားလက်နက် မည်၏။ နတ်၏ လက်နက်လည်း မည်၏။

ထို့ကြောင့် ကျမ်းဂန်၌-သက္ကာဝုဓံ ဟူ၍လည်းကောင်း, ဣန္ဒာဝုဓံ ဟူ၍ လည်းကောင်း, ဣန္ဒာသနိ-ဟူ၍ လည်းကောင်း ဆိုအပ်သတည်း။

မိုးကြိုးကို ဖြစ်စေနိုင်သော နတ်, သိကြား, နဂါး, ဘီလူးတို့သည် ရွှင်မြူးပျော် ပါးလိုသောစိတ်၊ သူတစ်ထူးအား ခြိမ်းခြောက်လိုသောစိတ်ရှိ၍ မိမိစွဲကိုင်သော လှံတံ စသည်ကို ဝင့်လိုက်၊ ခတ်လိုက်လျှင်ပင် ထက်ဝန်းကျင် ကြောက်မက်ဖွယ်သောအသံ ထစ်ကြိုးလျက် မိုးကြိုးလောင်မီးဖြစ်ရသည်ဟူ၍ လောကပညတ္တိကျမ်းတို့၌ ဆိုသည်ကို ထောက်၍ သိရမည်။

''အိန်''ကာရန်ပုစ္ဆာ ၉-ပုဒ်အဖြေ ပြီး၏။

❖❖❖❖❖

## (၂၃) ''အိန့်''ကာရန်ပုစ္ဆာ ၃-ပုဒ်အဖြေ။

### ၆၈၉။ တရားအချိန့်၊ များအသိန့်၊ မိန့်တော်ဘယ်တိုင် နှံ့သနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**အာဏာခေတ္တံ ပန ကောဋိသတသဟဿ စက္ကဝါဠပရိယန္တံ ဟောတိ။ တတ္ထ ရတနသုတ္တံ ခန္ဓပရိတ္တံ ဓဇဂ္ဂပရိတ္တံ အာဋာနာဋိယပရိတ္တံ မောရပရိတ္တန္တိ ဣမေသံ အာနုဘာဝေါ ပဝတ္တတိ။**

အာဏာ ခေတ္တံပန၊ အာဏာခေတ်သည်ကား။ ကောဋိသတသဟဿ စက္ကဝါဠပရိယန္တံ၊ စကြဝဠာ ကုဋေတစ်သိန်း အပိုင်းအခြားရှိသည်။ ဟောတိ၊ ဖြစ်၏။ ယတ္ထ၊ အကြင်ကုဋေတစ်သိန်းမျှလောက်သော စကြဝဠာတိုက်၌။ ရတနသုတ္တံ၊ ရတနသုတ်ပရိတ်သည် လည်းကောင်း။ ခန္ဓပရိတ္တံ၊ ခန္ဓပရိတ်သည် လည်းကောင်း။ ဓဇဂ္ဂပရိတ္တံ၊ ဓဇဂ်ပရိတ်သည်လည်းကောင်း။ အာဋာနာဋိယပရိတ္တံ၊ အာဋာနာဋိယ ပရိတ်သည်လည်းကောင်း။ မောရပရိတ္တံ၊ မောရပရိတ်သည်လည်းကောင်း။ ဣတိ ဣမေသံ ပရိတ္တာနံ၊ ဤပရိတ်တို့၏။ အာနုဘာဝေါ၊ အာနုဘော်သည်။ ပဝတ္တတိ၊ နှံ့၍ ဖြစ်၏။

ဤသို့ သာရတ္ထသင်္ဂဟကျမ်း၌ လာသောကြောင့် စကြဝဠာ ကုဋေတစ်သိန်း တိုင်အောင် တရားတော်၏ အာနုဘော်သည် နှံ့၏။ ထို့ကြောင့် ထိုမျှလောက်သော အရပ်သည် အာဏာခေတ်မည်၏။

ထိုစကြာဝဠာ ကုဋေတစ်သိန်းကား ဤငါတို့စကြဝဠာနှင့် လောင်ဖက်၊ ပျက်ဖက်၊ တည်ထွန်းဖက် စကြဝဠာတို့ပင်တည်း။

❖❖❖❖❖

**၆၉၀။ ရွှေခွန်းသာအိန့်၊ဖွားလျှင်မိန့်၊ထိန့်ထိန့်ကျော်စော ဘယ်မျှနည်း။(၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**မဟာသတ္တော ဟိ ဥမင်္ဂဇာတကေ ဝေဿန္တရဇာတကေ ပစ္ဆိမတ္တဘာဝေတိ တီသု ဌာနေသု ဇာတမတ္တောယေဝ မာတရာ သဒ္ဓိံ ကထေသိ။**

ဟိသစ္စံ၊ မှန်၏။ မဟာသတ္တော၊ ဘုရားလောင်းသည်။ ဥမင်္ဂဇာတကေ၊ ဥမင်္ဂဇာတ်၌ လည်းကောင်း။ ဝေဿန္တရဇာတကေ၊ ဝေဿန္တရာဇာတ်၌ လည်းကောင်း။ ပစ္ဆိမတ္တဘာဝေ၊ အဆုံးစွန်သော ကိုယ်တော်၏ အဖြစ်၌လည်းကောင်း။ ဣတိ၊ ဤသို့။ တီသု ဌာနေသု၊ သုံးပါးသော အရာတို့၌။ ဇာတမတ္တောယေဝ၊ ဖွားကာမျှ၌သာလျှင်။ မာတရာ၊ မယ်တော်နှင့်။ သဒ္ဓိံ၊ တကွ။ ကထေသိ၊ စကားဆိုနိုင်၏။

ဤသို့ ဝေဿန္တရာဇာတ် အဋ္ဌကထာ၌ လာသောကြောင့် ဖွားကာမျှနှင့် စကားဆိုတော်မူသော ဇာတ်သုံးပါးဟု မှတ်ရာသည်။

၁။ ထိုသုံးဇာတ်တို့တွင်– ဝေဿန္တရာဇာတ်၌ အဘယ်သို့ စကားဆိုသနည်း ဟူမူကား–

**မဟာသတ္တော မာတုကုစ္ဆိတော နိက္ခန္တမတ္တေ ဝိသုဒ္ဓေါ ဟုတွာ အက္ခီနိ ဥမ္မီလိတွာဝ နိက္ခမိ။ နိက္ခန္တမတ္တောယေဝစ မာတုသမ္မုခေ ဟတ္ထံ ပသာရေတွာ "အမ္မ ဒါနံ ဒဿာမိ၊ အတ္ထိ ကိဉ္စိ ဓနံ" န္တိ အာဟ။**

**အထဿ မာတာ ''တာတ အဍ္ဍုာသဿယေန ဒါနံ ဒေဟိ''တိ ပသာရိတဟတ္ထေ သဟဿတ္ထဝိကံ ဌပေသိ။**

ဟူ၍ ဇာတ်အဋ္ဌကထာ လာသည်နှင့်အညီ ဘုရားလောင်းဝေဿန္တရာမင်းသည် အမိဝမ်းမှ ဖွားစဉ်ကပင် ကိုယ်ဂုဏ်၏ အညစ်အကြေးတို့သည် မငြိမတွယ် စင်ကြယ်သည် ဖြစ်၍ မျက်စိကို ဖွင့်လျက်သာလျှင် ဖွား၏။ ဖွားတည့်လျှင်ပင် မိခင်၏ရှေ့၌ လက်ကို ဖြန့်၍ ''မိခင် ကျွန်ုပ်, အလှူပေးလိုပါသည်။ တစ်စုံတစ်ခုသော ဥစ္စာရှိပါလျှင်ပေးပါ'' ဟု ဆို၏။ ထိုအခါ မယ်တော်က ''ချစ်သား–မိခင်၌ ဥစ္စာအများရှိ၏။ ချစ်သား အလိုရှိတိုင်း အလှူပေးလော့''ဟု ဆို၍ ဖြန့်သောလက်၌ အသပြာထောင်ထုပ်ကို ထည့်လိုက်၏။

၂။ မဟော်ဇာတ်၌ အဘယ်သို့ စကားဆိုသနည်းဟူမူကား–

**မဟော်သတ္တဿ မာတုကုစ္ဆိတော နိက္ခမနကာလေ သက္ကော အဒိဿမာနကာယေန အာဂန္တွာ တဿ ဟတ္ထေ ဧကံ ဩသဓဃဋိကံ ဌပေတွာ သကဋ္ဌာနမေဝ ဂတော။ မဟာသတ္တော တံ မုဋ္ဌိံ ကတွာ ဂဏှိ။ တသ္မိံ ပန မာတုကုစ္ဆိတော နိက္ခန္တမတ္တေ မာတုအပ္ပမတ္တကာမ္ပိ ဒုက္ခံ နာဟောသိ။ ဓမကရဏတော ဥဒကမိဝ သုခေန နိက္ခမိ၊သာ တဿဟတ္ထေ ဩသဓဃဋိကံ ဒိသွာ ''တာတ ကိန္တေ လဒ္ဓ''န္တိအာဟ။ ''ဩသဓံ အမ္မာ'' တိ ဒိဗ္ဗောသဓံ မာတုယာ ဟတ္ထေ ဌပေသိ။ ဌပေတွာ စ ပန ''ဣဒံ ဩသဓံ ယေန ကေနစိ အာဗာဓေန အာဗာဓိကာနံ ဒေထာ'' တိ အာဟ။**

ဟူ၍ မဟော်ဇာတ် အဋ္ဌကထာ လာသည်နှင့်အညီ–ဘုရားလောင်း မဟောသဓာ သည် အမိဝမ်းမှ ဖွားသောအခါ၌ သိကြားမင်းသည် မထင်သောကိုယ်ဖြင့် လာလတ်၍ ဘုရားလောင်း၏လက်၌ ဆေးတုံးကို လက်ဆုပ်အတွင်း၌ ထား၏။ ထို ဘုရားလောင်းကို ဖွားရသော်လည်း မယ်တော်၌ အနည်းငယ်မျှသော ဆင်းရဲဒုက္ခသည် မရှိ၊ ပကတိသော ဓမ္မကရိဏ်မှ ကျသော ရေကဲ့သို့ ချမ်းသာသဖြင့် ဖွား၏။ ထို့ကြောင့် ဖွား၍ သား၏ မျက်နှာကိုမြင်ရလျှင် မယ်တော် သုမနဝတီသည် သား၏လက်၌ ဆေးတုံးကိုမြင်၍ ''ချစ်သား–သင်၏လက်၌ ပါသည်ကား အဘယ်နည်း''ဟု မေး၏။ ''မိခင်–ကျွန်ုပ်လက်တွင် ပါသည်ကား မြတ်သော နတ်ဆေးတည်း။ ဤဆေးကို တစ်စုံတစ်ရာ အနာဖြင့် နှိပ်စက်သောသူအား ပေးပါလော့။ မရှည်မကြာ ချမ်းသာပါလိမ့်သတည်း'' ဟု ဆို၍ မယ်တော်လက်သို့ ပေး၏။

၃။ အဆုံးစွန်သော ကိုယ်တော်၏အဖြစ်၌ အဘယ်သို့ စကားဆိုသနည်း ဟူမူကား-

**''အဂ္ဂေါဟမသ္မိ လောကဿ။ သေဋ္ဌောဟမသ္မိ လောကဿ။ ဇေဋ္ဌောဟမသ္မိ လောကဿ။ အယမန္တိမာဇာတိ။ နတ္ထိ ဒါနိ ပုနဗ္ဘဝေါ''တိ သီဟနာဒံ နဒိ။**

ဟူ၍လာသော ဗုဒ္ဓဝင်အဋ္ဌကထာနှင့်အညီ-လုမ္ဗိနီဉယျာဉ်၌ သိဒ္ဓတ်မင်းသားကို ဖွားလျှင်အသီးအသီး ခံလာသော ဗြဟ္မာ, သိကြား, နတ်သား, လူသားတို့၏ လက်မှ မြေသို့ဆင်းသက်၍ ''ဤလူအပေါင်းထက် ငါသည် အထူးသဖြင့် ကဲလွန်၍ မြတ်၏။ ဤလူအပေါင်းထက် ငါသည် အထူးသဖြင့် ချီးမွမ်းအပ်၏။ ဤလူအပေါင်းထက် ငါသည် အထူးသဖြင့် ကြီး၏။ ဤပဋိသန္ဓေနေရခြင်းကား အဆုံးစွန်ဖြစ်၏။ နောက်၌ တစ်ဖန် ပဋိသန္ဓေနေရခြင်း မရှိပြီ''ဟူ၍ ခြင်္သေ့မင်းကဲ့သို့ ရဲတင်းသောအသံကို ဆိုသတည်း။

❖❖❖❖❖

၆၉၁။ မိုးတဟိန်းဟိန်း၊ တသိန်းသိန်း၊ ထိန်ထိန် ဘယ်မျှကြားသနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**မေဃသဒ္ဒေါ နာမ၊ မိုးသံမည်သည်ကို။ ကိတ္တကေ ဌာနေ၊ အဘယ်မျှ လောက်သော အရပ်၌။ သုယျတိ၊ ကြားအပ်သနည်း။ ဣတိ၊ ဤသို့။ ပုစ္ဆိ၊ မေး၏။ ကောဒ္ဒိတိယောဇနမတ္တေ၊ တစ်ယူဇနာ, နှစ်ယူဇနာ, သုံးယူဇနာမျှ လောက်သော အရပ်၌။ သုယျတိ၊ ကြားအပ်၏။ ဣတိ၊ ဤသို့။ အာဟံသု၊ ဆိုကုန်၏။**

ဤသို့ ကေနိပါတ် အပဏ္ဏကဇာတ်၌ လာသောကြောင့် တော်ရုံသော မိုးသံသည် တစ်ယူဇနာတိုင်အောင် ကြားသည်။ ပြင်းသော မိုးသံသည် နှစ်ယူဇနာတိုင်အောင် ကြားသည်။ အလွန်ပြင်းသော မိုးသံသည် သုံးယူဇနာတိုင်အောင် ကြားသည်။ မိုးရွာအံ့ဟု တက်လတ်သော တိမ်ကို သုံးယူဇနာအရပ်က မြင်ရသည်။ မိုးမြူးသော် လေဆင်သည်ကို တစ်ယူဇနာကပင် မြင်ရသည်။ လျှပ်စစ်ကို ငါးယူဇနာက မြင်ရသည်။

ထို့ကြောင့် ရှေးသူဟောင်းတို့သည်-''တိမ်-တေ, လေ-ကော်၊ လျှပ်စစ်-ပဉ္စော၊ သံ-တယော'' ဟု ဆိုကုန်၏။

နီတိကျမ်းတို့၌လည်း-''ဘေရိသဒ္ဒေါ တိဂါဝုတံ၊ မေဃသဒ္ဒေါ တိယောဇနံ''ဟု ဆိုပြီ။

သက္ကရာဇ် ၁၁၁၃–ခုနှစ်၊ ဟံသာဝတီရောက်မင်း သီရိသုဓမ္မရာဇာ လက်ထက်၌ စိန္တကျော်သူအမတ် စီရင်သော သတ်ပုံကျမ်း၌–

ချိုလေးသာအိန့်၊ နှုတ်တော်မိန့်၊ ထိန့်ထိန့်ကျော်သံဝေ။

နသတ်တင်မြစ်၊ ရေးနည်းစစ်၊ အသစ်ရတတ်စေ။

ယင်းသုံးပါးမှ၊ ထူး၍ရ၊ လူများခေါင်ချုပ်နေ။

အဂ်ါမချို့၊ စုံပျို့ပျို့၊ ငါတို့ဆရာပေ။

ပညာရှိများ၊ ထိုသူ့အား၊ ညာထား ကိုးကွယ်လေ။

ဟူ၍ စပ်ဆိုမှာထားခဲ့သည်ကို ထောက်လျှင် "မိန့်၊ အိန့်၊ ထိန့်–ဟူသော အက္ခရာ သုံးလုံးကိုသာ နသတ်လုံးတင် အမြစ်၌ ငါတို့ရနိုင်သည်။ ထို့ထက်သာ၍ ရှာနိုင်မူ လူများ ခေါင်ချုပ်နေသော ငါတို့ဆရာ ဖြစ်တော့သည်"ဟု ဆိုခဲ့သည်။

ကျည်းကန်ဆရာကမူကား–မိန့်၊ အိန့်၊ ထိန့်အပေါ်တွင် "အချိန့်၊ အသိန့်၊ ဟိန့်" ဟူသော အသံသုံးပါးကို သွင်းနိုင်ပြန်သည်ဖြစ်၍ ဆရာမြောက်ပေသည်။

လောကဝိဒူပျို့၌–

သုံးပါးအဖို့၊ ဝိထိတို့ဖြင့်၊ မြင်းမိုရ်ရှဲ့ရဟတ်၊ မိုးခုလတ်ဝယ်၊ ခရုပတ်လိမ့်၊ ရစ်၍ အိန့်သား၊ ပြက္ခဒိန့်လက်၊ တစ်နှစ်ရက်၌၊ ပတ်ချက် ခြောက်ဆယ်၊ သုံးရာကြွယ်ရှင့်။ ။ ဟူ၍ စပ်သည်။

စာတော်ရတု၌လည်း–

မိုးနတ်ဒေဝိန့်၊ သံကြီးဟိန့်က၊ နာဂိန့်ဦးခေါင်း၊ မြောက်သို့စောင်း၏။ ။ ဟူ၍ စပ်သည်။

ဤသို့ ပညတ်နသတ် အမြစ်စပ်သည်ကို ထုတ်လျှင် ရှင်နန္ဒဓဇအပေါ်တွင် သုံးလွန်းတင်၍ ရဖွယ်ရာရှိ၏။ ယင်းသို့ရသော်လည်း ဂန္ထဘာရဖြစ်မည်ကြောင့် မထုတ်လိုက်ပြီ။ ယုတ္တိကိုရှာသော် လုံးတင်နသတ်ဟူသမျှသည် သင့်သောဌာန၌ အမြစ်သင့်သည် များ၏။

"အိန့်"ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေပြီး၏။

❖❖❖❖❖

## (၂၄) ''အိန်း'' ကာရန်ပုစ္ဆာ ၄–ပုဒ်ပုဒ်အဖြေ။

၆၉၂။ ကိုယ်တော်ရှင်ဖိန်း၊ မျောက်မျဉ်းမိုန်း၊ စက်ကျိန်းညဉ့်ယံဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဘဂဝါ ပန ကေရတ္တိယာ တီသု ယာမေသု ပစ္ဆိမယာမံ တယော ကောဋ္ဌာသေ ကတွာ။**

အစရှိသည်ဖြင့် ဓမ္မပဒအဋ္ဌကထာ၊ အင်္ဂုတ္တိုရ်အဋ္ဌကထာတို့၌ လာသည်နှင့် အညီ– တစ်ခုသော ညဉ့်၏ သုံးပါးသော ယံတို့တွင် ပဌမယံ ဒုတိယယံတို့၌ တပည့် သာဝက တို့အား တရားဟောပြ ဆုံးမတော်မူ၍ ပစ္ဆိမဟု ဆိုအပ်သော မိုးသောက်ယံကို သုံးဖို့ဖို့၍ တစ်ဖို့ခန့်မျှ သီဟသေယျဖြင့် ကျိန်းစက်တော်မူ၍ မိုးသောက်သောအခါ၌ ကျွတ်ထိုက် သော သတ္တဝါတို့ကို ကြည့်တော်မူမြဲဖြစ်သည်ဟု ဆိုအပ်သောကြောင့် ညဉ့်နာရီ သုံးဆယ်တွင် ကိုးစုတစ်စုကျသော သုံးနာရီခန့်သာ ကျိန်းတော်မူ၏ဟု သိရာသည်။

နေ့အခါ၌ ကျိန်းတော်မူခြင်းမရှိလော ဟူငြားအံ့–နွေလ၏ အဆုံးဖြစ်သော ကဆုန်လ, နယုန်လတို့၌ကား နေ့အခါ ကျိန်းတော်မူ၏။ အခါခပ်သိမ်း မကျိန်းဟူပေ။

အဘယ်ကိုထောက်၍ သိရာသနည်းဟူမူကား–သစ္စကပရိဗိုဇ်သည် ဘုရားရှင် ထံသို့ ကပ်လေသောကာလ ''အရှင်ဘုရားသည် နေ့အခါ၌ ကျိန်းတော်မူပါ သေး၏လော''ဟု မေးလျှောက်သောအခါ–

**အဘိဇာနာမိ ခေါ ပနာဟံ အဂ္ဂိဝေဿန ဂိမှာနံ ပစ္ဆိမေ မာသေ ပစ္ဆာဘတ္တံ ပိဏ္ဍပါတပ္ပဋိက္ကန္တော စတုဂ္ဂုဏံ သံဃာဋိံ ပညပေတွာ ဒက္ခိဏေန ပဿေန သတောသမ္ပဇာနော နိဒ္ဒံ ဩက္ကမိတာတိ။**

ဟူ၍ မိန့်တော်မူသောကြောင့် သိရသတည်း။

အဂ္ဂိဝေဿန၊ မီးနတ်ကိုးငြားပုဏ္ဏားနွယ်စသစ္စက။ အဟံ၊ ငါဘုရားသည်။ ဂိမှာနံ၊ နွေဥတုတို့၏။ ပစ္ဆိမေမာသေ၊ နောက်ဆုံးဖြစ်သော ကဆုန်လ၊ နယုန်လ၌။ ပစ္ဆာဘတ္တံ၊ ဆွမ်းစားပြီးသောအခါ၌။ ပိဏ္ဍပါတပ္ပဋိက္ကန္တော၊ ဆွမ်းခံရာမှ ဖဲခဲ့ပြီးသော်။ စတုဂ္ဂုဏံ၊ လေးထပ်သော၊ သံဃာဋိံ၊ ဒုကုဋ်ကို။ ပညပေတွာ၊ ခင်း၍။ ဒက္ခိဏေန ပဿေန၊ လက်ယာနံတောင်းဖြင့်။ သတောသမ္ပဇာနော၊ သတိပညာရှိလျက်။ နိဒ္ဒံ၊ အိပ်ပျော်ခြင်းသို့။ ဩက္ကမိတာတိ၊ ရောက်၏ ဟူ၍။ အဘိဇာနာမိ ခေါပန၊ ဝန်ခံတော်မူသလျှင်ကတည်း။ (မဇ္ဈိမနိကာယ် သစ္စကသုတ်)။

❖❖❖❖❖

71
B

၆၉၃။ ကုဋေတစ်သိန်း၊ ကျော်လွှဲရှိန်း၊ ရေကိန်းဘယ်မျှကြာသနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကုဋေတစ်သိန်းသော လောကဓာတ်တို့၏ ပျက်ခြင်းသည် မီး, ရေ, လေဟူ၍ သုံးပါးရှိသည်တွင် ရေဖျက်သော အာပေါသံဝဋ္ဋကပ်၌ ကမ္ဘာပျက်မိုးရွာသည်မှစ၍ အားလုံးစုံသော စကြဝဠာမြေသည် ဆားခဲကို ရေစိမ်သကဲ့သို့ မြည့်မြည့်ကြေ၍ ပျက်သည့် တိုင်အောင် သံဝဋ္ဋကပ် ကမ္ဘာပြုမိုးရွာ၍ သုဘကိဏှာဘုံ ထိအောင် ရေပြည့် ပြီးသော် ထိုရေသည် တရွေ့တရွေ့လျော့၍ မြင်းမိုရ်သတ္တရဘ္ဘန်ကျွန်းရံနေလပေါ်သည် တိုင်အောင် ဝိဝဋ္ဋကပ်ဟူ၍ ဆိုခဲ့သော် သံဝဋ္ဋဌာယီကပ် မပါသကဲ့သို့ ရှိခဲ့၏။ ထို့ကြောင့် ''ရေကိန်း ဘယ်မျှကြာသနည်း'' ဟုမေးသည်။

မီးဖျက်သော ကမ္ဘာ၌ကဲ့သို့ ရေဖျက်သော ကမ္ဘာ၌လည်း ကမ္ဘာပျက်ရေနှင့် ကမ္ဘာပြု မိုးရေပြည့်သော အကြားတွင် ဟင်းလင်းအပြင်တည်သောကာလ ရှိသည်ဖြစ်၍ ထိုကာလကို သံဝဋ္ဋဌာယီဆိုရကား မီးဖျက်သော ကမ္ဘာကဲ့သို့ တညီတမျှပင် ကြာ၏ဟု သိရာသည်။

ထို့ကြောင့် လောကဝိဒူပျို့၌–

တက်ချီထိုခါ၊ ရေကမ္ဘာ၌၊ မိုးရွာပြီးနောင်၊ မရွာခေါင်၍၊ ပြောင်ပြောင်ပူပြင်း၊ နှစ်စင်းညီးညီး၊ မီးကမ္ဘာချိန်၊ နေသူရိန်သို့၊ စက်ရှိန်မုန်ဆန်၊ ဆားငန်အတိ၊ ကျူတကိုဖြင့်၊ မိုးကြီးစေချည်း၊ ဝုန်သည်းမောက်ဖြိုး၊ ကြာရိုးကျည်ပွေ့၊ လွှေ့လွှေ့ကြီးဆုံး၊ ထန်းလုံး ရှိလောက်၊ မိုးပေါက်အစဉ်၊ ရေအယဉ်ဖြင့်၊ ခဲပျဉ်တင်းကျမ်း၊ လွှမ်း၍ နှစ်မွန်း၊ အောက်မြေစွန်းမှ၊ ဝန်းကစ၍၊ ဒုတိယဈာန်ဘုံ၊ ပိုက်ခြုံရိုက်ထိန့်၊ ကုဋေသိန့်ထက်၊ သုဘကိဏှ်အောက်၊ တလျှောက်ရေမြေ၊ ဆားခဲကြေသို့၊ ထိလေထိလေ၊ ပြတ်ကြွေခဏ၊ မြည့်မြည့်မွလျက်၊ ထိုမျှခပ်သိမ်း၊ ငြိမ်း၍ချုပ်ဆော၊ ကျပြန်လျော့သည်။ ။ အာပေါသံဝဋ္ဋ ပိုင်းခြားတည်း။

ရေစဲလေစဲ၊ ရွာမြဲကပ်ပြု၊ နေဟုလထွက်၊ ရွာပြန်ပျက်သား၊ စတုလက်နည်း၊ လေးချက်စည်းဖြင့်၊ ပမည်းပမာ၊ မီးကမ္ဘာသို့၊ အလွှာလေးစပ်၊ လေးပါးကပ်ကို၊ စွဲကြပ်သတိ၊ မှတ်ဖွယ်သိလောဟူ၍ ဆိုလေသည်။

❖❖❖❖❖

၆၉၄။ စက်ကြီးထိန်းထိန်း၊ မိုးကြီးဟိန်းဟိန်းသံချင်းကွာ မည်သို့နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– စက်သံမှာ တစ်ယူဇနာ၊ မိုးသံမှာ သုံးယူဇနာ ကြား၏ ဟူပေ။

❖❖❖❖❖

၆၉၅။ ဆယ်ရာထောင်သိန်း၊ ဖိုးထိုက်ကိန်း၊ မိန်းမစဉ်သင့် ဘယ်မျှနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ပဒုမိနီ, စိတြိနီ, သင်္ခိနီ, ဟတ္ထိနီဟူသော မိန်းမမျိုးလေးပါးတွင် တစ်ပါး တစ်ပါး၌ ဥက္ကဋ္ဌ, ပဏီတ မဇ္ဈိမ ဟီနဟူ၍ လေးပါးစီပြားရကား တစ်ဆယ့်ခြောက်မျိုး ရှိ၏။ ထိုတစ်ဆယ့်ခြောက်မျိုးတို့ကို အရောင်အဆင်းအားဖြင့် သိအပ်၏။

(၁) ပဒုမိနီ သာမဝဏ္ဏာစ၊ ရတ္တဝဏ္ဏာစ စိတြိနီ။
သင်္ခိနီ သေတဝဏ္ဏာစ၊ ကာလဝဏ္ဏာစ ဟတ္ထိနီ။
ဥက္ကဋ္ဌန္တိ ဝိဇာနေယျ။

ရွှေသောအဆင်းရှိသော ပဒုမိနီမိန်းမ။ နီသောအဆင်းရှိသော စိတြိနီမိန်းမ။ ဖြူသော အဆင်းရှိသော သင်္ခိနီမိန်းမ။ မည်းသောအဆင်းရှိသော ဟတ္ထိနီမိန်းမ။ ဤလေးဦးတို့သည် ဥက္ကဋ္ဌမျိုးမည်၏။ ပြည့်ရှင်မင်းနှင့်ထိုက်၏။

(၂) ပဒုမိနီ ရတ္တဝဏ္ဏာစ၊ သေတဝဏ္ဏာစ စိတြိနီ။
သင်္ခိနီ ကာလဝဏ္ဏာစ၊ သာမဝဏ္ဏာစ ဟတ္ထိနီ။
ပဏီတန္တိ ဝိဇာနေယျ။

နီသောအဆင်းရှိသော ပဒုမိနီမိန်းမ။ ဖြူသောအဆင်းရှိသော စိတြိနီမိန်းမ။ မည်းသောအဆင်းရှိသော သင်္ခိနီမိန်းမ။ ရွှေသောအဆင်းရှိသော ဟတ္ထိနီမိန်းမ ဤလေးဦးတို့သည် ပဏီတမျိုးမည်၏။ မှူးမတ်တို့နှင့်ထိုက်၏။

(၃) ပဒုမိနီ သေတဝဏ္ဏာစ၊ ကာလဝဏ္ဏာစ စိတြိနီ။
သင်္ခိနီ သာမဝဏ္ဏာစ၊ ရတ္တဝဏ္ဏာစ ဟတ္ထိနီ။
မဇ္ဈိမန္တိ ဝိဇာနေယျ။

ဖြူသောအဆင်းရှိသော ပဒုမိနီမိန်းမ။ မည်းသောအဆင်းရှိသော စိတြိနီမိန်းမ။ ရွှေသောအဆင်းရှိသော သင်္ခိနီမိန်းမ။ နီသောအဆင်းရှိသော ဟတ္ထိနီမိန်းမ။ ဤလေးဦးတို့သည် မဇ္ဈိမမျိုးမည်၏။ သူဌေး, သူကြွယ်, ပုဏ္ဏားတို့နှင့် ထိုက်၏။

(၄) ပဒုမိနီ ကာလဝဏ္ဏာစ၊ သာမဝဏ္ဏာစ စိတြိနီ။
သင်္ခိနီ ရတ္တဝဏ္ဏာစ၊ သေတဝဏ္ဏာစ ဟတ္ထိနီ။
ဟီနကန္တိ ဝိဇာနေယျ။

မည်းသောအဆင်းရှိသော ပဒုမိနီမိန်းမ။ ရွှေသောအဆင်းရှိသော စိတြိနီမိန်းမ။ နီသောအဆင်းရှိသော သင်္ခိနီမိန်းမ။ ဖြူသောအဆင်းရှိသော ဟတ္ထိနီမိန်းမ။ ဤလေးဦးတို့သည် ဟီနမျိုးမည်၏။ သူဆင်းရဲတို့နှင့် ထိုက်၏။

(၁) ပဒုမိနီ သတသဟဿံ၊ နဟုတင္ဂဥ္စ စိတြိနီ။
သင်္ခိဏီ သဟဿဒွေ၀၊ သတာရဟံ၀ ဟတ္ထိနီ။
ဥက္ကဋ္ဌေသု သု၀ဏ္ဏဂ္ဃံ။

ဥက္ကဋ္ဌဖြစ်သော ပဒုမိနီ မိန်းမကား ရွှေစင် တစ်သိန်းတန်၏။ ဥက္ကဋ္ဌဖြစ်သော စိတြိနီမိန်းမကား ရွှေစင်တစ်သောင်းတန်၏။ ဥက္ကဋ္ဌဖြစ်သော သင်္ခိဏီမိန်းမကား ရွှေစင် တစ်ထောင်တန်၏။ ဥက္ကဋ္ဌဖြစ်သော ဟတ္ထိနီမိန်းမကား ရွှေစင်တစ်ရာတန်၏။

(၂) ပဒုမိနီ ဒသသဟဿံ၊ သဟဿဂ္ဃဥ္စ စိတြိနီ။
သင်္ခိဏီ သတပလဂ္ဃံ၊ ဒသပလဥ္စ ဟတ္ထိနီ။
ပဏီတေသု သု၀ဏ္ဏဂ္ဃံ။

ပဏီတဖြစ်သော ပဒုမိနီမိန်းမကား ရွှေစင်တစ်သောင်းတန်၏ပဏီတဖြစ်သော စိတြိနီမိန်းမကား ရွှေစင် တစ်ထောင်တန်၏။ ပဏီတဖြစ်သော သင်္ခိဏီမိန်းမကား ရွှေစင်တစ်ရာ တန်၏။ ပဏီတ ဖြစ်သော ဟတ္ထိနီမိန်းမကား ရွှေစင်တစ်ဆယ်တန်၏။

(၃) ပဒုမိနီ ပလသဟဿံ၊ ပလသတန္တိ စိတြိနီ။
သင်္ခိဏီ ဒသပလဂ္ဃံ၊ ပဥ္စပလဥ္စ ဟတ္ထိနီ။
မဇ္ဈိမေ သု၀ဏ္ဏဂ္ဃံ။

မဇ္ဈိမဖြစ်သော ပဒုမိနီမိန်းမကား ရွှေစင်တစ်ထောင်တန်၏။ မဇ္ဈိမဖြစ်သော စိတြိနီမိန်းမကား ရွှေစင်တစ်ရာတန်၏။ မဇ္ဈိမဖြစ်သော သင်္ခိဏီမိန်းမကား ရွှေစင် တစ်ဆယ်တန်၏။ မဇ္ဈိမဖြစ်သော ဟတ္ထိနီမိန်းမကား ရွှေစင် ငါးကျပ်တန်၏။

(၄) ပဒုမိနီ ပလသတံ၊ ဒသပလဥ္စ စိတြိနီ။
သင်္ခိဏီ ပဥ္စပလကံ၊ အဍ္ဎပလန္တိ ဟတ္ထိနီ။
ဟီနကေသု အဂ္ဃံ ဥေ ယျံ။

ဟီနဖြစ်သော ပဒုမိနီ မိန်းမကား ရွှေစင် တစ်ရာတန်၏။ ဟီနဖြစ်သော စိတြိနီ မိန်းမကား ရွှေစင်တစ်ဆယ်တန်၏။ ဟီနဖြစ်သော သင်္ခိဏီမိန်းမကား ရွှေစင် ငါးကျပ် တန်၏။ ဟီနဖြစ်သော ဟတ္ထိနီ မိန်းမကား ရွှေစင် တပိုလ်ခွဲတန်၏။

တပိုလ်ဟူရာ၌ ငါးကျပ်ကို တပိုလ်ဟုခေါ်သည်။ ဤသို့လာသောသချုတြကျမ်းဖြင့် သိအပ်၏။

ရေသားဖိန်းဖိန်း၊ ဘမိုန်းမှိုန်း၊ ပျက်ကိန်း ဘယ်ဓာတ် ဆိုမည်နည်း။
ပဏ္ဍုသ်, ဒေဝိန်း၊ အမတ်သိန်း၊ ကာမိန်း ဘယ်သူကြီးသနည်း။
သုနန္ဒာစိန်း၊ ရထားထိန်း၊ လန့်ကျိန်းဘယ့်ကြောင့် ကြောက်သနည်း။

မြင်းက စိန်းစိန်း၊ ကြည့်မှုဒိန်း၊ ဘယ်မိန်းမမျိုး ပေတို့နည်း။

လူညံ့ လူပြိန်း၊ နန်းရွှေပြိန်း၊ ပြိန်းချင်းဘယ်သို့ ခြားသနည်း။

ဤပုစ္ဆာစုကား အသတ်စုံစိမ့်သောငှာ ထည့်သွင်းလိုက်သည်။

''အိန်း'' ကာရန်ပုစ္ဆာ ၄-ပုဒ်အဖြေပြီး၏။

❖❖❖❖❖

## (၂၅) ''အုန်'' ကာရန်ပုစ္ဆာ ၆-ပုဒ်အဖြေ။

## ၆၉၆။ ရေယဉ်သုန်သုန်၊ အောက်သို့စုန်၊ ဒဂုန်ဆံတော် ဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဝိနည်းမဟာဝါ ပါဠိတော်, အဋ္ဌကထာ အစရှိသော သင်္ဂါယနာတင်ကျမ်းတို့၌ တပုဿ ဘလ္လိကတို့အား ဆံတော်ပေးကြောင်းကို သာ ဆိုသည် ဘယ်မျှဟူ၍ မဆို။

သမိုင်းဟောင်း၌ကား- ''ဆံတော်ရှစ်ဆူ'' ဟူ၍ ဆို၏။

❖❖❖❖❖

## ၆၉၇။ ဆောင်းလရောက်ကုန်၊ ချမ်း၍တုန်၊ မီးဟုန်မြောက်ကျွန်း လှုံလိမ့်နည်း။ (၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တတ္ထ၊ ထိုဉတ္တရကုရုကျွန်း၌။ သီတုဏှာ ဉ်သ မကာသ ဝါတာတပ သရီသပဝါဋ္ဌာ ဒိပရိဿယော၊ ချမ်းခြင်း, ပူခြင်း, ခြင်, မှက်, လေ, နေပူ, မြွေ, ကင်း, သန်း, သားရဲ အစရှိသော ဘေးရန်သည်လည်း။ န စ အတ္ထိ၊ မရှိ။ ယထာနာမ၊ ဉပမာ မည်သည်ကား။ တ္တေ၊ ဤဇမ္ဗူဒိပ်ကျွန်း၌။ ဂိမှာနံ၊ နွေလတို့၏။ ပစ္ဆိမေမာသေ၊ အဆုံးသော ကဆုန်လ၌။ ပစ္စူသဝေလာယံ၊ မိုးသောက်ထအခါ၌။ သမ သီတုဏှောတု၊ အချမ်းအပူညီမျှသော ဉတုရှိသည်။ ဟောတိယထာ၊ ဖြစ်သကဲ့သို့။ ဝေမေဝ၊ ဤအတူလျှင်။ တတ္ထ၊ ထိုဉတ္တရ ကုရုကျွန်း၌။ သမသီတုဏှောတု၊ ညီညွတ်သော အချမ်း အပူ ဉတုရှိသည်။ ဟောတိ၊ ဖြစ်၏။ ။ ဤသို့ ဉတုညီညွတ်ကြသောကြောင့် မြောက်ကျွန်း၌ မီးမလှုံဟူ၍ သိရာသည်။

မီးမလှုံသော် ဘောဇဉ်ခဲဖွယ်ကို အဘယ်သို့ ချက်စားကုန်သနည်း ဟူငြားအံ့-

နေသံ၊ ထိုမြောက်ကျွန်းသူတို့အား။ ကောစိ၊ တစ်စုံတစ်ခုသော။ ဉပယာတောစ၊

ကပ်၍ သတ်ခြင်းသည်လည်းကောင်း။ ဝိဟေသာစ၊ ညှဉ်းဆဲခြင်းသည်လည်းကောင်း။ န ဉပ္ပဇ္ဇတိ၊ မဖြစ်။ အကာတပါကတိမေဝ၊ လူတို့ မပြုလုပ်ဘဲ အလိုလိုဖြစ်သော။ အကဏံ၊ ဆန်ကျိုးဆန်ကွဲ မရှိသော။ အထုသံ၊ ဖွဲနုဖွဲကြမ်း မလွှမ်းသော၊ သုဂန္ဓံ၊ ကောင်းသော ရနံ့ရှိသော။ သာလိတဏ္ဍုလံ၊ သလေးဆန်ကို။ နိဒ္ဓူမင်္ဂါရေန၊ မီးခိုး မီးကျီး မရှိသော။ အဂ္ဂိနာ၊ မီးဖြင့်။ ပစိတွာ၊ ချက်၍။ ပရိဘုဉ္ဇန္တိ၊ သုံးဆောင်ရကုန်၏။

မီးခိုး မီးကျီးမရှိသော မီးဆိုသော် ထင်းအမှိုက်ဖြင့် ထိုမီးဖြစ်သည်မဟုတ်လော ဟူငြားအံ့ –

တတ္ထ၊ ထိုမြောက်ကျွန်း၌။ တီရေ၊ မြစ်၏ ကမ်းနား၌။ ဇောတိပါသာဏာနာမ၊ မီးလျှံကျောက်တို့သည်။ ဟောန္တိ၊ ရှိသည်ဖြစ်ကုန်၏။ တတ္ထ ပါသာဏေ၊ ထိုကျောက်ခွက်၌။ တေ၊ ထိုကျွန်းသူတို့သည်။ တံ၊ ထိုသလေးဆန်ကို။ ဌပေတွာ၊ တင်ထား၍။ တံ၊ ထိုကျောက်ကို။ ဥက္ခလိံ၊ ခံလောက်သို့။ အာရောပေန္တိ၊ တင်ကုန်၏။ ပါသာဏေဟိ၊ ကျောက်တို့မှ။ တေဇော၊ မီးသည်။ သမုဋ္ဌဟိတွာ၊ ကောင်းစွာ ထလတ်၍။ တံ၊ ထိုဆန်သည်။ ပစ္စတိ၊ ကျက်လေ၏။ အညော၊ သလေးထမင်းမှ တစ်ပါးသော။ သူပေါ ဝါ၊ ဟင်းသည်လည်းကောင်း။ ဗျဉ္ဇနော ဝါ၊ ငါး, အမဲဟင်းလျာသည် လည်းကောင်း၊ နဟောတိ၊ မဖြစ်။ ဘုဉ္ဇန္တာနံ၊ စားကုန်သော သူတို့၏။ စိတ္တာနု လောမောယေဝ၊ စိတ်အားလျော်သည်သာလျှင် ဖြစ်သော။ ရသော၊ အရသာသည်။ ဟောတိ၊ ဖြစ်၏။ တံ၊ ထိုသလေးဆန်ကို။ ဘုဉ္ဇန္တာနံ၊ စားကုန်သော။ တေသံ၊ ထိုကျွန်းသူတို့အား။ ကုဋ္ဌ၊ နူနာသည် လည်းကောင်း။ ဂဏ္ဍော၊ ထွတ်မြင်းနာသည်လည်းကောင်း။ ကိလာသော၊ ပွေးညှင်းအနာသည် လည်းကောင်း။ သောသော၊ ချောင်းဆိုး ကုတ်ဟီးနာသည် လည်းကောင်း။ အပမာရောစ၊ ဝက်ရူး, ကြက်ရူး အနာသည် လည်းကောင်း၊ ကာသော၊ ချောင်းဆိုးအနာသည်လည်းကောင်း။ ဇရော၊ အိုခြင်း အနာသည်လည်းကောင်း။ ဣတိ အာဒိရောဂါ၊ ဤသို့စသော အနာတို့သည်။ န ဉပ္ပဇ္ဇန္တိ၊ မဖြစ်ကုန်။ ။ ဤသို့ သာရတ္ထ သင်္ဂဟကျမ်း၌ လာသောကြောင့် သိရာသည်။

❖❖❖❖❖

## ၆၉၈။ ငှက်ချင်းမဖြုန်၊ ငှက်ဂဠုန်၊ တောင်ဟုန်လေရောက် ဘယ်မျှနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သုပဏ္ဏရာဇာ ပန၊ ဂဠုန်မင်းသည်ကား။ ဒိယမုယောဇနသတိကော၊ ယူဇနာ တစ်ရာ့ငါးဆယ်ရှိ၏။ တဿ၊ ထိုဂဠုန်မင်း၏။ ဒက္ခိဏပက္ခော၊ လက်ယာ အတောင်သည်။ ပညာသ ယောဇနိကော၊ ယူဇနာ ငါးဆယ်ရှိ၏။ တထာ၊ ထို့အတူ။ ဝါမပက္ခော၊ လက်ဝဲအတောင်သည်။ ပညာသယောဇနိကော၊ ယူဇနာ ငါးဆယ်ရှိ၏။ ပစ္ဆိဝတ္တိ၊ အမြီးဆံသည်။ သဋ္ဌိယောဇနိကော၊ ယူဇနာခြောက်ဆယ် ရှိ၏။ ဂီဝါ၊

လည်သည်။ တိံသယောဇနိကော၊ ယူဇနာသုံးဆယ်ရှိ၏။ မုခံ၊ ခံတွင်းသည်။ နဝယောဇနံ၊ ကိုးယူဇနာ ရှိ၏။ ပါဒါ၊ ခြေတို့သည်။ ဒွါဒသယောဇန သတိကာ၊ ယူဇနာတစ်ရာ့နှစ်ဆယ် ရှိကုန်၏။ တသ္မိ၊ ထိုဂဠုန်မင်းသည်။ သုပဏ္ဏဝါတံ၊ ဂဠုန်လေကို။ ကာတုံ၊ ပြုအံ့သောငှါ။ အာရဒ္ဓေ၊ အားထုတ်လတ်သော်။ သဋ္ဌိယောဇနသတံ၊ ယူဇနာ ခြောက်ထောင်ရှိသော အရပ်သည်။ နပ္ပဟောတိတိ၊ မလောက်ဟူ၍။ သံယုတ္တဝဏ္ဏနာယံ၊ သံယုတ်အဋ္ဌကထာ၌။ ဝုတ္တံ ဆိုအပ်၏။ ။ [သဋ္ဌိယောသဇနသတံပုဒ်ကို ဂုဏိတသင်္ချာယူရမည်]။

❖❖❖❖❖

## ၆၉၉။ ပညာမဖုန်၊ ရာဇဂုဏ်၊ မှတ်ကုန်ရှစ်ပါး အဘယ်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

၁။ သိကြားမင်းကဲ့သို့ ကျင့်ရာသည်လည်း တစ်ပါး။
၂။ လမင်းကဲ့သို့ ကျင့်ရာသည်လည်း တစ်ပါး။
၃။ နေမင်းကဲ့သို့ ကျင့်ရာသည်လည်း တစ်ပါး။
၄။ ပဇ္ဇုန်နတ်ကဲ့သို့ ကျင့်ရာသည်လည်း တစ်ပါး။
၅။ မြေကြီးကဲ့သို့ ကျင့်ရာသည်လည်း တစ်ပါး။
၆။ လေကဲ့သို့ ကျင့်ရာသည်လည်း တစ်ပါး။
၇။ ယမမင်းကဲ့သို့ ကျင့်ရာသည်လည်း တစ်ပါး။
၈။ ပင်လယ်ကဲ့သို့ ကျင့်ရာသည်လည်းတစ်ပါး။ ။ ဤရှစ်ပါးသည် ရာဇဂုဏ် မည်၏။

၁။ ထိုရှစ်ပါးတို့တွင်– သိကြားမင်းကဲ့သို့ ကျင့်ရာသည် အဘယ်နည်း ဟူမူကား– သိကြားမင်းသည် နှိပ်နင်းတန်သည့်သူကို နှိပ်နင်းခြင်း, ချီးမြှောက်တန်သည့်သူကို ချီးမြှောက်ခြင်းဖြင့် သတ္တဝါတို့ကို ကြည့်ရှုစောင်မသကဲ့သို့ မင်းတို့သည်လည်း ပြည်ဆူး ပြည်ငြောင့် ဖြစ်သောသူကို နှိပ်နင်းခြင်း, ဖြောင့်မတ်စွာ လုပ်စားလျက် နှမ်းပါးသောသူတို့အား ချီးမြှောက်ခြင်းကို ပြုသဖြင့် နိုင်ငံသားတို့အား ကြည့်ရှုစောင်မရာ၏။

၂။ လမင်းသည် မိမိ၏အာရုံဖြစ်သော ကြယ်တို့၏အရောင်ကို တင့်တယ်စေလျက် ထွန်းလင်းသကဲ့သို့ မင်းတို့သည်လည်း အခြံအရံဖြစ်သော မှူးမတ်ကျေးကျွန်တို့၏ ဘုန်းကျက်သရေကို တင့်တယ်စေလျက် မင်းပြုရာ၏။

၃။ နေမင်းသည် ကောင်းကင်ကနေလျက် မိမိ၏ အရောင်အရှိန်ဖြင့် မြေ၌ ရေကို ခန်းခြောက်စေသကဲ့သို့ မင်းတို့သည်လည်း မိမိနိုင်ငံကနေ၍ ဆန့်ကျင်ဘက် ပြုသောသူတို့ကို ပူပန်ခြောက်သွေ့စေရာ၏။

၄။ ပဇ္ဇုန်နတ်သားသည် ရေရှိရာ၌လည်းကောင်း, ရေမရှိရာ၌လည်းကောင်း အညီအမျှရွာသကဲ့သို့ မင်းတို့သည်လည်း ပေးကမ်းသောအရာ၌ ဥစ္စာရှိသော ကျေးကျွန်တို့ကိုလည်းကောင်း, ဥစ္စာမဲ့သော ကျေးကျွန်တို့ကိုလည်းကောင်း အညီအမျှ ပေးကမ်းရာ၏။

၅။ မြေကြီးသည် လူခပ်သိမ်းတို့အား ချစ်သည် မုန်းသည်ဟူ၍ မရှိ၊ ထပ်တူကျင့် သကဲ့သို့ မင်းတို့သည်လည်း မိမိကျေးကျွန်တို့အား လည်းကောင်း, တိုင်းသူပြည်သား တို့အားလည်းကောင်း ချစ်ခြင်း၊ မုန်းခြင်း၌ တမျှတည်း ကျင့်ရာ၏။

၆။ လေသည် လူတို့ကို မသိစေဘဲ လူတို့၏ ကိုယ်ပ ကိုယ်တွင်းသို့ ဝင်၍ သွားသကဲ့သို့ မင်းတို့သည်လည်း သူတစ်ပါး မသိရအောင် သူလျှိုလွှတ်၍ ပြည်သူ ပြည်သားတို့၏ အလုပ်အကြံကိုသိအောင် ပြုရာ၏။

၇။ ယမမင်းသည် စီရင်ထိုက်သောသူအား ဤသူ ငယ်သည်၊ ဤသူ ကြီးသည်ဟု မျက်နှာကို မကြည့်ဘဲ အပြစ်အလျောက် ဒဏ်စီရင်သကဲ့သို့ မင်းတို့ သည်လည်း ပြည်သူတို့အား ဤသူကား ဂုဏ်ရှိသည်၊ ဤသူကား ဂုဏ်မရှိ ဟူ၍ မရွေးမထောက် အပြစ် အလျောက် ဒဏ်ပေးခြင်းကို ပြုရာ၏။

၈။ သမုဒ္ဒရာပင်လယ်သည် မြစ်ကြီးငါးသွယ် မြစ်ငယ်ငါးရာတို့မှ စီးဝင်လာသောရေဖြင့် မဆုတ်မတက်သကဲ့သို့ မင်းတို့သည်လည်း အခွန်အတုတ်ကို တောင်းခြင်း၌ ထုံးစံရှိသည့်အတိုင်း မလွန်မယုတ်သာ တောင်းရာ၏။ ။ ဤသို့ မဟာရဟနီတိ။ ရာဇနီတိ တို့၌လာသည်။

ဤကိုရည်၍ ရှင်ရဋ္ဌသာရ သူမြတ်သည်လည်း–

သိကြား, လ, နေ၊ ပဇ္ဇုန်, မြေနှင့်၊ လေ, ယမရာဇ်၊ ပင်လယ်မြစ်ဟု၊ အင်ရှစ်ပါးစုံ၊ ရာဇဂုဏ်ဖြင့်။ ဟူ၍ စတုဓမ္မသာရ၌ စပ်တော်မူသည်။

❖❖❖❖❖

## ၇၀၀။ ဥဒါဟရဏ်၊ ဆောင်ပါကုန်၊ ဂဠုန် ဘယ်နာမ်ပုဒ်တို့နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**"ဂရုံ ဘာရံ လာတိ ဂဏှာတီတိ ဂရုဠော"**

ယော သတ္တော၊ အကြင်သတ္တဝါသည်။ ဂရုံ ဘာရံ၊ လေးစွာသောဝန်ကို။ လာတိ ဂဏှာတိ၊ ယူတတ်၏။ ဣတိ တသ္မာ၊ ထို့ကြောင့်။ သော သတ္တော၊ ထိုသတ္တဝါသည်။ ဂရုဠော၊ ဂဠုန်မည်၏။

ဤသို့ ဂဠုန်ပျံဆရာ။ ကေကုရဒကာသဋီကာဆရာတို့ ဝိဂြိုဟ်ဆိုရကား ဂရုဠောပုဒ်သည် နာမ်ငါးပါးတို့တွင် သမာသ်နာမ်ဖြစ်သည်။ နိစ္စသမာသ်၊ အနိစ္စမာသ် နှစ်ပါးတို့တွင် "ဒီပံ ကရောတိ" ကဲ့သို့ နိစ္စသမာသ်။ ယုတ္တာယုတ္တ နှစ်ပါးတို့တွင် ယုတ္တသမာသ်၊ အမျိုးခြောက်ပါးတို့တွင် ဒုတိယာတပ္ပုရိသ်သမာသ် ဟူပေ။

❖❖❖❖❖

ရ၀၁။ ရွှေခသူမှုန်၊ မင်းကြီးဂုဏ်၊ ပေါ်ကုန်ဘယ်မြို့ တံဘောင်နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သီရိပစ္စယာမြို့ တံဘောင်ဟူ၏။

"တံ ကာရဏံ ဘာသတီတိ တံဘောင်"

တံ ကာရဏံ၊ ထိုသည့်ခေတ်၌ ဖြစ်လတ္တံ့သော အကြောင်းကို။ ဘာသတိ၊ ဆိုတတ်၏။ ဣတိ၊ ဤသို့ဖြစ်လတ္တံ့သော အကြောင်းကိုဆိုတတ်သော သတ္တိကြောင့်။ တံဘောင်၊ တံဘောင်မည်၏။

ဤဝစနတ်ကို ထောက်၍ 'တံဘောင်'ဟူသော စကားကို စတုတ္ထက္ခရာဘနှင့် ရေးရမည်။

ခွေး ဖျံ မျောက် ယုန်၊ စောင့်ကြကုန်၊ ကျင့်ပုံဘယ်သီလတို့နည်း။
လွင့်သည့်မြူမှုန်၊ လေပြင်းဟုန်၊ ကဆုန်ဘယ်ဝီထိပေနည်း။
ဆင် ကာမဂုဏ်၊ ယိုသည့်မုန်၊ သုက်ဟုန်မှုန်တို့ လေလိမ့်နည်း။
တန်ခူးကဆုန်၊ လနယုန်၊ မုန်တိုင်းဘယ့်ကြောင့် လာသနည်း။

အသတ်အက္ခရာ စုံစိမ့်သောငှာ ထည့်သည့်ပုစ္ဆာ။ နောက်သားတို့ ဖြေစရာ။

"အုန်" ကာရန်ပုစ္ဆာ ၆–ပုဒ်အဖြေ ပြီး၏။

❖❖❖❖❖

(၂၆) "အုန့်" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေ

ရ၀၂။ သီလဉာဏ်မှုန့်၊ မျက်နှာစုန့်၊ ယုန့်ဇာတ်လောင်းတော်ဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အပဏ္ဏကဇာတ်မှစ၍ ဝေဿန္တရာဇာတ်တိုင်အောင် ငါးရာ့လေးဆယ့်ခုနစ် ဇာတ်တို့တွင် ယုန်အဖြစ်သည် တစ်ကြိမ်သာပါသည်။ ထိုတစ်ကြိမ်သော သသဇာတ်ကိုလည်း စတုကနိပါတ်၌ သင်္ဂါယနာတင်သည်။

ထို့ကြောင့် သမန္တစက္ခုဒီပနီ၌–

မဟာသမ္မာရ၊ ပုညမြူတေ၊ လျှမ်းလျှမ်းဝေသား၊ ကျက်သရေ စုပေါင်း၊ ဗောဓိလောင်းလျှင်၊ ဆုတောင်းဝသီ၊ ပါရမီကုသလာ၊ ဆည်းပူးခါ၌၊ ခေါက်ရှာတရုံး၊ ပြေလုံး, တင်ကျီး၊ နည်းမိုး သစ်တောက်၊ ထိုနောက်တကွ၊ ပား, ကွဲ, ယုန်, စာ၊ ကိန္နရာ, ဝက်၊ ဝန်လိုင့ဂက်တည့်၊ ဆယ့်တစ်ချက်မှာ၊ တစ်ကြိမ်သာရှင့်။ ဟူ၍ စပ်ဆိုလေသည်။

❖❖❖❖❖

72
B

## ၇၀၃။ ကာမကြောင့်နန့်၊ စိတ်သုန့်သုန့်၊ရှုန့်ရင်းလောင်းလျှာဘယ်မျှနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

၁။ ကေနိပါတ် တက္ကပဏ္ဍိတဇာတ်၌ ဘုရားလောင်း ရသေ့ပြု၍နေရာ ဗာရာဏသီသူဌေးသမီး စန္ဒကုမာရီသည် ရေ၌မျောလာ၍ ဆယ်ကာထားသဖြင့် ထိုမိန်းမသည် ကာမဂုဏ်ဖြင့် ဖြားယောင်းရကား ရသေ့သည် မိမိသီလကိုဖျက်၍ မိန်းမဘက်သို့ ပါရဖူးသည်က တစ်ကြိမ်။

၂။ ဧင်းနိပါတ် မုဒုလက္ခဏဇာတ်၌ ဘုရားလောင်းရသေ့သည် မုဒုလက္ခဒေဝီ မိဖုရားကြီး၏ သွင်ပြင်ကို မြင်သဖြင့် ပူပန်သော ရာဂစိတ်ဖြစ်၍ ဈာန်လျှောကျလျက် သီလကိုဖျက်၍ လူပြုသည် တစ်ကြိမ်။

၃။ ဒုကနိပါတ် မောရဇာတ်၌ ဘုရားလောင်း ဥဒေါင်းမင်းသည် ရွှေတောင်၏ အကြား၌ အနှစ်ခုနစ်ရာပတ်လုံး ပရိတ်ရွတ်ကာ ချမ်းသာသဖြင့်နေသည်ကို ဗာရာဏသီ မင်းကြီးစေအပ်သော မုဆိုးသည် ဥဒေါင်းမကိုဆောင်၍ ညွတ်ဖြင့်ထောင်သောကာလ ဥဒေါင်းမ၏ အဆင်းအသံကို မြင်ကြားရသဖြင့် အားကြီးသော ကိလေသာမာန်ယစ်၍ နှစ်လရှည်စွာ ရံတားအပ်သော ပရိတ်ကိုမေ့လျက် မုဆိုး၏ ညွတ်ချက်၌ မိဖူးလေသည် တစ်ကြိမ်။

၄။ တိကနိပါတ် သက်မွဇာတ်၌ ဘုရားလောင်းရသေ့သည် ဗာရာဏသီ မင်းကြီး၏ ဆရာပြု၍ နေသည်တွင် လျောင်းရာမှထသော မိဖုရား၏ရုပ်သွင်ကို မြင်ရသဖြင့် ပခြုပ်မှ ထုတ်သော မြွေငန်းကဲ့သို့ ကြမ်းတမ်းသော ကိလေသာ အဆိပ်သည်တက်၍ ခုနစ်ရက်ပတ်လုံး ဆွမ်းအာဟာရကိုပစ်လျက် တဖျစ် တောက်တောက်မြည်၍ ရပ်တည်မရရှိခဲ့ ဖူးသည်တစ်ကြိမ်။

၅။ ဧင်းနိပါတ် အနတ္တိဂန္ဓဇာတ်၌ ဘုရားလောင်းသည် ဗာရာဏသီမင်းကြီး၏ သားဖြစ်၍ ဖွားစကသည် ၁၆–နှစ်ရွယ် ရောက်သည်တိုင်အောင် မိန်းမကိုမျှ မမြင်လိုဘဲ ရှိသည်ကို စောင်းတတ်သော မိန်းမဖြားယောင်း၍ ကာမဂုဏ်၏ သတ္တိကိုသိသဖြင့် ''မိန်းမ ဟူသမျှသည် ငါတို့မင်းနှင့်သာ ထိုက်၏'' ဟု ယောကျ်ားတို့ကို လိုက်၍ သတ်မည် ပြုသောကြောင့် ခမည်းတော် ပြည်ကနှင်ထုတ်ရဖူးသည် တစ်ကြိမ်။

၆။ ဧင်းနိပါတ် မန္ဒာတုဇာတ်၌ ဘုရားလောင်း မန္ဒာတ်မင်းသည် လူ့စည်းစိမ် ဖြင့်လည်း တင်းမတိမ်။ တာဝတိံသာ နတ်စည်းစိမ်ဖြင့်လည်း တင်းမတိမ်ဖူးသည် တစ်ကြိမ်။

၇။ နဝနိပါတ် လောမကဿပဇာတ်၌ ငါတို့ဘုရားအလောင်းတော်သည် ဟိမဝန္တာတောင်၌ ရသေ့ပြု၍ ဈာန်အဘိညာဉ်ဖြင့် ပျော်ရွှင်လျက်နေသည်ကို သိကြားမင်း သည် ထိုလောမကဿပရသေ့၏ ယောရတပအကျင့်ကို ပျက်စိမ့်သောငှာ ဗာရာဏသီ

မင်းအား ပြောကြားလေသောကြောင့် ဗာရာဏသီမင်းက သေယုမည်သော အမတ်နှင့် စန္ဒဝတီ အမည်ရှိသော သမီးကိုစေ၍ ပသုဃာတယဇ်ကို ပူဇော်ပါမည့်အကြောင်းနှင့် တောင်းပန်သောကာလ လောမကဿပရသေ့လည်း မင်းသမီးကိုပေးမည် ဟူသော အသံကိုကြားလျှင် မင်းသမီး၌ တပ်ကြိုက်သောစိတ်ရှိလျက် မိမိအကျင့်ကို ဖျက်၍ သတ္တဝါတို့၏ အသက်ကို သတ်ခြင်းတည်းဟူသော ပသုဃာတယဇ်ကို ပူဇော် မည်ဟု ဗာရာဏသီပြည်သို့ လိုက်လာ၍သတ်ခြင်းငှာ အားထုတ်သည်တွင် ယဇ်သဘင်၌ ဆင်,မြင်း, ကျွဲ,နွား စသော သတ္တဝါတို့ လွန်စွာဟစ်အော်သော အသံကိုကြားရမှ သတိသံဝေဂရ၍ ပသုဃာတယဇ်ကို မပူဇော်ဘဲ မင်းကြီးအား တရားဟော၍တော၌ ပြန်နေဖူးသည် တစ်ကြိမ်။

၈။ ပညာသနိပါတ် ဥမ္မာဒန္တီဇာတ်၌ ဘုရားအလောင်းသည် သိဝိတိုင်း အရိဋ္ဌပုရ ပြည်၌ သိဝိမင်းဖြစ်သောအခါ တန်ဆောင်မုန်းလပြည့်နေ့ ရထားစီး၍ မြို့လည်ရာ၌ စစ်သူကြီး အဘိပါရက၏ ဇနီးဖြစ်သော ဥမ္မဒန္တီကိုမြင်ရ၍ အဆမတန်သော ကိလေသာ ရမ္မက်သည် နှိပ်စက်လေဘိရကား စားတော်မျှမခေါ်ဘဲ သလွန်ထက်၌ ပက်လက် လည်းကောင်း၊ မှောက်ခုံလည်းကောင်းနေ၍ ''ဥမ္မာဒန္တီ–ဥမ္မဒန္တီ''ဟူသော အမည်ကို ခေါ်ဆိုမြည်တမ်းသဖြင့် ပင်ပန်းရှူးသွပ်ဖူးသည် တစ်ကြိမ်။

၉။ သတ္တနိပါတ် ကုသဇာတ်၌ ငါတို့ဘုရားလောင်းသည် မလ္လတိုင်း ကုသဝတီပြည်၌ ကုသမင်းဖြစ်သောအခါ မဒ္ဒရာဇ်မင်း၏ သမီးဖြစ်သော ပဘာဝတီကို စုံမက် နှစ်လိုခြင်း ကြောင့် ထီးနန်းနှင့်တကွသော မင်း၏စည်းစိမ်ကိုပစ်၍ မဒ္ဒရာဇ်တိုင်း၌ စောင်းသမား, အိုးတော်လုပ်, ဒေါင်းရွေ့, ပန်းတော့်ဆက်, စားတော်ချက်, စားတော်ပို့ ဟူသော မအပ်မရာသော အမှုတို့ကို ပြုလျက် ခြောက်နှစ်ပတ်လုံး နေတော်မူဖူးသည် တစ်ကြိမ်။

ဤကိုးရပ်သော ဇာတ်တော်၌ ဘုရားအလောင်းတော်သည် ကာမဂုဏ်ကြောင့် သုန့်သုန့်ထသော ရာဂစိတ်ဖြင့် ရှုန့်ရင်းစွာလျက် ပညာရှိတို့ ကဲ့ရဲ့ဖွယ် ဖြစ်ခဲ့ဖူးသည်။ [အကျယ်ကိုလိုမူ ထိုဇာတ်တို့၌ ယူရမည်]။

သုန့်–ဟူသောစကားသည် အတင်းအကြမ်း သွမ်းသော၏ ဟူလိုသည်။

ရှေးပြုဆိုခဲ့ပြီးသော သေးသေးတင် အမြစ်ကာရန်၌ ''လောင်းလျာတမုံ၊ လက်ရသုံ့၊ ကျဉ်းကြုံ့ဖြစ်ဖူးလေလိမ့်နည်း'' ဟူ၍ သေးသေးတင်စပ်ပြီးလျက်၊ ဤနသတ်ပိုင်း၌ ''သုန့်သုန့်''ဟု နသတ်တစ်ဖန် စပ်ပြန်ခြင်းသည် အသို့ကွဲကြသနည်း။ အစိပ္ပါယ်တူ မဟုတ်လော ဟူငြားအံ့–အဓိပ္ပာယ်တူမဟုတ်၊ ကွဲပြားကြသည်ပင် ဟူပေ။ အသို့ကွဲပြား ကြသနည်း ဟူငြားအံ့–လက်ရသုံ့ ဟူသည်မှာ ပုဂ္ဂိုလ်ထင်ရှား ဖြစ်သောကြောင့် ပရမတ်သံဖြစ်သည်။ စိတ်သုန့်သုန့် ဟူသည်မှာ စိတ္တဝိပလ္လာသ ဖြစ်၍ ပညတ်သံ ဖြစ်သည်။ ဤသို့ ပရမတ်ပညတ်ကွဲသောကြောင့်–

ပရမတ္ထဂရု ကတ္ဆန္တာ၊ ပမသတ်ရာတိ ဝိဥဿယျံ။
ပညတ္တိလဟု အနိစ္ဆန္တာ၊ တနသတ်သာတိ ဒဠှဖွံ။

ဟူသော ပရိဘာသာနှင့်အညီ လက်ရသုံ့ဟူသော ရှေးကာရန်သေးသေးတင်၊ စိတ်သုန့်သုန့်ဟူသော နောက်ကာရန် နသတ် ကွဲသင့်၏ ဟူပေ။

❖❖❖❖❖

## ၅၀၄။ နှုတ်သီးမစုန့်၊ စိတ်မရှုန့်၊ မြူမှုန့်မြေလိမ်း ဘယ်ဇာတ်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဘုရားလောင်း ဒွန်းစဏ္ဍားအမျိုး၌ဖြစ်ရသော မာတင်္ဂဇာတ်ဟူပေ။ အကြောင်းအမြွက်ကား–

လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းသည် မင်းပြုလတ်သော် ငါတို့ဘုရားအလောင်းသည် တစ်ခုသော မကောင်းမှုကံကြောင့် ထိုဗာရာဏသီမြို့၏အပ စဏ္ဍာလအမျိုး၌ဖြစ်၍ မာတင်္ဂဟူသော အမည်ကို ခေါ်ဆိုကုန်၏။ ထိုမာတင်္ဂ သုခမိန်သည် အရွယ်သို့ရောက်သောအခါ အတတ်ပညာဟူသောဂုဏ်ဖြင့် အလုံးစုံသော ဗာရာဏသီပြည်၌ ထင်ရှား၏။ ဤပြည်၌ စည်းစိမ်ဥစ္စာ ကြီးကျယ်စွာသော သူဌေးတစ်ဦး၏သမီးသည် ဒိဋ္ဌမင်္ဂလိကာ အမည်ရှိ၏။ ထိုသူဌေးသမီးသည် တစ်လတစ်ကြိမ်၊ နှစ်လတစ်ကြိမ်များစွာသော အခြံအရံတို့ဖြင့် ပျော်စံမြူးတူးခြင်းငှာ ဥယျာဉ်သို့ လာလတ်သတည်း။

တစ်ရံသောအခါ မာတင်္ဂမည်သော ဒွန်းစဏ္ဍားသည် တစ်ခုသော ကိစ္စရေးရာဖြင့် ဗာရာဏသီမြို့သို့ ဝင်လေသော် ထိုသူဌေးသမီး ဒိဋ္ဌမင်္ဂလိကာလည်း ဥယျာဉ်သို့ ထွက်၍ လာသည်နှင့် ပက်ပင်းပါတွေ့မြင်၍ ထိုမြင်ရာအရပ်တွင် တစ်ခုသော ကွယ်ဝှက်ရာသို့ ကပ်လျက် ငြိမ်သက်စွာနေ၏။ သူဌေးသမီးလည်း မိမိစီးသော ထမ်းစင် နံရံကိုဖွင့်၍ ကြည့်သဖြင့် မာတင်္ဂကို မြင်လေလျှင် ''ဤသူကား ဘယ်သို့သော သူနည်း''ဟု ပရိသတ်တို့ကိုမေး၍ ဒွန်းစဏ္ဍားဖြစ်ကြောင်းကို လျှောက်လျှင် ''ငါဥယျာဉ်သို့ ထွက်လာရာ မင်္ဂလာကင်းသော သူကိုတွေ့ရချေသည်။ ယနေ့ ကောင်းမြတ်သော မင်္ဂလာဖြင့် မဖြစ်နိုင်ရာပြီ''ဟု ဆို၍ ထိုဌာနတွင် ရပ်လျက် နံ့သာရေတို့ဖြင့် မျက်နှာသစ်ပြီးမှနစ်၍ အိမ်သို့ပြန်လေ၏။ ပါလာသော ပရိသတ်တို့လည်း ''ဤမာတင်္ဂကြောင့်ပင် ငါတို့အား များစွာသောစားဖွယ် သောက်ဖွယ်တို့ လစ်လပ်ပျက်စီးရလေသည်ဟု အမျက်ထွက်ကြ၍ မာတင်္ဂကို ပုတ်ခတ်ရိုက်နှက်သဖြင့် မိန်းမောတွေဝေ၍ သေလုနီးပါးဖြစ်သော ကာလမှ ပြန်ကြလေကုန်၏။

မာတင်္ဂသုခမိန်လည်း မိန်းမောခြင်းပြေလျက် သက်သာရာရသောအခါ ဤသို့ ကြံလေ၏။ ''ဤဒိဋ္ဌမင်္ဂလိကာ၏ ကျေးကျွန်တို့သည် ငါ့အား အပြစ်မရှိဘဲလျက် ညှဉ်းဆဲကြကုန်သည်။ ချင်းတို့၏ ရှင်မဖြစ်သော ဒိဋ္ဌမင်္ဂလိကာကို ငါရအောင် ဆောင်တော့မည်''ဟု ကြံ၍ သူဌေးအိမ်ဝသို့သွားပြီးလျှင် လေ့ကားခုံပါး၌ အလျားမှောက်လျက် နေလေ၏။ အိမ်ရှင်တို့က ''အဘယ်အကြောင်းကြောင့် နေသနည်း''ဟု မေးသည်ရှိသော် ''ဤသူဌေးသမီးဖြစ်သော ဒိဋ္ဌမင်္ဂလိကာကို ငါအလိုရှိသည်။ ထိုမိန်းမကိုရမှ ဤအိမ်ဝက ငါထမည်။ မရမူကား ဤအိမ်ဝတွင်ပင် သေမည်''ဟု ဆို၏။

ထိုအခါ ဗာရာဏသီပြည်၌လည်း ''အကြင်သူ၏အိမ်ဝ၌ ဒွန်းစဏ္ဍားသည် ဖွတ်နေ၍ သေခဲ့အံ့။ ထိုအိမ့်ရှင်ကို မြို့ပြင်သို့ ထုတ်စတမ်း''ဟု မင်းအာဏာနှင့် တကွသော ကတိကဝတ်ရှိ၏။ ဘုရားလောင်းမာတင်္ဂလည်း ရေ, စာမျှကိုမယူဘဲ ခြောက်ရက်တိုင်တိုင် နေရလေ၏။ သူဌေးမောင်နှံတို့သည်လည်း ရွှေဖြင့်လည်းကောင်း, ငွေဖြင့်လည်းကောင်း, ဥယျာဉ်လယ်ယာဖြင့်လည်းကောင်း, အခြားသောမိန်းမဖြင့် လည်းကောင်း ဖြားယောင်း၍ ထပါဟု တောင်းပန်သော်လည်း ''ဒိဋ္ဌမင်္ဂလိကာကို ငါမရသမျှ မထပြီ''ဟု ဆို၍သာ နေလေရကား ခုနစ်ရက်မြောက်သောနေ့၌ သမီး ဖြစ်သော ဒိဋ္ဌမင်္ဂလိကာကိုပင်ထုတ်၍ ပေးရလေ၏။

မာတင်္ဂလည်း မိမိအလိုအတိုင်းရလျှင် ဒိဋ္ဌမင်္ဂလိကာကို ကျောက်ကုန်းမှာပိုး၍ မိမိတို့နေရာ ဒွန်းစဏ္ဍားရွာသို့ ဆောင်ခဲ့၏။ မိမိအိမ်သို့ရောက်လျှင် အမျိုးကို မဖောက် ဖျက်ဘဲ နှစ်သက်ဖွယ်သော စကားဖြင့်သာ ဖြားယောင်းဆုံးမ၍ ''ဤဒိဋ္ဌမင်္ဂလိကာအား များစွာသောသူတို့ ပူဇော်ရအောင် ရသေ့ရဟန်းပြုမှသာ ငါချီးမြှောက်နိုင်လိမ့်မည်''ဟု ကြံလျက် ''ရှင်မ ဒိဋ္ဌမင်္ဂလိကာ-ငါသည် တောသို့ဝင်ဦးအံ့။ ငါ့ဆွေ ငါ့မျိုးတို့ထံ၌ ကောင်းမွန်စွာ နေရစ်ဦးလော့''ဟု မှာဆို၍ တောသို့ သွားလေ၏။ တောသို့ရောက်၍ ရဟန်းပြုပြီးလျှင် တရားကို အားထုတ်လေသဖြင့် ခုနစ်ရက်လွန်လျှင်ပင် ဈာန်အဘိညာဉ် တို့သည် ထင်ရှား ဖြစ်လေသတည်း။

ထိုမာတင်္ဂရသေ့လည်း ဈာန်အဘိညာဉ်ရသောအခါ''ငါသည်ဒိဋ္ဌမင်္ဂလိကာအား ကိုးကွယ်ရာဖြစ်စေတော့အံ့''ဟု ကြံလျက် ကောင်းကင်ခရီးဖြင့် လာခဲ့၍ စဏ္ဍာလရွာသို့ တံခါးဝ၌ သက်လေ၏။ ထိုအခါ ဒိဋ္ဌမင်္ဂလိကာလည်း လျင်စွာအိမ်မှ ဆင်းသက်၍ ''အရှင်မာတင်္ဂ၊ အကျွန်ုပ် ကိုးကွယ်ရာမဲ့အောင် ဘယ်အကြောင်းကြောင့် ရဟန်းပြုပါ သနည်း''ဟု ဆို၍ ငိုကြွေး၏။ ထိုအခါ မာတင်္ဂရသေ့လည်း ''အိမ်ရှင်မ၊ ဘာကိုမျှ မစိုး ရိမ်လင့်။ သင့်မိဘထံ၌ ပြည့်လျှမ်းသော စည်းစိမ်ချမ်းသာထက် အဆအရာ သာလွန် ကြီးမြတ်သော စည်းစိမ်ချမ်းသာကို ငါပြုအံ့။ စင်စစ်သော်ကား မာတင်္ဂအမည် ရှိသော မဟာဗြဟ္မာသည် ငါ၏ ခင်ပွန်းတည်း။ ဤသို့သော စကားကို ပရိသတ်တို့၏ အလယ်၌ သင်ဆိုခြင်းငှာ တတ်နိုင်ပါအံ့လော''ဟု မေး၏။ ဒိဋ္ဌမင်္ဂလိကာလည်း

''ဆိုခြင်းငှာ ကျွန်ုပ်တတ်နိုင်ပါ၏''ဟု ဝန်ခံသော် ''သင်၏ခင်ပွန်းသည် အဘယ်ကို သွားသနည်းဟု လူအများတို့ မေးခဲ့သော် ဖြဟ္မာပြည်သို့သွားသည်ဟု ပြောလော့။ အဘယ်အခါမှ လာလတ္တံ့နည်းဟု မေးခဲ့သော် ဤနေ့မှသည် ခုနစ်ရက်မြောက် သောအခါ လာပါလတ္တံ့ဟု ပြောလော့''ဟု မှာဆိုခဲ့ပြီးလျှင် မာတင်္ဂရသေ့လည်း ကောင်းကင်ခရီးဖြင့် ဟိမဝန္တာသို့ သွားလေ၏။

ဗာရာဏသီ ပြည်သူ ပြည်သားတို့သည်လည်း ငါတို့၏အရှင်ဖြစ်သော ဗြဟ္မာ ကြီးသည် မာတင်္ဂအဟန်ဖြင့် ဖန်ဆင်း၍ ဒိဋ္ဌမင်္ဂလိကာကို ယူသည်မှာ အဘယ်မှာ မရဘဲ ရှိတော့အံ့နည်း။ အဘယ်အခါ၌ အရှင်ဗြဟ္မာ ကြွလာအံ့နည်း။ ဤသို့စသည်ဖြင့် မေးမြန်းမျှော်တလျက် နေကြကုန်၏။ ဘုရားလောင်း မာတင်္ဂရသေ့လည်း လပြည့်နေ့ ရောက်၍ ခုနစ်ရက်မြောက်သောအခါ ဗြဟ္မာတို့၏ကိုယ်အဟန်ကို ဖန်ဆင်း၍ ဗာရာဏသီ ပြည်အလုံးကို အရောင်ဖြင့် ထွန်းလင်းစေလျက် လဗိမာန်အတွင်းမှ သက်ခဲ့၍ စဏ္ဍာလ ရွာထက်၌ ရပ်တန့်လေ၏။ ဗာရာဏသီ ပြည်သားတို့သည်လည်း များစွာစည်းဝေး လာကြကုန်၍ ဒိဋ္ဌမင်္ဂလိကာ၏ နေရာအိမ်ကို ဖြူသော ပုဆိုးဗိတာန်တို့ဖြင့် ကာရံ ဖုံးလွှမ်းလျက် ပန်းနံ့သာ အခိုးအထုံတို့ဖြင့် ကြဲဖြန့်၍ ထူးဆန်းကောင်းမွန်သော နေရာကို ခင်းကြပေ၏။ မာတင်္ဂဗြဟ္မာလည်း အာကာသခရီးမှ သက်လတ်၍ အိမ်တွင်းသို့ ပြင်ဆင်ခင်းထားသော နေရာ၌ သပ္ပာယ်စွာ နေလေ၏။ ထိုအခါ ဒိဋ္ဌမင်္ဂလိကာလည်း ပန်းလာသောအခိုက်နှင့် ကြုံရကား ဘုရားလောင်း မာတင်္ဂသည် ခြေမဖြင့် ချက်ကို သုံးသပ်၏။ ထိုသို့သုံးသပ်သော အာနုဘော်ကြောင့် ဒိဋ္ဌမင်္ဂလိကာ၌ ကိုယ်ဝန်ဖြစ်လေ၏။ ထိုအခါ မာတင်္ဂဗြဟ္မာသည် ဤသို့ဆို၏ ''အိမ်ရှင်မ၊ သင်၏ဝမ်း၌ သားကောင်းရတနာ သည် လာလေပြီ။ ဤသားသည် ဖွားမြင်သောအခါ သင်သည် လည်းကောင်း, သားသည်လည်းကောင်း များမြတ်သော လာဘ်ပူဇော်သက္ကာတို့၏ အထွတ်သို့ ရောက်လတ္တံ့။ သင်ခြေဆေးရေသည် ဇမ္ဗူဒိပ် ကျွန်း၌ နေကုန်သော မင်းတို့၏ အဘိသိက် ရေဖြစ်လတ္တံ့။ သင်ချိုးသောရေသည် မြေ၌တည်သော လူအပေါင်းတို့၏ ကောင်းမြတ်သော အမြိုက်ဆေး ဖြစ်လတ္တံ့။ သင်၏ခြေကို ဦးခေါင်းထိကာ ရှိခိုးသောသူတို့သည် သင့်အား တစ်ထောင် မျှလောက်သော ဥစ္စာဖြင့် ကောင်းစွာပူဇော်ကြကုန်လတ္တံ့။ သင်၏အသွင်ကို မြင်ရရုံသော ဌာနမျှ၌နေ၍ ပူဇော်ရသော သူတို့သည် သင့်အား ဆယ်သပြာ၊ ငါးသပြာဖြင့် လည်းကောင်း ကောင်းစွာ ပူဇော်ကုန်လတ္တံ့။ သင်သည် မမေ့မလျော့ သီလကို ဆောက်တည်လော့''ဟု ဩဝါဒပေးခဲ့၍ လူအများမြင်စဉ်ပင် ကောင်းကင်ခရီးဖြင့် ကြွ၍ လဝန်း၏အတွင်းသို့ ဝင်လေ၏။

ထို့နောက်မှစ၍ ပြည်သူ ပြည်သားတို့လည်း စည်းဝေးကြပြီးသော် ဒိဋ္ဌမင်္ဂလိကာ ကို ရတနာဖြင့် သီအပ်သော ရွှေထမ်းစင်ဖြင့် ထမ်းလျက် မြို့အလုံးကို လှည့်ပြီးသော်

''ပြဟ္မာမင်းကြီး၏ မြောက်သားမြတ်ကို ဖူးမြော်ပူဇော်ကြကုန်''ဟု ဆို၍ လှည့်လည်ကုန်၏။ ထိုအခါ ဗာရာဏသီပြည်သူ ပြည်သားတို့သည် အသီးသီးထွက်၍ ရှိခိုးကြကုန်၏။ ခြေရင်း၌ ရှိခိုးဦးတိုက်ခြင်းကို ပြုရသော သူတို့သည် အသပြာတစ်ထောင်။ နားကြားကောင်းသောနေရာမှနေ၍ ပူဇော်ရသော သူတို့သည် အသပြာတစ်ရာ။ မြင်ကောင်းရာမှနေ၍ ပူဇော်ရသော သူတို့သည် အသပြာတစ်ဆယ် ပူဇော်ကုန်၏။ ဤသို့ အပူဇော်ခံလျက် လှည့်လည်သဖြင့် ဟစ်ဆယ့်ရှစ်ကုဋေသော ဥစ္စာတို့ကို ရလေကုန်၏။

ပြည်သူတို့လည်း မြို့၏အလယ် ကြီးစွာသော နေရာမဏ္ဍပ်ကိုပြု၍ ထိုမဏ္ဍပ်၏ အနီး၌ ဘုံခုနစ်ဆင့်ရှိသော ပြာသာဒ်ကြီးကိုဆောက်လုပ်၍ ပေး၏။ ပြာသာဒ်ဆောက်သောနေ့ မှသည် ဆယ်လတိုင်မှ ပြီးသတည်း။ ပြာသာဒ်မပြီးမီ မဏ္ဍပ်တွင်းနေစဉ် သတိုးသားကို ဖွားမြင်ရကား ထိုသတိုးသားကို ''မဏ္ဍဗျမင်းသား''ဟု သမုတ်ကုန်၏။ ထိုမဏ္ဍဗျမင်းသားသည် တစ်ဆယ့်ခြောက်နှစ်အရွယ်သို့ရောက်သောအခါ များစွာသော အခြံအရံတို့ဖြင့် ရှင်စံပျော်ပိုက်ရသည်။ ဇမ္ဗူဒိပ်၌ ထင်ရှားတတ်မြောက်သော ဆရာပုဏ္ဏားတို့သည် များစွာလာ၍ ပညာသင်ကြားကုန်၏။ မင်းသား တစ်ဆယ့်ခြောက်နှစ်ပြည့်သည်မှစ၍ ပုဏ္ဏားတို့အား ဆွမ်းကျွေးခြင်းကို ပြုသည်မှာ တစ်နေ့တစ်နေ့၌ ပုဏ္ဏားတစ်သောင်း ခြောက်ထောင်ကို စုမိသတည်း။ တစ်နေ့သ၌ ရွှေအဆင်းနှင့်တူသော ထောပတ်, ပျား, တင်လဲတို့ဖြင့် စီရင်အပ်သော ဃနာထမင်းကိုချက်၍ တစ်သောင်း ခြောက်ထောင်သော ပုဏ္ဏားတို့အား ကျွေးမွေး၏။ ထိုအခါ မဏ္ဍဗျမင်းသည် ရွှေခြေနင်းကိုစီး၍ ရွှေဖြင့်ပြီးသော လုံကန်ကိုကိုင်လျက် ''ဤ၌ ထောပတ်ကိုထည့်လော့၊ ပျားတင်လဲကိုထည့်လော့'' စသည်ဖြင့် စီရင်၍ နေ၏။

ထိုအခါ မာတင်္ဂသုခမိန်သည် ဟိမဝန္တာမှ ကောင်းကင်ခရီးဖြင့် လာလတ်၍ မဏ္ဍဗျ သတိုးသား အလှူပေးရာဌာန တံခါးဝ၌ ရပ်လေ၏။ ထိုသို့ရပ်သည်ကို မင်းသား မြင်လျှင် ''ကုတောနု အာဂစ္ဆသိ ဒုမ္မဝါသိ'' အစရှိသော ဂါထာဖြင့် ''ညစ်နွမ်းဆိုးရွားသော ပုဆိုးကိုဝတ်သော မြေဖုတ်ဘီလူးနှင့်တူသော သင်သည် အဘယ်အရပ်မှ လာသနည်း။ မြတ်သောအလှူခံ မဟုတ်ဘဲလျက် အလှူပေးရာပွဲသို့ ဘယ့်ကြောင့် ဝင်သနည်း''ဟု မေး၏။ မာတင်္ဂရသေ့ကလည်း ''အန္နံတဝေဒံပကတံ ယသဿိ'' အစရှိသောဂါထာဖြင့် ''ဒကာသတိုးသား– သင်သည် ခဲဖွယ်ဘောဇဉ်တည်းဟူသော အလှူဝတ္ထုတို့ကို ပြုပြင်လှူဒါန်းသည်ဖြစ်၍ ငါလည်း အလှူခံခြင်းငှာ လာသတည်း''ဟု ဆို၏။

ထိုစကားကိုကြားသော် မဏ္ဍဗျသတို့သားလည်း ''ဟယ်ဒွန်းစဏ္ဍားယုတ်– ငါသည် မြတ်သော အလှူခံရဟန်း, ပုဏ္ဏားတို့အား လှူခြင်းငှာသာလျှင် ပြုပြင်စီရင်၏။ သင်ကဲ့သို့သော ဒွန်းစဏ္ဍားတို့ကို ပေးလှူခြင်းငှာ မစီရင်။ သင်သည် လျင်စွာဖဲလေလော့''

ဟု ဆို၏။ ထိုအခါ မာတင်္ဂရသေ့ကလည်း ''ဒကာသတို့သား– ဤလောက၌ စပါး, ပြောင်း, ပဲစသော အသီးကို အလိုရှိသော သူတို့သည် ကုန်းမြင့်ရာ၌ လည်းကောင်း၊ မြစ်၏ အနီးအပါး၌ လည်းကောင်း၊ ချိုင့်ဝှမ်းရာ၌ လည်းကောင်း၊ စပါးမျိုး, ပဲမျိုးကို စိုက်ကြဲရကုန်သကဲ့သို့၊ ထို့အတူ ကောင်းကျိုးချမ်းသာကို လွန်စွာတောင့်တကုန်သော သူတို့သည် ယုတ်, လတ်, မြတ်ပြား သုံးပါးသော အလှူခံပုဂ္ဂိုလ်တို့၌ စိတ်သန္ဓေ ရွှင်လန်း လှူဒါန်းအပ်သည်သာ ဖြစ်၏။ အလှူခံတို့၏ ကောင်းခြင်း၊ မကောင်းခြင်းကို သင်မသိနိုင်ဘဲလျက် ဘယ့်ကြောင့် ခွဲခြမ်း ရွေးချယ်ဘိသနည်း ဟုဆို၏။

ထိုစကားကိုကြားသော် မဏ္ဍဗျသတို့သားသည်လည်း အမျက်ထွက်၍ အနီး၌ နေသော တံခါးစောင့်တို့ကို ခေါ်ပြီးလျှင် ''သင်တို့သည် ဤဒွန်းစဏ္ဍားကို ရိုက်ခတ် ညှဉ်းဆဲ၍ ကြိုးဖြင့်လည်ကိုဆွဲ၍ ထုတ်ကြလေကုန်''ဟု ဆို၏။ ထိုအခါ မာတင်္ဂ ရသေ့လည်း ကောင်းကင်သို့ လျင်စွာ ပျံတက်၍ ထန်းတစ်ဖျားရှိလောက်သော အရပ်၌ ရပ်ပြီးသော် ''ဂိရိံ နခေန ခဏသိ'' အစရှိသော ဂါထာဖြင့် ''ဒကာ သတို့သား– သင်သည် ကျောက်အတိပြီးသော တောင်ကြီးကို လက်သည်းဖြင့် ခြစ်ယောင်သကဲ့သို့ လည်းကောင်း၊ သံတွေစိုင်ကို သွားဖြင့်ခဲသကဲ့သို့ လည်းကောင်း၊ အလျှံပြောင်ပြောင် တောက်သောမီးကို မျိုခြင်းငှာ အားထုတ်သကဲ့သို့ လည်းကောင်း သီလ, ပညာ, သမာဓိဂုဏ်နှင့် ပြည့်စုံသော ရသေ့ရဟန်းတို့အား ပြစ်မှားနှိပ်စက်ခြင်းကို ပြုလို၏။ ထိုသို့ပြုခြင်းသည် သင်သတို့သားအား အကျိုးစီးပွား ပျက်စီးကြောင်းသာ ဖြစ်၏။ လိမ္မာသူ လူပညာရှိဟူသမျှတို့ စက်ဆုပ်ဖွယ်သာဖြစ်၏''ဟု ဆိုပြီးလျှင် ပရိသတ်တို့ မြင်စဉ်ပင် ကောင်းကင်ခရီးဖြင့်ကြွ၍ တစ်ပါးရွာ၌ ဆွမ်းခံလေ၏။

ဗာရာဏသီပြည်၌ စောင့်နေသော နတ်တို့သည် ''မဏ္ဍဗျသတို့သားသည် ငါတို့အရှင် မာတင်္ဂရသေ့မြတ်အား ပြစ်မှားရာသလော''ဟု အမျက်ထွက်ကြ၍ တစ်ခဏချင်း စည်းဝေးပြီးသော် အကြီးဖြစ်သော နတ်သည် မဏ္ဍဗျ သတို့သား၏ လည်ကို ကိုင်လျက် လှဲ၏။ ကြွင်းသောနတ်တို့သည် ကြွင်းသော ပုဏ္ဏားတို့၏ လည်ကို ကိုင်လျက် လှဲ၏။ ရှင်ရသေ့သည် အမျက်မဝေ့သိမ်မွေ့နူးညံ့သော မေတ္တာမကင်းရကား အံသက်ကိုသာ ခွင်း၍ညှဉ်းဆဲလေကုန်၏။

ထိုအကြောင်းကို ဒိဋ္ဌမင်္ဂလိကာ ကြားသိသဖြင့် လျင်စွာလာ၍ သားကိုရှုသော် ကျောသို့မျက်နှာလည်လျက် လက်ခြေတို့သည် မတုန်လှုပ်ဘဲ မျက်ဖြူဆိုက်ကာ တည်သော မဏ္ဍဗျသတို့သားကို မြင်လျှင် သို့စင်သော ဒုက္ခသည် အဘယ့်ကြောင့် ဖြစ်ရသနည်း''ဟု မေး၍ အလှူပေးရာသို့ ကြွလာသော မာတင်္ဂရသေ့အား ပြစ်မှားမိ၍ ဖြစ်ကြောင်းကို ပြောဆိုကြလေလျှင် ''သင်လူများတို့– ဤအရှင်မာတင်္ဂသည် အဘယ်အရပ်သို့ ကြွသနည်း'' ဟု မေး၏။ ''အရှေ့အရပ်သို့ ကြွ၍ ဤမည်သောရွာ၌ ဆွမ်းခံပါသည်။ ရွာ၏ အထွက်ဝ၌လည်း ခြေရာချထားခဲ့ပါသည်''ဟု လျှောက်ဆို ကြသော် ဒိဋ္ဌမင်္ဂလိကာ လည်း ပရိသတ်နှင့်တကွ လျင်စွာလိုက်လေ၍ ရှင်ရသေ့နှင့်

73
A

တွေ့လျှင် ''အရှင်ဘုရား- မြေကြီးအထုနှင့်တူသော ပညာ၊ ရေအထုနှင့်တူသော မေတ္တာရှိသူဖြစ်ပါလျက် သားရတနာကို အဘယ့်ကြောင့် မဆုံးမပါသနည်း။ မလိမ္မာ၍ ကျူးလွန်မိသောအပြစ်ဒဏ်ကို သည်းခံ၍ ချမ်းသာပေးတော်မူပါ''ဟု တောင်းပန်၏။

ထိုအခါ မာတင်္ဂရသေ့လည်း ''အချင်းဒိဋ္ဌမင်္ဂလိကာ၊ သင်၏သားသည် ငါ့ကို ဆဲရေးသောအခါ၌ ငါသည်နှလုံးမရှု။ ကျေးကျွန် သင်းပင်းတို့အား ညှဉ်းဆဲစေအံ့ဟု ကြံသောအခါ၌လည်း ငါသည် အမျက်မရှု။ သင့်သား၏ မကောင်းမှုကံသည် နိပ်နှိပ်လေဘိ၍သာ ဤသို့သော ဒုက္ခဝေဒနာကို ခံရလေသတည်း။ ယင်းသို့ဖြစ်ရာ၌ သင်၏သားကို ချမ်းသာစေလိုမူကား အမြိုက်ဆေးနှင့်တူသော ဤငါ၏စားကြွင်းဖြစ်သော ပအုံးရည်ကို ယူ၍ သောက်စေလော့။ သင်၏သားကို အတန်ငယ်သောက်စေ၍ အကြွင်းကို ရေနှင့်ဖျော်၍ ကြွင်းသော ပုဏ္ဏားတို့အား ပေးလေလော့။ လျင်စွာ ချမ်းသာလိမ့်သတည်း''ဟု ဆို၍ သုံးဆောင်ကြွင်းဖြစ်သော ပအုံးရည်ကို ပေးလိုက်၏။ ဒိဋ္ဌမင်္ဂလိကာလည်း ထို ပအုံးရည်ကို ဆောင်၍လာပြီးသော် မဏ္ဍဗျသတို့သားအား သောက်စေ၍ ကြွင်းသော ပအုံးရည်ကိုလည်း အိုးစရည်းဖြင့် ရေဖျော်၍ တစ်သောင်းခြောက်ထောင်သော ပုဏ္ဏားတို့အား သောက်စေသဖြင့် ချမ်းသာရလေသတည်း။

ထိုအခါ ဒိဋ္ဌမင်္ဂလိကာသည် သားဖြစ်သော မဏ္ဍဗျကို ဆုံးမလို၍ ''မဏ္ဍဗျ ဗာလောသိ ပရိတ္တပညော''အစရှိသော ဂါထာကိုဆို၏။ အဓိပ္ပာယ်ကား= ချစ်သား မဏ္ဍဗျ၊ သင်သည် နည်းသောပညာရှိသည်ဖြစ်၍ မိုက်လှစွာသောကြောင့် ကောင်းမှုမျိုးကို စိုက်ပျိုးရာ လယ်တာမြေကောင်းနှင့်တူသော အလှူခံမြတ်ကိုမျှ မသိတတ်လေ၊ သင်သည် ရာဂ, ဒေါသ အစရှိသော ဖန်ရည်များသော အလှူခံကိုပင် အမွန်မြတ် မှတ်ဘိလေ၍ ကိုယ်နှုတ်နှလုံး မစောင့်သုံးသော ပုဂ္ဂိုလ်ကိုပင် ကြည်ညိုသဖြင့် လှူဒါန်းလေကုန်သည်။ ချစ်သားမဏ္ဍဗျ- အကြင်ပုဂ္ဂိုလ်တို့အား များသော ရာဂ, ဒေါသ, မောဟရှိကုန်၏။ များသော မာန်ထောင် လွှားခြင်းတို့သည်လည်းကောင်း, ကိုယ်နှုတ်နှလုံး မစောင့်သုံးခြင်းတို့သည်လည်းကောင်း ရှိကုန်၏။ ထိုသို့သော အလှူခံသည်ကား မွန်မြတ်သော ဒက္ခိဏေယျမဟုတ်။ အကြင်ပုဂ္ဂိုလ်တို့အား ရာဂ, ဒေါသစသော အကုသိုလ်တရားကို ပယ်ရှားနိုင်သည်ဖြစ်၍ ကုန်ပြီးသော အာသဝေါရှိ၏။ ကိုယ် နှုတ် နှလုံးတို့ကို စောင့်သုံး ခြိုးခြံလျက် ဈာန် အဘိညာဉ် သမာပတ် တရားတို့ကိုလည်း ပွားစီးအောင် ရွက်ဆောင် နိုင်၏။ ထိုသို့သော အလှူခံသည်ကား မွန်မြတ်သော ဒက္ခိဏေယျပုဂ္ဂိုလ်စစ်ဖြစ်၏။ ဤသို့သော အလှူခံမြတ်၌ လှူအပ်သော ဒါနသာလျှင် များစွာအကျိုးရှိ၏ဟူ၍ ဆုံးမပေ၏။

ထိုတစ်သောင်းခြောက်ထောင်သော ပုဏ္ဏားတို့သည်လည်း ''ဒွန်းစဏ္ဍား၏ စားကြွင်းကို စားရသည်ဖြစ်၍ ပုဏ္ဏားကောင်း မဟုတ်ပြီ''ဟု ရှက်နိုးကုန်ရကား မဇ္ဈ တိုင်း ဝေတ္တဝတီပြည်သို့ သွား၍ နေလေကုန်၏။

ထိုပုဏ္ဏားတို့တွင် တစ်ယောက်သော ဇာတိမန္တပုဏ္ဏားသည် ရသေ့ရဟန်းပြု၍ ဝေတ္တဝတီမည်သော မြစ်၏ ကမ်းနား၌ နေ၏။ ဘုရားလောင်း မာတင်္ဂရသေ့လည်း ထိုရသေ့၏ မာန်တံခွန်ကိုလှဲခြင်းငှာ ထိုရသေ့၏နေရာ မြစ်ညာဖြစ်သော အရပ်၌ နေလျက် နံနက်သောအခါ စားဖတ်ဒန်ပူကို ဓိဋ္ဌာန်လျက် မျှော၏။ ထို ဒန်ပူသည် ဇာတိမန္တရသေ့၏ ဆံကျစ်၌ ငြိလေ၏။ ထိုအခါ ဇာတိမန္တရသေ့သည် အလွန် အမျက်ထွက်၍ မာတင်္ဂရှိရာသို့ သွားပြီးသော် များစွာခြိမ်းမောင်း၏။ မာတင်္ဂရသေ့လည်း နေလွဲ၍ အကြေမြစ်ကွေ့၌ နေပြီးသော် စားဖတ်ဒန်ပူတို့ကို စွန့်ပစ်ပြန်၏။ ထို ဒန်ပူတို့သည် အထက်သို့ ဆန်၍ ဇာတိမန္တရသေ့ ရေချိုးသောကာလ ဆံကျစ်ပေါ်၌ ငြိမြဲငြိပြန်၏။ ထိုသို့ ငြိလေသော် ဇာတိမန္တရသေ့လည်း ရှေ့ထက်တိုး၍ပင် ဆဲရေး၏။ ယင်းသို့ ဆဲရေးသော အတွက်ကြောင့် ခုနစ်ရက်မြောက်သောနေ့၌ မိုးကြိုးကျ၍ ဦးခေါင်းခုနစ်စိတ်ကွဲ လတ္တံ့သည်ကို မြင်လေ၏။ ထိုအခါ ဘုရားလောင်းမာတင်္ဂသည် ငါ့အတွက်ကြောင့် ဤရသေ့မပျက်မီးပါစေလင့်ဟု နှလုံးထား၍ နေကိုတားမြစ်သဖြင့် နေမထွက်နိုင်ဘဲ နေလေ၏။ လူအများတို့သည် မာတင်္ဂရသေ့အား ''အဘယ့်ကြောင့် နေမထွက်ပါသနည်း''ဟု မေးလေသော် ''ဇာတိ မန္တရသေ့၏ဦးခေါင်း၌ မိုးကြိုးကျ လတ္တံ့သည်ကိုမြင်၍ နေကို ငါတားမြစ်သတည်း''ဟု ဆိုပေ၏။

ထိုအခါများစွာသော လူတို့သည် ဇာတိမန္တရသေ့ထံသို့သွား၍ မာတင်္ဂရသေ့အား ကန်တော့ရမည်ဖြစ်ကြောင်းဖြင့် တောင်းပန်ပြောဆို၍ ကန်တော့စေပြီးမှ ရေ၌ဆင်းစေ၏။ နေထွက်သောကာလ မိုးကြိုးကျလာသော် ရေ၌ငုပ်၍နေမှ ချမ်းသာရလေသတည်း။

မာတင်္ဂရသေ့လည်း ထိုဇာတိမန္တရသေ့အား ဩဝါဒပေး၍ ကြွင်းသော ပုဏ္ဏား တစ်သောင်းခြောက်ထောင်ကိုလည်း မေးမြန်း၍ မဇ္ဈ တိုင်း၌ နေကြောင်းကို သိလေသော် ထိုပုဏ္ဏားတို့အားလည်း တရားသဖြင့် ဆုံးမခြင်းငှာ အာကာသခရီးဖြင့် သွားလေ၍ ပြည်တွင်း၌ ဆွမ်းခံဝင်ပြီးမှ တစ်ခုသောဌာန၌ ဆွမ်းဘုဉ်းပေး၍ နေရာတွင် ထိုပုဏ္ဏား တို့သည် မင်းကြီးအား ကုန်းတိုက်ပြောဆိုကြသဖြင့် မင်းချင်းတို့သည် လာကြကုန်၍ မာတင်္ဂရသေ့အား ညှဉ်းဆဲရိုက်ခတ်သဖြင့် အသက်ကုန်ခြင်းသို့ ရောက်လေ၏။ ထိုပြည် ၌လည်း ပြည်စောင့်နတ်တို့သည် အမျက်ထွက်၍ သဲမိုး မီးကျီးမိုးတို့သည် ရွာသဖြင့် သုံးယူဇနာသော ပြည်အလုံးသည် ပျက်စီးခြင်းသို့ ရောက်လေ၏။

ဤဇာတ်၌ မဏ္ဍဗျသတို့သားသည် ယခုအခါ ဥတေနမင်းဖြစ်လာ၏။ မာတင်္ဂရသေ့သည် ငါဘုရား ဖြစ်တော်မူလာ၏ဟု ဇာတ်ပေါင်းခြင်းရှိသော မာတင်္ဂ ဇာတ်၌ ငါတို့ဘုရား လောင်းသည် နှုတ်သီးမစုန့်၊ စိတ်မရုန့်ဘဲ၊ မြူမှုန့်မြေလိမ်းသည်ကို ခံရဖူး၏။ ။ [ဤဇာတ်ကို မှတ်မိသူရှားသောကြောင့် ဆုံးအောင် ဖြေဆိုလိုက်သည်]။

(ရှေးစာမပါ နောက်ဖြေသာ)

**''အုန့်'' ကာရန်ပုစ္ဆာ ၃-ပုဒ်အဖြေပြီး၏။**

❖❖❖❖❖

## (၂၇) ''အုန်း'' ကာရန်ပုစ္ဆာ ၄–ပုဒ်အဖြေ

### ၇၀၅။ ဘုရားကျိန်းနှုန်း၊ မာရ်ဖျက်ဖြုန်း၊ ပုန်း၍မည်သို့ ကြံသနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဘုရားသခင်ကျိန်းတော်မူရာ၌ ဝမ်းတွင်းသို့ မာရ်နတ်ဝင်နေကြောင်းကို ကျမ်းဂန်၌ မတွေ့မိ။ အရှင်မောဂ္ဂလာန် ကျိန်းနေရာတွင် မာရ်နတ်ဝင်နေကြောင်းကိုသာ မူလပဏ္ဏာသမာရတဇ္ဇနီယသုတ်၌လာသည်ကို တွေ့မိသည်။ သို့ရာတွင် ရှင်မောဂ္ဂလာန်လည်း ဗုဒ္ဓပုတ္တဖြစ်၍ ဘုရားဆိုထိုက်သောကြောင့် ''ဘုရားကျိန်းနှုန်း၊ မာရ်ဖျက်ဖြုန်း'' ဟူ၍ ဆိုမည်ထင်သည်။

အကြောင်းကား ဤသို့တည်း–

အရှင်မောဂ္ဂလာန်သည် ဘဂ္ဂတိုင်း သံသုမာဂိရိမြို့၌ သားတို့ကို ဘေးမဲ့ပေးရာဖြစ်၍ မိဂဒါယမည်သော ပဲစင်းငုံတော၌ ကျောင်းငယ်ဖြင့် နေတော်မူသော် တစ်နေ့သ၌ မျောက်မျဉ်းတော်မူစဉ် မာနတ်သည် ဝမ်းတွင်းသို့ဝင်၍ အအူ၏အတွင်း အစာကျက်တည်ရာ၏ အကြား၌ နေ၏။ အရှင်မြတ်လည်း လွင်အရပ်၌ စင်္ကြံကြွသွားတော်မူသော် ဝမ်းတော်လေးလှရကား ''ယနေ့ ငါ၏ဝမ်းလေးလှ၏။ အစာမကြေ၍ ရှိလေသလော''ဟု မညီညွတ်သော ဒေါသကို ကြေစေခြင်းငှာ စင်္ကြံသွားရာမှ တက်၍ ကျောင်းသို့ ဝင်ပြီးလျှင် အိပ်ရာ၌လျောင်း၍ ဆင်ခြင်လေသော် မာရ်နတ်သား ဝမ်းသို့ဝင်၍နေသော အဖြစ်ကို သိသဖြင့် ဤသို့ဆို၏။ ''ဟယ်မာရ်နတ်ယုတ် သားကိုညှဉ်းဆဲသော် အဖကို ညှဉ်းဆဲသည် မည်သကဲ့သို့ ဘုရားရှင်၏ တပည့်ကိုညှဉ်းဆဲလျှင် ဘုရားရှင်ကို ညှဉ်းဆဲသည်မည်သည်။ ယင်းသို့ ဘုရားရှင်ကိုညှဉ်းဆဲလျှင် သင့်အား ရှည်မြင့်စွာသောကာလပတ်လုံး ဆင်းရဲခြင်း ဖြစ်လေရာသည်။ ဆင်းရဲကို မဖြစ်စေလင့်၊ ထွက်လော့၊ ထွက်လော့''ဟု ဆို၏။ မာရ်နတ်သည်လည်း ''ဤရဟန်းမသိဘဲလျက် ငါ့ကိုထွက်လော့ဟု ဆိုဘိ၏'' ကိုယ်ပင့်ကို မဆိုလင့်ဦး။ ကိုယ်ပင့်ဆရာဖြစ်သော ဘုရားမှသော်လည်း ငါ့ကို စောစွာမသိနိုင်ဘဲလျက် တပည့်သည် ဘယ်သို့ သိနိုင်လေအံ့နည်း''ဟု ကြံလျက် မထွက်ဘဲ နေလေ၏။

အရှင်မောဂ္ဂလာန်ကလည်း ''ဟယ် မာရ်နတ်ယုတ်၊ သင့်ကိုငါသိ၍ပင် ဆိုသတည်း။ သင်မထွက်သော် ငါနှိပ်စက်လိမ့်သတည်း။ ထွက်ဘိလော့''ဟု ဆိုပြန်၏။ မာရ်နတ်လည်း ''ဤရဟန်းသည် သိ၍ပင် ဆိုချေ၏'' ခံတွင်းမှထွက်၍ ကျောင်းတံခါးရွက်ကို မှီ၍ ရပ်နေ၏။ အရှင်မောဂ္ဂလာန်လည်း တံခါး၌နေသည်ကိုမြင်၍ ''မာရ်နတ်သား၊ သင့်ကိုငါမြင်၏။ ရှင်မောဂ္ဂလာန် ငါ့ကိုမမြင်နိုင်ဟု သင်မအောက်မေ့လင့်''ဟူ၍ မိန့်ပြီးမှ ဤသို့ကြံ၏။ ဤမာရ်နတ်သည် အလွန်ပြစ်မှားလိုသည်ဖြစ်၍ စက်ဆုပ်ဖွယ်ရှိသော အရပ်သို့ဝင်၍ နေခြင်းငှာ တတ်နိုင်ဘိသည်။ အခွင့်သင့်သောအခါ

နှောင့်ယှက်လာလတ္တံ့။ ငါ၏ဆွေမျိုး ဟူ၍ဆိုသော် မနှုးညံ့သောသူ မည်သည်မရှိ။ ထို့ကြောင့် ဆွေမျိုးဆက်စပ်၍ ဤမာရ်နတ်ကို နှုးညံ့စေအံ့''ဟု ကြံ၍ ''ဟယ် မာရ်နတ်ယုတ်၊ ရှေးသောအခါ ငါသည် ဝသဝတ္တီပြည်၌ ဒုဿီမည်သော မာရ်နတ် ဖြစ်ဖူး၏။ ထိုအခါ ငါ၏ နှမကား ကာလီအမည်ရှိ၏။ ထိုကာလီသားကား သင်ပင်ဖြစ်၍ သင်သည် ငါ၏တူအရင်းပင်တည်း။ ထိုအခါ လူတို့ရွာ၌ ကကုသန်ဘုရား ထင်ရှား ဖြစ်တော်မူ၍ လက်ယာရံထေရ်ကား ဝိဓုရ၊ လက်ဝဲရံထေရ်ကား သဉ္ဇီဝအမည်ရှိ၏။

[ထိုအရှင်၏ သဉ္ဇီဝတွင်သော အကြောင်းကား–တစ်ရံသောအခါ တောအရပ်၌ သစ်ပင်ရင်းတွင် နိရောဓသမာပတ်ကိုဝင်၍ နေတော်မူ၏။ ထိုအခါ နွားကျောင်းသား, ဆိတ်ကျောင်းသား ခရီးသွားတို့သည် ''ဤအရှင်ကား ထိုင်လျက်ပင် သေခဲ့၏။ ငါတို့သင်္ဂြိုဟ်ကုန်အံ့''ဟု တိုင်ပင်ပြောဆို၍ ထင်းကိုစုပြီးမှ မီးတိုက်ကြ၏။ အရှင်မြတ်မူကား သမာပတ် အာနုဘော်ကြောင့် ရေအိုင်၌ နေသကဲ့သို့သာ ဖြစ်၏။ ခုနစ်ရက်လွန်၍ သမာပတ်မှ ထသောအခါ ရဲရဲညီးသော မီးလျှံတွင်းမှ သင်္ကန်းကို ခါလျက် ထွက်လာ၍ နံနက်အခါရွာသို့ ဆွမ်းခံဝင်လတ်သော် မီးတိုက်သောသူတို့ မြင်ကုန်၍ ''ဤအရှင်ကား–ထိုင်လျက်သာလျှင် သေပြီးမှ ယခုတစ်ဖန် ရှင်ပြန်သည်။ အံ့ဖွယ်ရှိစွ''ဟု ဆိုကြကုန်၍ ဆွမ်းအဖျော်ဖြင့် ပူဇော်ကြကုန်၏။ ထိုအကြောင်းကြောင့် ''သဉ္ဇီဝထေရ်''ဟု ထင်ရှားသတည်း]။

ထိုအခါ ဒုဿီမည်သော မာရ်နတ်သည် အရှင်သဉ္ဇီဝအား များစွာသော လူတို့ ချီးမြှောက်ကြသည်ကိုမြင်လျှင် ထိုအရှင်အား ငြူစူခြင်းပွား၍လည်းကောင်း၊ ဘုရားပရိသတ်ဖြစ်သော ရဟန်းတို့ကို နှိပ်စက်လိုသောကြောင့်လည်းကောင်း ပုဏ္ဏားသူကြွယ် စသည်တို့၏ ကိုယ်သို့ဝင်ပြီးလျှင် ဆဲရေးချုပ်ချယ် ရေရွတ်အောင် တိုက်တွန်းလေသည်။ ထိုသူတို့ကလည်း ''ဤဦးပြည်းရဟန်းတို့သည် သူတော်ယောင်ဆောင်လျက် အောက်သို့ချသော မျက်နှာရှိကုန်၍ ညဉ့်အခါ သစ်ခေါင်းမှထွက်၍ ကျက်စားသော ခင်ပုပ်ငှက်ကဲ့သို့ ကျက်ပြီးသော ထမင်းကိုသာ ရှာကုန်သည်။ မြေခွေးသည် မြစ်နား၌ ငါးကိုရှာသကဲ့သို့ ဝမ်းစာကို ရှာလေ့ပြုကုန်သည်။ ဤသူတော်ယောင်တို့အား လှူ၍ ဘယ်အကျိုးနပ်အံ့နည်း'' စသည်ဖြင့် ကဲ့ရဲ့ ရေရွတ်ကုန်သည်။ လူတို့၏ကိုယ်၌ မဝင်မူ၍လည်း နှလုံးမသာဖွယ်သော အာရုံ, ကြောက်မက်ဖွယ်သောအာရုံကို ပြုလေကုန်သည်။ ရဟန်းယောကျ်ားတို့၏ နေရာ၌လည်း မာတုဂါမတို့ ခြံရံ၍နေသည့် အရိပ်အယောင်ကို ရဟန်းမိန်းမတို့၏ နေရာ၌လည်း ယောကျ်ားတို့၏ အနီးအပါးကပ်သည့် အရိပ်အယောင်ကို ပြုလျက် ကြည်ညိုပြီးသောသူကိုလည်း ကြည်ညိုခြင်းပျက်အောင် ပြုလေသည်။ ''ဤရဟန်းတို့ကား အလဇ္ဇီ ချည်းတည်း။ ဤသူတို့ကို လှူသဖြင့် အဘယ်ကုသိုလ် ဖြစ်အံ့နည်း''ဟူ၍ လူတို့သည် ရဟန်းမြင်တိုင်းကို ဆဲရေးစေကုန်သည်။ ထိုသူတို့သည် သေသောကာလ များသောအားဖြင့် ငရဲ၌သာ ဖြစ်လေကုန်သည်။

ထိုအခါ ကကုသန် မြတ်စွာဘုရားလည်း ရဟန်းတို့ကိုခေါ်တော်မူ၍ ''ချစ်သားတို့၊ ဒုသီမည်သော မာရ်နတ်သည် ပုဏ္ဏားသူကြွယ်တို့ကို လှည့်ပတ်၍ များစွာသော မကောင်းမှုကို ပွားစေကုန်ပြီ။ ချစ်သားတို့သည် စိတ်ဖောက်ပြန်ခြင်းကို မဖြစ်စေကုန်လင့်။ အကယ်၍ ဖောက်ပြန်ကုန်သည်ဖြစ်အံ့။ မာရ်နတ်သားသည် အခွင့်ကို ရလေရာ၏။ ချစ်သားတို့၊ ဗြဟ္မာဝိဟာရကို ပွားစေ၍သာ နေကြကုန်လော့''ဟု ဆုံးမတော်မူ၏။ ရဟန်းတို့လည်း ဆုံးမတော်မူတို သည်းခံ၍ ငြိုးခြံစွာ ကျင့်သဖြင့် ရဟန္တာဖြစ်လေကုန်၏။

ထိုအခါ ဒုသီမာရ်နတ်သည် ဤသို့ ကြံပြန်၏။''ဤ ရဟန်းတို့သည် စုတေသည်ရှိသော် ပဋိသန္ဓေနေသည်ကိုမမြင်။ နိဗ္ဗာန် ယူခြင်းသာထင်ကုန်၏။ ငါသည် ရန်ဟန်းတို့မှာ လာဘ်ပူဇော်သက္ကာများအောင်ပြု၍ ထိုရဟန်းတို့၏ စိတ်ကို တုန်လှုပ်စေအံ့။ ယင်းသို့ တုန်လှုပ်မှုဘဝမဆုံးဘဲ ရှိတော့မည်''ဟု ကြံပြန်၍ လူတို့၏ မြင်ရာအရပ်၌ ရဟန်းတို့သည် ဈာန်ဖြင့် ကောင်းကင်သို့ သွားလေဘိသကဲ့သို့၊ ကောင်းကင်၌နေ၍ သက်န်းချုပ်ဘိသကဲ့သို့ ကောင်းကင်၌ ထက်ဝယ်ခွေ၍ နေဆာ လှုံဘိသကဲ့သို့ သာမဏေငယ်တို့သည် ကောင်းကင်ဖြင့်သွား၍ ပန်းကို ဆွတ်ပြီးလျှင် စေတီပြင်၌ ပူဇော်ဘိသကဲ့သို့ ဖန်ဆင်း၍ပြပြန်၏။ ထိုသို့ပြသည်ကို မြင်သောအခါ လူဖြစ်သော၊ ဒါယကာ၊ ဒါယိကာမတို့သည် အလွန်ကြည်ညိုကြ၍ အထူးထူးသော စားဖွယ်သောက်ဖွယ်၊ အထည်သက်န်းတို့ဖြင့် လှူဒါန်းပူဇော်ကြကုန်၏။ ထိုသူတို့သည် သေသောကာလ များသောအားဖြင့် နတ်ပြည်၌ ဖြစ်ကြကုန်၏။

ထိုအခါ ကကုသန် မြတ်စွာဘုရားသည်လည်း ရဟန်းတို့ကိုခေါ်တော်မူ၍ ''ချစ်သားရဟန်းတို့၊ ဒုသီမာရ်နတ်သည် လူတို့အား တိုက်တွန်းအပ်သည်ဖြစ်၍ များစွာဆည်းကပ် ပူဇော်ကြကုန်၏။ သင်တို့သည် အသုဘသညာကို လည်းကောင်း၊ မရဏသညာကို လည်းကောင်း၊ ဤလောက၌ အနဘိရတိ သညာကိုလည်းကောင်း၊ အာဟာရ၌ ပဋိကူလသညာကိုလည်းကောင်း၊ အနိစ္စသညာ၊ ဒုက္ခသညာ၊ အနတ္တသညာကို လည်းကောင်း များစွာပွားစေကုန်လော့''ဟု ဆုံးမတော်မူ၏။ ရဟန်းတို့လည်း ဆုံးမတိုင်းကို လိုက်နာ၍ ကျင့်သဖြင့် ရဟန္တာဖြစ်ကြကုန်၏။

မာရ်နတ်သည် ရဟန်းတို့အား လာဘ်၌ တက်မက်မောစိမ့်သောငှာ လှံ့လ ပြုပါသော်လည်း အခွင့်မရသောကြောင့် တစ်နေ့သ၌ ကကုသန် ဘုရားသခင်သည် လက်ယာတော်ရံဖြစ်သော ဝိဓုရထေရ်နှင့်တကွ ဆွမ်းခံဝင်တော်မူသော် တစ်ယောက် သော လုလင်၏ ကိုယ်၌ ဝင်၍ အရှင်ဝိဓုရ၏ ဦးခေါင်းတော်ကို ကျောက်ခဲဖြင့် ပစ်စေ၏။ ထိုဒဏ်ရာကြောင့် ဦးရေလွှာသည် နစ်လွှာကွဲလျက် အရိုးကိုထိ၍ တည်၏။ အရှင်ဝိဓုရလည်း ဦးခေါင်းမှ စီးမိုးယိုကျသော သွေးရှိလျက် ဘုရားနောက်တော်မှ လိုက်လေ၏။ ဘုရားသခင်လည်း ဆဒ္ဒန်ဆင်မင်း၏ ကြည့်ခြင်းဖြင့် ကြည့်တော်မူ၍ ''ဤဒုသီမာရ်နတ်သည် မိမိ၌ ဖြစ်လတ္တံ့သော အပြစ်ကို မတိုင်းမထွာ၊ ပမာဏကို

လွန်၍ ပြုဘိသည်တကား'' ဟု မိန့်တော်မူ၏။ ယင်းသို့ ကြည့်တော်မူသည်နှင့် တစ်ပြိုင်နက် ဒုဿီမာရ်နတ်သည် ထိုအရပ်မှ ချွတ်၍ ပြေးလေသဖြင့် ဝသဝတ္တီဘုံသို့ ရောက်လျှင် ရုတ်တရက်ချင်းပင် စုတေ၍ အဝီစိငရဲကြီး၌ ဖြစ်လေကုန်၏။

ထိုငရဲကြီးကား ဆဖဿာယတနိက ဟူသောအမည်၊ သင်္ကုသမာဟဋ္ဋ ဟူသော အမည်၊ ပစ္စတ္တဝေဒနီယဟူသော အမည်အားဖြင့် အမည်သုံးပါးကို ရ၏။

ထိုငရဲ၌ ခံရသောသူတို့ကား ကိုယ်သုံးဂါဝုတ် ရှိသည်ဖြစ်၏။ ဒုဿီမာရ်နတ်သည် သုံးဂါဝုတ်လောက် ကြီးသည်ဖြစ်၍ ငါးကျိပ်မျှလောက်သော ငရဲထိန်းတို့သည် ထန်းလုံးမျှလောက် ပြောင်းပြောင်းတောက်သော သံတံစို့ဖြင့် ထိပ်မှ ထိုးသီ၍ တံသင်းဖြင့် နှက်ကုန်၏။ ခြေဖျားသို့ရောက်၍ ဖောက်ထွက်ပြန်လျှင် တစ်ဖန် ငါးကျိပ်သော ငရဲထိန်းတို့က ခြေရင်းမှနေ၍ နှက်ပြန်၏။ ဤသို့ တံစို့နှက်ခြင်းကိုခံ၍ တစ်ညံ့ညံ့ ငိုကြွေးလျက် အနှစ်တစ်သိန်းမက ငါခံရ၍ ယခုရှေးရှေးက ပါရမီကံတော် ချီးပင့်ပေးသဖြင့် မဟာထေရ်၏ အဖြစ်သို့ ရောက်ရပေ၏။ ငါ့တူမာရ်နတ်–သင်သည်လည်း ငါကဲ့သို့ ဘုရားတပည့်သား ရဟန်း သံဃာတို့ကို နိုက်စက်ပြစ်မှားပြန်လျှင် ငါငရဲခံရသကဲ့သို့ သင်သည်လည်း ခံရမည် မချွတ်တည်း။ နတ်၏ချမ်းသာကို သင်စုံမက်ပါလော့။ ငရဲရွာကို မသွားလို ပါလင့်ဟု မိန့်တော်မူ၏။ ထိုစကားကို ကြားသောအခါ မာရ်နတ်သည် ထိုနေရာ အရပ်၌ပင် ကွယ်လေ၏။

❖❖❖❖❖

## ၇၀၆။ မန္တာတ်မင်းဘုန်း၊ မိုးသို့ချုန်း၊ နှုန်းရန်သူမင်း ရှိလိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''က္လစ လောကေ စက္ကဝတ္တိရာဇေန သဒိသော နတ္ထိ'' ဟူ၍ ဋ္ဌကထာ အဋ္ဌကထာ လာသောကြောင့် လူ့ရွာ၌ မန္ဓာတ်မင်းနှင့် နှိုင်းယှဉ်စရာဖြစ်သော လူသည် မရှိဟူ၍ မှတ်အပ်၏။ ကောဂုတ္တရ ပါဠိ၌လည်း ကေပုဂ္ဂလဖြစ်ကြောင်းကို ဟောတော်မူသည်ပင် ဖြစ်၏။

❖❖❖❖❖

## ၇၀၇။ ပေါက်ပေါက်ကိုမှုန်း၊ လူကိုဖြုန်း၊ စုန်းမျိုးဘယ်မျှ ပြားသနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကဝေသာရကျမ်းတွင် စုန်းမျိုးအပြားခွဲခြား၍ ပြသောအရာ ကျယ်ဝန်းစွာရှိပြီ။ အကျဉ်းကား– မောက်လုံး၊ မောက်ပြား၊ စမြင်းတိုင် ဟူ၍ သုံးမျိုးအပြားရှိသည်။ ထိုတွင် မောက်လုံး၊ မောက်ပြား ဟူသော စုန်းတို့မှာ ဆေးစား၍လည်းကောင်း၊ မန္တန်ကို လေ့လာ၍လည်းကောင်း၊ ဖူးသွင်း၍လည်းကောင်း ဖြစ်သည်။ စမြင်းတိုင်ဟူသော

စုန်းတို့မှာ ဆရာ့ထံတွင် မသင်ဘဲ မိမိပင္ကိသန္ဓေအားဖြင့် တတ်လျက်ပါသည်။ ထိုသို့ သန္ဓေကပါသော စုန်းသည် အိမ့်တလိမ့် ကဝေစသောအားဖြင့် ရှစ်မျိုးပြားလေသည်။

❖❖❖❖❖

## ၅၀၈။ ချာန်ပျံ့ခြိမ့်အုန်း၊ လေသင်မုန်း၊ ဟုန်းဟုန်းမခတ်ဘယ်သို့နည်း။(၄)

ဤပုစ္ဆာ၏အဖြေကိုကားမူ အစောင်စောင်ရှာ၍ မတွေ့။

### ''အုန်း'' ကာရန်ပုစ္ဆာ ၄-ပုဒ်အဖြေ ပြီး၏။

သောင်းရှစ်ပြန်ထက်၊ လေးထောင်တက်သား၊ အနက်အကျယ်၊ ပင်လယ် မြစ်ထဲ၊ ရှိုးရှိုးရဲတည့်၊ ဖိုးကဲနဂ္ဂါ၊ လက်လက်ပသား၊ သခ်မုတ္တာ၊ မသာရဂလ်၊ ရတနာမွန်ကို၊ ထုတ်သွန်ယူရှောင်း၊ လူအပေါင်းအား၊ ကျိုးကြောင်းမျှော်ငဲ့၊ ငှသကဲ့သို့ သုံးဆဲ့တတိုက်၊ ဘဝဂ်ရိုက်ကို၊ စိုးပိုက်ပိုင်သိ၊ ထွတ်တိုင်ထိ၏၊ သန္တိဌိဂုဏ်၊ ဆယ်အင်စုံသည်၊ သုံးပုံသာဂရ၊ ပင်လယ်မမှ၊ နဂ္ဂရတနာ၊ မြို့က်သြဇာကို၊ အသာ ဗိုလ်လူ၊ သောက်စိမ့်ဟူ၍၊ ထုတ်ယူဝေခြမ်း၊ လက်ဆင့် ကမ်းသည်၊ ရွှေကျမ်းဒုတိယ ကဏ္ဍာတည်း။

❖❖❖❖❖

## (၂၈) ''အည်'' ကာရန်ပုစ္ဆာ ၂၅၃-ပုဒ်အဖြေ။

## ၅၀၉။ ဘုရားဘုန်းစည်၊ သင်္ဂြိုဟ်သည်၊ စေတီ တည်ပါလေလိမ့်နည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဘုရားကို သင်္ဂြိုဟ်သော သင်္ချိုင်းရာ၌ စေတီတည်ကြောင်းကို ကျမ်းဂန်၌မလာ။ ဓာတ်တော်ကို ရှစ်ပြည်ထောင်မင်းတို့ ဝေယူ၍ မိမိတို့နေရာ ပြည်၌သာ စေတီ တည်ကြောင်းကို ကျမ်းဂန်လာသည်။ ယင်းသို့ လာသည့်တွင် ဒေါဏ ပုဏ္ဏားသည် ဓာတ်ခြင်သောအိုးကို ရသည်။ မလ္လာမင်းတို့လည်း ဓာတ်တော်တစ်စိတ်ကို ရသည်။ ထိုဓာတ်တော်တို့ကို ကုသိနာရုံပြည်၌ပင် စေတီတည်သည် ဖြစ်ရကား သင်္ချိုင်းတော် မှာပင် စေတီတည်၏ဟု ယူရန်ရှိ၏။

ဒေါဏော တုမ္ဗံ ဂဟေတွာန၊ ကာရေသိ တုမ္ဗစေတိယံ။

(နလာဋဓာတုဝင်)

ဘယ်အရပ်၌ အဘယ်သို့ စေတီတည်သနည်း ဟူမူကား-

မဟာဂေါတမော ဇိနဝရော၊ ကုသိနာရမှိ နိဗ္ဗုတော။
ဓာတုဝိတ္ထာရိကံ အာသိ၊ တေသု တေသု ပဒေသတော။
ဧကော အဇာတသတ္တုဿ၊ ဧကော ဝေသာလိယာ ပုရေ။
ဧကော ကပိလဝတ္ထုမှိ၊ ဧကော စ အလ္လကပ္ပကေ။

ကောဠ စ ရာမဂါမမှိ၊ ကောဠ စ ဝေဠုဒီပကေ။
ကောဠ ပါဝေယျကေ မလ္လေ၊ ကောဠ စ ကောသိနာရကေ။

ကုမ္ဘဿ ထူပံ ကာရေသိ၊ ဗြာဟ္မဏော ဒေါဏသဝှယော။
အင်္ဂါရထူပံ ကာရေသုံ၊ မောရိယာ တုဋ္ဌမာနသာ။

အဋ္ဌ သာရီရိကာ ထူပါ၊ နဝမော ကုမ္ဘစေတိယော။
အင်္ဂါရထူပေါ ဒသမော၊ တဒါယေဝ ပတိဋ္ဌိတော။

ဧကာ ဒါဋ္ဌာ တိဒသပုရေ၊ ဧကာ နာဂပုရေ အဟု။
ဧကာ ဂန္ဓာရဝိသယေ၊ ဧကာ ကလိင်္ဂရာဇိနော။

ဥဏှီသံ စတုရော ဒါဌာ၊ အက္ခကာ ဒွေ စ ဓာတုယော။
အသမ္ဘိန္နာ ဣမာ သတ္တ၊ သေသာ ဘိန္နာဝ ဓာတုယော။

ဥဏှီသံ သီဟဠေ ဒီပေ၊ ဗြဟ္မလောကေ စ ဝါမကံ။
သီဟဠေ ဒက္ခိဏက္ခဉ္စ၊ သဗ္ဗာပေတာ ပတိဋ္ဌိတာ။

ကော ဒါဌာ တိဒသာပုရေ၊ ကော နာဂပုရေ အဟု။
ကော ဂန္ဓာရဝိသယေ၊ ကော ကလိင်္ဂရာဇိနော။

စတ္တာလီသ သမာဒန္တာ၊ ကေသာလောမာ စ သဗ္ဗသော။
ဒေဝါ ဟရိံသု ဧကေကံ၊ စက္ကဝါဠပရမ္ပရာ။

ဝဇိရာယံ ဘဂဝတော၊ ပတ္တော ဒဏ္ဍဉ္စ စီဝရံ။
နိဝါသနံ ကုလဃရေ၊ ပစ္စတ္ထရဏံ ကပိလဝှယေ။

ပါဋလိပုတ္တနဂရေ၊ ကရဏံ ကာယဗန္ဓနံ။
စမ္ပာယုဒကသာဋိကာ၊ ဥဏ္ဏာလောမဉ္စ ကောသလေ။

ကာသာဝဉ္စ ဗြဟ္မလောကေ၊ ဝေဌနံ တိဒသေ ပုရေ။
နိသီဒနံ အဝန္တီသု၊ ဒေဝရဋ္ဌေ အတ္ထရဏံ။

အရဏီ စ မိထိလာယံ၊ ဝေဒေဟေ ပရိသာဝနံ။
ဝါသိ သူစိဃရဉ္စာပိ၊ ဣန္ဒပတ္ထေ ပုရေ တဒါ။

ပရိက္ခာရာ အဝသေသာ၊ ဇနပဒေ အပရန္တကေ
ပရိဘုတ္တာနိ မုနိနာ၊ အကံသု မနုဇာ တဒါ။

ဟူ၍ ဗုဒ္ဓဝင်ပါဠိတော်၌ လာသည်။

**အဓိပ္ပါယ်ကား။** မာရ်ငါးအင်ကို အောင်မြင်တော်မူပြီးသော ဂေါတမမြတ်စွာဘုရားသည် ကုသိနာရုံပြည်၌ ပရိနိဗ္ဗာန်ပြုတော်မူ၍ ဓာတ်တော်တို့သည် ထိုထိုအရပ်သို့ ပျံ့နှံ့စေသည်။ တစ်စိတ်သော ဓာတ်တော်သည် အဇာတသတ်မင်းကြီးနေရာ ရာဇဂြိုဟ်ပြည်၌ တည်သည်။ တစ်စိတ်သော ဓာတ်တော်သည် ဝေသာလီပြည်၌ တည်သည် တစ်စိတ်သော ဓာတ်တော်သည် ကပိလဝတ်ပြည်၌ တည်သည်။ တစ်စိတ်သော

ဓာတ်တော်သည် ရာမရွာ၌၊ တစ်စိတ်သောဓာတ်တော်သည် ဝေဌဒီပပြည်၌၊ တစ်စိတ်သော ဓာတ်တော်သည် ပါဝေယျကအမည်ရှိသော မလ္လာမင်းတို့၏ပြည်၌၊ တစ်စိတ်သော ဓာတ်တော်သည် ကုသိနာရုံ ပြည်၌တည်သည်။ ကုသိနာရုံပြည်သား ဒေါဏပုဏ္ဏားသည် ဓာတ်တော်ခြင်သော အိုးကိုယူ၍ စေတီတည်ရလေသည်။ မောရိယမင်းတို့သည် သင်္ဂြိုဟ်တော်၌ စန္ဒကူးမီးသွေးကိုယူ၍ မိမိတို့ပြည်၌ စေတီတည်ရလေသည်။

ထိုစေတီတို့တွင် ရှစ်ဆူသော စေတီတို့သည် ကိုယ်တော်မှဖြစ်သော သာရီရိက စေတီတို့တည်း။ ကိုးခုမြောက်ကား ဓာတ်အိုးစေတီတည်း။ ဆယ်ခုမြောက်ကား မီးသွေး စေတီတည်း။

နဖူး သင်းကျစ်တော်ဓာတ်၊ လေးချောင်းသော စွယ်တော်ဓာတ်၊ နှစ်ချောင်းသော ညှပ်ရိုးတော်ဓာတ်။ ဤခုနစ်ဆူသော ဓာတ်တို့သည် တဖောဓာတ်လောင်ရာ၌ မပြိုမကွဲ တည်သည် ဖြစ်၍ အသမ္ဘိန္နဓာတ်မည်သည်။ ကြွင်းသောအရိုး,အသားတို့သည် မုန်ညင်းစေ့ပမာဏ၊ ဆန်ကျိုးပမာဏ၊ ပဲနောက်စေ့ပမာဏဖြစ်၍ တည်ရကား သမ္ဘိန္နဓာတ်မည်သည်။

ထိုဓာတ်တို့တွင် သင်းကျစ်တော်သည် သီဟိုဠ်ကျွန်း၌ တည်သည် လက်ဝဲညှပ်ရိုးတော်သည် ဗြဟ္မာ့ပြည်၌တည်သည်။ လက်ယာညှပ်ရိုးတော်သည် သီဟိုဠ်ကျွန်း၌၊ လက်ယာအထက် စွယ်တော်သည် တာဝတိံသာနတ်ပြည်၌၊ အောက်စွယ်တော်သည် နဂါးပြည်၌၊ လက်ဝဲအထက် စွယ်တော်သည် ဂန္ဓာရရာဇ်ပြည်၌၊ အောက်စွယ်တော်သည် ကလိင်္ဂရာဇ်ပြည်၌ တည်သည်။

အမျှလေးဆယ်သော သွားတော်တို့ကိုလည်းကောင်း၊ အလုံးစုံသော ဆံတော်, အမွေးတော်တို့ကိုလည်းကောင်း နတ်တို့သည် တစ်ချောင်းစီ စကြဝဠာ တစ်ပါးသို့ ဆောင်လေကုန်၏။

သပိတ်တော်သည်လည်းကောင်း၊ တောင်ဝှေးတော်သည်လည်းကောင်း၊ သင်္ကန်း တော်သည်လည်းကောင်း ဝဇိရာပြည်၌၊ သင်းပိုင်တော်သည် ကုလဃရပြည်၌၊ ခင်းနှီးတော်သည် ကပိလအမည်ရှိသောပြည်၌၊ ဓမ္မကရိုဏ်တော်၊ ခါးပန်းတော်တို့သည် ပါတလိပုတ်ပြည်၌၊ ရေသနုပ်တော်သည် စမ္ပာပြည်၌၊ ဥဏ္ဏာလုံ မွေးရှင်တော်သည် ကောသလတိုင်း၌၊ ရဟန်းပြုသောအခါ လဲတော်မူသော ကိုယ်ဝတ်တော်သည် အကနိဋ္ဌ ဗြဟ္မာ့ပြည်၌၊ ဦးရစ်တော်သည် တာဝတိံသာနတ်ပြည်၌၊ နိသီဒိုင်သည် အဝန္တိပြည်၌၊ မြေခင်းနှီးတော်သည် ဒေဝတိုင်း၌၊ မီးပွတ်တော်သည် မိဓိလာပြည်၌၊ ရေစစ်တော်သည် ဝိဒေဟတိုင်း၌၊ ပဲခွပ်တော်သည်လည်းကောင်း၊ အပ်ကျည်သည်လည်းကောင်း ဣန္ဒ ပတ္ထနဂိုရ်ပြည်၌ တည်သည်။ ကြွင်းသော ပရိက္ခရာတော်တို့သည် အပရန္တ ဇနပုဒ်၌ တည်သည်။ 74
B

ထိုဓာတ်ပရိက္ခရာတို့ ရောက်ရာဌာန၌ စေတီတည်ကြသည်ချည်းဟု ထူပဝင်၌ လာသည်။ နောက်ကာလတို့၌ ဆင့်၍ဆင့်၍ ရောက်သည်ကားများ၏။

❖❖❖❖❖

## ၇၁၀။ လိင်ဇာတ်တော်သည်၊အိမ်နှင့်တည်၊သုံးမည်စလုံး ငြားလိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အဏ္ဍာနှစ်ခုမှာမူကား ယောက်ျားဟူသမျှ၌ပင် အအိမ်နှင့်တည်ပြီ။ နိမိတ်တစ်ခု သာလျှင် လက္ခဏာကြီးနှင့် မပြည့်စုံသောသူတို့အား အအိမ်နှင့် မတည်သတတ်။ ဘုရားသခင်မှာမူကား တစ်ပါးသူတို့ထက် ကဲလွန်သော မဟာပုရိသ လက္ခဏာနှင့် ပြည့်စုံသောအရှင်ဖြစ်၍ အခါခပ်သိမ်း အအိမ်၌ကိန်းသော လိင်ရှိသောဂုဏ်နှင့် ပြည့်စုံသောကြောင့် ''ကောသောဟိတ ဝတ္ထဂုယှ'' လက္ခဏာတော်ကိုရသည်ဟု အထူးပြု၍ ကျမ်းဂန်၌ ဆိုသည်။ အကြွင်းကိုကား ယုံမှားဖွယ်မရှိပြီ။ သုံးခုစလုံးပင် အအိမ်၌တည်၏ဟု မှတ်ရာသည်။

❖❖❖❖❖

## ၇၁၁။ ဗြဟ္မာနတ်ပြည်၊စေတီတည်၊မည်သည့်အုတ်နှင့် တည်လိမ့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗြဟ္မာ့ပြည်၌ တည်သော စေတီသည် လူ့ပြည်၌ကဲ့သို့ အုတ်ဖြင့် တည်ရသည် မဟုတ်။ မိမိတို့၏ ဘုန်းကံကြောင့်ဖြစ်သော ကမ္ဗဇမိမာန်နှင့်တူသော အလိုအားလျော်စွာ ပေါ်လာသောစေတီ၌ သွင်း၍သာ ကိုးကွယ်လေသည်။

ထို့ကြောင့် ဇိနာလင်္ကာရ၌–

**နိဝတ္ထသာဋကံ ဂဟေတွာ ''သစေ ကောန္တေန ဗုဒ္ဓေါ ဘဝိဿာမိ၊ ဣမံ သာဋကံ အာကာသေ တိဋ္ဌတု။ နော စေ ဘူမိယံ ပတတူ'' တိ အာကာသံ ခိပိ။ တံ မဟာဗြဟ္မာ ဂဟေတွာ ဗြဟ္မလောကေ ဒွါဒသယောဇနိကေ ဒုဿထူပေ ပတိဋ္ဌပေတွာ ပူဇမကာသိ။**

သော၊ ထိုဘုရားအလောင်းသည်။ နိဝတ္ထသာဋကံ၊ ဝတ်တော်မူသော ပုဆိုးကို။ ဂဟေတွာ။ ကိုင်၍။ သစေ၊ အကယ်၍။ ကောန္တေန၊ စင်စစ်သဖြင့်။ ဗုဒ္ဓေါ၊ ဘုရားသည်။ ဘဝိဿာမိ၊ ဖြစ်လတ္တံ့။ ဣမံ သာဋကံ၊ ဤပုဆိုးသည်။ အာကာသေ၊ ကောင်းကင်၌။ တိဋ္ဌတု၊ တည်စေသတည်း။ စေ၊ အကယ်၍။ နော ဘဝိဿာမိ၊ မဖြစ်လတ္တံ့။ ဘူမိယံ၊ မြေ၌။ ပတတု၊ ကျစေသတည်း၊ ဣတိ၊ ဤသို့။ အဓိဋ္ဌဟိတွာ၊ ဓိဋ္ဌာန်၍။ အာကာသံ၊ ကောင်းကင်ပြင်သို့။ ခိပိ၊ ပစ်၏။ တံ၊ ထိုပုဆိုးတော်ကို။ မဟာဗြဟ္မာ၊ ဃဋိကာရ ဗြဟ္မာ ကြီးသည်။ ဂဟေတွာ၊ ယူ၍။ ဗြဟ္မလောကေ၊ သုဒ္ဓါဝါသဗြဟ္မာ့ပြည်၌။ ဒွါဒသ

ယောဇနိကော၊ တစ်ဆယ့်နှစ်ယူဇနာရှိသော။ ဒုဿထူပေ၊ ဒုဿစေတီ၌။ ပတိဋ္ဌပေတွာ၊ သွင်း၍။ ပူဇံ ပူဇော်ခြင်းကို။ အကာသိ၊ ပြု၏။ ဟုဆိုသည်။

ဤနည်းတူ မဟာမာယာဝတ္ထု၌လည်း ''ဗြဟ္မာလောကေဒွါဒသယောဇနုဗ္ဗေဓံ စေတိယမကာသိ'' ဟူ၍ ဆိုသည်။

တာဝတိံသာနတ်ပြည်၌ တည်သော စေတီမှာမူကား–ဣန္ဒနီလာကျောက်ဖြင့် တည်သည်ဟူ၍ ထူပဝင်၌ ဆိုသည်။

ဗုဒ္ဓဝင်အဋ္ဌကထာ၌ကား– ရတနာခုနစ်ပါးတို့ဖြင့် တည်သည်ဟူ၍ ဆိုသည်။ ။ပါဌ်ကား–

**ပဋိဂ္ဂဟေတွာစ ဒေဝလောကံ နေတွာ သိနေရုမုဒ္ဒနိ တိယော ဇနပ္ပမာဏံ ဣန္ဒနီလမဏိမယံ စူဠာမဏိစေတိယံနာမ အကာသိ။ ။ (ထူပဝင်)။**

**ဗောဓိသတ္တော သဟ မောဠိယာ စူဠံ ဂဟေတွာ ''သစာဟံ ဗုဒ္ဓေါ ဘဝိဿာမိ၊ အာကာသေ တိဋ္ဌတု။ နော စေ ဘူမိယံ ပတတု'' တိ အာကာသေ ခိပိ။ စူဠာမဏိဗန္ဓနံ ယောဇနပ္ပမာဏံ ဌာနံ ဂန္တွာ အာကာသေ အဋ္ဌာသိ။ အထ သက္ကော ဒေဝ ရာဇာ ဒိဗ္ဗေန စက္ခုနာ ဩလောကေန္တော ယောဇနိကေန ရတနစင်္ကောဋကေန တံ ပဋိဂ္ဂဟေတွာ တာဝတိံသာ ဘဝနေ တိယောဇနံ သတ္တရတနမယံ စူဠာမဏိစေတိယံ အကာသိ။ ။ ဗုဒ္ဓဝင်ပါဌ်။ အနက်သိသာ၏။)**

◆◆◆◆◆

## ၈၁၂။လူ့ပြည်နတ်ပြည်၊ ဆံတော်တည်၊မည်သည်မြတ်၏ ကျမ်းလာနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဘုရားသခင်ဆံတော်ချည်းဖြစ်၍ အတူတူပင်ဟု ဆိုဖွယ်ရှိ၏။ ထိုသို့ဖြစ်ငြား သော်လည်း 'မြတ်'ဟူသော စကားသည် သာလွန်၍ စီးပွားဖြစ်သည်ကိုလည်း ခေါ်သည်။ ထူးကဲသည်ကိုလည်း 'မြတ်သည်'ဟု ခေါ်သည်။ စင်ကြယ်ကောင်းမွန် သည်ကိုလည်း 'မြတ်သည်'ဟု ခေါ်သည် ယင်းသို့ ခေါ်ရကား နတ်ပြည်၌တည်သော ဆံတော်သည် နတ်ဗြဟ္မာတို့သာ ပူဇော်ရသည်ဖြစ်၍ နတ်ဗြဟ္မာတို့၏ ကောင်းကျိုး စီးပွားသာဖြစ်သည်။ လူ့ပြည်၌တည်သော ဆံတော်ကိုကား လူ, နတ်ဗြဟ္မာသုံးရွာ ဘုံသားတို့ပင် ပူဇော်ရသည် ဖြစ်၍ လူသုံးပါးတို့၏ ကောင်းကျိုးစီးပွားများခြင်း၏ အကြောင်းဖြစ်ရကား လူ့ပြည်၌ တည်သော ဆံတော်သည် သာလွန်၍ မြတ်၏ဟု ဆိုသင့်သည်။ [ကျမ်းလာတိုက်ရိုက် မတွေ့ချေ]။

◆◆◆◆◆

၅၁၃။ ကလလရေကြည်၊ သန္ဓေတည်၊ မည်သည့်နာမ်,ရုပ် ရှေးဦးနည်း။ (၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဂဗ္ဘသေယျကသတ္တာနဉှိ ပဋိသန္ဓိက္ခဏေပဉ္စက္ခန္ဓာအပစ္ဆာ အပုရေ ကေတော ပါတုဘဝန္တိ။ တသ္မိံခဏေ ပါတုဘူတာ ကလလသင်္ခါတာ ရူပသန္တတိ ပရိတ္တာ ဟောတိ ခုဒ္ဒကမက္ခိကာယ ကေဝါယာမေန ပါတဗ္ဗ မတ္တာတိ ဝတွာ ပုန အတိဗဟု တေံ။ သဏှ သူစိယာ တေလေ ပက္ခိပိတွာ ဥက္ခိတ္တာယ ပဂ္ဃရိတွာ အဂ္ဂေ ဌိတဗိန္ဒု မတ္တန္တိ ဝုတ္တံ။ တမ္ပိပဋိက္ခိပိတွာ ကေကေသေ တေလတော ဥဒ္ဓရိတွာ ဂဟိတေ တဿ ပဂ္ဃရိတွာ အဂ္ဂေဌိတ ဗိန္ဒု မတ္တန္တိဝုတ္တံ။ တံ ပဋိပက္ခိပိတွာ ဇမ္ဗုဒီပေ မနုဿာနံ ကေသေ အဋ္ဌမာဖာလိတေ တတော ကေ ကောဋ္ဌာသပ္ပမာဏော ဥတ္တရကုရုကာနံ ကေသော၊ တဿ ပသန္န တိလတေလတော ဥဒ္ဓဋဿ အဂ္ဂေဌိတဗိန္ဒု မတ္တန္တိ ဝုတ္တံ။ တမ္ပိ ပဋိက္ခိပိတွာ တေံဗဟု၊ ဇာတိဥဏ္ဏာ နာမ သုခုမာ။ တဿာ ကေအံသုနော ပသန္န တိလတေလေ ပက္ခိပိတွာ ဥဒ္ဓဋဿ ပဂ္ဃရိတွာ အဂ္ဂေ ဌိတဗိန္ဒုမတ္တန္တိ ဝုတ္တံ။ တံပနေတံ အစ္ဆံ ဟောတိ ဝိပ္ပသန္နံ အနာဝိလံ ပရိသုဒ္ဓံ ပသန္နတိလ တေလ ဗိန္ဒုသမာန ဝဏ္ဏံ။ ဝုတ္တမ္ပိ စေတံ-

တိလတေလဿ ယထာ ဗိန္ဒု၊ သပ္ပိမဏ္ဍော အနာဝိလော
ဧဝံ ဝဏ္ဏပ္ပဋိဘာဂံ၊ ကလလံ သံပဝုစ္စတီတိ။

ဧဝံ ပရိတ္တာယ ရူပသန္တတိယာ တီဏိသန္တတိသီသာနိ ဟောန္တိ ဝတ္ထုဒသကံ၊ ကာယဒသကံ၊ ဣတ္ထိယာ ဣတ္ထိန္ဒြိယဝသေန ပုရိသဿ ပုရိသိန္ဒြိယ ဝသေန ဘာဝဒသကန္တိ။ တတ္ထဝတ္ထုရူပံ တဿ နိဿယာနိ စတ္တာရိ မဟာဘူတာနိ၊ တန္နိဿိတာ ဝဏ္ဏဂန္ဓရသောဇာ ဇီဝိတန္တိ ဣဒံ ဝတ္ထုဒသကံနာမ။ ကာယပသာဒေါ တဿ နိဿယာနိ စတ္တာရိ မဟာ ဘူတာနိ၊ တန္နိဿိတာ ဝဏ္ဏဂန္ဓရသောဇာ ဇီဝိတန္တိ ဣဒံ ကာယ ဒသကံနာမ။ ဣတ္ထိယာ ဣတ္ထိဘာဝေါ၊ ပုရိသဿ ပုရိသဘာဝေါ၊ တဿ နိဿယာနိ စတ္တာရိ မဟာဘူတာနိတန္နိဿိတာ ဝဏ္ဏဂန္ဓရသောဇာ ဇီဝိတန္တိဣဒံဘာဝဒသကံနာမ။ ဧဝံ ဂဗ္ဘသေယျကာနံ ပဋိသန္ဓိယံ ဥက္ကဋ္ဌပရိစ္ဆေဒေန သမတိံသ ကမ္မဇရူပါနိ ရူပက္ခန္ဓောနာမ ဟောတိ။ ပဋိသန္ဓိစိတ္တေန ပန သဟဇာတာဝေဒနာ ဝေဒနာက္ခန္ဓော။ သညာ သညာ က္ခန္ဓော။ သင်္ခါရာ သင်္ခါရက္ခန္ဓော။ ပဋိသန္ဓိ စိတ္တံဝိညာဏက္ခန္ဓောတိ ဧဝံ ဂဗ္ဘသေယျကာနံ ပဋိသန္ဓိက္ခဏေ ပဉ္စက္ခန္ဓာ ပရိပုဏ္ဏာ ဟောန္တိ။

ဟူ၍ သမ္မောဟဝိနောဒနီ အဋ္ဌကထာ၌ လာသောနည်းအားဖြင့် သိအပ်၏။

မြန်မာဘာသာကား။ ။ အမိဝမ်း၌ကိန်း၍ ပဋိသန္ဓေယူရသော သတ္တဝါတို့အား ပဋိသန္ဓေခဏ၌ပင် ခန္ဓာငါးပါးတို့သည် မရှေးမနှောင်း တစ်ပြိုင်နက် ထင်ရှားဖြစ်ကုန်၏။

ထိုခဏ၌ ထင်ရှားဖြစ်သော 'ရေကြည်'ဟု ဆိုအပ်သော ရုပ်အစဉ်သည် အလွန်နည်း၏။ ယင်ငယ်တစ်ကြိမ်သော လုံ့လဖြင့် သောက်လောက်ရုံမျှသာဖြစ်၏။ ဤသို့ဆိုပြီး၍ တစ်ဖန် ဤပမာဏပင်များလှသေး၏။ သိမ်မွေ့စွာသော အပ်ကို ဆီ၌ချ၍ ဆယ်လတ်သော် အပ်သွားဖျား၌ ပါသောဆီမှ ဆယ်ယူအပ်သည်ရှိသော် ထိုဆံဖျား၌ပါသော ဆီပေါက်မျှသာ ဖြစ်သည်ဟု ဆိုပြန်၏။ ထိုစကားကိုလည်း ပယ်ပြန်၍ ဆံတစ်ချောင်းကို ဆီပေါက်မျှသာ ဖြစ်ဟုဆို၏။ ထိုစကားကိုလည်း ပယ်ပြန်၍ ဤဇမ္ဗူဒိပ်ကျွန်းသားတို့၏ ဆံပင်ကို ရှစ်စိတ်စိတ်၍ တစ်စိတ်ခန့်မျှသည် ဥတ္တရကုရုကျွန်းသူ တို့၏ ဆံပင်ဖြစ်၏။ ထိုဆံပင် တစ်မျှင်နှင့် ကြည်လင်စွာသော ဆီ၌နှစ်သော် ဆံဖျားတွင် ပါသော ဆီပေါက်မျှ လောက်သာ ဖြစ်၏ဟူ၍လည်း ဆိုပြန်၏။ ထိုပမာဏကိုလည်း များသေးသည်ဟု ပယ်ပြန်၍ ဟိမဝန္တာဝယ် ဇာတိဥဏ္ဏာမည်သော သိမ်မွေ့သော သားသတ္တဝါသည်ရှိ၏။ ထိုသား၏ တစ်ပင်သောအမွေးကို ကြည်စွာသောဆီ၌ နှစ်၍ အဖျား၌ ကပ်လျက်ပါသော ဆီပေါက်ပမာဏမျှသာ ဖြစ်၏ဟူ၍ ဆိုကုန်၏။ ထိုသားမွေးဖျား၌ရောက်သော ဆီပေါက်မျှသောရုပ်သည် အလွန်ကြည်လင်သန့်ရှင်း၏။ ထို့ကြောင့် မြတ်စွာဘုရားသည် ''တိလတေလဿ တထာ ဗိန္ဒု''အစရှိသော ဂါထာကို ဟောတော်မူသတည်း။

ဤသို့သေးဖွဲ့ငယ်နသော ရုပ်အစဉ်၌ ဝတ္ထုဒသက, ကာယဒသက,မိန်းမတို့အား ဣတ္ထိန္ဒြေ၊ ယောက်ျားတို့အား ပုရိသိန္ဒြေ၏အစွမ်းဖြင့်ဖြစ်သော ဘာဝဒသကဟူ၍ သုံးပါးသော ရုပ်အရင်းတို့သည် ဖြစ်ကုန်၏။ ထိုသုံးပါးတို့တွင် ဝတ္ထုရုပ်သည် မိမိ၏မှီရာ ဖြစ်သော မဟာဘုတ်လေးပါး။ ထိုကိုမှီသော ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇ၊ ဇီဝိတ ဟူသော ရုပ်ကိုးပါးတို့နှင့် တပေါင်းတည်းဖြစ်၍ ဝတ္ထုဒသကမည်၏။ ကာယပသာဒသည် မိမိ၏မှီရာဖြစ်သော မဟာဘုတ်လေးပါး။ ထိုကိုမှီသော ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇာ၊ ဇီဝိတဟူသော ရုပ်ကိုးပါးတို့နှင့် တပေါင်းတည်းဖြစ်၍ ကာယဒသကမည်၏။ ဣတ္ထိဘာဝ, ပုမ္ဘာဝသည် မိမိ၏မှီရာဖြစ်သော မဟာဘုတ်လေးပါး။ ထိုကိုမှီသော ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇ၊ ဇီဝိတဟူသော ရုပ်ကိုးပါးတို့နှင့် တပေါင်းတည်းဖြစ်၍ ဘာဝဒသက မည်၏။ ဤသို့ ဂဗ္ဘသေယျကသတ္တဝါတို့အား လွန်သောအပိုင်းအခြားအားဖြင့် အမျှ သုံးဆယ်သော ကမ္မဇရုပ်တို့သည် ပဋိသန္ဓေစိတ်နှင့် တစ်ပြိုင်နက် ဖြစ်ကုန်၏။ ထိုရုပ်တို့သည် ရူပက္ခန္ဓာမည်ကုန်၏။ ပဋိသန္ဓေစိတ်နှင့်တကွဖြစ်သော ဝေဒနာသည် ဝေဒနာက္ခန္ဓာမည်၏။ သညာသည် သညာက္ခန္ဓာမည်၏။ ကြွင်းသော စေတသိက်တို့သည် သင်္ခါရက္ခန္ဓာ မည်ကုန်၏။ ပဋိသန္ဓေစိတ်သည် ဝိညာဏက္ခန္ဓာမည်၏။ ဤသို့ ပဋိသန္ဓေ ခန္ဓခဏ၌ပင် ခန္ဓာငါးပါး တစ်ပြိုင်နက်ဖြစ်၏ ဟူလိုသည်။

[ပါဠိ၌ကိုအနက်ရေးလျှင်ကျယ်အံ့စိုးသောကြောင့် အဓိပ္ပါယ်ကိုသာ ရေးလိုက်သည်။ အနက်ကိုလိုလျှင် အဓိပ္ပါယ်ကိုမှီ၍ ယောဇနာလေ]။

ဤသို့ကျမ်းလာသည်ကိုမှီ၍ နရသီဟပျို့ဆရာသည်–

ဇမ္ဗူဒီပါ၊ ကျွန်းမျက်နှာ၌၊ များစွာရပ်နေ၊ လူဗိုလ်ခြေ၏၊ ထိပ်ဖွေဦးခေါင်း၊ ဆံတစ်ချောင်းကို၊ တတ်ကောင်းစိတ်ဖြာ။ ဆယ့်ခြောက်လွှာမှ၊ မြောက်မှာကျွန်းသူ၊ လူတို့ဆံနှင့်၊ နှိုင်းစံတူကြ၊ တစ်ပင်ရလျက်၊ ထိုထက်တစ်ဖန်၊ ဆယ့်ခြောက်ပြန်မှ၊ အလွန်တရာ၊ သိမ်မွေ့စွာသား၊ ရွှေစာမရီ၊ သားဇောီ၏၊ နီဆီအပါး၊ လက်တီး ကြား၌၊ ရောက်ငြားဖွဲ့သေး၊ ထိုအမွေးနှင့် ဆယ့်ခြောက်ပြန်ရာ၊ စစ်ပြီးစွာသား၊ နှမ်းဆီအားဝယ်၊ နှစ်ထားဖျားငြီ၊ စွတ်သည်ရှိလျှင်၊ ပဋိသန္ဓေ၊ တည်နေအစ၊ ကလလမှ၊ သတ္တာဟချည်း၊ ပေါင်းစည်းပေါင်းငြိမ်း၊ ဒွတ္တိံသာကာရာ၊ အင်္ဂါအပြား၊ ခတ်လေးပါးမှ၊ တခြားဥတု၊ စိတ်ကံပြုသား၊ မာတုဘုဋ္ဌ၊ အာဟာရမှူ၊ တိသတ္တာဟ၊ ချက်ကဝင်ထွေ၊ မျှတုံပေ၏။ မြဲနေဆယ်လ၊ သန္ဓေပသည်။ ။ ကာလမြင့်မြဲ ကြာတင်တည်း။

ဤသို့သော ကျမ်းလာသည်ကို ထောက်ဆ၍ အဏ္ဍဇ, ဇလာဗုဇဟူသော သတ္တဝါတို့ သန္ဓေတည်သောအခါ ပဋိသန္ဓေစိတ်၊ ထိုစိတ်နှင့် သမ္ပယုတ်ဖြစ်သော စေတသိက်၊ ကမ္မဇရုပ်သုံးဆယ်တို့သည် တစ်ပါးသော နာမ်, ရုပ်တို့၏ ရှေးဦးစွာ ဖြစ်၏ဟု သိရာသည်။

❖❖❖❖❖

## ၇၁၄။ ရုပ်နာမ်နှစ်တည်၊ စုတေ့သည်၊ မည်သူနောက် ကျန်ရစ်သနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**မရဏကာလေ ပန စုတိစိတ္တောပရိသတ္တရသမစိတ္တဿ ဌိတိကာလ မုပါဒါယ ကမ္မဇရူပါနိ န ဥပ္ပဇ္ဇန္တိ။ ပုရေတရမုပ္ပန္နာနိစ ကမ္မဇရူပါနိ စုတိစိတ္တ သမကာလမေဝ ပဝတ္တိတွာ နိရုဇ္ဈန္တိ။ တတော ပရံ စိတ္တဇာဟာရဇ ရူပဉ္စ ဝေါစ္ဆိဇ္ဇတိ။ တတော ပရံ ဥတုသမုဋ္ဌာန ရူပပရမ္ပရာ ယာဝမတ ကဠေဝရသင်္ခါတာ ပဝတ္တန္တိ။**

ဟူ၍ အဘိဓမ္မတ္ထသင်္ဂြိုဟ် မိန့်ဆိုသည်နှင့်အညီ သတ္တဝါတို့ သေခါနီးကာလ စုတိစိတ်၏ အထက်၌ရှိသော ဆယ့်ခုနစ်ချက်မြောက်ဖြစ်သော စိတ်၏ဌီကာလကို အစပြု၍ ကမ္မဇရုပ်တို့သည် အသစ်မဖြစ်ကုန်ပြီ။ စုတိစိတ်၏ အထက်၌ရှိသော တစ်ဆယ့်ခုနစ်ချက် မြောက်သော စိတ်၏ဥပ္ပါဒက္ခဏ၌ဖြစ်သော ကမ္မဇရုပ်သည်လည်း စုတိစိတ်နှင့်မျှသော ကာလတိုင်ရှိသာလျှင်ဖြစ်၍ ချုပ်၏။ ထို့နောက်၌ စိတ္တဇရုပ် အာဟာရဇရုပ်တို့သည်လည်း ပြတ်စဲလေကုန်၏။ ထိုမှနောက်ကာလ၌ ဥတုသမုဋ္ဌာန်ဖြစ်သော ရုပ်အဆက်ဆက်သာလျှင် သေ၍ အကောင်ပုပ်ဖြစ်သည်ဟု ဆိုအပ်သည်တိုင်အောင် ဖြစ်ကုန်၏။ ယင်းသို့ ကျမ်းလာရကား ဥတုသမုဋ္ဌာန် ရုပ်နောက် ကျန်ရစ်၏ဟူပေ၏။

ကမ္မဇရုပ်သည် စုတိနှင့်မျှ၍ ချုပ်ပြီးသော နောက်မှ စိတ္တဇရုပ်တို့ပြတ်၏ဟူသော် အဘယ်မျှလောက် နောက်ကျသနည်း ဟူငြားအံ့–

**တတော ပရံ စိတ္တဇာဟာရဇရူပဋ္ဌ ဝေါစ္ဆိဇ္ဇတီတိ အဇီဝက သန္တာနေ တေသံ ဥပ္ပတ္တိယာ အဘာဝတော ယထာ နိဗ္ဗတ္တံ စိတ္တဇမာဟာရဇဋ္ဌ တတော ပရံ ကိဉ္စိကာလံ ပဝတ္တိတွာ နိရုဇ္ဈတိ။**

ဟူ၍ ဋီကာကျော်မိန့်၏။

**အဓိပ္ပါယ်ကား။** ။ ထို စိတ္တဇရုပ် အာဟာရဇတို့သည် အသက်မရှိသောသူ၏ သန္တာန်၌ ဖြစ်ခြင်းမရှိသောကြောင့် အကြင် မရဏာသန္နဝီထိစိတ်တို့၏ ဥပါဒ်ခဏ၌ဖြစ်သော စိတ္တဇ အာဟာရဇရုပ်တို့သည် ကမ္မဇရုပ် ချုပ်သည့်နောက် စိုးစဉ်းသောကာလမျှဖြစ်၍ ချုပ်၏ ဟူလိုသည်။

ဝိသုဒ္ဓိမဂ် မဟာဋီကာကိုစီရင်သော အရှင် ဓမ္မပါလကား စိတ္တဇ အာဟာရဇရုပ်တို့သည် ကမ္မဇရုပ်ချုပ်ပြီးသည့်နောက် စိတ္တက္ခဏ တစ်ဆယ့်ခုနစ်ချက်ခန့် ကြာမှ ချုပ်သည်ဆို၏။ ။ သင်္ခေပဋီကာလည်း ဤဝါဒကိုပင် ဂါဝရပြု၍ ပြ၏။

❖❖❖❖❖

၅၁၅။ ကုသိုလ်ပြုသည်၊ အိပ်မက်သည်၊ ကြည်လင်ကောင်းကျိုးပေးလိမ့်နည်း။(၇)

၅၁၆။ မကောင်းမှုပြုသည်၊ အိပ်မက်သည်၊ လေးမည်ပါယ်ရောက်ချိမ့်နည်း။(၈)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား–

**တေနာယံ သုပိနော ကုသလော ပိ ဟောတိ အကုသလော ပိ အဗျာကတော ပိ။ တတ္ထ သုပိနန္တေ စေတိယဝန္ဒန ဓမ္မဿဝန ဓမ္မဒေသနာဒီနိ ကရောန္တဿ ကုသလော။ ပါဏာတိပါတာဒီနိ ကရောန္တဿ အကုသလော။ ဒွီဟိအန္တေဟိ မုတ္တော အာဝဇ္ဇန တဒါရမ္မဏက္ခဏေ အဗျာကတောတိ ဝေဒိတဗ္ဗော။သွာယံ ဒုဗ္ဗလ ဝတ္ထုကတ္တာ စေတနာယ ပဋိသန္ဓိ အာကမိတုံ အသမတ္ထော။ ပဝတ္တေ ပန အညေဟိ ကုသလာ ကုသလေဟိ ဥပတ္ထမ္ဘိတော ဝိပါကံ ဒေတိ။ ကိဉ္စာပိ ဝိပါကံ ဒေတိ။ အထခေါ အဝိသယေ ဥပ္ပန္နတ္တာ အဗ္ဗောဟာရိကာဝ သုပိနန္တစေတနာ။ ။ (ပါရာဇိကကဏ်အဋ္ဌကထာ)**

**အနက်ကား။** ။ တေန၊ ထို့ကြောင့်။ အယံ သုပိနော၊ ဤအိပ်မက်သည်။ ကုသလောပိ၊ သည့်လည်း။ ဟောတိ၊ ဖြစ်၏။ အကုသလောပိ၊ အကုသိုလ်သည်လည်း။ ဟောတိ၊ ဖြစ်၏။ အဗျာကတောပိ၊ အဗျာကတသည်လည်း။ ဟောတိ၊ ဖြစ်၏။ တတ္ထ၊ ထိုသုံးပါးသော ကုသိုလ်, အကုသိုလ်, အဗျာကတတို့တွင်။ သုပိနန္တေ၊ အိပ်မက်၏ အတွင်း၌။ စေတိယဝန္ဒနဓမ္မဿဝနဓမ္မဒေသနာဒီနိ၊ စေတီကို ရှိခိုးခြင်း တရားနာခြင်း၊

တရားဟောခြင်း အစရှိသည်တို့ကို။ ကရောန္တဿ၊ ပြုသောပုဂ္ဂိုလ်အား။ ကုသလော၊ ကုသိုလ်သည်။ ဟောတိ၊ ဖြစ်၏။ ပါဏာတိပါတာဒီနိ၊ သူ့အသက်သတ်ခြင်း အစရှိသည်တို့ကို။ ကရောန္တဿ၊ ပြုသောပုဂ္ဂိုလ်အား။ အကုသလော၊ အကုသိုလ်သည်။ ဟောတိဖြစ်၏။ ဣတိအနေ့ဟိ၊ နှစ်ပါးသောအဖို့တို့မှ၊ မုတ္တော၊ လွတ်သော။ အာဝဇ္ဇနတဒါရမ္မဏက္ခဏေ၊ အာဝဇ္ဇန်း, တဒါရုံခဏ၌။ အဗျာကတောတိ၊ အဗျာကတဟူ၍။ ဝေဒိတဗ္ဗော၊ သိအပ်၏။ သွာယံသုပိနော၊ ထိုအိပ်မက်သည်။ စေတနာယ၊ စေတနာ၏။ ဒုဗ္ဗလဝတ္ထုကတ္တာ၊ အားနည်းသောဝတ္ထုရှိသည်၏ အဖြစ်ကြောင့်။ ပဋိသန္ဓိံ၊ ပဋိသန္ဓေကို။ အာကမိုတုံ၊ ငင်ခြင်းငှာ။ အသမတ္ထော၊ အစွမ်းနိုင်။ ပဝတ္တေ ပန၊ ပဝတ္တိအခါ၌ကား။ အညေဟိ၊ တစ်ပါးကုန်သော။ ကုသလာကုသလေဟိ၊ ကုသိုလ် အကုသိုလ်တို့သည်။ ဥပတ္ထမ္ဘိတော၊ ထောက်ပံ့အပ်သည်ဖြစ်၍။ ဝိပါကံ၊ အကျိုးကို။ ဒေတိ၊ ပေး၏။ ဝိပါကံ၊ အကျိုးကို။ ကိဉ္စာပိ ဒေတိ၊ အကယ်၍ပေး၏ရှင့်။ အထခေါ်၊ ထိုသို့ပေးသော်လည်း။ အဝိသယေ၊ အရာမဟုတ်သည်၌။ ဥပ္ပန္နတ္တာ၊ ဖြစ်သည်၏အဖြစ်ကြောင့်။ သုပိနန္တစေတနာ။ အိပ်မက်အတွင်း၌ဖြစ်သော ကုသိုလ် အကုသိုလ် စေတနာသည်။ အဗ္ဗောဟာရိကာဝ၊ ဖနကကံမခေါ်လောက်သည်သာတည်း။

ဤစကား၌ စောဒနာဖွယ် အသွယ်သွယ်ရှိသည်ကို ဆိုလိုက်ဦးအံ့–

အိပ်မက်ထင်သော အာရုံ၌ ကုသိုလ်စိတ်, အကုသိုလ်စိတ်တို့သည် အကယ်၍ ဖြစ်အံ့–အဘိဓမ္မာဋီကာတို့၌ အိပ်မက်ဖြင့် မြင်သကဲ့သို့ ငါ့အား ထင်လတ်ဘိသတည်း ဟု ဆိုရသောအခါ၌ ပဉ္စဒွါရ ဒုတိယမောဃဝါရဝီထိ၌ ဝုဋ္ဌောနှစ်ကြိမ် သုံးကြိမ်ဖြစ်သကဲ့သို့ မနောဒွါရ၌ လည်း အဗျာကတဖြစ်သော မနောဒွါရာဝဇ္ဇန်းသာလျှင် နှစ်ကြိမ်လည်း ကောင်း၊ သုံးကြိမ်လည်းကောင်းဖြစ်၍ ဇော၏အရာ၌ တည်၍ ဘဝင်ကျလေသည်ဟု ဆိုသည်။ ထိုစကားနှင့် ဘယ်သို့ညီအံ့နည်း။ ဆန့်ကျင်ရာသည်မဟုတ်ပါလောဟူငြားအံ့။ မဆန့်ကျင် ဟူပေ။ အဘယ်ကြောင့်နည်းဟူမူ ထိုဆရာတို့၏ စကားသည် မထင် လွန်းသော အာရုံ၌ဖြစ်သော စိတ်ကိုသာပြသည်။ ထင်ရှားသော ဝိဘူတာရုံ၌ကား ဇောသာမကမူ၍ တဒါရုံတိုင်အောင် ဖြစ်သေး၏။ ထို့ကြောင့် တေရသကဏ်ဋီကာ၌–

ယဒိပိ သုပိနန္တေ ဝိဘူတံ ဟုတွာ ဥပဋ္ဌိတေ ရူပါဒိဝတ္ထုမှိ တဒါရမ္မဏံပဝတ္တ၊

ဟူ၍ မိန့်၏။

အိပ်မက်မြင်သောသူသည် မနောဒွါရိကဇောဖြင့်သာလျှင် မြင်၏။ ပဉ္စဒွါရိက ဇောဖြင့် မမြင်။ နိုးသောအခါလည်း မနောဒွါရိကဇောဖြင့်သာ နိုး၏။ ပဉ္စဒွါရိကဇောဖြင့် မနိုး။ ထိုစကားသည် မှန်၏။ အိပ်ပျော်သောသူအား နိုးစိမ့်သောငှာ ကြီးစွာသော ဆီမီးကိုညှိ၍ မျက်ဟိ၏ အနီးသို့ ဆောင်လေသော် ရှေးဦးစွာ ပဉ္စဒွါရာဝဇ္ဇန်းသည် ဘဝင်ကိုမလည်စေ။ မနောဒွါရာဝဇ္ဇန်းသာလျှင် ဘဝင်ကိုလည်စေပြီးမှ ဇောစိတ် ခုနစ်ကြိမ်ကျ၍ ဘဝင်သို့သက်၏။ ထို့နောက်မှ ပဉ္စဒွါရာဝဇ္ဇန်း, စက္ခုဝိညာဉ်, သမ္ပဋိစ္ဆိုင်း,

သန္တီရဏ, ဝုဋ္ဌော, ဇောခုနစ်ကြိမ် တို့သည်ဖြစ်၍ ဘဝင်ကျ၏။ ထို့နောက် စက္ခုဖြင့် မြင်ပြီးသော မီးတည်းဟူသော အတိတ် ရူပါရုံကို အာရုံပြု၍ မနောဒွါရဇ္ဇန်း, ဇောခုနစ်ကြိမ်, ဘဝင်စိတ်တို့သည် ဖြစ်ကုန်၏။ ဤတတိယဝီဖြင့် ဤအရပ်၌ ဤမီးအလင်းသည် ဖြစ်သည်ဟုသိ၏။ ထို့အတူ အိပ်ပျော်သောသူ၏ နားအနီး၌ တူရိယာတို့ကို တီးသော်လည်းကောင်း၊ အိပ်ပျော်သောသူ၏ နှာခေါင်းအနီး၌ တစ်စုံတစ်ခုသောအနံ့ကို လှိုင်စေသော်လည်းကောင်း၊ အိပ်ပျော်သော သူ၏ ခံတွင်း၌ ထောပတ်တင်လဲစသည်ကို ထည့်သော်လည်းကောင်း၊ အိပ်ပျော်သောသူ၏ ကျောက်သားစသည်ကို ရိုက်ခတ်သော်လည်းကောင်း။ ရှေးဦးစွာ မနောဒွါရာ ဝဇ္ဇန်း၊ မနောဒွါရိကာဇောတို့သာလျှင် ဖြစ်ပြီးမှ ပဉ္စဒွါရိကဇောတို့သည် ဖြစ်လေသတည်း။ ထို့ကြောင့် ဘဝင်ကျ၍ အိပ်ပျော်သည်မှ ဖောက်ပြန်သော မျောက်မျဉ်း ကာမျှကာလ၌ ကျရောက်သော မနောဒွါရိကဇောတွင် အိပ်မက်မြင်သည်ဖြစ်ရကား အာရုံအားလျော်စွာ ကုသိုလ်စိတ်, အကုသိုလ်စိတ် အဗျာကတစိတ်ဖြစ်၏ဟူပေ။

ထို့ကြောင့်–

သုပိနံ ဟ ပဿန္တော မနောဒွါရိကေနော ဇဝနေန ပဿတိ။ န ပဉ္စဒွါရိကေန။ ပဋိဗုဇ္ဈန္တော စ မနောဒွါရိကေန ပဋိဗုဇ္ဈတိ။ န ပဉ္စဒွါရိကေန။

အစရှိသည်ဖြင့် တေရသကဏ်၌ မိန့်အပ်ပြီ။

ဟိသစ္စံ၊ မှန်၏။ သုပိနံ၊ အိပ်မက်ကို။ ပဿန္တော၊ မြင်သောသူသည်။ မနောဒွါရိကေနေဝ၊ မနောဒွါရိကလျှင်ဖြစ်သော။ ဇဝနေန၊ ဇောဖြင့်။ ပဿတိ၊ မြင်၏။ ပဉ္စဒွါရိကာန၊ပဉ္စဒွါရိကဇောဖြင့်။န ပဿတိ၊ မမြင်၊ ပဋိဗုဇ္ဈန္တောစ၊ နိုးသောအခါ၌လည်း။ မနောဒွါရိကေနဝ၊ မနောဒွါရ၌ဖြစ်သော ဇောဖြင့်သာလျှင်။ ပဋိဗုဇ္ဈတိ၊ နိုး၏။ ပဉ္စဒွါရ၌ ဖြစ်သော ဇောဖြင့်။ န ပဋိဗုဇ္ဈတိ မနိုး။ ။ဤသို့လာသော ကျမ်းဂန်ကို ထောက်၍ သိရာ၏ဟူပေ။

❖❖❖❖❖

## ၇၁၇။ ပြစ်မှားမိသည်။ ကန်တော့မည်၊ ပြစ်ခြည် ကုန်ခန်းပါလိမ့်နည်း။(၉)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား–

**ဒေါသေန ဟိ ဒုဋ္ဌော မာတာမိတူသုပိ စေတိယဗောဓိမှိပိ ပဗ္ဗဇိတေပိ အပရဇ္ဈိတွာ မယှံ ခမထာတိ အစ္စယံ ဒေသေတိ။ တဿ သဟာခမာပနေန တံ ကမ္မံ ပါကတိကမေဝ ဟောတိ။ ပယောဂသမ္ဘတ္တိယာ ဝိပါကဿ ပဋိဗာဟိ တတ္ထာ အဟောသိကမ္မဘာဝေန အဝိပါကဓမ္မတံ အာပန္နတ္တိ နေဝ သဂ္ဂါဝရဏဥ န မောက္ခာဝရဏဥဟောတိ။**

(တိကနိပါတ် အင်္ဂုတ္တိုရ်အဋ္ဌကထာ)

ဟိ၊ ထင်စွာဆိုဦးအံ့။ မာတာပိတူသုပိ။ မိခင်, ဖခင်တို့၌လည်းကောင်း။ စေတိယဗောဓိမှိပိ၊ စေတီ, ဗောဓိပင်၌လည်းကောင်း။ ပဗ္ဗဇိတေပိ၊ ရဟန်းသံဃာ၌လည်းကောင်း။ ဒေါသေန၊ အမျက်ဖြင့်။ ဒုဋ္ဌော၊ ဖျက်အပ်သည်ဖြစ်၍။ အပရဇ္ဈိတွာ၊ ပြစ်မှားမိသည်ရှိသော်။ မယှံ၊ အကျွန်ုပ်၏။ အစ္စယံ၊ လွန်ကျူးမိသောအပြစ်ကို၊ ခမထ၊ သည်းခံတော်မူပါလော့။ ဣတိ၊ ဤသို့။ ဒေသေတိ၊ ကန်တော့အံ့။ ဝါ။ တောင်းပန်ဝန်ချအံ့။ တဿ၊ ထိုသူအား။ ခမာပနေန၊ ကန်တော့သည်နှင့်။ သဟ၊ တကွ။ တံကမ္မံ၊ ထိုမကောင်းမှုကံသည်။ ပါကတိကမေဝ ပြကတေ့သာလျှင်။ ဟောတိ၊ ဖြစ်၏။ ပယောဂသမ္ပတ္တိယာ၊ ကောင်းသောလုံ့လ၏ ပြည့်စုံခြင်းသည်။ ဝိပါကဿ၊ အကျိုးကို၊ ပဋိဗာဟိတတ္တာ၊ တားမြစ်သည်၏ အဖြစ်ကြောင့်။ အဟောသိကမ္မာဘာဝေန အဟောသိကံ၏ အဖြစ်ဖြင့်။ အဝိပါကဓမ္မတံ၊ အကျိုးမပေးသောသဘောရှိသည်၏ အဖြစ်သို့။ အာပန္နံ၊ ရောက်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ သဂ္ဂါဝရဏဉ္စ၊ နတ်ပြည်ကို တားမြစ်တတ်သည်လည်း။ နေဝ ဟောတိ၊ မဖြစ်။ မောက္ခာဝရဏဉ္စ၊ မဂ်ဖိုလ်ကို တားမြစ်တတ်သည်လည်း။ နဟောတိ၊ မဖြစ်။

ဤသို့ ကျမ်းလာသောကြောင့် ကန်တော့လျှင် အပြစ်ကုန်ခန်း၏ဟူလိုသည်။

ကန်တော့၍ အပြစ်ပြေပျောက်ကြောင်း သက်သေကား–

သောရေယျပြည်၌ တစ်ဦးသော သူဌေးသားသည် နံနက်အခါ ဂင်္ဂါမြစ်၌ ရေချိုးခြင်းငှာ များစွာသော အခြံအရံနှင့်တကွ ထမ်းစင်စီး၍ မြစ်ဆိပ်သို့လာသည်တွင် မြို့ပြင်အပ တစ်ခုသောဌာန၌ မြို့တွင်းသို့ ဆွမ်းခံဝင်ခြင်းငှာ သင်္ကန်းရုံကာနေသော အရှင်မဟာကစ္စည်းထေရ်ကို မြင်၍ ''အရှင်ကား ရွှေချင်စဘွယ် တင့်တယ်လျောက်ပတ်လှ မြတ်သောအဆင်းအရောင်ရှိ၏။ ငါ၏မယားဖြစ်ပါမူကား ကောင်းလေစွ။ ငါ၏ မယား ကိုယ်အပြင်သည်လည်း ဤအရှင်၏ ကိုယ်အဆင်းကဲ့သို့ ဝင်းဝင်းမှည့်မှည့်ဖြစ်ပါကမူ အဆမတန် ချစ်ရာ၏'' ဟူ၍ ကြံစည်အောက်မေ့၏။ ထိုသို့ကြံစည်သော ခဏ၌ပင် ကိုယ်တွင်ရှိသော ပုရိသလိင်သည် ကွယ်ပျောက်ဘိ၍ ဣတ္ထိလိင်ဖြစ်လာ၏။ ထိုအခါ သူဌေးသားလည်း အလွန်ရှက်ရကား အခြံအရံတို့အား မကြားမသိစေပဲ ရေချိုးရာကပင် ဂင်္ဂါမြစ်ကမ်းနားမှ စုန်မျှော၍ လူမမြင်ရာမှတက်၍ ပြေးလေသဖြင့် တက္ကသိုလ်ပြည်သို့ ရောက်လေ၏။ ထိုပြည်၌ တစ်ဦးသော သူဌေးသားသည် မြင်လေသော် ခင်မင်စုံမက်ရကား မယားပြုလေသဖြင့် သားနှစ်ယောက်ကိုရ၏။ သောရေယျပြည်၌ ယောကျာ်း အဖြစ် ဖြင့်လည်း သားနှစ်ယောက် ရခဲ့၏။

တစ်ရံသောအခါ နေရင်းဖြစ်သော သောရေယျပြည်မှ မိတ်ဆွေသူဌေးတို့သည် လှည်းငါးရာနှင့် ကုန်ရောင်းလာသဖြင့် ထိုမိန်းမကို တွေ့၍ အကြောင်းကို မေးစေသဖြင့် အလုံးစုံသော အခြင်းအရာကို သိလေသော် ''အဆွေမ၊ အရှင်ကစ္စည်းမထေရ်မြတ်ကို ပူဇော်ကန်တော့ပါ''ဟု တိုက်တွန်းကြ၏။ ထိုမိန်းမသည် တိုက်တွန်းကြသောအတိုင်း အရှင်ကစ္စည်းထေရ်၏ အထံသို့သွား၍ များစွာသောပူဇော်ဖွယ်တို့ဖြင့် ပူဇော်ကန်တော့

လေလျှင် အရှင်မြတ်က ''သင်၏အပြစ်ကို ငါသည်းခံ၏။ ပြကတေ့သော ကောင်းကျိုးကို ရစေသတည်း'' ဟု ဆိုသောခဏ၌ ဣတ္တိလိင်ကွယ်ပ၍ ပုရိသလိင် ပေါ်မြဲပေါ်ပြန်၏။

ထိုအခါ သောရေယျ သတို့သားလည်း များစွာ သံဝေဂဖြစ်၍သားလေးယောက်တို့ကို အဘိုးတို့အား အပ်နှံခဲ့ပြီးမှ မထေရ်၏အထံ၌ ရဟန်းပြုလေ၏။ ရဟန်းဖြစ်၍ မကြာမီ ပဋိသမ္ဘိဒါလေးပါးနှင့်တကွ အရဟတ္တဖိုလ်ကိုရ၍ ''သောရေယျရဟန္တာ''ဟု ထင်ရှားစွာ ဖြစ်၏ဟု ဓမ္မပဒအဋ္ဌကထာ၌ လာသည်။

ဤသို့ လွန်ကျူးမိသောအပြစ်ကို ကန်တော့သည့်ရှိသော် နတ်ပြည်ကိုလည်း မတားမြစ်။ မဂ်ဖိုလ်ကိုလည်း မတားမြစ်။ စင်စစ် ပြေငြိမ်းသည်သာတည်း။ မကန်တော့မူကား နတ်ရွာမဂ်ဖိုလ်ကိုပင် တားမြစ်တတ်၏။

တားမြစ်ကြောင်း သက်သေကား–

ရာဇဂြိုဟ်ပြည်၌ မြို့ဝန်ပြု၍ စီရင်ရသော ဝဿကာရပုဏ္ဏားသည် တစ်ရံသောအခါ အရှင်မဟာကစ္စည်းထေရ်သည် ဂိဇ္ဈကုဋ်တောင်မှ လျင်စွာ သက်ဆင်းသည်ကိုမြင်၍ ''ဤအရှင်ကား မျောက်ကဲ့သို့တကား''ဟုဆို၏။ ထိုသို့ ကဲ့ရဲ့ကြောင်းကို ဘုရားသခင် ကြားတော်မူသော် ''ဤပုဏ္ဏားသည် ကစ္စည်း ထေရ်အား ပူဇော်ကန်တော့မှ အပြစ် ကင်းလွတ်မည်။ မကန်တော့မူကား ဤဝေဠုဝန် ဥယျာဉ်၌ နွားမြီးဆွဲမျောက် ဖြစ်လတ္တံ့'' ဟု မိန့်တော်မူ၏။ ထိုစကားကို ပုဏ္ဏားကြားလေသော် ကန်တော့ခြင်းငှာ အားမထုတ်ပဲ ''အရှင်ဂေါတမ၏စကားသည် ချွတ်ယွင်းသော မည်သည်မရှိ။ ငါသည် စင်စစ် မျောက်ဖြစ်ရချိမ့်မည်။ ဖြစ်သောအခါ စားသောက် ပျော်ပါးရာကို ယခုက အားထုတ်မည်'' ဟု နှလုံးထားလျက် အထူးထူးအပြားပြားသော သစ်ပင်တို့ကို စိုက်ပြီးလျှင် လူစောင့်တို့ကို ထား၏။ ထိုပုဏ္ဏားသည် အသက်တိုင်းနေ၍ သေသောကာလ ဘုရားအမိန့်တော်အတိုင်း နွားမြီးဆွဲမျောက်ဖြစ်လေ၏။ 'ဝဿကာရ' ဟု ခေါ်လျှင် အနီးသို့လာ၍ လက်ဝါး ဖြန့်ကာဖြင့် စားရာဖို့ကို တောင်း၏။ 'မြို့ဝန်ကြီး'ဟု ခေါ်လျှင် ရှက်နိုးရကား လက်ဝါးဖြင့် မျက်နှာကို ဖုံး၍ ကုပ်နေ၏။

ဤသို့ သံဃာတို့အား ပြစ်မှားမိသောက်သည် မကန်တော့မူ သဂ္ဂါဝရဏ, မဂ္ဂါဝရဏဖြစ်သည်သာတည်းဟူ၍ မဇ္ဈိမနိကာယ် ဂေါပကမောဂ္ဂလာနသုတ် အဖွင့်၌ လာသည်။

❖❖❖❖❖

## ၃၁၈။ လူနှင့်နတ်သည်၊ စောဘုန်းစည်၊ မည်မှာဝီထိ ကျသနည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

လူ့ပြည်ကို အာရုံပြုခိုက် လူ့ပြည်မှ ဝီထိကျ၏။ နတ်ပြည်ကို အာရုံပြုခိုက် နတ်ပြည်မှာ ဝီထိကျ၏။ ထိုတွင် နတ်ပြည်၌ ဝီထိကျခြင်းသည်များ၏။ အဘယ့်ကြောင့်

နည်းဟူမူ ''ဒေဝတာ နုဿတိ အာရုံကို ထုံခြင်းများသောကြောင့်တည်း'' ဟူ၍ ဝိသုဒ္ဓိမဂ်ဂဏ္ဍိ၌ ဆို၏။

◆◆◆◆◆

## ၅၁၉။ စကြာတွင်မည်၊ တရားသည်၊ မည်ချိန်မည်နေ့ ဟောသနည်း။ (၁၁)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား–

**ပဉ္စဝဂ္ဂိယာနံ ဘိက္ခူနံ ဗဟူပကာရတံ အနုဿရိတွာ ဥဋ္ဌာယာသနာ ကာသိပုရံ ဂစ္ဆန္တော အန္တရာမဂ္ဂေ ဥပကေန သဒ္ဓိံ မန္တေတွာ အာသဠှိပုဏ္ဏမဒိဝသေ ဣသိပတန မိဂဒါယေ ပဉ္စဝဂ္ဂိယာနံ ဘိက္ခူနံ ဝသနဋ္ဌာနံ ပတွာ တေ အနနုစ္ဆဝိ ကေန သမုဒါစရေန သမုဒါစရန္တာ သဉ္ဉာပေတွာ ဓမ္မစက္ကံ ပဝတ္တေန္တော အညာသိကောဏ္ဍ ညတ္ထေရပ္ပမုခါ အဋ္ဌာရသကောဋိယော အမတပါနံ ပါယေသိ၊**

ဟူသော ထူပဝင်ပါဠ်နှင့်အညီ–ဘုရားသခင်သည် ပဉ္စဝဂ္ဂီရဟန်းတို့၏ ကျေးဇူးများသောအဖြစ်ကို အောက်မေ့တော်မူ၍ နေရာမှထပြီးသော် ဗာရာဏသီပြည်သို့ ကြွတော်မူ၍ ခရီးအကြား၌ ဥပကတက္ကတွန်းနှင့် စကားပြောခဲ့၍ ဝါဆိုလပြည့်နေ့၌ ဣသိပတန မိဂဒါဝုန်တော ပဉ္စဝဂ္ဂီရဟန်းတို့၏ နေရာဌာနသို့ ရောက်၍ ထိုရဟန်းတို့အား ဘုရားအဖြစ်ကို သိစေပြီး၍ ဓမ္မစကြာတရားကို ဟောတော်မူလျက် အညာသိ ကောဏ္ဍညအမှူးရှိသော တစ်ဆယ့်ရှစ်ကုဋေသော နတ်ဗြဟ္မာတို့အား အမြိုက်ရေကို သောက်စေ၏ ဟူလိုသည်။

> **ပစ္ဆိမာယ ဒိသာယ သူရိယော အတ္ထင်္ဂမေတိ။ ပါစီန ဒိသာယ အာသဠှိနက္ခတ္တေန ယုတ္တော ပုဏ္ဏစန္ဒော ဥဂ္ဂစ္ဆတိ။ တသ္မိံ သမယေ ဘဂဝါ ဓမ္မစက္ကပ္ပဝတ္တနသုတ္တံ အာရဘန္တော ဒွေမေ ဘိက္ခဝေ အန္တာတိ အာဒိ။**

ဟူ၍ သာရတ္ထဒီပနီ၌ လာသည်။

**အဓိပ္ပါယ်ကား။** ။ အနောက်အရပ်ခွင်သို့လည်း နေဝင်ဆဲ။ အရှေ့အရပ် မျက်နှာမှလည်း အာသာဠ္ဍိနက္ခတ်နှင့်ယှဉ်လျက် လပြည့်ဝန်း ထွက်ဆဲသော အချိန်အခါတွင် မြတ်စွာဘုရားသည် ဓမ္မစက္ကပဝတ္တနသုတ်ကို အားထုတ်တော်မူခြင်းငှာ ''ဒွေ မေ ဘိက္ခဝေ'' အစရှိသော စကားကို ဆိုတော်မူ၏ ဟူလိုသည်။

ထိုကျမ်းနှစ်ရပ်ကိုစပ်၍ ယူသော် ဘုရားဖြစ်သောနှစ် သက္ကရာဇ် ၁၀၃–ခု၊ ဝါဆိုလပြည့်နေ့ ညနေဝင်အခါတွင် ဓမ္မစကြာတရားကို ဟော၏–ဟု သိအပ်သည်။

◆◆◆◆◆

**ရ၂၀။ နိဗ္ဗာန်ရှေပြည်၊ ဤကသည်၊ မည်မျှတာပေါင်း ကွာသနည်း။(၁၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ယတ္ထ ခေါ် အာဝုသော န ဇာယတိ န ဇိယျတိ န မိယျတိ န စဝတိ န ဥပပဇ္ဇတိ၊ နာဟံ တံ ဂမနေန လောကဿန္တံ ဉာတေယျံ ဒိဋ္ဌေယျံ ပတ္တေယျန္တိ ဝဒါမိ။ န စာဟံ အာဝုသော အပတွာဝ လောကဿန္တံ ဒုက္ခဿ အန္တကိရိယံ ဝဒါမိ။ အပိ စာဟံ အာဝုသော ဣမသ္မိံယေဝ ဗျာမမတ္တေ ကဠေဝရေ သသညိမှိ သမနကေ လောကဉ္စ ပညပေမိ။ လောကသမုဒယဉ္စ လောကနိ ရောဓဉ္စ လောကနိရောဓ ဂါမိနိဉ္စ ပဋိပဒံ။**

**ဂမနေန န ပတ္တဗ္ဗော၊ လောကဿန္တော ကုဒါစနံ။**

**န စ အပ္ပတွာ လောကန္တံ၊ ဒုက္ခာ အတ္ထိ ပမောစနံ။**

ဟူ၍ ဟောတော်မူသော ဒေသနာကို ပါရာဇိကကဏ် အဋ္ဌကထာ၌ သာဓကပြု၍ ပြသည်။

အာဝုသော၊ ရေဝတနတ်သား။ ယတ္ထ၊ အကြင်နိဗ္ဗာန်အရပ်၌။ န ဇာယတိ၊ ဖြစ်လည်းမဖြစ်။ နဇိယျတိ၊ အိုလည်းမအို။ န မိယျတိ၊ သေလည်းမသေ။ န စာတိ၊ ရွေ့လည်းမရွေ့။ န ဥပပဇ္ဇတိ၊ တစ်ဖန်လည်း ပဋိသန္ဓေမနေ။ လောကဿန္တံ၊ လောက၏အဆုံးဖြစ်သော။ တံဌာနံ၊ ထိုနိဗ္ဗာန်အရပ်သို့။ ဂမနေန၊ ရထား, လှည်း, လှေ, ခြေကျင်သွားခြင်းဖြင့်။ ဉာတေယျံ၊ သိအပ်၏ ဟူ၍လည်းကောင်း။ ဒိဋ္ဌေယျံ၊ မြင်အပ်၏ ဟူ၍လည်းကောင်း။ ပတ္တေယျန္တိ၊ ရောက်အပ်၏ ဟူ၍ လည်းကောင်း။ အဟံ၊ ငါဘုရားသည်။ န ဝဒါမိ၊ ဟောတော်မမူ။ အာဝုသော၊ ရေဝတနတ်သား။ လောကဿန္တံ၊ လောက၏ အဆုံးဖြစ်သော နိဗ္ဗာန်သို့။ အပတွာဝ၊ မရောက်ဘဲလည်း။ ဒုက္ခဿ၊ ဆင်းရဲ၏။ အန္တကိရိယံ၊ အဆုံးကိုပြုတတ်၏ ဟူ၍လည်းကောင်း။ အဟံ၊ ငါဘုရားသည်။ န စ ဝဒါမိ။ ဟောလည်း ဟော်တော်မမူ။ အာဝုသော၊ ရေဝတနတ်သား။ အပိစ၊ စင်စစ်သော်ကား။ ဗျာမမတ္တေ၊ တစ်လံမျှလောက်သော။ သသညိမှိ၊ သညာနှင့်တကွသော။ သမနကေ၊ စိတ်နှင့်တကွသော။ ဣမသ္မိံ ယေဝ ကဠေဝရေ၊ ဤကိုယ်၌သာလျှင်။ လောကဉ္စ၊ သင်္ခါရလောကကိုလည်း။ ပညပေမိ၊ ပညတ်တော်မူ၏။ လောကသမုဒယဉ္စ၊ သင်္ခါရလောက၏ဖြစ်ကြောင်းကိုလည်း။ ပညပေမိ၊ပညတ်တော်မူ၏။ လောကနိရောဓဉ္စ၊ သင်္ခါရလောက၏ချုပ်ရာ နိဗ္ဗာန်ကိုလည်း။ ပညပေမိ၊ ပညတ်တော်မူ၏။ လောက နိရောဓဂါမိနိံ ပဋိပဒဉ္စ၊ လောက၏ချုပ်ရာ နိဗ္ဗာန်သို့ ရောက်ကြောင်းဖြစ်သော အကျင့်ကိုလည်း။ ပညပေမိ၊ ပညတ်တော်မူ၏။

အာဝုသော၊ ရေဝတနတ်သား။ လောကဿ၊ သင်္ခါရလောက၏။ အန္တော၊ အဆုံးဖြစ်သော နိဗ္ဗာန်ကို။ ဂမနေန၊ ရထား, မြင်း, ဆင်ယာဉ်ဖြင့်သွားခြင်းဖြင့်

ထည်းကောင်း။ ဝါ၊ လှည်း, လှေ, ခြေကျင်ဖြင့် သွားခြင်းဖြင့်လည်းကောင်း။ ကုဒါစနံ၊ တရံတဆစ်မျှ။ န ပတ္တဗ္ဗော၊ မရောက်အပ်။ လောကန္တံ၊ လောက၏ အဆုံးဖြစ်သော နိဗ္ဗာန်သို့။ အပ္ပတွာစ၊ မရောက်ပဲလည်း။ ဒုက္ခာ၊ ဆင်းရဲမှ။ ပမောစနံ၊ လွတ်ခြင်းသည်။ န စ အတ္ထိ၊ မရှိ။

ဤသို့ ကျမ်းဂန်လာသောကြောင့် နိဗ္ဗာန်ပြည်သည် လူတို့၏ မြို့ပြရွာပြည်ကဲ့သို့ တည်ရာဒေသမရှိရကား ရထား, မြင်း, ဆင် စသော ယာဉ်ဖြင့်လည်းကောင်း၊ လှည်း, လှေ, ခြေကျင်ဖြင့်လည်းကောင်း သွား၍ ရောက်ကောင်းသောအရပ်မဟုတ်။ ထိုသို့မဟုတ်သောကြောင့် လက်သစ်တောင်တာတို့ဖြင့် အကွာအဝေးကို နှိုင်းရှည့်ခြင်းငှာ မတတ်ကောင်း ဟူပေ။

လက်သစ်တောင်တာတို့ဖြင့် အကွာအဝေးကို မနှိုင်းရှည့်ကောင်းဆိုသော ထိုနိဗ္ဗာန် ဟူသည်မရှိသလော ဟူငြားအံ့။ ရှိကား ရှိ၏။ လူတို့၏ မြို့ပြပြည်ရွာကဲ့သို့သာ မရှိဟူပေ။ အဘယ်သို့ ရှိသနည်းဟူငြားအံ့– စိတ်, စေတသိက်, ရုပ်, နိဗ္ဗာန်ဟူ၍ လေးပါးသော ပရမတ္ထတရားတို့သည် ထင်ရှားကုန်၏ ဟူ၍ ဟောတော်မူသောကြောင့် လည်းကောင်း၊ စိတ်, စေတသိက်တို့နှင့် နိဗ္ဗာန်သည် နာမ်၏အဖြစ်ဖြင့် တူသောကြောင့် လည်းကောင်း စိတ်, စေတသိက် ရှိသကဲ့သို့ ရှိ၏ဟူပေ။

ထို့ကြောင့် အဘိဓမ္မတ္ထသင်္ဂြိုဟ်ကျမ်း၌–

**နိဗ္ဗာနံ ပန လောကုတ္တရသင်္ခါတံ စတုမဂ္ဂဉာဏေန သစ္ဆိကာတဗ္ဗံ မဂ္ဂ ဖလာနမာရမ္မဏဘူတံ ဝါနသင်္ခါတာယ တဏှာယ နိက္ခန္တတ္တာ နိဗ္ဗာနန္တိ ပဝုစ္စတိ။ ဟူ၍ မိန့်တော်မူသည်။**

**အနက်ကား။** ။ လောကုတ္တရသင်္ခါတံ။ လောကမှ ထွက်မြောက်ရာဟု ဆိုအပ်သော။ စတုမဂ္ဂဉာဏေန၊ လေးပါးသော မဂ်ဉာဏ်ဖြင့်။ သစ္ဆိကာတဗ္ဗံ၊ မျက်မှောက်ပြုအပ်သော။ မဂ္ဂဖလာနံ၊ မဂ်ဖိုလ်တို့၏။ အာရမ္မဏဘူတံ၊ အာရုံဖြစ်၍ ဖြစ်သော။ နိဗ္ဗာနံ ပန၊ နိဗ္ဗာန်ကိုကား။ ဝါနသင်္ခါတာယ၊ ဝါနဟုဆိုအပ်သော။ တဏှာယ၊ တဏှာမှ။ နိက္ခန္တတ္တာ၊ ထွက်မြောက်တတ်သည်၏ အဖြစ်ကြောင့်။ နိဗ္ဗာနန္တိ၊ နိဗ္ဗာန်ဟူ၍။ ပဝုစ္စတိ၊ ဆိုအပ်၏။

ထိုပါဌ်တို့တွင် ''လောကုတ္တရသင်္ခါတံ'' ဟူသောပါဌ်ဖြင့် ဥပါဒါနက္ခန္ဓာ, ပဉ္စက္ခန္ဓာဟု ဆိုအပ်သော လောကမှ ထွက်သောအဖြစ်ကို ပြသည်။ ''စတုမဂ္ဂဉာဏေန သစ္ဆိကာ တဗ္ဗံ'' ဟူသောပါဌ်ဖြင့် သောတာပန်, သကဒါဂါမ်, အနာဂါမ်ရဟန္တာ ဟူသော အရိယာ ပုဂ္ဂိုလ်တို့အား မျက်မှောက်ပြု၍ သိနိုင်သော အဖြစ်ကိုပြသည်။ ''မဂ္ဂဖလာနမာရမ္မဏ ဘူတံ''ဟူသောပါဌ်ဖြင့် ကလျာဏပုထုဇဉ်ပုဂ္ဂိုလ်တို့လည်း အနုမာနဉာဏ်ဖြင့် သိနိုင်သော အဖြစ်ကို ပြသည်။ ထိုပါဌ်အပေါင်းတို့ဖြင့် ကိလေသာတို့၏ အကြွင်းမဲ့ ပြတ်ခြင်းကို, တစ်ဖန် မဖြစ်ခြင်းကို ပြတတ်သော

မဂ်ဖိုလ်တို့၏ အာရုံဖြစ်သော နိဗ္ဗာန်သည်ကား တစ်ခုသော ပရမတ္ထတရားပင်တည်း။ သက်သက် မဖြစ်ခြင်း သဘောမျှ ကို နိဗ္ဗာန်ဆိုသည် မဟုတ်ဟူသော အနက်ကိုလည်း ပြ၏။ ထို့ကြောင့် ဋီကာကျော်၌-

**စတုမဂ္ဂဉာဏေန သစ္ဆိကာတဗ္ဗန္တိကမ္မိနာ နိဗ္ဗာနဿ တံ တံ အရိယပုဂ္ဂလာနံ ပစ္စက္ခသိဒ္ဓတံ ဒဿေတိ။ မဂ္ဂဖလာန မာရမ္မဏာ ဘူတန္တိကမ္မိနာ ကလျာဏပုထုဇ္ဇနာနံ အနုမာန သိဒ္ဓတံ။ သင်္ခတဓမ္မာရမ္မဏာဉ္ဟိ ပညတ္တာရမ္မဏံ ဝါ ဉာဏံ ကိလေသာနံ သမုစ္ဆေဒပ္ပဋိပ္ပဿမ္ဘနေအသမတ္ထံ၊ အတ္ထိ စ လောကေ ကိလေသသမုစ္ဆေဒါဒိ။ တသ္မာ အတ္ထိ သင်္ခတ သမ္မုတိဓမ္မဝိပရီတော ကိလေသာနံ သမုစ္ဆေဒပ္ပဋိပ္ပဿဒ္ဓိကရာနံ မဂ္ဂဖလာနံ မာရမ္မဏာဘူတော နိဗ္ဗာနံ နာမ ကောစိ ဓမ္မောတိ သိဒ္ဓံ။ ပစ္စက္ခာနုမာန သိဒ္ဓတာ သန္တဿနေနစ အဘာဝမတ္တံ နိဗ္ဗာနန္တိ ဝိပ္ပဋိပန္နာနံ ဝါဒံ နိသေဓေ တီတိ အလမတိပပဉ္စေန။ ဟူ၍ မိန့်တော်မူသည်။**

အနက်ကား။ ။ စတုမဂ္ဂဉာဏေန သစ္ဆိကာတဗ္ဗန္တိကမ္မိနာ၊ စတုမဂ္ဂဉာဏေန သစ္ဆိကာတဗ္ဗံဟူသော ဤပါဌ်ဖြင့်။ နိဗ္ဗာနဿ၊ နိဗ္ဗာန်၏။ တံ တံ အရိယပုဂ္ဂလာနံ၊ ထိုထိုသို့သော အရိယာပုဂ္ဂိုလ်တို့၏။ ပစ္စက္ခသိဒ္ဓတံ၊ မျက်မှောက်ပြု၍ သိသောအဖြစ်ကို။ ဒဿေတိ၊ ပြ၏။ မဂ္ဂဖလာနမာရမ္မဏာဘူတန္တိ ကမ္မိနာ၊ မဂ္ဂဖလာနမာရမ္မဏာဘူတံ- ဟူသော ဤပါဌ်ဖြင့်။ ကလျာဏပုထုဇ္ဇနာနံ၊ ကလျာဏပုထုဇဉ်ပုဂ္ဂိုလ်တို့၏။ အနုမာနသိဒ္ဓတံ၊ ဆင်၍ သိအပ်သောအဖြစ်ကို။ ဒဿေတိ၊ ပြ၏။ ဟိ၊ ထင်စွာဆိုလိုက်ဦးအံ့။ သင်္ခတဓမ္မာရမ္မဏံ ဝါ၊ သင်္ခတတရားလျှင် အာရုံရှိသည်လည်းဖြစ်သော။ ပညတ္တာရမ္မဏံဝါ၊ ပညတ်တရားလျှင် အာရုံရှိသည်လည်း ဖြစ်သော။ ဉာဏံ၊ ဉာဏ်သည်။ ကိလေသာနံ၊ ကိလေသာတို့ကို။ သမုစ္ဆေဒပ္ပဋိပ္ပဿမ္ဘနေ၊ အကြွင်းမဲ့ဖြတ်ခြင်း, တစ်ဖန်ငြိမ်းစေခြင်း၌။ အသမတ္ထံ၊ မစွမ်းနိုင်။ လောကေ၊ လောက၌။ ကိလေသ သမုစ္ဆေဒါဒိ၊ ကိလေသာတို့၏ အကြွင်းမဲ့ဖြတ်ခြင်းစသော သဘောသည်လည်း။ အတ္ထိစ၊ ရှိသည်သာလျှင်တည်း။ တသ္မာ၊ ထို့ကြောင့်။ သင်္ခတသမ္မုတိဓမ္မဝိပရီတော၊ သင်္ခတတရား ပညတ်တရားတို့မှ ဖောက်ပြန်သော သဘောသည်လည်း၊ အတ္ထိ၊ ရှိသည်စင်စစ်တည်း။ ကိလေသာနံ၊ ကိလေသာတို့၏။ သမုစ္ဆေဒပ္ပဋိပ္ပဿဒ္ဓိကရာနံ၊ ပြတ်ခြင်း ငြိမ်းခြင်းကို ပြုတတ်ကုန်သော၊ မဂ္ဂဖလာနံ၊ မဂ်ဖိုလ်တို့၏။ အာရမ္မဏာ ဘူတော၊ အာရုံဖြစ်၍ ဖြစ်သော။ နိဗ္ဗာနံနာမ၊ နိဗ္ဗာန်မည်သည်လည်း။ ကောစိဓမ္မော၊ တစ်ခုသော ပရမတ္ထတရားတည်း။ ဣတိအတ္ထံ၊ ဤသို့သော ပရိကပ္ပတ္ထသည်။ သိဒ္ဓံ၊ ပြီး၏။ ပစ္စက္ခာနုမာနသိဒ္ဓတာ သန္ဒဿနေနစ။ မျက်မှောက် သိအပ်သောအဖြစ်, ဆင်၍ သိအပ်သော အဖြစ်ကို ပြသဖြင့်လည်း။ အဘာဝမတ္တံ၊ မဖြစ်ခြင်းသဘောမျှသည်။ နိဗ္ဗာနံ၊ နိဗ္ဗာန်မည်၏။ ဣတိ၊ ဤသို့။ ဝိပ္ပဋိပန္နာနံ၊ အယူပျက်စီ အချည်းအနှီးသော

ပုဂ္ဂိုလ်တို့၏။ ဝါဒံ၊ အယူစကားကို။ နိသေဓေတိ၊ တားမြစ်ပေ၏။ ဣတိ၊ ဤသို့ နိဗ္ဗာန်ရှိဟန် သိထောက်ဝ-န်သောကြောင့်။ အတိပပဋ္ဌေန၊ အလွန် ချဲ့လွန်းသဖြင့်။ အလံ၊ အကျိုးမရှိပြီ။ သောတဝိညေယျန္တိ၊ သောတဝိညာဉ်ဖြင့် သိအပ်၏ဟူ၍ လည်းကောင်း။

ဤဋီကာကျော်ကို ထောက်ထား၍ နိဗ္ဗာန်မည်သည်ကား ''တစ်စုံတစ်ခု မဖြစ်ခြင်းမျှသည်သာ တည်း''ဟူသော စကားသည် မဟုတ်သောအဖြစ်၊ စိတ် စေတသိက်ကဲ့သို့ ကေန်ဆတ်ဆတ် ပရမတ်အားဖြင့် ရှိသောအဖြစ်ကို စင်စစ်သိရာသည်။

ဥပမာ-ဥပမေယျတို့ဖြင့် သမ္မောဟဝိနောဒနီ၌လည်းကောင်း, သတိပဋ္ဌာနသုတ် အဋ္ဌကထာတို့၌ လည်းကောင်း လာ၏။

**မိလိန္ဒပဥှာ၌ကား။ ။ ဘန္တေနာဂသေန ကတမေ သတ္တာ ကမ္မဇာ၊ ကတမေ ဟေတုဇာ၊ ကတမေ ဥတုဇာတိ။ ယေကေစိ မဟာရာဇ သစေတနာ သတ္တာ၊ သဗ္ဗေ တေ ကမ္မဇာ။ ပထဝီစ သဗ္ဗေ ပဗ္ဗတာ ဇလာ ဝါတာစ ဥတုဇာ။ အဂ္ဂိစ သဗ္ဗေပိ ပဇာ ဟေတုဇာ။ အာကာသော နိဗ္ဗာနဉ္စ အကမ္မဇာ အဟေတုဇာ။ န ဥတုဇာတိ။ ။ အစရှိသည် ဖြင့်လာသည်။**

**အနက်ကား။** ။ အန္တေနာဂသေန၊ အရှင်နာဂသိန်။ ကတမေသတ္တာ၊ အဘယ် မည်သောသတ္တဝါတို့သည်။ ကမ္မဇာ၊ ကံကြောင့်ဖြစ်ကုန်သနည်း။ ကတမေ၊ အဘယ်မည်သော သဘောတို့သည်။ ဟေတုဇာ၊ အကြောင်းကြောင့် ဖြစ်ကုန်သနည်း။ ကတမေ၊ အဘယ်မည်သော သဘောတို့သည်။ ဥတုဇာ၊ ဥတုကြောင့်ဖြစ်ကုန်သနည်း။ ဣတိပုဋ္ဌော၊ ဤသို့မေးလျှောက်၏။ မဟာရာဇ၊ မင်းမြတ်။ သစေတနာ၊ စိတ်ရှိကုန်သော။ ဝါ၊ စိတ်နှင့်တကွ ဖြစ်ကုန်သော၊ ယေကေစိသတ္တာ၊ အကြင်သတ္တဝါတို့သည်။ သန္တိ၊ ရှိကုန်၏။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော။ တေသတ္တာ၊ ထိုသတ္တဝါတို့သည်။ ကမ္မဇာ၊ ကံကြောင့် ဖြစ်ကုန်၏။ ပထဝီစ၊ မြေသည်လည်းကောင်း။ ပဗ္ဗတာစ၊ တောင်တို့သည် လည်းကောင်း။ ဉဒကံ၊ ရေသည်လည်းကောင်း။ ဝါတောစ၊ လေသည်လည်းကောင်း။ တေသဗ္ဗေ၊ တို့သည်၊ ဥတုဇာ၊ ဥတုကြောင့် ဖြစ်ကုန်၏။ အဂ္ဂိစ၊ မီးသည်လည်းကောင်း။ သဗ္ဗာနိစ ဗီဇာနိ၊ အလုံးစုံသော သစ်ပင်သတ္တဝါတို့သည်လည်းကောင်း။ ဟေတုဇာနိ၊ အကြောင်းကြောင့် ဖြစ်ကုန်၏။ အာကာသောစ၊ ကောင်းကင်သည်လည်းကောင်း။ နိဗ္ဗာနဉ္စ၊ နိဗ္ဗာန်သည်လည်းကောင်း။ ဣမေဒွေ၊ တို့သည်၊ အကမ္မဇာ၊ ကံကြောင့်လည်း မဖြစ်။ အဟေတုဇာ၊ အကြောင်းကြောင့်လည်း မဖြစ်။ အနုတုဇာ၊ ဥတုကြောင့်လည်း မဖြစ်။ ဣတိဝတ္တာ၊ ဤသို့ဆိုပြီး၍။ မဟာရာဇ မင်းမြတ်။ နိဗ္ဗာနံ၊ နိဗ္ဗာန်ကို။ ကမ္မဇန္တိ၊ ကမ္မဇ ဟူ၍လည်းကောင်း။ ဟေတုဇန္တိ၊ ဟေတုဇဟူ၍လည်းကောင်း၊ ဥတုဇန္တိ၊ ဥတုဇဟူ၍လည်းကောင်း။ဥပ္ပန္နန္တိ၊ ဖြစ်ပြီးဟူ၍ လည်းကောင်း။ အနုပ္ပန္နန္တိ၊ ဖြစ်ဆဲဟူ၍

လည်းကောင်း။ ဥပါဒါနီယယန္တိဝါ၊ ဖြစ်လတ္တံ့ ဟူ၍လည်းကောင်း။ အတီတန္တိဝါ၊ အတိတ်ဟူ၍ လည်းကောင်း။ အနာဂတန္တိဝါ၊ အနာဂတ်ဟူ၍ လည်းကောင်း။ ပစ္စုပ္ပန်ဟူ၍လည်းကောင်း စက္ခုဝိညေယျန္တိဝါ၊ စက္ခုဝိညာဉ်ဖြင့် သိအပ်၏ဟူ၍ လည်းကောင်း။ ဃာနဝိညေယျန္တိဝါ၊ ဃာနဝိညာဉ်ဖြင့် သိအပ်၏ ဟူ၍လည်းကောင်း။ ဇိဝှါဝိညေယျန္တိဝါ၊ ဇိဝှါဝိညာဉ်ဖြင့် သိအပ်၏ ဟူ၍လည်းကောင်း။ ကာယဝိညာဉ်ဖြင့် သိအပ်၏ ဟူ၍လည်းကောင်း။ နဝတ္တဗ္ဗံ၊ မဆိုအပ်။ ဣတိ၊ ဤသို့။ အာဟ၊ ဖြေဆိုတော်မူ၏။

ဘန္တေနာဂသေန၊ အရှင်နာဂသိန်။ တေနဟိ၊ ထိုသို့ဖြစ်တပြီးတကား။ တုမှေ၊ အရှင်ဘုရားတို့သည်။ နတ္ထိဓမ္မံ၊ မရှိသော သဘောကို။ နိဗ္ဗာနံ၊ နိဗ္ဗာန်ဟူ၍။ အပဒိဿထ၊ ညွှန်းတော်မူသလော။ ဣတိပုစ္ဆိ၊ ဤသို့ မေးလျှောက်ပြန်၏။ မဟာရာဇ၊ မင်းမြတ်။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ အတ္ထိ၊ ရှိ၏။ နိဗ္ဗာနံ၊ သည်။ မနောဝိညေယျံ၊ မနောဝိညာဉ်ဖြင့် သိအပ်၏။ သမ္မာပဋိပန္နော၊ ကောင်းစွာကျင့်သော။ အရိယသာဝကော၊ သည်။ ဝိသုဒ္ဓေန၊ စင်ကြယ်စွာသော။ ဉာဏေန၊ ဉာဏ်ဖြင့်။ ပဿတိ၊ မြင်၏။ ဣတိအာဟ၊ ဤသို့ဖြေ ဆို၏။

ဥပမာယ၊ ဥပမာဖြင့်။ သညာပေတိ၊ သိပါစေလော့။ ဣတိဝုတ္တေ၊ ဤသို့ လျှောက်ပြန်သည်ရှိသော်။ မဟာရာဇ၊ မင်းမြတ်။ ဝါတောနာမ၊ လေမည်သည်။ အတ္ထိ၊ ရှိ၏လော။ ဘန္တေ၊ အရှင်ဘုရား။ အာမအတ္ထိ၊ သြော်ရှိ၏။ ဣတိအာဟ၊ ဤသို့ဆို၏။ မဟာရာဇ၊ မင်းမြတ်။ ကလ္လံ၊ ငါတောင်းပန်၏။ ဝါတံ၊ လေကို။ ဒဿေဟိ၊ ပြပါလော့၊ ဣတိအာဟ၊ ဤသို့ဆို၏။ ဘန္တေ၊ အရှင်ဘုရား။ ဝါတဿ၊ လေ၏။ ရူပံဝါ၊ အနီအဖြူ စသောအဆင်းကို လည်းကောင်း။ သဏ္ဌာနံဝါ၊ အလုံးအပြား သဏ္ဌာန်ကို လည်းကောင်း။ အဏုံဝါ၊ ငယ်သည်ကို လည်းကောင်း။ ထူလံဝါ၊ ကြီးသည်ကို လည်းကောင်း။ ဒီဃံဝါ၊ ရှည်သည်ကိုလည်းကောင်း။ ရဿံဝါ၊ တိုသည်ကို လည်းကောင်း။ ဒဿေတုံ၊ ပြခြင်းငှာ။ နသက္ကောတိ၊ မတတ်နိုင်၊ ဣတိဝုတ္တေ၊ ဤသို့ဆိုလတ်သော်။ မဟာရာဇ၊ မင်းမြတ်။ တေနဟိ၊ ထိုသို့မပြနိုင်မူကား။ ဝါတော၊ လေသည်။ နတ္ထိ၊ မရှိသလော။ ဣတိပုစ္ဆိ၊ ဤသို့မေး၏။ ဘန္တေနာဂသေန၊ အရှင်နာဂသိန်။ အတ္ထိယေဝ၊ ရှိသည်သာတည်း။ ပန၊ ထိုသို့ရှိသော်လည်း။ ဝါတံ၊ လေကို။ ဒဿေတုံ၊ ပြခြင်းငှာ။ နသက္ကောမိ၊ မတတ်နိုင်။ ဣတိ၊ ဤသို့။ အာဟ၊ လျှောက်ဆို၏။ မဟာရာဇ၊ မင်းမြတ်။ ဝေမေဝ၊ ဤအတူလျှင်။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ အတ္ထိ၊ ရှိ၏။ ဒဿေတုံ၊ ပြခြင်းငှာ။ နသက္ကောတိ၊ မတတ်နိုင်။ ဣတိ၊ ဤသို့။ အဝေါစ၊ မိန့်တော်မူ၏။ ဘန္တေနာဂသေန၊ အရှင်နာဂသိန်။ ဥပမံ၊ ဥပမာကို။ သုဒဿိတံ၊ ကောင်းစွာပြပေ၏။ သမ္ပဋိစ္ဆာမိ၊ အကျွန်ုပ် ဝန်ခံပါ၏။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ အတ္ထိ၊ ရှိ၏။ ဣတိ၊ ဤသို့။ အာဟ၊ လျှောက်၏။

ဘန္တေနာဂသေန၊ အရှင်နာဂသိန်။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော သူတို့သည်။ နိဗ္ဗာနံ၊ နိဗ္ဗာန်ကို။ လဘန္တိ၊ ရပါကုန်လော။ ဣတိပုဋ္ဌော၊ ဤသို့မေး၏။ မဟာရာဇ၊ မင်းမြတ်။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော သူတို့သည်။ တံနိဗ္ဗာနံ၊ ထိုနိဗ္ဗာန်ကို၊ နခေါလဘန္တိ၊ မရကုန်။ အပိစခေါ၊ စင်စစ်ကား။ မဟာရာဇ၊ မင်းမြတ်။ သမ္မာပဋိပန္နာ၊ ကောင်းစွာကျင့်ပေကုန်သော။ အရိယသာဝကာ၊ အရိယာဖြစ်သော တပည့်သားတော်တို့သည်။ နိဗ္ဗာနံ၊ နိဗ္ဗာန်ကို။ လဘန္တိ၊ ရကုန်၏။ ဣတိ အဝေါစ၊ ဤသို့မိန့်တော်မူ၏။

ဘန္တေနာဂသေန၊ အရှင်နာဂသိန်။ ယော၊ အကြင်ပုဂ္ဂိုလ်သည်။ နိဗ္ဗာန်ကို။ နလဘတိ၊ မရ။ သော၊ ထိုမရသောသူသည်။ သုခံ၊ ချမ်းသာ၏ဟူ၍ ဇာနာတိ၊ သိပါ၏လော။ ဣတိပုဋ္ဌော၊ ဤသို့မေး၏။ မဟာရာဇ၊ မင်းမြတ်။ အာမဇာနာမိ၊ သြော်သိ၏။ ဣတိအာဟ၊ ဤသို့ဆို၏။ ဘန္တေ၊ အရှင်ဘုရား။ ကထံဇာနာတိ၊ အဘယ်သို့သိပါအံ့နည်း။ ဣတိဝုတ္တေ၊ ဤသို့လျှောက်ဆိုသည်ရှိသော်။ မဟာရာဇ၊ မင်းမြတ်။ ဟတ္ထပါဒစ္ဆေဒံ၊ လက်ခြေပြတ်ခြင်းကို။ အလဒ္ဓမနုဿာပိ၊ မရသေးသော သူတို့သည်လည်း၊ အဿေသံ၊ တစ်ပါးကုန်သော။ ဆိန္နဟတ္ထပါဒါနံ၊ ပြတ်သော လက်ခြေရှိသောသူတို့၏။ ပရိဒေဝနသဒ္ဒံ၊ ငိုကြွေးသော အသံကို။ သုတွာ၊ ကြားရ၍။ ဟတ္ထပါဒစ္ဆေဒဒုက္ခံ၊ လက်ခြေပြတ်ခြင်းကြောင့် ဖြစ်သောဆင်းရဲကို။ ဇာနန္တိယထာ၊ သိကုန်သကဲ့သို့။ ဧဝမေဝခေါ၊ ဤအတူသာလျှင်။ မဟာရာဇ၊ မင်းမြတ်။ ယေသံ၊ အကြင်ပုဂ္ဂိုလ်တို့၏။ ဒိဋ္ဌံ၊ မြင်အပ်သော။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ အတ္ထိ၊ ရှိ၏။ တေသံ၊ ထိုမြင်သော သူတို့၏။ သဒ္ဒံသုတွာ၊ ပြောသံကို ကြား၍။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ သုခါတိ၊ ချမ်းသာ၏ဟူ၍။ ဇာနန္တိ၊ သိကုန်၏။ ဣတိ၊ ဤသို့မိန့်ပေ၏။ ဘန္တေနာဂသေန၊ အရှင်နာဂသေန၊ အရှင်နာဂသိန်။ ကလ္လောသိ၊ လျောက်ပတ်ပေ၏။ ဣတိ၊ သို့၊ အဘိတ္ထဝိ၊ အလွန်ချီးမွမ်း၏။

ဘန္တေနာဂသေန၊ အရှင်နာဂသိန်။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ နိရောဓော၊ ချုပ်သလော။ ဣတိပုဋ္ဌော၊ ဤသို့ မေးပြန်၏။ မဟာရာဇ၊ မင်းမြတ်။ အာမ၊ သြော်ချုပ်၏။ ဣတိဝုတ္တေ၊ ဤသို့ ဖြေလတ်သော်။ ဘန္တေနာဂသေန၊ အရှင်နာဂသိန်။ ကထံ၊ အဘယ်သို့လျှင်။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ နိရောဓော၊ ချုပ်ပါသနည်း။ ဣတိပုဋ္ဌော၊ ဤသို့မေးလျှောက်၏။ မဟာရာဇ၊ မင်းမြတ်။ ဘဂဝတာ၊ မြတ်စွာဘုရားသည်။ တေံ၊ ဤနိဗ္ဗာန်၏ ချုပ်ဟန်ကို။ ဧဝံ၊ ဤသို့။ ဝုတ္တံ၊ ဟောတော်မူ၏။ မဟာနာမ၊ ညီတော်မဟာနာမ်၊ သုတဝါ၊ အကြားအမြင်ပညာရှိသော။ အရိယသာဝကော၊ အရိယာဖြစ်သော တပည့်သည်။ အဇ္ဈတ္တိကေ၊ အတွင်းသန္တာန်၌ ဖြစ်ကုနန်သော။ အာယတနေ၊ အာယတနခြောက်ပါး တို့ကို လည်းကောင်း။ ဗာဟိရေ၊ အပသန္တာန်၌ ဖြစ်ကုန်သော။ အာယတနေ၊ အာယတန ခြောက်ပါးတို့ကို လည်းကောင်း၊ နာဘိနန္ဒတိ၊ အလွန်မနှစ်သက်။ နာဘိဝဒတိ၊ အလွန်ကောင်း၏ဟု မပြောဟော။ အနဇ္ဈောသာယ၊

မသက်ဝင်ခြင်းဖြင့်။ တိဋ္ဌတိ၊ တည်၏။ တံ၊ ထိုအာယတန တစ်ဆယ့်နှစ်ပါးကို။ အနဘိနန္ဒတော၊ အလွန်မနှစ်သက်သောအားဖြင့်။ အနဘိဝဒတော။ အလွန်မပြောဟောသောအားဖြင့်။ အနဇ္ဈောသာယ၊ မသက်ဝင်သောအားဖြင့်။ တိဋ္ဌတော၊ တည်သော၊ တဿ၊ ထိုပုဂ္ဂိုလ်အား။ တဏှာ၊ တပ်မက်မောတတ်သောတဏှာသည်။ နိရုဇ္ဈတိ၊ ချုပ်၏။ တဏှာနိရောဓော၊ တဏှာ၏ ချုပ်ခြင်းကြောင့်။ ဥပါဒါနနိရောဓော။ စွဲလမ်းခြင်းဥပါဒါန်၏ ချုပ်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ဥပါဒါနနိရောဓာ၊ ဥပါဒါန်၏ ချုပ်ခြင်းကြောင့်။ ဘဝနိရောဓော၊ ဖြစ်ခြင်း ဟူသောဘဝ၏ချုပ်ခြင်း။ ဟောတိ၊ ဖြစ်၏။ ဇာတိနိရောဓာ၊ ဇာတိ၏ချုပ်ခြင်းကြောင့်။ ဇရာ မရဏ သောက ပရိဒေဝ ဒုက္ခ ဒေါမနဿုပါယာသာ၊ အိုခြင်း၊ သေခြင်း၊ စိုးရိမ်ခြင်း၊ ငိုကြွေးခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာခြင်း၊ သက်ကြီး ရှိုက်တငင် ပင်ပန်းခြင်းတို့သည်။ နိရုဇ္ဈန္တိ၊ ချုပ်ကုန်၏။ ဧဝံ၊ ဤသို့။ ကေဝလဿ၊ ချမ်းသာမဖက် သက်သက်သော။ ဧတဿ ဒုက္ခက္ခန္ဓဿ၊ ထိုသို့ဆင်းရဲအစု၏။ နိရောဓော၊ ချုပ်ခြင်းသည်၊ ဟောတိ၊ ထင်ရှား၏။ မဟာရာဇ မင်းမြတ်။ ဧဝံခေါ၊ ဤသို့လျှင်။ နိဗ္ဗာနံ၊ နိဗ္ဗာန်သည်။ နိရောဓော၊ ချုပ်၏။ ဣတိအဝေါစ၊ ဤသို့ ဖြေဆို၏။ ဘန္တေ၊ အရှင်ဘုရား။ ကလ္လောသိ၊ လျောက်ပတ်ပေ၏။ ဣတိ၊ ဤသို့။ အဘိတ္ထဝိ၊ အလွန်ချီးမွမ်း၏။

ဥပမာ ဥပမေယျတို့ဖြင့် သမ္မောဟဝိနောဒနီ၌လည်းကောင်း၊ သတိပဋ္ဌာနသုတ် အဋ္ဌကထာ, ဋီကာတို့၌လည်းကောင်း လာသည်ကား များသေး၏။ သိမ်မွေ့သောအရာ ဖြစ်သည်။ စေ့စေ့ ဆင်ခြင်လေ။

❖❖❖❖❖

## ၅၂၁။ လူအနှစ်သည်၊ ဒုက်နှစ်လည်၊ မည်သည်တိုင်အောင် နှံ့သနည်း။(၁၃)

ဤပုစ္ဆာ၌ အဖြေကိုမူကား– မူအစောင်မှာပင် ရှာ၍ မတွေ့ချေ။

❖❖❖❖❖

## ၅၂၂။ ရုပ်, နာမ် နှစ်တည်၊ ရှိကြမည်၊ မည်သူဂုဏေး ဖြစ်သနည်း။(၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နာမ်တရားသည် မိမိ၏သတ္တိကိုပြတတ်သောကြောင့် 'အတ္တနော ကိစ္စံ ဂုဇ္ဈန္တိ ပကာသေန္တီတိ ဂုဏာ'' ဟူသည်နှင့်အညီ ဂုဏ်မည်၏။ ရုပ်တရားသည် ထိုဂုဏ်၏ တည်ရာဖြစ်သောကြောင့် 'ဂုဏော ဧတေသ အတ္ထီတိ ဂုဏီ'' ဟူသော ဝစနတ္ထနှင့်အညီ ဂုဏေးမည်၏ဟူပေ၏။

❖❖❖❖❖

## ၇၂၃။ ပြဟ္မာလှူသည်၊ လှူရှစ်မည်၊ ဘယ်သည်ကာလ ကွယ်သနည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သူဌေးသမီး၊ သုဇာတာသည် ဃနာနို့ဆွမ်း လှူအံ့သောနေ့ညပင် ဃဋီကာရပြဟ္မာ လှူသောသပိတ်ကွယ်လေသည်။ ကြွင်းသောပရိက္ခရာတို့ကား သက်တော်ဆုံးအောင် တည်သည်ဟူပေ။

❖❖❖❖❖

## ၇၂၄။ တစ်ထောင်ရောင်ခြည်၊ နေဆောင်သည်၊ ခန့်ရည်လရောင် ဘယ်မျှနည်း။ (၁၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အာဒိစ္စော သူရိယော သူရော၊ သတရံသိ ဒိဝါကရော။

ဝေရောစနော ဒိနကရော၊ ဥဏှရံသိ ပဘာကရော။

အံသုမာလီ ဒိနပတိ၊ တပနော ရဝိ ဘာနုမာ။

ရံသိမာ ဘာကရော ဘာနု၊ အက္ကော သဟဿရံသိ စ။

ဟူ၍ အဘိဓာန်၌ နေမင်း၏ပရိယာယ် တစ်ဆယ့်ကိုးပုဒ် လာရာ၌ သတရံသိ၊ အရာမကသော ရောင်ခြည်ရှိသောနေ ဟူ၍လည်းကောင်း။ သဟဿရံသိ၊ အထောင်မကသော ရောင်ခြည်ရှိသောနေဟူ၍ လည်းကောင်း ဆိုသည်။ လ၏ပရိယာယ်၌ ဤကဲသို့ မလာသောကြောင့်မည်မျှရောင်ခြည်ရှိ၏ဟု မဆိုသာချေ။ မေးသင့်၍ မေးသောပုစ္ဆာပင် ဖြစ်သော်လည်း ကျမ်းသာဓက ရှိမှသာလျှင် ဖြေဆိုခြင်းငှာ စွမ်းနိုင်ရာသည်။ သဗ္ဗညုတ ဉာဏ်အရာကို ငါတို့မဝင်ဝံ့ဟူပေ။

သဟဿရံသိပုဒ်၌ သဟဿသဒ္ဒါလည်း အထောင်မျှကို မဟော။ အနေက သင်္ချာမျိုးဖြစ်၍ များသောအနက်ကိုပင် ဟောသည်။ ထို့ကြောင့် ၎င်းအဘိဓာန်ဋီကာ၌ ''သဟဿံ ဗဟဝေါ ရံသယော ယဿာတိ သဟဿရံသီ''ဟု ဝိဂြိုဟ်ပြု၏။

❖❖❖❖❖

## ၇၂၅။ ဗာဟီလမ်းသည်၊ နေ့မရှည်၊ မည်သို့ကျမ်း၌ လာသနည်း။(၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗာဟိရဝီထိသို့ နေသွားသောအခါ လူနေနှင့် ခရီးဝေးသောကြောင့် လည်းကောင်း၊ နေမင်းထွက်လာသည်ကိုမြင်ခဲသည်။ အရုဏ်ရောင်ဖြင့်သာ ကြာသည်။ နေကိုမြင်သောကာလ နာရီနည်းသည်ဖြစ်၍ နေ့မရှည်ဟူပေ။

ထိုစကားကို ထင်စွာ ဆိုလိုက်ဦးအံ့– နေမင်း၏ သွားရာဖြစ်သော ခရီးသည် အဗ္ဘော ဝီထိ, မဇ္ဈေ ဝီထိ, ဗာဟိရဝီထိအားဖြင့် သုံးပါးအပြားရှိသည်။ ထိုသုံးပါးတို့တွင်

ကဆုန်၊ နယုန်၊ ဝါဆို၊ ဝါခေါင်၊ ဤလေးလသည် အန္တောဝီထိမည်၏။ တော်သလင်း၊ သီတင်းကျွတ် အားဖြင့် ထွက်လမ်း၌ နှစ်လ။ တပေါင်း၊ တန်ခူးအားဖြင့် ဝင်လမ်း၌ နှစ်လ။ ဤလေးလသည် မဇ္ဈေဝီထိမည်၏။ တန်ဆောင်မုန်း၊ နတ်တော်၊ ပြာသို၊ တပို့တွဲ ဤလေးလသည် ဗာဟိရဝီထိမည်၏။

ထိုဝီထိ သုံးပါးတို့တွင် အတွင်းစွန်းဖြစ်သော အန္တောဝီထိဖြင့် နေသွားသောအခါ အရှေ့ပြုဗ္ဗာဝိဒေဟကျွန်း၌ မွန်းမတည့်မီ ၃–နာရီကပင် ဇမ္ဗူဒိပ်ကျွန်း၌ နေထွက်သည်။ ဇမ္ဗူဒိပ်ကျွန်း၌ တစ်နေ့လုံး လည်၍ အနောက်ဖြစ်သော အပရဂေါယာနကျွန်း၌ မွန်းလွဲ ၃–နာရီတိုင်မှ ဤကျွန်း၌ နေလုံးပျောက်သည်ဖြစ်၍ နေ့ ၃၆–နာရီ။ နေဝင်ကသည် နေထွက်သို့ကျအောင် ၂၄–နာရီရှိသည်။

မဇ္ဈေဝီထိ သွားသောအခါ အရှေ့ပြုဗ္ဗာဝိဒေဟကျွန်း၌ မွန်းတည့်လျှင် ဤကျွန်း၌ နေထွက်သည်။ အနောက် အပရဂေါယာနကျွန်း၌ မွန်းတည့်လျှင် ဤကျွန်း၌ နေလုံး ပျောက်သည်ဖြစ်၍ နေ့နာရီ ၃၀၊ ညဉ့် နာရီ ၃၀–စီ အညီရှိသည်။

ဗာဟိရဝီထိသွားသောအခါ အရှေ့ပြုဗ္ဗာဝိဒေဟကျွန်း၌ မွန်းလွဲ ၃–နာရီမှ ဤကျွန်း၌ နေထွက်သည်။ အနောက်ကျွန်း၌ မွန်းမတည့်မီ ၃–နာရီကပင် ဤကျွန်း၌ နေလုံး ပျောက်သည်ဖြစ်၍ နေကိုမြင်ရသောကာလ နေ့သည် ၂၄–နာရီမျှသာရှိ၍ ညဉ့် ၃၆–နာရီရှိသည်။ အနောက်ကျွန်း၊ မြောက်ကျွန်း၊ အရှေ့ကျွန်းတို့၌လည်း ဤနည်းအတူ မှတ်ယူရာသည်။

အန္တောဝီထိ၌ နေ့ ၃၆–နာရီ၊ ညဉ့် ၂၄–နာရီဟူသည်ကိုလည်း တစ်ဝီထိလုံး မမှတ်အပ်။ လစဉ်ဖဝါးကဲ့သို့ အန္တောစွန်းဖြစ်သော ကရကဋ်ရာသီဦးမှစ၍ တစ်နေ့ထက် တစ်နေ့ ဆုတ်ယုတ်သဖြင့် ၃၆–နာရီ၊ ၃၅–နာရီ၊ ၃၄–နာရီဖြစ်သည်ကို သိရာသည်။ မဇ္ဈေ, အန္တော တို့၌လည်း နည်းတူမှတ်လေ။

ဝီထိ၏ အပိုင်းအခြားကိုကား ရှေးဆရာတို့သည် တစ်ခုသော လပြည့်နေ့မှစ၍ တစ်ခုသောလပြည့်နေ့တိုင်အောင် ရေတွက်သော သာဝဏမာသအားဖြင့် ပြကုန်သည်။ ထိုစကားသည် မုချမဟုတ်သေး။ တနင်္ဂနွေဂြိုဟ် နေသို့လိုက်သော သုဘတ္တာဒိတ်ရာသီ တည်းဟူသော သူရိယမာသဖြင့်သာ မှတ်ယူရာသတည်း။

ပုစ္ဆာ၌ ''မည်သို့ကျမ်း၌ လာသနည်း''ဟု မေးပါသည်ကို သဘောဖြင့်သာ ဆရာဘယ်ကြောင့် ဖြေသနည်းဟူငြားအံ့– သာရတ္ထဒီပနီဋီကာ၊ လောကဒီပနီ၊ စန္ဒသူရိယဂတိဒီပနီတို့၌ လာသောနည်း။ မနောရထပူရဏီမည်သော ဗိုလ်ဋီကာတို့၌ လာသောနည်းပင် ဖြစ်ရကား ကျမ်းစကားပင်တည်း။ ပါဠိကိုကျယ်အံ့ စိုး၍လည်းကောင်း. လူပြိန်းတို့ နားရှုပ်အံ့စိုး၍ လည်းကောင်း မရေးလိုက်သည်ဟူပေ။ ဤအရာ၌ ရှေးဆရာတို့ ဖြေပါသော်လည်း ဆဋ္ဌတ္တာ ဖြစ်လေရာ၏။

❖❖❖❖❖

## ၇၂၆။ ဂန္ဓမာတည်၊ ဂူသုံးမည်၊ နေသည်ဘယ်က ဘယ်သို့နည်း။(၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဂန္ဓမာဒန ပဗ္ဗတေ နန္ဒမူလံနာမ ဂုဟ္ဘာရံ ပစ္စေကဗုဒ္ဓါနံ ဝသနော ကာသော။တိသော မဟာရုဟာ သုဝဏ္ဏဂုဟာ မဏိဂုဟာရဇတဂုဟာတိ သယံ ဇာတာ။**

ဂန္ဓမာဒနာပဗ္ဗတေ၊ ဂန္ဓမာဒတောင်၌။ နန္ဒမူလံ နာမ၊ နန္ဒမူလအမည်ရှိသော။ ဂုဟ္ဘာရံ၊ လိုဏ်သည်။ ပစ္စေကဗုဒ္ဓါနံ၊ အရှင် ပစ္စေကဗုဒ္ဓါတို့၏။ ဝသနော ကာသော၊ နေရာ အရပ်တည်း။ သုဝဏ္ဏဂုဟာ၊ ရွှေလိုဏ်လည်းကောင်း။ မဏိဂုဟာ၊ ပတ္တမြားလိုဏ် လည်းကောင်း။ ရဇတဂုဟာ၊ ငွေလိုဏ်လည်းကောင်း။ ဣတိ၊ ဤသို့။ တိသော၊ သုံးပါးကုန်သော။ သယံဇာတာ၊ အလိုလို ဖြစ်ကုန်သော။ မဟာဂုဟာ၊ ကြီးစွာသော လိုဏ်တို့သည်။ သန္တိ၊ ရှိကုန်၏။ တတ္ထ၊ ထိုလိုဏ်သုံးပါးတို့တွင်။ မဏိဂုဟာဒွါရေ၊ ပတ္တမြားဂူတံခါးဝ၌။ မဉ္ဇူသကော နာမ ရုက္ခော၊ မဉ္ဇူသကမည်သော သစ်ပင်သည်။ ဥဗ္ဗေဓေန စ၊ အစောက်အားဖြင့်လည်း။ ယောဇနံ၊ တစ်ယူဇနာရှိ၏။ ဝိတ္ထာရေန စ၊ အပြန့်အားဖြင့်လည်း။ ယောဇနံ၊ တစ်ယူဇနာရှိ၏။

ဤသို့ သာရတ္ထဒီပနီဋီကာတို့၌ လာသည်။ အတွင်းဘက်၊အပြင်ဘက်ဟူ၍ ဌာနဝိသေသ ကိုကား မဆိုချေ။

မဟာသာရပျို့၌ကား တောင်၏အပြင်ဘက် ခါးပန်း၌ ဂူသုံးပါးတည်ကြောင်းကို စပ်ဆိုသည်။

❖❖❖❖❖

## ၇၂၇။ ကာလတွင်မည်၊ နဂါးသည်၊ မည်သည့်ချိန်မှ နိုးသနည်း။(၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**တထာ ဟိ ဇာတကနိဒါနေ အဘိသမ္ဗုဇ္ဈနဒိဝသေ မဟာသတ္တေန နဒီယာ ပဝါဟိတာယ သုဝဏ္ဏပါတိယာ ကတကိလိကိလီတိသဒ္ဒံ သဝနေန အာဂစ္ဆန္တော မဟာကာလော နာဂရာဇာ "ဟိယျော ဧကော ဗုဒ္ဓေါ နိဗ္ဗတ္တော ပုန အဇ္ဇေကော" တိ ဝတွာ အာဂတော။ တဿ ကိရ မဟာပထဝိယာ ဧကယောဇနတိဂါဝုတပ္ပမာဏံ နဘံ ပူရေတွာ အာရောဟဏကာလော အဇ္ဇေဝ ဟိယျောဝါတိ သဒိသော အဟောသီတိ ဝုတ္တံ။**

ဟူ၍ သာရတ္ထသင်္ဂဟ၌ လာသည်။

**အနက်ကား**။ ။ တထာ တံ ဝစနံ၊ ထိုစကားကို။ ဟိ၊ ထင်စွာဆိုလိုက်ဦးအံ့။ ဇာတကနိဒါနေ၊ ဇာတ်နိဒါန်း၌။ အဘိသမ္ဗုဒ္ဓ နဒိဝသေ၊ ဘုရားဖြစ်တော်မူအံ့သောနေ့၌။ မဟာသတ္တေန၊ ဘုရားလောင်းသည်။ နဒီယာ၊ နေရဉ္ဇရာမြစ်၌။ ပဝါဟိတာယ၊ မျှောအပ်သော။ သုဝဏ္ဏ ပါတိယာ၊ ရွှေခွက်၏။ ကတကိလိကိလီတိသဒ္ဒံ၊ ရှေး ရွှေခွက်တို့နှင့် ထိခိုက်၍ ပြုအပ်သော ချင်ချင်ဟူသော အသံကို။ သဝေနေန၊ ကြားသဖြင့်။ အာဂစ္ဆန္တော၊ လာလတ်သော။မဟာကာလော နာဂရာဇာ၊ မဟာကာလ မည်သော နဂါးမင်းသည်။ ဟိယျော၊ ယမန်နေ့ကပင်။ ဧကော ဗုဒ္ဓေါ၊ ဘုရား တစ်ဆူသည်။ နိဗ္ဗတ္တော၊ ဖြစ်၏။ ပုန၊ တစ်ဖန်။ အဇ္ဇ ဝါ၊ ယနေ့လည်း။ ဧကော ဗုဒ္ဓေါ၊ ဘုရားတစ်ဆူသည်။ နိဗ္ဗတ္တော၊ ဖြစ်ပြန်ပြီ။ ဣတိဝတွာ၊ ဤသို့ဆို၍။ အာဂတော၊ ဖူးမြင်လာ၏။ တဿ၊ ထိုနဂါးမင်းအား။ မဟာပထဝိယာ၊ မြေကြီး၏။ ဧကယောဇန တိဂါဝုတပ္ပမာဏံ၊ တစ်ယူဇနာ သုံးဂါဝုတ် အတိုင်းအရှည်ရှိသော။ နဘံ၊ ကောင်းကင်ကို။ ပူရေတွာ၊ ပြည့်စေ၍။ အာရောဟဏကာလော၊ တက်ကြွသော ကာလကို။ အဇ္ဇေဝါတိ၊ ယနေ့ဟူ၍ လည်းကောင်း။ ဟိယျော ဝါတိ၊ ယမန်နေ့ဟူ၍ လည်းကောင်း။ သဒိသော၊ အတူပြု၍ ဆိုသည်။ အဟောသိ ကိရ၊ ဖြစ်သတတ်။ ဣတိ၊ ဤသို့။ ဝုတ္တံ၊ ဆို၏။

> **ကာလော နာဂရာဇာ စတုန္နံ ဗုဒ္ဓါနံ သမ္မုခီဘာဝံ လဘိတွာ ဌိတောပိ မေတ္တေယျဿာပိ ဘဂဝတော သမ္မုခီဘာဝံ လဘိဿတီတိ ယံ တဿ ကပ္ပါယုကတာ ဝုတ္တာ။ ။**

ကာလော နာဂရာဇာ၊ ကာလမည်သော နဂါးမင်းသည်။ စတုန္နံ ဗုဒ္ဓါနံ၊ က, ကော, က, ဂေါ ဟူသော ဘုရားလေးဆူတို့၏။ သမ္မုခီဘာဝံ၊ မျက်မှောက်အဖြစ်ကို။ လဘိတွာ၊ ရ၍။ ဌိတောပိ၊ တည်ပြီးသော်လည်း။ မေတ္တေယျဿာပိ၊ ဘဂဝတော၊ မိတေယျဘုရားရှင်၏လည်း။ သမ္မုခီဘာဝံ၊ မျက်မှောက်အဖြစ်ကို။ လဘိဿတိ၊ ရလတ္တံ့။ ဣတိ၊ ဤသို့။ ယံ ယသ္မာ၊ အကြင့်ကြောင့်။ ဝဒန္တိ၊ ဆိုကုန်၏။ တသ္မာ၊ ထို့ကြောင့်။ တဿ၊ထိုကာလနဂါး၏။ ကပ္ပါယုကတာ၊ တစ်ကမ္ဘာပတ်လုံးတည်သည်၏ အဖြစ်ကို။ ဝုတ္တာ၊ ဆိုအပ်၏။ ။ ဤသို့ကေနိပါတ်ဋီကာ၌ လာသည်။

ယင်းသို့ ဘုရားတစ်ဆူနှင့်တစ်ဆူ ဖြစ်သည့်အကြားသည် မြေကြီးတစ်ယူဇနာ သုံးဂါဝုတ် တက်သည်တိုင်အောင် ကာလခြားကွာလျက် ယမန်နေ့ကပင် ဘုရားတစ်ဆူ ဖြစ်ခဲ့၍ ယနေ့တစ်ဖန် ဘုရားဖြစ်ပြန်သည်ဟု ဆိုခြင်းသည်။ ကာမဂုဏ်ဖြင့် မွေ့လျော်၍ နေသောကြောင့် အိပ်ပျော်ခြင်းနှင့်တူရကား ရွှေခွက်ချင်း ထိခိုက်သံကြားမှ နိုးသည်ဟု ဆိုလေသတည်း။

အဘယ်ကိုထောက်၍ သိရသနည်းဟူမူ– သီရိဓမ္မာသောကမင်းခေါ်သောအခါ ထိုကာလနဂါးမင်းသည် ပါဋလိပုတ်ပြည်သို့ လာကြောင်း၊ ဘုရားရှင်ရုပ်သွင်တော်ကို ဖန်ဆင်း၍ ဓမ္မာသောကမင်းအား ပြရကြောင်းကို ပါရာဇိကဏ် အဋ္ဌကထာ၌ ဆိုသော

ကြောင့် ရှေးရှေးဘုရားတို့၏ အကြား၌လည်း အကြောင်းနှင့်လျော်စွာ သွားလာ ရပ်ထိုင်ခြင်းရှိ၏ဟု သိရာသည်။

❖❖❖❖❖

## ၇၂၈။ ဤတိုင်းကသည်၊ ယိမ်းမဖည်၊ မည်မှာ ဗောဓိ ရှိသနည်း။(၂၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မဇ္ဈိမဒေသ၏ နိမိတ်ကိုပြုရာ၌ အရှေ့တောင်မျက်နှာ၌ သလ္လဝတီမည်သော မြစ်ရှိကြောင်း။ ထိုမြစ်အတွင်းသည် မဇ္ဈိမတိုက်။ ပြင်ဘက်သည် ပစ္စန္တရစ်ဖြစ်ကြောင်းကို ဆိုသည်။ ထိုသလ္လဝတီမြစ်ဟူသည်လည်း ဤမြန်မာနိုင်ငံ၌ ချင်းတွင်းမြစ်ကို ဆိုသည် ဖြစ်၍ ဤသုပနာရန္တတိုင်းမှသည် အနောက်မြောက်စူးစူးတွင် ဗောဓိပင်ရှိ၏ဟု သိရာသည်။

❖❖❖❖❖

## ၇၂၉။ ဓာတုရောင်ခြည်၊ ဆယ်ရပ်လည်၊ မည်ချိန်ရောက်မှကွယ်လိမ့်နည်း။(၂၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သာသနာတော်ငါးထောင်စေ့သောအခါ မဟာဗောဓိပင်တွင် ဓာတ်တော် မွေတော်ဟူသမျှ စုဝေး၍ ပရိနိဗ္ဗာန်ပြုလိမ့်မည်။ ထိုအခါ ဓာတ်တော်မှ လွှတ်သော ရောင်ခြည်တော် ခြောက်သွယ်တို့သည် အထက်အောက် ပျံ့နှံ့၍ ထွန်းပပြီးမှ ကွယ်လိမ့်မည်။ ကာလအကြာကိုကား ဘယ်မျှကြာမည်ဟု ကျမ်းဂန်မလာ။

❖❖❖❖❖

## ၇၃၀။ ကျွန်းကြီးလေးတည်၊ ဥတုသည်၊ တူမည် ခြားမည် ဘယ်သို့နည်း။(၂၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နေမင်းသည် နက္ခတ်ရာသီ စက်ကို စီး၍ လေးကျွန်းလုံးကို လည်သည် ဥပမာကား– ဆီဆုံ၏ နှာတံ၌ အတွင်းကစီးသောသူသည် အတွင်းဝန်းဖြင့်လည်သည်။ အလယ်ကစီးသောသူသည် အလယ်ဝန်းဖြင့် လည်သည်။ ပြင်ကစီးသောသူသည်လည်း ပြင်အဝန်းဖြင့် လည်သည်။ ခရီးအကျဉ်းအကျယ်သာထူးသည်။ အရောက်မူကား အတူတူကျသကဲ့သို့ ထို့အတူ နေမင်းလည်း စက်အတူသွားသည်ဖြစ်၍ လေးကျွန်းလုံး ဥတုအတူတူချည်း ဖြစ်သည်။

ထို့ကြောင့်–

ဆီဆုံနှာတံ၊ စက်လည်ဟန်ဝယ်၊ ပြင်စွန်အဘ၊ ပုတ္တမဇ္ဈေ၊ မအေဆုံရင်း၊ စက်သုံးကွင်းသို့၊ နေမင်းကုန်းကြီး၊ တိမ်ယာဉ်စီးသည်၊ ခရီးသုံးပါး၊ ဝန်း၍သွား၏။

ဟူသော လောကသာရတို့၌ စပ်ဆိုသည်။

ဤသို့ စက်အကျဉ်းအကျယ်ဖြင့် သွားခဲ့သော် ''တစ်နေ့သဉ် နေမင်း ယူဇနာ သုံးသန်း ရောက်သည်'' ဟူသော စကားနှင့် အဘယ်သို့ ညီတော့အံ့နည်း ဟူငြားအံ့။ နေမင်းရောကသောခရီးသည် ယူဇနာ သုံးသန်းရောက်သည်ဟု ကျမ်းဆရာတို့မဆို။ နေမင်းမှီ၍ သွားသော နှစ်ဆယ့်ခုနစ်လုံး နက္ခတ်တို့၏ တည်ရာဖြစ်သော ရာသီစက် သာလျှင် ယူဇနာသုံးသန်းရှိသည်ဟု ဆိုသည်။ ထိုရာသီစက်ဖြင့်သာ နေမင်းလှည့်လည် လေသည်။ လည်၍ ရောက်သော ခရီးကား အဗ္ဘောဝီထိသွားသောအခိုက် တစ်နေ့လျှင် ယူဇနာပေါင်း တစ်သန်း ကိုးသောင်း တစ်ထောင့်ငါးရာ့ ရှစ်ဆယ့်ခုနစ်ယူဇနာ နှစ်ဂါဝုတ် ရောက်၏။ မဇ္ဈေဝီထိသွားသောအခိုက် တစ်နေ့လျှင် ယူဇနာပေါင်း တစ်သန်း ကိုးသိန်း သုံးသောင်း တစ်ရာ့ခုနစ်ဆယ့်ငါးယူဇနာ ရောက်၏။ ဗာဟိရဝီထိ သွားသောအခိုက် တစ်နေ့လျှင် ယူဇနာပေါင်း နှစ်သန်း ခုနစ်သိန်း ခုနစ်သောင်း ခုနစ်ရာ့ခြောက်ဆယ့် နှစ်ယူဇနာ နှစ်ဂါဝုတ် ရောက်၏။

ထိုသို့ ဝီထိသုံးပါးတို့၏ ကျယ်ဟန်ကို ဘယ်သို့ သိအပ်သနည်းဟူမူ-မြင်းမိုရ်နှင့် စကြဝဠာကွာသောခရီး၏ ထက်ဝက် သချာကို သုံးခုမြှောက်။ အဝန်းယူဇနာ (သတ်အင်္ဂ ပဌော။ နောတိဗသျှူ) ရှစ်သိန်း သုံးသောင်း ကိုးထောင့် ငါးရာခုနစ်ယူဇနာ နှစ်ဂါဝုတ်ဖြစ်၏။ မြင်းမိုရ်တောင်၏ အဝန်းယူဇနာ နှစ်သိန်းငါးထောင်ကိုတည်။ ရှစ်သိန်း သုံးသောင်း ကိုးထောင့်ငါးရာ့ ရှစ်ဆယ့်ခုနစ်ယူဇနာ နှစ်ဂါဝုတ်ရော အဗ္ဘောဝီထိ အဝန်းဖြစ်၏။ ၎င်းတွင် ဤကိန်းထပ်၍ ရောပြန်၊ မဇ္ဈေဝီထိအဝန်းဖြစ်၏။ ၎င်းတွင် ဤကိန်းထပ်၍ရောပြန်၊ ဗာဟိရဝီထိအဝန်းဖြစ်၏။ ၎င်းတွင် ထပ်၍ ရောပြန်၊ စကြဝဠာအဝန်းယူဇနာ ဖြစ်၏။

ထို့ကြောင့် လောကဝိဒူပျို့၌-

နှစ်သိန်း ငါးသောင်း၊ နှစ်ထောင်ဆောင်းသား၊ လုံးလျောင်းကြီးထု၊ မေရုမဏ္ဍလ၊ တောင်မှရှေ့ဖျား။ တည်ကိန်းထား၍၊ အပွားဖွင့်လှစ်၊ ခုနစ်ယူဇနာ၊ နှစ်ဂါဝုတ်မျှ၊ ငါးရာ့ရှစ်ဆယ်၊ ကြွယ်၏ရှေးနှောင်း၊ သုံးသောင်း ကိုးထောင်၊ စောင့်ဆောင် ရှစ်သိန်း၊ ရောကိန်းရောက၊ အဗ္ဘောရ၏။ ထိုမှမဇ္ဈ၊ ထိုထုံဗာဟီ၊ ထိုပြီစက္ကဝါ၊ လေးခါ ထိန်းကျောင်း၊ လေးကိန်းလောင်းသော်၊ အပေါင်းဖြင့် အား၊ လေးပါးတိတိ၊ ပရိမဏ္ဍိုင်၊ လေးဝိုင်းပိုင်ရှင့် ဟူ၍ စပ်ဆိုသည်။

ဤသို့ နေမင်းသည် စက်တူသွားသောကြောင့် လေးကျွန်းလုံး၌ ဥတု တူကြ၏ဟု မှချသိရာသည်။

ပိဋကတ်နှင့် ညီသော် တန်ဆောင်မုန်းလအခါ၌ ရွာသောမိုးကို ''ဤမိုးသည် အဆုံးစွန်သော ရွာခြင်းဖြင့် လေးကျွန်းလုံးကို နှံ့စေလျက် ရွာသောမိုးတည်း'' ဟူ၍ ဘုရားမိန့်တော်မူကြောင်းကို ဝိနည်းမဟာဝါပါဠိတော်၌ လာသည်နှင့်လည်းညီ၏။ ''မိုးကာလ၌ အမ္ဗုန္ဒရနတ်သားသည် လေးကျွန်းလုံးကို မိုးရေဖြင့်သွန်းရ၏'' ဟူ၍ ဟောတော်မူသော သုတ်ပါဠိတော်နှင့်လည်းညီ၏။

77
B

အချို့ဆရာတို့ကား သာရတ္ထဒီပနီ၌ ''ဩရုယော ရုယ''ဟူသော ပါဌ်ကို ထောက်၍ ခေါက်ရှာငှက် ပျံသကဲ့သို့ နိမ့်တုံမြင့်တုံ သွားသည်။ ထိုကို အကောက်တာ သောအားဖြင့် ယူဇနာသုံးသန်းအညီဖြစ်သည်ဟု ဆိုကြ၏။ ထိုစကားသည် အလွန် မှားသည်ဟု မှတ်အပ်၏။ အဘယ့်ကြောင့် နည်းဟူမူ သာရတ္ထဒီပနီ ဆရာတော်ကား အန္တောဝီထိသည် ယူဇနာ လေးသောင်းနှစ်ထောင်မြင့်သည်။ ဗာဟိရဝီထိသည် လေးသောင်းတစ်ထောင် မြင့်သည် ဖြစ်၍ ဝီထိအနိမ့်အမြင့် မညီရကား ပြင်သို့ထွက်၍ ဒက္ခိဏာယာဥ်သွားသောအခါ သက်၍သက်၍ သွားရသည်။ အတွင်းသို့ဝင်၍ ဥတ္တရာယာဥ်သွားသောအခါ တက်၍တက်၍ သွားရသည်ဖြစ်၍ ခေါက်ရှာငှက်ပျံသကဲ့သို့ တက်၍လည်းကောင်း၊ သက်၍လည်းကောင်းသွားသည်ဟု ဆိုသည်။ နိမ့်တုံ၊ မြင့်တုံသွားသည်ကို ရည်၍ မဆို။ အကယ်၍ နေမင်းသည် နိမ့်တုံမြင့်တုံ အကောက် သွားသည် ဖြစ်အံ့။ နိမ့်သောအခါ လူနှင့်နီးသောကြောင့် သာ၍ပူရသည်။ မြင့်သောအခါ လူနှင့် ဝေးသောကြောင့် သာ၍အေးရာသည်။ ထိုကဲ့သို့လည်း မဖြစ်။ ထို့ကြောင့် နိမ့်တုံ၊ မြင့်တုံ မသွားသောအဖြစ်ကို သိသင့်သည်။

❖❖❖❖❖

## ၃၃၁။ ကပိလပြည်။ တော်ကသည်၊ မည်သို့တောထွက်လေသနည်း။(၂၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကဏ္ဍကံ အဘိရူဟိတွာ ပါစီနာဘိမုခေါ် နိက္ခမတိ။

အစရှိသည်ဖြင့် သုတ္တနိပါတ် ပဗ္ဗဇ္ဇသုတ် အဋ္ဌကထာ၌ လာသောကြောင့် ကပိလဝတ်ပြည်မှ အရှေ့အရပ်သို့ ရှေးရှုလျက် ထွက်တော်မူသဖြင့် အနော်မာမြစ်သို့ ရောက်သည်ဟူပေ။

❖❖❖❖❖

## ၃၃၂။ အဝီစိပြည်၊ လူကသည်၊ ခန့်ရှည်ဘယ့်လောက် ကွာသနည်း။(၂၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဣတော ဟေဋ္ဌာ ဝီသတိသဟဿာဓိက ယောဇနသတသဟဿဂ္ဂါနေ အဝီစိမဟာနိရယော တိဋ္ဌတိ၊ အဋ္ဌန္နံ မဟာနိရယာနံ အန္တရံ ပဉ္စရသ ယောဇနသဟဿန္တိ။ ဟူ၍ လောကပညတ္တိကျမ်းတွင် လာသည်။

အဓိပ္ပါယ်ကား။ ။ဤလူ့ပြည်မှ ယူဇနာတစ်သိန်း နှစ်သောင်းကွာသော သေလာ ပထဝီ၏ အထက်၊ ပံသုပထဝီ၏အောက်၌ ယူဇနာတစ်သောင်း အပြန့် ကျယ်သော အဝီစိငရဲကြီးတည်သည်။ ငရဲကြီးရှစ်ထပ်တို့တွင် တစ်ထပ်မှတစ်ထပ်၏ အကြားသည် ယူဇနာ တစ်သောင်း ငါးထောင်စီ ခြား၏ဟူလိုသည်။ ဇိနာလင်္ကာရဋီကာ၌ လည်း ဤနည်းအတိုင်းပင် ပြသည်။

သာရတ္ထဒီပနီ ဋီကာ၌ကား–

**အယဥ္စ အဝီစိမဟာနိရယော ဇမ္ဗုဒီပဿ ဟေဋ္ဌာ ပတိဋ္ဌိတောတိ ဝဒန္တိ။**

ဟူသောပါဠ်ဖြင့် ဇမ္ဗူဒိပ်ကျွန်းမြေ၏ အောက်၌တည်ကြောင်းကိုလာသည်။ အဝေးအကွာကို မလာ။ အင်္ဂုတ္တိုရ်ဋီကာ၌ကား–

ဇမ္ဗူဒိပ်ကျွန်းမြေ လူနေသော ဌာနတို့၏အောက် အစောက်တစ်သောင်းကွာ၌ သိဋ္ဌိုင်းငရဲတည်သည်။ ၎င်း၏အောက်အစောက် တစ်သောင်းစီအကွာ၌ ကာလသုတ်, သင်္ဃာတ, ရောရုဝ, မဟာရောရုဝ, တာပန, မဟာတာပန, အဝီစိဟူသော ငရဲကြီးရှစ်ထပ်တို့ အဆင့်ဆင့် တည်ကုန်သည်။ ထို့ကြောင့် လူ့ပြည်မှသည် အဝီစိငရဲ၏ တည်ရာသည် ယူဇနာပေါင်း ရှစ်သောင်း ခြားကွာ၏ဟု မိန့်တော်မူသည်။

ဤကိုရည်၍ ရှင်အဂ္ဂသမာဓိ စီရင်သော နေမိပျို့ ငရဲခန်း၌–

လူ့ဘုမ်မှ၊ ဝီစိမည်ရာ၊ ငရဲရွာကား၊ ယူဇနာပေါင်း၊ နက်လေတောင်းသည်၊ ရှစ်သောင်း မြေအစောက်၏တည်း။ ဟူ၍ စပ်ဆိုသည်။

❖❖❖❖❖

## ၅၃၃။ မိုးသီးကျသည်၊ တျက်တျက်မြည်၊ ရေကြည်ဘယ့်ကြောင့် ခဲသနည်း။ (၂၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မြေမှထွက်သော အခိုး, မီးမှထွက်သော အခိုး, ဤအခိုးအငွေ့တို့သည် အထက်သို့ တက်လေ၍ ဝေရမ္ဘလေလာရာ ကောင်းကင်သို့ ရောက်သောအခါ ပြင်းထန်စွာလာသော လေဟုန်ကြောင့် အထက်သို့မတက်ဘဲ မြေးယုက် ရစ်သန်း၍ တည်ကုန်သည်။ အခိုး အမှုန်ချင်း ပေါင်းမိသဖြင့်လည်း ရေပေါက် ရေခဲဖြစ်ကုန်သည်။ ထိုရေပေါက် ရေခဲတို့သည် အောက်မှ လွင့်တက်သောလေဟုန် မြူမှုန်တို့ကြောင့် အောက်သို့ မသက်မကျပဲ ကာလအရှည် တည်လတ်သော် နေရှိန်တည်းဟူသော ဉဏှတေဇော၊ လေရှိန်မှဖြစ်သော ပါစကတေဇော၊ သီတတေဇောတို့၏ အာနုဘော်ကြောင့် အစိုင်အခဲဖြစ်ကုန်သည်။ ထိုအခဲတို့သည် အချို့ကား ပင်လယ်ရေကို ချက်၍ခဲသော ဆားကဲ့သို့ မွမ္မသာ ခဲသည်။ အချို့ကား နေရှိန်လေရှိန်သင့်ခြင်း လွန်သဖြင့် ကျောက်စိုင်ကဲ့သို့ မာပြင်းစွာ ခဲကုန်သည်။ ထိုမာပြင်းစွာခဲသော ကျောက်တို့သည် အရောင်အဝါ ထွန်းပလျက် အာကာသဠရတနာ ဖြစ်လေကုန်၏။ ထိုကျောက်ရတနာသည် တိမ်လွှာ တိမ်တိုက်မှ ဖြစ်ရကား ဝဠာဟက ပုလဲ ဟူ၍လည်းကောင်း၊ ဉဿဖယားဟူ၍လည်းကောင်း သမုတ်သည်။ ထိုကျောက်နတို့ကို ကောင်းကင်၌ ကျက်စားသော ဆင်ပျံ, မြင်းပျံတို့သည် စားကုန်သည်။ နတ်တို့လည်း ဆောင်ယူ၍ ဘယက်တန်ဆာ ပြုကြကုန်သည်။ ဆားကဲ့သို့မွမ္မနုသာ ခဲသောရေစိုင် တို့မူကား အမှုန္တရနတ်သား၏ ရေနှင့်ထိလျှင် အစိုင်အခဲမှ ကွဲပျက်၍ အချို့ရေဖြစ်လျက်

ကျလာကုန်သည်။ ထိုသို့ကျလာကုန်သည်ကို မဂဓဘာသာဖြင့် ''ဃနဝဿ, ကာရကဝဿ'' ဟု ခေါ်ဝေါ်သည်။ မြန်မာဘာသာဖြင့် ''မိုးသီး''ဟု ခေါ်ဝေါ်သည်။ ဤသို့နေဟုန်၊လေဟုန်မှဖြစ်သော ဥဏှတေဇော၊ ပါစကတေဇော သီတတေဇော၊ ဝါယောဓာတ်တို့၏ အာနုဘော်ကြောင့်ပင် ရေကြည်ခဲ၏ဟူပေ။

အဘယ်ယုတ္တိကိုထောက်၍ သိရသနည်းဟူမူ-ထမင်းအိုး၊ ဟင်းအိုးစသည်တို့မှ ထွက်သောအငွေ့သည် အထက်မှ အဆီးအတား မရှိလျှင် ပျောက်လေသည်။ အဆီးအတားရှိလျှင် ထိုအငွေ့တို့သည် စုရုံး၍ ရေလုံးရေပေါက် ဖြစ်လေသည်။ ဤကဲ့သို့ အခိုးအငွေ့ဟူသမျှသည် ရေပေါက်ဖြစ်ကြသည်ချည်း ဖြစ်သည်။

ဆရာ့သဘောနှင့်သာ ကြံဆ၍ ဖြေသလော။ ယုံကြည်လောက်သော ရှေးဆရာတို့၏ ဥပဒေသကိုရ၍ပင် ဖြေသလော ဟူငြားအံ့။ အဘညာဥရ တာပသက္ကသိတို့ ဟောအပ်သော အာဒိကပ္ပကျမ်း၌လည်းကောင်း၊ လောကပညတ္တိကျမ်း၌လည်းကောင်း၊ အာကာသဋ္ဌရတနာတို့၏ ဖြစ်ကြောင်းကိုဆိုရာ လောကုပ္ပတ္တိကျမ်း၌လည်းကောင်း လာသောနည်းကို မှီ၍ ဖြေဆိုသတည်း။

[ဤပြဿနာ၌လည်း ရှေးအဖြေဆရာ၏ အာဘော်သည် ချော်လေစွ]။

❖❖❖❖❖

## ၁၃၄။ ဖောဋ္ဌဗ္ဗတည်၊ ပြဟ္မာ့ပြည်၊ ဘုံသည် ဖောဋ္ဌဗ္ဗ ကင်လိမ့်နည်း။(၂၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ပြဟ္မာတို့သည် ဖောဋ္ဌဗ္ဗာရုံကို ခံစားတတ်သော ကာယပသာဒမျှ မရှိဟူ၍ ကျမ်းဂန်ဆိုသည်။ မိမိတို့၏ ဗိမာန်ဘုံဆောင်သည် တွေ့ကောင်း၊ ထိကောင်းသော ဘူတရုပ်အစု ဖြစ်သော ဖောဋ္ဌဗ္ဗာရုံ ဖြစ်သည်မဟုတ်လော။ ထိုဘုံ၌ နေခဲ့သော အဘယ်သို့ ဖောဋ္ဌဗ္ဗရုံ ကင်းနိုင်အံ့နည်း ဟူလိုသည်။

**ဃနာဒိတ္တယံ နတ္ထိ၊ ပြဟ္မာနံ ကာမဝိရာဂဘာဝနာဝသေန ဂန္ဓရသ ဖောဋ္ဌဗ္ဗေသု ဝိရတ္တတာယ တဗ္ဗိသယပ္ပသာဒေသုပိ ဝိရာဂသမ္ဘဝတော။**

ဟူ၍ မိန့်သောဋီကာကျော်ဖြင့်ပင်ဖြေ။

**အနက်ကား။** ။ ပြဟ္မာနံ၊ ပြဟ္မာတို့အား။ ကာမဝိရာဂဘာဝနာဝသေန၊ ကာမဂုဏ်၌ တပ်ခြင်းကင်းသော ဘာဝနာ၏အစွမ်းဖြင့်။ ဂန္ဓရသ ဖောဋ္ဌဗ္ဗေသု၊ ဂန္ဓရုံ, ရသာရုံ, ဖောဋ္ဌဗ္ဗာရုံတို့၌။ ဝိရတ္တယာယ၊ တပ်မက်ခြင်း ကင်းသည်၏ အဖြစ်ကြောင့်။ တဗ္ဗိသယပ္ပသာဒေသုပိ၊ ထို ဂန္ဓ, ရသ, ဖောဋ္ဌဗ္ဗလျှင် အာရုံရှိသော ပသာဒရုပ်တို့လည်း။ ဝိရာဂသမ္ဘဝတော၊ တပ်ခြင်းကင်းသောအားဖြင့် ဖြစ်သောကြောင့်။ ဃာနာဒိတ္တယံ၊ ဃာနအစရှိသော ဝတ္ထုရုပ်သုံးပါး အပေါင်းသည်။ နတ္ထိ၊ မရှိ။

အဓိပ္ပါယ်အကျဉ်း လိုရင်းကား- ဗိမာန်ဘုံဆောင်တည်းဟူသော ဓာဠွဇွာရုံကို ပြဟ္မာတို့သည် မှီ၍ထိ၍နေငြားသော်လည်း ထိုထိုအာရုံ၌ တပ်ငြိခြင်း ရာဂ မရှိသည်၏ အဖြစ်ကြောင့် ''ကင်း၏''ဟူ၍ ဆိုရသည် ဟူလိုသည်။

❖❖❖❖❖

၇၃၅။ ဘဝဂ်ကသည်၊ ဤလူ့ပြည်၊ မည်မျှလံပေါင်း ကွာသနည်း။(၂၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တြိသုညာ၊ သောပဥ္စာ၊ အဋ္ဌာကေသတ်။

နေဝသညာ၊ ထက်ပြဟ္မာ၊ လူ့ရွာအခြားမှတ်။

ဟူ၍ မိန့်အပ်သောကဗျာနှင့်အညီ- ဘဝဂ်နှင့် လူ့ပြည်သည် ယူဇနာပေါင်း ခုနစ်ကုဋေ တစ်သန်း ရှစ်သိန်း ငါးသောင်း ခြောက်ထောင် ကွာသည်။ ထိုအကွာယူဇနာကို တည်၊ လေးခုမြှောက်၊ ဂါဝုတ်ပေါင်းဖြစ်၏။ ထိုကို ရှစ်ဆယ်မြှောက်၊ ဥသဘပေါင်းဖြစ်၏။ ထိုကို နှစ်ဆယ်မြှောက်၊ တာပေါင်း။ ထိုကို ခုနစ်ခုမြှောက် တောင်ပေါင်း။ ၎င်းတောင် ပေါင်းကို လေးခုစား။ လဒ်ကား အလံပေါင်း (၈၀၄၇၈၇၂၀၀၀၀၀) ကုဋေပေါင်း ရှစ်သောင်း လေးရာ့ ခုနစ်ဆယ့်ရှစ်ကုဋေ ခုနစ်သန်း နှစ်သိန်းဖြစ်၏။

နန်းနုနယ်နနာ၊ ရင်သူဇာ၊ ဆင်းဝါနိဒ္ဒံ၊ အလံပုံ။

❖❖❖❖❖

၇၃၆။တီပေါင်း၍တည်၊ ယုန်ဖြစ်သည်၊ ယုံကြည်ထိုက်ကောင်းပါလိမ့်နည်း။(၂၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တီပေါင်းစု၍ တည်သဖြင့် ယုန်ဖြစ်ကြောင်းကို သာသနာကျမ်း၊ ဗေဒင်ကျမ်း၊ ဆေးကျမ်း၊ ဓာတ်ကျမ်းတို့၌ မတွေ့မိ။

ယင်းသို့ မတွေ့သော်လည်း လောက၌ အထူးထူးဝိပလ္လာသဖြစ်ကြခြင်းကား အလွန်များ၏။ သမန်းကျားဆေးမြစ်ကို မန်း၍ စားသဖြင့် လူစင်လျက် ကျားဖြစ်ကြောင်း။ မြွေသားနှင့် ဆေးမြစ်စပ်၍ စားသဖြင့် လူစင်လျက် မြွေဖြစ်ကြောင်း။ မာယာဝီဆေးကို သုတ်လိမ်းသဖြင့် ဖျင်းသည် ကြက်ဖြစ်ကြောင်း။ နွားသည် သမင်ဖြစ်ကြောင်းကို ထုံးစံ စာဟောင်းတို့၌ ဆိုသည်ကားများ၏။ မြင်ဖူး၊ ကြားဖူးသည်လည်း ရှိ၏။ ထို့ကြောင့် မယုံကြည်ထိုက်ဟု မဆိုသာချေ။

ဘုရားသဗ္ဗညုလည်း စေ့ငုစွာ ဟောဆိုခြင်းငှာ ခက်သောကြောင့် နည်းအမြွက်မျှ ပြတော်မူလိုသည်ဖြစ်၍-

က္ကဒံ က္ကမေ ပါဏာ၊ ဤသတ္တဝါအပေါင်းတို့သည်။ စိတ္တံ ယထာ၊ ဆန်းကြယ်သကဲ့သို့။ ဝေ၊ ဤအတူ။ စိတ္တံ ဆန်းကြယ်သော။ အညံ၊ တစ်ပါးသော။ ကေနိကာယမ္ပိ၊ တစ်ခုသော အပေါင်းကိုမျှလည်း။ အဟံ၊ ငါဘုရားသည်။ သမနုပဿာမိ၊ မြင်တော်မမူ။ ဟူ၍ အင်္ဂုတ္တိုရ်၌ ဟောတော်မူသည်။

❖❖❖❖❖

## ၇၃၇။ အလမ္ပာယ်သည်၊ နဂါးပြည်၊ မည်ခရီးက သွားသနည်း။(၂၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဘူရိဒတ်ဇာတ်တော်၌ အလမ္ပာယ်ယောက်ျား၏ အကြောင်းကား–

ကြွေးမြီးများသော ပုဏ္ဏားဆင်းရဲတစ်ဦးသည် လူ့ပြည်တွင် နေရန် ခက်ခဲသောကြောင့် တောသို့ ပြေးထွက်၍ လာလတ်သော် တောင်သမုဒ္ဒရာ၏ အနီးလက်ပံတောကြီး၌နေသော ဂဠုန်မင်း၏ မန္တန်ကိုရသော ရသေ့တစ်ဦးနှင့်တွေ့၍ ထိုရသေ့အား ဝတ်ကြီး ဝတ်ငယ်ကိုပြု၍ ခစားသဖြင့် ပုဏ္ဏားအား ဂဠုန်မင်း ပေးခဲ့သော အလမ္ပာယမန္တန်ကို လည်းကောင်း၊ ဆေးကိုလည်းကောင်း သင်လိုက်သော် ပုဏ္ဏားဆင်းရဲလည်း ''ငါသည် အသက်မွေးလောက်သောအတတ်ပညာကိုရပြီး ဤအတတ်ဖြင့် လူ့ရပ်ပြည်ရွာ၌ ငါအသက်မွေးဦးအံ့''ဟု ကြံ၍ရှင်ရသေ့အား ကန်တော့ခဲ့ပြီးလျှင် ယမုနာမြစ်ကမ်းသို့ အစဉ်လျှောက်သဖြင့် လာခဲ့၏။ ဘူရိဒတ် နဂါးမင်း၏ အလုပ်အကျွေးဖြစ်သော နဂါးမတို့သည် နဂါးဘုံမှထွက်၍ ယမုနာမြစ်ကမ်းနား သဲစု၌ ပတ္တမြားကိုထား၍ ထိုပတ္တမြားရောင်ဖြင့် တညဉ့်လုံး ကစားကြပြီးသော် နံနက် အရုဏ်တက်သော အခါ ထိုပတ္တမြားရတနာကို ကျက်သရေသွင်းလျက် နေကြကုန်၏။ ထိုသို့ နေရာအရပ်သို့ ယခင့်ပုဏ္ဏားသည် ရောက်၍ အလမ္ပာယမန္တန်ကို ရွတ်အံ့သရွေ့ ဘယ်လျှင် နဂါးမငယ်တို့လည်း ဂဠုန်မင်း မှတ်ထင်၍ အလျင်တဆော မြေသို့ငုပ်၍ ပြေးကြသဖြင့် ပတ္တမြားခဲသည် ရဲရဲတောက်လျက် ကျန်ရစ်၏။ ပုဏ္ဏားလည်း အားရဝမ်းသာစွာ ''ငါ၏မန္တာန်အကျိုးကို ခံရပေပြီ''ဟု ပတ္တမြားခဲကို ယူ၍လာခဲ့၏။

ဤသို့ ဘူရိဒတ်ဇာတ်၌ ဆိုသောကြောင့် အလမ္ပာယ်သည် နဂါးပြည်ကို ယမုနာမြစ်ကမ်းနားဖြင့် သွား၏ဟူပေ။

❖❖❖❖❖

## ၇၃၈။ အထက်နတ်ပြည်၊ ဘုံတိုင်းသည်၊ လည်ရန်လှည်းဘီးရှိလိမ့်နည်း။(၃၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နတ်ဘုံဗိမာန်သည် လူ့ပြည်၌ ရထားကဲ့သို့ လှည်းဘီး ဝင်ရိုးစသည်မရှိ။ ပကတိသော ဗိမာန်ပြာသာဒ်ပင် ဖြစ်သည်။ ကောင်းကင်ပြင်၌ အစဉ်သွားသည် ဖြစ်၍

ရထားနှင့် အလားတူသောကြောင့်သာလျှင် ''နတ်ဘုံရထား ကောင်းကင်သွား''ဟု ခေါ်ဝေါ်ကြသည်။ ရတုကဗျာတို့၌လည်း စပ်ဆိုကြသည်။ အဘယ်ကို ထောက်၍ သိရသနည်းဟူမူ ဝိမာနဝတ္ထုပါဠိတော် အဋ္ဌကထာတို့၌–

**အညတရေန ရောဂေန ဖုဋ္ဌော ကာလံ ကတွာ တာဝတိံသာ ဘဝနေ ဒွါဒသယောဇနိကေ ကနကဝိမာနေ နိဗ္ဗတ္တိ။ အစ္ဆရာ သဟဿပရိဝါရာ အဟောသိ။ ပီဋ္ဌဒါနာနုဘာဝေန တဿာ ယောဇနိကော ကနက ပလ္လင်္ကော နိဗ္ဗတ္တိ။ အာကာသစာရိနီ သီဃဇဝေါ ဥပရိကူဋ္ဌာဂါရသဏ္ဌာနော။ တေန တံ ပီဋ္ဌဝိမာနန္တိ ဝုစ္စတိ။ ဇသည်ဖြင့် လာသည်။**

သာ၊ ထိုအင်းပျဉ်လှူသော မိန်းမသည်။ အညတရေန ရောဂေန၊ တစ်ခုသော ရောဂါဖြင့်။ ဖုဋ္ဌော၊ တွေ့သည်ဖြစ်၍။ ကာလံ ကတွာ၊ သေခဲ့၍။ တာဝတိံသာဘဝနေ၊ တာဝတိံသာနတ်ပြည်၌။ ဒွါဒသယောဇနိကေ၊ တစ်ဆယ့်နှစ်ယူဇနာရှိသော။ ကနကဝိမာနေ၊ ရွှေဗိမာန်၌။ နိဗ္ဗတ္တိ၊ ဖြစ်၏။ အစ္ဆရာသဟဿပရိဝါရာ၊ နတ်သမီး တစ်ထောင် အရံရှိသည်။ အဟောသိ၊ ဖြစ်၏။ ပီဋ္ဌဒါနာနုဘာဝေန၊ အင်ပျဉ်လှူသည်၏ အာနုဘော်ကြောင့်။ တဿာ၊ ထိုနတ်သမီးအား။ ယောဇနိကော၊ တစ်ယူဇနာမျှလောက် ကြီးကျယ်သော။ ကနကပလ္လင်္ကော၊ ရွှေပလ္လင်သည်။ နိဗ္ဗတ္တိ၊ ဖြစ်လှာ၏။ အာကာသစာရိနီ၊ ကောင်းကင်ပြင်၌ အစဉ်လည်း သွား၏။ သီဃဇဝေါ၊ လျင်မြန်သော အဟုန်ရှိ၏။ ဥပရိ၊ အထက်၌။ ကူဋ္ဌာဂါသဏ္ဌာနော၊ စုလစ်မွန်းချွန်တပ်သော ပြာသဒ်သဏ္ဌာန်ရှိ၏။ တေန၊ ထို့ကြောင့်။ တံ၊ ထိုဗိမာန်ကို။ ပီဋ္ဌဝိမာနန္တိ၊ ပီဋ္ဌဝိမာနဟူ၍။ ဝုစ္စတိ၊ ဆိုအပ်၏။

ဤအတူရှစ်ဆယ်သော ဘုံဆောင်ဗိမာန်တို့၏ သဏ္ဌာန်ပမာဏကိုလည်း ပြတော်မူ သည်။ လှည်းဘီးရှိကြောင်းကို မပြချေ။ မာတလိနတ်သားသည် နေမိမင်းကြီးအား တင်ယူ လာသော ဝေဇယန္တာ–ရထားတို့၌သာ လှည်းဘီးဝင်ရိုးအစုံနှင့် လာသည်။ ထို့ကြောင့် နတ်ဘုံတိုင်း လှည်းဘီးမရှိ။ အလိုရှိသော နတ်တို့၏ဗိမာန်၌သာ ရှေးကောင်းမှုအလိုက် ရှိပေရာသည်ဟု မှတ်သင့်သည်။

❖❖❖❖❖

## ၇၃၉။ ဘီလူးသွေးရည်၊ ပုဂံပြည်၊ စိုးသည်ဘယ်မင်း ပေတို့နည်း။(၃၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပိတ်တောင်မင်း၏ညီ ငခွေး၏နောက်၌ မင်းပြုလေသော မြင်းကျွေးမင်းတည်း။

ထိုမင်း၏အကြောင်းကား–

ကုက္ကိုတောင်ပဲရွာ၌ သူကြီးတစ်ဦး၏အိမ်တွင် အပြင်အလျာနှင့်ပြည့်စုံသော ကျွန်မတစ်ယောက်သည် ရှိ၏။ ထို ကျွန်မသည် ဆယ့်ရှစ်နှစ်ရွယ်ရှိသောအခါ ရွာနှင့် အတန်ကွာတွင် အရှင်သူကြွယ်က ထိုမိန်းမကို ယာစောင့်ထည့်၏။ ထိုယာ၏အနီး သစ်ပင်ကြီးတစ်ပင်ကိုမှီ၍နေသော ဘုမ္မစိုးနတ်ဘီလူးတစ်ကောင်သည် ထိုကျွန်မအား

တပ်မက်ခြင်းစိတ်ရှိ၍ လူ၏သွင်ဖြင့် ပြောဆိုလှည့်ပတ်၍ ရည်ငံရောယှက်ကြရာတွင် သန္ဓေရလေသတည်း။ ထိုသန္ဓေရင့်သောအခါ အဖ ဘီလူးလည်း မပေါ်လာပဲ သူကြွယ် အိမ်တွင် ဖွားမြင်ရလေ၏။ သူကြွယ်မွေးမြူ၍ သူငယ်အတန်ကြီးသောအခါ အရှင်က မြင်းကျောင်းစေ၏။ တစ်နေ့သ၌ မြင်းပျောက်လေသောကြောင့် အရှင့်ကို ကြောက်ရွံ့ သောအားဖြင့် မင်း၏ထံတွင် ဝင်၍ ခစားလေ၏။ မင်းကြီးလည်း အနီး အပါးတွင် စေပါးတော်မူ၏။ စွမ်းပကားခွန်အားလည်း ကြီးလှသည်ဖြစ်၍ မြင်းခံကြီး ပြုစေ၏။ မင်းကြီးလည်း မြင်းကိုချစ်တတ်လှသောကြောင့် ညလူဆိတ် သောအခါ မြင်းတင်းကုပ် သို့လာ၍ မိဖုရားငယ်တစ်ယောက်နှင့် နေစမှတ်ပြု၏။ လာဖန်များသော် မိဖုရားနှင့် မြင်းခံသည် ရည်ငံစကားဝင်ကြ၍ တစ်နေ့သ၌ မင်းကြီးတောစကားသွားရာ တောသို့ ရောက်လျှင် မှူးမတ်ဗိုလ်ပါနှင့် ကွဲသည့်အခိုက် မင်းကြီးကို လုပ်ကြံလေ၏။ မြင်းခံလည်း မင်းကြီး၏ အဝတ်တန်ဆာတို့ကို ဆင်ယင်ဝတ်ရား၍ မြင်းကိုစီးပြီးမှ မြို့သို့ပြန်လာ၏။ နန်းတော်သို့ရောက်လျှင် အလိုမတူသော မိဖုရားတစ်ယောက်ကို လုပ်ကြံ၍ အလိုသို့ ချည်းပါကြလေ၏။ မှူးမတ်တို့လည်း ပြည့်ရွာ စနောင့်စနင်း ရှိမည်စိုး၍ အလိုသို့ ပါရလေ၏။ ထိုမင်းကား အိမ်နိမ့် ၂၁။ စည်းစိမ် ၁၀။ သက်တော် ၃၁–မှ အနိစ္စ ရောက်၏။ ပုပ္ပါးစောရဟန်း ပြီးပြီးနောက် သက္ကရာဇ် ၇၈–ခုတွင် မင်းဖြစ်သတည်း။

❖❖❖❖❖

## ၇၄၀။ သုံးဆယ့်နှစ်မည်၊ မြို့ကြီးတည်၊ မည်မျှလူမျိုး နေသနည်း။(၃၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကေသာ, လောမာ စသော ဒွတ္တိံသာကာရ၏အစုဖြစ်သော လူတို့၏ ခန္ဓာ ကိုယ်သည် ခန္ဓာပုရမြို့မည်၏။ ထိုမြို့၌ အကုသိုလ်စိတ်ဒွါဒသတို့နှင့် သမ္ပယုတ် ဖြစ်သော စေတသိက်သတ္တဝီသတည်းဟူသော လူဆိုး လူသွမ်းတစ်မျိုး။ ကုသိုလ်စိတ် ကောဝီသတို့နှင့် သမ္ပယုတ် ဖြစ်သော စေတသိက် အဋ္ဌတိံသတည်းဟူသော လူကောင်း သူကောင်းတစ်မျိုး။ ဝိပါက်စိတ်ဆတ္တိံသတို့နှင့် သမ္ပယုတ်ဖြစ်သော စေတသိက် အဋ္ဌတိံသတည်းဟူသော သူမြတ်မျိုး။ ကြိယာစိတ်ဝီသ၊ စေတသိက် ပဉ္စတိံသတည်း ဟူသော သူလွန်သူမြတ်တစ်မျိုး။ဤလေးမျိုးသောသူတို့သည် နေ၏ဟူပေ။

သဒိသူပစာဖြင့် ဆိုသော ပုစ္ဆာဖြစ်၍ လူတို့၏ကိုယ်ကို ယူသင့်ကြောင်းဖြင့် ဆရာဖြေသော်– ဤခန္ဓာကိုယ်ကို မြို့ဆို၍ ဟောပြသော ဘုရားဒေသနာရှိပါ၏လော ဟူငြားအံ့–

**အဋ္ဌီနံ နဂရံ ကတံ၊ မံသလောဟိတလေပနံ။**

**ယတ္ထ ဇရာ စ မစ္စု စ၊ မာနော မက္ခော စ ဩဟိတော။**

78 ဟူ၍ နုမတော် ဇနပဒကလျာဏီအား ဘုရားဟောသော ဒေသနာ ရှိ၏။
A ထိုဒေသနာကို ဓမ္မပဒ၌ သင်္ဂါယနာတင်၏ ဟူပေ။

နန္ဒေ၊ ရူပနန္ဒာ သညာတွင်ညီ ကလျာဏီ။ အယံ ကာယော၊ ဤကိုယ်ဟူသည်ကား။ မံသလောဟိတလေပနံ၊ အသားအသွေးတို့ဖြင့် လိမ်းကျံအပ်သော။ အဋ္ဌိနံ၊ အရိုးတို့၏။ နဂရံ၊ မြို့ကို။ ကတံ။ ပြုအပ်၏။ ယတ္ထ၊ အကြင်ကိုယ်ဟူသောမြို့၌။ ဇရာစ၊ အိုခြင်းသည်လည်းကောင်း။ မစ္စုစ၊ သေခြင်းသည်လည်းကောင်း။ မာနော စ၊ ထောင်လွှားခြင်းသည်လည်းကောင်း။ မက္ခော စ၊ သူ့ကျေးဇူးကို ချေခြင်းသည်လည်းကောင်း။ သြဟိတော၊ တည်၏။

ဤအတူ ဟောတော်မူသော နဂရူပမဒေသနာကား များ၏။ ဤကိုမှီ၍ ရေးဆရာတို့လည်း ခန္ဓာပုရမြို့ကြီး၌ သီသပဗ္ဗတတောင် ရှိကြောင်း။ မုခဒွါရ တံခါးမကြီး။ ဇိဝှါမည်သော နင်းကြမ်းကြီးရှိကြောင်း။ နာသဂုဟမည်သော မလွယ်တံခါးနှစ်ပေါက်။ ကဏ္ဏမည်သော တံခါးနှစ်ပေါက်ရှိကြောင်း။ စက္ခုမုစလိန္ဒာအိုင်ရှိကြောင်းတို့ဖြင့် တင့်တယ်စွာ မြို့အင်္ဂါနှင့် ပြည့်စုံဟန်ကို စီမံ၍ထားသော စာငယ်များလည်း ထင်ရှားရှိသည်ပင် ဖြစ်သည်။

❖❖❖❖❖

၅၄၁။ နဝကိုးမည်၊ မိုးကြိုးသည်၊ အထည်အသွား ပါလိမ့်နည်း။(၃၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မိုးကြိုးကိုးပါးပြားဟန်ကို "အိန်" ကာရန်ပုစ္ဆာနံပါတ် ၆၈၈–တွင် လောင်မီးကို မေးသော ပြဿနာ၌ စုံလင်စွာ ရေးဖြေခဲ့ပြီ။

❖❖❖❖❖

၅၄၂။ ကာရိုက်ကံသည်၊ ဓာတ်ကံမည်၊ ထွေလည်ဝေဝုစ်ပြားလိမ့်နည်း။(၃၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''သာမိကော ပုရိသံ ဩဒနံ ပစာပေတိ''ဟူသော ပြယုဂ်၌ သာမိကောကား ကာရိုက်ဏာပေ ပစ္စည်း၏ ကတ္တား။ ပုရိသံကား ပစဓာတ်၏ကတ္တား။ ၎င်းဓာတ်ကတ္တားသည် ကာရိုက်ဏာပေ ပစ္စည်း၏ ကံဖြစ်၏။ ဩဒနံကား ပစဓာတ်၏ ကံမည်၏။ ယင်းသို့ ကတ္တားကံ ဖြစ်သည်တွင် ဓာတ်ကတ္တား၊ ကာရိုက် ကတ္တားသည် ဝုစ်ပြားသင့်၏လော၊ မပြားသင့်၏လောဟု မေးသည်။ ၎င်းကတ္တားနှစ်ပါးသည် ဝုစ်ပြားရိုး မရှိ။ ပြားသော ဥဒါဟရုဏ်သည် ပိဋကတ်သုံးပုံ၏ ပါဠိ, အဋ္ဌကထာ–ဋီကာတို့တွင် တစ်စုံတစ်ဥမျှမထင်။ ဝုတ္တ, အဝုတ္တအားဖြင့်သာ ပြား၏။ ထို့ကြောင့် နိယံ၌–

ကာရိုတ်ကံကား၊ ဓာတ်ကတ္တား၊ မပြားဝုတ္တ အဝုတ္တ၊ ဟူ၍ မိန့်သည်။

❖❖❖❖❖

## ၇၄၃။ ဒဏ္ဍကမည်၊ ဂါထာသည်၊ ဂိုဏ်းမည်ခန့်မှု ပြားသနည်း။(၃၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

န ဂိုဏ်းကားနှစ်၊ ရ ဂိုဏ်းရှစ်၊ စစ်လော့ ဒဏ္ဍကာ။ ဟူ၍ ဆရာတို့ မိန့်၏။

❖❖❖❖❖

## ၇၄၄။ ကြောက်သည်ရဲသည်၊ထိုနှစ်တည်၊မည်သည့်တရားကိုယ်တို့နည်း။(၃၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

စိတ်၏ထိတ်လန့်ခြင်း၊ ကြောက်ခြင်းသည်လည်း ဒေါသတရား။ စိတ်၏ ရဲရင့်ခြင်း၊ ကြမ်းကြုတ်ခြင်းသည်လည်း ဒေါသတရားပင် ဖြစ်သည်။ ဒေါသတည်း ဟူသော တရားကိုယ် တစ်ပါးတည်းဖြစ်လျက် အဘယ့်ကြောင့် ကြောက်ခြင်း, ရဲခြင်းဟူသော ကိစ္စနှစ်ပါးကို ယူအပ်သနည်း။ ဆန့်ကျင်ဘက်ဖြစ်သည် မဟုတ်လော ဟူငြားအံ့-

**ကေဝမ္ပေါပိ သမာနော အာရမ္မဏအာဘောဂါနုရူပံ အနေကာနိ ကိစ္စာနိ သာဓေတိ။**

ဟူသော အဋ္ဌကထာတို့နှင့်အညီ တစ်ခုသောတရားပင် ဖြစ်သော်လည်း အာရုံအား လျော်စွာ လည်းကောင်း, နှလုံးသွင်းအား လျော်စွာလည်းကောင်း များစွာသော ကိစ္စကို ပြီးစေနိုင်သည်သာ ဖြစ်၏။ အဘယ်သို့ ပြီးစေနိုင်သနည်းဟူမူ- သူ၏ စည်းစိမ်ကို ငြူစူခြင်းကိစ္စ, မိမိ၏စည်းစိမ်ကို လျှို့ဝှက်ခြင်းကိစ္စ နောင်တစ်ဖန် ပူပန်ခြင်းကိစ္စ, စိုးရိမ် ပူဆွေးခြင်းကိစ္စ, သက်ကြီးရှိုက်တငင် ပင်ပန်းခြင်းကိစ္စ, ရန်ငြိုးဖွဲ့ခြင်းကိစ္စတို့သည် တရားကိုယ်အားဖြင့် ဒေါသတရားသာတည်း။ ဥပမာကား။ တေဇောဓာတ်သည် ပူခြင်းကိစ္စ၊ ချမ်းခြင်း၊ အေးခြင်းကိစ္စ, အစာကိုကျက်စေခြင်းကိစ္စ၊ အလွန်ပူလောင်ခြင်းကိစ္စ ရှိသကဲ့သို့တည်း။

❖❖❖❖❖

## ၇၄၅။ ခြသေ့်မှုနည်း၊ ဟောက်သံမည်၊ကြားသည်သူတို့ သေချိမ့်နည်း။(၃၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ခြသေ့်ဟောက်သော အသံကို ကြားသော် ကြားသမျှသော သတ္တဝါတို့ သေလေသလောဟု မေးရာ၌ ခြသေ့်ဟောက်သောအသံသည် သုံးယူဇနာမျှ လောက်သော အရပ်တိုင်အောင် ကြားရကြောင်း၊ သေသောသတ္တဝါတို့၏ အသွေးကို သောက်ပြီးလျှင် မိမိနေရာသို့ ပြန်လာသော် အသံမစဲမီ ရောကကြောင်းကိုသာ ကျမ်းဂန်တို့၌လာသည်။ ဤမျှသောသတ္တဝါတို့၏ သေကြောင်းကို ကျမ်းဂန်မလာ။

သဘောကို တိုင်းထွာသော်– သုံးယူဇနာအတွင်း၌ ကြားသမျှသတ္တဝါတို့သေလျှင် နေ့တိုင်းစားရန် သတ္တဝါမျှ မရနိုင်ဘဲ ရှိရာသည်။ ထို့ကြောင့် ကြားတိုင်းသော သတ္တဝါတို့ မသေ။ ရည်၍ ဟောက်သော အနီးသတ္တဝါသာ သေ၏ဟု ယူဖွယ်ရှိသည်။ ဤကား ယုတ္တိတည်း။

ဝတ္ထုစာငယ်တို့၌ကား ဤသို့ကြားဖူး၏။ ရှေးသောအခါ သမုဒ္ဒရာ ကမ်းယံ၌ နေသော ရောပထနဂါးမင်းသည် ရေ၏အနီး၌ သားငါးတို့ကို နဂါးအများတို့ စားသည်ဖြစ်၍ ရှားပါးလှသောကြောင့် ဟိမဝန္တာတောသို့ဝင်၍ ကျက်စားလှည့်ပတ်ရာ ကေသရာ ခြင်္သေ့မင်းနှင့်တွေ့၍ ''သင်နဂါးမင်းသည် ငါပိုင်သောတောအုပ်သို့ ဘယ့်ကြောင့် လာသနည်း။ သင်သည် ငါ့အစာဖြစ်လိုသလော''ဟု ခြိမ်းမောင်း၏။ ထိုအခါ နဂါးမင်းကလည်း ''သင်ခြင်္သေ့မျှကို ငါမကြောက်သောကြောင့် လာသည်။ ငါ၏အစွမ်းကို သင်မသိသလော''ဟု ဆိုပြန်၏။ ခြင်္သေ့ကလည်း ''သင်သည် ရေပိုး ရေမွှားကို စားနိုင်ကာမျှသာဖြစ်သည်'' ငါတစ်မူကား ကြည်းသတ္တဝါအများတို့၏ အရှင်ဖြစ်သည်။ ငါဟောက်သည်ကိုကြားလျှင် အများသတ္တဝါတို့ သေလေသည်။ သို့စင်သော တန်ခိုးရှင်ကို သင် မလေးမစားပြုသလော''ဟု မေး၏။ ထိုအခါ နဂါးကလည်း ''သင်ခြင်္သေ့သည် ဟောက်၍သေ၏ဆိုသော်လည်း ကိုယ်၏အနီး၌ရှိသော သတ္တဝါသာသေနိုင်မည်။ ငါမူကား နှာခေါင်းလေဖြင့် မှုတ်လိုက်သော် ငါ့အနီး သင့်သမျှသေရသည်ချည်း ဖြစ်သည်''ဟု မိမိဂုဏ်ကို ချီးပ၍ ပြိုင်ဆိုင်ကြရာ ''သင်နှင့်ငါသည် မည်သူတန်းခိုးသာ, မသာကို ယခုစမ်းကြအံ့။ သင်နိုင်လျှင်လည်း ငါ့ဦးနှောက်ကိုဖောက်၍ စားလော့။ ငါနိုင်လျှင်လည်း သင်၏ဦးနှောက်ကိုဖောက်၍ စားအံ့''ဟု ကတိက ဝတ်ပြုထားကြ၍ အစွမ်းကိုပြလိုသဖြင့် ခြင်္သေ့သည် ဟောက်လိုက်သော် မိမိရှေ့တွင်တည်သော ရည်၍ ဟောက်သော သတ္တဝါတစ်ကောင်သာ သေလေ၏။ နဂါးမင်း အခိုးလွှတ်သောအခါ အခိုးသင့်သမျှ သတ္တဝါတို့ သေလေကုန်၏။ ယင်းသို့ ခြင်္သေ့မင်း ရှုံးရကား နဂါးမင်းက ခြင်္သေ့မင်း၏ ဦးနှောက်ကို ဖောက်စားမည်ပြုသောအခါ ကေသရာဇာခြင်္သေ့မင်းက ''အချင်းနဂါး–ငါ့သားမြေးတို့ကို တွေ့ရရုံ ခုနစ်ရက်မျှ ဆိုင်းငံ့ပါ။ ခုနစ်ရက်စေ့သောအခါ ဤနေရာကိုငါလာ၍ အစားခံ ပါမည်''ဟု သစ္စာပြု၍ မိမိနေရာသို့ ပြန်သွားလေ၏။

ထိုနေ့မှစ၍ ခြင်္သေ့မင်းသည် မစားနိုင်၊ မအိပ်နိုင် တမှိုင်မှိုင်တတွေတွေဖြစ်၏။ သားငှက်အပေါင်းတို့ခစားလာကြသောအခါ ခြင်္သေ့မင်း မှိုင်နေသည်ကို မြင်၍ အရှင်ခြင်္သေ့မင်းသည်ဘယ့်ကြောင့် မှိုင်သနည်း'' ဟု မေး၏။ နဂါးမင်းနှင့် တန်ခိုးပြိုင်သဖြင့် ရှုံးခဲ့ကြောင်း။ မိမိဦးနှောက်ကို ဖောက်စားလာအံ့သောအကြောင်းကို ပြန်ပြောလျှင် ငှက်နက်ကျော်တစ်ကောင်က ''အရှင်ခြင်္သေ့မင်းပိုင်သော တောသုံးထောင်အတွင်း၌ အခြေနှစ်ချောင်း၊ အခြေလေးချောင်းရှိသော သတ္တဝါ၊ အတောင်ရှိသော သတ္တဝါများစွာ ရှိပါသည်။ ထိုသတ္တဝါအပေါင်းတို့တွင် တစ်ဦးဦး နဂါးကိုနိုင်သော သတ္တဝါရှိပါလိမ့်မည်။

ကျွန်ုပ်ခေါ်၍ အထံတော်၌ စုဝေးစေပါမည်။ ဆွေးနွေးတိုင်ပင်တော်မူပါဦးလော့'' ဟု လျှောက်ထား၍ တောင်ကြား၊ ချောက်ကြားရှိရှိသမျှ သားငှက်သတ္တဝါတို့ကိုခေါ်၍ စုဝေးစေပြီးသော် ''ငါတို့မင်းတို့ နဂါးဘေးမှ လွတ်အောင် ဘယ်သူကြံနိုင်အံ့နည်း''ဟု မေးမြန်း၏။ ဒရယ်၊ ယုန်၊ ကြောင်၊ ပြောင်၊ စိုင်၊ ဆင်၊ မြင်းစသည်တို့တွင် တစ်စုံတစ်ခုမျှမထွက်။ ကျေးငှက်တို့ကိုတိုင်ပင်ပါသော်လည်း ဘယ်သတ္တဝါမျှမထွက်။ ငါးရက်တိုင်ရှိလေ၏။ ခြောက်ရက်မြောက်သောအခါ ကေသရာဇာ ခြသေ့်မင်းကလည်း 'ငှက်နက်ကျော် ဘယ်သို့ကြံဦးအံ့နည်း''ဟု မေးပြန်၏။ထိုအခါ ငှက်နက်ကျော်ကလည်း အကျွန်ုပ်တို့ တောသုံးထောင်၏ အတွင်းတွင် သားငှက်ကုန်ချေပြီ။ ရေစပ်နားခြ် ကျက်စားသော ငှက်ကြီးတစ်ကောင်သာ ရှိတော့သည်။ ထိုငှက်ကြီးကိုခေါ်၍ မေးတော်မူပါဦးလော့''ဟု လျှောက်၏။ ခြသေ့်မင်းက ''ကောင်းပြီး''ဟု ဝန်ခံလျှင် ငှက်နက်ကျော်သည် ငှက်ကြီးကို ခေါ်ပေး၏။ ခြသေ့်မင်းကလည်း၊ ''အဆွေငှက်ကြီး၊ ငါ့ကိုနဂါးဘေးမှလွတ်အောင် သင်ကြံနိုင်ပါမည်လော''ဟု မေး၏။ ငှက်ကြီးကလည်း ''မစိုးရိမ်လင့်၊ ကျွန်ုပ်ကြံမည်။ ကျွန်ုပ်စကားကိုသာ နားထောင်ပါ''ဟု ဆို၏။ ''အဘယ်သို့ ပြုရပါမည်နည်း''ဟု မေးလျှင် ''နဂါးလာအံ့သောနေ့၌ တော သုံးထောင်တွင်ရှိသော သားငှက်အပေါင်းတို့ကို ခြသေ့်မင်း၏ အပါး၌ စုဝေး၍ နေစေရမည်။ ငါမူကား ညောင်ပင်ကြီးထက်မှ နူတ်သီးကိုပြု၍ နေမည်။ နဂါးအနီးသို့ ရောက်သောအခါ သားငှက်သတ္တဝါတို့ တညီတညာတည်း စီစီညံညံ မြည်တွန် စေရမည်။ ငါက ဘယ့်ကြောင့် တွန်သနည်းဟု မေးသောအခါ ကေသရာဇာ ခြသေ့်မင်း၏ ဦးနှောက်ကို ဖောက်၍ စားခြင်းငှာ နဂါးလာသောကြောင့် မြည်ပါသည်ဟု ပြောကြရမည်။ ထိုအခါ ငါက နဂါးလာသော် မြန်စွာလာစေ။ သင်တို့က ဆိတ်ဆိတ်နေ။ ကေသရာဇာ ခြသေ့်မင်း၏ ဦးနှောက်ကို မဖောက်ခင် နဂါး၏ဦးနှောက်ကို ငါဖောက် လိုက်မည်ဟုဆိုအံ့။ ထိုနဂါးက အဘယ်အသံနည်းဟု မေးသောအခါ ခြသေ့်မင်းရှိရာသို့ နဂါးမင်းလာမည် ကြားသောကြောင့် အဆွေတော် ဂဠုန်မင်းစောင့်၍ နေလာသည်ဟု ပြောကြရမည်။ ဤသို့ပြော၍မပြန်လျှင် အတောင်သံနူတ်သီးသံနှင့် သုတ်ဟန်ပြု၍ ငါခြိမ်းခြောက်မည်''ဟု ဆို၏။ ထိုစကားကို ကြားလျှင် ခြသေ့်မင်းကလည်း အားရ လှသည်နှင့် ငှက်ကြီးစီမံသည့်အတိုင်း ငှက်နက်ကျော်ကို ဆော်စေ၍ ငှက်အပေါင်းတို့ကို ခြသေ့်နေသော တောအုပ်၌ မြေပြင်ပြည့်မျှ စုဝေးစေ၏။

ခုနစ်ရက်မြောက်သောနေ့၌ နဂါးမင်းသည် သင်းပင်းအဖော်များနှင့်တကွ ရေမှတက်၍ ခြသေ့်နေရာသို့သွားလေ၏။ နဂါးလာသည်ကိုမြင်လျှင် ထက်ဝန်းကျင်မှ သားငှက်တို့သည် တညီတညွတ်တည်း မြည်ကုန်၏။ ထိုအသံကိုကြားလျှင် ညောင်ပင် ထက်ကနေသော ငှက်ကြီးသည် နူတ်သီးသံ အတောင်သံတို့ကိုတီး၍ ကြီးစွာသော အသံကိုပြုလျက် ''အဘယ့်ကြောင့်မြည်ကြသနည်း''ဟု မေး၏။ နဂါး လာကြောင်းကို ပြောဆိုကြလျှင် ''သင်တို့ဆိတ်ဆိတ်နေ။ ယနေ့ ငါ့ဝမ်းတော် အယ်စေရမည်''ဟု ဆို၏။ ထိုအသံကိုကြားသော် နဂါးလည်း ထိတ်လန့်၍ အဘယ် အသံနည်း''ဟု

မေး၏။ သားငှက်အပေါင်းတို့က ငှက်ကြီးစမံထားသည့်အတိုင်း ''ဂဠုန်မင်း လာနေကြောင်းကို ပြောကုန်၏။ နဂါးလည်း ဂဠုန်ဟူသောစကားကို ကြားရာကပင် လျင်စွာ မြေသို့ငုပ်၍ ပြေးလေ၏။ ထိုအခါ ကေသရာဇာခြင်္သေ့မင်းလည်း နဂါးဘေးမှ ချမ်းသာသတည်း။

များစွာသောသားငှက်အပေါင်းတို့သည် အကြံကောင်းလှသောငှက်ကြီးကို ရိုသေမြတ်နိုးကြ၍ ချီးပပူဇော်ကြပြီးမှ နမ်းရှုပ် ဖက်ယမ်းကြသည်။ ထို့ကြောင့် ငှက်ကြီးကို ''နမ်းပြီးရှုပ်''ဟူ၍ တွင်သည်။ ကြီးသောကိုယ်လည်း ငယ်လေသည်။ ငှက်နက်ကျော်ကိုလည်း ငှက်ဆော်အရာ၌ ထားရလေသည်။ ထိုငှက်ကား သတ္တဝါတို့၏ ဘာသာတိုင်းကို သိသည်။ မိမိလည်းလိုက်၍ ပြောဆိုတတ်သည်ဟူ၍ ဝတ္ထုစာငယ်များ၌ တွေ့ဖူးသည်။ ဤကိုထောက်၍လည်း ခြင်္သေ့ဟောက်သော် သေလောက်ရာဌာနၵ၌နေသော သတ္တဝါသာ သေ၏ဟု မှတ်သင့်သည်။

❖❖❖❖❖

## ၇၄၆။ အင်းဝရွှေပြည်၊ သတိုးတည်၊ မည်မျှနန်းဆက် စံလိမ့်နည်း။(၃၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သတိုးမင်းဖျားသည် အင်းဝမြို့ကိုတည်ပြီးသော် သုံးနှစ်သာ နန်းစံရသည်။ နောက်ကိုသားသမီးအဆက်မရှိ။ ယောက်ဖတော် မင်းကြီးစွာ။ ၎င်းသား ဆင်ဖြူရှင်။ ၎င်းညီမင်းခေါင်။ ၎င်းသား သီဟသူ။ ၎င်းသား မင်းလှငယ်။ ၎င်းသား ကျေးတောင်ညို။ မိုးညှင်းမင်း။ သားမင်းရဲကျော်စွာ။ ညီ ထူပါရုံ ဒါယကာ နရပတိ။ ၎င်းနောက် ပြည်စုန်မင်း မဟာသီဟသူ။ ၎င်းသားဒုတိယမင်းခေါင်။ ၎င်းသား ရွှေဂူဒါယကာ ရွှေနန်းကြော့ရှင် နရပတိ။ ဤ၁၃–ဆက်ကား သတိုးမင်းဖျား၏ အဆက်အနွယ်ဟု ဆိုကုန်၏။

❖❖❖❖❖

## ၇၄၇။ ဇမ္ဗူဒိပ်သည်၊ ခြိမ့်ခြိမ့်စည်၊ မည်မျှမြို့ကြီး ရှိသနည်း။(၃၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တိက္ခတ္တုံ၊ သုံးကြိမ်။ တေသဋ္ဌိယာ နဂရသဟဿေဟိ၊ ခြောက်သောင်း သုံးထောင်သော မြို့ကြီးတို့နှင့်။ သမန္တာဂတော၊ ပြည့်စုံ၏။ ကိရ၊ အကျယ်ဆိုဦးအံ့။ ဇမ္ဗူဒီပေ၊ ဇမ္ဗူဒိပ်ကျွန်း၌။ အာဒိတော၊ အစပကတူး ကမ္ဘာဦး၌။ တေသဋ္ဌိမတ္တာနိ နဂရသဟဿာနိ၊ ခြောက်သောင်းသုံးထောင်သော မြို့ကြီးတို့သည်။ ဥပ္ပန္နာနိ၊ ဖြစ်ကုန်၏။ ဒုတိယံ၊ နှစ်ကြိမ်မြောက်သောကပ်၌။ တထာ၊ ထို့အတူ။ တတိယမ္ပိ၊ သုံးကြိမ်မြောက်သော ကပ်၌လည်း။ တထာ၊ ထို့အတူ။ ဥပ္ပန္နာနိ၊ ဖြစ်ကုန်၏။ တာနိ၊ ထိုမြို့တို့ကို။ သမ္ပိဏ္ဍိတွာ၊ ပေါင်း၍။ သတသဟဿာနိ စ၊ တစ်သိန်းတို့သည်လည်းကောင်း။ တတော ပရံ၊ ထိုထက်အလွန်။ အသီတိသဟဿာနိ စ၊ ရှစ်သောင်းတို့သည်လည်းကောင်း။ နဝသဟ–ဿာနိ စ၊ ကိုးထောင်တို့သည်လည်းကောင်း။

ခြောက်သောင်း သုံးထောင် သုံးကြိမ် ပွားသောကြောင့် ပေါင်းသောအားဖြင့် တစ်သိန်း ရှစ်သောင်း ကိုးထောင်ရှိ၏ ဟူလိုသည်။

❖❖❖❖❖

၇၄၈။ ကျေးလက်မြို့သည်၊ အတည်တည်၊ ခန့်ရည်ဘယ်မျှသချာနည်း။(၄၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နဝနဝုတိယာ ဒေါဏမုခသတသဟဿေဟိ၊ ကိုးသိန်းကိုးသန်း အခွန်ဖြစ်ရာ ကျေးလက်မြို့ငယ်တို့နှင့်။ သမန္နာဂတော၊ ပြည့်စုံ၏။

❖❖❖❖❖

၇၄၉။ ရတနာတည်၊ အရပ်သည်၊ မည်မျှရေတွက် ရှိသနည်း။(၄၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဆပညာသ ရတနာကရဋ္ဌာနေဟိ၊ ရတနာတို့၏ တည်ရာ ငါးဆယ့်ခြောက် ဌာနတို့နှင့်။ သမန္နာဂတော၊ ပြည့်စုံ၏။

❖❖❖❖❖

၇၅၀။ သဘော်ာထွေလည်၊ ဆိုက်လေသည်၊ ရေကြည်ဆိပ်ကမ်းဘယ်မျှနည်း။(၄၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဇမ္ဗုဒီပေ စ၊ ဇမ္ဗူဒိပ်ကျွန်း၌သာလျှင်။ ဆန္နဝုတိယာ ပဋ္ဋနကောဋိသတ–သဟဿေဟိ၊ ကုဋေကိုးသန်း ခြောက်သိန်းသောသဘော်ာဆိပ်တို့နှင့်။ သမန္နာဂတော၊ ပြည့်စုံ၏။ ။ သာရတ္ထသင်္ဂဟ။

❖❖❖❖❖

၇၅၁။ မြင်းမိုရ်အောက်တည်၊ ခုံလောက်သည်၊ ချင့်ရည်လုံးလျားဘယ်မျှနည်း။(၄၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တိကူဋ္ဌာနံ မဇ္ဈေ သိနေရုပဗ္ဗတော စတုယောဇနသဟဿ ပမာဏော ပဝိသိတွာ ဌိတော။ တသ္မာ သဏ္ဌာသေန ဂဟိတော ဝိယ အစလော တိဋ္ဌတိ။ ဟူ၍လည်းကောင်း–

ဥဒ္ဓနေဋ္ဌပိတဘာဇနံ ဝိယ ကူဋေ ဌိတော တိကူဋာ သိလာပထဝိယာ သမ္ဗန္ဓာ၊ တိကူဋေသိနေရုပဗ္ဗတော စတုယောဇန သဟဿပမာဏော ပဝိသိတွာ ဌိတော။ ။ ဟူ၍ လည်းကောင်း။ လာသော ဋီကာကျော်ာ၌ မြင်းမိုရ်တောင်မင်းသည် ခုံလောက်သုံးထက် တည်ထားသော ထမင်းအိုးကဲ့သို့ ကျောက်ထွတ်သုံးခုတို့၏ အတွင်းသို့ ယူဇနာ လေးထောင်တိုင်အောင်ဝင်လျက် အထက်၌တည်၏။ ထိုကျောက်ထွတ် သုံးခုတို့သည် သံမွေးညှပ်ကဲ့သို့ မြဲမြံစွာ ညှပ်သည်ဖြစ်၍ မတုန်မလှုပ်တည်၏။

ထိုကျောက်ထွတ် သုံးခုတို့သည် သိလာပထဝီနှင့် စပ်သည်ဖြစ်၍ အစောက်ယူဇနာ လေးသောင်းရှိသည်။ မြင်းမိုရ်တောင် ယူဇနာ လေးထောင် ဝင်သောကြောင့် အကြွင်း သုံးသောင်း ခြောက်ထောင်ကြွင်းသည်။ အကြီးပမာဏ ကိုးကားကျမ်းဂန်ဆိုမှုလည်း သိနိုင်ချိမ့်မည်။ ထို့ကြောင့် သာဓိနပျို့၌–

ပံသုမြေအောက်၊ သေလာကျောက်ကို၊ ထွင်းဖောက်ယုက်သွယ်၊ အမြစ်တွယ်၍၊ မျှော့မယ်နရုပ်၊ သံညွှန့်ကုပ်ဖြင့်၊ ချုပ်မြှုပ်သောလား၊ ယှဉ်ပြိုင်ထားသို့၊ ပတ္တမြား မျက်ကျောက်၊ ပြောင်ပြောင်တောက်သား၊ ခုံလောက်ခုံခိုင်၊ သုံးလုံးတိုင်ထက်၊ မြေဆိုင် ပံသု၊ မြူနုဆံခြမ်း၊ မသမ်းမနော၊ သဘောအတိ၊ ရွှေလျှံအိသား၊ အညှိစိုစို၊ ညှိရရိုလျှင်၊ မြင်းမိုရ်သာခေါင်၊ မြတ်သည့်တောင်၌။ ဟူ၍စပ်ဆိုသည်။

❖❖❖❖❖

၆၅၂။ ပျားဆွမ်းလှူသည်၊ မောင်ကုန်သည်၊ မည်သတ္တာဟ၌ပေနည်း။ (၄၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အထ သတ္တသတ္တာဟမတ္ထကေ ဣေနုပည့ာသတိမေ ဒိဝသေ သက္ကေန ဒေဝါနမိန္ဒေန ဥပနီတေန နာဂလတာ ဒန္တကဋ္ဌေနစ အနောတတ္တော ဒကေနစ မုခံ ဓောဝိတွာ တတ္ထေဝ ရာဇာယတန မူလေ နိသီဒိ။ တသ္မိံ သမယေ တပုဿဘလ္လိကာနာမ ဒွေ ဝါဏိဇာ ဉာတိသာ လောဟိကာယ ဒွေဝတာယ သတ္တုအာဟာရဒါနေ ဥဿာဟိတာ ပန္ထူ မဓုပိဏ္ဍိကဥ္စ အာဒါယ ပဋိဂ္ဂဏှာတု ဘန္တေ ဘဂဝါ ဣမံ အာဟာရံ အနုကမ္ပံ ဥပါဒါယာတိ ဥပသင်္ကမိတွာ အဋ္ဌံသု။**

စသည်ဖြင့်လာသော ဗုဒ္ဓဝင်အဋ္ဌကထာပါဠိနှင့်အညီ ခုနစ်သတ္တာဟစေ့သော လေးဆယ့်ကိုးရက်မြောက်သောနေ့၌ သိကြားမင်းကပ်လှူအပ်သော နာဂလတာ မည်သော ကွမ်းရိုးဒန်ပူ၊ အနောတတ်အိုင်ရေတို့ဖြင့် မျက်နှာသစ်တော်မူလျက် ထိုလင်းလွန်ပင်ရင်း၌ နေတော်မူသောအခါတွင် တပုဿ ဘလ္လိကမည်သော ကုန်သည် ညီနောင်တို့၏ သားချင်း ဆွေမျိုး ဖြစ်ဖူးသော နတ်သည် ကောင်းမြတ်သောကုသိုလ် ဖြစ်စေလို သောကြောင့် ဘုရားရှိကြောင်း ဘုရားအား အာဟာရ လှူစေလိုကြောင်း ပြောဆိုတိုက်တွန်း သည်ဖြစ်၍ ကြွက်ကျစ်မုန့် ပျားဆုပ်မုန့်တို့ကို ကပ်လှူသည်ဟူပေ။

❖❖❖❖❖

၆၅၃။ ဗောဓိပင်စည်၊ ကမေးမည်၊ ကုန်သည်လာလမ်း ဘယ်ကနည်း။ (၄၅)

၆၅၄။ ညီနောင်ကုန်သည်၊ ရှာဖွေနည်း၊ မည်သည့်မြို့ရပ် ကပေနည်း။ (၄၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အင်္ဂုတ္တိုရ်အဋ္ဌကထာ၌ တပုဿ ဘလ္လိကတို့သည် အသိတဥ္စနမြို့ ဥက္ကလာ ဇနပုဒ်မှ မဇ္ဈိမဒေသသို့ ကုန်ရောင်းသွားရာတွင် ဘုရားနှင့် တွေ့ရသည်ဟူ၍ ဆိုသည်။

ဝိနည်း မဟာဝါပါဠိတော်၊ ၎င်းအဋ္ဌကထာတို့၌ ပေါက္ခရဝတီမြို့ ဥက္ကလာ ဇနပုဒ်မှ မဇ္ဈိမဒေသသို့ ကုန်ရောင်းသွားရာတွင် တွေ့သည်ဟု ဆိုသည်။

ရွှေတိဂုံ သမိုင်းဟောင်း၌လည်း ယခု ရန်ကုန်မြို့သည် ရှေးသောအခါ အသိတဥ္စန မြို့ဖြစ်ကြောင်း။ တစ်ဖန် ပေါက္ခရဝတီမြို့တွင်ကြောင်း၊ ဥက္ကလာဇနပုဒ် ဖြစ်ကြောင်းများကို ဆိုလိုသည်။

ထိုစကားအရပ်ရပ်ကို ထောက်သော် ယခုရန်ကုန်မြို့ပင် တပုဿ ဘလ္လိကတို့၏ နေရပ်ဖြစ်ရကား အရှေ့တောင်မှသည် အနောက်မြောက်ထောင့်သို့ သွားရာတွင် ဘုရားသခင်နှင့်တွေ့ရသည်ဟူပေ။

◆◆◆◆◆

၇၅၅။ ဆံတော်ပေးသည်၊ တို့ဘုန်းစည်၊ မည်မျှဆံပေါင်းကျမ်းလာနည်း။(၄၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဝိနည်းမဟာဝါ ပါဠိတော်၌ တပုဿ ဘလ္လိကတို့အား ဆံတော်ပေးကြောင်း ကိုသာ ဆိုသည် အရေအတွက် မည်မျှဟူ၍ မဆို။

အနာဂတဝင် အဋ္ဌကထာ၌ကား ''တပုဿ ဘလ္လိက ဒွေဘာတိကာနံ မုဋ္ဌိကေသဓာတုယောဒတွာ''ဟူ၍ ဆံတော်တစ်ဆုပ် ပေးလိုက်ကြောင်းကို ဆိုသည်။

အင်္ဂုတ္တိုရ်ဧကနိပါတ် အဋ္ဌကထာ၌ကား– ''အဋ္ဌ ကေသဓာတုယော အဒါသိ'' ဟူ၍ ဆံတော်ရှစ်ဆူပေးလိုက်ကြောင်းကို ဆိုသည်။

ကေသဓာတုဝင်၌ အရှင်အနုရုဒ္ဓါ၊ အရှင်သောဘိတ၊ အရှင်ပဒုမုတ္တရ၊ အရှင်ဂုဏသာရ၊ အရှင်ဉာဏပဏ္ဍိတ၊ အရှင်ရေဝတ ဤရဟန်းခြောက်ပါးတို့သည် ဘုရားရှင်ထံ၌ ဆံတော်ဓာတ်ကိုတောင်း၍ ခြောက်ဆူသောဆံတော်ကိုရသဖြင့် သမုဒ္ဒရာ ကမ်း၏ အနီးဖြစ်သော ပစ္စန္တရွာသို့ လာခဲ့၍ စေတီရာကိုရှာသည်တွင် သိကြားမင်းဆင်း၍ တောင်းပန်ပြီးလျှင် ဒါယကာခံ၍ စေတီတည်လေသည်။ အရှင်ငါးဦးတို့ အသီးအသီး ရသော ဆံတော်ငါးဆူကိုလည်း ဒါယကာ လေ့သူကြီးတို့အားအပ်၍ တစ်မြို့တစ်မြို့၌ စေတီ တစ်ဆူတစ်ဆူစီ တည်၍ထားလေသည်ဟု ဆိုသည်။ ကြွင်းသော ဆံတော်တို့မှာ ကျမ်းဂန်အခိုင်မတွေ့။ သမိုင်းစာတမ်းသာတွေ့သည်။

◆◆◆◆◆

၇၅၆။ ရွှေဆံတော်တည်၊ ညီနောင်သည်၊ အတည်ခြား၍ တည်လိမ့်နည်း။(၄၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ညီနောင်ခြား၍ မတည်၊ နှစ်ယောက်အတူပင် တည်ကြသည်ဟု သမိုင်း၌ ဆိုသည်။

◆◆◆◆◆

79
A

၇၅၇။ ဗောဓိကသည်၊ လယ်ကိုင်းပြည်၊ မည်မျှခရီးကွာသနည်း။(၄၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ယူဇနာ နှစ်ရာကွာကြောင်းကို ပုဏ္ဏောဝါဒသုတ်အဖွင့်တွင် လာသည်။

❖❖❖❖❖

၇၅၈။ မိဂဒါမည်၊ မြိုင်တောစည်၊ ဗာရာပြည်က ဘယ့်လောက်နည်း။(၅၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗာရာဏသီပြည်နှင့် မိဂဒါဝုန်တောသည် နှစ်ဂါဝုတ်ခန့်ကွာသည်။ ထိုတော အတွင်း၌ ဘုရားသီတင်းသုံးတော်မူသော ကျောင်းကား ထို့ထက်အတန်ငယ်လွန်၍ ကွာဟန်ရှိသည်။ ကျမ်းဂန်၌ကား တိုက်ရိုက်မလာ။ ဗာရာဏသီပြည်မှ ယသ သူဌေးသားသည် သန်းခေါင်ယံအခါ၌ ထွက်လာသော် နံနက်အရုဏ်တက်အခါမှ မြတ်စွာဘုရားရှိရာသို့ ရောက်ကြောင်းကိုဆိုသော မဟာဝါအဋ္ဌကထာ၊ ဓမ္မပဒ အဋ္ဌကထာတို့ကို ထောက်၍ သိသာရသည်။

❖❖❖❖❖

၇၅၉။ ပဉ္စဝဂ်မည်၊ ငါးယောက်သည်၊ မျိုးမည် ဘယ်ကတို့ပေနည်း။(၅၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကပိလဝတ်ပြည်သား ပုဏ္ဏားအမျိုးကဟူပေ။

ဘယ်ကိုထောက်၍ သိရသနည်းဟူမူ–ဘုရားလောင်းကို လက္ခဏာဖတ်သော ပုဏ္ဏားရှစ်ဦးတို့တွင် အငယ်ဆုံးဖြစ်သော ဤမင်းသားကား ဘုရားကေန်ဖြစ်မည်ဟု လက်တစ်ချောင်းကိုထောင်၍ ပြသော ကောဏ္ဍညပုဏ္ဏားပင်၊ အညာသိကောဏ္ဍ ညမထေရ် ဖြစ်သည်။ အကြွင်းလည်းလေးဦးတို့သည် ထိုလက္ခဏာတတ် ပုဏ္ဏားတို့၏ သားပင် ဖြစ်သည်။ ထို့ကြောင့် ပုဏ္ဏားမျိုးဟု သိရသတည်း။

❖❖❖❖❖

၇၆၀။ သုဘဒ်ကိုသည်၊ စောဘုန်းစည်၊ မည်ခရီးတွင် တွေ့သနည်း။(၅၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒေသစာရီ ချီတော်မူရာတွင် တွေ့သည်ဟူပေ။

အကြောင်းကား။ ။ တစ်ရံသောအခါ မြတ်စွာဘုရားသည် တစ်ထောင့်နှစ်ရာ့ ငါးကျိပ်သော သံဃာတော်တို့နှင့်တကွ ဒေသစာရီ ဖြန့်ချီတော်တူလေ၍ အာတုမာ ပြည်သို့ ရောက်အံ့သောအခါ ထိုအာတုမာပြည်၌နေသော ဆတ္တာသည်မှ ရဟန်း ပြုလေသော သုဘဒ်အမည်ရှိသော ရဟန်းကြီးသည် ဘုရားသခင် ဒေသစာရီ ဖြန့်ချီလာကြောင်းကို သတင်းစကားကြား၍ ကြားစကပင်လျှင် မိမိရင်၌ဖြစ်သော သာမဏေနှစ်ယောက်ကို ခေါ်၍ ''ချစ်သားတို့–ငါတို့၏ ဆရာဖြစ်တော်မူသော မြတ်စွာ

79
B

ဘုရားသည် တစ်ထောင့် နှစ်ရာ့ငါးကျိပ်သော သံဃာတို့နှင့်တကွ ကြွတော်မူလာသတတ်။ ငါတို့ထံသို့ ရောက်သောအခါ ယာဂုကပ်လှူရအောင် နှမ်း, ဆန်,ဆီစသည်တို့ကို ရှာကြဲချေကုန်။ သင်တို့၏ ပရိက္ခရာဖြစ်သော သင်တုန်းကို လည်းကောင်း၊ အိတ်ကိုလည်းကောင်း၊ ဆောင်ယူ၍ လူကောင်းလူမြတ် လူရတတ်တို့၏ အိမ်တိုင်းတက်ပြီးလျှင် ဆတ္တာသည်တို့၏ ပြုဖွယ်ကိစ္စကို ပြုကြဲချေကုန်''ဟု ဆို၏။ ထိုစကားကိုကြားသော် သားသာမဏေတို့လည်း အဖဆိုတိုင်း လှည့်ပတ်၍ ဆတ္တာသည်အမှုဖြင့် လူကြီးလူငယ်တို့၏ မုတ်ဆိတ်ဆံကို ပြုပြင်၏။ ထိုသူတို့က ''ဘယ်မျှလောက် အခပေးရမည်နည်း''ဟု မေးလျှင် ''ဖခင်တို့၊ ကျွန်ုပ်တို့ကား ဘုရားကြွလာရာ၌ ယာဂုလှူလိုပါ၍ နှမ်း, ဆန်, ဆီကို ရှာပါသည်။ ဖခင်တို့ သဒ္ဓါသမျှ ပေးကြပါကုန်''ဟု ဆို၏။ ထိုစကားကိုကြားသော် လူအများတို့က မတွက်မချက်မူ၍ ယူနိုင်သမျှပင် ပေးလိုက်ကုန်၏။

နှမ်း, ဆန်, ဆီ စုမိသောအခါ မြတ်စွာဘုရားလည်း အာတုမာပြည်၏ အပါးသို့ ရောက်တော်မူ၍ တစ်ခုသော တလင်းတင်းကုပ်၌ သီတင်းသုံးတော်မူ၏။ သုဘဒ်ရဟန်းလည်း ညချမ်းသောအခါ ဒါယကာတို့ကို ခေါ်၍ ကျောင်းတလင်း၌ ထင်း, ခုံလောက်တို့ကို စီရင်ပြီးလျှင် အိုးကြီး အိုးငယ်တို့ဖြင့် ယာဂုချက်စေ၏။ မိမိလည်း ညစ်မည်းသော သင်္ကန်းကို ဝတ်ရုံ၍ လူပုံကြား၌သွားလာ လှည့်ပတ်ကာ ''ဤအိုးမှာ နှမ်းထည့်လော့၊ ဤအိုးမှာ ဆီထည့်လော့'' စသည်ဖြင့် တစ်ညဥ့်ပတ်လုံး စီရင်၏။ တစ်သိန်းမျှလောက်သော သပြာကို စွန့်လွှတ်၍ တက်ထတ်သော ယာဂုကိုလည်းကောင်း၊ ပျားလူးပေါက်ပေါက်ကိုလည်းကောင်း ပြီးစေ၏။ ထိုယာဂု၌ ထောပတ်တင်လဲ အမဲ ငါးရည်တို့ကိုလည်း ထည့်အပ်သည်ဖြစ်၍ အလွန်ကောင်းမြတ်သော အနံ့အရသာ ရှိ၏။

မြတ်စွာဘုရားလည်း နံနက်စောစောကပင် သပိတ် သင်္ကန်း ပြင်ပြီးသော် သံဃာတော်အပေါင်းနှင့်တကွ ဆွမ်းခံကြွအံ့သောအခါ အာတုမာပြည်သို့ ရှေးရှုလာတော်မူ၏။ ယာဂုချက်သော သူတို့မြင်သော် ''အရှင်သုဘဒ်–ဘယ်သူ၏ အလို့ငှာ ဤယာဂုကို ချက်သနည်း။ ဘုရားသခင်သည် သံဃာတော်အပေါင်းနှင့်တကွ ဆွမ်းခံကြွတော်မူပြီ'' ဟု ပြောကြ၏။ ထိုစကားကို ကြားသော် သုဘဒ်ရဟန်းကြီးလည်း ဝတ်ရုံတိုင်းသော သင်္ကန်းညစ်ဖြင့်သာ လက်ယာလက်က ယောက်မ၊ လက်ဝဲလက်က ဟင်းချိုကို ကိုင်ပြီးလျှင် ကိုယ်တိုင် ဘုရားရှင့်ထံသို့ ကပ်၍ တုပ်ဝပ် ရှိခိုးပြီးသော် ''ဘုန်းတော် ကြီးသော ဘုရား–အကျွန်ုပ်အား သနားတော်မူပါသဖြင့် ယာဂုအလှူကို ခံတော်မူပါ''ဟု လျှောက်၏။ ဘုရားသခင်ကလည်း ''ငါ့အရှင်သုဘဒ်–သင်ဘယ်သို့သော အခြင်းအရာဖြင့် ဤယာဂုကို စီရင်သနည်း''ဟု မေးတော်မူ၏။ သုဘဒ်လည်း အလုံးစုံ အားထုတ်ရသောအကြောင်း စကားကို လျှောက်ထားသဖြင့် ကြားသိတော်

မူလျှင် ''သင်သုဘဒ်သည် တရားနှင့် မလျှောက်ပတ်၊ မအပ်သော အမူအရာဖြင့် အဘယ့်ကြောင့် ဖွေရှာ၍ အားထုတ်သနည်း။ ရဟန်းတရားနှင့် မလျော်သော ပစ္စည်းကိုလှူ၍ အကျိုးမရှိ၊ သုံးဆောင်ဘိသော်လည်း ဓမ္မိကပရိဘောဂ မဖြစ်နိုင်။ ထို့ကြောင့် ချစ်သားရဟန်းတို့၊ ဤယာဂုကို အလှူမခံကြကုန်လင့်''ဟု မိန့်တော်မူ၍ ဝိညာပနသိက္ခာပုဒ်နှစ်ရပ်ကို ပညတ်တော်မူ ပြီးသော် ကိုယ်တော်မြတ်လည်း ဆွမ်းခံရွာသို့ ရှေးရှုကြွတော်မူ၏။

ထိုအခါ သုဘဒ်ရဟန်းကြီးသည် ထီးနန်းစည်စိမ်မှ လျှောကျသော မင်းကဲ့သို့ နှလုံးမသာ မျက်နှာမလှရှိ၍ ''ဤအရှင်ဂေါတမသည် အလုံးစုံကိုသိသူဟူ၍ ကျော်စော ပါသည်။ အကယ်၍ ငါ့အလှူကို မခံထိုက်၍ မခံလိုလျှင် တစ်ယောက်သောသူကို စေလွှတ်၍ ကြားအပ်ပါသည်။ ကျက်ပြီးသော အစာမည်သည်ကား အခါလေး မြင့်ထား၍ မလျော်ပြီ။ ဤမျှလောက် တစ်သိန်းတန် အဆောက်အအုံကိုလည်း တစ်သက် ပန်လုံး ရှာမှီး၍ ရနိုင်ခဲပါသည်။ ကိုယ်ပင့်သာသနာ၌ ငါနေသူဖြစ်ပါလျက် ငါ့ကို မညှာ မထောက်ထား၊ သနားခြင်း ကြီးလှသူ ဆိုပါလျက် ငါ၏ အကျိုးမဲ့ကို ပြုရက် လေသည်။ ငါ့အရှက်ကို ခွဲပလေသည်။ အလုံးစုံကို ဖျက်ဆီးပလေသည်။ ဤပြည်တွင် ငါမနေဝံ့အောင် ပြုပလေသည်''ဟု ဝမ်းနည်းလှ၍ ဘုရားသခင်အား ရန်ငြိုးထားလေ၏။

ထိုသို့ ရန်ငြိုးထားသော်လည်း ဘုရားရှိစဉ်အခါက အရှင်ဂေါတမကား မြင့်မြတ် သော အမျိုးမှ ရဟန်းပြုသောသူ ဖြစ်ပေသည်။ တစ်စုံတစ်ခုသော စကားကို ငါဆိုငြားအံ့။ ငါ့အား ခြိမ်းခြောက်ရာချေသည်ဟု နှလုံးပြု၍ တစ်စုံတစ်ခုသော စကားကိုမျှ မဆိုဝံ့ရကား ဆိတ်ဆိတ်နေ၍ နိဗ္ဗာန်ယူပြီးကြားမှ အားရဝမ်းသာလျက် ''ငါတို့ကား ရဟန်း ဂေါတမလက်မှ လွတ်ပြီ၊ သင်တို့ စိုးရိမ်ငိုကြွေးခြင်းကို မပြုလင့်''ဟု ဆိုသတည်း။ပရိနိဗ္ဗာနသုတ်အဖွင့်တွင် လာသည်။

❖❖❖❖❖

## ၅၆၁။ ဇေတဝန်တည်၊ ကျောင်းတော်သည်၊ မည်မျှဘုံဆင့် ရှိသနည်း။(၅၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အနာထပိဏ်သူဌေးသေည် သာဝတ္ထိမြို့၏ အနောက်တောင်မျက်နှာ တစ်ကောသ အကွာတွင်ရှိသော ဇေတမင်းသား၏ ဥယျာဉ်ကို အသပြာ တစ်ဆယ့် ရှစ်ကုဋေဖြင့်ဝယ်၍ စရိတ်ငွေ တစ်ဆယ့် ရှစ်ကုဋေ အကုန်ခံလျက် လက်ခလည်း တစ်ဆယ့် ရှစ်ကုဋေမျှပေး၍ ဆောက်လုပ်စေအပ်သော ဇေတဝန်ကျောင်းတော်ကား ဘုံအားဖြင့် သုံးဆင့်ရှိ၏။ တစ်ဆင့် တစ်ဆင့်သောဘုံ၌ တိုက်ခန်းတစ်ထောင်ရှိ၏ ဂန္ဓကုဋိ, သလာကကုဋိ,,ကောသမ္ဗကကုဋိ, ကရေရီကုဋိတည်း ဟူသော ကုဋိ လေးလုံးတို့ဖြင့် တင့်တယ်၏။ တစ်ထောင်မျှလောက် သော ပြာသာဒ်အရံလည်း

ရှိ၏။ များလှစွာသော စကြဲမဏ္ဍပ်စရပ် ဂူလိုဏ်တို့ဖြင့် ခြံရံအပ်၏။ နတ်ဘုံဗိမာန်ကဲ့သို့ အလွန်ဆန်းကြယ် ရှုဖွယ်ဘနန်းဖြစ်၏။ လက်သမား တစ်ထောင်တို့သည် ကိုးလ တိုင်တိုင် ဆောက်မှုပြီးမြောက်၏ဟူ၍ စူဠဝံပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတို့၌ လာသည်။ ပါဠိကိုလိုမူ ထိုကျမ်းတို့မှ ယူရမည်။

အချို့မှတ်စုစာများတွင်– သစ်သားဖြင့် အမိုးသုံးထပ် ဆောက်လုပ်ကြောင်း။ ထုပ် လျောက် တိုင်ဝ ယက်မ ခါးပန်း အခြင်စွန်းပင် မည်မျှရှိကြောင်းကိုဆို၏။ ထိုအတိုင်း ကျမ်းလာကို မတွေ့ချေ။

❖❖❖❖❖

## ၇၆၂။ ဝိဇယမည်၊ မင်းကြီးသည်၊ မျိုးမည်ဘယ်က အနွယ်နည်း။ (၅၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

လာလတိုင်းသီဟပုရမြို့၌ မင်းမူ၍နေသော သီဟဗာဟုမင်းကြီး၏ သားတော် နှစ်ယောက်တွင် အကြီးဆုံးဖြစ်သော ဝိဇယမင်းသည် ဆိုးသွမ်းကြောကြမ်းသော ကျွန်းခုနစ်ရာနှင့်တကွ သမုဒ္ဒရာအပြင်သို့ ဖောင်နှင့် မျှောလိုက်၍ လင်္ကာဒီပမည်သော သီဟိုဠ်ကျွန်းသို့ ရောက်သည်။ ထိုမင်းအစထွင်၍ သီဟိုဠ်ကျွန်း၌ လူနေလူထိုင် ဖြစ်သည်။ ဤစကားများသည် မဟာဝင်၌ ထင်ရှားလှပြီဖြစ်၍ အကျယ်မဆိုလိုက်ပြီ။

❖❖❖❖❖

## ၇၆၃။ ဘုရားဘုန်းစည်၊ လက်ထက်သည်၊ မည်စေတီကား အဦးနည်း။(၅၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တပုဿ ဘလ္လိကတို့အား ပေးတော်မူလိုက်သော ဆံတော်ရှစ်ဆူကို မိမိတို့မြို့သို့ ရောက်လျှင် စေတီတည်၍ ကိုးကွယ်ကြလေသည်ဖြစ်၍ ဥက္ကလာဇနပုဒ် သိင်္ဂုတ္တရကုန်း၌ တည်သော ဒဂုန်စေတီတော်သည် အဦးဆုံးပင် ဖြစ်သည်ဟူပေ။

❖❖❖❖❖

## ၇၆၄။ သီဟသူမည်၊ ပင်းယတည်၊ မည်သက္ကရာဇ်က ပေနည်း။(၅၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

> သီဟသူလျှင်၊ ရွယ်ချူးရွှေဝ၊ လေးကြိမ်စမှ၊ ခြောက်ရာ့ခုနစ်ဆယ်၊
> လေးခုဆွယ်၌၊ တံ့ပယ်တောင်သို့၊ နတ်ညွှန်ပို့၍၊ ရွှေမြို့ပင်းယ၊ တည်ထောင်
> ကြပြီး၊ ဖြူလွယာဉ်ညင်၊ တစ်စီးရှင်လျှင်၊ နန်းခွင်တစ်ဆယ်၊ စည်းစိမ်
> ကြွယ်ရှင့်။[နားတော်သွင်း]

❖❖❖❖❖

ရ၆၅။ ရွှေဆံတော်သည်၊ ပန်းခုံသည်၊ မည်မျှတာပေါင်း ရှိသနည်း။(၅၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရွှေဆံတော်တွင်သော ဘုရားသည် ဒဂုန်ရွှေဆံတော်, ပြည်ရွှေဆံတော် ဟူ၍ နှစ်ဆူရှိသည်။ ဒဂုန်ဆံတော်ကို မေးလျှင် ဤသို့သိအပ်၏။

ကုန်သည်ညီနောင်တို့သည် ဝါဆိုလ ဆံတော်ရှစ်ဆူကိုရခဲ့၍ ရေကြောင်းပြန်လာသဖြင့် ဥက္ကလာဇနပုဒ်သို့ ရောက်လျှင် သိကြားမင်း၊ ဥက္ကလာမင်းတို့နှင့်တကွ စေတီတည်ထိုက်သောဌာနကို ရှာဖွေသော် ဆူးလေနတ်၊ မော်ဘီနတ်ကြီးတို့က ''ကကုသန်၊ ကောဏာဂုံ၊ ကဿပဟူသော ဘုရားသုံးဆူတို့၏ တောင်ဝှေးတော်၊ ဓမကရိဏ်တော်၊ ရေသနုပ်တော်များကို ဌာပနာရာဖြစ်သော သိင်္ဂုတ္တရကုန်းကား ဤကုန်းပင်တည်း''ဟု ညွှန်ကြားကြ၍ ကုန်းတော်ကို ပေါင်းမြက်သင်လျက် ရှင်းပြီးလျှင် ကုန်းလယ်၌ ဌာပနာတိုက်လေးဆယ့် လေးတောင် အနက်အကျယ်တူး၍ အုတ်ကျောက်ရံပြီးလျှင် အလယ်၌ ရတနာအတိပြီးသော ကျောက်သဘော်ကိုထား၍ ထိုသဘော်၏ အထက်၌ ရွှေပန်းတောင်းဖြင့် ဆံတော်ကို ကျိန်းဝပ်စေ၍ ရွှေအုတ်၊ ငွေအုတ်၊ ကြေးစင်အုတ်၊ မြေအုတ်တို့ဖြင့် တင့်တယ်စွာရံလျက် အထက်ကိုလည်း လုံခြုံစွာဖုံးထား၍ မြေပေါ်ကို စေတီလေးဆယ့် လေးတောင် အမြင့် အစောက်တည်လေသည်။ သိင်္ဂုတ္တရကုန်းတော် အကျယ်ကား ခုနစ်တောင်တာ တစ်ရာခန့် ကျယ်သည်။

ထို့နောက် ဘုရားသာသနာတော် ၂၁၈–ခုတွင် ပါဋလိပုတ်ပြည်၌ သီရိဓမ္မာသောကမင်းကြီး မင်းဖြစ်တော်မူ၍ ရေတွင်း ရေကန် ရှစ်သောင်းလေးထောင်၊ စေတီရှစ်သောင်း လေးထောင်တည်၍ အနုမောဒနာ ပြုသောအခါလည်း ဒဂုန်စေတီတော်မှ ရောင်ခြည်တော် ခြောက်သွယ်လွှတ်၍ ထူးမြတ်သော တန်ခိုးတော်ကို ပြသဖြင့် အသောကမင်းကြီး ကြားသိလျှင် လျောက်ပတ်သော မှူးမတ်တို့ကို စေလွှတ်၍ စေတီကို ပြုပြင်စေသည်။ အထူးထူးသော ပူဇော်ဖွယ်တို့ဖြင့် ပူဇော်သည်။

သာသနာသက္ကရာဇ် ၆၄၃–ခုတွင် စေတီတော်အပေါ်ထပ် အင်္ဂတေယိုယွင်းသည်ကို ဗညားရာဇာသည် ထပ်မံလုပ်ကိုင်၍ ရွှေထီးနဝရတ် တင်လှူသည်။ သက္ကရာဇ် ၇၁၇–ခုတွင် တလိုင်းမင်း ဗညားရကျဉ်သည် ဆံတော်စေတီကို ဖောင်းကလပ်ခြေငါးဆယ့် လေးတောင်စီ ဖွင့်၍ တည်လုပ်သည်။ ပစ္စယာနှစ်ဆင့်သာ ပြီးသည်။ ၎င်းနောက် တလိုင်းမင်း ဗညားပရူ ထပ်၍တည်လုပ်ပြန်သည်။ ပစ္စယာ ငါးဆင့်သာ ပြီးသည်။ သက္ကရာဇ် ၇၂၇–ခုတွင် ၎င်းသားတော် ဗညားကျန်းတောသည်ဆက်၍ တည်လုပ်ပြန် သဖြင့် သပိတ်မှောက် ဘီလူးဆွဲ ဖောင်းကြာပြန် ချရားသီးတိုင်အောင် ပြီး၍ ရွှေထီးနဝရတ် တင်လှူရသည်။ ထိုအခါ စေတီတော်သည် မြေပေါ်ကအမြင့်

အတောင် နှစ်ရာ တစ်တောင် တစ်မိုက်နှင့် လေးလက်သစ်မြင့်သည်။ ဖိနပ်၊ ပန်းခုံတော် အချင်း အတောင်သုံးရာ၊ အဝန်းအတောင် ကိုးရာ့နှစ်တောင် ဖြစ်သတည်း။ အကျယ်မှာ ၎င်းသမိုင်းတွင်ရှိပြီ။

ပြည်မြို့ ရွှေဆံတော်ကိုမေးလျှင်-ပန်းခုံ အချင်းသုံးတောင် ငါးဆယ်။ အမြင့် ခုနစ်ဆယ့်ခြောက်တောင် နှစ်မိုက်ဟူပေ။

❖❖❖❖❖

## ၇၆၆။ ပြာဋိဟာသည်၊ ခြိမ့်ခြိမ့်စည်၊ မည်နေ့ ပြတော်မူသနည်း။(၅၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဘိုးတော် အဥ္စန ပြုပြီးနောက် သက္ကရာဇ် ၁၀၃-ခုနှစ်တွင် ဘုရားဖြစ်တော်မူ၍ ၎င်းနောက် ခြောက်ဝါအလွန် ခုနစ်ဝါရဆဲဖြစ်သော တစ်ဆယ်ပြည့်နှစ်၊ ဝါဆိုလပြည့်နေ့ မွန်းယိမ်းအချိန်တွင် သာဝတ္ထိပြည်၏ အနီးဖြစ်သော သရက်ဖြူပင်ရင်း၌ ပြာဋိဟာ ပြတော်မူသည်။

❖❖❖❖❖

## ၇၆၇။ စကြာမင်းသည်၊ စုတေမည်၊ နတ်ပြည်အမြဲရောက်လိမ့်နည်း။(၅၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ငါတို့ဘုရားအလောင်းတော်သည် သုဒဿန စကြာမင်းကိုသာ စုတေသော ကာလ နတ်ပြည်ရောက်ကြောင်းကို စက္ကဝတ္တိသုတ်၌လည်းကောင်း၊ မန္ဓာတုဇာတ်၌ လည်းကောင်း လာသည်။ တစ်ပါးသော စကြာမင်းတို့ စုတေတိုင်း နတ်ပြည် ရောက်ကြောင်းကို ကျမ်းဂန်တိုက်ရိုက်လာသည်ကို မတွေ့မိ၊ မတွေ့သော်လည်း စကြာမင်းဟူသမျှသည် သင်္ဂဟတရား လေးပါး, အပရိဟာနိယတရားခုနစ်ပါး, ရာဇဓမ္မ ဆယ်ပါး စက္ကဝတ္တိဓမ္မဆယ့်နှစ်ပါးနှင့် ပြည့်စုံမှသာလည်း စကြာရမြဲ ဖြစ်ရကား ထိုတရားတို့လည်း နတ်ရွာ ရောက်ကြောင်းပင်ဖြစ်၍ စကြာမင်းစုတေသော် နတ်ပြည်သို့ အမြဲရောက်၏ဟု သိရာသည်။ စကြာမင်းကို မဆိုထားဘိ ထိုမင်း၏အရိုးကို စေတီ တည်၍ ကိုးကွယ်ရသော သူတို့ပင် လည်း သမ္ပတ္တိ နှစ်ပါးကို ခံစားရကြောင်းကို အင်္ဂုတ္တိုရ်ဒုကနိပါတ် အဋ္ဌကထာ၌-

> **စက္ကဝတ္တိနော ဥပ္ပတ္တိယာ ဒွေ သမ္ပတ္တိယော လဘန္တိ။ ဗုဒ္ဓါနံ ဥပ္ပတ္တိယာ တိဿောပိ သမ္ပတ္တိယော လဘန္တိ။ စက္ကဝတ္တိနော စေတိယံ ဇဂ္ဂိတွာ ဒွေ သမ္ပတ္တိယော လဘန္တိ။ ဗုဒ္ဓါနံ စေတိယံ ဇဂ္ဂိတွာ တိဿောပိ သမ္ပတ္တိယော လဘန္တိ။ ။ ဟူ၍လာသည်။**

သမ္မုတ္တိနှစ်ပါးဟူသည်ကား–မနုဿသမ္မုတ္တိ– လူ့ပြည်၌ ဖြစ်သော စည်းစိမ်ချမ်းသာ။ ဒေဝသမ္မုတ္တိနတ်ပြည်၌ဖြစ်သော စည်းစိမ်ချမ်းသာ ဤနှစ်ပါးတည်း။ တိသောာ၏အရဋ္ဌ ဖြဟ္မသမ္မုတ္တိ ဖြဟ္မာမင်း၏ စည်းစိမ်ချမ်းသာကိုထည့်။

❖❖❖❖❖

## ၃၆၈။ ရသေ့ပေးသည့်၊ စကြာရည်၊ လည်၍ပျံတတ် လေလမ့်နည်း။(၆၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒဓိဝါဟနဇာတ်၌ ရသေ့အား သိကြားမင်းပေးသော ပဲခွပ်စကြာသည် ကောင်းကင်သို့ ပျံတက်၏ဟူ၍ ဆိုသည်မှာ သုဒဿနစကြာမင်း၏ စကြာရတနာကဲ့သို့ လည်၍ ပျံတက်သလောဟု မေးသည်။ ဖြေရန်ကား စကြာရတနာကဲ့သို့ လည်၍မပျံ၊ လူအလိုရှိရာ စေခိုင်းတိုင်း သွားနိုင်သည်ဖြစ်၍ စကြာရတနာနှင့် အလိုရှိတိုင်း သွားနိုင်ခြင်း တူသောကြောင့် သဒိသူပစာရ အားဖြင့်သာ စကြာဟု ခေါ်လေသတည်း။ ဥပမာကား– ဓားစကြာ, လှံစကြာ, လက်နက်စကြာ, ဟူသကဲ့သို့ သာတည်းဟုဖြေ။ ။ အဓိပ္ပါယ်ကိုသိအောင် ဇာတ်လာကို ဆိုလိုက်ဦးအံ့။

ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဖြဟ္မဒတ်မင်းသည် မင်းပြု၏။ ထိုအခါ ကာသိတိုင်း၏ အတွင်းတစ်ခုသော ရွာမှပညာရှိသော ပုဏ္ဏားညီနောင်လေးဦးတို့သည် လူ့ဘောင်၌ သံဝေဂဖြစ်ကြ၍ ရသေ့ရဟန်းပြုကြပြီးလျှင် ဟိမဝန္တာတောင်၏ အစပ်တစ်ခုသော တောအုပ်၌ ကျောင်းသခ်မ်းပြု၍ နေကြ၏။ တစ်ရံသောအခါ အစ်ကိုအကြီးရသေ့သည် သေခဲ့၍ တာဝတိံသာ၌ သိကြားမင်းအဖြစ်သို့ ရောက်လေ၏။ ထိုသိကြားမင်းသည် ကြွင်းရစ်သော ညီရသေ့သုံးဦးတို့အား ချီးမြှောက်ခြင်းငှာ သက်ဆင်းလာခဲ့၍ အစ်ကိုရသေ့သို့ ကပ်ပြီးလျှင် မိမိဖြစ်ဟန်ကို ပြန်ကြားပြောဆိုပြီးမှ ''အရှင်ရသေ့၊ အကျွန်ုပ်သည် အရှင်တို့ အလိုမပြည့်သမျှကို ပြည့်စေအံ့။ အဘယ်ဝတ္ထုကို အလိုရှိသနည်း''ဟု မေး၏။ ထိုအကြီးရသေ့ကား ဖြော့တော့သောရောဂါ ရှိသူဖြစ်၍ သိကြားမင်း၊ ငါကား မီးကို မပြတ်အလိုရှိ၏'' ဟု ဆိုပေသော် သိကြားမင်းကလည်း'' အရှင်ဘုရား၊ မီးကိုအလိုရှိမူကား ဤပဲခွပ်ကို လည်းကောင်း, အိတ်စကြာကိုလည်းကောင်း, မီးပွတ်ကို လည်းကောင်း ယူတော်မူလော့။ အကြင်အခါ၌ ထင်းကိုလည်းကောင်း, သစ်သီး သစ်ရွက်စသည်တို့ကို လည်းကောင်း၊ အလိုရှိအံ့၊ ပဲခွပ်ကို လက်ဖြင့် သုံးသပ်၍ သင်သည် မည်သည့်ဝတ္ထုကို ယူဆောင်ချေအံ့ဟု စေတော်မူလော့၊ လူကဲ့သို့ ဆောင်ယူ၍ လာလတ္တံ့'' ဟု ဆို၍ ပဲခွပ်နှင့် အိတ်စကြာကိုလည်းကောင်း၊ မီးပွတ်ကိုလည်းကောင်း ဆောက်နှင်းခဲ့၏။

တစ်ဖန်ရသေ့အလတ် နေရာ သခ်မ်းသို့ ကပ်ပြန်၍ ယခင်ကဲ့သို့ ပြောဆိုပြီးမှ ''ရှင်ရသေ့လည်း လိုရာကိုဆိုလော့။ အကျွန်ုပ်လှူအံ့''ဟု လျှောက်ပြန်၏။ ရသေ့လတ်ကလည်း ''သိကြားမင်း၊ ငါ၏နေရာ သခ်မ်းကား ဆင်တို့၏သွားရာလမ်း ဖြစ်ခဲ့၏။

ထို့ကြောင့် ဆင်တို့မလာနိုင်စိမ့်သောငှာ လိုပါသတည်း''ဟု ဆို၏။ ထိုစကားကို ကြားလျှင် သိကြားမင်းက ''အရှင်ရသေ့၊ ယင်းသို့တပြီးကား စည်ကြီးကို လှူအံ့။ ဤစည်ကို ဤမျက်နှာဖြင့် တီးခတ်သည်ရှိသော် ဆင် မြင်း ဗိုလ်ပါ အစရှိသော ရန်သူတို့သည် ကြောက်လန့်၍ ပြေးကုန်လတ္တံ့။ ဤမျက်နှာဖြင့် တီးခတ်သည်ရှိသော် ရှင်ရသေ့အား အင်္ဂါလေးပါးရှိသော စစ်သည်တို့သည် ခြံရံလာလတ္တံ့''ဟု လျှောက်၍ စည်ကြီးတစ်လုံးကို လှူခဲ့၏။

တစ်ဖန် ရသေ့ငယ်၏ အထံသို့ကပ်ပြန်၍ ယခင်ကဲ့သို့ ပြောဆိုပြီးမှ ''အရှင်ရသေ့– အရှင်အလိုရှိရာကို ဆိုလော့၊ ကျွန်ုပ်လှူခဲ့အံ့'' ဟု လျှောက်၏။ ရသေ့ငယ်ကလည်း ''ငါ့အား ဓာတ်ချောက်ချားသောရောဂါသည် ရှိ၏။ ထိုရောဂါကို ချမ်းသာစိမ့်သောငှာ နို့ဓမ်းအိုးကို အလိုရှိပါသည်''ဟု ဆိုလျှင် သိကြားမင်းလည်း နို့ဓမ်းအိုးကိုးပြ၍ ''အရှင်ရသေ့–ဤနို့ဓမ်း အိုးကို ဆောင်လျက် အသက်ထက်ဆုံး သုံးဆောင်လော့။ အကယ်၍ ရန်သူတို့လာသည် ကိုဟန့်တားလိုသည်ဖြစ်အံ့။ ရှင်ရသေ့နေရာထက်ဝန်းကျင်မှ သွန်လျှင် မြစ်ကြီးဖြစ်၍ စီးလတ္တံ့''ဟု လျှောက်၍ နို့ဓမ်းအိုးတစ်လုံးကို လှူခဲ့၏။ ထိုအခါမှ စ၍ ရသေ့ညီနောင် သုံးဦးတို့သည် ထိုစကြာသုံးပါးတို့၏ အကျိုးကို အသီးသီးခံစားလျက် ငြိမ်သက်စွာ နေကြ၏။

ထိုအခါ တောဝက်တစ်ကောင်သည် ကာသိတိုင်းဝယ် တစ်ခုသောရွာပျက်ရာ၌ ကျက်စားသည်တွင် ကောင်းကင်သို့ ပျံစွမ်းနိုင်သော တန်ခိုးရှိသော ပတ္တာများကို မြေထဲမှ ရ၍ ထိုပတ္တာများကို ငုံပြီးလျှင် ကောင်းကင်ခရီးဖြင့် လာ၍ သမုဒ္ဒရာ၏ အလယ်ဖြစ်သော ကျွန်းငယ်တစ်ခု၌ ကျက်စား၍ ရေသဖန်းပင်အောက်၌ မီးတောက်နှင့်တူသော ပတ္တာများကို ဦးခေါင်းရင်း၌ ထား၍ အိပ်နေလေ၏။ ထိုအခါ ကာသိတိုင်း၌ နေသောသူကြွယ်သား တစ်ယောက်သည် လိမ္မာသော အရွယ်သို့ ရောက်သည် တိုင်အောင် မိခင်, ဖခင်တို့၏ အိမ်၌ စားကာ အိပ်ကာသာနေ၍ လုပ်ဆောင်ဖော် မရသောကြောင့် မိဘတို့နှင်ထုတ် လိုက်ရကား သမုဒ္ဒရာ၏အနားဖြစ်သော သင်္ဘောဆိပ်ရွာသို့လာ၍ သင်္ဘောသူကြီးတို့၏ အထံ၌ ခစားစေခံပြု၍ နေသဖြင့် သင်္ဘောထွက်သောအခါ ပါလေ၏။ ထိုသူငယ်သည် သင်္ဘောပျက်သောကာလ တစ်ခုသော ပျဉ်ချပ်ကိုရ၍ မျောလေသဖြင့် ထိုဝက်၏ ကျက်စားရာဖြစ်သော ကျွန်းသို့ရောက်လေ၏။ ကျွန်းပေါ်သို့ တက်၍လည်သည်တွင် သဖန်းပင်၏အောက်၌ မီးတောက်ကဲ့သို့ ပတ္တာများကို ဦးခေါင်းအနီး၌ ထား၍အိပ်နေသော ဝက်ကိုမြင်၍ အသာအသာ သွားပြီးသော် ထိုပတ္တာများကိုယူ၍ သဖန်းပင်ထက်သို့ ပျံတက်ကာ နေပြီးလျှင် ဤသို့ဆင်ခြင်၏။ ဤဝက်ကား ဤပတ္တာများ၏ အာနုဘော် ကြောင့် ကောင်းကင်သို့ သွားနိုင်သည်ဖြစ်၍ ဤအရပ်၌ နေလာချေသည်။ ဝက်ကို သေစေမှ သင့်မည်ဟုကြံ၍ တစ်ခုသော သစ်ကိုင်းကိုချိုး၍ ဝက်ပေါ်သို့ ချ၏။ ဝက်လည်း နိုးလျှင်ပင် ခေါင်းရင်း၌ ထားသော ပတ္တာများကိုရှာ၏။ မတွေ့ရကား ရှုးရှုးရှားရှားဖြင့်

ပြေးလွှားၓ၏။ ထိုအခြင်းအရာကို မြင်သော် သစ်ပင်ပေါ်၌နေသော လူသည် ပြင်းစွာ ရယ်၏။ ထိုအသံကို ကြားသဖြင့် ဝက်သည် မော်ကြည့်၍ မြင်သော် ဤလူပင် ငါ့ပတ္တမြားကို ယူချေသည်ဟု ရေသဖန်းပင်ကို ဦးခေါင်းဖြင့်တိုက်ခြင်း, အမြစ်ကို အစွယ်ဖြင့်ကော်ခြင်းကို ပြု၍ ထိုအရပ်၌ပင် ဝက်သေလေ၏။

ထိုယောကျ်ားသည် သဖန်းပင်မှသက်၍ ဝက်၏အသားကို ဖုတ်ကင်၍စားပြီးမှ ထိုပတ္တမြားကိုငုံ၍ ကောင်းကင်ဖြင့် ပျံလာခဲ့၏။ ဇမ္ဗူဒိပ်ကျွန်း ဟိမဝန္တာစွန်းဝယ် ရသေ့သုံးဦးတို့နေသော ကျောင်းသင်္ခမ်းကိုမြင်လျှင် အစ်ကြီးရသေ့၏ ကျောင်းသို့သက်၍ နှစ်ရက်တိုင်အောင် ရသေ့၏ တပည့်ပြုလျက်နေ၏။ ထိုအခါ ပဲခွပ်စကြာ, အိတ်စကြာတို့ လူအလိုရှိရာကို ယူဆောင်နိုင်သော အာနုဘော်ကိုမြင်၍ ''အရှင်ရသေ့ ကောင်းကင်သို့ ပျံနိုင်လျှင် ကျွန်ုပ်၏ပတ္တမြားကို ယူတော်မူ။ ကျွန်ုပ်တို့လူနှင့်လျော်သော ဤပဲခွပ်စကြာကို ကျွန်ုပ်အားပေးလော့''ဟု ဆို၍ လဲလှယ်ကြ၏။ ပဲခွပ်နှင့် အိတ်ကိုရလျှင် ထိုယောကျ်ားလည်း တစ်ခုသောတောင်ကြားသို့ သွား၍နေပြီးမှ ပဲခွပ်ကို လက်ဖြင့် သုံးသပ်၍ ''ဟယ်–ပဲခွပ်ရသေ့၏ ဦးခေါင်းကို ဖြတ်၍ ငါ၏ပတ္တမြားကို ဆောင်ချေ''ဟု စေလိုက်၏။ ထိုပဲခွပ်လည်း စေသည့်အတိုင်း ရသေ့ဦးခေါင်းကိုဖြတ်၍ ပတ္တမြားကို ဆောင်လာသော် ထိုပဲခွပ်ကို သင့်ရာ၌ ဝှက်ထားပြီးမှ ထိုယောကျ်ားသည် ရသေ့လတ်ထံသို့ ကပ်ပြန်လေ၏။ သုံးရက်လေးရက်ဖြင့် နေသဖြင့် စည်ကြီး၏ အာနုဘော်ကို မြင်လျှင် ရှင်ရသေ့အား ပတ္တမြားကို ပေး၍ စည်ကိုယူပြီးလျှင် ယခင်နည်းအတိုင်း ပဲခွပ်ကိုစေ၍ ရသေ့ဦးခေါင်းကို ဖြတ်၍ ယူလေ၏။ ထို့နောက် ရသေ့ငယ်အထံသို့ ကပ်ပြန်၍ သုံးရက်လေးရက်နေသဖြင့် နို့ခမ်းအိုး၏ အာနုဘော်ကိုမြင်လျှင် ရှင်ရသေ့ နို့ခမ်းအိုးနှင့် အကျွန်ုပ်၏ပတ္တမြားခဲကို လဲကြအံ့ဟုဆို၍ လဲယူပြီးလျှင် ယခင်နည်းကဲ့သို့ ရသေ့ဦးခေါင်းကိုဖြတ်၍ ပတ္တမြားကို ယူပြန်၏။

ပဲခွပ်စကြာ, စည်စကြာ, နို့ခမ်းအိုးစကြာအားဖြင့် သုံးပါးသော စကြာတို့ကို ရလျှင် ထိုယောကျ်ားလည်း ပတ္တမြားငုံ၍ ကောင်းကင်ခရီးဖြင့် လှည့်လည်လျက် မင်းပြုခြင်းငှာ သင့်တင်သောအရပ်အကွက်ကို ကြည့်သည်တွင် ဗာရာဏသီပြည်ကို မြင်၍ မြို့မနီး မဝေးသော တောအုပ်တွင်နေ၍ ထင်းခွေလာသော သူတစ်ယောက်အား ''သင်တို့၏ ဗာရာဏသီမင်းသည် စစ်ထိုးလိုသော်လည်း ထွက်စေ။ စစ်မထိုးလိုသော် တိုင်းပြည်ကို ငါ့အားအပ်ရမည်''ဟု စာခွေ ဖြင့် စေလိုက်၏။

ထိုသဝဏ်စာကိုကြားသော် ဗာရာဏသီမင်းလည်း ထိုသူကိုဖမ်းခြင်းငှာ အတန် ငယ်သော ဗိုလ်ပါဖြင့်ထွက်လာ၏။ စကြာသုံးပါးအရှင်ဖြစ်သော ယောကျ်ားလည်း မင်းကြီး အား ထိတ်လန့်စေသောငှာ တစ်ခုသော စည်မျက်နှာကိုတီးလျှင် မိမိ၏ ထက်ဝန်းကျင်၌ ဆင် မြင်း ရထား စသော စစ်အင်္ဂါလေးပါးတို့သည် များစွာခြံရံ လေကုန်၏။ ဗာရာဏသီ မင်းလည်း မိမိ၏ ဆင် မြင်း ဗိုလ်ပါတို့ဖြင့်ထပ်၍ ပတ်ပတ်ဝန်းရံလေသော် စကြာ့ရှင် ယောကျ်ားသည် မိမိထံပါးသို့ မကပ်နိုင်စိမ့်သောငှာ 80 B

လေကုန်၏။ ဗာရာဏသီ မင်းလည်း မိမိ၏ ဆင် မြင်း ဗိုလ်ပါတို့ဖြင့်ထပ်၍ ပတ်ပတ်ဝန်းရံလေသော် စကြာ့ရှင် ယောကျ်ားသည် မိမိထံပါးသို့ မကပ်နိုင်စိမ့်သောငှာ နို့ဓမ်းအိုးကို စောင်း၍သွန်လျှင် ထက်ဝန်းကျင်မှ မြစ်အတိဖြစ်လေ၏။ ထိုအခါ ပဲခွပ်စကြာကို လက်ဖြင့်သုံးသပ်၍ ဤပြဟ္မဒတ်မင်းကြီး၏ ဦးခေါင်းကို ပရိသတ် အလယ်တွင် ဖြတ်ယူချေဟု စေလိုက်သည့်အတိုင်း ကောင်းကင်ဖြင့်လာ၍ မင်းကြီး၏ ဦးခေါင်းကို ဖြတ်ယူလေသော် ပါသမျှ သော မင်းဆွေ မင်းမျိုး မှူးမတ်အပေါင်းတို့သည် သူ့ဦးခေါင်းကို ဖြတ်လတ္တံ့လော။ ငါ့ဦးခေါင်းကို ဖြတ်လတ္တံ့လောဟု တွေးတော ကြောက်လန့်ရကား ထိုစကြာရှင် ယောကျ်ား၏ ခြေရင်း၌သာ ဦးဖြင့်တိုက်၍ ''အရှင့်သားသည် အကျွန်ုပ်တို့ပြည်ကို မင်းပြုပါ''ဟု တောင်းပန်ကြလေ၏။ ထိုယောကျ်ားလည်း များစွာသော အခြံအရံနှင့်တကွ မြို့သို့ဝင်၍ မင်းမူ၏။ ထိုမင်းသည် နို့ဓမ်းအိုးကို သွန်းလောင်း၍ အရေးပြီးရကား ဒဓိဝါဟနမင်းဟု ထင်ရှားသတည်း။

ထိုဒဓိဝါဟနမင်းသည် တစ်ရံသောအခါ ဂင်္ဂါမြစ်၌ ပိုက်ကွန်ရံစေလျက် ရေသဘင် ကစားလတ်သော် ကဏ္ဏမုဏ္ဍအိုင်၏အနီး၌ရောက်သော နတ်တို့၏ သုံးဆောင်ရာဖြစ်သော အမ္ဗတ္ထရသရက်ပင်မှ သရက်သီးမှည့်တစ်လုံးသည် မျောလာ၍ ရံသောပိုက်ကွန်၌ ငြိလာ၏။ ထိုသရက်သီးကား သောက်ရေအိုးပမာဏလောက် အလုံးကြီး၏ အနံ့လည်းကောင်း၏။ ရွှေအဆင်းနှင့်တူ၏။ မင်းချင်းယောကျ်ားတို့သည် ဆယ်၍ရသဖြင့် မင်းကြီးအား ပြလေသော် မင်းကြီးသည် တောကျွမ်းသော သူတို့အား မေး၍ သရက်သီး၏အဖြစ်ကို သိသဖြင့် အသားကိုသုံးဆောင်ပြီးမှ အစေ့ကို မိမိဥယျာဉ်၌ စိုက်လေ၏။ နို့ရည်, သကာရည်, ပြကတေ့ရည်တို့ဖြင့် သွန်းလောင်းစေ၏။ တင့်တယ်စွာ ကာရံခြင်း၊ တံခွန် ဆွဲခြင်း၊ နံ့သာဆီမီးထွန်းခြင်း စသော ပရိကံတို့ဖြင့် ချီးမြှောက်၏။

ထိုသရက်ပင်သည် သုံးနှစ်လွန်လျှင်ပင် ပွင့်ခြင်း သီးခြင်းသို့ရောက်၍ လောက်ငှစွာ သုံးဆောင်ရ၏။ အလွန်ချိုမြိန်သော အရသာရှိ၏။ ထိုဒဓိဝါဟနမင်းသည် ပြည်ထောင် ချင်းချင်း မင်းတစ်ပါးတို့အား စားတော်လက်ဆောင်အလို့ငှာ ဤသရက် သီးကို ပို့သည် ရှိသော် ထိုထိုအရပ်တို့၌စိုက်၍ အပေါက်စိမ့်သောငှာ အပင်ဖြစ်ရာကို လိပ်ကျောက် ဆူးရိုးဖြင့် ထိုးပြီးမှ ပို့သ၏။

တစ်ပါးသောမင်းတို့သည် သရက်သီးကိုစားပြီး၍ အစေ့ကိုစိုက်စေသော်လည်း မပေါက်ဘဲသာရှိလေရကား အဘယ်အကြောင်းကြောင့် မပေါက်သနည်းဟု အကြောင်းကို ကြံဆသော် မျိုးကိုဖျက်၍ ပို့ကြောင်းကို သိလေ၏။

ထိုအခါ တစ်ယောက်သောမင်းသည် ငြူစူခြင်းရှိ၍ မိမိဥယျာဉ်စောင့်ကို ခေါ်ပြီးလျှင် ''သင်သည် ဒဓိဝါဟနမင်း၏ သရက်ကို အရသာပျက်အောင် ပြုနိုင်ပါ အံ့လော့''ဟု မေး၏။ ဥယျာဉ်စောင့်က တတ်နိုင်ကြောင်းကို လျှောက်လျှင် ''သင်သွား၍ ဖျက်ချေ၊ ဤသရက်အရသာပျက်သောအခါမှ ပြန်လာခဲ့လော့''ဟု ဆို၍ အသပြာ

တစ်ထောင်ကို ဆုပေး၏။ ထိုဥယျာဉ်မှူးလည်း အရှင်မင်းစေခိုင်းလိုက်သောအတိုင်း ဒဓိဝါဟနမင်းကြီး ထံသို့လာ၍ ''အကျွန်ုပ်သည် ဥယျာဉ်မှူးအရာဖြင့် အမှုထမ်းလိုပါသည်။ ဥယျာဉ်တော်ကို ကျွန်ုပ်ပြုစုရမူ မိုးကာလ၌ သီးပွင့်မြဲမဟုတ်သော ပန်း သစ်ပင်လည်း မိုးအခါ၌ သီးပွင့်မြဲ ဖြစ်ပါလိမ့်မည်။ နွေကာလ သီးမြဲ ပွင့်မြဲ မဟုတ်သော ပန်း, သစ်ပင်လည်း နွေအခါ၌ သီးပွင့်ပါလိမ့်မည်''ဟု လျှောက်၏။ ဒဓိဝါဟနမင်းလည်း ယုံကြည်သောအားဖြင့် ရှေးဥယျာဉ်စောင့်နှင့်အတူဖက်၍ ခန့်ထား၏။ ဥယျာဉ်မှူးသစ်လည်း မိမိလျှောက်ထားသောအတိုင်း များစွာလုံ့လပြု၍ အခါမဲ့၌ ပန်း, သစ်သီးတို့ကို သီးစေပွင့်စေလျက် ထက်ဝန်းကျင်သော ဥယျာဉ်ပတ်လုံးကို နှလုံး မွေ့လျော်ဖွယ်ရှိအောင်ပြု၏။ သုံးနှစ်ရှိသောအခါ မင်းကြီးသည် ဥယျာဉ်မှူးသစ်အား နှစ်သက်သည်ဖြစ်၍ ဥယျာဉ်စောင့်ကို နုတ်၍ တစ်ယောက်တည်းသာ ထားလေ၏။ ဥယျာဉ်မှူးသစ်လည်း မိမိချည်းပြုခွင့်ရလေလျှင် ထိုသရက်ပင်၏ အရင်းမှ သင်းပျံ့ ကောင်းမွန်သော မြေကိုပယ်လျက်၊ မကောင်းသော မြေကိုသွင်းပြီးမှ ခွေးတောက်ပင် တမာပင်တို့ကို စပ်ယှက်၍ စိုက်လေ၏။ ထို ခါးစပ်သော အရသာရှိသော အပင်တို့နှင့် အမြစ်ချင်း အခက်ချင်း၊ အရွက်ချင်း ရောယှက်မိသောအခါ နတ်သုဓာကဲ့သို့ အရသာ ရှိသော သရက်သည် အချိုပျက်၍ ခါး, သက်, စပ်, ဖန်ခြင်းသို့ ရောက်လေ၏။ ယင်းသို့ သရက်သီးကို အရသာပျက်ကြောင်းကိုသိလျှင် ဥယျာဉ်မှူး သစ်လည်း မိမိ၏နေရာမြို့သို့ ထွက်ပြေးလေ၏။

ဒဓိဝါဟနမင်းလည်း ဥယျာဉ်သို့ထွက်၍ သရက်သီးကို စားလျှင် ခါး, ဖန်သော အရသာရှိသည်ဖြစ်၍ မမျိုနိုင်ဘဲ ထွေးဟက်၍ ပစ်ရသဖြင့် ထိုအကြောင်းကိုသိခြင်းငှာ ပညာရှိသော ဘုရားလောင်းအမတ်ကြီးကိုခေါ်၍ ''ဝဏ္ဏ ဂန္ဓ ရသူပေတော၊ အမ္ဗောယံ အဟုဝါ ပုရေ'' အစရှိသော ဂါထာဖြင့်မေး၏။ အဓိပ္ပါယ်ကား၊ အချင်းအမတ်ကြီး၊ ဤသရက်ပင်သည် ရှေးသောအခါ အနံ့အရသာနှင့် လွန်စွာပြည့်စုံသည်ဖြစ်လျက် ယခု ခါးသက်သော အရသာရှိပြန်၏။ ထိုသို့ အရသာကောင်း၏ ပျက်စီးခြင်းသည် အဘယ် အကြောင်းကြောင့် ဖြစ်သနည်း ဟုလိုသည်။

ထိုအခါ ပညာရှိအမတ်ကြီးလည်း မင်းအားလျှောက်ကြားလို၍ ''ပုစိမန္ဒ ပရိဝါရော၊ အမ္ဗောတေ ဒဓိဝါဟန''အစရှိသော ဂါထာကိုရွတ်၏။ အဓိပ္ပါယ်ကား။ ပြည်ထက် ဝန်းကျင်ကို နို့ဓမ်းမြစ်ဖြင့် ပတ်ရစ်သိမ်းယူတော်မူနိုင်သော အရှင်မင်းကြီး၊ ဤလောက၌ အမျိုးအကျင့် သင့်တင့်ကောင်းမြတ်လှသော သူသည် မျိုးယုတ်ကျင့်တန် ဖောက်ပြန် ပျက်စီး အချည်းနှီးသောသူနှင့်ပေါင်းဖက်မူကား နေ့ရက်မကြာ ယုတ်မာ ပျက်စီး၍ အချည်းနှီးဖြစ်လေသကဲ့သို့၊ ထို့အတူ မင်းကြီး၏သရက်ပင်သည်လည်း ခါးသက်စွာသော တမာ, ခွေးတောက်, မလျောက်ပတ်သော အရသာရှိသော သစ်ပင်တို့နှင့် အမြစ်လျှင် အမြစ်ချင်း။ အပင်လျှင် အပင်ချင်း။ အခက်လျှင် အခက်ချင်း။ ပေါင်းသင်းရောယှက်ငြိစပ်လျက်ရှိသောကြောင့် မိမိအရသာကောင်းကို ပစ်၍ မနှစ်သက်ဖွယ်သော အရသာ ဖြစ်လာပါသတည်း။ ရှေးအခါကဲ့သို့ အရသာချိုမြိန်စေလိုလျှင် ထိုတမာ, ခွေးတောက်တို့ကို ပယ်ဖျောက်ရှင်းလင်းသဖြင့် မြိန်မြတ်ရှင်းအတိုင်း ပြန်မြတ်

ပါလိမ့်မည်ဟု လျှောက်ထား၏။

မင်းကြီးလည်း ဘုရားလောင်းအမတ်လျှောက်သောအတိုင်း တမာ၊ ခွေးတောက်တို့၏ အမြစ် အနွယ်ကို နုတ်ပယ်စေပြီးလျှင် မကောင်းသော မြေကြီးကို ထုတ်ပစ်၍ ကောင်း သော မြေရေတို့ကို သွင်းပြန်သဖြင့် တစ်ဖန်ချိုမြိန်မြဲ ချိုမြိန်ပြန်လေသတည်း။ ထိုအခါ ပညာရှိသော အမတ်သည် ယခုအခါ ငါဘုရားဖြစ်တော်မူ၏ဟု ဇာတ်ပေါင်းတော် မူသည်။

ဤဇာတ်ဝတ္ထုကို ထောက်၍ ပဲခွပ်စကြာတို့သည် လည်၍ မပုံထတ်ဟု သိရာ၏။

◆◆◆◆◆

၇၆၉။ မြစ်ရည်မှုနည်း၊ မထူးလည်၊ ယင်းသည် ဘယ်မိန်းမ မျိုးနည်း။(၆၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– စိတြိနီ။

◆◆◆◆◆

၇၇၀။ ခရုသင်းရည်၊ ငါးဆေးရည်၊ ကြံရည်ဘယ်နာရီမျိုးနည်း။(၆၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– သခ်ရဏီ။

၇၇၁။ ပျား၏အရည်ကဲ့သို့ကြည်၊ မည်သည့် ဣတ္ထိမျိုးပေနည်း။(၆၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပဒုမိနီ မဓုသပါနာ၊ နဒီပါနာ စိတြိနီ။**

**သခ်ရဏီ မစ္ဆပါနာစ၊ ဂဇပါနာစ ဟတ္ထိနီ။**

ပဒုမိနီမျိုးဖြစ်သော မိန်းမ၏ သုက်ရည်ကား ပျားရည် ကဲ့သို့ ရှိ၏။ စိတြိနီမျိုးဖြစ်သော မိန်း၏သုက်ရည်ကား မြစ်ရေကဲ့သို့ ရှိ၏။ သခ်ရဏီမျိုးဖြစ်သော မိန်းမ၏ သုက်ရည်ကား ငါးဆေးရည်ကဲ့သို့လည်းကောင်း, ခရုသင်းကဲ့သို့လည်းကောင်း, ကြံရည်ကဲ့သို့လည်းကောင်း ရှိ၏။ ဟတ္ထိနီမျိုးဖြစ်သော မိန်းမ၏ သုက်ရည်ကား ဆင်မုန်ရည်ကဲ့သို့လည်းကောင်းရှိ၏ ဟူ၍ သျှတြ၌ ဆိုသည်။

◆◆◆◆◆

၇၇၂။ အာဟာရရုပ်သည်၊ဖြစ်လေသည်၊ထွေလည်ဘယ်သတ္တာဟနည်း။(၆၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သြဇာဖရဏာ မုပါဒါယာတိ ဂဗ္ဘသေယျကဿ မာတုအဇ္ဈောဟဋ္ဌာဟာရတော သံသေဒဇောပပါတိကာနဥ္စ မုခဂတသေမှာဒိတော သြဇာယ ရသဟရဏီ အနုသာရေန သရီရေ ဖရဏကာလတော ပဋ္ဌာယ။

ဟူသော ဋီကာကျော်ပါဠ်ဖြင့် ဂဗ္ဘသေယျက ပုဂ္ဂိုလ်တို့အား အမိမျိုအပ်သော အာဟာရ သည့်သူငယ်၏ ကိုယ်၌ နှံ့သောအခါ၊ သံသေဒဇ, ဥပပါတ်ပုဂ္ဂိုလ်တို့အား

ခံတွင်းသို့ ရောက်သော သလိပ်တံတွေးကို မျိုနိုင်သောအခါ၊ ထမင်းစသည်၌ တည်သောဩဇာသည် အရသာကိုဆောင်သော အကြောသို့ အစဉ်လျှောက်သဖြင့် အလုံးစုံသော ကိုယ်ခန္ဓာကို နှံ့၏ ဟူ၍ ဆိုသည်။ သတ္တာဟကို မဆို။

**အာဟာရောတိ မာတရာ အဇ္ဈောဟဋေ ကဗဠီကာရာဟာရေ ပဝတ္တာ ဩဇာ၊ အဇ္ဈောဟရဏကာလေတိ ယဒါ ကုစ္ဆိဂတော ဒါရကော မာတရာ အဇ္ဈောဟဋအန္နပါန ဩဇာယ သရီရပ္ပရဏဝသေန ယာပေတိ၊ တဒါ ဌာနပတ္တာဝ သမုဋ္ဌာပေတိ၊ နနု စ သာ ခရာ၊ ဝတ္ထု သုခုမံ။ ကထံ တတ္ထ ဖရတီတိ။ ကေသဉ္စ ဝါ ဒွိန္နံ ဝါ သတ္တာဟာနံ ဂတကာလေ ဖရတီတိ။ တဒါ ဟိ သာ ဒါရကသရီရေ ပတိဋ္ဌဟိတွာ အဋ္ဌရူပါနိ သမုဋ္ဌာပေတိ။**

ဟူသော သခေ်ပဋီကာပါဠ်ဖြင့်လည်း အမိဝမ်း၌တည်သောသူငယ်ကို အမိ မျိုလိုက်သော အာဟာရ၌ပါသောဩဇာသည် သူငယ်၏ကိုယ်၌ နှံ့ကာတည်၍ ရှစ်ပါးသော ရုပ်တို့ကို ဖြစ်စေ၏ ဟူ၍ ပြသည်။ သတ္တာဟကို မပြ။

မဏိမဉ္ဇူသာဋီကာ၌ကား–

**ကေ ဝါ ဒွေ ဝါ သတ္တာဟေ အတိက္ကမ္မ မာတရာ ဘုတ္တာ ဟာရော ကုစ္ဆိဂတဿ သရီရေ အဗ္ဘဥ္ဇနံ ဝိယ အာဟာရကိစ္စံ ကရောတိ။ ။ ဟူ၍ မိန့်သည်။**

**အဓိပ္ပါယ်ကား။** ။ တစ်ခုသောသတ္တာဟကိုလည်းကောင်း၊ နှစ်ခုသော သတ္တာဟကို လည်းကောင်း လွန်၍ အမိစားမျိုအပ်သော အာဟာရ၌ရှိသော ဩဇာသည် ဝမ်းဝယ် တည်သော သူ၏ကိုယ်၌ သက်ဝင်သကဲ့သို့ ဖြစ်၍ အာဟာရ ကိစ္စကိုပြု၏ဟူလို သည်။

ထိုကိုမှီ၍ နရသီဟပျို့၌–

မာတုဘုဥ္စ၊ အာဟာရကား၊ တိသတ္တာဟ၊ ချက်မှဝင်ထွေ၊ နှံ့တုံပေ၏၊ မြဲနေဆယ်လ၊ သန္ဓေပသည်။ ။ ကာလမြင့်မြဲ ကြာတင်တည်း။ ဟူ၍ စပ်ဆိုသည်။

❖❖❖❖❖

၅၅၃။ ရသာထူးလည်း၊ ဩဇာသည်၊ ဖြဟ္မာ့ပြည်၌ ရှိလိမ့်နည်း။(၆၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ရူပလောကေ ပန ဃာနဇိဝှါကာယဘာဝဒသကာနိ အာဟာရဇ ကလာပါနိစ န လဗ္ဘန္တိ။** ဟူသော သင်္ဂြိုဟ်ပါဠ်ကိုဖွင့်ရာ ဋီကာကျော်၌–

**အာဟာရဇ ကလာပါနိစ န လဗ္ဘန္တိ အဇ္ဈောဟဋာဟာရာဘာဝေန သရီရ ဂတဿာပိ အာဟာရဿ ရူပသမုဋ္ဌာပနာဘာဝတော၊ ဗာဟိရံ ဟိ ဥတုံအာဟာရဉ္စ ဥပနိဿယံ လဘိတွာ ဥတုအာဟာရာ ရူပံ သမုဋ္ဌာပေန္တိ။ ။ ဟူ၍ မိန့်သည်။**

ပိဋ္ဌာဟတ္ထအဓိပ္ပာယ်ကား။ ။ ရူပါဝစရဖြဟ္မာ့ဘုံ၌ ဃာနဒသက, ဇိဝှါဒသက, ကာယဒသက, ဘာဝဒသကတို့ကိုလည်းကောင်း၊ အာဟာရဇကလာပ်ကိုလည်းကောင်း မရအပ်ကုန်ဟူ၍ ဆိုသောသဂြိုဟ်စကား၌ အဘယ့်ကြောင့် အာဟာရဇရုပ်တို့ကို မရပါသနည်း။ ကမ္မဇရုပ်, စိတ္တဇရုပ်, ဥတုဇရုပ်တို့၌ပါသော ဩဇာသည် ရှိပါသည် မဟုတ်လော။ ထိုဩဇာသည် အာ ဟာရပစ္စည်း မတပ်လောဟု စောဒနာရန်ရှိ၍ ထိုစောဒနာကို ဖြေခြင်းငှာ 'အဇ္ဈောဟရိတာဟာရာဘာဝေန' စသည်ကို မိန့်၏။ အဓိပ္ပါယ်ကား။ ။ ဖြဟ္မာတို့သည် တစ်စုံတစ်ခုသောအစာကို စားခြင်း၊ မျိုခြင်း မရှိသည်၏ အဖြစ်ကြောင့် ကိုယ်၌ တည်သော တိဇဩဇာ တည်းဟူသော အာဟာရ ရုပ်၏လည်း ရုပ်ကိုဖြစ်စေနိုင်သော သတ္တိမရှိသည်၏အဖြစ်ကြောင့် အာဟာရဇကလာပ်ကို မရအပ် သတည်း။ ထိုစကားမှန်၏။ အဇ္ဈတ္တ၌ရှိသော ဥတုဇရုပ်အာဟာရဇရုပ်တို့သည် ဗာဟိရ ဖြစ်သော ဥတု, အာဟာရ တည်းဟူသော ဥပနိဿယကို ရမှသာလျှင် ရုပ်ကိုဖြစ် စေနိုင်၏။ ဥပနိဿယကို မရသော်ရုပ်ကို မဖြစ်စေနိုင်။ ဥပမာကား။ အညွန့်အညှောက် ပေါက်စွမ်းနိုင် သော မျိုးစေ့သည် ရေ မြေဟူသော အမှီ ဥပနိဿယကို မရလျှင် အညှောက် မျှမထွက်လေသကဲ့သို့တည်း။ လိုရင်းအကျဉ်းကား ဖြဟ္မာ့ဖြည်၌ ဩဇာရုပ်ကိုသာ မဖြစ်စေနိုင် ဟူလိုသည်။ ဩဇရုပ်ရှိသော် ထိုဩဇာသည် အာဟာရပစ္စည်း မတပ်လော ဟူငြားအံ့ ကလာပ်တူ ကလာပ်ပြား ဖြစ်သော တိသမုဋ္ဌာနိကရုပ်တို့အား အာဟာရ ပစ္စည်းကားတပ်၏။ ပစ္စည်းတပ်သော်လည်း ရုပ်အပေါင်းကို မပြိုပျက်အောင် ထောက်ပံ့ ရုံသာ ဖြစ်သည်။ ကာမဘုံ၌ ဤကဲ့သို့ မိမိကြောင့် ရုပ်ဖြစ်ခြင်းကား မရှိဟူပေ။

❖❖❖❖❖

## ၇၇၄။ ဣတ္ထိလိင်သည်၊ ဖြဟ္မာ့ဖြည်။ထူးလည်ရှိကောင်းလေလိမ့်နည်း။(၆၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဘာဝဒွယံ ပန ဗဟလကာမရာဂူပနိဿယတ္တာ ဖြဟ္မာနဥ္စ တဒဘာဝတာ တတ္ထ န ပဝတ္တတိ။**

ဘာဝဒွယံ ပန၊ ဘာဝရုပ်နှစ်ခုအပေါင်းသည်ကား။ ဗဟလကာမ ရာဂူပနိဿ ယတ္တာ၊ ထူပြောသော ကာမရာဂလျှင် မှီရာရှိသည်၏ အဖြစ်ကြောင့်။ ဖြဟ္မာနဥ္စ၊ ဖြဟ္မာတို့လည်း။ တဒဘာဝတော၊ ထိုထူပြောသော ကာမရာဂ ဟူသော အကြောင်း မရှိသည်၏ အဖြစ်ကြောင့်။ တတ္ထ၊ ထိုဖြဟ္မာ့ဘုံ၌၊ န ပဝတ္တတိ၊ မဖြစ်။

ဤသို့ ဋီကာကျော် မိန့်ရကာ ဣတ္ထိလိင်, ပုလ္လိင်ပင် မရှိဟူပေ။ လိင်နှစ်ပါး မရှိသော် နပုန်းပဏ္ဍုက်ဟူ၍ ဆိုအပ်သလော ဟူငြားအံ့။ ကာမရာဂ၌ တပ်ခြင်း ကင်းသော ဘာဝနာအဟုန်ကြောင့်သာလျှင် ဘာဝရုပ်အစုံတို့ ကင်းကွာရကား လူ့ရွာ၌

အကုသိုလ် ကံကြောင့် ဖြစ်သော အဟိတ် ပဋိသန္ဓေနေသော ပဏ္ဍုက်ကဲ့သို့ မဟုတ်၊ ပုဂ္ဂိုလ်၏ သဏ္ဍာန်မူကား ယောကျ်ားမြတ်တို့၏ အသွင်ဖြင့် ဖြစ်၏။ ထို့ကြောင့် နပုန်းပဏ္ဍုက် ဟူ၍လည်း မဆိုအပ် ဟူပေ။

❖❖❖❖❖

၇၇၅။ မိန်းမသေသည်၊ ဗြဟ္မာပြည်၊ ဖြစ်သည်ဘယ်ဘုံတို့ပေနည်း။(၆၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဣတ္ထိယော ပန အရိယာ ဝါ အနရိယာ ဝါ အဋ္ဌသမာပတ္တိ လာဘိနိယောပိ ဗြဟ္မပါရိသဇ္ဇေသုယေဝ နိဗ္ဗတ္တန္တိ။**

ဟူသော ဋီကာကျော်နှင့်အညီ မိန်းမတို့သည် အရိယာဖြစ်စေ၊ ပုထုဇဉ်ဖြစ်စေ သမာပတ်ရှစ်ပါးကိုပင် ရသော်လည်း စုတေသောကာလ ဗြဟ္မပါရိသဇ္ဇာဘုံ၌သာ ဖြစ်လေကုန်သည်။ ဗြဟ္မပါရိသဇ္ဇာဘုံပျက်မှ အထက်သော ဘုံတို့၌ ဖြစ်ကြကုန်သည်။ ''န သက္ကတ္တံ န ဗြဟ္မတ္တံ'' အစရှိသည်တို့ဖြင့် မိန်းမတို့သည် သိကြား ဗြဟ္မာမဖြစ်ဟု ဘုရားဟောတော်မူသည် မဟုတ်လောဟု ဆိုငြားအံ့၊ ဟောတော်မူသည်ကား မှန်၏။ မှန်သော်လည်း မိန်းမ၏ အဖြစ်ဖြင့် မဖြစ်သည်ကိုသာရည်၍ ဟောတော်မူသည်။ သိကြားမင်း ဗြဟ္မာမင်း၏ အဖြစ်ဖြင့်ကား ဖြစ်သင့်ပါ၏ဟူပေ။

ဤအရာ၌ ဗြဟ္မာတို့၏ ရုပ်နာမ်တည်ဟန် ကိုယ်သဏ္ဍာန် အခြင်းအရာကို သိသာအောင် ပြဆိုလိုက်ဦးအံ့–

**ရူပလောကေ ပန ဃာန ဇိဝှါ ကာယဘာဝ ဒသကာနိ စ အာဟာရဇ ကလာပါနိ စ န လဗ္ဘန္တိ။**

ဟူသော ပါဠ်ဖြင့် ရူပါ ဝစရ ဗြဟ္မာ့ဘုံတို့အား ဃနာဒသက၊ ဇိဝှါဒသက၊ ကာယဒသက၊ ဣတ္ထိဘာဝဒသက၊ ပုမ္ဘာဝဒသက တို့ကိုလည်းကောင်း၊ အာဟာရဇ ကလာပ်တို့ကိုလည်းကောင်း မရအပ်ကုန်ဟူ၍ သင်္ဂြိုဟ်ကျမ်း၌ ဆိုသည်။ ထိုရုပ်တို့ကို မရလျှင် ဃာနပသာဒတည်းဟူသော ဃာနဝတ္ထု။ ဇိဝှါပသာဒ တည်းဟူသော ဇိဝှါဝတ္ထု။ ကာယပသာဒ တည်းဟူသော ကာယဝတ္ထုကိုမှီသော ဃာနဝိညာဉ်၊ ဇိဝှါဝိညာဉ်၊ ကာယဝိညာဉ်တို့ကိုလည်း မရကုန်သည်သာတည်းဟု ပြတော်မူခြင်းငှာ–

**တံ တံ ပသာဒရဟိတာနံ တံ တံ ဒွါရိကဝီထိစိတ္တာနိ န လဗ္ဘန္တေဝ၊ အသညသတ္တာနံ ပန သဗ္ဗထာပိ စိတ္တပ္ပဝတ္တိ နတ္ထေ ဝါတိ။ ။ ဟူ၍ ဆိုတော်မူသည်။**

ယင်းသို့ ဝတ္ထုရုပ် ဝိညာဉ်တို့သည် မရှိလေသော် ပြကတေ့သော ကိုယ်၊ ပြကတေ့သော နှာခေါင်း၊ ပြကတေ့သော လျှာတို့သည် မရှိကုန်သလော။ အသွင်အပြင်တို့သည် ယောကျ်ားသဏ္ဍာန်လော၊ မိန်းမသဏ္ဍာန်လော ဟူငြားအံ့–

တတ္ထ ဗြဟ္မပါရိသဇ္ဇတော ပဋ္ဌာ ဣမာနိ သောဠသရူပါဝစရာနိ နာမ။ တေသု သဗ္ဗေ ပုရိသ သဏ္ဍာနာ။ ဣတ္ထိပုရိသ ဗျဉ္ဇန နိမိတ္တံပိ နတ္ထိ။ စက္ခုသောတာနိ ပန အတ္ထိ။ ရူပံ ပဿန္တိ၊ သဒ္ဒံ သုဏန္တိ။ ဃာနံ အတ္ထိ။ ဃာနပ္ပသာဒေါစ ဃာနဝိညာဏဉ္စ နတ္ထိ။ တသ္မာ ဂန္ဓံ န ဇာနန္တိ။ သမ္ဘာပရိဝတ္တဇိဝှါ အတ္တိ။ တသ္မာ ဟသန္တိ။ ဇိဝှါပသာဒေါစ ဇိဝှာ ဝိညာဏဉ္စ နတ္ထိ။ တသ္မာ ကိဉ္စိရသံ နဇာနန္တိ။ နခါဒန္တိ။ ဈာနပီတိယေဝ တေသံ အာဟာရော ဟောတိ။ ကာယော အတ္ထိ။ ကာယပ္ပသာဒေါစ ကာယ ဝိညာဏဉ္စ နတ္ထိ တသ္မာ တေ ကိဉ္စိဖဿံ န ဇာနန္တိ။ ဧဝံ သန္တေပိ နိဝါသန ပါရုပနသာဠကာနိ အတ္ထိ။ ဗြဟ္မဝိမာန သယနာနိ အတ္ထိ။ ကေသာ နခါ ဒန္တာ အတ္ထိ။ သေသကောဋ္ဌာသာနိ ပန နတ္ထိ၊ ဒီပသိခါ ဝိယ သရီရံဟောတိ။ မလမုတ္တမဂ္ဂါ နတ္ထိ။ ဣတ္ထိယော နတ္ထိ။ နစ္စဂီတာဒီနိ နတ္ထိ။ ကေစိ အရိယ ဝိဟာရေန ကေစိ ဒိဗ္ဗဝိဟာရေန ကေစိ ဗြဟ္မ ဝိဟာရေန ဝိဟာသီတိ။ ဟူ၍ ဇိနာလင်္ကာရဋီ လာသည်။

အဓိပ္ပါယ်ကား။ ။ဗြဟ္မာ့ဘုံနှစ်ဆယ်တို့တွင် ဗြဟ္မာ့ပါရိသဇ္ဇာမှစ၍ တစ်ဆယ့်ခြောက်ပါးသောဘုံတို့သည် ရူပါဝစရဘုံ မည်ကုန်၏။ ထိုဘုံ၌ ခပ်သိမ်းသော ဗြဟ္မာတို့သည် ယောကျ်ားရဲသဏ္ဍာန်သာ ဖြစ်ကုန်၏။ ယောကျ်ားနိမိတ်၊ မိန်းမနိမိတ်ကား မရှိကုန်။ မျက်စိ နားတို့သည် လူတို့ကဲ့သို့ရှိကုန်၏။ အဆင်းကိုလည်း မြင်ကုန်၏။ အသံကိုလည်း ကြားကုန်၏၊ နှာခေါင်းကားရှိ၏။ ဃာနပသာဒ ဃာနဝိညာဉ်ကား မရှိ။ ထို့ကြောင့် အနံ့ကို မသိကုန်။ လှုပ်ရှားတတ်သော လျှာကား ရှိ၏။ ဇိဝှါပသာဒ ဇိဝှါဝိညာဉ်ကား မရှိ။ ထို့ကြောင့် တစ်စုံတစ်ခုသော အရသာကို မသိကုန်။ မစားမခဲကုန်၊ မသောက်ကုန်။ ဈာန်၌ နှစ်သက်သော ပီတိသာလျှင် ဗြဟ္မာတို့၏ အာဟာရဖြစ်၏။ လုံးလုံးလျောင်းလျောင်း မြင်စကောင်းသော ကိုယ်သဏ္ဍာန်ကား ရှိ၏။ ကာယပသာဒ၊ ကာယဝိညာဉ်ကား မရှိ၊ ထို့ကြောင့် တစ်စုံတစ်ခုသော အသိကိုမတွေ့ကုန်။ ယင်းသို့ မသိငြားသော်လည်း ဝတ်ရုံသော ပုဆိုးတို့သည် ရှိကုန်၏။ ဗိမာန်အိပ်ရာ နေရာတို့သည် ရှိကုန်၏။ ဆံ၊ ခြေသည်း၊ လက်သည်း၊ သွားတို့သည်လည်း ရှိကုန်၏။ ကြွင်းသော အစုတို့သည် မရှိကုန်။ ဆီမီးလျှံကဲ့သို့သော ကိုယ်သည် ရှိ၏။ ကျင်ကြီး ကျင်ငယ်သွားသော ဗြဟ္မာတို့သည် အရိယဝိဟာရဖြင့် နေကုန်၏။ အချို့သော မဂ်တို့ကား မရှိကုန်။ ဗြဟ္မာမိန်းမလည်း မရှိ။ ကခြင်း သီခြင်း စသည် မရှိ။ အချို့သော ဗြဟ္မာတို့သည် ဒိဗ္ဗဝိဟာရဖြင့် နေကုန်၏။ အချို့သော ဗြဟ္မာတို့သည် ဗြဟ္မဝိဟာရဖြင့် နေကုန်၏ ဟူလိုသည်။

အသညသတ်ပုဂ္ဂိုလ်တို့အား စက္ခု သောတ ဃာန ဇိဝှါ ကာယ ဝတ္ထု ဘာဝဒသက၊ အာဟာရဇကလာပ်၊ အလုံးစုံသော စိတ္တဇကလာပ်တို့ကို မရအပ်။ ထိုအသညသတ် ပုဂ္ဂိုလ်တို့အား တစ်ရာ့ခုနစ်ပါးသော ရုပ်အစုဖြင့်သာ ဗိမာန် နေရာ၌

ဖြစ်၏။ လူ့ပြည်၌ ကမ္ဗဒ္ဒါန်းစီးဖြန်းစဥ် ထိုင်လျက် စုတေသော သူသည် ထိုင်သော က္လရိယာပုတ်ဖြင့်၊ လျောင်းလျက်စုတေသော သူသည် လျောင်းသော က္လရိယာပုတ်ဖြင့်သာ ဖြစ်၏။ ပုံသဏ္ဍာန်ကား ထုလုပ်၍ထားသော အရုပ်ကဲ့သို့ မိမိဖြစ်သော က္လရိယာပုတ်ဖြင့် သာလျှင် ကမ္ဘာငါးရာပတ်လုံး တည်လေ၏ဟူ၍ သမ္မောဟဝိနောဒနီ၌ လာသည်။

ထို ရူပဗြဟ္မာတို့အား မှီခိုတည်ရာဖြစ်သော ဗိမာန်, ဥယျာဉ်, ပဒေသာပင်တို့သည် လည်းကောင်း၊ ကိုယ်တွင် ဆင်အပ်သော ဘယက်တန်ဆာတို့သည် လည်းကောင်း ရှိကုန်၏။ ထိုအဆောက်အဦတို့၌ တပ်မက်သော ဆန္ဒရာဂလည်း ဖြစ်သေး၏။ ထို့ကြောင့် အဋ္ဌသာလိနီအဋ္ဌကထာ နိက္ခေပကဏ္ဍအဖွင့်၌ "ယေ ပန ဗြဟ္မဝိမာနကပ္ပရုက္ခ–အာဘရဏေသု ဆန္ဒရာဂေါ ဥပ္ပဇ္ဇတိ" ဟူ၍ ဆိုတော်မူသည်။

သုဓမ္မာနတ်သဘင်သည်လည်း ရှိ၏။ ထိုသဘင်၌ အများပင်စည်းဝေးကြ၏။ နတ်ပြည်၊ ဗြဟ္မာ့ပြည်ဟူသမျှ၌ ဤဗြဟ္မာ့ပြည်၌ တာဝတိံသာနတ်ပြည်ကဲ့သို့ အများဗြဟ္မာတို့၏ စည်းဝေးရာဖြစ်သော သုဓမ္မာသဘင်မရှိသော ပြည်မည်သည် မရှိဟူ၍ မူလပဏ္ဏာသအဋ္ဌကထာ မာရတဇ္ဇနီယ သုတ်အဖွင့်တွင် ဆိုသည်။

◆◆◆◆◆

## ၇၇၆။ သေရက်သေရည်၊ သောက်ကြသည်၊ မည်ကံထိုက်၏ဆိုမည်နည်း။(၆၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သုရာပါနမ္ပိ ဧတ္ထေဝ သင်္ဂယှတီတိ ဝဒန္တိ။ ရသသာဒိတေသု ကာမေသု မိစ္ဆာရဘာဝတော။**

ဟူသော ဋီကာကျော်နှင့်အညီ ရသတဏှာဟု ဆိုအပ်သော ကာမဂုဏ်၌ မှားသော အကျင့်ပင်ဖြစ်ရကား သုရာသောက်ခြင်းကိုလည်း ဤကာမေသု မိစ္ဆာ စာရကံ၌သာ သင်္ဂြိုဟ် အပ်၏ဟူ၍ အဋ္ဌကထာဆရာတို့ မိန့်ကုန်၏။ ထိုသို့ မိန့်ကုန်ရကား သုရာသောက်ခြင်းသည် အကုသိုလ် ကာယကံ ထိုက်၏ဟု ဆိုရမည်။

◆◆◆◆◆

## ၇၇၇။ မြင်းမိုရ်အောက်တည်၊ သုရာပြည်၊ မည်ဘုံသွင်းတို့ပါအံ့ နည်း။(၆၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဣတရေသံ တာဝတိံသေသု ဂဟဏဿ ဣစ္ဆိတတ္တာ၊ တထာ ဟိ ဝုတ္တံ အာစရိယေန "တာဝတိံသေသု ဒေဝေသု၊ ဝေပစိတ္တာသုရာ ဂတာ"တိ။**

ဟူ၍ ဋီကာကျော်မိန့်သောကြောင့် မြင်းမိုရ်တောင်၏ အောက်ဖြစ်သော အသုရာပြည်၌ တည်သော အသူရာတို့ကို တာဝတိံသာဘုံသို့ သွင်းရမည်ဟူပေ။ 81 B

**ဋီကာအနက်ကား။** ။ ဣတရေသံ၊ ဤပြိတ္တာအသုရာမှတစ်ပါးသော မြင်းမိုရ်တောင်အောက်၌နေသော အသုရာတို့ကို။ တာဝတိံသေသု၊ တာဝတိံသာဘုံတို့၌။ ဂဟဏသ္မာ၊ သွင်းခြင်းကို။ ဣစ္ဆိတတ္တာ၊ အလိုရှိအပ်သည်၏ အဖြစ်ကြောင့်။ ဣဓ စ၊ ဤ န သုရန္တိ ဣဿရိယကီဠာဒီဟိ ဒိဗ္ဗန္တီတိ အသုရာ-ဟူသော ဝစနတ်၌။ ပေတာသုရာနမေ ဝ၊ ပြိတ္တာ အသုရာတို့ကို သာလျှင်။ ဂဟဏံ၊ ယူခြင်းသည်။ ဟောတိ၊ ဖြစ်၏။ တထာ ဟိ၊ ထိုကြောင့်သာလျှင်။ အာစရိယေန၊ အဋ္ဌကထာကျမ်းပြု အနုရုဒ္ဓါ မြတ်ဆရာသည်။ တာဝတိံသေသု ဒေဝေသု၊ ဝေပစိတ္တာသုရာဂတာတိ၊ ဂတာဟူ၍။ ပရမတ္ထဝိနိစ္ဆယေ၊ ပရမတ္ထဝိနိစ္ဆယကျမ်း၌။ ဝုတ္တံ၊ ဆိုအပ်၏။ တာဝတိံသေသု ဒေဝေသု၊ တာဝတိံသာနတ် ပြည်တို့၌။ ဝေပစိတ္တာသုရာ၊ မိမိတို့၏ ရန်ဘက်ဖြစ်သော အသုရာတို့သည်။ ဂတာ အန္တောဂတာ၊ အကျုံးဝင်ကုန်၏။

❖❖❖❖❖

## ၇၇၈။ ဝီထိဆိုသည်၊ စကားတည်၊ မည်သို့ဝိဂြိုဟ်ကောက်ပိမ့်နည်း။(၇၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဝီယန္တိ ဂစ္ဆန္တိ ဧတ္ထာတိ ဝီထိ၊ မဂ္ဂေါ။**

**ဝီထိ ဝိယာတိ ဝီထိ၊ စိတ္တပရမ္ပရာ။**

ဟူ၍ ဆရာကျော်တို့မိန့်၏။

ဧတ္ထ၊ ဤလမ်းခရီး၌။ ဝီယန္တိ ဂစ္ဆန္တိ၊ သွားလာတတ်ကုန်၏။ ဣတိ တသ္မာ၊ ထိုသို့ သွားလာရာဖြစ်သော သတ္တိကြောင့်။ ဝီထိ၊ ဝီထိမည်၏။ မဂ္ဂေါ၊ ခရီးအစဉ်ရှ၏။ ဝီထိ ဝိယ၊ ခရီးအစဉ်ကဲ့သို့ ဖြစ်သတည်း။ ဝီထိ၊ ခရီးအစဉ်ကဲ့သို့ဖြစ်သည်။ စိတ္တပရမ္ပရာ၊ စိတ်အဆက်ဆက်ကိုရ၏။ ရှေ့ဝိဂြိုဟ်ကား အဓိက ရဏာသ နေကိတ် ဝိဂြိုဟ်၊ မောဂ္ဂလာန်၌ဆိုသည်။ နောက်ဝိဂြိုဟ်ကား ဥပမာတဒ္ဓိတ်၊ ဝီထိလက်ရိုး၌ ဆိုသည်။

❖❖❖❖❖

## ၇၇၉။ သဗ္ဗညုမည်၊ ဉာဏ်တော်သည်၊ မည်သို့အာရုံပြုသနည်း။(၇၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

''သဗ္ဗဓမ္မေ ဇာနနသီလတာယ သဗ္ဗညူ'' ဟူ၍ဋီကာတို့၌ ဝိဂြိုဟ်ပြုသည်။ ထိုဝစနတ္ထ၌ သဗ္ဗဓမ္မေဟု ကံပုဒ်ကို ဆိုရကား သင်္ခါရ၊ ဝိကာရ၊ လက္ခဏ၊ ပညတ်ဟူသော အလုံးစုံသော ဥေ ယျ ဓမ္မတရားကိုပင် အာရုံပြု၏ဟူ၍ သိရာသည်။

❖❖❖❖❖

## ၇၈၀။ နီဝရဏသည်၊ ပေါင်းရှစ်တည်၊ ခြောက်မည်ဘယ့်ကြောင့်ဟောသနည်း။(၇၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နီဝရဏသည် တရားကိုယ်အားဖြင့် ရှစ်ပါးရှိလျက် အပြားအားဖြင့် ခြောက်ပါးဟူ၍ ဟောသည်ကား– ထိနနှင့် မိဒ္ဓ။ ဥဒ္ဓစ္စနှင့် ကုက္ကုစ္စကို တပေါင်းတည်းပြု၍ ခြောက်ပါး ဟောသည်ဟူပေ။ အဘယ့်ကြောင့် ထိုတစ်ရားနှစ်ပါးကို တပေါင်းတည်း ဟောသနည်း ဟူငြားအံ့ ''ကိစ္စဟာရပ္ပဋိပက္ခာနံ သမာနဘာဝတော'' ဟူသော ဋီကာနှင့်အညီ ကိစ္စအားဖြင့် လည်းကောင်း၊ အာဟာရအားဖြင့်လည်းကောင်း၊ ပဋိပက္ခ အားဖြင့် လည်းကောင်း တူသောကြောင့် တစ်ခုတည်းပြု၍ ဟောသည်ဟူပေ။

အဘယ်သို့တူသနည်း ဟူငြားအံ့–

**ထိနမိဒ္ဓါနံ ဟိ စိတ္တျပ္ပါဒဿ လယာပါဒနာကိစ္စံ သမာနံ။ ဥဒ္ဓစ္စာနံ အဝူပသန္တဘာဝကရဏံ။ တထာ ပုရိမာနံ တန္ဒိဝိဇမ္ဘိတာ အာဟာရော၊ ဟေတုတိ အတ္ထော။ ပစ္ဆိမာနံ ဉာတိဗျသနာဒိဝိတက္ကာနံ၊ ပုရိမာနဉ္စ ဒွိန္နံ ဝီရိယံ ပဋိပက္ခဘူတံ။ ပစ္ဆိမာနံ သမထော။**

ဋီကာမိန့်သည်နှင့်အညီ– ထိန, မိဒ္ဓနှစ်ပါးသည် သမ္ပယုတ်တရားတို့ကို တွန့်သော အဖြစ်သို့ ရောက်စေခြင်းကိစ္စ၊ ပျင်းရိသောကိုယ်၏ ဆန့်ကျင်ခြင်းတည်း ဟူသော အာဟာရ၊ ဝီရိယ၏ ဆန့်ကျင်ဘက်ဖြစ်ခြင်းတည်းဟူသော ပဋိပက္ခ။ ဥဒ္ဓစ္စကုက္ကုစ္စ, နှစ်ပါးသည် သမ္ပယုတ်တရားတို့၏ မငြိမ်သက်သောအဖြစ်ကို ပြုတတ် သောကိစ္စ၊ ဆွေမျိုးတို့၏ ပျက်စီးခြင်း စသည်ကို ကြံခြင်းတည်းဟူသော အာဟာရ, တည်ကြည်သော သမာဓိ၏ ဆန့်ကျင်ဘက်ဖြစ်ခြင်းတည်းဟူသော ပဋိပက္ခ။ ဤသို့ ကိစ္စ, အာဟာရ, ပဋိပက္ခအားဖြင့် တူကြလေ သတည်း။

❖❖❖❖❖

## ၇၈၁။ ဝိပါက်လည်းမည်၊ ကုသိုလ်မည်၊ ယင်းသည်ဘယ်တရားတို့နည်း။(၇၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

လောကုတ္တရာဝိပါက် စိတ်လေးခုသည် ဇောကိစ္စတပ်ရကား တစ်ပါးသော ကုသိုလ် စိတ်တို့ကဲ့သို့ အာရမ္မဏာနုဘုဥ္စနလက္ခဏာ ရှိသောကြောင့်လည်းကောင်း၊ အနဝဇ္ဇ လက္ခဏာရှိသောကြောင့် လည်းကောင်း ကုသိုလ်လည်းမည်သည်၊ ဝိပါက်လည်း မည်သည်ဟူ၍ ပဋ္ဌာန်းဋီကာ၌ မိန့်၏။

❖❖❖❖❖

၅၈၂။ ဝိရတီသည်၊ ဖြဟ္မာ့ပြည်၊ မည်ကြောင့် မဖြစ်လေသနည်း။(၅၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဝိမိတဗ္ဗဝတ္ထုနံ အဘာဝတော- ဟု ဋီကာဆရာတို့မိန့်၏။ မဟဂ္ဂုတ်စိတ်၌ ဝိရတီဘယ့်ကြောင့် မယှဉ်သနည်းမေလိုသည်။

**သီလဝိသုဒ္ဓိဝသေန သုဝိသောဓိတကာယဝစီပယောဂဿ ကေဝလံ စိတ္တသမာဓာနမတ္တေန မဟဂ္ဂတဈာနာနိ ပဝတ္တန္တိ။ န ပန ကာယဝစီကမ္မာနံ ဝိသောဓနဝသေန၊ နာပိဒုစ္စရိတဒုရာဇီဝါနံ သမုစ္ဆိန္ဒနပ္ပဝတ္တနဝသေန။**

ဟူသော ဋီကာနှင့်အညီ -သီလဝိသုဒ္ဓိ အစွမ်းဖြင့် ကောင်းစွာသုတ်သင် အပ်ပြီးသော ကာယကံ ဝစီကံရှိသော ယောဂီပုဂ္ဂိုလ်အား သက်သက်သော အာရုံ၌ စိတ်ကိုထား ကာမျှနှင့် မဟဂ္ဂုတ်ဈာန်တို့သည် ဖြစ်ကုန်၏။ ကာမာဝစရကုသိုလ်ကဲ့သို့ ကာယကံ ဝစီကံကို သုတ်သင်သောအားဖြင့် ဖြစ်သည်လည်းမဟုတ်၊ လောကုတ္တရာတို့ ကဲ့သို့ ဒုစရိုက် ဒုရာဇီဝကိုပြတ်စေငြိမ်းစေသောအားဖြင့် ဖြစ်သည်လည်းမဟုတ်၊ ထို့ကြောင့် ဝိရတီ မဖြစ် သည်ဟူပေ။

❖❖❖❖❖

၅၈၃။ သတိမူသည်၊ တရားတည်း၊ လေးမည်ဘယ်ကိစ္စကြောင့်နည်း။(၅၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**တံ ပန ကာယဝေဒနာ စိတ္တဓမ္မေသု အသုဘဒုက္ခ နိစ္စာနတ္တာ ကာရဂ္ဂဟဏဝသေန သုဘသုခနိစ္စအတ္တသညာ ဝိပလ္လာသပ္ပဟာနဝသေန စ စတုဗ္ဗိဓံ။**

ဟူသော ဋီကာနှင့်အညီ သတိစေတသိက်တစ်ခုသည် ကာယ၊ ဝေဒနာ၊ စိတ္တ၊ ဓမ္မ၌ အသုဘ၊ ဒုက္ခ၊ အနိစ္စ၊ အနတ္တဟူသောအခြင်းအရာကို ယူသောအားဖြင့် လည်းကောင်း၊ သုဘ, သုခ၊ နိစ္စ၊ အတ္တသ ညာဟူသော ဝိပလ္လာသကို ပယ်သည်၏ အစွမ်း ဖြင့်လည်းကောင်း လေးပါးပြားသည် ဟူပေ။

အဓိပ္ပါယ်အကျဉ်းကား။ ။ ရူပကာယဟူသောအာရုံ၊ ဝေဒနာသုံးပါး၊ ဝေဒနာ ငါးပါးဟူသော အာရုံ။ စိတ်တည်းဟူသော အာရုံ ပရမတ္ထဓမ္မတည်းဟူသောအာရုံ ဤသို့ အာရုံလေးပါး ပြားသောကြောင့် ထိုအာရုံ၌ ဖြစ်သော အာရမ္မဏိက သတိသည်လည်းလေးပါးပြား၏ ဟူလိုသည်။

❖❖❖❖❖

ရ၈၄။ လုံ့လပြုသည်၊ တရားမည်၊ လေးတည်ဘယ့်ကြောင့်ပြားသနည်း။(ရ၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ကိစ္စဘေဒေန စတုဗ္ဗိဓော-ဟူသောဋီကာနှင့်အညီ ဝီရိယတစ်ပါးတည်း ဖြစ်လျက် ဖြစ်ပြီးသော အကုသိုလ်ကို ပယ်ခြင်းငှာ လုံ့လပြုခြင်း။ မဖြစ်သေးသော အကုသိုလ်ကို မဖြစ်စိမ့်သောငှာ လုံ့လပြုခြင်း။ မဖြစ်သေးသောကုသိုလ်ကို ဖြစ်စိမ့်သောငှာ လုံ့လပြုခြင်း။ ဖြစ်ပြီးသော ကုသိုလ်ကို လွန်စွာဖြစ်စိမ့်သောငှာ လုံ့လပြုခြင်း ဟူသော ကိစ္စပြားသည်၏ အစွမ်းဖြင့် လေးပါးပြား၏ ဟူပေ။

❖❖❖❖❖

ရ၈၅။ ရဟန္တာသည်၊ စုတေ့တည်၊ မည်သို့အာရုံ ပြုလိမ့်နည်း။(ရရ)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- နိဗ္ဗာန်ကို အာရုံပြု၍ စုတေ၏ ဟူပေ။

❖❖❖❖❖

ရ၈၆။ နိဗ္ဗာန်ရွှေပြည်၊ ငါသွားမည်၊ သင်းသည် ဘယ်ဝိဘတ်ပေနည်း။(ရ၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

နိဗ္ဗာနပုရံ အဟံ ဂမိဿာမိ-ဟူသောပါဠ်၏ အနက်ဖြစ်ရကား ငါသွားမည် ဟူသော စကားသည် ဘဝိဿန္တိဝိဘတ်၊ ပရဿပုဒ်၊ ဥတ္တမပုရိသ်၊ ကေဝုစ် သာမိဝိဘတ်ဟုဆို။

❖❖❖❖❖

ရ၈ရ။ မောင်၏ဆီကြည်၊ မယ်လိမ်းမည်၊ ဘယ်သည်သမ္ဗန်ဆိုပိမ့်နည်း။(ရ၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မောင်ဟုခေါ်အပ်သောသူနှင့် ဆီကြည်ကား ဥစ္စာရှင်နှင့် ဥစ္စာဖြစ်၍ သာမိ-သံအဖြစ်ဖြင့် စပ်ရကား သာမိသမ္ဗန်ဆိုသင့်သည်။

❖❖❖❖❖

ရ၈၈။ လူတွင်မကြည်၊ မင်းရဲသည်၊ မည်သည့်နိဒ္ဒါရဏနည်း။(၈၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မနုဿေသု ခတ္တိယော သူရတမော-ပါဠ်၏အရပင်ဖြစ်ရကား ဂုဏ်အားဖြင့် အပေါင်းမှ အစိတ်ကို ထုတ်သောကြောင့် ဂုဏနိဒ္ဒါရဏဖြစ်သည်။

❖❖❖❖❖

**၇၈၉။ လေ့ဖြင့်ထူးလည်း၊ ကူးလေသည့်၊ ကြံစည်ဘယ်တဒ္ဓိတ်တို့နည်း။(၈၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

နာဝါယ တရတီတိ နာဝိကော။

ယော နရော၊ အကြင်သူသည်။ နာဝါယ၊ လှေဖြင့်။ တရတိ၊ ကူးတတ်၏။ ဣတိ၊ ထို့ကြောင့်။ နာဝိကော၊ နိဝိကမည်၏။ သာမညတဒ္ဓိတ် တစ်ဆယ့်ငါးရပ်တို့တွင် တရတိသဒ္ဒါကျေ သောကြောင့် တရတိတဒ္ဓိတ်မည်၏ ဟူပေ။

❖❖❖❖❖

**၇၉၀။ နှစ်ကြိမ်ဆိုသည်၊ စကားသည်၊ ခွဲရည်နှစ်ရက် မည်သို့နည်း။(၈၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

နှစ်ကြိမ်ထပ်၍ ဆိုသောစကားမျိုးသည် အာမေဍိတ်၊ ဝိစ္ဆာအားဖြင့် နှစ်ပါး အပြား ရှိ၏။

ထိုတွင် ကြောက်ခြင်း၊ အမျက်ထွက်ခြင်း၊ ချီးမွမ်းခြင်း၊ လျင်စွာဖြစ်ခြင်း၊ အုတ်အုတ်ကျက်ကျက်ဖြစ်ခြင်း၊ အံ့ဩခြင်း၊ ရွှင်လန်းခြင်း၊ စိုးရိမ်ခြင်း၊ ကြည်လင်ခြင်း၊ ကဲ့ရဲ့ခြင်း၊ လွန်စွာဖြစ်ခြင်း၊ မမြတ်နိုးခြင်း ဟူသော အရာတို့၌ နှစ်ကြိမ်ထပ်၍ဆိုခြင်းသည် အာမေဍိတ်မည်၏။

ပြားသောအနက်တို့ကိုနှံ့စေခြင်းငှာ နှစ်ကြိမ်ထပ်၍ ဆိုခြင်းသည် ဝိစ္ဆာမည်၏။ ဤသို့ခွဲမည်ဟူပေ။

❖❖❖❖❖

**၇၉၁။ ငါတို့ရွာပြည်၊ သွားကြမည်၊ ယင်းသည် ဘယ်ပုရိသ်ပေနည်း။(၈၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အမှာကံ ဂါမံ မယံ ဂစ္ဆာမ-ဟူသောပါဠိ၌အရပင်ဖြစ်ရကား ဥတ္တမပုရိသ်ဟု ဖြေ။

❖❖❖❖❖

**၇၉၂။ သီချင်းသီသည်၊ ဟောစိမ့်မည်၊ ဖွေနည်း ဘယ်သာခနနည်း။(၈၄)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဂါယတီတိ ဂီတံ။ ကတ္တုသာခန၊ သီတတ်သောသူရ၏။ ။ဂါယတိ တေနာတိ ဂီတံ။ ကရဏသာခန၊ သီကြောင်းဖြစ်သော သီချင်းရ၏။ ဂါယနံ ဂီတံ။ ဘာဝသာခန၊ သီချင်းကို သီခြင်း ကြိယာရ၏။ ဤသုံးပါးတို့တွင် သီခြင်းကြိယာကို ဟောစေရာ၌ ဘာဝသာခနဟူပေ။

❖❖❖❖❖

၇၉၃။ သိစေတတ်သည်၊ တို့ဘုန်းစည်၊ ထွေလည် ဘယ်သာခနေနည်း။(၈၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဗောဓေတော ပဇာယတိ ဗုဒ္ဓေါ။ ။ ယော ဘဂဝါ၊ သည်။ ပဇာယ၊ သတ္တဝါ အပေါင်းကို။ ဗောဓေတော၊ သိစေတော်မူတတ်၏။ ဣတိ၊ ထို့ကြောင့်။ ဗုဒ္ဓေါ၊ မည်၏။ ဤဝစနတ်၏အရ ဖြစ်ရကား ဟေတုကတ္တုသာခနေ ဟုဖြေ။

◆◆◆◆◆

၇၉၄။ မဟော်စေသည်၊ ကျေးကမြည်၊ ပဋ္ဌာပြည်ငှက် ဖွားလိမ့်နည်း။(၈၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**အထ တေ သာယနှသမယေ မေထုနသံဝါသံ ကရိံသု။ သမဂ္ဂါ သမ္မောဒမာနာ ပိယသံဝါသံ ဝသိံသု။**

အထ၊ ထိုသို့ အချေအတင် ချစ်ခင်စကား ဖွင့်ကြားပြောဆိုပြီးသောအခါ၌။ တေ၊ ထိုကျေးသား သာလိကာမတို့သည်။ သာယနှသမယေ၊ ညချမ်းသောအခါ၌။ မေထုန သံဝါသံ၊ မေထုန်ဖြင့် ပေါင်းဖက်ခြင်းကို။ ကရိံသု၊ ပြုကုန်၏။ သမဂ္ဂါ သမ္မောဒမာနာ၊ စိတ်တူကိုယ်မျှမျိုးကြမလောက် ဝမ်းမြောက်ဝမ်းသာစွာ။ ပိယသံဝါသံ၊ ချစ်ခင်သဖြင့် နေခြင်းကို။ ဝသိံသု၊ နေကြကုန်၏။

ဤမျှသော စကားကိုသာလျှင် ဥမင်္ဂဇာတ်၌ လာသည်။ သားသမီး ဖွားကြောင်းကို မလာချေ။ မေထုနသေဝန ဖြစ်သမျှကိုလည်း သန္ဓေရသည် မဟုတ်ရကား စာ၌ပါမှ ဆိုနိုင်ရာရှိမည်။

◆◆◆◆◆

၇၉၅။ ကမ္ဘာဦးတည်၊ လူတို့ပြည်၊ ဆင်းသည်ဗြဟ္မာ ဘယ်မျှနည်း။(၈၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဧဝံ မနုဿလောကေ သဏ္ဌဟိတေ ဗြဟ္မလောကတော စဝိတွာ ဩပပါတိက မနုဿာ ဟုတွာ ဗြဟ္မာနောဝိယ ဥပ္ပဇ္ဇန္တိ သယံပဘာ အန္တလိက္ခစရာ။ ဣတ္ထိပုရိသလိင်္ဂ နတ္ထိ။ နပုံသကလိင်္ဂေါ ကေဇန္တော ဟောတိ။**

အစရှိသည်ဖြင့် အဂ္ဂညသုတ် အဋ္ဌကထာလာသည်နှင့်အညီ ကမ္ဘာဦးကာလ ရေလျှောကျ၍ ရသပထဝီတည်သော မနုဿ လောကဓာတ် ဖြစ်လတ်သော် ဗြဟ္မာတို့သည် ပြကတေ့သောကိုယ်ဖြင့် မြေသင်း စားအံ့သောငှာ လာသည်မဟုတ်၊ ဗြဟ္မာ့ဘုံမှစုတေခဲ့၍ ဗြဟ္မာ၏ သဏ္ဌာန်ကဲ့သို့ လူဥပပတ်ဖြစ်၍ မိမိတို့၏ ကိုယ်ရောင် ကိုယ်ဝါဖြင့် စကြဝဠာ ထက်ဝန်းကျင်ကို ထွန်းလင်း တောက်ပကုန်လျက် ငှက်ကဲ့သို့ ကောင်းကင်ခရီးဖြင့်သာ သွားလာကုန်သည်။ ထိုသူတို့သည် ယောက်ျားလည်းမဟုတ်၊

မိန်းမလည်းမဟုတ်၊ နပုလ္လိင်ကေန် ဖြစ်ကုန်သည်။ တစ်စုံတစ်ခုသော အာဟာရကိုလည်း မှီဝဲခြင်းမရှိ၊ ပီတိသာလျှင် အာဟာရ ကိစ္စကို ပြီးစေလျက် အသက်အသချေ ရှည်ကုန်၏ ဟူ၍ ဆိုသည်။

ဤနည်းတူသာလျှင် သာသနာတော် ကျမ်းတို့၌ ဆိုသောကြောင့် ကမ္ဘာဦးက ဗြဟ္မာ့ပြည်မှ သက်ဆင်းလာသော လူဗြဟ္မာသည် သချၤာအရေအတွက်မရှိ၊ အများပင် ဖြစ်သည်။ ။အသီတိခေတ်ကျမ်း ဗေဒင်ကျမ်းတို့၌ကား ရှေးဦးစွာ ကိုးယောက် ဆင်းသည်ဟု လာသည်။

ဗြဟ္မာတို့သည် စုတေ၍ သက်လာ၏ဟူသော် အဘယ်ဘုံမှ သက်ဆင်းသနည်း ဟူငြားအံ့ –

ရှေးဖျားကမ္ဘာ၊ ပေါ်ခါလည်းကောင်း၊ အပေါင်းရူပ၊ သောဠသတွင်၊ နာမပညတ်၊ အထူးမှတ်သား၊ အာဘဿရာ၊ နတ်ဗြဟ္မာတို့၊ ခန္ဓာလျှောပြတ်၊ ကာမခေတ်သို့၊ ဥပပါတ်ထင်ပြ၊ ဖြစ်ကုန်ကြသော်၊ ကမ္မဗိန္ဒိ၊ တန်ခိုးရှိ၍၊ မိမိကိုယ်ရောင်၊ တပြောင်ပြောင်တည့်၊ မိုက်မှောင်ဖျောက်ပယ်၊ ကောင်းကင်လယ်၌၊ ငှက်နှယ်ဝဲပျံ၊ ကွန့်မြူးစံ၏။ တစ်ရံရောခါ၊ မြေသြဇာနှင့်၊ ပဒါလတာ၊ ရသာနွယ်ချို၊ အလိုစားပြီး၊ ဆံချည်းသီးသား၊ လုံးကြီးမကျိုး၊ ရိုးရရိုးတိ၊ စားဖွယ်ရှိသား၊ သာလိဘတ္တာ၊ လွှရရွှကို၊ စားကြသောအား၊ ရမ္မက်ပွား၍၊ ယောကျ်ားမိန်းမ၊ ဖြစ်ထထိုရော်၊ မွေ့လျော်မပျက်၊ အိမ်ထောင်ယှက်၍၊ စဉ်ဆက်သားမြေး၊ ပေးလတ်ရာတွင်၊ ပုညာ ပုည၊ သကမ္မကြောင့်၊ ဂေါတ္တာလေးပါး၊ နောက်မှပွားရှင့်။ ဟူ၍ ဘူရိဒတ် ဇာတ်ပေါင်းပျို့၌ စပ်တော်မူသည်ကို ထောက်၍ သိရာ၏ဟူပေ။

❖❖❖❖❖

## ၅၉၆။ ကြာသက်န်းသည်၊ ဗြဟ္မာ့ပြည်၊ မည်နှင့်ထည့်၍ ထားသနည်း။(၈၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား –

ကမ္ဘာဦးကာလ၌ ပုဗ္ဗနိမိတ်အဖြစ်ဖြင့် ပေါ်လာသော ကြာသက်န်းကို သုဒ္ဓါဝါသ ဗြဟ္မာတို့ယူ၍ ထားကြောင်းကိုသာ ကျမ်းဂန်တို့၌လာသည်။ မည်သည့်ဝတ္ထုနှင့် ထည့်၍ ထားကြောင်းကို မလာချေ။

❖❖❖❖❖

## ၅၉၇။ မျောက်မျဉ်းစက်သည်၊ ဗြဟ္မာ့ပြည်၊ ထွေလည်လူသို့ ရှိလိမ့်နည်း။(၈၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား –

ဗြဟ္မာအိပ်ကြောင်း၊ မအိပ်ကြောင်းကို ကျမ်းဂန်၌လာသည်ကို သတိမမူပီ။ ယုတ္တိကို ထောက်သော် အိပ်ခြင်းဟူသည်ကား ထိနမိဒ္ဓဖြင့် အိပ်ခြင်း, ရုပ်၏ အိပ်ခြင်းဟူ၍

နှစ်ပါးရှိသည်။ ပြဟ္မာ့ဘုံ၌ ထိုအိပ်တတ်သော နာမ်,ရုပ် တရားနှစ်ပါးပင် ရှိရကား ပြဟ္မာတို့၌ မျောက်မျဉ်းခြင်း၊ အိပ်စက်ခြင်းသည် ရှိသေး၏ဟု ယူဖွယ်ရှိသည်။

လျောင်း၍ပင်အိပ်သလော ဟူငြားအံ့။ ထိုပြဟ္မာတို့၌ ဒေါသကြဉ်သော ကာမဇော သတ္တဝီသ။ ဝုဋ္ဌော၊ အဘိညာဉ်ဇော၊ အပ္ပနာဇောတို့ကို ယထာရဟ ရကြကုန်သည်။ ထိုစိတ်တို့တွင် ဝုဋ္ဌော၊ ကာမဇော စိတ်တို့သည် ရပ်ခြင်း ထိုင်ခြင်း သွားခြင်း လာခြင်း ဟူသော ဣရိယာပုတ်ကို ဖြစ်စေတတ်သည်။ အပ္ပနာဇောတို့သည် ဖြစ်ပြီးသော ဣရိယာပုထကို မယွင်းမယိုင် ခိုင်ခံ့စေတတ်သည်။ အိပ်ပျော်ခြင်း ဟူသည်မှာ ဘဝင် သက်ခြင်းပင်ဖြစ်ရကား ရူပဘဝင်စိတ်သည်လည်း အိပ်ပျော်ခြင်း ကိစ္စကို ပြီးစေသည်ပင်ဖြစ်သည်။ ထို့ကြောင့် လျောင်း၍လည်း အိပ်ရာ၏ဟူပေ။

ဝုဋ္ဌော ကာမဇော တစ်ခုယုတ်သုံးဆယ် အဘိညာဉ်ဒွေတို့သည် ကာယဝိညတ် ဝစီဝိညတ်ကိုလည်း ဖြစ်စေ၏။ ဟူ၍သာလျှင် သင်္ဂြိုဟ်ဆရာ ဆိုပါသည် မဟုတ်လော၊ ဘယ့်ကြောင့် ဣရိယာပုတ်ကို ဖြစ်စေ၏ဟု ဆိုပြန်သနည်း ဟူငြားအံ့၊ "ဝိညတ္တိမ္ပိ သမုဋ္ဌာပေတိ"ဟူသော ပါဠ်၌ ပိသဒ္ဒါဖြင့် ပေါင်း၍ ပြတော်မူသောကြောင့် သိရပါသည် ဟူပေ။

ထိုစကားသည်မှန်၏။ ဝုဋ္ဌော၊ ကာမဇော တစ်ခုယုတ်သုံးဆယ်၊ အဘိညာဉ် ဒွေအားဖြင့် သုံးဆယ့်နှစ်ပါးသော စိတ်တို့သည် စိတ္တဇရုပ်ကိုလည်းဖြစ်စေကုန်၏။ ဣရိယာပုတ်ကိုလည်း ခိုင်စေကုန်၏။ ကာယဝိညတ်၊ ဝစီဝိညတ်ကိုလည်း ဖြစ်စေကုန်၏။ အပ္ပနာဇော ဆဗ္ဗီသတို့သည် ဝညတ်ကိုသာ မဖြစ်စေကုန်၊ စိတ္တဇရုပ်ကိုကား ဖြစ်ကုန်၏။ ဣရိယာပုတ်ကိုလည်း ခိုင်စေကုန်၏။ မဟာဝိပါက်ရှစ်ခု၊ အဟိတ် ကုသလဝိပါက် သမ္ပဋိစ္ဆိုင်း သန္တီရဏ နှစ်ခုအားဖြင့် တစ်ဆယ့်တစ်ပါးသော ကုသလ ဝိပါက်တ်စိတ်၊ အကုသလဝိပါက် သမ္ပဋိစ္ဆိုင်း သန္တီရဏအားဖြင့် နှစ်ပါးသောစိတ်၊ ပဉ္စ ဒွါရာဝဇ္ဇန်း၊ ရူပါဝစရ ဝိပါက်ငါးခု၊ ဤတစ်ဆယ့်ကိုးပါးသော စိတ်တို့၏သည် စိတ္တဇ ရုပ်ကိုသာလျှင် ဖြစ်စေကုန်၏။ ဝိညတ်ဣရိယာပုတ်ကို မဖြစ်စေ၊ မခိုင်စေကုန်။ ထို့ကြောင့် အဘိဓမ္မတ္ထသင်္ဂဟ ဒီပနီ၌-

**ဣဒါနိ ဝိညတ္တိသမုဋ္ဌာပကစိတ္တေ အသမ္မောဟတ္ထံ ဒွတ္တိံသ ဆဗ္ဗီသ ဧကူနဝီသတိသောဠသပဉ္စမာနီတိ ဣဒံ ပကိဏ္ဏကံ ဝေဒိတဗ္ဗံ။ ဒွတ္တိံနိ ဟိ စိတ္တဇရူပံ သမုဋ္ဌာပေတိ။ ဣရိယာပထံ ဥပတ္ထမ္ဘန္တိ။ ဒုဗ္ဗိဓံ ဝိညတ္တိံ ဇနေန္တိ သတိစိတ္တာနိ ဝိညတ္တိမေဝ ဇနေန္တိ။ ဣတရဒွယံ န ကရောန္တိ။ ဧကူနဝီသတိ ရူပမေဝ သမုဋ္ဌာပေန္တိ။ ဣတရဒွယံ န ကရောန္တိ။ သောဠသ ဣမေသု တီသု ဧကမ္ပိ န ကရောန္တိ။ ဟူ၍ ဆိုတော်မူသည်။ အနက်သိသာပြီ။**

❖❖❖❖❖

**၅၉၈။ စိတ်ဖြင့်တောင်းသည်၊ လောင်းပွင့်ရှည်၊ သချေ်မည်ကား၊ ဘယ်သို့နည်း။(၉၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နန္ဒ၊ သုနန္ဒ၊ ပထဝီ၊ မဏ္ဍ၊ ဓရဏီ၊ သာဂရ၊ ပုဏ္ဍရိက– ဤခုနစ်သချေ် အတွင်း၌ ငါတို့ ဘုရားအလောင်းတော်သည် စိတ်ဖြင့်သာ ဘုရားဆုကို တောင်းရသည်။

သဗ္ဗဘဒ္ဒ၊ သဗ္ဗဖုလ္လ၊ သဗ္ဗရတန၊ ဥသဘက္ခန္ဓ၊ မာနိတ၊ ပဒုမ၊ ဥသဘ၊ ခန္ဓုတ္တမ၊ သဗ္ဗဘလ္လ–ဤကိုးသချေ်အတွင်း၌ ဘုရားလောင်းသည် နှုတ်မြွက်၍ ဘုရားဆုကို တောင်းသည်။

သေလ၊ ဘာသ၊ ဓေယျ၊ ရုစိရ–ဟူသော လေးသချေ်နှင့် ကမ္ဘာတစ်သိန်း၏ အတွင်း၌ကား– ကိုယ်,နှုတ်,စိတ် သုံးပါးဖြင့် ဘုရားဆုကို တောင်းသည်ဟူ၍ ဇာတတ္ထကီနိဒါန်းတို့၌ လာသည်။

စိတ်ဖြင့်တောင်းသည်ကိုမေးလျှင် နှုတ်ဖြင့်တောင်းခြင်း၊ ကိုယ်နှုတ်နှစ်ပါးဖြင့် တောင်းခြင်းကိုလည်း မေးခွင့်သင့်သည်ဖြစ်၍ မေးလတ္တံ့သော လီနတ္ထရစောဒနာပါ ဖြေလိုက်သည်။ [ဍင်းစကား၏ စောဒနာကို ဇိနတ္ထပကာသနီ၌ ရေးသားခဲ့ပြီ။]

◆◆◆◆◆

**၅၉၉။ ဒါနကြောင့်လည်း၊ စည်းစိမ်တည်း၊ ဖွေနည်းဘယ်ဟိတ်ဆိုပိမ့်နည်း။(၉၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒါနတော၊ အလှူပေးခြင်းကြောင့်။ ဘောဂဝါ၊ စည်းစိမ် ချမ်းသာကြီးသည်။ ဟောတိ၊ ဖြစ်၏။ ။ အကြောင်းတစ်ပါး၊ အကျိုးတစ်ပါးသာ ဖြစ်သောကြောင့် ပစ္စေကဟိတ် မည်သည်။

◆◆◆◆◆

**၆၀၀။ အာချတ်ကိုသည်၊ နာမ်ဆိုမည်၊ ဖွေနည်းဘယ်ကျမ်းထောက်အံ့နည်း။(၉၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သညာယံ ဝတ္တုမိစ္ဆာယံ၊ အာချာတံ နာမိကံ ဘဝေ။**

**မာခလိစ္စာဒိ ဣစ္စေဝံ၊ သဒ္ဒနီတိယ မာဟဋံ။**

သဒ္ဒတ္ထဘေဒစိန္တာကို ထောက်မည်ဟူပေ။

သညာယံ၊ အမည်ကို။ ဝတ္တုံ၊ ဆိုခြင်းငှာ။ ဣစ္ဆာယံ၊ အလိုရှိသော်။ အာချာတံ၊ အာချာတ်သည်။ နာမိကံ၊ နာမ်မည်သည်။ ဘဝေ၊ ဖြစ်၏။ မာခလိစ္စာဒိ၊ ကို။ သဒ္ဒနီတိယံ၊ သဒ္ဒနီတိကျမ်း၌။ အာဟဋံ၊ ဆောင်အပ်ပြီ။

အသော ဟူသောပြယုဂ်၌ မြင်းဒြပ်ကို မြင်သောအခါ အနက်၌ ညွတ်သည် မည်၏။ အဿသဒ္ဒါကို ကြားသောအခါ မိမိ၌အနက်တို့ကို ညွတ်စေသည်မည်၏။

ထိုကဲ့သို့ ဂစ္ဆတိ စသော ပြယုဂ်၌ သွားသောသူကို မြင်သောအခါ ဂစ္ဆတိ ဟူသော ဝေါဟာရကို သိခြင်း၊ ဂစ္ဆတိဟူသော အသံကိုကြားသောအခါ သွား၏ဟူသောအနက်ကို သိစေခြင်း ရှိရကား ''အတ္ထေ နမတီတိ နာမံ။ အတ္တနိစတ္ထေ နာမေတီတိ နာမံ'' ဟူသည်နှင့်အညီ နာမ်မည်သတည်း။

◆◆◆◆◆

## ၈၀၁။ ထမင်းစားမည်၊ ဆိုကြမည်၊ ဖွေနည်း ဘယ်ဥပစာနည်း။(၉၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဥပစာမဟုတ်၊ မုချသဒ္ဒါပင်ဟူပေ။ ထမင်းချက်သည် ဆိုရာ၌ အကြောင်း ဖြစ်သော ဆန်ကိုချက်လျက် အကျိုးဖြစ်သော ထမင်းဒြပ်၌ တင်စား၍ ထမင်းချက်သည် ဟု ခေါ်သောကြောင့် ဖလူပစာရဖြစ်၏။ ထမင်းစားမည် ဆိုရာ၌ကား တင်စား၍ ဆိုသည်မဟုတ်၊ မုချအဖြောင့်စကားပင် ဖြစ်သည်။

◆◆◆◆◆

## ၈၀၂။ ဂုဏ်အကြောင်းရည်၊ ဇာတ်ဟောမည်၊ ယောင်းသည် အဘယ်သဒ္ဒါနည်း။(၉၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဂုဏ်ကို အကြောင်းပြု၍ ဇာတ်ကိုဟောသောသဒ္ဒါသည် ဂုဏသဒ္ဒါမည်၏။ ပ။ ကား။ နီလုပ္ပလံ၊ စသည်တည်း။ ဤ၌ ဥပ္ပလ သဒ္ဒါသည် ကြာဇာတ်ကိုလည်းကောင်း၊ ကြာဒြပ်ကို လည်းကောင်း ဟော၏။ နီလသဒ္ဒါကား ညိုသောဂုဏ်ကိုဟော၏။

◆◆◆◆◆

## ၈၀၃။ ဒြပ်ဟောမည်၊ ဇာတ်ကြောင်းရည်၊ ကြံစည်လွတ်၏အဘယ်နည်း။(၉၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဇာတ်ကိုအကြောင်းပြု၍ ဒြပ်ကိုဟောသောသဒ္ဒါသည် ဇာတိသဒ္ဒါမည်၏။ ပ။ ကား။ ဂေါဂစ္ဆတိ စသည်တည်း။

◆◆◆◆◆

## ၈၀၄။ ဘုရားဖူးမည်၊ လှေစုန်သည်၊ မဖည်ဘယ်ကာရကနည်း။(၉၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗုဒ္ဓံ၊ ဘုရားကို။ ဒဿနာယ၊ ဖူးမြင်အံ့သောငှာ။ အဟံ၊ ငါသည်။ နာဝါယ၊ လှေဖြင့်။ ဩတရတိ၊ စုန်၏။ ။ ဤ၌ ကာရကငါးပါး။

◆◆◆◆◆

### ၈၀၅။ သမ္ဘဒါန်သည်၊ ကြံဖွေနည်း၊ ထွေလည်ဘယ်သတ္တိပေနည်း။(၉၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဝတ္ထုပဋိဂ္ဂါဟကသတ္တိ၊ ကိရိယာပဋိဂ္ဂါဟကသတ္တိရှိသည်။

❖❖❖❖❖

### ၈၀၆။ အပါဒါန်သည်၊ ယူကြံစည်၊ မည်သို့သတ္တိရှိသနည်း။(၉၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ကြိယာအပဂမနသတ္တိ ရှိသည်။

❖❖❖❖❖

### ၈၀၇။ ခြသေ့်သီသည်၊ လူသီသည်၊ ယင်းသည်သကတ်အဘယ်နည်း။(၉၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- သီဟော ဂါယတိ။ သီဟော၊ ခြသေ့်မယွင်း ရဲရင့်ခြင်းရှိသောသူသည်။ ဂါယတိ၊ သီချင်းသီ၏။ ။ ဤ၌ ရဲရင့်ခြင်းဂုဏ်သည် သကတ်မည်၏။

❖❖❖❖❖

### ၈၀၈။ ဗျဉ်ကိုးမည်၊ ရှိကြသည်၊ မည်သဒ္ဒါ၌ရသနည်း။(၁၀၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဝိသာဏီ ဂစ္ဆတိ အစရှိသော မုချသဒ္ဒါငါးပါး၊ ဥပစာရသဒ္ဒါဆယ်ပါး၌ ရသည်။

❖❖❖❖❖

### ၈၀၉။ ဗျာပါတွင်မည်၊ ဗျဉ်သည်၊ မည်တရားကိုယ်ပေတို့နည်း။(၁၀၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- သာမတ္ထိယသခ်ါတော သတ္တိဗျာပါရ် နာမဟူသော ကာရိကာ ဋီကာနှင့်အညီ အနက်ကို ဟောစွမ်းနိုင်သော သတ္တိဗျာပါရမည်၏ ဟူပေ။

❖❖❖❖❖

### ၈၁၀။ ပါစကသည်၊ ချက်ကြမည်၊ ဖွေနည်ဘယ်နာမ်ဆိုပိမ့်နည်း။(၁၀၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ချက်ခြင်းကိရိယာ၊ ကျက်ခြင်းကိရိယာကို စွဲ၍ ဖြစ်သောကြောင့် ကိရိယာနာမ်ဆိုမည်။

❖❖❖❖❖

### ၈၁၁။ ပဥ္စာခေါ်မည်၊ သဒ္ဒါသည်၊ မည်မျှလိင်ပေါင်းဆံသနည်း။(၁၀၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ပဥ္စာ၊ ပဥ္စော၊ ပဥ္စံဟူ၍ လိင်သုံးပါးဆံ၏ဟူပေ။

❖❖❖❖❖

၈၁၂။ ရွှေကိုလုပ်သည်၊ လက်ကောက်ခြည်၊ မည်ကံသဒ္ဒါဟောလိမ့်နည်း။ (၁၀၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- သုဝဏ္ဏံ ကင္ကဏံ ကရောတိ၌ ကင္ကဏံ ဟူသော ကံသည် လုပ်ခြင်းကိရိယာဖြင့် အထူးပြုအပ်သောကြောင့် ဝိကတိကံ မည်သည်။

◆◆◆◆◆

၈၁၃။ ဘုရားကိုရည်၊ ပူဇော်မည်၊ ယင်းသည်ဘယ်ကံဆိုပိမ့်နည်း။ (၁၀၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဗုဒ္ဓံ ဝန္ဒတိ၌ ကာယဒွါရဖြင့် ရောက်အပ်သောကြောင့် ကာယသမ္ပတ္တိကံ မည်သည်။

◆◆◆◆◆

၈၁၄။ မြစ်ရေ၌တည်၊ မဲဆိုးရည်၊ မည်အာဓာရဆိုပိမ့်နည်း။ (၁၀၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တစ်စိတ်တဒေသအားဖြင့် တည်ရာဖြစ်သောကြောင့် ဧကဒေသဗျာပိကာဓာရ မည်၏။

◆◆◆◆◆

၈၁၅။ မင်းကျင့်ဟူသည်၊ လေးပါးမည်၊ ဘယ်သည်ဘယ်သည့်တရားနည်း။ (၁၀၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သဿမေဓ, ပုရိသမေဓ, သမ္မာပါသ, ဝါစာပေယျဟူသော သင်္ဂဟ လေးပါးတည်း။

◆◆◆◆◆

အကျယ်ကား-

၁။ ကောက်ပဲ စသော အတုတ်အခွန်ကို ဆယ်ဖို့တစ်ဖို့ အမှန်ယူခြင်းသည် သဿမေဓမည်၏။
၂။ အမှုထမ်း၊ အရာထမ်း သူရဲ သူခက် ခစားမြဲစွဲသော သူတို့ကို ခြောက်လတစ်ကြိမ် မျိုးစုရိက္ခာ လုံလောက်စွာ ပေးခြင်းသည် ပုရိသမေဓ မည်၏။
၃။ ဆင်းရဲနွမ်းပါး၍ မစားနိုင် မကြံနိုင်သော ပြည်သူ လူဆင်းရဲတို့အား ရင်းနှီး လောက်အောင် ဥစ္စာကြေးငွေပေး၍ တိုးပွားသော အခါမှလည်းကောင်း၊ သုံးနှစ်တိုင်မှလည်းကောင်း ထမ်းပိုးဖြစ်စေ၊ အရင်းအတိုင်းဖြစ်စေ ယူခြင်းသည် သမ္မာပါသမည်၏။
၄။ အမျိုး အမတ် ပြည်စိုး သူကြီးစသည်တို့အား သာယာစွာသော စကားဖြင့် ခေါ်ဝေါ်ပြောဆိုခြင်း၊ အဝတ်အစား ပေးကမ်း ချီးမြှောက်ခြင်းသည် ဝါစာပေယျ မည်၏။ (အဘိဓာန်)။

◆◆◆◆◆

## ၈၁၆။ မင်းကစသည့်၊ မျိုးလေးမည့်၊ ကျင့်ရည်လေးပါးအဘယ်နည်း။(၁၀၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မင်းတို့သည်လည်းကောင်း၊ ရဟန်းပုဏ္ဏားစသော သူမြတ်တို့သည် လည်းကောင်း ကျင့်ဆောင်အပ်သော သင်္ဂဟတရားသည်ကား– ဒါန, ပိယဝါစာ, အတ္ထစရိယာ, သမာနတ္တတာဟူ၍ လေးပါးတည်း။

ထိုလေးပါးတို့ကို အင်္ဂုတ္တရစတုက္ကနိပါတ် ပါဠိတော်၌–

**စတ္တာရိမာနိ ဘိက္ခဝေ သင်္ဂဟဝတ္ထူနိ။ ကတမာနိ စတ္တာရိ။ ဒါနံ ပိယဝါစံ အတ္ထစရိယာ သမာနတ္တတာ။ ဣမာနိ ခေါ ဘိက္ခဝေ စတ္တာရိ သင်္ဂဟဝတ္ထူနိ။ ဣမေဟိ သင်္ဂဟ ဝတ္ထူဟိ ဥပါသကာနံ ဝါ ဘိက္ခူနံ ဝါ သင်္ဂဟေတဗ္ဗာ။ ဟူ၍ ဟောတော်မူသည်။**

ဘိက္ခဝေ၊ ချစ်သားရဟန်းတို့။ သင်္ဂဟဝတ္ထူနိ၊ ရဟန်းမိတ်ကလျာ ဒါယကာတို့အား ချီးမြှောက်ရသော အကြောင်းတို့သည်။ ဣမာနိစတ္တာရိ၊ ဤလေးပါးတို့တည်း။ ကတမာနိ စတ္တာရိ၊ အဘယ်လေးပါးတို့နည်းဟူမူကား။ ဒါနံ၊ အထိုက်အလျောက် ချီးမြှင့်ပေးကမ်းခြင်း လည်းကောင်း။ ပိယဝါစံ၊ ချစ်ဖွယ်သောစကားကို ဆိုခြင်း လည်းကောင်း။ အတ္ထစရိယာ၊ အကျိုးစီးပွားကို ကျင့်ခြင်းလည်းကောင်း။ သမာနတ္တတာ၊ ကိုယ်တူထပ်မျှ ထားသောအဖြစ် လည်းကောင်း။ ဘိက္ခဝေ၊ ရဟန်းတို့။ ဣမာနိ စတ္တာရိ၊ ဤလေးပါးသောတရားတို့သည်။ ခေါ၊ ပစ္စုပ္ပန်သံသရာ သင့်လျော်စွာသော။ သင်္ဂဟဝတ္ထူနိ၊ သင်္ဂဟဝတ္ထုတို့တည်း။ ဣမေဟိ သင်္ဂဟဝတ္ထူဟိ၊ ဤလေးပါးသော သင်္ဂဟဝတ္ထုတို့ဖြင့်။ ဥပါသကာနံ ဝါ၊ ဆည်းကပ်လာသော ဒါယကာတို့အား လည်းကောင်း။ ဘိက္ခူနံ ဝါ၊ ရဟန်းသာမဏေတို့အား လည်းကောင်း။ သင်္ဂဟေတဗ္ဗာ၊ ချီးမြှောက်အပ်ကုန်၏။

ဤပါဠိတော်မြတ်ဖြင့် ရဟန်းသံဃာတော်တို့သည် မိမိထံသို့ ဆည်းကပ်လာသော ဒါယကာတို့တွင် ပေးကမ်းခြင်းကို အလိုရှိသောသူအား ပေးကမ်းခြင်းဖြင့် သင်္ဂြိုဟ်ရာ၏။ ချစ်ဖွယ်သော စကားကို အလိုရှိသောသူအား ချစ်ဖွယ်သော စကားဖြင့်သာ သင်္ဂြိုဟ်ရာ၏။ အကျိုးစီးပွားများသော အကျင့်ကို သိလိုတတ်လိုသော သူအား ဤအမှုကို ပြုအပ်၏။ ဤအမှုကို မပြုအပ်။ ဤသို့သော ပုဂ္ဂိုလ်ကို မှီဝဲအပ်၏။ ဤသို့သော ပုဂ္ဂိုလ်ကို မမှီဝဲအပ်။ ဤအတတ်ကို သင်ရာ၏။ ဤအတတ်ကို မသင်ရာ။ ဤသို့သော စကားဖြင့် ဟောကြား သင်္ဂြိုဟ်ရာ၏။ ဆင်းရဲ ချမ်းသာ အမျှပြုခြင်းကို အလိုရှိသော သူအား အစားအသောက် အဝတ် တန်ဆာ အိပ်ရာနေရာတို့ကို ပေး၍ မိမိကဲ့သို့ ချမ်းသာအောင် ချီးမြှောက်သင်္ဂြိုဟ် ရာ၏။ ချစ်သားရဟန်းတို့၊ ဤသင်္ဂဟ တရားလေးပါးကို သင်ချစ်သားတို့သာ ကျင့်ရာသည် မဟုတ်၊ ပညာရှိသော မင်း၊ ပညာရှိသော ပုဏ္ဏား၊ သူဌေးသူကြွယ်ဟူသော အမျိုးလေးပါးတို့သည် ကျင့်အပ်သည်

သာတည်း။ ဤသင်္ဂဟတရားနှင့် ပြည့်စုံသော သူသည်သာလျှင် လောကီလောကုတ္တရာ ချမ်းသာစီးပွား ကြီးမားပြည့်စုံနိုင်သတည်း ဟူ၍ ဟောတော်မူသည်။

❖❖❖❖❖

**၈၁၇။ ရန်အောင်ရာသည်၊ ကြောင်းလေးမည်၊ ဘယ်သည်တရားပေတို့နည်း။(၁၀၉)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ယသောတေ စတုရော ဓမ္မာ၊ ဝါနရိန္ဒော၀ ကုမ္ဘိလံ။**

**သစ္စံ ဓမ္မော ဓိတိ စာဂေါ၊ ဒိဋ္ဌံ သော အတိဝတ္တတိ။**

(ကေနိပါတ် ပါဠိတော်)

ယဿ၊ အကြင်သူအား။ သစ္စံ။ မှန်သောစကားသည်လည်းကောင်း။ ဓမ္မော၊ ဆင်ခြင်တတ်သော ပညာသည်လည်းကောင်း။ ဓိတိ၊ တည်ကြည် မြဲမြံသော လုံ့လသည် လည်းကောင်း။ စာဂေါ၊ ကိုယ့်အသက်ကို စွန့်ခြင်းလည်းကောင်း။ ဧတေ စတုရော ဓမ္မာ၊ ထိုလေးပါးသော တရားတို့သည်။ သန္တိ၊ ရှိကုန်၏။ သော၊ ထိုသူသည်။ ကုမ္ဘိလံ၊ မိကျောင်းကို။ ဝါနရိန္ဒော၊ မျောက်မင်းသည်။ အတိဝတ္တတိ ဣဝ၊ အောင်နိုင်သကဲ့သို့။ ဒိဋ္ဌံ၊ ရန်သူကို။ အတိဝတ္တတိ၊ အောင်နိုင်၏။

❖❖❖❖❖

**၈၁၈။ ရွှေတိုက်ဝန်သည်၊ အင်ခြောက်မည်၊ ဖွေနည်းဘယ်အင်္ဂါတို့နည်း။(၁၁၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ကုလပုတ္တံ ဝိနီတဉ္စ၊ သဗ္ဗရတနဇာနကံ။**

**သုစိံအဝိရဒ္ဓံ သာဓုံ၊ ဘဏ္ဍာဂါရေ ဝိဓီယတေ။ (ရာဇနီတိ)။**

ကုလပုတ္တံ၊ အမျိုးစဉ်ဆက် ဖြောင့်မတ်ထသော။ ဝိနီတဉ္စ၊ မြဲမြံစွာလည်း စောင့်တတ် ထသော။ သဗ္ဗ ရတနဇာနကံ၊ ရတနာအမျိုးကိုလည်း သိတတ်ထသော။ သုစိံ၊ ဖော်ရွှေ စင်ကြယ်ထသော။ အဝိရဒ္ဓံ၊ မချွတ်ယွင်းအောင် ရွက်ဆောင်တတ် ထသော။ သာဓုံ၊ ကောင်းသော နှလုံးရှိထသော။ တော်၊ ဤအင်္ဂါခြောက်ပါးနှင့် ပြည့်စုံသောသူကို။ ဘဏ္ဍာဂါရေ၊ ဘဏ္ဍာစိုး အရာ၌။ ဝါ၊ ရွှေတိုက်ဝန်အရာ၌။ ဝိဓီယတေ၊ ခန့်ထားရာ၏။

❖❖❖❖❖

၈၁၉။ သမားတော်သည်၊ ပြည့်စုံရည်၊ ငါးမည်အင်္ဂါဘယ်သို့နည်း။(၁၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အာယုဗ္ဗေဒသတ္တော ဒက္ခော၊ သတ္ထညော ပိယဒဿနော။

သေဋ္ဌသီလဂုဏောပေတော၊ ဧသော ဝေဇ္ဇော ပသံသိတော။

အာယုဗေဒသတ္တော၊ သက်ကြည့် ဗေဒင်လည်း တတ်ထသော။ ဒက္ခော၊ ဆေးကုခြင်း၌ လိမ္မာထသော။ သတ္တညော၊ ဗိန္ဓော ပဥ္စဘုတ် စသော ဆေးကျမ်း အစောင် စောင်ကိုလည်း တတ်ထသော။ ပိယဒဿနော၊ ချစ်ခင်ရှုချင်ဖွယ်လည်း ရှိထသော။ သေဋ္ဌသီလဂုဏောပေတော၊ မြတ်သော သီလကျေးဇူးနှင့်လည်း ပြည့်စုံထသော။ ယော၊ ဤအင်္ဂါငါးပါးနှင့် ပြည့်စုံသောသူကို။ ဝေဇ္ဇော၊ သမားတော် သမားကောင်းဟူ၍။ ပသံသိတော၊ ချီးမွမ်းအပ်၏။

❖❖❖❖❖

## ၈၂၀။ အင်္ဂါငါးမည်၊ မြို့၌တည်၊ မည်သို့ကျမ်းဝယ်လာသနည်း။(၁၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ရာဇာ မစ္စော ပုရောဟိတော၊ သေနင်္ဂါ စ တိကိစ္ဆကော–ဟူ၍ လာ၏။**

ရာဇာ၊ ပြည့်ရှင်မင်း။ အမစ္စော၊ လိမ္မာသော အမတ်။ ပုရောဟိတော၊ ပုရောဟိတ် ပုဏ္ဏား။ သေနင်္ဂါ,စ၊ စစ်အင်္ဂါလေးပါး၊ တိကိစ္ဆကော၊ ဆေးသမားကောင်း။

❖❖❖❖❖

## ၈၂၁။ ဋ္ဌကထာရည်၊ နေတ္တိသည်၊ မည်ပုဂ္ဂိုလ်မြတ်ပြုသနည်း။(၁၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သီဟိုဠ်ကျွန်း အရှင်ဓမ္မပါလပြုသည်။ ဥဒါန်းအဋ္ဌကထာ၊ ဣတိဝုတ် အဋ္ဌကထာ၊ ဝိမာနဝတ္ထု၊ ပေတဝတ္ထု အဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ်ဋီကာတို့ကိုလည်း အရှင်ဓမ္မပါလပင် ပြုသည်။

❖❖❖❖❖

## ၈၂၂။ ခါတုဝင်သည်၊ ကျမ်းအထည်၊ မည်သည့်ကျွန်းကဖြစ်သနည်း။(၁၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သီဟိုဠ်ကျွန်း အရှင်ဓမ္မကိတ္တိပြုသည်ဟု ကျမ်းနိဂုံးတွင် ပါသည်ဖြစ်၍ သီဟိုဠ်ကျွန်းက ဖြစ်သည်ဟူပေ။

❖❖❖❖❖

## ၈၂၃။ လျှာကိုမှီသည်၊ အတည်တည်၊ ပိုးမည်ဘယ်မျှပြားသနည်း။(၁၁၅)

## ၈၂၄။ ဦးနှောက်စားသည်၊ ပိုးနှစ်တည်၊ မည်သည့်မည်သည့်ပိုးတို့နည်း။(၁၁၆)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား–

83
A
ကာလမုခ မည်သောပိုး။ အပ္ပတိဘာယ မည်သောပိုး။ အပေါလမည်သောပိုး ဤပိုး သုံးမျိုးတို့သည် လျှာကိုမှီ၍ နေကုန်၏။

ဥမ္မတ္တမည်သောပိုး။ အန္တောဥမ္မတ္တမည်သောပိုး ဤပိုး နှစ်မျိုးတို့သည် ဦးနှောက်ကို မှီ၍ ဦးနှောက်ကိုပင်စားလျက် နေကုန်၏။

❖❖❖❖❖

## ၈၂၅။ တေဇောဓာတ်သည်၊ ကိုယ်၌တည်၊ နာမည်အပေါင်းဘယ်မျှနည်း။(၁၁၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ယေန သန္တပ္ပတိယေန၊ ဇီရတိ ပရိဍယှတိ စ။**

**အသိတံ သာယိတံ ပါကော၊ စတုဓာ တေဇောဓာတုယော။**

ယေန၊ အကြင် သီတတေဇောဖြင့်။ သန္တပ္ပတိ၊ အေးတုံ ပူတုံရှိ၏။ ဝါ၊ တစ်ရက်ချန် နှစ်ရက်ချန်စသည်ဖြင့် ဖျား၏။ ယေန၊ အကြင်တေဇောဖြင့်။ ဇီရတိ၊ ရင့်ရော်အိုမင်း၏။ ယေန၊ အကြင်ဍာဟတေဇောဖြင့်။ ပရိဍယှတိ၊ ပြင်းစွာ ပူလောင်၏။ ယေန၊ အကြင်ပါစက တေဇောဖြင့်။ အသိတံ၊ စားအပ်သော အစာသည်လည်းကောင်း။ သာယိတံ၊ လျက်အပ်သော အစာသည်လည်းကောင်း။ ပါကော၊ ကျက်နပ်၏။ ဣတိ၊ ဤသို့။ တေဇောဓာတုယော၊ တေဇောဓာတ်တို့သည်။ စတုဓာ၊ လေးပါးပြားကုန်၏။

❖❖❖❖❖

## ၈၂၆။ လူတို့၌တည်၊ ရောဂါသည်၊ မည်ရောဂါမျိုး၊ ကြီးသနည်း။(၁၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

လူတို့၏ ခန္ဓာကိုယ်၌ ဖြစ်သော ရောဂါမျိုးကို မဟာနိဒ္ဒေသ ပါဠိတော်၌ ဟောတော် မူသည်ကား–

**ဗဟုဒုက္ခော အယံ ကာယော ဗဟုအာဒီနဝေါ။ ဣတိ ဣမသ္မိံ ကာယေ ဝိဝိဓာ အာဗာဓာ ဥပ္ပဇ္ဇန္တိ။ သေယျထိဒံ။ စက္ခုရောဂေါ။ သောတရောဂေါ။ ဃာနရောဂေါ။ ဇိဝှါရောဂေါ။ ကာယရောဂေါ။ သီသရောဂေါ။ ကဏ္ဏရောဂေါ။ မုခရောဂေါ။ ဒန္တရောဂေါ။ ကာသော။ သာသော။ ပိနာသော။ ဍာဟော။ ဇရော။ ကုစ္ဆိရောဂေါ။ မုစ္ဆာ။ ပက္ခန္ဒိကာ။သူလာ။ ဝိသူစိကာ။ ကုဋ္ဌံ။ ဂဏ္ဍော။ ကိလာသော။ သောသော။ အပမာရော။ ဒဒ္ဒု။ ကဏ္ဍု။ ကစ္ဆု။ နခသာ။ ဝိတစ္ဆိကာ။ လောဟိတပိတ္တံ။ မဓုမေဟော။ အံသာ။ ပိဠကာ။ ဘဂန္ဒလာ။ ပိတ္တ သမုဋ္ဌာနာ အာဗာဓာ။ သေမှသမုဋ္ဌာနာ အာဗာဓာ။ ဝါတသမုဋ္ဌာနာ အာဗာဓာ။ သန္နိပါတိကာ အာဗာဓာ။ ဥတုပရိဏာမဇာ အာဗာဓာ။ ဝိသမပရိဟာရဇာ အာဗာဓာ။ ဩပက္ကမိကာ အာဗာဓာ။ ကမ္မဝိပါကဇာ အာဗာဓာ။ သီတံ။ ဥဏှံ။ ဇိဃစ္ဆာ။ ပိပါသာ။ ဥစ္စာရော။ ပဿာဝေါတိ။**

အယံ ကာယော၊ ဤခန္ဓာကိုယ်သည်ကား။ ဗဟုဒုက္ခော၊ များစွာသော ဆင်းရဲခြင်းရှိ၏။ ဗဟုအာဒီနဝေါ၊ များစွာသော အပြစ်ရှိ၏။ ဣတိ ဣမသ္မိံ ကာယေ၊ ဤခန္ဓာကိုယ်၌။ ဝိဝိဓာအာဗာဓာ၊ အထူးထူး အပြားပြား များစွာသော အနာတို့သည်။ ဥပ္ပဇ္ဇန္တိ၊ ဖြစ်ကုန်၏။ သေယျထိဒံ၊ အဘယ်နည်းဟူမူကား။ စက္ခုရောဂေါ၊ မျက်စိနာ။ သောတရောဂေါ၊ နားအနာ။ ဃာနရောဂေါ၊ နှာခေါင်းအနာ။ ဇိဝှါရောဂေါ၊ လျှာအနာ။ ကာယရောဂေါ၊ ကိုယ်အနာ။ သီသရောဂေါ၊ ဦးခေါင်းအနာ။ ကဏ္ဏရောဂေါ၊ နားရွက်အနာ။ မုခရောဂေါ၊ ခံတွင်းအနာ။ ဒန္တရောဂေါ၊ သွားအနာ။ ကာသော၊ ချောင်းဆိုးအနာ။ သာသော၊ ကုတ်ဟီးအနာ။ ဝါ၊ ရှူနာ။ ဝါ၊ ပန်းနာ၊ ပိနာသော၊ နှာခေါင်းအဖုအနာ။ ဝါ၊ ဆောင်းမေးခါးနာ။ ဝါ၊ ဖွတ်သိုအနာ။ ဍာဟော၊ ပူလောင်သောအနာ။ ဇရော၊ ဖျားသောအနာ။ ကုစ္ဆိရောဂါ၊ ဝမ်းအနာ။ မုစ္ဆာ၊ မူးဝေမိန်းမောသောအနာ။ ပက္ခန္ဒိကာ၊ ဝမ်းသွေးကျသောအနာ။ ကုဋ္ဌံ၊ နူနာ၊ ဂဏ္ဍော၊ အိုင်းနာ။ ကိလာသော ခရုသင်း သမင်ယက် ကွက်ကျားသောအနာ။ သောသော၊ သွေးသားခန်းခြောက်သောအနာ။ အပမာရော၊ ဝက်ရူးအနာ။ ဒဒ္ဒု၊ ဆိတ်လည်နူနာ၊ ကဏ္ဍု၊ ယားနာ။ ကစ္ဆု၊ ပွေးနာ။ နခသာ၊ လက်သည်း ခြေသည်း ကျွတ်သောအနာ။ ဝိတစ္ဆိကာ၊ လက်ဖဝါး၊ ခြေဖဝါး ကွဲသောအနာ။ လောဟိတပိတ္တံ၊ သွေးသည်းကြောင့် ဖြစ်သောအနာ။ မဓုမေဟော၊ ဒူလာသရောနာ။ ဝါ၊ မြင်း သရိုက်နာ။ အံသာ၊ အရိယိုသောအနာ။ ပိဠကာ၊ ကိုယ်ရောင်သောအနာ။ ဝါ၊ ဝက်ခြင်နာ။ ဘဂန္ဒလာ၊ ဘဂန္ဒိုလ်နာ။ ဝါ အသားတိုးသောအနာ။ ပိတ္တသမုဋ္ဌာ အာဗာဓာ၊ သည်းခြေကြောင့် ဖြစ်သောအနာ။ သေမှသမုဋ္ဌာနာအာဗာဓာ၊ သလိပ်ကြောင့် ဖြစ်သောအနာ။ ဝါတသမုဋ္ဌာနာ အာဗာဓာ၊ လေကြောင့်ဖြစ်သောအနာ။ သန္နိပါတိကာ အာဗာဓာ၊ သလိပ် သည်းခြေလေ စုဝေး၍ ဖြစ်သော ငန်းသန္နိပါတ်အနာ။ ဥတုပရိဏာမဇာ အာဗာဓာ၊သဘောမတူသော ဥတုကြောင့်ဖြစ်သောအနာ။ ဝိသမပရိဟာရဇာအာဗာဓာ၊ မညီမညွတ်သော ဣရိယာပုတ် ကြောင့်ဖြစ်သောအနာ။ ဩပက္ကမိကာ အာဗာဓာ၊ မိမိပယောဂ သူတစ်ပါးတို့၏ ပယောဂကြောင့် ဖြစ်သောအနာ။ ဝါ၊ ဂရင်ဂျီနာ။ ကမ္မဝိပါကဇာအာဗာဓာ၊ အပဖြစ်သော အကြောင်းမဖက် သက်သက်သော ရှေးကံကြောင့် ဖြစ်သောအနာ။ သီတံ၊ ချမ်းအေးသော အနာ။ ဥဏှံ၊ ပူပန်သောအနာ။ ဇိဃစ္ဆာ၊ အစာငတ်မွတ်သောအနာ။ ပိပါသာ၊ ရေသိပ်သော အနာ။ ဥစ္စာရော၊ ကျင်ကြီးစွန့်ချင်သည့်အနာ။ ပဿာဝေါ၊ ကျင်ငယ်စွန့်ချင်သည့်အနာ။ ဣတိ ဧဝ မာဒယော၊ ဤသို့ အစရှိကုန်သော။ အာဗာဓာ၊ အနာတို့သည်။ ဥပ္ပဇ္ဇန္တိ၊ ဖြစ်တတ်ကုန်၏။

ဤပါဠိတော်၌ အချုပ်သချာမရှိဘဲ အနာလေးဆယ့်ရှစ်ပါးမျှသာ လာသည်။ မူလ ကမ္မဋ္ဌာန်း စသည်၌ ဆန္နဝုတိကာ အာဗာဓာ-ဟူ၍ အနာကိုးဆယ့်ခြောက်ပါး ရှိကြောင်းကို လာ၏။ သရုပ်သချေယျကို မပြချေ။ ဆန္နဝုတိမည်သော ဆေးကျမ်း၌ကား ကိုးဆယ့် ခြောက်ပါးသော ရောဂါကို သရုပ်သချေနှင့်တကွ အကျယ်ပြသည်။ ထိုရောဂါတို့တွင် ကုဋ္ဌနာသည် ပြည်ရွာမှ နှင်ထုတ်အပ်သော ရောဂါဖြစ်ရကား အကြီးဆုံး အဆိုးဆုံးဟု ပြသည်။

ဤစကားစပ်၌ သတ္တဝါတို့၏ သန္တာန်ဝယ် ကာလကြာရှည်အားဖြင့် နှိပ်စက်တတ်သော ကိုးဆယ့်ခြောက်ပါးသော ရောဂါ။ သုံးဆယ့်နှစ်ပါးသော ကံကြမ္မာ။ နှစ်ဆယ့်ငါးပါးသော ဘေး။ တစ်ဆယ့်ခြောက်ပါးသော ဥပဒ္ဒဝေါ။ ဆယ်ပါးသောဒဏ်။ ရှစ်ပါးသောအပြစ်။ ငါးပါးသော ရန်သူတို့၏ သရုပ်ကို ပြဆိုလိုက်အံ့။ ထိုအပြားတို့ကိုကား ဘုရားဟော အဝင်ဖြစ်သော ပါဠိ, အဋ္ဌကထာတို့၌ တပေါင်တည်း စေ့ငုစွာ မလာမရှိ။ အချုပ်သချာကို သာဆို၍ သရုပ်သချာယျကို တစ်စိတ်တစ်ဝက်မျှသာ ပြသောကြောင့် နောက်သားတို့ မှတ်သားရေတွက်ခြင်းငှာလည်း အလွန်ခက်၏။ ဗုဒ္ဓမညုကျမ်းပြုဆရာတို့လည်း နှစ်ကျမ်း သုံးကျမ်းမှလာသော သရုပ်တို့ကို သဘောတူရာ ရှုံးစု၍ ပြဆိုရကုန်သည်။ ပြဟန်ကား–

**အဇ္ဈေဝ ကိစ္စမာတပ္ပံ၊ ကော ဇညာ မရဏံ သုဝေ။**

**နဟိ နော သင်္ဂရံတေန၊ မဟာသေနေန မစ္စုနာ။**

ဟူသော ပါဠိတော်၏ မဟာသေနေနပုဒ်ကိုဖွင့်ရာ တေမိဇာတ် အဋ္ဌကထာ၌ ၏မဟာသေနေနာတိ ပဉ္စဝီသတိဘယ ဒွတ္တိံသကမ္မကရဏာ အဋ္ဌနဝုတိရောဂပ္ပမုခါဒိဝသေန'' ဟူ၍ ဖွင့်သည်။

အဇ္ဈေဝ၊ ယနေ့ပင်လျှင်။ အာတပ္ပံ၊ အားထုတ်ခြင်းလုံ့လကို။ ကိစ္စံ၊ ပြုအပ်၏။ သုဝေ၊ နက်ဖြန်အခါ၌။ မရဏံ၊ သေခြင်းကို။ ကော၊ အဘယ်သူသည်။ ဇညာ၊ သိနိုင်ပေအံ့နည်း။ ဟိသစ္စံ၊ မှန်၏။ နော၊ ငါတို့အား။ မဟာသေနေန၊ များသော စစ်သည်ရှိသော။ တေန မစ္စုနာ၊ ထိုသေမင်းနှင့်။ သင်္ဂရံ၊ နေ့ရက် ချိန်းချက်ခြင်းသည်။ နဟိ၊ မရှိသည်သာတည်း။

မဟာသေနေနာတိ၊ များသောစစ်သည် ဟူသည်ကား။ ပဉ္စဝီသတိဘယဒွတ္တိံသကမ္မကရဏာအဋ္ဌနဝုတိရောဂပ္ပမုခါဒိဝသေန၊ နှစ်ဆယ့်ငါးပါးသော ဘေး၊ သုံးဆယ့်နှစ်ပါးသော ကံကြမ္မ၊ ကိုးဆယ့်ရှစ်ပါးသော အနာမျိုး အစရှိသည်တို့၏ အစွမ်းဖြင့်။ ပုထုသေနေန၊ များစွာ စစ်သည်ရဲမက်ရှိသော။ မစ္စုနာ၊ သေမင်းနှင့်။ ဣတိ အတ္ထော၊ ဤကားအနက်တည်း။

ငင်းအနာကိုးဆယ့်ရှစ်ပါး၏ သရုပ်ကို မဟာနိဒ္ဒေသ အဋ္ဌကထာ၌–

**ပိတ္တသမုဋ္ဌာနာတိ ပိတ္တေန သမုဋ္ဌာနံ ဥပ္ပတ္တိ ဧတေသန္တိ ပိတ္တသမုဋ္ဌာနာ။ တေ ကိရဒွတ္တိံသ ဟောန္တိ။ သေမှသမုဋ္ဌာနာဒီသုပိ ဧသေဝနယော။ ။ ဟူ၍ မိန့်အပ်၏။**

ပိတ္တသမုဋ္ဌာနာတိ၊ ဟူသည်ကား။ ဧတေသံ၊ ထိုအနာတို့အား။ ပိတ္တေန၊ သည်းခြေ ကြောင့်။ သမုဋ္ဌာနံ ဥပ္ပတ္တိ၊ ဖြစ်ခြင်းသည်။ အတ္ထိ၊ ရှိ၏။ ဣတိ၊ ထို့ကြောင့်။ ပိတ္တသမုဋ္ဌာနာ၊ ပိတ္တသမုဋ္ဌာနမည်ကုန်၏။ တေ၊ ထိုသည်းခြေကြောင့်ဖြစ်သော အနာတို့သည်။ဒွတ္တိံသ၊ သုံးဆယ့်နှစ်ပါးတို့သည်။ ဟောန္တိကိရ၊ ဖြစ်ကုန်သတတ်။သေမှ

သမုဋ္ဌာနာဒီသုပိ၊ သလိပ်ကြောင့်ဖြစ်သော အနာစသည်တို့၌လည်း။ ။သေဝနယော၊ ဤနည်းလျှင်နည်းရှိ၏။

ဤသို့ဆိုသော အဋ္ဌကထာဆရာ၏အလိုကား အထက်ပါဋ္ဌိ၌ ပြအပ်သော အနာမျိုးတို့တွင် –

မျက်စိ၌ဖြစ်သောအနာ၊ နား၌ဖြစ်သောအနာ၊ နှာခေါင်း၌ဖြစ်သောအနာ၊ လျှာ၌ဖြစ်သောအနာ၊ ကိုယ်၌ဖြစ်သောအနာ၊ ဦးခေါင်း၌ဖြစ်သောအနာ၊ နားရွက်၌ဖြစ်သောအနာ။ ခံတွင်း၌ဖြစ်သောအနာ၊ သွား၌ဖြစ်သောအနာ၊ ချောင်းဆိုးအနာ၊ ကုတ်ဟီးအနာ၊ ဝါ၊ ရှူနာ၊ ဝါ၊ ပန်းနာ၊ နှာခေါင်းဖုနာ၊ ဝါ၊ ဆောင်းမေးခါးနာ၊ ဝါ၊ ဖွတ်သိုနာ၊ ကိုယ်တွင်း ပူလောင်သောအနာ၊ ဖျားသောအနာ၊ ဝမ်း၌ဖြစ်သော အနာ၊ မူးဝေမိန်းမောသောအနာ၊ ဝမ်းသွေးကျသောအနာ၊ ထိုးကျင့်ကိုက်ခဲသောအနာ၊ သည်းစွာဝမ်းလားသောအနာ၊ နူနာ၊ ထွတ်မြင်းနာ၊ ခရုသင်း သမင်ယက် ကွက်ကျား သော အနာ၊ သွေးသားခန်းခြောက်သော အနာ၊ ဝါ–ခရုပ်နာ၊ ဝက်ရူးနာ၊ ဆိတ်လည် နူနာ၊ ဝါ၊ ဝဲကြီးဝဲစို၊ ဝဲခြောက်နာ၊ ယားနာ၊ ပွေးနာ၊ လက်သည်း၊ ခြေသည်းကျွတ်သော အနာ၊ လက်ဖဝါး ခြေဖဝါးကွဲသောအနာ၊ ပိတ်ကိုက်နာ၊ ဒူလာသရောနာ၊ ဝါ၊ မြင်းသရိုက်နာ အရိယိုသောအနာ၊ ကိုယ်ရောင်သော အနာ၊ ဘဂန္ဒုလ်နာ၊ ဝါ၊ အသားတိုးသောအနာ။

ဤအနာမျိုး သုံးဆယ့်လေးပါးတို့တွင် ဝက်ရူးနာ, လက်သည်း ခြေသည်းကျွတ် သောအနာ နှစ်ပါးသည် ပြင်ပရောဂါကြောင့်သာ ဖြစ်ရကား ထိုအနာနှစ်ပါးကို နုတ်ထား၍ အကြွင်းသုံးဆယ့်နှစ်ပါးသည် သည်းခြေပျက်ခြင်းကြောင့်လည်းကောင်း၊ သလိပ် ပျက်ခြင်းကြောင့်လည်းကောင်း၊ လေပျက်ခြင်းကြောင့်လည်းကောင်း ဖြစ်ရကား သုံးဆယ့်နှစ်ပါး သုံးလီဖြစ်၍ ကိုးဆယ့်ခြောက်ပါးဖြစ်သတည်း၊ ထိုတွင် ယခင် နုတ်ထားသော အနာနှစ်ပါးကိုရောသော် ကိုးဆယ့်ရှစ်ပါး ဖြစ်၏ ဟူလိုသည်။

သုံးဆယ့်နှစ်ပါးသော ကံကြမ္မာဟူသည်ကား– လူတို့ကို လွန်ကျူးမိသော အပြစ်အားလျော်စွာ မင်းတို့သည် စီရင်အပ်သော ကမ္မကရဏာ သုံးဆယ့်နှစ်ပါးတည်း။ ထိုကမ္မကရဏာအပြားကို အင်္ဂုတ္တိုရ်ပါဠိတော်၌–

**တမေနံ ရာဇာနော ဂဟေတွာ ဝိဝိဓာနိ ကမ္မကရဏာနိ ကာရေန္တိ။ ကသာဟိပိ တာဠေန္တိ။ စသည်ဖြင့် ဟောတော်မူသည်။**

**အနက်ကား။** ။ တမေနံ၊ ထိုမကောင်းသဖြင့် ကျင့်သောသူကို။ ရာဇာနော၊ မင်းတို့သည်။ ဂဟေတွာ၊ ဖမ်း၍။ ဝိဝိဓာနိ၊ အထူးထူး အပြားပြားရှိကုန်သော။ ကမ္မ ကရဏာနိ၊ ညှဉ်းဆဲခြင်းအမှုတို့ကို။ ကာရေန္တိ၊ ပြုစေကုန်၏။ ကသာဟိပိ၊ အဆူးရှိသော ကြိမ်လုံးတို့ဖြင့်လည်း။ တာဠေန္တိ၊ ရိုက်ခတ်ကုန်၏။ ဝေတ္တေဟိပိ၊ အဆူး မရှိသော ကြိမ်လုံးတို့ဖြင့်လည်း။ တာဠေန္တိ၊ ရိုက်ခတ်ကုန်၏။ အဍ္ဎဒဏ္ဍကေဟိပိ၊ လေးထောင့် သုံးထောင့်ရှိသော လှင်ကန် ဝါးခြမ်းတို့ဖြင့်လည်း။ တာဠေန္တိ၊ ရိုက်ခတ်ကုန်၏။ ဟတ္ထံ၊

လက်ကိုလည်း။ ဆိန္ဒန္တိ၊ ဖြတ်ကုန်၏။ ပါဒံပိ၊ ခြေကိုလည်း။ ဆိန္ဒန္တိ၊ ဖြတ်ကုန်၏။ ဟတ္ထပါဒံပိ၊ လက်ခြေကိုလည်း။ ဆိန္ဒန္တိ၊ ဖြတ်ကုန်၏။ ကဏ္ဏံပိ , နားရွက်ကိုလည်း၊ ဆိဒ္ဒန္တိ၊ ဖြတ်ကုန်၏။ နာသံပိ၊ နှာခေါင်းကိုလည်း။ ဆိဒ္ဒန္တိ၊ ဖြတ်ကုန်၏။ ကဏ္ဏနာသံပိ၊ နားနှာခေါင်းကိုလည်း။ ဆိန္ဒန္တိ၊ ဖြတ်ကုန်၏။ ဗိလင်္ဂထာလိကံပိ၊ ဦးခေါင်းခွံကိုခွာ၍ လောလော သံတွေခဲကို ဦးနှောက်ထဲ၌ ထည့်သဖြင့် ကျိုက်ကျိုက်ဆူသော ပုံးရည်အိုးနှင့် တူသည်ကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ (ပေါင်း–တစ်ဆယ်)။ သင်္ခမုဏ္ဍိကံပိ၊ အထက်နှုတ်ခမ်း နားပန်းဆံ တိုင်အောင် ဦးရေကိုခွါ၍ ရှန့်ကြမ်းစွာသော ကျောက်နှင့် ပွတ်တိုက်သဖြင့် ခရုသင်းနှင့်အတူ ဖြူသောခေါင်းခွံ ရှိသည်ကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ ရာဟုမုခံပိ၊ သံတံသင်းဖြင့် ခံတွင်းကိုဖွင့်၍ ခံတွင်းထဲ၌ မီးထွန်းလေလျက် နေကိုငုံသော ရာဟုခံတွင်းနှင့် တူသည်ကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ ဇောတိမာလိကံပိ၊ တစ်ကိုယ်လုံးဆီဆွတ် ပုဆိုးကို ပတ်၍ မီးတိုက်ခြင်းကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ ဟတ္ထပဇ္ဇောတိကံပိ၊ လက်၌ ဆီဆွတ် ပုဆိုးကိုပတ်၍ မီးထွန်းခြင်းကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ ဧရကပတ္တိကံပိ၊ ပိန်းရွက်ပမာ အရေလွှာကို ခွာဆုတ်ခြင်းတည်းဟူသော အမှုကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ စီရကဝါ သိကံပိ၊ လျှော်တေအဝတ်၊ စွတ်သည် ပမာ၊ အရေလွှာကိုခွာ၍ အဆစ်အဖု၌ စုဝေးစေခြင်း အမှုကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ ဧဏေယျကံပိ၊ ဧဏီသားကဲ့သို့ လေးဖက်တွားအောင် တတောင် နှစ်ချောင်း ဒူးခေါင်းနှစ်ဖက်တို့၌ သံချောင်းနှက်ခြင်း၊ သံကွင်းဆက်ခြင်းတို့ကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ ဗဠိသမံသိကံပိ၊ နှစ်ဖက်အသွားရှိသော သံမြားကောက်ဖြင့် ချိတ်၍ ဆွဲသဖြင့် အရိုးကျဲစဲရှိစေသည်ကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ ကဟာပဏိတံပိ၊ လူအသားကို ဓားမ ပဲခွပ်ဖြင့် စိတ်ဖြာလျက် တစ်သပြာ နှစ်သပြာ လောက်သော သားတစ်ကျစေခြင်းကိုလည်း၊ ကရောန္တိ၊ ပြုကုန်၏။ ခါရာပဋိစ္ဆကံပိ၊ အသားကို လှံဖြင့်ဆွ၍ ဆားမံခြင်း၊ ဓားမွှမ်းခြင်းကိုလည်း။ ကာရောန္တိ၊ ပြုကုန်၏။ (ပေါင်း–နှစ်ဆယ်)။ ပလိဃပရိဝတ္တိကံပိ၊ တစ်ဖက်စောင်း အိပ်စေလျက် နား၌ သံတံကျင် နှက်ပြီးမှ စက်လှည့် သကဲ့သို့ ခြေကိုကိုင်၍ လှည့်ခြင်းကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ ပလာလပီဌကံပိ၊ အရေအသားကို မစုတ်စေဘဲ ဆောက်ပုတ်ဖြင့် အရိုးကို ညက်ညက်ကြေအောင် ခတ်စေသဖြင့် ကောက်ရိုးစုပမာ ရှိသည်ကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ တတ္တေန၊ ပူစွာသော။ တေလေနပိ၊ ဆီဖြင့်လည်း။ ဩသိဉ္စန္တိ၊ သွန်းလောင်းကုန်၏။ သုနခေဟိပိ၊ နှစ်ရက် သုံးရက် အစာမပေးသော ခွေးရဲတို့ကိုလည်း။ ခါဒါပေန္တိ၊ ခဲစေကုန် ၏။ ဇီဝန္တံပိ၊ အသက်ရှင်စဉ်လည်း။ သူလေ၊ တံကျင်၌။ ဥတ္တာသေန္တိ၊ လျှိုကုန်၏။ အသိနာပိ၊ သန်လျက်ဖြင့်လည်း။ သီသံ၊ ဦးခေါင်းကို။ ဆိန္ဒန္တိ၊ ဖြတ်ကုန်၏။ ဤနှစ်ဆယ့်ခြောက်ပါးကို ဒုကအင်္ဂုတ္တိုရ်၌ လာသည်။

တတ္တံ၊ ပူစွာသော။ အယောစိလံ၊ သံတံသင်းကို။ ဟတ္ထေ၊ လက်ဝဲလက်၌။ ဂမေန္တိ၊ စိုက်နှက်ကုန်၏။ ဒုတိယဟတ္ထေ၊ နှစ်ခုမြောက်သော လက်ယာလက်၌။ တထာ၊ ထို့အတူ။ ဂမေန္တိ၊ စိုက်နှက်ကုန်၏။ တတ္တံ၊ ပူစွာသော။ အယောခိလံ၊ သံတံသင်းကို။

ပါဒေ၊ လက်ဝဲခြေ၌။ ဂမေန္တိ၊ စိုက်နှက်ကုန်၏။ ဒုတိယ ပါဒေ၊ နှစ်ခုမြောက်သော လက်ယာခြေ၌၊ တထာ၊ ထို့အတူ၊ ဂမေန္တိ၊ စိုက်နှက်ကုန်၏။ တတ္တံ၊ ပူစွာသော။ အယောခိလံ၊ သံတံသင်းကို။ မဇ္ဈေ ဥရသ္မိ၊ ရင်အလယ်၌။ ဂမေန္တိ၊ စိုက်နှက်ကုန်၏။ ကုဌာရီဟိ၊ ဓားမတို့ဖြင့်။ တစ္ဆေန္တိ၊ ရွေကုန်၏။ ဣမာနိ၊ ဤသုံးဆယ့်နှစ်ပါးတို့သည်။ ကမ္မကရဏာနိ၊ ကံကြမ္မာမည်ကုန်၏။ နောက်ခြောက်ပါးကား ဒေဝဒူတသုတ်၌ လာသည်။

နှစ်ဆယ့်ငါးပါးသော ဘေးဟူသည်ကား–ကြောက်မက် ထိတ်လန့်ဖွယ်သော အန္တရာယ်မျိုးတို့တည်း။ ထိုအပြားတို့ကား ပရိတ် အဋ္ဌကထာ၌ ''ပဉ္စဝီသတိ ဘယာ နာမ ရာဇဘယံ စောရဘယံ'' စသည်ဖြင့် ပြဆိုသည်။

ပဉ္စဝီသတိ ဘယာနာမ၊ နှစ်ဆယ့်ငါးပါးသော ဘေးတို့မည်သည်ကား။ ရာဇ–ဘယံ၊ မင်းဘေးလည်းကောင်း။ စောရဘယံ၊ ခိုးသူဘေးလည်းကောင်း။ မနုဿဘယံ၊ လူဘေးလည်းကောင်း။ အမနုဿဘယံ၊ နတ်ဘီလူးဘေးလည်းကောင်း။ အဂ္ဂိဘယံ၊ မီးဘေးလည်းကောင်း။ ဥဒကဘယံ၊ ရေဘေးလည်းကောင်း။ ပိသာစဘယံ၊ တစ္ဆေ မြေဘုတ်ဘေးလည်းကောင်း။ ခါဏုကဘယံ၊ သစ်ငုတ်ခလုတ်ဘေးလည်းကောင်း။ ကဏ္ဍကဘယံ၊ ဆူးငြောင့်ဘေးလည်းကောင်း။ နက္ခတ္တဘယံ၊ မကောင်းသော နက္ခတ် လေးလည်းကောင်း။ ဇနပဒ ရောဂဘယံ၊ ဇနပုဒ်၌ ဖြစ်သော အနာဘေးလည်းကောင်း။ အသဒ္ဓမ္မဘယံ၊ မသူတော်တရား ဘေးလည်းကောင်း။ အသန္တိဋ္ဌိဘယံ၊ အမြင်မှားသော ဘေးလည်းကောင်း။ အသပ္ပုရိသဘယံ၊ သူတော်မဟုတ်သော သူယုတ်တို့၏ ဘေးလည်း ကောင်း။ စဏ္ဍဟတ္ထိဘယံ၊ ကြမ်းသော ဆင်ဘေးလည်းကောင်း။ စဏ္ဍအဿဘယံ၊ ကြမ်းသော မြင်းဘေးလည်းကောင်း။ စဏ္ဍဂေါဏဘယံ၊ ကြမ်းသော နွားဘေးလည်း ကောင်း။ စဏ္ဍကုက္ကုရ ဘယံ၊ ကြမ်းသော ခွေးဘေးလည်းကောင်း။ စဏ္ဍ အဟိဘယံ၊ ကြမ်းသော မြွေဘေးလည်းကောင်း၊ စဏ္ဍဝိစ္ဆိကဘယံ၊ ကြမ်းသော ကင်းဘေး လည်းကောင်း။ စဏ္ဍဒီပိဘယံ၊ ကြမ်းသောသစ်ဘေးလည်းကောင်း၊ စဏ္ဍအစ္ဆဘယံ၊ ကြမ်းသော ဝံဘေးလည်းကောင်း။ စဏ္ဍတရစ္ဆဘယံ၊ ကြမ်းသော အောင်းဘေး လည်းကောင်း။ စဏ္ဍသူကရဘယံ၊ ကြမ်းသော ဝက်ဘေးလည်းကောင်း။ စဏ္ဍမဟိံသ ဘယံ၊ ကြမ်းသော ကျွဲဘေးလည်းကောင်း။ ဣတိ ဣမေ၊ ဤသည် တို့တည်း။

ဥပေစ္စ ဒဝတီတိ ဥပဒ္ဒဝေါ–ဟူသော ဝစနတ္ထနှင့်ညီစွာ ကိုယ်၌ကပ်၍ ဖြစ်တတ် သောကြောင့် ဥပဒ္ဒဝေါမည်သော အန္တရာယ်တို့သည် တစ်ဆယ့်ခြောက်ပါးတို့တည်း။ ထိုတစ်ဆယ့်ခြောက်ပါးကို မဟာနိဒ္ဒေသ ပါဠိတော်၌ ''သောဠသဥပဒ္ဒဝေါ နာမ ပရိဘာ သတိ။ အဒ္ဓုဗန္ဓနေနဝါဗန္ဓာပေသိ'' စသည်ဖြင့် ပြဆိုသည်။ သောဠသဥပဒ္ဒဝါနာမ၊ တစ်ဆယ့် ခြောက်ပါးသော ဥပဒ္ဒဝေါတို့ မည်သည်ကား။ ပရိဘာသတိ၊ ဆဲရေး ရေရွတ်၏။ အဒ္ဓု ဗန္ဓနေနဝါ၊ ထိတ်ပင်းသကား နှောင်ဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓာပေသိ၊ နှောင်ဖွဲ့စေ၏။ ရဇ္ဇုဗန္ဓနေနဝါ၊ ကြိုးနှောင်ဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓာပေသိ၊ နှောင်ဖွဲ့စေ၏။

သခ်လိက ဗန္ဓနေနဝါ၊ သံခြေချင်း နှောင်ဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓာပေသိ၊ နှောင်ဖွဲ့စေ၏။ ဝေတ္တ ဗန္ဓနေနဝါ၊ ကြိမ်နှောင်ဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓာပေသိ၊ ၏။ လတာဗန္ဓနေနဝါ၊ ကြိုးနွယ် နှောင်ဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓပေသိ၊ ၏။ ပက္ခေပဗန္ဓနေနဝါ၊ တိုက်တွင်းလှောင်၍ နှောင်ဖွဲ့ခြင်း ဖြင့်လည်း။ ဗန္ဓာပေသိ၊ ၏။ ပရိခါ ဗန္ဓနေနဝါ၊ ကျုံးရံသော နှောင်းဖွဲ့ခြင်း ဖြင့်လည်း။ ဗန္ဓာပေသိ၊၏။ ဂါမဗန္ဓနေနဝါ၊ ရွာနှောင်ဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓာပေသိ၊ ၏။ နိဂမ ဗန္ဓနေနဝါ၊ နိဂုံးနှောင်ဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓာပေသိ၊ ၏။ နဂရဗန္ဓနေနဝါ၊ မြို့နှောင်းဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓာပေသိ၊ ၏။ ရဋ္ဌဗန္ဓနေနဝါ၊ တိုင်းနှောင်းဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓာပေသိ၊ ၏။ ဇနပဒဗန္ဓနေနဝါ၊ ဇနပုဒ်နှောင်ဖွဲ့ခြင်းဖြင့်လည်း။ ဗန္ဓာပေသိ၊ ၏။ သဝစနီယံပိ၊ သင့်အား ပြုဖွယ်ရှိ၏။ အရပ်တစ်ပါးသို့ မသွားလင့်ဟု ဆိုခြင်း ရှိသည်ကိုလည်း။ ကရောန္တိ၊ ပြုကုန်၏။ တဿ၊ ထိုသူ၏။ ဓနံ၊ ဉစ္စာကို။ သတံဝါ၊ အရာကိုလည်းကောင်း။ သဟဿံဝါ၊ အထောင်ကို လည်းကောင်း။ သတသဟဿံဝါ၊ အသိန်းကိုလည်းကောင်း။ ဟရာပေသိ၊ ဆောင်စေ၏။ တပ္ပစ္စယာပိ၊ ထိုရေရွတ်ခြင်း အစရှိသောအကြောင်းကြောင့်လည်း။ ဒုက္ခ ဒေါမနဿံ၊ ဆင်းရဲခြင်း နှလုံး မသာယာ ခြင်းကို။ ပဋိသံဝေဒေသိ၊ ခံစားရ၏။ ဣမာနိ သောဠသ၊ ဤတစ်ဆယ့်ခြောက်ပါး တို့သည်။ ဥပဒ္ဒဝါ၊ ဥပဒ္ဒဝေါ မည်ကုန်၏။

ဒဏ်ဆယ်ပါးအပြားကို ဓမ္မပဒပါဠိတော်၌–

**ယော ဒဏ္ဍေန အဒဏ္ဍေသု၊ အပ္ပဒုဋ္ဌေသု ဒုဿတိ။**

**ဒသန္နညတရံ ဌာနံ၊ ခိပ္ပမေဝ နိဂစ္ဆတိ။**

**ဝေဒနံ ဖရုသံ ဇာနိံ၊ သရီရဿစ ဘေဒနံ။**

**ဂရုကံ ဝါ ပိ အာဗာဓံ၊ စိတ္တက္ခေပဉ္စ ပါပုဏေ။**

**ရာဇတောဝါ ဥပဿဂ္ဂံ၊ အဗ္ဘက္ခာနဉ္စ ဒါရုဏံ။**

**ပရိက္ခယဉ္စဉာတီနံ၊ ဘောဂါနဉ္စ ပဘင်္ဂုနံ။**

**အထဝဿ အဂါရာနိ၊ အဂ္ဂိဍယှတိ ပါဝကော။**

**ကာယဿ ဘေဒါ ဒုပ္ပညော၊ နိရယံ သောပပဇ္ဇတိ။**

ဟူ၍ ဟောတော်မူသည်။

ယော၊ အကြင်သူသည်။ ဒဏ္ဍေန၊ ဒဏ်ဖြင့်။ အဒဏ္ဍေသု၊ ဒဏ်မထားထိုက် ကုန်သော သူတို့၌။ အပ္ပဒုဋ္ဌေသု၊ မပြစ်မှားအပ်ကုန်သော သူတို့၌။ ဒုဿတိ၊ ပြစ်မှား၏။ သော၊ ထိုသူသည်။ ဒသန္နံ၊ ဆယ်ပါးကုန်သော ဒဏ်တို့တွင်။ အညတရံဌာနံ၊ တစ်ပါးပါးသော အကြောင်းသို့။ ခိပ္ပမေဝ၊ လျင်စွာသာလျှင်။ နိဂစ္ဆတိ၊ ရောက်ရ၏။

ဇာနိံ၊ အသွေးအသားကို ဆုတ်ယုတ်စေတတ်သော။ ဖရုသံ၊ ကြမ်းကြုတ်သော။ ဝေဒနဉ္စ၊ ဆင်းရဲဝေဒနာသို့ လည်းကောင်း။ သရီရဿ၊ ခန္ဓာကိုယ်၏။ ဘေဒနဉ္စ၊

ပျက်ခြင်းသို့လည်းကောင်း။ ဂရုကံ၊ လေလံသော။ အာဗာဓံဝါပိ၊ အနာသို့လည်းကောင်း။ စိတ္တက္ခေပဥ္စ၊ စိတ်ပျံ့လွင့်ခြင်းသို့ လည်းကောင်း။ ပါပုဏေ၊ ရောက်၏။

ရာဇတောဝါ၊ မင်းမှမူလည်း။ ဥပသဂ္ဂဥ္စ၊ ဘေးရန်သို့ လည်းကောင်း။ ဒါရုဏံ၊ ကြမ်းကြုတ်သော။ အဗ္ဘက္ခာနဥ္စ၊ စွပ်စွဲခြင်းသို့လည်းကောင်း။ ဉာတီနံ၊ ဆွေမျိုးတို့၏။ ပရိက္ခယဥ္စ၊ ကုန်ခြင်းသို့လည်းကောင်း။ ဘောဂါနံ၊ စည်းစိမ်ဥစ္စာတို့၏။ ပဘင်္ဂုနဥ္စ၊ ပျက်စီးခြင်းသို့လည်းကောင်း။ ပါပုဏေ၊ ရောက်ရ၏။

အထ၊ ထိုမှတစ်ပါး။ အဿ၊ ထိုမပြစ်မှားအပ်သောသူကို ပြစ်မှားသောသူတို့၏။ အဂါရာနိ၊ နေရာအိမ်တို့ကို။ ပါဝကော၊ ပါဝကမည်သော။ အဂ္ဂိ၊ မီးသည်၊ ဍယှတိ၊ လောင်၏။ ကာယဿ၊ ကိုယ်ခန္ဓာ၏၊ ဘေဒါ၊ ပျက်သည်မှနောက်၌။ သော ဒုပ္ပညော၊ ထိုပညာမဲ့သောသူသည်။ နိရယံ၊ ငရဲ၌။ ဥပပဇ္ဇထ။ ဖြစ်ရ၏။ ။ ဤကား ဒဏ်ဆယ်ပါးတို့တည်း။

ရှစ်ပါးသော အပြစ်၏သရုပ်ကို သံယုတ်ပါဠိတော်၌–

**ဣမေ ခေါ ဂါမဏိ အဋ္ဌ ဟေတု အဋ္ဌပစ္စယာ ကုလာနိ ဥပဃာတာယ။ ရာဇတော ဝါ ကုလာနိ ဥပဃာတံ ဂစ္ဆန္တိ။ စောရတောဝါ ကုလာနိ ဥပဃာတံ ဂစ္ဆန္တိ။ အဂ္ဂိတောဝါ ကုလာနိ ဥပဃာတံ ဂစ္ဆန္တိ။ ဥဒကတော ဝါ ကုလာနိ ဥပဃာတံ ဂစ္ဆန္တိ။ နိဟိတံဝါ ဌာနာ ဝိဂစ္ဆတိ။ ဒုပ္ပယုတ္တာဝါ ကမ္မန္တာ ဘိဇ္ဇန္တိ။ ကုလေဝါ ကုလသင်္ကရော ဥပ္ပဇ္ဇတိ ယော တေတံ ဘောဂေ ဝိကိရတိ ဝိဓမတိ ဝိဓံသေတိ။ အနစ္စတာယေဝ အဋ္ဌမီ။ ဣမေ ခေါ ဂါမဏိ အဋ္ဌဟေတူ အဋ္ဌ ပစ္စယာ ကုလာနံ ဥပဃာတာယ။ ။ ဟူ၍ ဟောတော်မူသည်။**

ဂါမဏိ၊ ရွာသူကြီး။ ကုလာနံ၊ အမျိုးတို့၏။ ဥပဃာတာယ၊ ပျက်စီးခြင်း၏။ ဟေတု၊ အကြောင်းတို့သည်။ ဣမေ ခေါအဋ္ဌ၊ ဤရှစ်ပါးတို့လျှင်တည်း။ ပစ္စယာ၊ ပစ္စည်း တို့သည်။ အဋ္ဌ၊ ရှစ်ပါးတို့တည်း။ ရာဇတောဝါ၊ မင်းကြောင့်လည်း။ ကုလာနိ၊ အမျိုးတို့ သည်။ ဥပဃာတံ၊ ပျက်စီးခြင်းသို့။ ဂစ္ဆန္တိ၊ ရောက်ကုန်၏။ စောရတောဝါ၊ ခိုးသူကြောင့်လည်း။ ကုလာနိ၊ အမျိုးတို့သည်။ ဥပဃာတံ၊ ပျက်စီးခြင်းသို့။ ဂစ္ဆန္တိ၊ ရောက်ကုန်၏။ အဂ္ဂိတော၊ မီးကြောင့်လည်း။ ကုလာနိ၊ အမျိုးတို့သည်။ ဥပဃာတံ၊ ပျက်စီးခြင်းသို့။ ဂစ္ဆန္တိ၊ ရောက်ကုန်၏။ ဥဒကတော ဝါ၊ ရေကြောင့်လည်း။ ကုလာနိ၊ အမျိုးတို့သည်။ ဥပဃာတံ၊ ပျက်စီးခြင်းသို့။ ဂစ္ဆန္တိ၊ ရောက်ကုန်၏။ နိဟိတံဝါ၊ မြှုပ်ထားအပ်သော ဥစ္စာသည်လည်း။ ဌာနာ၊ တည်ရာမှ။ ဝိဂစ္ဆတိ၊ အရပ်တစ်ပါးသို့ ရွေ့ရှား၏။ ဒုပ္ပယုတ္တာ၊ မကောင်းသဖြင့် ယှဉ်အပ်ကုန်သည်ဖြစ်၍ ကမ္မန္တာဝါ၊ အမှုကြီးငယ်တို့သည်လည်း။ ဘိဇ္ဇန္တိ၊ ပျက်ကုန်၏။ ယော၊ အကြင်သူသည်။ တေသံ၊ ထိုအမျိုးတို့၏။ ဘောဂေ၊ စည်းစိမ်တို့ကို။ ဝိကိရတိ၊ ဖရိုဖရဲကြဲ၏။ ဝိဓမတိ၊ ဖျောက်လွင့်၏။ ဝိဓံသေတိ၊ ဖျက်ဆီး၏။ သော ကုလသင်္ကရော၊ ထိုနှောင့်ရှက်

ဖျက်ဆီးခြင်းကို ပြုတတ်သောသူသည်။ ကုလေ၊ အမျိုး၌၊ ဥပ္ပဇ္ဇတိ၊ ဖြစ်၏။ အနိစ္စတာယေဝ၊ မမြဲသော အဖြစ်သည်သာလျှင်။ အဋ္ဌမီ၊ ရှစ်ခုမြောက်တည်း။ ဂါမဏိ၊ ရွာသူကြီး။ ဣမေ ခေါ် အဋ္ဌ၊ ဤရှစ်ပါးတို့သည်သာလျှင်။ ကုလာနံ။ အမျိုးတို့၏။ ဥပဃာတာယ၊ ပျက်စီးခြင်း၏။ ဟေတု၊ တို့တည်း။ ဣမေခေါ်အဋ္ဌ၊ ဤရှစ်ပါးတို့သည် သာလျှင်။ ကုလာနံ။ အမျိုးတို့၏။ဥပဃာတာယ၊ ပျက်စီးခြင်း၏။ဟေတု၊တို့တည်း။ ဣမေခေါ်အဋ္ဌ၊ဤရှစ်ပါးတို့သည်သာလျှင်။ ပစ္စယာ၊ အထောက်အပံ့တို့တည်း။ ။ ဤကား သာသနာတော်ကျမ်း၌လာသော အဋ္ဌဒေါသ၏သရုပ်တည်း။

လောကီကျမ်းတို့၌ကား–

**ပထဝီ သံသုမာရော စ၊ ယက္ခော နာဝါ စ အသနိ။**

**ဗျဂ္ဃေါလောဟိတုမ္ဗတ္တကော၊ အဋ္ဌဒေါသာ ဣမေ မတာ။**

ဟူ၍ ဆိုသည်။

ပထဝီ၊ မြေမျိုခြင်းလည်းကောင်း။ သံသုမာရောစ၊ မိကျောင်းကိုက်ခြင်း လည်းကောင်း။ ယက္ခော၊ ဘီလူးဖမ်းခြင်းလည်းကောင်း။ နာဝါ၊ လှေနစ်ခြင်း လည်းကောင်း။ အသနိ၊ မိုးကြိုး လောင်မီးကျခြင်း လည်းကောင်း။ ဗျဂ္ဃေါ၊ ကျားစားခြင်း လည်းကောင်း။ လောဟိတံ၊ သွေးအန်ခြင်း လည်းကောင်း။ ဥမ္ဗတ္တကော၊ ရူးသွပ်ခြင်း လည်းကောင်း။ ဣမေ အဋ္ဌ၊ ဤရှစ်ပါးတို့ကို။ ဒေါသာ၊ အပြစ်တို့ဟူ၍။ မတာ၊ သိအပ်ကုန်၏။

ရန်သူမျိုးငါးပါးတို့ကို အင်္ဂုတ္တိုရ်ပါဠိတော်၌–

**သတ္တိမာနိ ခေါ် ဥဂ္ဂ ဓနာနိ အဂ္ဂိနာ ဥဒကေန ရာဇူတိ စောရေဟိ အပ္ပိယေဟိ ဒါယာဒေဟိ သာဓာရဏာနိ ။ ဟူ၍ ဟောကော်မူသည်။**

ဥဂ္ဂ၊ ဥဂ္ဂအမတ်ကြီး။ သတ္တ၊ ခုနစ်ပါးကုန်သော။ ဣမာနိ ဓနာနိ၊ ဤဥစ္စာရတနာ တို့သည်။ အဂ္ဂိနာ စ၊ မီးဟူသော ရန်သူနှင့်လည်းကောင်း။ ဥဒကေန စ၊ ရေဟူသော ရန်သူနှင့်လည်းကောင်း။ ရာဇူဟိစ၊ မင်းတို့နှင့်လည်ကောင်း။ စောရေဟိစ၊ ခိုးသူတို့နှင့် လည်းကောင်း။ အပ္ပိယေဟိ၊ မချစ်အပ်ကုန်သော။ ဒါယာဒေဟိ စ၊ အမွေခံတို့နှင့် လည်းကောင်း။ သာဓာရဏာနိ၊ ဆက်ဆံကုန်၏။

❖❖❖❖❖

## ၈၂၇။ အာပေါဓာတ်သည်၊ အတည်တည်၊ ခန့်ရည်ဘယ်မျှ ရှိသနည်း။(၁၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပိတ္တံ၊ သည်းခြေ၊ သေမှံ၊ သလိပ်၊ ပုဗ္ဗော၊ ပြည်။ လောဟိတံ၊ သွေး။ သေဒေါ၊ ချွေး။မေဒေါ၊ အဆီခဲ။ အဿု၊ မျက်ရည်။ ဝသာ၊ ဆီကြည်။ ခေဠော၊ တံတွေး။ သိယာ်နိကာ၊ နှပ်။ လသိကာ၊ အစေး။ မုတ္တံ၊ ကျင်ငယ်။ ဤသို့ အာပေါဓာတ် (၁၂) ပါးရှိသည်။

❖❖❖❖❖

**၈၂၈။ ပထဝီဓာတ်သည်၊ တွက်ခန့်ရည်၊ ထွေလည်သချေ်မည်သို့နည်း။(၁၂၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကေသာ၊ ဆံ။ လောမာ၊ အမွေး။ နခါ၊ ခြေသည်းလက်သည်း။ ဒန္တာ၊ သွား။ တစော၊ အရေ။ မံသံ၊ အသား။ နှာရု၊ အကြော။ အဋ္ဌိ၊ အရိုး။ အဋ္ဌိမိဉ္ဇံ၊ ရိုးတွင်းခြင်ဆီ။ ဝက္ကံ၊ အညှို့။ ဟဒယံ၊ နှလုံးသား။ ယကနံ၊ အသည်း၊ ကိလောမကံ၊ အမြှေး။ ပိဟကံ၊ အသားဖျဉ်း။ ပပ္ဖါသံ၊ အဆုတ်။ အန္တံ၊ အူမ။ အန္တဂုဏံ၊ အူသိမ်။ ဥဒရိယံ၊ အစာသစ်။ ကရီသံ၊ အစာဟောင်း။ မတ္ထလုင်္ဂံ၊ ဦးနှောက်။ ဤသို့ ပထဝီဓာတ် ၂၀–ရှိသည်။ ။ [သမ္မောဟဝိနောဒနီ။]

❖❖❖❖❖

**၈၂၉။ အဂ္ဂိဓာတ်သည်၊အိမ်၌တည်၊ဘုန်းစည်ဘယ်ကောင်းမှုကြောင့်နည်း။(၁၂၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**စိရပ္ပနဋ္ဌေသု စိရပ္ပဝါသိနော ဉာတိမိတ္တေ သုဟဇ္ဇေ သခိနော သမာနေတာ အဟောသိ။**

အစရှိသော လက္ခဏသုတ် ပါဠိတော်နှင့်အညီ–ကြာမြင့်စွာက ကွဲပြားပျက်စီး လေကုန်သော အဆွေအမျိုးတို့ကို လည်းကောင်း။ တပေါင်းတည်းဖြစ်အောင် ကြံဆောင် ပြောဆိုဖူး၏။ အချစ်ပျက်သဖြင့် ကွဲပြားကြသော အမိကိုလည်း သားနှင့်၊ သားကိုလည်း အမိနှင့် ပေါင်းမိအောင်၊ အဖကိုလည်း သားနှင့်၊ သားကိုလည်း အဖနှင့်၊ မောင်ကိုလည်း နှမနှင့်၊ နှမကိုလည်း မောင်နှင့် တပေါင်းတည်းဖြစ်အောင် ကြံဆောင်၍ ပြုခဲ့ဖူး၏။ ဤကောင်းမှုတို့ကြောင့်။ ကောသောဟိတဝတ္ထဂုယှဟု ဆိုအပ်သော အအိမ်၌ ကျိန်းသော အင်္ဂဇာတ်ရှိခြင်းတည်းဟူသော ယောကျ်ားမြတ်၏ လက္ခဏာကို ရတော်မူသည်။

❖❖❖❖❖

**၈၃၀။ ဘုရားရှင်လည်၊ မုရိုးစည်၊ ကိုယ်ထည်လုံး၏ဘယ့်ကြောင့်နည်း။(၁၂၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဗဟုဇနဿ အတ္ထကာမော အဟောသိ ဟိတကာမော ဖာသုကာမော ယောဂက္ခေမကာမော။**

အစရှိသော ၎င်းပါဠိတော်နှင့်အညီ– ရှေးရှေးသော ဘဝတို့၌ များစွာသော လူတို့၏ ကောင်းကျိုးကိုသာ အလိုရှိသည်။ စီးပွားခြင်းကိုသာ အလိုရှိသည်။ ချမ်းသာခြင်းကိုသာ အလိုရှိသည်။ ယောဂကုန်ခြင်းကိုသာ အလိုရှိသည်ဖြစ်ခဲ့ဖူး၏။ ထိုကောင်းမှုတို့ကြောင့် ခြင်္သေ့မင်း၏ ရှေ့ထက်ဝက်သောကိုယ်နှင့်တူသော သီဟပုဗ္ဗဒ္ဓကာယလက္ခဏာကို ရတော်မူသည်။ မုရိုးစည်နှင့်တူသောလုံးသော လည်တော်နှင့်

ပြည့်စုံခြင်းဟု ဆိုအပ်သော သမဝဋ္ဋက္ခန္ဓလက္ခဏာကို ရတော်မူသည်။ ရေစီးကြောင်း မထင် ပြည့်ဖြိုးသော ကျောက်တော်တည်းဟူသော စိတန္တရံသလက္ခဏာကိုလည်း ရတော်မူသည်။

◆◆◆◆◆

**၈၃၁။ မျက်မှောင်တော်ရည်၊ နုပျိုသည်၊ မည်ကုသိုလ်ကြောင့်ဖြစ်သနည်း။(၁၂၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**န စ ဝိသဋံ၊ န စ ဝိသာစိ၊ န စ ပန ဝိစေယျပေက္ခိတာ။ ဥဇုတထာ ပသဋ မုဇုမနော ပိယစက္ခုနာ ဗဟုဇနံ ဥဒိက္ခိတာ အဟောသိ။**

ဟူသော ၎င်းပါဠိတော်နှင့်အညီ-အမျက်ထွက်သဖြင့် သူတစ်ပါးကိုလည်း မကြည့်တတ်။ မျက်စောင်းထိုး၍လည်း မကြည့်တတ်။ အမျက်ဖြင့် စိန်းစိန်းမဲမဲလည်း မကြည့်တတ်။ အကြင်သို့သော အခြင်းအရာဖြင့် သာယာရွှင်ပျလျက်သာ ကြည့်တတ်၏။ ချစ်ခင်စုံမက် မေတ္တာသက်သော မျက်စိဖြင့်သာ များစွာသော သူတို့အား ဖြောင့်ဖြောင့် ကြည့်တတ်၏။ ဤကောင်းမှုတို့ကြောင့် ယနေ့ဖွားသော နွားသူငယ်၏မျက်မှောင်ကဲ့သို့ အရောင်အဆင်းဖြင့် နုပျိုသော မျက်မှောင်တော်ရှိခြင်းတည်းဟူသော ဂေါပခုမ လက္ခဏာကို ရတော်မူသည်။အလွန်ညိုသော မျက်စိတော်တည်းဟူသော အဘိနီလနေတ္တ လက္ခဏာကိုလည်း ရတော်မူသည်။

◆◆◆◆◆

**၈၃၂။ မွေးတွင်းတစ်တည်၊ မွေးတော်သည်၊ တစ်မည်သာရောက်တယ့်ကြောင့်နည်း။(၁၂၄)**

**၈၃၃။ ဥဏ္ဏာလုံမည်၊ မွေးရှင်သည်၊ ထူးလည်ဘယ်ကောင်းမှုကြောင့် နည်း။(၁၂၅)**

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား-

**မုသာဝါဒံ ပဟာယ မုသာဝါဒါ ပဋိဝိရတော အဟောသိ သစ္စဝါဒီ သစ္စသန္ဓော ဌေတော ပစ္စယိကော အဝိသံဝါဒကော လောကဿ။**

မုသာဝါဒံ၊ မဟုတ်မမှန်ဆိုခြင်းကို။ ပဟာယ၊ ပယ်စွန့်၍။ မုသာဝါဒါ၊ မဟုတ် မမှန်သောစကားကို ဆိုခြင်းမှ။ ပဋိဝိရတော၊ ကြဉ်တော်မူသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ သစ္စဝါဒီ၊ မှန်သောစကားကိုဆိုလေ့ရှိသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ သစ္စသန္ဓော၊ မှန်သော စကားနှင့် မှန်သောစကားကိုစေ့စပ်တတ်သည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ ဌေတော၊ မြဲမြံတည်ကြည်သော စကားရှိသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ ပစ္စယိကော၊ ယုံကြည်လောက်သော စကားရှိသည်။ အဟောသိ၊ ဖြစ်ခဲ့ဖူး၏။ လောကဿ၊ လူအပေါင်းကို။ အဝိသံဝါဒကော၊ မချွတ်မယွင်း စေတတ်သည်။ အဟောသိ ဖြစ်ခဲ့ဖူး၏။

ဤသို့ဆိုအပ်ခဲ့ပြီးသော ကောင်းမှုတော်တို့ကြောင့် တစ်ခုတစ်ခုသော မွေးတွင်း၌ တစ်ချောင်း၊ တစ်ချောင်းစီသာရောက်သော မွေးညှင်းတော်တည်းဟူသော ဧကေက

လောမ လက္ခဏာ, မျက်မှောင်တော် နှစ်ဖက်အကြား၌ ရောက်သော ဥဏ္ဏလုံ မွေးရှင်တော်တည်းဟူသော ဥဏ္ဏာဘမုကန္တရ လက္ခဏာ၊ ဤလက္ခဏာတော် နှစ်ပါးကို ရတော်မူသည်ဟု သိရာ၏။

❖❖❖❖❖

၈၃၄။ ကြ္လာတိမတည်၊ ဖွင့်လေသည်၊ မည်သည့် သံဝဏ္ဏနာတို့နည်း။(၁၂၆)

၈၃၅။ ကြ္လာတိပုဒ်တည်၊ ဖွင့်ပါမည်၊ ဘယ်သည်အဖွင့် ဆိုပိမ့်နည်း။(၁၂၇)

၈၃၆။ လုံ့တံကျသည်၊ တျက်တျက်မြည်၊ ဘယ်သည်ကိရိယာပဒေတို့နည်း။(၁၂၈)

၈၃၇။ ဒြပ်ပင်သည်၊ ကာရကမည်၊ ထူးလည် ဘယ်ဥပစာနည်း။(၁၂၉)

၈၃၈။ နွားဟုပြောရည်၊ ကြားလေသည်၊ မည်ဝီထိဖြင့်သိသနည်း။(၁၃၀)

ဟူသော အမေးပုစ္ဆာတို့၏ အဖြေကို မတွေ့ပေ။

❖❖❖❖❖

၈၃၉။ နှုတ်တက်ဆောင်သည်၊ ရင်နှီးရည်၊ မည်မျှနှစ်ပေါင်းကြာသနည်း။(၁၃၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မဟာထေရာ။ မြတ်သာ မထေရ်ကြီးတို့သည်။ ဗုဒ္ဓဝစနံ၊ ဘုရားစကားတော် မြတ်ပိဋကတ် သုံးပုံကို။ ပညာသာဓိကစတ္တာရိဝဿသတာနိ၊ နှစ်ပေါင်း လေးရာ့ ငါးဆယ်တို့ ပတ်လုံး။ မုခေနေဝ၊ နှုတ်ဖြင့်သာလျှင်။ အာဟရိံသု၊ ဆောင်ကုန်ပြီ။ ။ ဤသို့သာရတ္ထသင်္ဂဟ စသည်တို့၌ လာသောကြောင့် နှုတ်တက် ဆောင်ကြသော နှစ်ပေါင်း လေးရာ့ငါးဆယ်ကြာ၏ဟု သိရာသည်။

❖❖❖❖❖

၈၄၀။ သီဟိုဠ်ကျွန်းပြည်၊ အဦးတည်၊ ဘယ်ထေရ်သာသနာပြုသနည်း။(၁၃၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သီရိဓမ္မာသောကမင်းကြီး၏ သားတော် အရှင်မဟာမဟိန္ဒထေရ်,ဣဋ္ဋိယထေရ်, ဥတ္တိယထေရ်, သမ္ဗလထေရ်, ဘဒ္ဒသာလထေရ်,တူတော်သုမနသာမဏေ, ဘဏ္ဍုက ဥပါသကာနှင့်တကွ ခုနစ်ပါးလုံး ဘုရားပရိနိဗ္ဗာန် စံတော်မူသည့်နောက် ၂၃၆-ခုနှစ်၊ နယုန်လပြည့်နေ့ သီဟိုဠ်ကျွန်းသို့ကြွ၍ သာသနာပြုတော်မူသည်။ ထို့ကြောင့် ဤအရှင်ခုနစ်ပါးသည် သာသနာပြု အဦးတည်းဟူပေ။ အကျယ်မှာ ပါရာဇိကဏ် အဋ္ဌကထာ နိဒါန်း၌ ထင်ရှားရှိပြီ။

❖❖❖❖❖

### ၈၄၁။ ပေထက်တင်သည့်၊ ကျမ်းအတည်၊ မည်သည့်မင်းကြီးလက်ထက်နည်း။ (၁၃၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တဒါ၊ ထိုဝဋ္ဋဂါမဏိမင်းကြီး နန်းတက်၍ ခြောက်နှစ်ရှိသောအခါ၌။ ဘိက္ခူ ရဟန်းတို့သည်။ သတ္တာနံ၊ သတ္တဝါအပေါင်းတို့၏။ ဟာနိ၊ သတိပညာ၏ ဆုတ်ယုတ်ခြင်း ကို။ ဒိသွာ၊ မြင်၍။ သမာဂတာ၊ အညီအညွတ် စည်းဝေးကုန်၍။ ဓမ္မဿ၊ တရား တော်မြတ်၏။ စိရဋ္ဌိတတ္ထာယ၊ ကြာမြင့်စွာ တည်ခြင်းအကျိုးငှာ။ ပါဠိအဋ္ဌကထံ၊ ပါဠိတော်နှင့် အဋ္ဌကထာကို။ ပေါတ္ထကေသု၊ ပေတို့၌။ လိခါပေသုံ၊ ရေးတင်စေကုန်၏။

ဤသို့ မဟာဝင်ဂါထာ၌ လာသောကြောင့် သဒ္ဓါတိဿမင်း၏ သားတော် ဖြစ်သော ဝဋ္ဋဂါမဏိမင်းကြီး လက်ထက်တွင် ရဟန္တာငါးရာတို့သည် သီဟိုဠ်ကျွန်း အနုရာဓမြို့၏ အနောက် မာလယဇနပုဒ် အာလောကမည်သောလိုဏ်၌ အဋ္ဌကထာနှင့် တကွသော ပါဠိတော်မြတ် ပိဋကတ်သုံးပုံကိုပေထက် ရေးထား၏ဟူပေ။

ထိုပေထက် ရေးထား၍ အထပ်ထပ်များစွာ တည်းတိုက်ခြင်းသည် စတုတ္ထ သင်္ဂါယနာမည်၏ဟူ၍ တေရသကဏ္ဍဋီကာ၌ ဆိုသည်။

❖❖❖❖❖

### ၈၄၂။ စွယ်တော်ရောက်သည့်၊ သီဟိုဠ်ပြည့်၊ မည်အကြောင်းကြောင့်ရောက်သနည်း။ (၁၃၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကလိင်္ဂရာဇ်ပြည်ကို အစိုးရသော ဂုဟသီဝမင်းတွင် အဆင်းပြင်လျာ ဘုန်း လက္ခဏာနှင့်ပြည့်စုံသော ဟေမမာလာအမည်ရှိသော သမီးတော်တစ်ယောက်သည်ရှိ၏။ ထိုသမီးအား ခမည်းတော်၊ မယ်တော်တို့သည် အလွန်မြတ်နိုးသောကြောင့် တပင်တိုင် နန်း၌ လုံခြုံစွာသော အစောင့်အရှောက်ဖြင့် ထားသတည်း။ မင်းကြီး၏ တူတော်ဖြစ်သော ဒန္တကုမာရမင်းသားသည် မင်းသမီးအား အလွန်တပ်မက်သည်ဖြစ်၍ မိဘမသိစေဘဲ စကားရောနှော ကူသန်းကြသဖြင့် ဆန္ဒညီညွတ်သောအခါ ကြီးစွာသော သဘောင်္ဂကို ပြုလုပ်၍ ကုန်စလယ်တင်ပြီးမှ မင်းသမီးကိုခေါ်၍ မင်းကြီးကိုးကွယ်သော စွယ်တော် ကိုလည်း ပင့်ခဲ့၍ သီဟိုဠ်ကျွန်းသို့ ပြေးလာသတည်း။ ထိုအခါ သီဟိုဠ်ကျွန်း၌ မင်း ၆၂–ဆက်မြောက်ကျသော ကိတ္တိသိရိမေဃမင်း နန်းစံ၍ ၉–နှစ်။ သက္ကရာဇ်သာသနာ ၆၃၀–ပြည့်တွင် ကလိင်္ဂရာဇ်ပြည်မှ စွယ်တော်သည် သီဟိုဠ်သို့ ကြွရောက်လာသတည်း။ အကျယ်စကားမှာ ဒါဌာဓာတုဝင်၌လည်းကောင်း၊ ဋီကာ၌လည်းကောင်း ရှိပြီ။

❖❖❖❖❖

## ၈၄၃။ တကောင်းဟူသည်၊အညာပြည်၊ မည်ကမင်းဆက်ပေတို့နည်း။(၁၃၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မဇ္ဈိမဒေသ သက်ဿနဂိုရ်ပြည့်ရှင်မင်း၏ အဆက်ဖြစ်သည်ဟူပေ။

အကြောင်းအမြွက်ကား– ဘုရားအလောင်းတော်ဖြစ်သော သိဒ္ဓတ္ထမင်းသားသည် ကပိလဝတ်ပြည်၌ ရွှေနန်းတက် စံတော်မူသောနှစ်မှ နှောက်လေးနှစ်မြောက်ဖြစ်သော အဥ္စနမင်းဖြိုကြွင်းသက္ကရာဇ် ၈၈–ခု၊ နတ်တော်လဆန်း ခုနစ်ရက်နေ့ကပင် သက်ဿနဂိုရ် ပြည့်ရှင်မင်း၏သားတော် သာကိယမင်းသည် မှူးမတ် ဗိုလ်ပါအပေါင်း နှစ်သောင်း ခြောက်ထောင်တို့နှင့်တကွ မဇ္ဈိမဒေသမှ ထွက်ခဲ့၍ အစဉ်သဖြင့် သလ္လာဝတီမြစ်ကို လျှောက်၍ လာခဲ့ရာ ရောဝတီမြစ်ကိုတွေ့၍ ထိုမြစ်၏ အနောက်ဘက်အရပ် လျောက်ပတ်သောနေရာတွင် ဗိုလ်ပါအစည်းအရုံးချပြီးမှ ရှေးအနှစ် သုံးရာခန့်က ဘိုးတော်တည်စ ပြုဖူးသောနေရာကို သိပြန်ရသဖြင့် တစ်ဖန် ရောဝတီ မြစ်ကိုကူးပြန်၍ တကောင်းမည်သောပြည်ကြီးကို တည်ထောင်၍ နေတော်မူသည်။ ထိုမြို့ကား ကကုသန်ဘုရားလက်ထက်တော်ကပင် လူနေဖြစ်၍ သံသယမြို့ဟု တွင်သည်။ ကောဏာဂုံဘုရားလက်ထက်ရဋ္ဌတွင်သည်။ ကဿပဘုရားလက်ထက် သင်းတွဲတွင်သည်။ ဂေါတမဘုရားလက်ထက်တော်၌ကား တကောင်းတွင်သည်။ ထိုသာကိယမင်းကြီးသည် မြို့နန်းတည်ထောင်၍ ရာဇာဘိသေက ခံတော်မူသည်။ သတိုးမဟာဓမ္မဒီပဓဇရာဇာဟူသော တံဆိပ်နာမံကိုလည်း ခံတော်မူသည်။ မှူးတော် မတ်တော် ဆွေတော် မျိုးတော်တို့ကိုလည်း မဇ္ဈိမဒေသမင်းကဲ့သို့ မာဂဓဘာသာဖြင့် သညာဘွဲ့ပုံ ပေးအပ်တော်မူသည်။ ထိုသတိုး မဟာဓမ္မဒီပဓဇမင်း၏ သားတော်ကား ကံရာဇာကြီး၊ ကံရာဇာငယ်ဟူ၍ နှစ်ယောက်ရှိသည်။ ထိုသားတော် နှစ်ယောက်တို့တွင် အစ်ကိုဖြစ်သော ကံရာဇာကြီးသည် ခမည်းတော်မရှိလျှင် တစ်ပြည်တည်း၌ မင်းနှစ်ယောက် ပြုခြင်းငှာ မသင့်ရာဟု နှလုံးပြု၍ ညီကံရာဇာငယ်အား အ ဖရိုက်ရာ ဖြစ်သော ရွှေထီးရွှေနန်းကို ဆောက်နှင်းခဲ့ပြီးမှ ခွာခဲ့၍ အနောက်ဘက် တောင်စဉ်အနီး ပင်လယ် အနားတွင် ဓညဝတီမြို့ကြီးကို တည်ထောင်၍ စံနေတော်မူသည်။ ညီကံရာဇာငယ်လည်း ဖမိတို့ ရိုက်ရာဖြစ်သော တကောင်းမြို့ကြီး၌ ထီးနန်းဆက်ခံ၍ စိုးစံ အုပ်ချုပ်တော်မူသည်။ ထိုမှစ၍ သားစဉ်မြေးဆက် ပြန့်ပွားစည်ပင်စွာ မြန်မာတို့တိုင်းကား နိုင်ငံဖြစ်သည်။ ထိုတကောင်းမြို့၌ မင်းဆက်ကား တစ်ကျိပ်ခုနစ်ယောက်တည်း။

ဘုရားသခင် သက်တော်ထင်ရှား ရှိစဉ်ကပင် သံသယမည်သော တကောင်းပြည်ကြီး, ဓညဝတီပြည်ကြီး, သုဝဏ္ဏဝတီမည်သော သထုံပြည်ကြီး ဤသုံးပြည်တို့သည် ကျေးလက် ပြန့်ပွားလျက် ထင်ရှားစည်ပင်စွာ ရှိသည်။

ထို့ကြောင့် နားတော်သွင်း၌–

ပြည်သရေ၏၊ ထောင်နေစသည်၊ ကြောင်းရင်းသည်မူ၊ သုံးမည်လုံးရှင်၊
မပွင့်ခင်တည်၊ များဖြင်မြင့်ကြာ၊ နှစ်သုံးရာထက်၊ ငါးဖြာပတ်ဝိုက်၊ မဇ္ဈေတိုက်မှ၊

ထွက်စိုက်ရာဟောင်း၊ လေးကြိမ်လောင်းသား၊ တကောင်းထောင်ထား၊ နရဖျားမှ၊ ဆက်ပွားစည်လျှဉ်၊ နန်းစဉ်စိုးနေ၊ သတိုးရွှေဟု၊ မြုတေထွန်းဝင်း၊ ထိုသည့်မင်းလျှင်၊ ဆောက်နှင်းယောက်ဖ၊ အိမ်ရှေ့ရအား၊ ပြည်ပရန်မီး၊ တောဝက်ကြီးကို၊ ဖမ်းဆီးတုံလှည့်၊ သတ်လေထည့်သည်၊ စုံပြည့်တည့်မနေ့၊လက်နက်လေး။ ။ ဟူ၍ စပ်သည်။

ဤလင်္ကာ၌ အဓိပ္ပါယ်ကား-ဘုရားပွင့်တော်မမူမီ အနှစ် ၃၀၀-ကပင် သက်သနဂိုရ် ပြည့်ရှင်မင်းကြီး၏ ညီတော်သည် ကျေးကျွန်အရံနှင့်တကွ သလ္လာဝတီမြစ်ဖြင့် စုံဆင်းလာ၍ တကောင်းပြည်ကို တည်ထောင်စပြုသည်။ ၎င်းနောက် ထိုမင်း၏ တူတော်လည်းလိုက်လာ၍တစ်ကြိမ် ၎င်းညီလိုက်လာ၍ တစ်ကြိမ် တည်ထောင်သည်။ ၎င်းနောက် သာကီယမင်း စုန်ဆင်း၍ တည်သဖြင့် စည်ပင်ပွင့်လင်းစွာ ဖြစ်သည်။ ထို့ကြောင့် လေးကြိမ်လောင်းသားဟု ဆိုသည်။

❖❖❖❖❖

## ၈၄၄။ သာသနာတည်၊ ပုဂံပြည်၊ မည်သည့်မင်းတွင် စသနည်း။(၁၃၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သာသနာတော် ၁၆၀၁-ခုနှစ်၊ သက္ကရာဇ် ၄၁၉-ခု၌ အရိမဒ္ဒနာပြည်ကြီးကို အစိုးရသော အနော်ရထာမင်းစောသည် ရာမညတိုင်း တလိုင်းသုံးရပ်ကို အောင့်မြင်၍ သထုံပြည်မှ ပိဋကတ်သုံးပုံနှင့်တကွ ရဟန်းသံဃာတို့ကို ပင့်ဆောင်၍ ပုဂံပြည်သို့ ရောက်သည်။ ထိုအခါမှစ၍ သာသနာတော် တည်ထွန်းသည်။

❖❖❖❖❖

## ၈၄၅။ စကောလွှင့်သည်၊ သရေပြည်၊ မည်သည့် သက္ကရာဇ်ကနည်း။(၁၃၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သုမုန္ဒြီမင်းလက်ထက် ဒေါ်ဒေါ်ရသ သက္ကရာဇ်ကို ချေပြီးနောက် ၁၆ နှစ်မြောက်တွင် စကောလွှင့်သည်။

❖❖❖❖❖

## ၈၄၆။ ဆင်းတုကိုရည်၊ ဖိုထိုးသည်၊ မည်မင်းလက်ထက်ကပေနည်း။(၁၃၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ရခိုင်မြို့ ဓညဝတီပြည်တွင် ဘုရားထင်ရှားရှိတော်မူသောအခါ စန္ဒသူရိယမည်သော မင်းသည် မင်းပြု၏။ တစ်ရံသောအခါ မြတ်စွာဘုရားသည် ဒေသစာရီ ချီတော်မူ၍ ဓညဝတီရောက်လျှင် မင်းနှင့်တကွသော ပြည်သူပြည်သားတို့တောင်းပန်၍ တစ်လခန့် ရပ်တန့်တော်မူ၏။ စန္ဒသူရိယမင်းလည်း တရားတော်ကို နာရလျှင် အလွန်

ကြည်ညိုခြင်း ဖြစ်၍ မိမိနိုင်ငံတွင် ဘုရားသခင် သီတင်းသုံးတော်မူပါမည့်အကြောင်းဖြင့် တောင်းပန်၏။ ခွင့်မရသောအခါ ကိုယ်တော်၏ အလားကဲ့သို့ ဘုရားရှင်ရုပ် သွန်းလုပ်၍ ကိုးကွယ်ပါရမည့် အကြောင်းကို တောင်းပန်သဖြင့် ခွင့်ပေးတော်မူ၍ လိမ္မာစွာသော ပန်းတဉ်းပန်းပဲတို့နှင့် တိုင်ပင်၍ ဘုရားရှင်သဏ္ဍာန်တော်နှင့် တစ်ဆံခြည်မျှမယွင်းအောင် ပဥ္စလောဟာကို သွန်းလုပ်ကြ၏။ နှစ်ကြိမ်၊ သုံးကြိမ် သွန်း၍မျှလှပစွာ မပြီးလေလျှင် သဗ္ဗညုဘုရား ကိုယ်တိုင်တော် ကြပ်မတ်၍ ရင်ငွေ့တော် ခုနစ်လက်ခုပ်သွင်းပြီးမှ သွန်းလုပ်သော် ကောင်းမွန်စွာပြီးစီး၏။

ရခိုင်ရာဇဝင်တွင် ဘုရားသခင်က ငါ၏သဏ္ဍာန်နှင့် မယွင်းအောင် သွန်းလုပ် ဘိဟူ၍ မိန့်တော်မူလျှင် သိကြားမင်းသည် ဝိသကြုံနတ်သားနှင့်တကွ ကြပ်မတ်၍ သီရိဂုတ်တောင်ထိပ်တွင် နဝရတ်ကိုးပါး သွန်းလုပ်သည်ဟု ဆိုသည်။

ရခိုင်ဧချင်းတွင် ပဥ္စလောဟာကို သွန်းလုပ်ကြောင်းကို–

မဟာမုနိ၊ ရှိသည့်ယခု၊ ရုပ်ဆင်းတုကို၊ ဝိသုကမ္မ၊ သိကြားမ၍၊ ပဥ္စလောဟာ၊ ရတနာဖြင့်၊ သွန်းခါမဖြစ်၊ ခုနစ်လက်ပွေ့၊ ကိုယ်ငွေ့တော်ယူ၊ ထည့်တော်မူမှ၊ ဘုန်းထူဘုန်းစည်း၊ ရှင်နည်းဘုရား၊ ကိုတော်စားလျှင်၊ ထင်ရှားတင့်စွာ၊ ဖြစ်ပေလှာ၏။ ဟူ၍ စပ်ဆိုသည်။

ယင်းသို့ သွန်းလုပ်စဉ်က အင်္ဂါကြီးငယ်နှင့် ညီညွတ်တင့်တယ်စွာဖြစ်လျက် ရှေးအလောင်းတော်မြတ်သည် မာရ်အောင်ကျွန်းတွင် မင်းဖြစ်တော်မူသောအခါ သူ့စည်းစိမ်ကို ဖျက်ဆီးသော တောင်သူ၏ အခြေ၊ အပေါင်၊အလက်တို့ကို ဖွဲ့ခဲ့ဖူးသော ဝိပါက်တော်, မင်းသား ငါးယောက်တို့ ပြည်သူ ရွာသားတို့အား ကျောသားကို စားမလောက် နှိပ်စက်သည်တို့ကို ဆုံးမလို၍ နောက်ကျောနုတ်ဖူးခဲ့သော ဝိပါက်တော် ဤဝိပါက်တော်နှစ်ပါးကို ငါ့ကိုယ်စားခံရစ်ပေဟု ဘုရားဗျာဒိတ်တော်ထားခဲ့သည်နှင့် အညီ ရခိုင်မင်းရိုး မင်းဘီလူးကို အမတ်သခ်ယာပုန်စားလျှင် မြန်မာအရပ်သို့ သမက်တော်အိမ်ရှေ့မင်း မင်းရဲဘယ ပြေးလာ၍ အလောင်းစည်သူမင်းထံ ခစား သည်တွင် မြင်သော လက်ယာမင်းနန်ကို ရခိုင်မှာ နန်းတင်သောအခါ ပါသော ပြူတလိုင်းတို့သည် သီရိဂုတ် တောင်ဝယ်ရှိသော မဟာမုနိ ဘုရားရှင်ကို ဖိုကျင့် တစ်ထောင်ထိုး၍ နောက်ကျောသား ပေါင် လက် တို့ကို ယူလေသည်။ အထက် ကိုယ်တော် ပမာဏသာ ယခုအတိုင်းရှိသည် ဟူ၍ ရာဇဝင်တွင်ဆိုသည်။

ဧချင်းတွင်လည်း–

တလိုင်နှင့်ပြူ၊ နှစ်ပြည်သူတို့၊ သုံးလူထွတ်ချာ၊ မဟာမုနိ၊ တြိနာထော်၊ ရုပ်ရှင်ကျော်ကို၊ ပေါင်တော် ကျောသား၊ ယူသောအားဖြင့်။ ဟူ၍ စပ်ဆိုသည်။

85
A

❖❖❖❖❖

၈၄၇။ တောင့်တယ်မည်၊ ပန်းပဲသည်၊ ပြစ်ခြည်ဘယ့်ကြောင့် သေသနည်း။(၁၃၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မင်းပရိယာယ်၌ မလိမ္မာသောကြောင့် သေသည်ဟူပေ။

အကြောင်းကို ဆိုလိုက်ဦးအံ့–

တကောင်းပြည်ကြီး၌ ပန်းပဲမောင်တင့်တော်၏ သားဖြစ်သော တောင့်တယ်သည် ငယ်စဉ်အခါကပင် ဆန်းတစ်စလယ်ချက်၊ တစ်ခွက်ချက် တက်၍တက်၍ စားသဖြင့် ဆယ့်ခြောက်နှစ်ရွယ်သို့ ရောက်သောအခါ ဆန်တစ်စိတ်ချက် ထမင်းကုန်၏။ စွမ်းပကား ခွန်အားကြီးသည်ဖြစ်၍ အလွန်ကျော်စော ထင်ရှား၏။ ဆင်ပြောင်ကိုသော်လည်း ချိုး၍ ပစ်နိုင်၏။ လုံးပတ်ထွာဆိုင်၊ အလျားလေးတောင်ရှိသော သံချောင်းကို ဦးခေါင်း၌တင်၍ လက်နှစ်ဖက်ဖြင့်ဆွဲသော် လောက်လေးကိုင်းကဲ့သို့ ညွတ်၍ ပါသည်ဟူ၏။

ထိုအကြောင်းကို တကောင်းမင်းကြီး ကြားသိသော် "ဤသူသည် ငါ့ကို ရန်မူသော် ရန်မူနိုင်ရာသည်။ ငါ၏ စည်းစိမ်ကို လုလိုသောအခါ လုလာလတ္တံ့၊ ထို့ကြောင့် ဤတောင့်တယ်ကို ဖမ်း၍ ဖျောက်ဖျက်လေ"ဟူ၍ မှူးမတ်တို့ကိုစေ၏။ တောင့်တယ်လည်း သေအံ့သည်ကိုကြောက်၍ အဖမ်းမခံဘဲ ထွက်ပြေး၍ နက်စွာသော တောကြီးတစ်ခု၌ နေ၏။ မင်းကြီးလည်း ကြောက်ရွံ့ စိုးရိမ်သဖြင့် ထိုတောင့်တယ်၏ နှမကိုယူ၍ မိဖုရားမြှောက်၏။ ရှည်လျားသော် မိဖုရားကို မင်းကြီးဤသို့ဆို၏။ "မိဖုရား၊ သင်၏မောင်သည် ခွန်အားစွမ်းပကားကြီးသည်။ ငါတို့ အရံအကာရအောင် စစ်သူကြီးခန့်မည်။ အလျင်ခေါ်လေ" ဟုဆို၏။ မိဖုရားသည် ထိုစကားကို ယုံကြည်သည်ဖြစ်၍ မောင်ကိုခေါ်၍ တောင့်တယ်လည်း နှမကို မိဖုရားမြှောက်လေပြီ ဖြစ်၍ ငါ့ကို အမှုထမ်းစေလို၍သာ ခေါ်သည်ထင်မှတ်၍ လိုက်လာ၏။

တစ်ရံသောအခါ မင်းကြီးသည် ဥပါယ်တံမျဉ်ဖြင့် စကားပင်တွင် ချည်ပြီးသော် မီးသွေးအများပုံ၍ ဖိုကျင်ထိုးလေ၏။ မိဖုရားလည်း "ငါ့မောင်သည် ငါ့ကြောင့်ပင် သေရလေသည်"ဟု ထိုမီးပုံတွင် ဆင်းလေ၏။ မင်းကြီးလည်း မိဖုရား ဆံထုံးကို ဆွဲပါသော် ခေါင်းနှင့်မျက်နှာကိုသာ ရလိုက်၍ ကိုယ်ကားကျွမ်းလေ၏။

ထို မောင်နှမ သေပြီးသော် နတ်မောင်နှမဖြစ်၍ ထိုစကားပင်တွင် နေလေ၏။ ထိုစကားပင်အောက်သို့ လူ သူ ဆင် မြင်း ကျွဲ နွားဝင်မိသော် သေလေ၏။ ဤသို့ဖြစ်ကြောင်း တကောင်းမင်းလည်း ထိုစကားပင်ကို အမြစ်ကတူး၍ ဧရာဝတီမြစ်သို့ မျှောလိုက်၏။ ထိုစကားပင်သည် အခက်အလက်ပြတ်၍ ပုဂံမြို့ဆိပ်၌ ပင်စည်ချည်းတင်လေ၏။ ထိုသို့ တင်သောနေ့၌ပင် ပုဂံမင်းကြီးအား နတ်မောင်နှမအရုပ် ထုလုပ်၍ ကိုးကွယ်ရမည်ဟု အိပ်မက်မြင်၏။ ပုဂံမင်းလည်း အိပ်မက်မြင်သည့်အတိုင်း ထိုစကားတုံးကို ဆယ်ယူ၍ နတ်မောင်နှမအရုပ် ထုလုပ်စေပြီးလျှင် ပုပ္ပားတောင်မှာ ထားလေ၏။ မင်းမှူးမတ်စသော ပြည်သူအပေါင်းတို့သည် တစ်ကြိမ် တစ်ကြိမ် ဖူးမြင်ကြကုန်၏။

ဤမဟာဂီရိနတ် ရောက်သည်ကား သီရိပစ္စယာမြို့သည် သေဥ်လည်ကြောင် မင်း လက်ထက်တည်း။ ဤမင်းကား တရားဆယ်ပါးကို စောင့်၏။ ပြည်သူ ပြည်သားတို့အား ဝမ်းထွက်သားကဲ့သို့ သနားတော်မူ၏။ ဤမင်းလက်ထက် ရွှေငွေ ဖြစ်သူပေါ၍ ရတနာမိုး သုံးကြိမ်ရွာ၏။

ဤသို့ မဟာရာဇဝင်၌ ဆိုသောကြောင့် တောင့်တယ်သည် မင်း၏ပရိယာယ်ကို နားမလည်ရှာသောကြောင့် သေသည်ဟု မှတ်အပ်၏။

❖❖❖❖❖

## ၀၄၈။ ဖြူစောထီးသည်၊ ကျေးဇူးရည်၊ မည်သို့ သိဖူးလေသနည်း။(၁၄၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပေါက္ကံပြည်ကို တည်ထောင်ဦးဖြစ်သော သမုဒ္ဒရာဇ်မင်းသည် ၄၅–နှစ်မင်းပြု၍ နတ်ရွာစံသောအခါ သမက်တော် ဖြူမင်းထီးသည် မင်း၏အဖြစ်ကို ရ၏။ ရသော်လည်း ထီးနန်းစည်းစိမ်ကို မစံဦးဘဲ ကိုယ်တော်ကို မင်းဖြစ်မည်ဟု နိမိတ်ဖတ်ဖူးသော လောကီ အရေးအရာ၌ နည်းနာဥပဒေသ ပြသသင်ကြားဖူးသော ရသေ့ကို လူဝတ်လဲစေ၍ ထီးနန်းကို အပ်လျက် မင်းပြုစေသည်။ မိမိကား အမှုထမ်း အိမ်ရှေ့အရာဖြင့်သာ နေ၏။ ရသေ့ကြောင်လည်း အိမ်နိမ့် ၉၁။ စည်းစိမ် ၁၅။ သက်တော် ၁၀၆–နှစ်ရှိမှ ကံကုန်၍ သက္ကရာဇ် ၈၉–ခုတွင် ဖြူမင်းထီး မင်းပြုသည်။

ဤသို့ ဆရာရသေ့အား မင်း၏ စည်းစိမ်ကို ပေးသဖြင့် ကျေးဇူးဆပ်ဖူးလေသည် ဟူပေ။

❖❖❖❖❖

## ၀၄၉။ တောင်ငူနှင့်တည်၊ ကေတုပြည်၊ ဆက်ရှည်မင်းပေါင်းဘယ်မျှနည်း။(၁၄၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

စစ်ကိုင်း, ပင်းယ၊ ပျက်ကာလနှင့်၊ အင်းဝတည်လည်း၊ တစ်နှစ်တည်းကို၊
ရုံးစည်းလွယ်ကူ၊ သိကြောင်းမူပြီး၊ တောင်ငူရွှေပြည်. မင်းဆက်သည်ကား၊
ဦးတည်စိုးသီ သဝဏ်ကြီးနှင့်၊ ဘုန်းမီးတူပြီ၊ ညီသဝဏ်ငယ်၊ တင့်တယ်လှမော၊
ဘားမောနစ်က၊ ကရင်ဘလည်း၊ စိုးရရန်ညာ၊ လက်ယာသမက်၊ ညီဆက်
လာပြား၊ ထောက်လေ့ကားနှင့်၊ သိမ်းပကားမည်ခံ၊ သားပုံချီကြီး၊ ကျော်ချီး
ဝှန်လျှင်း၊ တလိုင်းမစိန်၊ စက်ရှိန်လျှံညီ၊ ပုံချီငယ်က၊ ယောက်ဖ စုက္ကတေး၊
နီးဝေးထင်ရှား၊ မင်းဘောင်းကားနှင့်၊ မင်းသားစောအုံ၊ ရွှေဘုံလျှံညီး၊ နေမီး
လက်ယာ၊ သခ်ယာက၊ စကြာသားကောင်း၊ ပန်းတောင်းမင်းကြီး၊ ဆက်သီး
စိုးမှူး၊ စောလူးသခ်ယာ၊ ဥဇနာသား၊ သည်ကြားစောဦး၊ ရန်ဆူး ခုတ်လွှင့်၊
အမြင့်ပိုင်ကား၊ တရာ့ဖျားနှင့်၊သားမင်းခေါင်ငယ်၊ တစ်သွယ်ရန်နင်း၊ မင်းငယ်
ကျော်ထင်၊ မြေပြင်ရိုက်ချီး၊ မင်းကြီးစည်သူ၊ သည့်နောက်မူကား၊ တောင်ငူကကို၊

မင်းကြီးညိုလျှင်၊ ဖျက်ဖြိုရန်ကြို့၊ ကေတုမြို့ကို၊ အောင်ဖို့ရည်ငံ၊ တည်၍ခံရှင့်၊ ဘုံပျံပလ္လင်၊ နန်းထက်မြင်သား၊ တပင်ရွှေထီး၊ ယှဉ်မှီးလွှန်ကဲ၊ မင်းရဲသိခ်သူ၊ သည်းအူမင်းခေါင်၊ သည့်နောင် နန်းတည်၊ သွေးရည်ဘုန်းခေါင်၊ နတ်ရှင်နောင်နှင့်၊ မြန်ဘောင်ချီဝှဲ၊ မင်းရဲကျော်ထင်၊ ထွတ်ဘုရင်တို့၊ ဦးကင်ထွက်ပြူဆောင်းထီးဖြူနှင့်၊ တောင်ငူကသည်၊ ကေတုပြည်၌၊ ဆက်ရှည်နှောင်းရေး၊ သုံးကျိပ်လေးသည်၊ ကျူးအေးဘိသိက် ရိုက်သွန်းတည်း။ ။ ဤလင်္ကာဖြင့် တောင်ငူမင်းဆက်ကို သိရာသည်။

❖❖❖❖❖

## ၈၅၀။ တကောင်းရွှေပြည်၊ စိုးလေသည်၊ မည်မျှမင်းဆက်ရှိသနည်း။(၁၄၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

လက်ယာဇမ္ဗူ၊ ကျွန်းမှန်ကူထက်၊ သုံးဆူရှင်ရင်း၊ နောင်မြတ်မင်းတို့၊ ပွင့်လင်းစစ်က၊ သံသယနှင့်၊ ရဋ္ဌသင်းတွဲ၊ သုံးမည်ကွဲသား၊ ငါးပွဲခြိမ်းမောင်း၊ တို့ရှင်နှောင်းတွင်၊ တကောင်းဟူသည်၊ မြို့ရွှေပြည်ကို၊ ဦးတည် သိမ်းယူ၊ စိုးသည်မူကား၊ ဇမ္ဗူဒီပ၊ မင်းဓဇနှင့်၊ သည်ပနွယ်ရိုး၊ မြတ်စဉ်စိုးသည်၊ သတိုးတိုင်းရ၊ ဝံသမည်ပြုံး၊ သက်စဉ်စိုးသည်၊ သတိုးထားရ၊ ရန်စဖျက်ချိုး၊ ပျပ်ဝပ်လျှိုးသည် သတိုးတံခွန်ရ၊ ပေါက်ပြမြေမိုး၊ ကျော်လွှဲ့ဟိုးသည်၊ သတိုးလုံရ၊ တေဇတန်ခိုး၊ သစ်သစ်ဖြိုးသည်၊ သတိုးရွှေမင်း၊ သောင်းတွင်း အုပ်စိုး၊ နဘော်ဖြိုးသည်၊ သတိုးဂဠုန်ရ၊ နာဂရန်မျိုး၊ ဝပ်လှာလျှိုးသည်၊ သတိုးနဂါးရ၊ ရာဇနွယ်ရိုး၊ ပန်းနွယ်ပျိုးသည်၊ သတိုးနဂါးနိုင်၊ ဖက်ပြိုင်မဲ့နိုး၊ ဘုန်းသစ်မိုးသည်၊ သတိုးရတော်လာ၊ များစွာလူမျိုး၊ စောင့်နွယ်ကိုးသည်၊ သတိုးပေါင်ရှည်၊ ရွှေရည်နှင်းနိုး၊ နွဲ့ခေါက်ချိုးသည်၊ သတိုးကျောက်ရှည်၊ ပြည်ပြည် မင်းမျိုး၊ ကြောက်ထိတ်စိုးသည်၊ သတိုးဆင်လောက်၊ ပပျောက်ရန်မျိုး၊ ပြေးပုန်းလျှိုးသည်၊ သတိုးဆင်ထိန်း၊ ရှိန်းရှိန်းကျော်ဟိုး၊ ခြိမ်းသံနိူးသည်၊ သတိုးတိုင်းချစ်၊ သစ်သစ်တန်ခိုး၊ ချွန်းရိုက်ကြိုးသည်၊ သတိုးမင်းကြီး၊ ဘုန်းမီးလွှမ်းမိုး၊ ကျွန်းလုံးစိုးသည်၊ သတိုးမဟာရာဇာ၊ ယင်းသို့လာ၍ ရှည်ကြာလ, နှစ်၊ ဆယ်ခုနှစ်သည်၊ မင်းစစ်စိုးစံ ရွှေနန်းတည်။ ။ ဤလင်္ကာဖြင့် မှတ်ရမည်။

❖❖❖❖❖

## ၈၅၁။ နော်ရထာသည်၊ ပုဂံပြည်၊ ရရည်ကြောင်းရင်း၊ မည်သို့နည်း။(၁၄၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ကျောင်းဖြူမင်းကို သားကျည်စိုမင်းနှင့် စုက္ကတေးမင်းသည် တိုင်ပင်၍ ဘုရားသို့တရားနာပင့်ခေါ်၏။ ရောက်လျှင်ဖမ်း၍ ရဟန်းပြုကြလေ၏။ ယင်းသို့ ကျောင်းဖြူမင်းကို နန်းကချပြီးလျှင် ကျည်စိုသည် မင်းပြုလေ၏။ ထိုကျည်စိုမင်းသည် ချင်းတွင်းညွန့်တန်း အရပ်မှာ မင်းတဲဆောက်၍ ဗန့်ကျီး ဆယ်ရွာတိုက်သို့

သွား၍ မပြတ်သမင်ကစား၏။ အခါတစ်ပါး မုဆိုးတစ်ယောက်သည် သမင်ရေသောက်လာသည်ကို ပစ်အံ့ဟု စောင့်နေရာသို့ မင်းကြီးသည် သွားလေ၍ သမင်က မင်းကိုမြင်လျှင် လန့်၍ပြေး၏။ မုဆိုးလည်း မင်းမှန်း မသိသောကြောင့် လေးနှင့်ပစ်၍ ကံကုန်လေ၏။ အိမ်နိမ့် ၂၁။ စည်းစိမ် ၆နှစ်။ သက်တော် ၂၇–နှစ်တွင် အနိစ္စရောက်၏။

သက္ကရာဇ် ၃၃၉–ခုသော် ထိုမင်းညီတော် စုက္ကတေးမင်းဖြစ်၏။ ထိုမင်း၀ယ် အနော်ရထာစော ခစားရ၏။ အနော်ရထာစော၏ မယ်တော်မြောက်ပြင်သည် မိဖုရားကား ကျောင်းဖြူမင်းကို လုပ်ကျွေး၍ အတူနေသတည်း။ နော်ရထာစောလည်း ခမည်းတော် တို့နှင့် အတူနေသတည်း။

တစ်ရံသောအခါ နောင်တော်စုက္ကတေးသည် အနော်ရထာစော ခစားလာရာ ''ညီသား နောင်မယ်''ဟု ခေါ်၏။ ထိုသို့ခေါ်သည်ကို ခမည်းတော် ကျောင်းဖြူမင်းအား လျှောက်လေသော် ''အမောင့်မိခင်ကို ယူလို၍ ခေါ်သည်''ဟု မိန့်တော်မူ၏။ နော်ရထာလည်း ကြီးစွာသော အမျက်ရှိသည်ဖြစ်၍ ခမည်းတော်၀ယ် သိကြားဆောင်နှင်းသော မြင်းကိုလည်းကောင်း, အရိန္ဒမာလှံ၊ သီလ၀ံသဓားကို လည်းကောင်း၊ တောင်းလေ၏။ ခမည်းတော်ကလည်း အရိန္ဒမာလှံ၊ သီလ၀ံသဓား၊ ပတ္တမြားလက်စွပ်၊ ပတ္တမြားဦးသျှောင် တို့ကို ပေးပြီးလျှင် ''မြင်းမူကား ငါ နန်းကျကတည်းကပင် လွတ်လေသည်။ ငါ၀တ်သော လက်စွပ်ကိုပြလျှင် အဖမ်းခံလိမ့်မည်။ ရလျှင် မြင်းကိုယူ၍ ပုပ္ပားသို့သွားလေ။ အလုံးအရင်း များ၍ အင်အားရှိသောအခါမှ မောင့်နောင်တော်ကို လုပ်ကြံလေ''ဟု မိန့်တော်မူ၏။ အနော်ရထာလည်း ခမည်းတော် မိန့်သည့်အတိုင်း မြင်းကို လက်စွပ်ပြ၍ရလျှင် ပုပ္ပား အရပ်သို့သွား၍ အလုံးအရင်း ဆည်းပူး၏။ မယ်တော်ကိုလည်း အပြင်အလျာ ကောင်းလှ သည်နှင့် စုက္ကတေးယူ၍ နန်းတင်လေ၏။ (အချို့သော ရာဇ၀င်တို့၌ နော်ရထာစောနို့မခွာမီ မယ်တော်ကို စုက္ကတေးမင်း သိမ်းယူသည်ဟု ဆိုသည်။ မသင့်)။

အနော်ရထာမင်းလည်း အလုံးအရင်းပြည့်စုံပြီးလျှင် ပုဂံသို့ချီလာ၍ နန်းကိုတည်း အပ်မည်လော၊ စစ်သော်လည်း ထိုးမည်လော''ဟု စေလိုက်၏။ စုက္ကတေးလည်း ညီတော်စကားကိုကြားလျှင် ပြင်းစွာအမျက်ထွက်၍ ''ချင်းသည် နို့နံ့မျှမစင်သသူ ဖြစ်သည်။ ငါ့ကို တိုက်မည်ဆိုသော် အမတ်ပိုလ်ပါတို့ ကြည့်၍သာနေစေ။ ငါနှင့်မြင်းစီးချင်း တိုက်မည်။ ဤနေ့ရက်ကိုလာခဲ့''ဟု မှာလိုက်၏။ နော်ရထာစောလည်း နောင်တော် မှာလိုက်သော စကားကိုကြားလျှင် အားရ၀မ်းမြောက်လျက် ချိန်းချက်သော နေ့သို့ ရောက်လျှင် နတ်မြင်းကိုစီး၍ လှံဓားကိုစွဲပြီးသော် သမထီးချောင်းသို့ သွားတော်မူ၏။ နောင်တော် စုက္ကတေးလည်း ညီတော်လာသည်ကိုမြင်လျှင် ဆီးကြိုနှင့်၏။ မြင်းရေးပြုကြပြီးလျှင် နော်ရထာစောက ''နောင်တော်–ငါ့ထက်ကြီးသသူ ဖြစ်သည်။ အလျင် ထိုးလော့'' ဟု ဆို၏။ နောင်တော်လည်း လှံချက်ဖြင့်ရွယ်၍ လွတ်သည်။

နော်ရထာလည်း လာသောလှံကို အရိန္ဒမာလှံရိုးဖြင့် ခတ်၍ပစ်သည်။ တစ်စုံ တစ်ယောက်သော သူကိုမျှ မထိ။ တစ်ကြိမ်ထိုးဦးဟုဆို၍ ခုနစ်ကြိမ်စေအောင် ထိုးစေသည်။ အဆုံးအကြိမ်မှ မြင်းဦးကကို ထိုးမိလေသည်။ စုက္ကတေးလည်း မိမိထိုးသော လှံချက်သည် ညီတော်သို့ မရောက်ဘဲ မြင်းဦးက, ကို ထိုးမိသည်ကိုမြင်သော် အလွန်ကြောက်ရွံ့ခြင်းဖြစ်၍ တုန်တခိုက် ရှိလေသည်။ ထိုအခါ နော်ရထာစောက ''နောင်တော့်လှံကို ခံသည်များလှပြီ၊ ညီတော်တစ်ကြိမ်ထိုးမည်။ခံနိုင်အောင် ခံလော့''ဟု ဆို၍ လှံကိုလွှတ်လေလျှင် ရင်ညွန့်မှ ဝင်၍ နောက်သို့ထွက်လေ၏။ စုက္ကတေးလည်း မြင်းနှင့်တကွ မြစ်နားသို့ပါ၍ အနိစ္စ ရောက်လေ၏။ ထိုအရပ်ကို မြင်းကပါဟု ယခုတိုင် တွင်၏။

နော်ရထာစော မယ်တော်သည် သားတော်လှံဖြင့် စုက္ကတေး အနိစ္စ ရောက်ပြီဟု ကြားလျှင်ရင်ဝတ်မျှမကပ်ဘဲ ''ပုတ္တလင်-ပုတ္တလင်''ဟု ခေါ်မြည် တမ်းလျက် နန်းမှဆင်း၍ ပြေးလာ၏။ မယ်တော်ရပ်ရာ၌ ဘုရားတည်သည်။ ထိုဘုရား ကို ပုတ္တလင် ဘုရားဟု တွင်၏။ မယ်တော် ရင်ဝတ်ကျွတ်ရာ အရပ်တွင်လည်း ဘုရားတည်၍ ထိုဘုရားကို ရင်ဝတ်ကျွတ်ဘုရားဟုတွင်သည်။ စုက္ကတေးကား အိမ်နိမ့် ၂၄။ စည်းစိမ် ၂၅-တွင် အနိစ္စရောက်သည်။ နော်ရထာစော လည်း နောင်တော်ကို လုပ်ကြံပြီးသော် ခမည်းတော်ကျောင်းသို့သွား၍ မင်းပြုပါဟု တောင်းပန်၏။ ခမည်းတော်လည်း ငါအသက် အရွယ်ကြီးပြီ အမောင်ပင်မင်းပြုလော့ဟု မိန့်တော်မူ၍ သာသနာတော် ၁၅၄၆-ခု၊ သက္ကရာဇ် ၃၆၄-ခုတွင် နော်ရထာစော နန်းတက်၍ ရာဇာဘိသေက ခံတော်မူသည်။ ဤကား နော်ရထာမင်း ပုဂံပြည်ကို ရကြောင်းစကား အစဉ်တည်း။

❖❖❖❖❖

## ၈၅၂။ မင်းကြီးညိုတည်၊ ကေတုပြည်၊ မည်သာသနာ ချိန်ကနည်း။(၁၄၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မြင်းစိုင်း ရွှေနန်းရှင် ရာဇသင်္ကြန် သားတော် မဟာသင်္ခယာနှင့် ပင်းယမင်း ဥဇနာ၏သမီးတော် မင်းလှညက်ကို စုံဖက်ရာတွင် မင်းကြီးညိုကို မြင်သည်။ မဟာသိရိ ဇေယျသူရ ဟူသော အမည်ကိုခံ၍ သာသနာတော် ၂၀၅၄-ခုနှစ်။ သက္ကရာဇ် ၈၇၂-ခု၊ တန်ဆောင်မုန်းလပြည့်၊ အင်္ဂါနေ့တွင် ကေတုမတီမြို့ကိုတည်၍ မင်းပြုတော်မူသည်။

❖❖❖❖❖

## ၈၅၃။ နားမျက်စိမည်၊ ခေါ်ကြသည်၊ ပြည်ဝယ် ဘယ်ပုဂ္ဂိုလ်တို့နည်း။(၁၄၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သူတစ်ပါးအကြောင်းအရာကို သိအောင်ချောင်းမြောင်းတတ်သော သူလျှိုသည် ပြည်၏ နားမည်၏။ မြော်မြင်နိုင်သော ဟူးရားသမားသည် ပြည်၏ မျက်စိမည်၏။

❖❖❖❖❖

၈၅၄။ မျက်နှာတလည်၊ ခေါ်ရမည်၊ ယင်းသည်မှာလည်း မည်သူနည်း။(၁၄၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အဆင်းအရောင်နှင့် ပြည့်စုံသော သမီးလုလင်းသည် ပြည့်မျက်နှာမည်၏။

❖❖❖❖❖

၈၅၅။ ထန်းရည် အုန်းရည်၊ စနွန်းရည်၊ ပုံးရည်ဘယ်သမာသ်တို့နည်း။(၁၄၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ထန်းပင်မှဖြစ်သော အရည်ကို ထန်းရည်ဆိုသည်ဖြစ်၍ မဇ္ဈေလောပ ပဥ္စမီ– တပ္ပုရိသ်ဟု ဆိုအပ်၏။ မာဂဓဘာသာဆိုမူ ''တာလတော ပဝတ္တော ရသော တာလရသော''ဟု ဝိဂြိုဟ်ပြုရမည်။ အကြွင်းလည်း နည်းတူကြံ။

❖❖❖❖❖

၈၅၆။ အင်္ဂတေသည်၊ ဒဂုန်တည်၊ ကော်ရည်ဘယ်မျှ ထည့်သနည်း။(၁၄၈)

၈၅၇။ တင်လဲ ကော်ရည်၊ ဥသျှစ်ရည်၊ မည်သည့်များလျှင်ပပ်သနည်း။(၁၄၉)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား–

ကြဖုဧကေ၊ ဒွယတင်လဲ၊ ဆင့်ကဲသုံးဆ၊ ဥသျှစ်မှလျှင်၊ ခြောက်ဆ ကော်ရည်၊ ထည့်သည်မှန်လှ၊ ဆယ့်နှစ်ဆကား ယူထအုံတုံ၊ ငါးပါးစုံကို၊ ရောကုန်အမြဲ၊ ထုံးနှင့်သဲလည်း၊ ယှဉ်တွဲတူမျှ၊ ချင့်ပြီးမှလျှင်၊ ရောထကော်ရည်၊ ထောင်းသည် လေးခါ၊ ညက်ပြီးစွာလျှင်၊ မြတ်စွာရောင်ဟုန်၊ ရွှေတိဂုံကို၊ တည်တုံအစ၊ ပထမ၌၊ လုပ်ကြဖူးလေ၊ အင်္ဂတေသည်၊ မာတွေခိုင်လှ ကျောက်တမျှ။

တင်လဲလွန်သော် အင်္ဂတေမာသည်။ ကောင်းသည်။ ချောသည်။ ကော်ရည် လွန်သော် တင်းလွယ်၊ မာလွယ်သည်။ ဥသျှစ်အကျိုးကားခိုင်သည်။ အရောင် ကောင်းသည်။ လွန်၍များသော် ပပ်သေးထတတ်သည်ဟူ၍ ဗိသုကာ စာဟောင်း၌ ဆိုသည်။

❖❖❖❖❖

၈၅၈။ ဂြိုဟ်အတည်တည်၊ လက်ပူးသည်၊ မည်ဂြိုဟ်မည်ကျောက်ဝတ်ပိမ့်နည်း။(၁၅၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

လက်နှင့် တနင်္ဂနွေ၊ ပူးတုံပေမူ၊ လျှံဝေနီတွား၊ ပတ္တမြားဝတ်ရာ၊ တနင်္လာမူ၊ မုတ္တာလုံးလှ၊ ဘောမ သန္တာ၊ ဗုဒ္ဓကား မြ၊ ဇီဝမည်ပေး၊ ကြာသပတေး ကြောင်၊ ထို့နောင်သောကြာ၊ ပူးသည်မှာကား၊ စိန်သာ ဝတ်ပေ၊ စနေ နီလာ၊ ရာဟု ဂေါမုတ်၊ ဥဿဖယား၊ ဤကျောက်များကို၊ ရွှေသားပေါ်တွင်၊ တင်၍ ဆင်မူ၊ များဖြင်လာဘ်သပ်၊ ကောင်းမြတ်မင်္ဂလာ၊ ပွင့်လင်းသာသည်။ လက်မှာဂြိုဟ်ပူး ဆင်ဇာမ်းတည်း။ ။

❖❖❖❖❖

### ၈၅၉။ နေသို့ရောင်ခြည်၊ ထွန်းလှသည်၊ မည်ကျောက်၊ အမျိုးဆိုပိမ့်နည်း။(၁၅၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကုန္ဒနီလာကျောက် အဆင်းကား နေရောင်ခြည်ကဲ့သို့ရှိ၏။ ရွှေတစ်ကျပ်ထက် တင်လောက်မူ သိင်္ဂနိက်ရွှေစင် သုံးဆယ်တန်၏ဟူ၍ မဏိသျှုတ္တြ၌ ဆိုသည်။

❖❖❖❖❖

### ၈၆၀။ အဌမုခ်သည်၊ အင်းထူးလည်၊ မည်ဂဏန်းက စသနည်း။(၁၅၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဓာတ် ၄–ပါးကိုစွဲ၍ ၄–ခုတည်။ ၁၂–ရာသီကိုစွဲ၍ ၁၂–တိုး။ ပထမအင်း။ အကျိုးကား ပြည်ရွာစည်ပင်ပြန့်ပွား၏။ ၁၂ ခုတည်။ ၁၁–ခုတိုး။ ဒုတိယအင်း။ များစွာသော ရွှေ, ငွေ, ကျောက်သံပတ္တမြားနှင့် ပြည့်စုံ၏။ ။ ၂၀–တည်။ ၁၀–တိုး။ တတိယအင်း။ များစွာသော ကျွန် သမီး, ကျွန်ယောက်ျားနှင့် ပြည့်စုံ၏။ ။ ၂၈–ခုတည်။ ၉–ခုတိုး။ စတုတ္ထအင်း။ ခပ်သိမ်းသောအမှုတို့၌ ပြီးစီး၏။ ပိယသိဒ္ဓိပြီး၏။ ။ ၃၆–ခုတည်။ ၈–ခုတိုး။ ပဉ္စမအင်း။ ။ အပါး ၃၀–ပြီး၏။ ။ ၄၄–ခုတည်။ ၇–တိုး။ ဆဌအင်း၊ ကျွန်, ကျွဲ, နွား စီးပွားများ၏။ ၅၂–ခုတည်။ ၆–ခုတိုး။ သတ္တမအင်း။ သူတစ်ပါးတို့၏ အတတ် ပညာကို ဟန့်တားတတ်၏။ ။ ၆၀–တည်။ ၅–ခုတိုး။ အဌမအင်း။ အခြံအရံပွားစီး၏။ ။ ၆၈–ခုတည်။ ၄–ခုတိုး။ နဝမအင်း။ အိမ်၌ရှိသော လူသူ ကျွဲနွား အန္တရာယ်မရှိ ချမ်းသာ၏။ ၇၆–ခုတည်။ ၃–ခုတိုး။ ဒသမအင်း။ စည်းစိမ်ဥစ္စာ ရွှေ, ငွေ, ရတနာနှင့် ပြည့်စုံ၏။ ။ ၈၄–ခုတည်။ ၂–ခုတိုး။ဧကာဒသမအင်း။ ချမ်းသာပွား၏။ ။ ၉၂ခုတည်။ ၁–ခုတိုး။ ဒွါဒသမအင်း။ ခပ်သိမ်းသော ဘေးဒဏ်ရန်မာန်ကို ပျောက်စေတတ်၏။ ။ ဤသို့ အင်းကျမ်း၌ ဆိုသည်ကို ထောက်၍ ဂဏန်းပုံစံကို သိရမည်။

❖❖❖❖❖

### ၈၆၁။ ရန်သူချင်းသည်၊ ချစ်စိမ့်မည်၊ ပတ်လည်ဘယ်ဂြိုဟ်ရံပိမ့်နည်း။(၁၅၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အဌမုခ်စတုတ္ထအင်း၊ နဝမအင်းတို့၌၊ အောင်–ပါ၊ ကု–လား၊ ဆွေ–သား၊ တော်ရင်းဟူသည့်အတိုင်း မိတ်ဂြိုဟ်နှစ်လုံးစီ ရံ၍ဆောင်ရမည်။

❖❖❖❖❖

၈၆၂။ မိန်းမမြုံသည်၊ ဖွားစိမ့်ရည်၊ မည်အဋ္ဌမုန် ချပိမ့်နည်း။(၁၅၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

၈၄–ခုတည်။ ၂–ခုတိုးသော ကောဒသမအင်းကို ဆောင်စေ။

ကောဒသာ၊ ဆယ့်တစ်ဖြာ၏၊ တေဇာတန်ခိုး၊ အင်းအကျိုးကား၊ သားမျိုးမရ၊ ကုဋ္ဌိယတို့၊ ပုတ္တရတနာ၊ ဓိတရာလျှင်၊ မြန်စွာမုချ၊ ရတို့မယွင်း။ ဆောင်လေလျှင်းလော့။ ။ ဟူ၍ ဆိုသည်။

◆◆◆◆◆

၈၆၃။ ချိန်ခွင်လျှာသည်၊ စာစပ်ရည်၊ ဖွေနည်ဘယ်သို့ ငြားလိမ့်နည်း။ (၁၅၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''င''သတ် နှစ်ခုအလယ်၌ ''ဥ'' ငယ်သတ်ကိုထားခြင်း ''မ''သတ်နှစ်ခု အလယ်၌ 'န'သတ်ကို ထားခြင်း။ 'န'သတ်နှစ်ခုအလယ်၌ 'မ'သတ်ကိုထားခြင်း။ 'ပ' သတ်နှစ်ခု အလယ်၌ 'တ'သတ်ကိုထားခြင်း၊ 'တ'သတ်နှစ်ခုအလယ်၌ 'ပ'သတ်ကို ထားခြင်း။ ဤသို့ အသံတူကာရန်၌ အသတ်မတူသည်ကို အလယ်၌ထား၍ စပ်ခြင်းသည် ချိန်ခွင်လျှာစပ်နည်း မည်၏။

ပုံကား။ ။ ကိုးသန်းခြောက်သောင်း၊ ချင့်ပေါင်းထူထု၊ ဝါယုသက်ပြင်၊ ရေအယဥ်လည်း။ စီးသွင်ခြိမ့်ခြိမ့်၊ ဘယ်မလိမ့်ဘဲ၊ လေးသိန်္နသချ၊ သောင်းရှစ်ဖြာဖြင့်၊ ဟူ၍လည်းကောင်း။ ပြည့်တာဝတိန်၊ ကြခိုက်ကြိမ်တွင်၊ ကျွတ်ချိန်သင့်လျော်၊ ကံကြီးပေါ် ၏။ ဟူ၍ လည်းကောင်း စပ်တော်မူသည်။

◆◆◆◆◆

၈၆၄။ ညွန့်ရှည်ခေါ်သည်၊ ထွေထူးလည်၊ သည်လည်းဘယ်သို့ရှိလိမ့်နည်း။(၁၅၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အသတ်များ၍ ချသည်။

◆◆◆◆◆

၈၆၅။ တောင်တိုင်အောင်ရည်၊ မိုးရေကြည်၊ ရွာသည်ဘယ်အဝဇီနည်း။ (၁၅၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အာ ပဗ္ဗတာ ဒေဝေါ ဝဿတိ။ မရိယာဒ အဝဓိမည်သည်။

◆◆◆◆◆

၈၆၆။မြို့တိုင်အောင်သည်၊ ကျော်စောသည်၊ ယင်းသည်မှုလည်းဘယ်သို့နည်း။(၁၅၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အဝဓိ စ မရိယာဒါဘိဝိဓိဝသေန ဒုဝိဓော၊ တတ္ထ အာပါဋလိပုတ္တံ ဝုဋ္ဌော ဒေဝေါတိအာဒီသု ဝိယ ကိရိယံ ဗဟိ ကတွာ ပဝတ္တော မရိယာဒေါ။ အာဘဝဂ္ဂ

သဒ္ဒေါ အဗ္ဘုဂ္ဂတောတိ အာဒီသု ဝိယ ကိရိယံ ဗျာပေတွာ ပဝတ္တော အဘိဝိဓိ။ ။ ဋီကာကျော်။ အနက်လွယ်၏။

◆◆◆◆◆

၈၆၇။ မင်းသားဘယ်မည်၊ မငိုသည်၊ သည်မည် ဘယ်အနက်ပေနည်း။ (၁၅၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မင်းသားသည် ဘယ့်ကြောင့်မငိုသနည်းဟု မေးလိုရာ၌ ဘယ်မည်၍ မငိုသနည်းဟု မေးသည် ဖြစ်ရကား ဟိတ်အနက် ဟူပေ။

◆◆◆◆◆

၈၆၈။ ငါလျှင်ဝံ့ရည်၊ စွန့်တော့မည်၊ သည်မည်ဘယ်သို့ ထူးသနည်း။ (၁၆၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဇီဝိတံ၊ အသက်ကို။ ပရိစ္စဇာမိ၊ ငါစွန့်အံ့။ ငါစွန့်မည်။ ။ ဤအရာ၌ဖြစ်ရကား အနာဂတ်အနက် ဟူပေ။

◆◆◆◆◆

၈၆၉။ ကစားကကြည်၊ ပြောရမည်၊ မည်ချင်းကွဲ၏။ဘယ့်နှယ်နည်း။ (၁၆၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- စီရင်ခြင်းဟူသော ဝိဓိအနက် ကို ဟော၏။

◆◆◆◆◆

၈၇၀။ မင်းနေရွှေပြည်၊သာတော့သည်၊သည်သည် ဘယ်အနက်ဟောပေနည်း။(၁၆၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား။ ကိရိယာမျှသာဖြစ်၏။

◆◆◆◆◆

၈၇၁။ မြင်းမိုရ်ဘုန်းစည်၊ သူဇာသည်၊ သည်သည်မူကားဘယ်သို့နည်း။(၁၆၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ကတ္တားအနက်ကို ဟော၏။

ထိုစကားကို ထင်စွာဆိုဦးအံ့-မြန်မာ့ဝေါဟာရ၌ ''သည်'' ဟူသော သဒ္ဒါသည် ကတ္တားအနက်၊ ကိရိယာအနက်၊ ညွှန်ပြခြင်းဟူသော နိဒဿနအနက်၊ သည်ပိုးဆောင်ရွက်ခြင်း အနက်တို့၌ ဖြစ်သည်။

ပုံကား ''ငါးခါတေဒဂ်၊ မိန့်မြွက်သံတော်၊ ကောင်းချီးခေါ်သား၊ ရှင်ကျော် မထေရ်၊ ညီတော်သည်လျှင်၊''ဟူသော ဝါကျတို့၌ ကတ္တားအနက်၌ ဖြစ်သည်။ ''ပြောသည်၊ ဆိုသည်၊ စားသည်၊ သွားသည်''ဟူသော ဝါကျတို့၌ ကိရိယာအနက်၌ 86 B

ဖြစ်သည်။ ''ရုပ်သွင်နွဲ့သွယ်၊ သည်မိမယ်ကား၊ မျိုးနွယ်တော်ကာ၊ မဟုတ်ပါဘူး'' ဟူသော ဝါကျတို့၌လည်းကောင်း။ ''သည်သူ့ကိုသာ၊ ကြင်နာမရဲ၊ သာဆက်ကဲ၏'' ဟူသောဝါကျတို့၌လည်းကောင်း ပြည္ခုန်းခြင်း နိဒဿန အနက်၌ ဖြစ်သည်။ ''အသည်သူကြွယ်၊ အသည်ကြီး''ဟူသော စကားတို့၌ သယ်ပိုးရွက်ဆောင်ခြင်း၌ ဖြစ်သည်။ ဤပုံကို စာနာ၍ သိရ၏ဟူပေ။

❖❖❖❖❖

## ၈၇၂။ ရုစိတွင်မည်၊ ဂါထာသည်၊ မည်သို့ဆန်းဂိုဏ်း နေသနည်း။(၁၆၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မောဿ ရုစိ ယထာ၊

တိဏ္ဏောဟံ၊ တာရေဿံ၊ ဝေနေယျံ၊ ဒုဿန္နံ။

မ–ဂိုဏ်းချည်းလေးပါဒရှိသော ဂါထာသည်- ရုစိဂါထာမည်၏။ မဗ္ဗ ၁ ဆန်းတည်း။

အဟံ၊ သုမေဓာဖြစ်သော ငါသည်။ တိဏ္ဏော၊ သံသရာမှကူးမြောက်မူကား။ ဒုဿန္နံ၊ သံသရာမြစ်၌ မွန်းနစ်သော။ ဝေနေယျံ၊ ကျွတ်ထိုက်သော သတ္တဝါအပေါင်းကို။ တာရေဿံ၊ ကယ်တင်ပေအံ့။ အနက်ပေး။

❖❖❖❖❖

## ၈၇၃။ တ–ဂိုဏ်းတလည်၊ ယ–ဂိုဏ်းတည်၊ မည်ဂါထာဟု ဆိုပိမ့်နည်း။(၁၆၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တျာ စေ တနုမဇ္ဈ ာ။ ဂါယတ္တိ။

ယဿ၊ အကြင်ဂါထာ၏။ စတူသု ပါဒေသု၊ လေးပါးဒတို့၌။ တျာ၊ တဂိုဏ်း, ယဂိုဏ်းတို့သည်။ စေ သိယာ၊ အကယ်၍ ဖြစ်အံ့။ သာ၊ ထိုဂါထာသည်။ တနုမဇ္ဈ ာ၊ တနုမဇ္ဈ ာ ဂါထာမည်၏။ ဂါယတ္တိ၊ ဂါယတ္တိဆန်းတည်း။

❖❖❖❖❖

## ၈၇၄။ ဥဏှိုဆန်းသည်၊ဂိုဏ်းနှစ်တည်၊မည်သည် မည်သည့်ဂိုဏ်းတို့နည်း။(၁၆၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကုမာရလလိတာ ဇသာ ။ ဥဏှိ။

ယဿ၊ အကြင်ဂါထာ၏။ စတူသု ပါဒေသု၊ လေးပါဒတို့၌။ ဇ္သာ၊ ဇဂိုဏ်း–သဂိုဏ်း ဂရုတို့သည်။ စေ သိယုံ၊ အကယ်၍ဖြစ်ကုန်အံ့။ သာ၊ ထိုဂါထာသည်။ ကုမာရလလိတာ၊ ကုမာရလလိတာ ဂါထာမည်၏။ ဥဏှိ၊ ဥဏှိဆန်းတည်း။

❖❖❖❖❖

၈၇၅။ ပဥ္စမီသည်၊ ဆယ့်လေးမည်၊ သက်သည် ဘယ်အနက်တို့နည်း။(၁၆၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပဥ္စမီ စုဒ္ဒသတ္ထော စ။ ကတမော–

အဝဓိ ဘုမ္မိ သမ္ဗန္ဓေ၊ ကမ္မဟေတု တတိယာ စ။

ဂုဏာဒ္ဒိန ဝိဝိတ္တတ္ထော၊ မဇ္ဈေ ပဘဝရက္ခဏေ။

ယောဂတ္ထေ စ ကာလတ္ထေ စ၊ စုဒ္ဒသတ္ထေ ပဥ္စမီ ဘဝေ။

ဟူ၍ ဝိတျပ္တ၌ မိန့်သည်နှင့်အညီ–အပါဒါန်အနက်၊ သတ္တမီအနက်၊ သမ္ဗန် အနက်၊ ကံအနက်၊ ဟိတ်အနက်၊ တတိယာအနက်၊ ဂုဏ်အနက်၊ အခွန့်ကို ဟောသောအနက်၊ ဆိတ်သောအနက်၊ ကာရကမဇ္ဈ, ကိရိယာမဇ္ဈအနက်၊ ပဘဝ အနက်၊ ရက္ခဏအနက်၊ ယောဂအနက်၊ ကာ သဒ္ဒါ၏အယှဉ် ကာလကို ဟောသော အနက်၊ ဤတစ်ဆယ့် လေးပါးတို့၌ ပဥ္စမီဝိဘတ် သက်သည် ဟူပေ။

ဥဒါဟရဏ်ကို ဒ္ဒင်းသဒ္ဒါငယ်တွင်ယူ။

◆◆◆◆◆

၈၇၆။ ဆဋ္ဌီသက်သည်၊ ဆယ့်တစ်လည်၊ မည်သည့်မည်သည့်အနက်နည်း။(၁၆၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဆဋ္ဌီ ကောဒသတ္ထော။ ကတမော–

သာမျတ္ထေ ဟေတုယောဂတ္ထေ၊ ကတ္တုကမ္မေ ကရဏေ စ။

အဝဓျနာဒရတ္ထေသု၊ နိဒ္ဓါရဏာ ဘုမ္မေပိ စ။

တဒတ္ထေကာဒသတ္တမို၊ ဆဋ္ဌိယာ ဝါစကာ မတာ။

ဟူသော ဝိဘတျတ္ထနှင့်အညီ သာမိအနက်၊ ဟေတုအနက်၊ အဓိပတိအယှဉ် ကတ္တား အနက်၊ ကံအနက်၊ ကရိုဏ်းအနက်၊ အပါဒါန်အနက်၊ အနာဒရအနက်၊ နိဒ္ဓါရဏ အနက်၊ သတ္တမီအနက် တဒတ္ထသမ္ပဒါန်အနက်၊ ဤတစ်ဆယ့်တစ်ပါးသော အနက်တို့၌ ဆဋ္ဌီဝိဘတ် သက်သည်။

◆◆◆◆◆

၈၇၇။ ကျောက်စာတစ်လည်၊ ရေးပါသည်၊ ဝသည်ဆွဲအံ့ မည်သို့နည်း။(၁၆၉)

၈၇၈။ တထူးတစ်လည်၊နောက်ပစ်မည်၊ယင်းသည် ဘယ်သို့ဖတ်ပိမ့်နည်း။(၁၇၀)

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား– ဝဆွဲဆိုလျှင်၊ လုံးကြီး တင်လော့၊ တစ်အင်နောက်ပစ်၊ ဟထိုးဖြစ်၏။

◆◆◆◆◆

**၈၇၉။ ကော်တင်ပါမည်၊ကျောက်စာသည်၊ထူးလည်ဖတ်နည်းဘယ်သို့နည်း။(၁၇၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရေးချလိုငြား၊ ကော်တင်ထားလော့၊ နှစ်ကားလုံးကြီး၊ သုံးခုစီးမူ၊ ဆံခတ်ဟူ၏။ တစ်ဆူချောင်းငင်၊ လေးဆွဲပင်တည့်၊ ငါးလျှင်ဆွဲက၊ နှစ်ချောင်းပြရှင့်၊ ဆကားသဝေ၊ သတ်တုံပေမူ၊ အနေအောက်က၊ ခုနစ်ပြလော့၊ အဌတင်လစ်၊ သေးတင်ဖြစ်၏၊ ဝိသဇ္ဇနီ၊ ကိုးနှစ်လီတည့်၊ ကပ်မှီယှဉ်နွဲ၊ ဝဆွဲဆိုလျှင်၊ လုံးကြီးတင်လော့၊ တစ်အင်နောက်ပစ်၊ ဟထိုးဖြစ်၏။ ရစ်မူတွေ့ပြဲ ပင့်မြဲမောက်ချ၊ ဤနယသည်။ ရေးကကျောက်စာ ရေးထုံးတည်း။

❖❖❖❖❖

**၈၈၀။ မိဘကျွန်ရည်၊ သားသွားမည်၊ ကျွန်သည်ဘယ်မှာလွတ်မည်နည်း။(၁၇၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–သားလာမှ လွတ်မည်။

❖❖❖❖❖

**၈၈၁။ လက္ခဏာသည်၊ ဗျိုင်းဥှတည်၊ တစ်မည် ဘယ်လက္ခဏာနည်း။(၁၇၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဣန္ဒြိယာနိ သုသံယမ၊ ဗကောဝ ပဏ္ဍိတော ဘဝေ။**

**ဒေသကာလော ပပန္နာနိ၊ သဗ္ဗကမ္မာနိ သာဓယေ။**

ပဏ္ဍိတော၊ ပညာရှိသောမင်းသည်။ ဣန္ဒြိယာနိ၊ စက္ခုစသော ဣန္ဒြေတို့ကို။ သုသံယမ၊ ကောင်းစွာစောင့်၍။ ဗကောဝ၊ ငါးကိုစောင့်သော ဥဗျိုင်းကဲ့သို့။ ဘဝေ၊ ဖြစ်ရာ၏။ ဒေသကာလောပပန္နာနိ၊ အရပ်အခါတည်း ရောက်လတ်မူကား။ သဗ္ဗကမ္မာနိ၊ ခပ်သိမ်းသော အမှုတို့ကို။ သာဓယေ၊ ပြီးစေရာ၏။

ဤသို့ ရာဇနီတိဆိုရကား ဥဗျိုင်း၌ ဣန္ဒြေကိုစောင့်ခြင်းဟူသော လက္ခဏာကို ယူ၍ မင်းတို့သည် ဣန္ဒြေစောင့်ခြင်းဖြင့် ကျင့်ရာ၏ဟူလိုသည်။

❖❖❖❖❖

**၈၈၂။ လေပါးလုံးသည်၊ကြက်ဥှတည်၊ထူးလည် ဘယ်လက္ခဏာနည်း။(၁၇၄)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပုဗ္ဗုဋ္ဌာနဥ္စ၊ ယုဒ္ဓဥ္စ သံဝိဘာဂဥ္စ ဗန္ဓုဟိ။**

**ထိယာ အက္ကမ္မ ဘုတ္တဥ္စ၊ သိက္ခေ စတ္တာရိ ကုက္ကုဋာ။**

ကုက္ကုဋာ၊ ကြက်တို့မည်သည်ကား။ ပုဗ္ဗုဋ္ဌာနဥ္စ၊ သူများရှေ့ဦး နိုးခြင်းလည်းကောင်း။ ယုဒ္ဓဥ္စ၊ ခွပ်ပွဲ၌ ရဲရင့်ခြင်းလည်းကောင်း။ ဗန္ဓုဟိ၊ အဆွေအမျိုးဖြစ်သော ကြက်တို့နှင့်။ သံဝိဘာဂဥ္စ၊ စားရာတို့ကို ခွဲဝေခြင်းလည်း ကောင်း။ ထိယာ၊ ကြက်မ၌။ အက္ကမ္မ၊ နှိမ်နင်း၍။ ဘုတ္တဥ္စ၊ မေထုန်မှီဝဲခြင်းလည်းကောင်း။ ဣတိ၊ ဤသို့။ စတ္တာရိ၊

လေးပါးသော အကြောင်းတို့ကို။ ကုက္ကုဋ္ဌာ၊ ကြက်မှ။ ဂဟေတွာ၊ အတုယူ၍။ သိက္ခေယျ၊ ကျင့်ရာ၏။

◆◆◆◆◆

၈၈၃။ ဂုဏ်သုံးပါးသည်၊ မြည်း၌တည်၊ ဘယ်သည်ဂုဏ်ဟုဆိုပိမ့်နည်း။(၁၇၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သိန္တောပိ ဝဟတေ ဘာရံ၊ သီတုဏှဉ္စ န စိန္တယိ။**

**သန္တုဋ္ဌော ဘဝေ နိစ္စံ၊ တီဏိ သိက္ခေယျ ဂဒြဘာ။**

ဂဒြဘော၊ မြည်းသည်၊ သိန္တောပိ၊ အားကုန်ဘိငြား ပင်ပန်းများသော်လည်း။ ဘာရံ၊ လေးသောဝန်ကို။ ဝဟတေ၊ ရွက်ဆောင်၏။ သီတုဏှဉ္စ၊ အချမ်းအပူကိုလည်း။ န စိန္တယိ၊ မကြံ။ နိစ္စံ၊ အမြဲ။ သန္တုဋ္ဌော၊ ရောင့်ရဲလွယ်သည်လည်း။ ဘဝေ၊ ဖြစ်၏။ ဣတိ၊ ဤသို့။ တီဏိ၊ သုံးပါးသော အကျင့်တို့ကို၊ ဂဒြဘာ၊ မြည်းမှ။ ဂဟေတွာ၊ ယူ၍။ သိက္ခေယျ၊ ကျင့်ရာ၏။

ဤသို့ ရာဇနီတိဆိုသည်ကိုထောက်၍ မြည်း၌ ဂုဏ်သုံးပါးကို သိရာသည်။

◆◆◆◆◆

၈၈၄။ တစ်ပိုင်း၌တည်၊ သဒ္ဒါသည်၊ ထူးလည်တစ်ပိုင်းလိုက်ချိမ့်နည်း။(၁၇၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တစ်ပိုင်းမှသည် တစ်ပိုင်းသို့ကူး၍ သဒ္ဒါလိုက်ရိုးမရှိ။ ။ [ဓာတ်ပျက်လက္ခဏာကို မေးသော ပုစ္ဆာကို အောက်မှာတူရာစု၍ ဖြေလိုက်အံ့]။

◆◆◆◆◆

၈၈၅။ ဝါယောဓာတ်သည်၊ ပျက်လမည်၊ ရိပ်ခြည် ဘယ်လက္ခဏာနည်း။(၁၇၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ဝါယောငုပ်နိုပ်၊ လေမိုးအိပ်၊ ပြည့်သိပ်ဝမ်းရင်ကား။

ဟူ၍ ဆိုသောကြောင့် ဝါယောဓာတ် ပျက်သောသူ ငုပ်သောသူတို့အား ဝမ်းရင်ကား၍ နေရသည်ဟူပေ။

◆◆◆◆◆

၈၈၆။ လေဓာတ်ပျက်မည်၊ ဆေးကုရည်၊ ဖွေနည်ဘယ်ဓာတ်ပေးလိမ့်နည်း။(၁၇၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

စုန်ဆန်မလာ၊ ပျက်ဝါတာ၊ ဝမ်းမှာလှည့်လျက်မွေ။
ဆားပြုတ်ကွမ်းရွက်၊ အစာဆက်၊ ချက်တွင်ဆားစလေ။

ဟူ၍ ဆိုသောကြောင့် ဆားပြုတ် ကွမ်းရွက်ရေ ပေးမည်ဟူပေ။

◆◆◆◆◆

၈၈၇။ မြေဓာတ်ထူးလည်၊ ရသာသည်၊ ချိုမည်ခါးမည် ဘယ်သို့နည်း။(၁၇၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မငန်မပျက်၊ ချိုမြက်ဆိမ့်အီ၊ ပထဝီရသာ၊ မှတ်အပ်စွာ၏။

◆◆◆◆◆

၈၈၈။ လေသင်တုန်းသည်၊ ကောင်းကင်တည်၊ မည်မျှမြင့်တို့လေလိမ့်နည်း။(၁၈၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရှာ၍မတွေ့။

◆◆◆◆◆

၈၈၉။ မီးဓာတ်မှာသည်၊ ထူးထွေလည်၊ မည်သို့ရသာ ရှိလိမ့်နည်း။ (၁၈၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

စပ်သည် ပူသည်၊ မီးဓာတ်စည်ရှင့်။ ။ ဤဓာတ် လက္ခဏာတို့သည် ဓာတုရသကျမ်း၊ ဓာတုဒီပနီကျမ်း၊ နရသုခိလင်္ကာစသည်တို့၌ ထင်ရှားစွာလာပြီဖြစ်၍ အကျယ်မဖြေလိုက်ပြီ။ ဖြေသော်လည်း တသတ်တည်းမဟုတ်၊ ပုစ္ဆာစဉ်သို့လိုက်၍ ဖြေရမည်ဖြစ်သောကြောင့် အမှတ်ခဲခက်သည်။ သိလိုသော သူတို့သည်လည်း ထိုဆေးကျမ်းတို့၌ လေ့လာ၍သိကြသည် များသောကြောင့် ကျယ်ပွားစွာ မဖြေလိုက်ပြီ။

◆◆◆◆◆

၈၉၀။ ဝါယောဓာတ်သည်၊ ပျက်လေသည်၊ မည်သို့ရှိတုံ၊ လေသနည်း။ (၁၈၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပုစ္ဆာနံပါတ် (၈၈၆)၌ ဖြေဆိုခဲ့သည်နှင့် မထူးမခြား၊ မှတ်သားရန် အဓိပ္ပါယ် အတူတူပင်။

◆◆◆◆◆

၈၉၁။ ဒသမူလည်၊ ဆေးအစာည်၊ မည်သည့်မည်သည့် ဆေးတို့နည်း။ (၁၈၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နလျှာ၊ သမန်းကျား။ သဝိတာ၊ ပျဉ်းတော်သိမ်။ ဂနိ၊ မြင်းခေါင်းနွယ်ယောင်။ ငွေကာ၊ သက်ရင်း, မဟာကာ။ ဒဟာသဂုဏာ၊ ဒဟာသဂိဏ်း။ အခေဒ္ဒိဝါ၊ နှပ်ချိုကြီးငယ်။ ရာမည္ဘာသော၊ ရာမည္တိုင်း မွန်တို့၏ ဘာသာဖြစ်သော ပန်းနု, ပန်းမ။ လမူနော၊ လမုန်းဆေး။ က္လမေ၊ ဤဆယ်ပါးတို့သည်။ ဒသမူလာ၊ ဒသမူလ မည်ကုန်၏။

◆◆◆◆◆

၈၉၂။ ကညာ၌တည်၊ ကကြီးသည်၊ မည်အနက်ကို ဟောသနည်း။(၁၈၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ကမ ဣစ္ဆာယံ။ ကာမီယတီတိ ကညာ။ ကုမာရီ။**

ကမ၊ ကမဓာတ်သည်၊ ဣစ္ဆာယံ၊ အလိုရှိခြင်း အနက်၌ဖြစ်၏။ ယာ နာရီ၊ အကြင်မိန်းမကို။ ပုရိသေဟိ၊ ယောကျ်ားတို့သည်။ ကာမီယတိ၊ အလိုရှိအပ်၏။ ဣတိ၊ ထို့ကြောင့်။ သာ နာရီ၊ ထိုမိန်းသည်။ ကညာ၊ ကညာမည်၏။ ကုမာရီ၊ ဆယ့်နှစ်နှစ်ရွယ် မိန်းမငယ်ကို။ လဗ္ဘတိ၊ ရ၏။ မောဂ္ဂလာန်။

**ကန ဒိတ္တိမှိ။ ကနတိ ဒိပ္ပတီတိ ကညာ။**

ကန၊ ကနဓာတ်သည်။ ဒိတ္တိမှိ၊ ထွန်းပခြင်း အနက်၌ဖြစ်၏။ ယာနာရီ၊ အကြင် မိန်းမသည်။ ကနတိ ဒိပ္ပတိ၊ အရောင်အဆင်းအားဖြင့် ထွန်းပတတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ သာ နာရီ၊ ထိုမိန်းမသည်။ ကညာ၊ ကညာမည်၏။ ။ အဘိဓာန်ဋီကာ။

**ကညာတိအာဒီသု ပုရိသေ။ တတ္ထ ဟိ ကံ ပုရိသံ ဧ ့တိ ဗောသေ တီတိ ကညာ၊ ပုရိသေဟိ အပရိဘုတ္တပုပ္ဖတရုဏိတ္ထီတိ အတ္ထော။**

ကညာတိ အာဒီသု၊ ကညာစသောပါဌ်တို့၌။ ပုရိသေ၊ ယောကျ်ားဟူသော အနက်၌။ ပဝတ္တတိ၊ ဖြစ်၏။ ဟိ၊ ထင်စွာဆိုဦးအံ့။ တတ္ထ၊ ထိုဥဒါဟရဏ်၌။ ကံ ပုရိသံ၊ ယောကျ်ားကို။ ဧ ့တိ တောသေတိ၊ နှစ်သက်စေတတ်၏။ ဣတိ တသ္မာ၊ ထို့ကြောင့်။ ကညာ၊ ကညာမည်၏။ ပုရိသေဟိ၊ ယောကျ်ားတို့သည်။ အပရိဘုတ္တ ပုပ္ဖတရုဏိတ္ထီ၊ ရောစပ်ယှက်ဆုံ ကာမဂုဏ်ဖြင့် မသုံးဆောင်ဖူးသေးသော မိန်းမပျို တို့တည်း။ ဣတိ အတ္ထော၊ ဤကား အနက်တည်း။ ။ ကေက္ခရကောသဋီကာ။

ဤသို့ ကျမ်းဆရာမိန့်သောကြောင့် ကညာပုဒ်၌ 'က'ကြီးသည် ဣစ္ဆာအနက်, ဒိတ္တိအနက်, ပုရိသအနက်တို့ကိုဟော၏ ဟူပေ။

**အဋ္ဌဝဿာ ဘဝေ ဂေါရီ၊ ဒသဝဿာ တု ကညကာ။**
**ဒွါဒသေ သမ္ပတ္တေ ဝဿေ၊ ကုမာရီတျာဘိဓီယတေ။**

**အဋ္ဌဝဿာ၊ ရှစ်နှစ်အရွယ်ရှိသော မိန်းမငယ်သည်၊ ဂေါရီ၊ ဂေါရီမည်သည်။ ဘဝေ၊ ဖြစ်၏။ ဒသဝဿာ တု၊ ဆယ်နှစ်အရွယ်ရှိသော မိန်းမငယ်သည်ကား။ ကညကာ၊ ကညာမည်သည်။ ဘဝေ၊ ဖြစ်၏။ ဒွါဒသေ သမ္ပတ္တေ ဝဿေ၊ တစ်ဆယ့်နှစ်နှစ်အတွင်းသို့ ရောက်သောအခါ၌။ ကုမာရီတိ၊ ကုမာရီဟူ၍။ အဘိဓီယတေ၊ ဆိုအပ်၏။**

ဤသို့ အဘိဓာန်ဋီကာမိန့်ရကား ဆယ်နှစ်အရွယ်ရှိသော မိန်းမငယ်သည်ကား ကညာမည်၏ဟု မှတ်ရမည်။

ရာဇမတ္တဏ်စသော ပေဒင်ကျမ်းတို့ကား ရှစ်နှစ်မပြည့်သော မိန်းမသည် သတိပျောတာ မည်၏။ ဆယ်နှစ်ပြည့်မှု ပျောတာ မည်၏။ တစ်ဆယ့်နှစ်နှစ်အတွင်း၌ ကညာမည်၏။ တစ်ဆယ့်ငါးနှစ်အတွင်းသည် ကုမာရီမည်၏။ တစ်ဆယ့်ရှစ်နှစ်အတွင်းသည် တရုဏီမည်၏ဟု ဆိုသည်။

❖❖❖❖❖

၈၉၃။ မဏ္ဍပေါသည်၊ ပုဒ်ကိုတည်၊ မ သည် ဘယ်အနက်ဟောနည်း။(၁၈၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**မဏ္ဍ ဝိဘူသနေ၊ မဏ္ဍေတိ ဇနံ။ မဏ္ဍီယတိ၊ ဇနေဟီတိ ဝါ မဏ္ဍပေါ။ ဇနာသယော။**

မဏ္ဍ။ မဏ္ဍသဒ္ဒါသည်။ ဝိဘူသနေ၊ တင့်တယ်စွာ တန်ဆာဆင်ခြင်း အနက်၌။ ဝတ္တတိ၊ ဖြစ်၏။ ဇနံ၊ လူကို။ မဏ္ဍေတိ၊ ကြည်လင်စေတတ်၏။ ဝါ၊ တစ်နည်းကား။ ဇနေဟိ။ လူတို့သည်။ မဏ္ဍီယတိ၊ ကြည်လင်အပ်၏။ ဣတိ၊ ထို့ကြောင့်။ မဏ္ဍပေါ၊ မဏ္ဍပမည်၏။ ဇနာသယော၊ လူတို့စုဝေးရာကို။ လဗ္ဘတိ၊ ရအပ်၏။ ။ မောဂ္ဂလာန်မိန့်သည့်အလို၌ 'မ'သည် ဝိဘူသန အနက်ကို ဟော၏။

❖❖❖❖❖

၈၉၄။ မာလာပုဒ်သည်၊ ပန်းဟောမည်၊ မာသည်ဘယ်အနက်ဟောနည်း။(၁၈၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**မာလာတိအာဒီသု မာသဒ္ဒေါ ဘိင်္ဂေ။ တတ္ထ ဟိ မာ ဘမရာ လလန္တိ ကီဠန္တိ ဧတ္ထာတိ မာလာ။**

မာလာတိအာဒီသု၊ မာလာစသည်တို့၌။ မာသဒ္ဒေါ၊ သည်။ ဘိင်္ဂေ၊ ပိတုန်းဟူသော အနက်၌။ ဝတ္တတိ၊ ၏။ ဟိ၊ ထင်စွာဆိုဦးအံ့။ တတ္ထ၊ ထိုပုဒ်၌။ ဧတ္ထ၊ ဤပန်းပွင့်၌။ မာ ဘမရာ၊ ပျား, ပိတုန်းတို့သည်။ လလန္တိ ကီဠန္တိ၊ ဝတ်ယက်သောက်စား ပျော်ပါး ပျံမြူးကုန်၏။ဣတိ၊ ထို့ကြောင့်။ မာလာ၊ မည်၏။ ကေကွရဋီကာမိန့်ရကား မာ–သဒ္ဒါသည် ပိတုန်းဟူသော အနက်ကိုဟော၏။

မာ မာနေ မိယျတိ ပမိယျတီတိ မာလာ။ ပန္တိ။ မောဂ္ဂလာန်မိန့်သည်၌ အစဉ်ကို ဟောသော မာလာသဒ္ဒါ၏အနက်ကို ပြသည်။

❖❖❖❖❖

၈၉၅။ ဝါနရတည်၊ မျောက်ဟောသည်၊ ယင်းသည် ဝါလည်း ဘယ်ဟောနည်း။(၁၈၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဝါနရောတိအာဒီသု ဝါဓာတု သမေ ဟောတိ။ တတ္ထဟိ ဝါတိ သမေတီတိ ဝါ။ ဝါသဒိသော နရော ဝါနရော။ မက္ကဋောတိ အတ္ထော။**

ဟူ၍ ကေကွရရဋီကာမိန့်ရကား ဝါသဒ္ဒါသည် အတူဟူသော သဒိသ အနက်ကို ဟော၏။

◆◆◆◆◆

၈၉၆။ မြင်ရုံနှင့်သည်၊ ကိုယ်ဝန်တည်၊ မည်သည့်မည်သည့် မိန်းမနည်း။(၁၈၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ကထံ ဒဿနေန ဂဗ္ဘဂ္ဂဟဏံ ဟောတိ။ ဣဓေကစ္စာ ဣတ္ထိယော ဥတုသမယေ ပုရိသသံသဂ္ဂံ အလဘမာနာ ဆန္ဒရာဂဝသေန အန္တောဂေဟ ဂတာဝ ပုရိသံ ဥပနိဇ္ဈာယတိ ရာဇောရောဓာ ဝိယ။ သာ တေန ဂဗ္ဘံ ဂဏှာတိ။ ဧဝံ ရူပဒဿနေန ဂဗ္ဘဂ္ဂဟဏံဟောတိ။ ။ ဝိနည်း အဋ္ဌကထာ။**

ရူပဒဿနေန၊ အဆင်းကိုမြင်သဖြင့်။ ဂဗ္ဘဂ္ဂဟဏံ၊ ကိုယ်ဝန်ယူခြင်းသည်။ ကထံ ဟောတိ၊ အဘယ်သို့ဖြစ်သနည်း ဟူမူကား။ ဧကစ္စာ၊ အချို့ကုန်သော။ ဣတ္ထိယော၊ မိန်းမတို့သည်။ ဥတုသမယေ၊ ဥတုလာသောအခါ၌။ ပုရိသသံသဂ္ဂံ၊ ယောကျ်ားတို့၏ နှီးနှော သုံးသပ်ခြင်းကို။ အလဘမာနာ၊ မရသည်ရှိသော်။ ရာဇောရောဓာ ဝိယ၊ မင်း၏ မောင်းမကဲ့သို့။ ဆန္ဒရာဂဝသေန၊ အားကြီးသော ရာဂ၏ အစွမ်းအားဖြင့်။ အန္တော ဂေဟဂတာဝ၊ အိမ်တွင်း၌ နေလျက်လျှင်။ ပုရိသံ၊ ယောကျ်ားကို။ ဥပနိဇ္ဈာယတိ၊ စိန်းစိန်းကြည့်၏။ သာ၊ ထိုမိန်းမသည်။ တေန၊ ထိုကြည့်ခြင်းအမှုဖြင့်။ ဂဗ္ဘံ ကိုယ်ဝန်ကို။ ဂဏှာတိ၊ ယူ၏။ ဧဝံ၊ ဤသို့။ ရူပဒဿနေန၊ အဆင်းကိုမြင်ခြင်းဖြင့်။ ဂဗ္ဘဂ္ဂဟဏံ၊ ကိုယ်ဝန်ယူခြင်းသည်။ ဟောတိ၊ ဖြစ်၏။

ယင်းသို့ အဆင်းကို မြင်ခြင်းဖြင့် ယူသောကိုယ်ဝန်သည် အောင်မြင်စွာ အရှည် မတည်တတ်၊ ပျက်စီးတတ်လေသောကြောင့် သားဖွားခြင်းကား မဖြစ်နိုင်။ နောက်ဆင့် အကြောင်းရှိသော သူသည် တစ်ယောက်တလေသာလျှင် သားဖွားခြင်း ဖြစ်သည်။ မြင်ရုံနှင့်တည်သော ကိုယ်ဝန်ကိုမဆိုဘိဦး–ယောကျ်ားတို့နှင့် သံသဂ္ဂဖြစ်၍ တည်သော ကိုယ်ဝန်မှုလည်း တစ်ကြိမ်စည်းဝေးသောကိစ္စသည် ခနစ်ရက်မျှသာ ကိုယ်ဝန်တည်ခြင်း အကြောင်းဖြစ်သည်။ ထိုအတွင်း၌ နောက်ထပ်ပစ္စည်းကို မရမူကား ပျက်လျှောလေသည်။ နောက်ထပ်ပစ္စည်းကို နှစ်ကြိမ် သုံးကြိမ်ရမူကား ကောင်းမွန်စွာ တည်နိုင်လေသည်ဟူ၍ ဂုဏ်ဝိနည်းဋီကာတို့၌ဆိုသည်။

◆◆◆◆◆

၈၉၇။ အာပတ်သင့်သည်၊ ပန်းပွင့်ရည်၊ ယင်းသည်ဘယ်ပန်းပွင့်ပေနည်း။ (၁၈၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အနဇာနာမိ ဘိက္ခဝေ သဗ္ဗံ ပုပ္ဖရသံ ဌပေတွာ မဓူကပုပ္ဖရသံ။**

ဟူ၍ ဝိနည်းမဟာဝါပါဠိတော်၌ ဟောတော်မူသည်။

ဘိက္ခဝေ၊ ရဟန်းတို့။ မဓုကပုပ္ဖရသံ၊ သစ်မည်စည်ပွင့်ရည်ကို။ ဌပေတွာ၊ ထား၍။ သဗ္ဗံ၊ အလုံးစုံသော။ ပုပ္ဖရသံ၊ အပွင့်ရည်ကို။ အနုဇာနာမိ၊ ငါခွင့်ပြုတော်မူ၏။

**မဓုကပုပ္ဖမည့္မတြ၊ သဗ္ဗပုပ္ဖရသော ပိစ။**

**သီတောဒမဒ္ဒိတောဒိစ္စ၊ ပါကောဝ ယာမကာလိကော။**

ဟူ၍ ခုဒ္ဒသိက္ခာ၌လည်း မိန့်သည်။

ထိုသို့မိန့်သောကြောင့် သစ်မည်စည်ပွင့်ကို အဖျော်ဟူ၍ မသုံးဆောင်အပ်။ သုံးဆောင်သော ရဟန်းအား ဒုက္ကဋ်အာပတ်သင့်၏။

◆◆◆◆◆

## ၈၉၈။ ရင်နို့တော်ရည်၊ သောက်ပါမည်၊ ဘယ်သည်ပုဒ်ဟု ဆိုလိမ့်နည်း။(၁၉၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ရင်နို့တော်ရည်၊ သောက်ပါမည်'' ဆိုသောစကားကို မဂဓ ဘာသာဖြင့် ဆိုသော် ''ဥရဇံ ထညံ ပိဝိဿာမီတိ ဥရဇထညပါယော'' ဟူ၍ ဆိုအပ်၏။ ဤပုဒ်၏ အနက်ကား–

ဥရဇံ၊ ရင်၌ဖြစ်သော။ ထညံ၊ နို့ရည်ကို။ ပိဝိဿာမိ၊ သောက်ပါအံ့။ ဣတိ၊ ထို့ကြောင့်။ ဥရဇထညပါယော၊ မည်၏။ ။ ထန သဒ္ဒါပြပဒပါဓာတ်။ ဏပစ္စည်း။ ဤသို့ရုပ်ပြီးသင့်ရကား ကိတ်ပုဒ်ဟု ဆိုပေ။

**ကမ္မနိ ဏော။ ။ ကမ္မနိ ဥပပဒေ ဏပစ္စယော ဟောတိ ဘဝိဿ တိကာလေ။ နဂရံ ကရိဿတီတိ နဂရကာရော ဝဇတိ။ ပ။ သိန္ဓုံ ပိဝိဿတီတိ သိန္ဓုပါယော ဝဇတိ။**

ဟူ၍ ဥဏာဒ်ကျမ်း၌လာသော သုတ်ကိုမှီ၍ သိရာသည်။ ခီရံ ပိဝိဿာမီတိ ခီရပါယော– ဟူ၍ လည်းကောင်း။ ဥရဇံ ပိဝိဿာမီတိ ဥရဇပါယော ဟူ၍လည်းကောင်း ဆိုသင့်၏။

◆◆◆◆◆

## ၈၉၉။ ရွှေငွေယူမည်၊ ရဟန်းထေရ်၊ သွားသည်ပြစ်လွတ်ဘယ့်ကြောင့်နည်း။(၁၉၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗလက္ကာရေန ပါတေတွာ၊ ဂတေသု ပဋိသာမိတုံ။
ဘိက္ခုံ မနုဿာ သက်န္တိ၊ နဒေ့ ဝတ္ထုမှိ တာဒိသေ။
ဝိဟာရာဝသထဿန္တော၊ ရတနံ တဿ သမ္မတံ။
နိက္ခိပေယျ ဂဟေတွာန၊ မဂ္ဂေ ရဉ္စေပိ တာဒိသေ။
သာမိကာနာဂမံ ဥ တွာ၊ ပတိရူပံ ကရိယတိ။

ဗလက္ကာရေန၊ နိုင်ငံထက်အတင်းဖြင့်။ ပါတေတွာ၊ ချထားခဲ့၍။ ဂတေသု၊ သွားကုန်သည်ရှိသော်။ ပဋိသာမိတုံ၊ ယူ၍သိုမှီးခြင်းငှာ။ ဝဋ္ဋတိ၊ အပ်၏။ ယာဒိသေ၊ အကြင်သို့ ရဟန်းနေသောအရပ်၌၊ ဝတ္ထုမ္ပိ၊ ဥစ္စာသည်။ နဋ္ဌေ၊ ပျောက်သည်ရှိသော်၊ မနုဿာ၊ လူတို့သည်။ ဘိက္ခုံ၊ ရဟန်းကို။ သင်္ကန္တိ၊ ယုံမှားရှိတတ်ကုန်၏။ တာဒိသေ၊ ထိုသို့သဘောရှိသော။ ဝိဟာရာဝသထဿ၊ ကျောင်းအာရာမ်၏။ အန္တော၊ အတွင်း၌။ ရတနံ၊ ရတနာဆယ်ပါးကို လည်းကောင်း။ တဿ သမ္မတံ၊ ထိုရတနာဟု သမုတ်အပ်သော ပုဆိုးစသော ဘဏ္ဍာကိုလည်းကောင်း။ ဂဟေတွာန၊ ရဟန်းကိုယ်တိုင် ကောက်ယူ၍။ နိက္ခိပေယျ၊ ထားရာ၏။ တာဒိသေ၊ ထိုသို့ရဟန်းယူလိမ့်ဟု ယုံမှားဖွယ်ရှိသော။ မဂ္ဂေပိ၊ လမ်းခရီး၌လည်းကောင်း။ အရညေပိ၊ တော၌လည်းကောင်း။ ဂဟေတွာန၊ ကောက်ယူ၍။ နိက္ခိပေယျ၊ ထားကောင်း၏။ သာမိကာနာဂမံ၊ ဥစ္စာရှင်တို့၏ မလာခြင်းကို။ ဉတွာ၊ သိ၍။ ပတိရူပံ၊ လျောက်ပတ်အောင်။ ကရိယတိ၊ ပြုအပ်၏။

ဤသို့ ခုဒ္ဒသိက္ခာစသော ဝိနည်းအဋ္ဌကထာတို့၌ လာသောကြောင့် အကျွမ်းဝင်သော ဒါယကာ ဉာတိသင်္ဂဟတို့သည် ရဟန်းထံ၌ အပ်နှံလာသည်ကို ရဟန်း လက်မခံသောကြောင့် အတင်းချထားခဲ့ရာ၌ ဤရတနာ ပျောက်သောအခါ ရဟန်းယူသည်ဟု ယုံမှားရှိချေရာသည်ကို နှလုံးပြု၍ ကောက်ယူကာ ထားအပ်၏။

ဒါယကာရှေ့၊ ရဟန်းနောက်၊ ခရီးသွားရာ၌ ဒါယကာ၏ ရတနာဆယ်ပါးတွင် တစ်ပါးပါးကျရစ်သည်ကို တွေ့ရာ၌လည်း ဤနည်းပင် ကောက်ယူအပ်၏။ ရဟန်းနေသော တောအတွင်းကျောင်းအတွင်း၌ ဒါယကာတို့၏ ဥစ္စာကျတွေ့ရာ၌လည်း ဤနည်းပင် ကောက်ယူ၍ ထားအပ်၏။ အာပတ်မသင့်၊ အကယ်၍ ဥစ္စာရှင် ပေါ်လာသော် ပေးအပ်၏။ မပေါ်လာသောအခါ ရဟန်းနှင့်လျောက်ပတ်စွာ ကျင့်အပ်၏ ဟူ၍ ဆိုသည်။ ဤသို့ကျရစ်သော ရွှေငွေကို ကောက်ယူရာ၌လည်းကောင်း၊ ကောက်ယူခြင်းငှာ သွားရာ၌ လည်းကောင်း အာပတ်မသင့် ဟူလိုသည်။

❖❖❖❖❖

## ၉၀၀။ မံသတွင်မည်၊ စက္ခုသည်၊ ဘုန်းစည်ဘယ့်လောက်မြင်ချိမ့်နည်း။(၁၉၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အပလောကေန္တော ခေါပန သောဘဝံဂေါတမော သဗ္ဗကာယေနေဝ အပလောကေတိ။ သော ဥဒ္ဒံ န ဥလ္လောကေတိ။ နစ အဓောပေက္ခမာနော ဂစ္ဆတိ။ ယုဂမတ္တဉ္စ ဂစ္ဆတိ။ တတောစဿဥတ္တရိ အာနာဝဋ္ဋဉာဏဒဿနံ ဘဝတိ။

ဟူ၍ မဇ္ဈိမ ပဏ္ဏာသ ဗြဟ္မာယုသံယုတ် ပါဠိတော်၌လာသည်။

ခေါပန၊ ချီးပဖွယ်ရန် တတန်ရှိသေးသည်ကား။ သော ဘဝံဂေါတမော၊ ထိုအရှင် ဂေါတမသည်။ အပလောကေန္တော၊ စောင်း၍ကြည့်လိုက်သော်။ သဗ္ဗကာယေနေဝ၊ ကိုယ်အလုံးဖြင့်သာလျှင်။ အပလောကေတိ၊ စောင်း၍ကြည့်၏။ သော၊

ထိုအရှင်ဂေါတမသည်။ ဥဒ္ဓံ၊ အထက်သို့။ န ဥလ္လောကေတိ၊ မေ၁်၍မကြည့်။ အဓောစ၊ အောက်သို့လည်း။ ပေက္ခမာနော၊ ရှု့ကြည့်လျက်။ နဂစ္ဆတိ၊ မသွား။ ယုဂမတ္တဥ္စ၊ ရထားထမ်းပိုးမျှလောက်သာလျှင်။ ပေက္ခမာနေ၊ ကြည့်လျက်၊ ဂစ္ဆတိ၊ သွား၏။ တတော၊ ထိုထက်။ ဥတ္တရိ၊ အလွန်ကြည့်မှုကား။ အဿ၊ ထိုရှင်ဂေါတမအား။ အနာဝဋ္ဋဉာဏဒဿနံ၊ အပိတ်အပင်မရှိသော ဉာဏ်အမြင်သည်။ ဘဝတိ၊ ၏။

ငင်းပါဠိတော်ကိုဖွင့်ရာ အဋ္ဌကထာ၌လည်း–

**ယုဂမတ္တန္တိ ပေက္ခ နဝဝိဒတ္ထိမတ္တေ စက္ခူနိ ဌပေတွာ ဂစ္ဆန္တော ယုဂမတ္တံပေက္ခတိနာမ။ ဘဂဝါပိ ယုဂေယုတ္တော သုဒန္တ အာဇာနီယော ဝိယ တ္တေကံ ပေက္ခန္တော ဂစ္ဆတိ။ တတောစဿ ဥတ္တရိတိ ယုဂမတ္တတော ပရံ န ပဿတီတိ နဝတ္တဗ္ဗော။ နဟိ ကုဋ္ဋော ဝါ ကဝါဋံ ဝါ ဂစ္ဆော ဝါ လတာ ဝါ အာဝရိတုံ သက္ကောတိ။ အထခွဿ အနာဝရဏဉာဏဿ အနေကာနိ စက္ကဝါဠသဟဿာနိ ကေဝ္ဍနာနေဝ ဟောန္တိ။ ဟူ၍ လာသည်။**

**အနက်ကား။** ။ ယုဂမတ္တန္တိပေက္ခ၊ ယုဂမတ္တံ ဟူသောပါဌ်၌။ နဝဝိဒတ္ထိမတ္တေ၊ ကိုးထွာမျှသောအရပ်၌။ စက္ခူနိ၊ မျက်စိတို့ကို။ ဌပေတွာ၊ ထား၍။ ဂစ္ဆန္တော၊ သွားသောသူသည်။ ယုဂမတ္တံ၊ ရထားထမ်းပိုးခန့်မျှ။ ပေက္ခတိနာမ၊ ရှုသည်မည်၏။ ဘဂဝါပိ၊ မြတ်စွာဘုရားသည်လည်း။ ယုဂေ၊ ထမ်းပိုး၌။ ယုတ္တော၊ ယှဉ်သော။ သုဒန္တအာဇာနီယောဝိယ၊ အလွန်ယဉ်ကျေးသော ဥသဘအာဇာနည်ကဲ့သို့။ တ္တေကံ၊ ဤကိုးထွာမျှလောက်သောအရပ်ကို။ ပေက္ခန္တော၊ ရှုလျက်။ ဂစ္ဆတိ၊ ၏။ တတောစဿ–ဥတ္တရိတိ၊ ဟူသည်ကား။ ယုဂမတ္တတော၊ ရထားထမ်းပိုးပမာဏမှ။ ပရံ၊ အလွန်။ န ပဿတိ၊ မရှု။ ဝါ၊ မမြင်။ ဣတိ၊ ဤသို့။ နဝတ္တဗ္ဗော၊ မဆိုအပ်။ ဟိကသ္မာ၊ အဘယ့် ကြောင့်နည်းမူကား။ ကုဋ္ဋောဝါ၊ နံရံသည်လည်းကောင်း။ ကဝါဋံ ဝါ၊ တံခါးရွက်သည် လည်းကောင်း။ဂစ္ဆောဝါ၊ ချုံသည်လည်းကောင်း။ လတာ ဝါ၊ နွယ်သည်လည်းကောင်း။ အာဝရိတုံ၊ ဖုံးလွှမ်းခြင်းငှာ။ န သက္ကောတိ၊ မတတ်နိုင်။ အထ ခေါ၊ စင်စစ်သော်ကား။ အနာဝရဏဉာဏဿ၊ အပိတ်အပင်မရှိ သိသော ဉာဏ်ရှိတော်မူသော။ အဿ၊ ထိုမြတ်စွာဘုရားအား။ အနေကာနိ၊ များစွာကုန်သော။ စက္ကဝါဠသဟဿာနိ၊ စကြဝဠာအထောင်တို့သည်။ ကေဝ္ဍနာနေဝ၊ တစ်ခဲနက် ထင်ကုန်သည်သာလျှင်။ ဟောန္တိ၊ ဖြစ်ကုန်၏။ ငင်းပါဠိတော် အဋ္ဌကထာနှစ်ရပ်ကိုစပ်၍ အဓိပ္ပာယ်ဆိုသော်ကား– ဘုရားသခင်တို့သည် နံပါးသို့ စောင်း၍ကြည့်လိုသော် လည်ကို ငဲ့၍ကြည့်သည်မဟုတ်၊ ကိုယ်တော်ပါ လှည့်စောင်း၍ ကြည့်သည်။ နက္ခတ်ကိုရှုသကဲ့သို့ အထက်ကိုမော်၍ ကြည့်တော်မမူ။ ပျောက်သောဝတ္ထုကို ရှာသောသူကဲ့သို့ အောက်သို့ ရှုကြည့်၍လည်း သွားတော်မမူ။ ရထားထမ်းပိုးဟု ဆိုအပ်သော ကိုးထွာခန့်မျှသော အရပ်ကိုသာ ရှု၍ကြွတော်မူသည်။ ထို့ထက်အလွန် မရှုမမြင်ဟူ၍လည်း မဆိုအပ်။ အဘယ့်ကြောင့်နည်းဟူမူ အလိုတော်ရှိ၍ ရှုသည်ရှိသော် တံတိုင်းကျောက်ဆောင်

တောင်နံရံသည်လည်းကောင်း၊ တံခါးရွက်သည်လည်းကောင်း၊ တောချုံ သစ်ပင်နွယ်တို့သည် လည်းကောင်း ဖုံးလွှမ်းယှက်တင် ဆီးတားပိတ်ပင်ခြင်းငှာ မတတ်နိုင်။ အနာဝရဏဉာဏ်ရှိတော်မူသော ဘုရားသခင်အား များစွာကုန်သော စကြဝဠာအထောင်တို့သည် တစ်ပြိုင်နက် ထင်သည်သာလျှင် ဖြစ်ကုန်၏ ဟူလိုသည်။

ဤပါဠိတို့၌ မံသစက္ခု မြင်သည်ကိုမဆို။ အနာဝရဏဉာဏ်ဖြင့် ထင်သည်ကိုသာ ဆိုသည် မဟုတ်လောဟူငြားအံ့။ ဉာဏ်ဖြင့် ထင်သည်ကိုပင် ဆိုသော်လည်း ထိုဉာဏ်သည် စက္ခုဒွါရဝီထိ၌ ကျသောဉာဏ်ဖြစ်၍ စက္ခု၏အမြင်ဟု ဆိုထိုက်သောကြောင့် ဆိုသည်ဟူပေ။ ထိုစကားသည် မှန်၏။ စက္ခုပသာဒသည်လည်းကောင်း၊ မံသပိဏ္ဍ ဟူသော သမ္ဘာရစက္ခုသည်လည်းကောင်း ရုပ်သာဖြစ်၍ တစ်စုံတစ်ခုသော အာရုံကို မမြင်တတ်။ ထိုရုပ်ကိုမှီသော စက္ခုဝိညာဉ် ထိုဝိညာဉ်နှင့် အစဉ်မပြတ် တစ်သမတ်တည်း ဖြစ်သော ဇောစိတ္တုပ္ပာဒ်တို့သည်သာလျှင် အာရုံကိုမြင်တတ်သည်။ ယင်းသို့ နာမ်တရားတို့၏ မြင်ခြင်းကိုပင် ကာရဏူပစာရအားဖြင့် မျက်စိမြင်ခြင်းဟု ခေါ်ရသည်။ ထို့ကြောင့်စက္ခုဒွါရ၌ကျသော မဟာကြိယာစိတ်၌ပါသော အနာဝရဏဉာဏ်ဖြင့် သိမြင်ခြင်းကိုပင် စက္ခုမြင်သောအရာ၌ အဋ္ဌကထာဆရာ ပြတော်မူသည်ဟု မှတ်ရမည်။

ဘုရားအဖြစ်သို့ ရောက်မှသာ စကြဝဠာ တစ်ထောင်တိုင်အောင် ထင်မြင်သည် မဟုတ်၊ မယ်တော်ဝမ်းမှ ဖွားစသောအခါကပင် မြောက်သို့ ခုနစ်ဖဝါးသွား၍ ရပ်ပြီးလျှင် အရှေ့လောကဓာတ်သို့ ကြည့်တော်မူသော် များစွာကုန်သော စကြဝဠာ အထောင်တို့သည် တစ်ခဲနက်ထင်လာကုန်သည်ဟူ၍ ပြတော်မူခြင်းငှာ–

**မနုဿာနံ ဟတ္ထတော မုစ္စိတွာ ပထဝိယံ ပတိဋ္ဌာယ ပုရတ္ထိမံ ဒိသံ ဩလောကေသိ။ အနေကာနိ စက္ကဝါဠသဟဿာနိ ဧကင်္ဂဏာနိ ဒဿနာ အဟေသုံ။**

ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကထာ၌ လာသည်။

မနုဿာနံ၊ လူတို့၏။ ဟတ္ထတော၊လက်မှ။ မုစ္စိတွာ၊ လွတ်၍။ ပထဝိယံ၊ မြေ၌။ ပတိဋ္ဌာယ၊ ရပ်၍။ ပုရတ္ထိမဒိသံ၊ အရှေ့မျက်နှာအရပ်ကို။ ဩလောကေသိ၊ ကြည့်၏။ အနေကာနိ၊ များစွာကုန်သော။ စက္ကဝါဠသဟဿာနိ၊စကြဝဠာအထောင်တို့သည်။ ဧကင်္ဂဏာနိ၊ တစ်ခဲနက်ဖြစ်ကုန်၍။ ဒဿနာ၊ ထင်မြင်ကုန်သည်။ အဟေသုံ၊ ဖြစ်ကုန်၏။

ပါရာဇိကဏ်အဋ္ဌကထာ၌လည်း–

ဒေဝတာနံ ဟိ သုစရိတကမ္မနိဗ္ဗတ္တံ ပိတ္တသေမှရုဟိရာဒီဟိ အပလိဗုဒ္ဓ ဥပက္ကိလေသဝိမုတ္တတာယ ဒူရေပိ အာရမ္မဏံ သမ္ပဋိစ္ဆနသမတ္ထံ ဒိဗ္ဗံ ပသာဒစက္ခု ဟောတိ။ ဣဒဉ္စာပိ ဝီရိယဘာဝနာဗလနိဗ္ဗတ္တံ ဉာဏစက္ခုတာဒိ သမေဝဟူ၍ လာသည်။

ဟိ၊ အထူးကိုဆိုလိုက်ဦးအံ့။ ဒေဝတာနံ၊ နတ်တို့အား။ သုစရိတကမ္မနိဗ္ဗတ္တံ၊ ကောင်းစွာကျင့်ကြံအပ်သော ရှေးကံကြောင့်ဖြစ်သော။ ပိတ္တသေမှရုဟိရာဒီဟိ၊ သည်းခြေ, သလိပ် သွေးအစရှိသည်တို့ဖြင့်။ အပလိဗုဒ္ဓံ၊ မလိမ်းကျံအပ်သော။ ဥပက္ကိလေသ-ဝိမုတ္တတာယ၊ ညစ်ညူးခြင်းမှလွတ်သည်၏ အဖြစ်ကြောင့်။ ဒူရေပိအာရမ္မဏံ၊ အဝေး၌ တည်သော အာရုံကိုလည်း။ သမ္ပဋိစ္ဆနသမတ္တံ၊ ခံယူခြင်းငှာ စွမ်းနိုင်သော။ ဒိဗ္ဗပသာဒစက္ခု၊ နတ်၌ဖြစ်သော ပသာဒစက္ခုသည်၊ ဟောတိ၊ ဖြစ်၏။ တထာဂတဿ၊ မြတ်စွာဘုရား၏။ ဝီရိယဘာဝနာဗလနိဗ္ဗတ္တံ၊ ဝီရိယဘာဝနာ၏ အစွမ်းတော်ကြောင့်ဖြစ်သော။ ဉာဏစက္ခု၊ ဉာဏ်တော်လျှင် ပြဋ္ဌာန်းခြင်းရှိသော မံသစက္ခုတော်သည်လည်း။ တာဒိသ မေဝ၊ ထိုမျက်စိနှင့်အလားတူ သည်သာလျှင်။ ဟောတိ၊ ၏။

ပြကတေ့သော နားတော်သည်လည်း ဤနည်းတူ အပိုင်းအခြားမရှိ၊ ကြားသိခြင်းငှာ နှလုံးသွင်းတော်မူလျှင် စကြဝဠာအထောင်၏ အတွင်း၌ သဒ္ဒါရုံဟူသမျှကို ကြားရသည်သာတည်းဟု မှတ်အပ်၏။

❖❖❖❖❖

## ၉ဝ၁။ အိုင်အင်းများတည်၊ အရပ်သည် ဖွေနည်ဘယ်ဒေသပေနည်း။(၁၉၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အိုင်အင်းထူပြော၊ မြိုင်တောပတ်ရံ၊ စေးချုံပိတ်ဆီး၊ ရွံ့တံစီးတို့၊
အားကြီးသည်မှာ၊ နောပကာဒေသ၊ သမုတ်ကြရှင့်၊ ဌာနတို့တွင်၊
ဖျားနာလျှင်မူ၊ များဖြင်ဝါယော၊ လေပြန့်ပြောစွ။

❖❖❖❖❖

## ၉ဝ၂။ လွင်တီးခေါင်သည်၊ချောက်ချားမည်၊ထူးလည် ဘယ်ဒေသတို့နည်း။(၁၉၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သစ်တောစိမ့်မြိုင်၊ ထုံးအိုင်မနော၊ လယ်တောခေါင်ခေါင်၊ လွင်တီး
ခေါင်မူ၊ ပူလောင်များဖြင်၊ ဂဇင်္ဂလ၊ နာမပညတ်၊ ထိုအရပ်၌၊ ဖျားနာခိုက်မူ၊
ပူအိုက်မူးဝေ၊ သွေးသည်းခြေသို့၊ လွန်လေသည်သာ၊ မှတ်တို့ရာရှင့်။ ။
ဆေးကျမ်း။

အနုပေါသလိလပ္ပါယော။ ။ သလိလပ္ပါယော၊ အိုင်အင်းစီးတွေ စမ်းရေများသော အရပ်သည်။ အနုပေါ၊ အနုပအရပ်မည်၏။ ။ အဘိဓာန်။

❖❖❖❖❖

## ၉၀၃။ တောင်ကြီးလေးတည်၊ ရေပြည်၊ ကြိတ်သည်ဘယ်အပြစ်ကြောင့်နည်း။(၁၉၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**မဟန္တာ ဇလိတအယပဗ္ဗတာ သံပုနပ္ပုနံ တနန္တိတ္တောတိ သံဃာတော။**

တတ္ထ၊ ဤငရဲ၌၊ မဟန္တာ၊ ကြီးစွာကုန်သော။ ဇလိတအယပဗ္ဗတာ၊ အလျှံပြောင်ပြောင်တောက်သော သံတောင်တို့သည်။ သံပုနပ္ပုနံ၊ အဖန်ဖန်။ ဟနန္တိ၊ ကြိတ်ညှပ်ကုန်၏။ ဣတိတသ္မာ၊ ထိုကြိတ်ညှပ်ရာဖြစ်သော သတ္တိကြောင့်။ သံဃာတော၊ သံဃာတမည်၏။ ကိရ၊ ချဲ့လိုက်ဦးအံ့။ တတ္ထ၊ ထိုငရဲ၌။ သတ္တေ၊ သတ္တဝါတို့ကို။ နဝယောဇနာယာ၊ ကိုးယူဇနာရှိသော။ ဇလိတအယပထဝိယာ။ ပြောင်ပြောင်တောက်သော သံမြေ၌။ ယာဝကဋိတော၊ ခါးတိုင်အောင်။ ပဝေသေတွာ၊ သွင်းမြှုပ်၍။ နိစ္စလံ၊ မလှုပ်နိုင်သည်ကို။ ကရောန္တိ၊ ပြုကုန်၏။ အထ၊ ထိုသို့ပြုပြီးသောနောက်မှ။ ပုရတ္ထိမတော၊ အရှေ့အရပ်မှ။ ဇလိတော၊ ပြောင်ပြောင်တောက်သော။ အယပဗ္ဗတော၊ သံတောင်သည်။ သမုဒ္ဒာယ၊ ထလတ်၍၊ အသနိဝိယ၊ မိုးကြိုးကဲ့သို့။ ဝိရဝန္တော၊ မြည်တမ်းလျက်၊ အာဂန္တွ၊ လာလတ်၍တေ သတ္တေ၊ ထိုငရဲသတ္တဝါတို့ကို။ သဏ္ဍာကရဏိယံတိလပိဋ္ဌော ဝိယ၊ ဆုံ၌ညှစ်သော နှမ်းဖတ်ကဲ့သို့၊ ဂန္တွာ၊ ကြိတ်ကာသွား၍။ ပစ္ဆိမဒိသာယ၊ အနောက်အရပ်၌။ တိဋ္ဌတိ၊ တည်၏။ ပစ္ဆိမဒိသတော၊ အနောက်အရပ်မှ၊ သမုဋ္ဌိတောပိ၊ ထသော တောင်သည်လည်း။ တထေဝ၊ ထို့အတူ ကြိတ်၍သာလျှင်။ ဂန္တွာ၊ သွား၍။ ပုရတ္ထိမဒိ–သာယ၊ အရှေ့အရပ်၌။ တိဋ္ဌတိ၊ တည်၏။ ဒွေ ပန၊ နှစ်လုံးသော တောင်တို့သည်လည်း။ ကေတော၊ တစ်ပြိုင်နက်။ သမန္တာ၊ ထက်ဝန်းကျင်မှ၊ ဂန္တွာ သွား၍။ ဥစ္ဆုယန္တေ၊ ကြံညှပ် ယန္တရား၌။ ဥစ္ဆုက္ခဏ္ဍာနိ ဝိယ၊ ကြံပိုင်းကိုကဲ့သို့၊ ပီဠေန္တိ၊ ကြိတ်ညှစ်ကုန်၏။ ဝေ၊ ဤသို့။ တတ္ထ၊ ထိုငရဲ၌။ ဗဟူနိဝဿသတသဟဿာနိ၊ များစွာသော အနှစ်တစ်သိန်းတို့ ပတ်လုံး။ ဒုက္ခံ၊ ဆင်းရဲကို။ အနုဘောန္တိ၊ အစဉ်ခံစားရကုန်၏။ တသ္မာ၊ ထို့ကြောင့်။ သံဃာတော၊ သံဃာတငရဲမည်၏။

ဤသံဃာတငရဲ၌ ခံရသောသူတို့ကား အမိအဖတို့ကို ညှဉ်းဆဲရိုက်ခတ်သောသူ။ ရတနာသုံးပါး၌ ကျိုးနွံဆည်းကပ် မရှိသောသူ။ သူတော်ကောင်းတို့အား ညှဉ်းဆဲနှိပ်စက်သောသူ။ တရားစောင့်သော ရသေ့၊ ရဟန်းပုဏ္ဏားတို့အား ပြစ်မှားစွပ်စွဲ ညှဉ်းဆဲဖိစီးသော သူတို့သည် ခံရကုန်၏။ ထိုတွင် ရဟန်း ပုဏ္ဏားတို့ကို ညှဉ်းဆဲသော သူသာလျှင် များစွာရဲကြီးတို့၌ ဖြစ်ကုန်၏။ ထို့ကြောင့် သင္ဂြိုဟ်ပါတ်သံကိစ္စဇာတ် အဋ္ဌကထာ၌–

**မဟာနိရယေသု ကိရ ယေဘုယျေန ဓမ္မိကသမဏဗြာဟ္မဏေသု ကတာပရာဓာဝ ပစ္စန္တိ။** ။ ဟူ၍ မိန့်၏။

မဟာနိရယေသု၊ ငရဲကြီးတို့၌။ ယောဇနယျေ၊ များသောအားဖြင့်။ ဓမ္မိက သမဏဗြာဟ္မဏေသု၊ တရားစောင့်သော ရဟန်းပုဏ္ဏားတို့၌။ ကတာပရာဓာ၊ ပြစ်မှား ပြုကျင့်သော အပြစ်ရှိသောသူသည်သာလျှင်။ ပစ္စန္တိကိရ၊ ကျက်ကုန်သတတ်။ ။ ဤကားအနက်။

နေမိဇာတ်၌ကား–

**ကောလိတ္ထိယာယော ဣဓ ဇီဝလောကေ၊အသုဒ္ဓကမ္မာ အသတံ အစရုံ။**

**တာ တိတ္တရူပါ ပတိံ ဝိပ္ပဟာယ၊ အညံ အစရုံ ရတိခိဍ္ဍဟေတု။**

**တာ ဇီဝလောကသ္မိံ ရမာပယိတွာ၊ခန္ဓာတိဝတ္တန္တိ သဇောတိဘူတာ။**

**ဟူ၍ ဟောတော်မူသည်။**

**အနက်ကား။** ။ မဟာရာဇ၊ မြတ်သောမင်းကြီး။ ဣဓ ဇီဝလောကေ၊ ဤအသက် ရှည်သော လူ့ပြည်၌။ ကောလိတ္ထိယာယော။ လင်ရှိသော အမျိုးကောင်း မိန်းမတို့သည်။ အသုဒ္ဓကမ္မာ၊ မစင်ကြယ်သော အမှုရှိကုန်သည်ဖြစ်၍။ အသတံ၊ မသူတော်တို့အကျင့်ကို။ အစရုံ၊ ကျင့်မိကြကုန်၏။ တာ၊ ထိုမိန်းမတို့သည်။။ တိတ္တရူပါ၊ မြစ်ဆိပ်သဖွယ် ရှိကုန်သည်ဖြစ်၍။ ပတိံ၊ လင်ကို။ ဝိပ္ပဟာယ၊ ပယ်စွန့်၍။ ရတိခိဍ္ဍဟေတု၊ မွေ့လျော် မြူးတူးလိုသောကြောင့်။ အညံ၊ တစ်ပါးသောယောကျ်ားတို့နှင့် မြူးတူးခြင်းကို။ အစရုံ၊ ကျင့်ကြကုန်၏။ တာ၊ ထိုမိန်းမတို့သည်။ ဇီဝလောကသ္မိံ၊ အသက်ရှည်သော လူ၏ဘောင်၌။ ရမာပယိတွာ၊ အလိုအတိုင်းပျော်ပါးခဲ့သောကြောင့်။ သဇောတိဘူတာ၊ အလျှံပြောင်ပြောင် တောက်ကုန်သော။ ခန္ဓာ၊ တောင်ကြီး လေးလုံးတို့သည်။ အတိဝတ္တတိ၊ ကြိတ်လေကုန်၏။

ဇာတ် အဋ္ဌကထာ ပါဠိတော် နှစ်ရပ်သည် အဓိပ္ပာယ်မတူတကား ဟူငြားအံ့– မတူသည်မဟုတ်၊ အတူပင်ယူရမည်။ အသို့ တူသနည်းဟူမူ– ရဟန်း, ပုဏ္ဏားစသော သူတော်ကောင်းတို့အား ပြစ်မှားသော အပြစ်ကြောင့် ငရဲကြီး၌ ခံရသည်။ မိန်းမတို့သည် မိမိတို့၏လင်ကို လွန်ကျူး၍ ကျင့်သောအပြစ်ကြောင့် ထိုငရဲ၏အရံဖြစ်သော ဥဿဒရက် ငရဲ၌ အလားတူ ခံရသည်ဟု ဆိုရမည်။ ဘယ့်ကြောင့် သိရသနည်းဟူမူ နေမိဇာတ်၌ ဥဿဒရက်ငရဲကိုသာ ပြသောကြောင့်တည်း။

❖❖❖❖❖

၉၀၄။ နှစ်သုံးခါလည်၊ ခေါင်ကျသည်၊ မည်မျှမြင်းသက် လေလိမ့်နည်း။(၁၉၆)

၉၀၅။ အတိုသုံးမည်၊ နီသုံးမည်၊ ကောက်သည်သုံးပါးအဘယ်နည်း။(၁၉၇)

၉၀၆။ အမြီးနှုတ်လည်၊ သွားသုံးမည်၊ အရှည်သုံးပါးဘယ်သို့နည်း။(၁၉၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တုရင်္ဂါနံ၊ မြင်းတို့၏။ သဘာဝေါ၊ သဘောကား။ ဒသာဟော၊ မွေး၍ ဆယ်ရက် ရှိသော်သာလျှင်။ ဒန္တဇံ၊ သွားပေါ်၏။ လောမာတိဝဖ္ဖံ၊ အမွေးသုံးကြိမ်လဲ၏။

ဒွေဝဿဒန္တပူရာ၊ နှစ်နှစ်လည်လျှင် အထက်ခြောက်ချောင်း, အောက်ခြောက်ချောင်း အားဖြင့် သွားတစ်ဆယ့်နှစ်ချောင်းစေ့၏။ တိဝဿံ၊ သုံးနှစ်လည်သော် ခေါင်နှစ်ချောင်း ကျ၏။ စတုဝဿံ၊ လေးနှစ်လည်သော် ချောင်းရံနှစ်ချောင်းကျ၏။ ပဥ္စဝဿဒါဠ်၊ ငါးနှစ်လည်လျှင် အစွယ်လည်းဖူး၏။ ဆဝဿံဒွယကာလံ၊ ခြောက်နှစ်လျှင် အလယ်သွား နှစ်ချောင်းထိပ်၌ မည်း၏။ သတ္တဝဿံ၊ ခုနစ်နှစ်လျှင် ခေါင်ရိနှစ်ချောင်း အမည်းစွမ်း၏။ အဋ္ဌဝဿံ၊ ရှစ်နှစ်လျှင် ဘစွန်နှစ်ချောင်းထိပ်၌ မည်း၏။

ဤသို့သွားပေါက်သည်။ အမည်းစွန်းသည်။ သွားရှည်သည်။ ရှည်ပြီးမှ သွားကြား သည်။ ကြားပြီးမှသွားကျင် သွားနဲ့သည်။ သွားကျွတ်သည်။ ကျွတ်ပြီးမှ ပေါက်ပြန်သည်။ ဤသက်ဆစ်တန်းကို ပေါင်း၍ နှစ်ပေါင်း သုံးဆယ့်နှစ်နှစ်သည် မြင်းတို့၏ အာယုက္ခယ ပိုင်းတည်း။

မြင်းကောင်းတို့၏ လက္ခဏာ၌–

**ကြီးရာသည် သုံးပါးကား–**

မျက်လုံး ကြီးရာသည်။ ပေါင်ကြီးရာသည်။ လက်ဖျံရိုး ကြီးရာသည်။

**ကျယ်ရာသည် သုံးပါးကား–**

တင် ကျယ်ရာသည်။ ရင်ကျယ်ရာသည်။ နှာတွင်း ကျယ်ရာသည်။

**ငယ်ရာသည် သုံးပါးကား–**

ကတင် ငယ်ရာသည်။ မြုံရိုး ငယ်ရာသည်။ မှင်ရိုး ငယ်ရာသည်

**ချွန်းရာသည် သုံးပါးကား–**

နားရွက် ချွန်းရာသည်။ မြီးရိုး ချွန်းရာသည်။ နောက်ခွါ ချွန်းရာသည်။

**သွန်းရာသည် သုံးပါးကား–**

လည်ရောက်၊ မြီးရောက်၊ နှုတ်ဖျား သွန်းရာသည်။

**အဝန်း သုံးပါးကား–**

မေးရိုး၊ ပါးရိုး၊ ရှေ့ခွါ ဝန်းရာသည်။

**အထိ သုံးပါးကား–**

ရင်ဝ၊ ဝမ်း၊ နဖူး ထိရာသည်။

**လျှိုးရာ သုံးပါးကား–**

ရှေ့ခွါ၊ နောက်ခွါ၊ မျက်လုံး လျှိုးရာသည်။

**ရှည်ရာသည် သုံးပါးကား–**

တင်သီး၊ မျက်နှာ၊ လည် ရှည်ရာသည်။

**ညှံ့ရာသည် သုံးပါးကား–**

ကိုယ်မွေး၊ ထိပ်မွေး၊ မှင်ရိုးမွေး ညှံ့ရာသည်။

**ပြေပြစ်ရာသည် သုံးပါးကား–**

မျက်ရိုး၊ ပါးရိုး၊ တင်ကုတ်ရိုး ပြေပြစ်ရာသည်။

**ဆူသော်မြင့်ရာသည် သုံးပါးကား–**

တင်ရိုး၊ လက်ဖျံရိုး၊ နှာရောင်ရိုး မြင့်ရာသည်။

**ကြုံသော်မြင့်ရာသည် သုံးပါးကား–**

ထိပ်၊ ရင်ဖုံး၊ မောင်း မြင့်ရာသည်။

**ပါးရာသည် သုံးပါးကား–**

မျက်ရေအောက်၊ နံရေ၊ အာရေ ပါးရာသည်။

**သေးရာသည် သုံးပါးကား–**

ထိပ်ဆံ၊ မှင်ဆံ၊ မြီးဆံ သေးရာသည်။

**နက်ရာသည် သုံးပါးကား–**

ဇက်ငုံ၊ မြစ်တွေး၊ နှာခေါင်းတွင်း နက်ရာသည်။

**တိုရာသည် သုံးပါးကား–**

တင်ရိုး၊ ကျောက်ရိုး၊ နှုတ်ဖျား တိုရာသည်။

**နီရာသည် သုံးပါးကား–**

အာပေါင်၊ လျှာ၊ နှာတွင်း နီရာသည်။

**ဖြောင့်ရာသည် သုံးပါးကား–**

မြီးရိုး၊ မှင်ရိုး၊ နှာရောင် ဖြောင့်ရာသည်။

**ကောက်ရာသည် သုံးပါးကား–**

ခကောက်၊ လည်ချိပ်၊ လက် ကောက်ရာသည်။

**စင်းရာသည် သုံးပါးကား–**

ကုန်းရိုး၊ နှာရောင်၊ ရပ်သော် လက်တံ စင်းရာသည်။

**တင်းရာသည် သုံးပါးကား–**

ဝမ်းရေ၊ ရင်ရေ၊ နံရေ တင်းရာသည်။

**ချပ်ရာသည် သုံးပါးကား–**

နံ၊ လည်၊ ပါး ချပ်ရာသည်။

**သပ်ရာသည် သုံးပါးကား–**

မြီးဆံ၊ လက်တံ၊ လည်ရောက် သပ်ရာသည်။

**ထောင်ရာသည် သုံးပါးကား–**

အမြီး၊ ခေါင်း၊ လည်၊ ထောင်ရာသည်။

**ထောင့်ရာသည် သုံးပါးကား–**

မျက်ကွင်း၊ နဖူးပြင်၊ အထက်နှုတ်သီး ထောင့်ရာသည်။

**အထိ သုံးပါးကား–**

မေးအောက်၊ လက်ကတီး ခကောက် ထိစေရမည်။

အရှည် သုံးပါးကား–

မှင်ဆံ၊ ထိပ်ဆံ၊ မြီးဆံ ရှည်စေရာသည်။

**သွယ်ရာသည် သုံးပါးကား–**

မြီးတံ၊ လက်တံ၊ လည်ရောက် သွယ်စေရာသည်။

**ကောင်းရာသည် သုံးပါးကား–**

လည်၊ ကိုယ်ပြင်၊ အမွေး ကောင်းရာသည်။

ဤသို့အားဖြင့် ကောင်းသော လက္ခဏာ သုံးဆယ်ရှိသည်။ အထိသုံးပါးနှင့် အသွယ်လက္ခဏာ တူကြ၏။ ထိုကိုချသော် နှစ်ဆယ့်ရှစ် ရှိ၏။

❖❖❖❖❖

**၉၀၇။ ဝဲကဲ့သို့သည်၊ စီရင်မည်၊ ကြံစည်ဘယ်နည်းဆိုပိမ့်နည်း။(၁၉၉)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မြစ်ရေ၌ ဝဲသည် အထပ်ထပ်လည်၍ စီးသကဲ့သို့ ရုပ်တစ်ခုကို သုတ်အများဖြင့် အထပ်ထပ်ဆို၍ စီရင်ရခြင်းသည်လည်းကောင်း၊ ပုဒ်တစ်ခုကို အက္ခရာခေါ်ခြင်း, ဗျည်းခေါ်ခြင်း, ဝဂ်ခေါ်ခြင်း, ဃောသခေါ်ခြင်းတို့သည် လည်းကောင်း စကားမှု၌ ထပ်ကာ ထပ်ကာ ပြောဆိုခြင်း, စီရင်ရခြင်းသည် လည်းကောင်း ဝဲရေစီးသကဲ့သို့ ဖြစ်သောကြောင့် အာဝဋ္ဋနည်း မည်၏။

❖❖❖❖❖

**၉၀၈။ လျော်စွာယူမည်၊ ရသင့်သည်၊ ထူးလည် ဘယ်နည်းဆိုမည်နည်း။(၂၀၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရသင့်သည်အားလျော်စွာ ယူသောနည်းသည် ယထာလာဘ နည်းမည်၏။ ပြယုဂ်ကား။ သက္ခရကထလိကမ္ပိ မစ္ဆဂုမ္ဗမ္ပိ စရန္တမ္ပိ တိဋ္ဌန္တမ္ပိ ပဿတိ။ အစ ရှိသည်တည်း။

❖❖❖❖❖

**၉၀၉။ မင်းနေရွှေပြည်၊ ဆိုပါမည်၊ ယင်းသည် ဘယ်နည်းဖြစ်ချိမ့်နည်း(၂၀၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မင်းချည်းနေသည်မဟုတ်၊ တစ်ပါးသော သူတို့လည်း နေကြလျက် ''မင်းနေပြည်''ဟု ဆိုခြင်းသည် ပြဋ္ဌာန်းရာသို့ လိုက်သော ပဓာနနည်း အားဖြင့် လည်းကောင်း၊ ထင်ရှားသို့ လိုက်သောပါကဋနည်းအားဖြင့် လည်းကောင်း ဆိုသည် ဟူပေ။

❖❖❖❖❖

**၉၁၀။ ရေခြံကျင်လည်၊ တံငါသည်၊ ဖွေနည်ဘယ်မင်း ဆိုအံ့နည်း။(၂၀၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရေသတ္တဝါကို အစိုးရသောကြောင့် သမ္ဗရာဇာ ဟူ၍လည်းကောင်း၊ အာပရာဇာ ဟူ၍လည်းကောင်း။ မစ္ဆရာဇာဟူ၍လည်းကောင်း ဆိုအပ်သတည်း။

❖❖❖❖❖

**၉၁၁။ အာစရိထေရ်၊ ဆရာမည် အာသည် ဘယ်ဇာတကနည်း။(၂၀၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သိဿာနံ ဟိတံ အာဘုသံ စရတီတိ အာစရိယော။**

ယော ပုဂ္ဂလော၊ အကြင်ပုဂ္ဂိုလ်သည်။ သိဿာနံ၊ တပည့်သားတို့၏။ ဟိတံ၊ အစီးအပွားကို။ အာဘုသံ၊ လွန်စွာ။ စရတိ၊ ကျင့်တတ်၏။ ဣတိတသ္မာ၊ ထိုသို့ ကျင့်တတ်သော သတ္တိကြောင့်။ သောပုဂ္ဂလော၊ ထိုပုဂ္ဂိုလ်သည်။ အာစရိယော၊ မည်၏။

ဟူ၍ ဋီကာဆရာတို့ ဝစနတ်လုစ်ရကား အာစရိယပုဒ်၌ အာသဒ္ဒါသည် လွန်စွာဟူသော အနက်ကိုပြသော အာဘုသဇောတက ဟူပေ။

❖❖❖❖❖

**၉၁၂။ ဝန်တိုငါးမည်၊အတည်တည်၊ပြစ်ခြည် ဘယ်သို့ခွဲမည်နည်း။(၂၀၄)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**မစ္ဆေရာနံ ပဘေဒေါတိ ဧတ္ထ ပဉ္စဝိဓံ မစ္ဆရိယံ၊ အာဝါသမစ္ဆရိယံ၊ ကုလမစ္ဆရိယံ၊ လာဘမစ္ဆရိယံ၊ ဝဏ္ဏမစ္ဆရိယံ၊ ဓမ္မမစ္ဆရိယန္တိ။**

အစရှိသည်ဖြင့် သာရတ္ထသင်္ဂဟ၌ လာသည်နှင့်အညီ ဝန်တိုခြင်းဟု ဆိုအပ်သော မစ္ဆရိယတရားသည် ဖြစ်ရာအားဖြင့် ငါးပါးအပြားရှိ၏။

ငါးပါးဟူသော်ကား–

၁။ ကျောင်းကန်နေရာ၌ ဝန်တိုခြင်း။

၂။ ဒါယကာတို့၌ ဝန်တိုခြင်း။

၃။ လာဘ်ပူဇော်သက္ကာ၌ ဝန်တိုခြင်း။

၄။ ကျေးဇူးဂုဏ်သတင်း၌ လည်းကောင်း, အဆင်း အရောင်၌လည်းကောင်း ဝန်တိုခြင်း။

၅။ တရား၌ ဝန်တိုခြင်း။

ဟူ၍ ငါးပါးတည်း။ ။ ထိုငါးပါးတို့တွင်–

၁။ **အာဝါသမစ္ဆရိယ**သည် အဘယ်သို့ဖြစ်သနည်းဟူမူကား။ ။ အကြင် ရဟန်းသည် မိမိမှီနေသော မြို့ရွာအရပ်ကိုလည်းကောင်း၊ ကြီးစွာသောကျောင်း,

ကျယ်စွာသော ပရိဝုဏ်အာရာမ်. များစွာသော အိပ်ရာနေရာတို့၌လည်းကောင်း။ မိမိ၏ ဥစ္စာသာလျှင် ပြု၍နေလို၏။ သူတစ်ပါးတို့ရခြင်း၊ နေခြင်းကိုအလိုမရှိ။ တရားကျမ်းဂန်၌ သိမြင်လိမ္မာသော သီလကျင့်ဝတ်နှင့် ပြည့်စုံသောရဟန်းကောင်း အာဂန္တုကတို့၏ လာရောက်ခြင်း၊ တည်နိုးခြင်းကိုမျှ အလိုမရှိ။ လာရောက်သော်လည်း လျင်မြန်စွာ သွားစေလို၏။ မိမိစိုးပိုင်သော နေရာကျောင်းကန် မဆိုထားဘိ၊ သံဃိကဖြစ်သော ကျောင်းကန်နေရာကိုသော်လည်း လာရောက်သော အာဂန္တုကတို့အား မပေးလိုဘဲ ဝန်တို ပိတ်ပင်၏။ ဤသို့ဝန်တိုခြင်းသည် အာဝါသ မစ္ဆရိယမည်၏။

ငြင်းခုံခိုက်ရန်ပြုတတ်သော ရဟန်းတို့၏ နေခြင်းကို အလိုမရှိခြင်း၊ ထိုသူအား နှင်ထုတ်ခြင်းသည်ကား အာဝါသမစ္ဆရိယမဖြစ်။ နှင်ကောင်းသည်ပင် ဖြစ်၏။ ထို့ကြောင့် အဋ္ဌကထာ၌-

**ဘဏ္ဍနကာရကာဒီနံ ပန တတ္ထ ဝါသံ အနိစ္ဆန္တော အာဝါသ မစ္ဆရိယံနာမ န ဟောတိ။ ဟူ၍ မိန့်၏။**

ဤသို့ နေရာကျောင်းကန်စသည်၌ ဝန်တိုတတ်သောပုဂ္ဂိုလ် စသည်ကား ဘဝတစ်ပါး လားရာသောအခါ ပြိတ္တာသော်လည်းကောင်း၊ နတ်ဘီလူးသော်လည်းကောင်းဖြစ်၍ ထိုကျောင်းအာရာမ်၌ တံမြက်ချေးကို ဦးခေါင်းဖြင့်ရွက်၍ သွားလာရတတ်၏။ လူ၏အဖြစ်ကို ရငြားသော်လည်း နေရာကျောင်းကန်ကို မရနိုင်ခြင်း၊ မကောင်းသော နေရာကျောင်းကန်ဖြင့်သာ နေရခြင်း၊ သူခပ်သိမ်းတို့ မထီမဲ့မြင် ပြုသည်ကို ခံရခြင်းဟူသော အကျိုးတို့သည် ဖြစ်ကုန်၏။ ဤကား နေရာကျောင်းကန်၌ ဝန်တိုခြင်း၏ အပြစ်တည်း။

၂။ **ကုလမစ္ဆရိယ**သည် အဘယ်သို့ဖြစ်သနည်း ဟူမူကား။ ။ အကြင် ရဟန်းသည် မိမိ၏ အလုပ်အကျွေး ဖြစ်သောဒါယကာ၊ မိမိ၏အဆွေအမျိုးဖြစ်သော ဒါယကာတို့၏ ထံသို့ တစ်ပါးသော အလှူခံတို့သည် ကပ်လာခဲ့သော် အလိုမရှိ။ နှလုံးမသာခြင်းဖြင့် တားမြစ်ပိတ်ပင်လေ့ရှိ၏။ ထိုသို့ ဖြစ်ခြင်းသည် ကုလမစ္ဆရိယမည်၏။

မှားသော အယူဝါဒရှိသော ပုဂ္ဂိုလ်၊ ဖောက်ပြန်သော စကားရှိသော ပုဂ္ဂိုလ်၊ ယုတ်မာသော အကျင့်ရှိသော ပုဂ္ဂိုလ်တို့၏ ဆည်းကပ်ရောက်ဝင်သည်ကို အလို မရှိခြင်းသည်ကား ကုလမစ္ဆရိယမဖြစ်။ ဘယ့်ကြောင့်နည်းဟူမူ ထိုမကောင်းသော အယူ အကျင့်ရှိသော ပုဂ္ဂိုလ်သည် ရတနာသုံးပါး၌ ကြည်ညိုပြီးသော ဒါယိကာမတို့၏ သဒ္ဓါတရားကို ပျက်ပြားအောင် ပြုတတ်၏။ ထိုသို့ပြုလတ္တံ့သော အရိပ်နိမိတ်ကို မြင်သဖြင့် ပိတ်ပင်အပ်သည်သာတည်း။

ထို့ကြောင့် အဋ္ဌကထာ၌-

**ပါပပုဂ္ဂလဿ ပန ဥပသင်္ကမနံ အနိစ္ဆန္တော ကုလမစ္ဆရိယံနာမ န ဟောတိ။ သော ဟိ တေသံ ပသာဒဘေဒါယ ပဋိပဇ္ဇတိ။ဟူ၍ မိန့်၏။**

ဤသို့ ဆွေမျိုးဉာတကာတို့၌ ဝန်တိုတတ်သော ပုဂ္ဂိုလ်သည်ကား ပစ္စုပ္ပန်ဘဝ၌ပင် ငါ၏အလုပ်အကျွေး ဆွေမျိုးတို့သည် သူတစ်ပါးအား ကြည်ညိုခြင်း ဖြစ်လေတော့မည်ဟု ကြံစည်ခြင်းကြောင့် နှလုံးပူပန်ခြင်း နှိပ်စက်ရကား အစား အအိပ်ပျက်ခြင်း၊ ရင်မှ သွေးအန်ခြင်း၊ ဝမ်းသွေးသွန်ခြင်းတို့သည်လည်း ဖြစ်တတ်ကုန်၏။ မျက်မှောက်ဘဝမှစ၍ တစ်နေ့ထက်တစ်နေ့ လာဘ်လာဘ ခေါင်းပါးခြင်း တို့သည်လည်း ဖြစ်တတ်ကုန်၏။ ။ ဤကား ကုလမစ္ဆရိယ၏ အပြစ်တည်း။

၃။ **လာဘမစ္ဆရိယသည် အဘယ်သို့ ဖြစ်သနည်းဟူမူကား။** ။ ဆွမ်း, သင်္ကန်း, ကျောင်း, ဆေးပစ္စည်း ပရိက္ခရာတို့ကို ဒါယကာတို့ လှူသည်ရှိသော် မိမိ၏အထံသို့သာ ရောက်စေလိုသော ဆန္ဒဖြင့် တောင့်တပြောဆို၏။ တစ်ပါးသော သီလဝန် ဂုဏဝန် ပုဂ္ဂိုလ်တို့ကို မရပါစေသတည်းဟု ကြံစည်၏။ သံဃိကဖြစ်သော လာဘ်ကိုသော်လည်း သူတစ်ပါးတို့အား မပေးဘဲ ဖက်ထား၍ မိမိရအောင် ကြံဆောင်ပြောဆိုလေ့ရှိ၏။ ဤသို့ ဝန်တိုခြင်းသည် လာဘမစ္ဆရိယမည်၏။

အကြင်ရဟန်းသည် ဒါယကာတို့ သဒ္ဓါ၍ လှူသောပစ္စည်းကို မီးတိုက်ခြင်း ရေမျှောခြင်းစသည်တို့ဖြင့် ဖျက်ဆီး၏။ မသုံးဆောင်ကောင်းအောင်လည်း ပြု၏။ မကောင်းသဖြင့် သုံးဆောင်၏။ မိမိလည်း မသုံးဆောင်၊ သူတစ်ပါးအားလည်း မပေးဘဲထား၍ အကျိုးမဲ့ ပုပ်ဆွေးပျက်စီးသည်ကိုမြင်၍ "ဤအရှင်ကား ဤသို့ပင်ထားသည်။ တစ်ပါးသော ပုဂ္ဂိုလ်တို့ရမူ ကောင်းလေစွ"ဟု ကြံစည်ပြောဆိုသော ပုဂ္ဂိုလ်အား လာဘမစ္ဆရိယမဖြစ်။ ထို့ကြောင့် အဋ္ဌကထာ၌-

**ယော ပန သဒ္ဓါဒေယျံ ဝိနိပါတေတိ။ အပရိဘောဂဒုပ္ပရိ ဘောဂါဒိ ဝသေန ဝိနာသေတိ။ ပူတိဘာဝံ ဂစ္ဆန္တမ္ပိ အညဿ န ဒေတိ။ ဒိသွာ သစေ သော ဣမံ န လဘေယျ။ အညော သီလဝါ လဘေယျ။ ပရိဘောဂံ ဂစ္ဆေယျာတိ စိန္တေန္တဿ မစ္ဆရိယံနာမ နတ္ထိ။ ဟူ၍ မိန့်၏။**

ဤသို့ လာဘသက္ကာရ၌ ဝန်တိုသော ပုဂ္ဂိုလ်သည် မျက်မှောက်ဘဝ၌လည်း ရန်များခြင်း၊ သူတစ်ပါးတို့ကဲ့ရဲ့ခံရခြင်းဟူသော အကျိုးသည် ဖြစ်၏။ တမလွန်ဘဝ၌ ပြိတ္တာသည်လည်းကောင်း၊ နတ်ဘီလူးသည်လည်းကောင်း ဖြစ်၏။ မစင်ကိုသာ စားရာရှိသော သတ္တဝါအမျိုး၌သော်လည်း ဖြစ်ရ၏။ ။ ဤကား လာဘသက္ကာရ၌ ဝန်တိုခြင်း၏ အပြစ်တည်း။

၄။ **ဝဏ္ဏမစ္ဆရိယသည် အဘယ်သို့ဖြစ်သနည်းဟူမူကား။** ။ သူတစ်ပါး အဆင်း အရောင် လှပတင့်တယ် ကြည်ညိုဖွယ်ရှိသည်ကို သူတစ်ထူးတို့ ချီးမွမ်းပြောဆိုလျှင် ထိုစကားကို မပြောမဆိုစိမ့်သောငှာ အပြစ်ရှာ၍သာ ပြောဆိုပုတ်ခတ်၏။ ဤသို့ ဖြစ်ခြင်းသည် သရီရဝဏ္ဏမစ္ဆရိယမည်၏။ သူတစ်ပါးတို့၏ သီလအာစာရ ပြည့်စုံခြင်း၊ ဓုတင်ကျင့်ဝတ်, သဉ္ဇုဋ္ဌိ သလ္လေခကျင့်ဝတ်တို့နှင့် ပြည့်စုံခြင်း၊ အသိပညာနှင့် ပြည့်စုံခြင်း ဟူသော ကျေးဇူးတို့ဖြင့် ချီးမွမ်းပြောဆိုသည်ကို ကြားလျှင် အားရ

နှစ်သက်ခြင်းမရှိ။ ထိုထိုသော အပြစ်ကို ပြ၍သာလျှင် ဆိုတတ်၏။ ဤသို့ဖြစ်ခြင်းသည် ဂုဏဝဏ္ဏမစ္ဆရိယ မည်၏။

သူ့ကုသိုလ်ကြောင့် သူလှ၏။ သူ့ကုသိုလ်ကြောင့် သူကျော်စော၏ဟု ကောင်းသော စိတ်ကိုဖြစ်စေခြင်းသည် သရီရဝဏ္ဏမစ္ဆရိယ, ဂုဏဝဏ္ဏမစ္ဆရိယ မဖြစ်။

ဤသို့ ကိုယ်၏အဆင်း၊ သီလ သမာဓိစသော ဂုဏ်အဆင်းတို့၌ ဝန်တိုခြင်းရှိသောသူသည် ဖြစ်တိုင်းဖြစ်တိုင်းသော ဘဝတို့၌ အဆင်းမလှခြင်း၊ ဆွံ့အခြင်း၊ အရီယိုခြင်း၊ ကျေးဇူးသတင်း မကောင်းခြင်းဟူသော အကျိုးသည်ဖြစ်၏။ ။ ဤကား ဝဏ္ဏမစ္ဆရိယ အပြစ်တည်း။

၅။ **ဓမ္မမစ္ဆရိယ**သည် အဘယ်သို့ ဖြစ်သနည်း ဟူမူကား။ ။ ကျမ်းဂန်တို့၌ လျှို့ဝှက်ခဲခက်သော အနက်အဓိပ္ပာယ်ကို သူတစ်ပါးမသိစိမ့်သောငှာ လျှို့ဝှက်စွာသော်လည်း ထား၏။ မိမိသည် သူတစ်ပါးကို မသိစိမ့်သောငှာ လွန်စွာချုပ်ချယ်၏။ သူတစ်ထူး ရေကူးမှတ်သားသော ကျမ်းဂန်ကိုလည်း ဖျောက်ဖျက်ထိမ်မြှုပ်၏။ ဤသို့ပြုခြင်းသည် ဓမ္မမစ္ဆရိယ မည်၏။

တရားတော်ကို မဟုတ်မှန် ဖောက်ပြန် ပျက်စီးအောင် ပြုလတ္တံ့သောသူအား တားမြစ်ပိတ်ပင်ခြင်းသည်ကား ဓမ္မမစ္ဆရိယ မဖြစ်။

ဤသို့ တရားတော်ကိုပိတ်ဆို့ လျှို့ဝှက်သော ပုဂ္ဂိုလ်သည်ကား ဘဝတစ်ပါးလားသောအခါ ပြာပူရေ၌ ဖြစ်ရခြင်း။ လူဖြစ်သော်လည်း အတတ်ပညာကို မတတ်နိုင်ခြင်းဟူသော အကျိုးတို့သည် ဖြစ်ကုန်၏။ ဤကား ဓမ္မမစ္ဆရိယ၏ အပြစ်တည်း။

ဤမျှလောက်သော စကားအစဉ်ဖြင့် ဝန်တိုခြင်း ငါးပါးတို့၏အပြစ်ကို အသီးသီး ခွဲခြမ်း၍ သိနိုင်လောက်ပြီ။

ဤသို့ကျမ်းဂန်လာသည်ကိုထောက်၍ မကောင်းကျိုး ဖြစ်အံ့သည်ကို ကြောက်ကုန်သော သူတော်ကောင်းတို့သည် မကောင်းမှုအစစ်ဖြစ်သော မစ္ဆရိယ တရားကို မပွားမစီးအောင် သတိပြုကုန်ရာသည်။

❖❖❖❖❖

၉၁၃။ သောက်ကြသေရည်၊ အတည်တည်၊ မည်ကိုအာရုံပြုသနည်း။ (၂၀၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား—

''သုရာပါနံ သဒ္ဒါရာရမ္မဏံ'' ဟူ၍ ခုဒ္ဒကပါဌ အဋ္ဌကထာ၌လာသောကြောင့် သုရာသောက်သော သူသည် ရသာရုံဟူသော သဒ္ဒါရကို အာရုံပြု၏။

❖❖❖❖❖

၉၁၄။ ခံတွင်း၌တည်၊ အမြီးရှည်၊ ရောက်သည်ပြိတ္တာဘယ့်ကြောင့်နည်း။(၂၀၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ရှာ၍မတွေ့။

◆◆◆◆◆

၉၁၅။ နိုးသူမလည်း၊ ယင်းကံသည်း၊ မည်ဝေဒနာယှဉ်သနည်း။(၂၀၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''အဒိန္နာဒါနံ တိဝေဒနံ'' ဟူ၍ ဆိုသောကြောင့်–

၁။ ချမ်းသာသဖြင့် နိုးသောသူအား သုခဝေဒနာ။

၂။ ဆင်းရဲသဖြင့် နိုးသောသူအား ဒုက္ခဝေဒနာ။

၃။ လျစ်လျူသာ နိုးသောသူအား ဥပက္ခာဝေဒနာ။

ဤသုံးပါးနှင့်ယှဉ်၏ ဟူပေ။

◆◆◆◆◆

၉၁၆။ သေရက်သေရည်၊သောက်ကြသည်၊ယင်းသည်ဘယ်ဝေဒနာနည်း။(၂၀၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''သုရာပါနံ သုခမဇ္ဈတ္တဝသေန ဒွိဝေဒနံ''ဟူ၍လာသောကြောင့်–

၁။ သုရာသောက်ခြင်းသည် ချမ်းသာ၏ဟူ၍ မှတ်သောသူအား သုခဝေဒနာ။

၂။ လျစ်လျူဖြင့်သာ သောက်သောသူအား ဥပေက္ခာဝေဒနာ။ ဤနှစ်ပါးနှင့် ယှဉ်၏။

◆◆◆◆◆

၉၁၇။ မေတ္တာပို့မည်၊လှူပေးမည်၊ဘယ်သည်ကုသိုလ်ကြီးသနည်း။(၂၀၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မေတ္တာပို့သည့် ကုသိုလ်နှင့်၊ အလှူပေးသည့် ကုသိုလ်သည် မည်သည်က အကျိုးကြီးသနည်း ဟူရာ၌– အကျိုးကြီး၏ဟု ဆိုခြင်းသည်–

ဘုံဌာနအားဖြင့် မြင့်မြတ်အောင် ပေးနိုင်သည်ကိုလည်း ''ကြီး၏''ဟု ဆိုသည်။

လောကုတ္တရာဖြစ်သော မဂ်ဉာဏ်, ဖိုလ်ဉာဏ်၌ နီးသည်ကိုလည်း ''ကြီး၏''ဟု ဆိုသည်။

ကာလမြင့်ကြာ ကမ္ဘာရှည်လျား ခံစားရသည်ကိုလည်း ''ကြီး၏''ဟု ဆိုသည်။

ထိုသုံးပါးတို့တွင် –

အလှူပေးခြင်းတည်းဟူသော ဒါနတရားသည်– အလှူဝတ္ထု၏ မြတ်ခြင်း၊ စေတနာ သဒ္ဓါတရား၏ ထက်မြက်ခြင်း၊ အလှူခံပုဂ္ဂိုလ်၏ ကောင်းမြတ်ခြင်းတည်းဟူသော ခေတ္တအဖွဲ့ ၁သယတို့နှင့် ပြည့်စုံသဖြင့် မျက်မှောက်ဘဝမှစ၍ နိဗ္ဗာန်ရသည်တိုင်အောင် ဘဝအသချေ၊ ကမ္ဘာအသချေ၊ မရေမတွက်နိုင်သော ကာလပတ်လုံး မြတ်သောဘဝ၌ ဖြစ်ခြင်း၊ စည်းစိမ်ဥစ္စာ၏ ပြည့်စုံခြင်း၊ သား မြေး ကျေးကျွန် အခြံအရံနှင့် ပြည့်စုံခြင်း၊ အာယု, ဝဏ္ဏ, သုခ, ဗလ, ပဋိဘာန, ဣဿရိယစသည်နှင့် ပြည့်စုံခြင်းတည်းဟူသော အကျိုး တို့ကို ပေးစွမ်းနိုင်သည်။ ယင်းသို့ ပေးသော်လည်း ကာမသုဂတိဘုံ၌သာဖြစ်၍ ကာမဓာတ်ကို မလွန်နိုင်ချေ။

မေတ္တာပို့ခြင်း၏ အကျိုးမှာမူကား ဒါနကဲ့သို့ ကမ္ဘာရှည်လျားအောင်လည်းကောင်း၊ ခံစားရခြင်းများအောင်လည်းကောင်း မပေးတတ်။ ယင်းသို့ မပေးတတ်သော်လည်း အပ္ပနာဈာန်သို့ရောက်အောင် ပွားစေအပ်သော မေတ္တာသည် ရူပါဝစရ ဗြဟ္မာ့ဘုံသို့ ရောက်စေတတ်သောကြောင့် အကျိုးမြတ်သည်ဟု ဆိုအပ်၏။ ထိုစကားသည် မှန်၏။ ကာမကုသိုလ်ဇောဖြင့် ပွားစေအပ်သော မေတ္တာသည် မျက်မှောက်ဘဝ၌ ဆယ်ပါးသော အကျိုးကို ဖြစ်စေနိုင်သည်။ ဈာန်အပ္ပနာသို့ ရောက်အောင် ပွားစေသော မေတ္တာမူကား ၎င်းအကျိုးဆယ်ပါးကို လည်းကောင်း ဗြဟ္မာကိုးရပ်၌ ပဋိသန္ဓေနေရခြင်းအကျိုးကို လည်းကောင်း ပြီးစေနိုင်သည်။ ထို့ကြောင့် အကျိုးကြီးသည်ဟု ဆိုအပ်သတည်း။

ဤမေတ္တာဟူသော ဘာဝနာကံသည် ဒါနထက်သာ အကျိုးကြီးသည်မဟုတ်။ သရဏဂုံ ပဉ္စသီ ဆောက်တည်ခြင်း၊ ဥပုသ်ကျင့်သုံးခြင်း ဟူသော သီလကုသိုလ်တို့ထက်လည်းကောင်း, အပစာယန၊ ဝေယျာဝစ္စ၊ ပတ္တိဒါန၊ ပတ္တာနုမောဒန၊ ဓမ္မဿဝန၊ ဓမ္မ ဒေသနာ၊ ဒိဋ္ဌိဇုကမ္မ ဟူသော ပုညကိရိယာ ဝတ္ထုတို့ထက် လည်းကောင်း, အကျိုးကြီးမြတ်သည်သာတည်း။ အဘယ့်ကြောင့်နည်းဟူမူ –ထိုကုသိုလ်ဆယ်ပါးတို့သည် ကာမဘုံ၌သာ အကျိုးကို ဖြစ်စေနိုင်သောကြောင့်တည်း။

အဘယ်ကိုထောက်၍ သိအပ်သနည်းဟူမူကား ဓမ္မဟဒယဝိဘင်း ပါဠိတော်၌–

> ဒါနံ ဒတွာ သီလံ သမာဒိယိတွာ ဥပေါသထကမ္မံ ကတွာ ကတ္ထ ဥပ္ပဇ္ဇန္တီတိ။ ဒါနံ ဒတွာ သီလံ သမာဒိယိတွာ ဥပေါသထကမ္မံ ကတွာ အပ္ပေကစ္စေ ဂဟပတိ မဟာသာလာနံ သဟဗျတံ ဥပပဇ္ဇန္တိ။ အပ္ပေကစ္စေ ဗြာဟ္မဏ မဟာသာလာနံ သဟဗျတံ ဥပပဇ္ဇန္တိ။ အပ္ပေကစ္စေ ခတ္တိယ မဟာသာလာနံ သဟဗျတံ ဥပပဇ္ဇန္တိ။ အပ္ပေကစ္စေ စာတုမဟာရာဇိကာနံ ဒေဝါနံ သဟဗျတံ ဥပပဇ္ဇန္တိ။ အပ္ပေကစ္စေ တာဝတိံသာနံ ဒေဝါနံ။ အပ္ပေကစ္စေ ယာမာနံ ဒေဝါနံ။ အပ္ပေကစ္စေ တုသိတာနံ ဒေဝါနံ။ အပ္ပေကစ္စေ နိမ္မာနရတီနံ ဒေဝါနံ။ အပ္ပေကစ္စေ

89
B

**ပရနိမ္မိတ ဝသဝတ္တီနံ ဒေဝါနံ သဟဗျတံ ဥပပဇ္ဇန္တိ။ ပ။ ဘာဝနာသု ပန ပဌမံ ဈာနံ ပရိတ္တံ ဘာဝေတွာ ဗြဟ္မပါရိသဇ္ဇေသု ဥပပဇ္ဇတိ။ မဇ္ဈိမံ ဘာဝေတွာ ဗြဟ္မ ပုရောဟိတေသု ဥပပဇ္ဇတိ။ ပဏီတံ ဘာဝေတွာ မဟာဗြဟ္မေသု ဥပပဇ္ဇတိ။**

အစရှိသည်ဖြင့် ဟောတော်မူသည်ကို ထောက်၍ သိရာ၏ ဟူပေ။

ဤပါဠိတော်၌ အလှူပေးခြင်း၊ သီလဆောက်တည်ခြင်း၊ ဥပုပ်ဆောက်တည်ခြင်း အကျိုးကို စေတနာနုန့်သည်, ထက်သည်အားလျော်စွာ ဤလူ့ရွာ၌ ဂဟပတိ မဟာသာလ၊ ဗြာဟ္မဏမဟာသာလ၊ ခတ္တိယ မဟာသာလ ဟုဆိုအပ်သော သူကြွယ်ကြီး သုံးပါးဖြစ်ရခြင်း။ နတ်ပြည်ခြောက်ထပ်၌ နတ်မင်းအဖြစ်ကိုရခြင်းဟူသော အကျိုးကိုသာ ဟောတော်မူသည်။ ဗြဟ္မာ့ဘုံ၌ ဖြစ်ခြင်းကို ဟောတော်မမူ။

ဘာဝနာ စီးဖြန်းခြင်း၏ အကျိုးကား အယုတ်, အလတ်, အမြတ်အားဖြင့် ဗြဟ္မာ့ပြည်၌ဖြစ်ခြင်းကို ဟောတော်မူသည်၊ ထို့ကြောင့် အပ္ပနာသို့ရောက်အောင် ပို့သော မေတ္တာသည် ဒါန, သီလ, ဥပေါသထ ကုသိုလ်ထက် အကျိုးကြီးမြတ်၏ဟု ဆိုရာသည်။

နေမိဇာတ်တော်၌ နေမိမင်းကြီးသည် အလှူပေးခြင်းနှင့် သီလဆောက်တည် ခြင်း၏ အကျိုးသည် အဘယ်ကသာ၍ မြတ်သနည်းဟု အကြံဖြစ်သည်ကို သိကြားမင်း သိသဖြင့် လူ့ပြည်သို့လာ၍ တရားဟောပြောရာ၌–

ဟီနေန ဗြဟ္မစရိယေန၊ ခတ္တိယေ ဥပပဇ္ဇတိ။
မဇ္ဈိမေန စ ဒေဝတ္တံ၊ ဥတ္တမေန ဝိသုဇ္ဈတိ။

န ဟိ ဧတ သုလဘာ ကာယာ၊ ယာစယောဂေန ကေနစိ။
ယေ ကာယေ ဥပပဇ္ဇန္တိ၊ အနာဂါရာ, တပဿိနော။

မဟာရာဇ၊ မြတ်သောမင်းကြီး။ ဟီနေန၊ ယုတ်ညံ့သော။ ဗြဟ္မစရိယေန၊ သီးတင်းသုံးခြင်းဖြင့်။ ခတ္တိယေ၊ မင်းမျိုး၌။ ဥပပဇ္ဇတိ၊ ဖြစ်ရ၏။ မဇ္ဈိမေန၊ အလတ်သော သီတင်းသုံးခြင်းဖြင့်။ ဒေဝတ္တံ၊ နတ်၏အဖြစ်သို့။ ဥပပဇ္ဇတိ၊ ရောက်စေတတ်၏။ ဥတ္တမေန၊ မြတ်သော သီတင်းသုံးခြင်းဖြင့်။ ဝိသုဇ္ဈတိ၊ ကိလေသာတို့မှ စင်ကြယ်၏။ ဝါ၊ ကိလေသာ စင်ရာ ဗြဟ္မာ့ရွာ၌ ဖြစ်၏။

မဟာရာဇ၊ မင်းမြတ်။ အနာဂါရာ၊ အိမ်ရာ မထောင်ကုန်သော။ တပဿိနော၊ ခြိုးခြံစွာကျင့်ကုန်သော။ ယေကေသယာ၊ အကြင်ရသေ့တို့သည်။ ကာယေ၊ ဗြဟ္မာ့ပြည်၌။ ဥပပဇ္ဇန္တိ၊ ဖြစ်လေကုန်၏။ တေ ကာယာ၊ ထိုဗြဟ္မာအပေါင်းတို့သည်။ ကေနစိ၊ တစ်စုံတစ်ခုသော။ ယာစယောဂေန၊ ပေးလှူစွန့်ကြဲခြင်းဖြင့် နဟိသုလဘာ၊ မရကြကုန် သည်သာတည်း။

ဤဂါထာတို့ဖြင့် လွန်မြတ်စွာသော ဥက္ကဋ္ဌသီလသည် ဗြဟ္မာ့ပြည်၌ ဖြစ်ခြင်း တည်းဟူသော အကျိုးရှိသည်ဟု ဟောတော်မူသည် မဟုတ်လော။ ဥပေါသထ

သီလသည် ကာမသုဂတိ ခုနစ်ဘုံ၌သာ အကျိုးပေး၏ဟူသော ဝိဘင်းပါဠိတော် စကားသည် ဘယ်သို့သုတ်နှင့် ညီညွတ်အံ့နည်းဟူငြားအံ့။ နေမိဇာတ်၌ ဟောအပ်သော ဒေသနာကား သီလနှင့် ဘာဝနာသည် နိဿယ, နိဿိတ အကြောင်းအကျိုးမျှသာ ဖြစ်၍ အကြောင်း၏ အမည်ကို အကျိုး၌ တင်စား၍ ခေါ်ဝေါ်အပ်သော ကာရဏူပစာရ နေယျတ္ထနည်းအားဖြင့် ဟောသော ဒေသနာဖြစ်ရကား စင်ကြယ်သော သီလ၌တည်၍ မေတ္တာ, ဗြဟ္မဝိဟာရ စသော ဘာဝနာကံဖြင့် ပထမဈာန်သမာပတ် စသည်ကိုဖြစ်စေ၍ ဗြဟ္မာ့ဘုံ၌ ဖြစ်လေသည်ဟု ဆိုအပ်သော အနက်ရှိသောကြောင့် မညီညွတ်သည်မဟုတ်။ ညီညွတ်သည်ပင် ဖြစ်၏ဟူပေ။

မေတ္တာပို့ရခြင်း၏အကျိုးကို ဘယ်သို့ ဘုရားဟောတော်မူသနည်းဟူမူကား-

**မေတ္တာယ ခေါ ဘိက္ခဝေ စေတောဝိမုတ္တိယာ အာသေဝိတာယ ဘာဝိတာယ ဗဟုလီကတာယ သုသမာရဒ္ဓါယ ကောဒသာနိသံသာ ပါဋိကင်္ခိတဗ္ဗာ။ ကတမေ ကောဒသသုခံသုပ္ပတိ။ သုခံ ပဋိဗုဇ္ဈတိ၊ န ပါပကံ သုပိနံ ပဿတိ။ မနုဿာနံ ပိယော ဟောတိ။ အမနုဿာနံ ပိယော ဟောတိ၊ ဒေဝတာအနုရက္ခန္တိ။ နာဿ အဂ္ဂိ ဝါ ဝိသံ ဝါ သတ္ထံ ဝါ ကမတိ၊ တုဝဋံ စိတ္တံ သမာဓိယတိ မုခဝဏ္ဏော ဝိပ္ပသီဒတိ။ အသံမုဠှော ကာလံ ကရောတိ။ ဥတ္တရိမပ္ပဋိဝိဇ္ဈန္တော ဗြဟ္မလောကူပဂေါ ဟောတီတိ။** ဟူ၍ ဟောတော်မူသည်။

ဘိက္ခဝေ၊ တို့။ အာသေဝိတာယ၊ အဖန်တလဲလဲ မှီဝဲအပ်သော။ ဘာဝိတာယ၊ ပွားစေအပ်သော။ ဗဟုလီကတာယ၊ အကြိမ်များစွာ အလေ့အလာပြုအပ်သော။ သုသမာရဒ္ဓါယ၊ ကောင်းစွာ အားထုတ်၍ စီးဖြန်းအပ်သော။ မေတ္တာယစေတော ဝိမုတ္တိယာ၊ မေတ္တာဟူသော စေတောဝိမုတ္တိ၏။ ကောဒသာနိသံသာ၊ တစ်ဆယ့်တစ်ပါးသော အကျိုး ဆက်တို့ကို။ ပါဋိကင်္ခိတဗ္ဗာ၊ အလိုရှိအပ်ကုန်၏။ ကောဒသ၊ တစ်ဆယ့်တစ်ပါးသော အကျိုးဆက်တို့ဟူသည်။ ကတမေ၊ အဘယ်သည် တို့နည်းဟူမူကား။ သုခံ၊ ချမ်းသာစွာ။ သုပ္ပတိ၊ အိပ်ရ၏။ သုခံ၊ ချမ်းသာစွာ။ ပဋိဗုဇ္ဈတိ၊ နိုးရ၏။ ပါပကံ၊ ဆိုးရွားယုတ်မာ မကောင်းစွာသော။ သုပိနံ၊ အိပ်မက်ကို။ န ပဿတိ၊ မမြင်မက်။ မနုဿာနံ၊ လူအပေါင်းတို့၏။ ပိယော၊ ချစ်ခြင်းသည်။ ဟောတိ၊ ၏။ အမနုဿာနံ။ တစ္ဆေဖုတ်ကျတ်၊ နတ်ရဲစုန်းရှူး၊ ဘီလူးရက္ခိုသ်တို့၏။ ပိယော၊ ချစ်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။ ဒေဝတာ၊ နတ်ကောင်းတို့သည်၊ အနုရက္ခန္တိ၊ အစဉ်စောင့်ရှောက်ကုန်၏၊ အဿ၊ ထိုမေတ္တာပွား သောသူအား။ အဂ္ဂိဝါ၊ မီးသည်လည်း။ န ကမတိ၊ မလောင်နိုင်။ ဝိသံဝါ၊ အဆိပ်သည်လည်း။ န ကမတိ၊ မတတ်နိုင်။ သတ္ထံဝါ၊ မြားလှံ မီးပေါက်စသော လက်နက်သည်လည်း။ နကမတိ၊ မရောက်နိုင်။ တုဝဋံ၊ ဆောဆောလျင်လျင်။ စိတ္တံ၊ စိတ်သည်။ သမာဓိယတိ၊ တည်ကြည်၏။ မုခဝဏ္ဏော၊ မျက်နှာအဆင်းသည်။ ဝိပ္ပသီဒတိ၊ ကြည်လင်၏။ အတိမုဠှော၊

မတွေ့ဝေသည်ဖြစ်၍ ကာလံကရောတိ၊ သေရ၏။ ဥတ္တရိ၊ လွန်မြတ်သော လောကုတ္တရာတရားကို။ အပ္ပဋိဝိဇ္ဈန္တော၊ ထိုးထွင်း၍ မသိနိုင်သည်ရှိသော်။ ဖြဟ္မလောကူပဂေါ၊ ဗြဟ္မာ့ပြည်သို့ လားရသည်။ ဟောတိ၊ ၏။

ယင်းသို့ ဟောတော်မူအပ်သော အကျိုး တစ်ဆယ့်တစ်ပါးတို့တွင် ရှေးဆယ်ပါးကား မျက်မှောက်ဖြစ်သော ဒိဋ္ဌဓမ္မအကျိုးတို့တည်း။

ထိုအကျိုးဆယ်ပါးတို့တွင် နတ်ဘီလူးတို့သည် ချစ်ခင်၏ဟူရာ၌ အဘယ်သူအား ချစ်ခင်ဖူးသနည်းဟူမူကား–

ပါဋလိပုတ်ပြည်၌နေသော ဝိသာခအမည်ရှိသော သူကြွယ်တစ်ဦးသည် သီဟိုဠ်ကျွန်း၌ စေတီပုထိုးများကြောင်း။ ရဟန်းသံဃာများကြောင်း။ သာသနာတော် ထွန်းကားကြောင်းကိုကြား၍ ဘုရားဖူးခြင်းငှာ သွားလိုသည်ဖြစ်၍ မိမိ၏စည်းစိမ်ဥစ္စာတို့ကို သားမယားတို့အား ဆောက်နှင်းပြီးလျှင် ပုဆိုးစွန်၌ တစ်သပြာမျှကိုထုပ်၍ သမုဒ္ဒရာ၏ အနီးဖြစ်သော ရွာသို့လာခဲ့၏။ ထိုရွာသို့ရောက်လျှင် လှေကြုံမသင့်သေး ရကား တစ်လခန့် ကြာမြင့်၏။ သူကြွယ်လည်း ကုန်သွယ်သောအရာ၌ လိမ္မာလှသည် ဖြစ်၍ ရောင်းဝယ် ကူသန်းသည်နှင့် တစ်လအတွင်း၌ တစ်ထောင်သောအသပြာကို ရ၏။ တစ်လလွန်မှ အဖော်သင့်၍ လိုက်လေသဖြင့် သီဟိုဠ်ကျွန်းသို့ရောက်လျှင် မဟာဝိဟာရ ကျောင်းတိုက်သို့ ဝင်၍ သံဃာတော်တို့အထံ၌ တရားနာသဖြင့် သာသနာ၌ ကြည်ညိုခြင်းဖြစ်ရကား ရဟန်းပြုလိုကြောင်းကို တောင်းပန်၍ ရဟန်းပြု လေ၏။ သိမ်အပြင်သို့ ဝင်အံ့သောအခါ သံဃာတော်တို့က ''ဥပါသကာ–ရဟန်းဖြစ်သော အခါ ဤအသပြာတို့ကို စီရင်ခြင်းငှာ မသင့်ပြီ။ ယခုက စီရင်လော့''ဟု ဆို၏။ ထိုစကားကို ကြားသော် ဝိသာခ ဥပါသကာလည်း ထိုအသပြာတစ်ထောင်တို့ကို သိမ်အနီးကြဲ၍ ''ယူလိုသူယူပါစေ''ဟု ကြွေးကြော်ပြီးမှ ဥပသမ္ပဒကံဆောင်လေ၏။ ရဟန်းဖြစ်ပြီးသော် ဒွေမာတိကာကို ဝါစုဂ္ဂတဆောင်၍ မိမိနှစ်သက်သော ကမ္မဋ္ဌာန်းစီးဖြန်းနည်းကို သင်၍ ငါးဝါရှိသောကာလ သီဟိုဠ်ကျွန်းတွင် ကျောင်းစဉ် ဒေသစာရီလှည့်လေသော် စိတ္တလတောင်ကျောင်းသို့ ဝင်ခါနီး၌ ခရီးနှစ်ခွရှိ၍ ဘယ်ခရီးသို့ လိုက်သော် လျော်အံ့နည်းဟုကြံလျက် ရပ်သည်တွင် တောင်၌ စောင့်နေသော နတ်သည် မထေရ်မြတ်၏လက်ကိုဆွဲ၍ ''အရှင်ဘုရား၊ ဤခရီးသို့ကြွပါ''ဟုလျှောက်၏။ ဝိသာခထေရ်လည်း ထိုနတ်လျှောက်သောအတိုင်း သွား၍ စိတ္တလတောင်ကျောင်း၌ လေးလနေပြီးသော် အခြားသို့သွားဦးအံ့ဟု ကြံ၍ သက်နှင်းသပိတ်ကို ပြင်လျှင် ထိုကျောင်း အနီးတွင်နေသော ရက္ခစိုး၊ ဘုမ္မစိုးနတ်တို့သည် အလွန်ငိုယိုကြ၏။ မထေရ်က ''သင်တို့ အဘယ့်ကြောင့် ငိုသနည်း'' ဟု မေးလျှင် အရှင်မြတ်သည် ကျွန်ုပ်တို့အား ပစ်ထား၍ ကြွသွားတော်မူမည်ကို စိုးရိမ်လှ၍ ငိုပါသည်''ဟု လျှောက်ကြကုန်၏။ ''ငါနေသဖြင့်

သင်တို့အား အဘယ်အကျိုးရှိအံ့နည်း''ဟု မေးလျှင် ''အရှင်ဘုရား ကိုယ်တော်ရောက်သည်မှစ၍ ဤတောင်၏ထက်ဝန်းကျင်၌နေသော ဖုတ်,ကျတ်, တစ္ဆေ, မြေဘုတ်ဘီလူးစသော နတ်တို့သည် အချင်းချင်းခိုက်ရန်မဖြစ်၊ ချစ်ခင်စုံမက်စွာ မေတ္တာပွားကြကုန်သည်ဖြစ်၍ ချမ်းသာကြပါသည်''ဟု လျှောက်၏။ မထေရ်မြတ် လည်း ''ယင်းသို့အကျိုးရှိသော် ငါနေဦးမည်''ဟုဆို၍ လေးလပတ်လုံးနေပြန်၏။ နောက်တစ်ဖန်သွားမည်ကြံပြန်သော် ယခင်ကဲ့သို့ ငိုကြွေး၍ တောင်းပန်သဖြင့် မကြွဖြစ်ဘဲ ဤတောင်ကျောင်း၌သာ မြင့်မြဲစွာနေ၍ ပရိနိဗ္ဗာန်ပြုရလေ၏။ ဤဝိသာခ ထေရ်၏ အတ္ထုပ္ပတ္တိကိုထောက်၍ နတ်တို့မြတ်နိုးသောအဖြစ် မပြတ်စောင့်ရှောက်သော အဖြစ်ကို သိရာသည်။

မေတ္တာဖြင့် နေလေ့ရှိသော သူအား မီးဘေး, လက်နက်ဘေးတို့ မရောက်နိုင်သော အဖြစ်ကို ဥတ္တရာဥပါသိကာမ၏ ဝတ္ထု၊ စူဠသိဝမထေရ်၏ဝတ္ထု။ သံကိစ္စသာမဏေဝတ္ထု တို့ဖြင့်လည်း သိရာသည်။ မဟာဝင်၌လာသော သီဟဗာဟုမင်း၏အဖခြင်္သေ့၏ ဝတ္ထုဖြင့်လည်း သိရာသည်။

တစ်စီးသော နွားမသည် နို့တော်လုသော သားငယ်အား နို့တိုက်၍ တစ်ခုသောသစ်ပင်အောက်၌နေလေရာ မုဆိုးတစ်ယောက်သည် အသွားရှည်သော လှံမဖြင့် ထိုး၏။ ထိုလှံသည် ထန်းရွက်ကဲ့သို့ လိပ်သည်ဖြစ်၍ နွားမ၏ နံပါးကိုထိလျက် မစူးဘဲအောက်သို့သာ သုံးကြိမ်ကျ၏။ သုံးကြိမ်ထိုး၍ မစူးလေမှ မုဆိုးလည်း အခြားသို့ရှောင်လွှဲ၍ သွားလေသည်။ ဤဝတ္ထုသက်သေကို ထောက်၍ ဥပစာရအပ္ပနာဘာဝနာသို့မရောက်ဘဲ ချစ်ခင်စုံမက်ခြင်းစေတနာ ပွားကာမျှသော မေတ္တာသည်လည်း ကြီးစွာသော အကျိုးရှိ၏ဟု မှတ်သိရာသည်။

ဤကား ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၌လာသော မေတ္တာ၏အကျိုးဆက်တို့တည်း။

ဤမှတစ်ပါး ရှေးဆရာတို့ သီထားသော ဂါထာကိုလည်း ဤသို့တွေ့ဖူး၏။

**စက္ကဝါဠမ္ဗိ ပါကာရံ၊ ကတွာ ရတနထူပိယံ။**
**ကောဿ မေတ္တစိတ္တဿ၊ ကလံ နာဂ္ဃတိ သောဠသိံ။**

စက္ကဝါဠမ္ဗိ၊ စကြဝဠာတိုက်ကိုလည်း။ ပါကာရံ ကတွာ၊ တံတိုင်းပြု၍။ ရတနထူပိယံ၊ ရတနာဖြင့်ပြီးသော စေတီကို။ ကရေယျ၊ ပြုစေဦး။ ကောဿ မေတ္တစိတ္တဿ၊ တစ်ကြိမ် တစ်ခါ မေတ္တာပြုရသော စိတ်၏အကျိုးကို။ သောဠသိံ၊ တစ်ဆယ့်ခြောက်စိတ် စိတ်၍။ ကလံ၊ တစ်စိတ်ကိုမျှ။ နာဂ္ဃတိ၊ မတူနိုင်ရာ။

ဤသို့တွေ့ဖူးသော်လည်း ဘုရားဟောကျမ်းလာ မဟုတ်ရကား အားမပြုလောက်ချေ။

❖❖❖❖❖

**၉၁၈။ မြေလှုပ်ခြင်းသည်၊ ပေါင်းရှစ်တည်၊ မည်သည်မည်သို့ပေတို့နည်း။(၂၁၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဝါယောဓာတုပ္ပကောပနေ၊ ဣဒ္ဓိဝိကုဗ္ဗနေ၊ ဗောဓိသတ္တဿ မာတုကုစ္ဆိယံ သြက္ကမနေ၊ နိက္ခမနေ၊ အဘိသမ္ဗောဓိယံ၊ ဓမ္မစက္ကပဝတ္တနေ၊ အာယုသင်္ခါရ ဝေါဿဇ္ဇနေ၊ ပရိနိဗ္ဗာနေတိ ဣမေဟိ အဋ္ဌဟိ ကာရဏေဟိ မဟာဘူမိစာလော ဟောတိ။ ။ ပရိနိဗ္ဗာနသုတ်အဋ္ဌကထာ။**

အနက်အဓိပ္ပါယ်ကို အထက် နသတ်ကာရန်က ဝေဖန်၍ ဖြေဆိုခဲ့ပြီ။

❖❖❖❖❖

**၉၁၉။ ကျမ်းထွက်မိန့်ရှည်၊ ပေါက်ပင်သည်၊ မည်လောက်ကာလပြားသနည်း။(၂၁၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ခါဏုကကာလေ၊ အရွက်ကြွေ၍ သစ်ငုတ်သာ ရှိသောအခါ၌။ ကိံသုကော၊ ပေါက်ပင်သည်။ ဈာမခါဏုကော သေယျထာပိ၊ မီးလောင်ပြီး၍ မီးငွေ့ပြာဖြင့် မွဲရောင်းစွာဖြစ်သော သစ်ငုတ်ကဲ့သို့။ ဟောတိ၊ ဖြစ်၏။ ဗဟုပလာသကာလေ၊ အရွက် များစွာရှိသော အခါ၌။ ကိံသုကော၊ ပေါက်ပင် သည်။ နိဂြောဓရုက္ခော သေယျထာပိ၊ ဝေဆာရိမှောင် ပညောင်ပင်ကြီးကဲ့သို့။ ဟောတိ၊ ဖြစ်၏။ ပုပ္ဖိတကာလေ၊ ပွင့်သော အခါ၌။ ကိံသုကော၊ ပေါက်ပင်သည်။ မံသပေသိ သေယျထာပိ၊ သားတစ်ပုံကဲ့သို့။ ဟောတိ၊ ဖြစ်၏။ ဖလိတကာလေ၊ အသီးရှိသော အခါ၌။ ကိံသုကော၊ ပေါက်ပင်သည်။ သုကော သေယျထာပိ၊ ကျေးငှက်အများ နားသကဲ့သို့။ သိရီသောဘတိ၊ ကျက်သရေတင့်တယ်၏။ ဒုကနိပါတ်၊ ကိံသုကောပမဇာတ်တွင်လာသည်။

❖❖❖❖❖

**၉၂၀။ သောဘိတထေရ်၊ ပုဂ္ဂိုလ်သည်၊ မည်တေဒဂ်ရသနည်း။(၂၁၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဧတဒဂ္ဂံ ဘိက္ခဝေ မမ သာဝကာနံ ဘိက္ခူနံပုဗ္ဗေနိဝါသာနုဿရန္တာနံ ယဒိဒံ သောဘိတော။**

ဘိက္ခဝေ၊ တို့။ ပုဗ္ဗေနိဝါသာနုဿရန္တာနံ။ ရှေး၌ နေဖူးသော ခန္ဓာအစဉ်ကို အောက်မေ့နိုင်ကုန်သော။ မမ၊ ငါဘုရား၏။ သာဝကာနံ၊ တပည့်ဖြစ်ကုန်သော။ ဘိက္ခူနံ၊ ရဟန်းတို့တွင်။ ယဒိဒံ ယော အယံ သောဘိတော၊ အကြင်သောဘိတ ထေရ်သည်။ အတ္ထိ၊ ရှိ၏။ ဧတံ သော၊ ဤသောဘိတထေရ်သည်။ အဂ္ဂံ–အဂ္ဂေါ၊ ကဲလွန်၏။

ဤသို့ ဧကနိပါတ် အင်္ဂုတ္တိုရ် ပါဠိတော်၌ လာသောကြောင့် သောဘိတ ထေရ်သည် ပုဗ္ဗေနိဝါသတေဒဂ်ကိုရ၏ ဟူပေ။

❖❖❖❖❖

၉၂၁။ ဖြောင့်ခြင်းသုံးမည်၊ မြင်း၌တည်၊ မည်သည်ဖြောင့်ခြင်းပေတို့နည်း။ (၂၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပုစ္ဆာနံပါတ် ၉၀၃။ ၉၀၄။ ၉၀၅–တို့နှင့်စပ်၍ ဖြေဆိုခဲ့ပြီ။

❖❖❖❖❖

၉၂၂။ တိရစ္ဆာန်ပြည်၊ ဝါဆိုသည်၊ ဘုန်းစည် ဝါပေါင်း ဘယ်မျှနည်း။ (၂၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဒသမံ ပါလိလေယျကဝနသဏ္ဍေ။**

ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကထာတို့၌ လာသည်နှင့်အညီ ပါလိလေယကတောအုပ်၌ ပလလည်းဆင်မင်း၏ အလုပ်အကျွေးကိုခံလျက် ဆယ်ခုမြောက်သော ဝါကိုကပ်တော်မူသည်။ ထို့ကြောင့် ဤဒသမဝါသာလျှင် တိရစ္ဆာန်ပြည်၌ ဝါကပ်သည်ဟု သိရမည်။

❖❖❖❖❖

၉၂၃။ သာဝတ္ထိပြည်၊ ခြိမ့်ခြိမ့်စည်၊ မည်မျှအိမ်ခြေ ရှိသနည်း။ (၂၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အာဝုသော သာဝတ္ထိ နာမ သတ္တပညာသာယ ကုလသတသဟဿေဟိ အဇ္ဈာဝုတ္ထာ။ အသီတိ ဂါမသဟဿပ္ပဋိမဏ္ဍိတာနံ တိယောဇနသတိကာနံ ဒွိန္နံ ကာသိကောသလရဋ္ဌာနံ အာယမုခဘူတာ။**

အာဝုသော၊ ငါ့ရှင်မေဏ္ဍက, လောဟိတတို့။ သာဝတ္ထိ နာမ၊ သာဝတ္ထိပြည် မည်သည်ကား။ သတ္တပညာသာယ ကုလသတသဟဿေဟိ၊ ငါးသန်းခုနစ်သိန်းသော အမျိုးကောင်းတို့သည်။ အဇ္ဈာဝုတ္ထာ၊ နေကုန်၏။ အသီတိဂါမ သဟဿပ္ပဋိမဏ္ဍိတာနံ၊ ရွာကြီးရှစ်သောင်းတို့ဖြင့် တန်းဆာဆင်အပ်ကုန်သော။ တိယောဇနသတိကာနံ၊ ယူဇနာ သုံးရာရှိကုန်သော။ ဒွိန္နံ ကာသိ ကောသလရဋ္ဌာနံ၊ ကာသိ, ကောသလတိုင်းကြီး နှစ်ရပ် တို့၏။ အာယမုခဘူတာ၊ အခွန်ဆက်သွင်းရာ ဖြစ်၏။

ဤသို့ ပါရာဇိကဏ်အဋ္ဌကထာ၌ လာသောကြောင့် အိမ်ခြေ ငါးသန်းခုနစ်သိန်း ရှိသည်ဟု သိအပ်၏။

အချို့ စာငယ်တို့၌ကား– မြို့တွင်း ကိုးကုဋေ၊ မြို့ပြင် ကိုးကုဋေအားဖြင့် တစ်ဆယ့် ရှစ်ကုဋေအိမ်ခြေရှိသည်ဟု ဆို၏။ ပါဠိပါဠိကို မတွေ့။

❖❖❖❖❖

**၉၂၄။ ရာဇဂြိုဟ်ပြည်၊ သာထူးလည်၊ မည်မျှဂါဝုတ် ကျယ်သနည်း။(၂၁၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**အာဝုသော ရာဇဂဟံ နာမ အဋ္ဌာရသဟိ မနုဿကောဋီဟိ အဇ္ဈာဝုတ္ထာ။ အသီတိဂါမသဟဿပ္ပဋိမဏ္ဍိတာနံ တိယောဇနသတိကာနံ ဒွိန္နံ အင်္ဂမဂဓ ရဋ္ဌာနံ အာယမုခဘူတာ။**

အာဝုသော၊ ငါ့ရှင် မေတ္တိယ။ ရာဇဂဟံ နာမ၊ ရာဇဂြိုဟ်ပြည်မည်သည်ကား။ အဋ္ဌာရသဟိ မနုဿကောဋီဟိ၊ တစ်ဆယ့်ရှစ်ကုဋေသော လူတို့သည်။ အဇ္ဈာဝုတ္ထာ၊ နေကုန်၏။ အသီတိဂါမသဟဿပ္ပဋိမဏ္ဍိတာနံ၊ ရှစ်သောင်းသောရွာတို့ဖြင့် တန်ဆာဆင် အပ်ကုန်သော။ တိယောဇနသတိကာနံ၊ ယူဇနာသုံးရာ အတိုင်းအရှည် ရှိကုန်သော။ ဒွိန္နံ အင်္ဂမဂဓရဋ္ဌာနံ၊ အင်္ဂတိုင်း၊ မာဂဓတိုင်း နှစ်ပါးတို့၏။ အာယမုခ ဘူတာ၊ အခွန်ဆက်သွင်းရာ ဖြစ်၏။ ပါရာဇိကဏ်အဋ္ဌကထာ။

**ရာဇဂဟံ ကိရ အာကိဏ္ဏမနုဿာ။ အန္တောနဂရေ နဝကောဋိယော ဗဟိနဂရေ နဝါတိ တံ ဥပနိဿာယ အဋ္ဌာရသမနုဿကောဋိယော ဝသန္တိ။ စူဠဝါဋီကာ။**

ရာဇဂဟံ၊ ရာဇဂြိုဟ်ပြည်သည်။ အာကိဏ္ဏမနုဿာ ကိရ၊ ပြွမ်းသောလူ ရှိသတတ်။ အန္တောနဂရေ၊ မြို့တွင်း၌။ နဝကောဋိယော၊ ကိုးကုဋေ။ ဗဟိနဂရေ၊ မြို့ပ၌၊ နဝကောဋိယော၊ ကိုးကုဋေ။ ဣတိ၊ ဤသို့။ အဋ္ဌာရသမနုဿကောဋိယော၊ တစ်ဆယ့်ရှစ် ကုဋေသောလူတို့သည်။ တံ၊ ထိုရာဇဂြိုဟ်ပြည်ကြီးကို။ ဥပနိဿာယ၊ မှီ၍။ ဝသန္တိ၊ နေကုန်၏။

ရာဇဂဟေ ကိရ ဒွတ္တိံသ မဟာဒွါရာနိ။ စတုသဋ္ဌိ ခုဒ္ဒကဒွါရာနိ။

ဟူ၍ သီလက္ခန်အဋ္ဌကထာမိန့်ရကား ထိုပြည်၌ တံခါးကြီးသုံးဆယ့်နှစ်၊ တံခါးငယ် ခြောက်ဆယ့်လေးရှိသည်။ ဤမျှလောက်သာ ကျမ်းဂန်လာသည်။ မည်မျှဂါဝုတ် ကျယ်သည်ဟု ဆိုသောအရာကို ကျမ်းဂန်မတွေ့။

❖❖❖❖❖

**၉၂၅။ ဆံတော်မရှည်၊ လေးသစ်တည်၊ ဘုန်းစည့်မိဋ္ဌာန်လေလိမ့်နည်း။(၂၁၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ကေသာ ဒွင်္ဂုလမတ္တာ ဟုတွာ ပဒက္ခိဏာတော အာဝဋ္ဋမာနာ သီသံ အလ္လီယိံသု၊ တေသံ ပန ကေသာနံ ယာဝဇီဝံ တဒေဝ ပမာဏံ အဟောသိ။ ပုန ဩဟာရဏကိစ္စံ နတ္ထိ။

ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကထာ၊ အပဒါန်အဋ္ဌကထာတို့၌ လာသည်။

ကေသာ၊ ဆံတို့သည်။ ဒွင်္ဂုလမတ္တာ၊ လက်နှစ်သစ်ပမာဏ ရှိကုန်သည်။ ဟုတွာ၊ ၍။ ပဒက္ခိဏာတော၊ လက်ယာရစ်အားဖြင့်။ အာဝဋ္ဋမာနာ၊ လည်ကုန်လျက်။ သီသံ၊ ဦးခေါင်းတော်ကို။ အလ္လီယိံသု၊ ငြိကုန်၏။ တေသံ ပန ကေ သာနံ၊ ထိုဆံတော်တို့၏။ ယာဝဇီဝံ၊ အသက်တော်ဆုံးအောင်။ တဒေဝ ပမာဏံ၊ ထိုလက်နှစ်သစ်မျှ ပမာဏသည် သာလျှင်။ အဟောသိ၊ ၏။ ပုန၊ တစ်ဖန်။ သြဟာရဏကိစ္စံ၊ သုတ်သင်ရခြင်းကိစ္စသည်။ နတ္ထိ၊ မရှိ။

ဤမျှသာ ကျမ်းဂန်လာသည်။ မိဋ္ဌာန်ကြောင်းကို ကျမ်းဂန်မလာ။ ယင်းသို့ မလာသော်လည်း အမိဋ္ဌာနက္ကဒ္ဓိတန်ခိုး အဝင်ဖြစ်၍ မနောမိဋ္ဌာန်ပင် ဖြစ်သည်ဟု ယူရမည်။

❖❖❖❖❖

## ၉၂၆။ လေးသောင်းရေကြည်၊ ငါးရှစ်မည်၊ နေသည် ဘယ်သို့ကျမ်းလာနည်း။ (၂၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဝံ သဏ္ဌိတဿ တဿ ဟေဋ္ဌာ စတ္တာလီသယောဇနသဟဿ မတ္တေ ဌာနေ ဥဒကံ မစ္ဆေဟိ စလတိ၊ ဥပရိ တာဝတ္တကေယေဝ ဌာနေ ဥဒကံ ဝါတေန စလတိ။ မဇ္ဈေ စတုယောဇနသဟဿမတ္တေ ဌာနေ ဥဒကံ နိစ္စလံ တိဋ္ဌတိ။**

အစရှိသည်ဖြင့် သာရတ္ထသင်္ဂဟ၌ လာသည်။

**အနက်ကား။** ။ ဝံ၊ ဤသို့ ရှစ်သောင်းလေးထောင်သော ယူဇနာဖြင့်။ သဏ္ဌိတဿ၊ ကောင်းစွာတည်သော။ တဿ၊ ထိုသမုဒ္ဒရာ၏။ဟေဋ္ဌာ၊အောက်ဖြစ်သော။ စတ္တာလီသယောဇနသဟဿမတ္တေ၊ ယူဇနာ လေးသောင်းမျှလောက်သော။ ဌာနေ၊ အရပ်၌။ ဥဒကံ၊ ရေသည်။ မစ္ဆေဟိ၊ ငါတို့ကြောင့်။ စလတိ၊ လှုပ်၏။ ဥပရိ၊ အထက်ဖြစ်သော။ တာဝတ္တကေယေဝ ဌာနေ၊ ထိုလေးသောင်းမျှလောက်သောအရပ်၌။ ဥဒကံ၊ ရေသည်။ ဝါတေန၊ လေကြောင့်။ စလတိ၊ လှုပ်၏။ မဇ္ဈေ၊ အလယ်၌။ စတုယောဇနသဟဿမတ္တေ ဌာနေ၊ ယူဇနာလေးထောင်မျှလောက်သော အရပ်၌။ ဥဒကံ၊ ရေသည်။ နိစ္စလံ၊ မတုန်မလှုပ်။ တိဋ္ဌတိ၊ တည်၏။ တသ္မိံ၊ ထိုမဟာသမုဒ္ဒရာ၌။ တိမိရောနာမ မစ္ဆော၊ တိမိရမည်သော ငါးကြီးသည်။ ဒွိယောဇနသတိကော။ ယူဇနာနှစ်ရာရှိ၏။ တိမိင်္ဂလောနာမမစ္ဆော၊ တိမိင်္ဂလမည်သော ငါးကြီးသည်။ တိယောဇနသတိကော၊ ယူဇနာ သုံးရာရှိ၏။ တိမိရပိင်္ဂလော နာမ မစ္ဆော၊ တိမိရပိင်္ဂလမည်သော ငါးကြီးသည်။ ပဉ္စယောဇန သတိကော၊ ယူဇနာငါးရာရှိ၏။ မဟာပိင်္ဂလော၊ မဟာပိင်္ဂလ ငါးကြီးသည်။ တထာ၊ ထို့အတူ ယူဇနာ ငါးရာရှိ၏။ အာနန္ဒော၊ အာနန္ဒာမည်သော ငါးလည်းကောင်း။ တိမိနန္ဒော၊ တိမိနန္ဒာမည်သောငါး လည်းကောင်း။ အဇ္ဈာရောဟော၊ အဇ္ဈာရောဟမည်သော ငါးလည်းကောင်း။

90
B

မဟာတိမိ မဟာတိမိမည်သောငါး လည်းကောင်း။ ဣလမေ စတ္တာရော၊ ဤလေးစင်းသော ငါးကြီးတို့သည်။ ယောဇနသဟဿိ ကာ၊ ယူဇနာတစ်ထောင်စီရှိကုန်၏။

❖❖❖❖❖

## ၉၂၇။ မီးသို့ဆင်းမည့်၊ မာယာသည့်၊ မည်သည့်ပုဏ္ဏားမယားနည်း။(၂၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗာရာဏသီမင်း၏ ပုရောဟိတ်ပုဏ္ဏားမယားဖြစ်သော မာဏဝိကာတည်း။

အကြောင်းကို သိသာအောင် ဆိုလိုက်ဦးအံ့–

ငါတို့ဘုရား အလောင်းတော်သည် ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်း ဖြစ်တော်မူ သောအခါ ငယ်စဉ်က အတတ်သင်ဖက် ဖြစ်သော၊ ပုရောဟိတ်ပုဏ္ဏားနှင့် အန်ကစားလေ့ ပြု၏။ ထိုသို့အန်ကစားသောကာလ အန်လက်ပစ်ကို မြှောက်တိုင်း–

**သဗ္ဗာ နဒီ ဝင်္ကနဒီ၊ သဗ္ဗေ ကဋ္ဌမယာ ဝနာ။**
**သဗ္ဗိတ္ထိယော ကရေ ပါပံ၊ လဘမာနေ နိဝါတကေ။**

ဟူသော ဂါထာကိုရွတ်၏။

သဗ္ဗာနဒီ၊ ခပ်သိမ်းသောမြစ်တို့သည်။ ဝင်္ကနဒီ၊ မြစ်ကောက်တို့ချည်းသာတည်း။ သဗ္ဗေဝနာ၊ ခပ်သိမ်းကုန်သော တောတို့သည်။ ကဋ္ဌမယာ၊ ထင်းအတိပြီးကုန်၏။ သဗ္ဗိတ္ထိယော၊ ခပ်သိမ်းကုန်သော မိန်းမတို့သည်။ နေကပတိကာ၊ တစ်ယောက်သောလင်နှင့် မရောင့်ရဲကုန်။ နိဝါတကေ၊ ဆိတ်ကွယ်ရာကို။ လဘမာနေ၊ ရကုန်သည်ရှိသော်။ ပါပံ၊ မကောင်းမှုကို။ ကရေ၊ ပြုကုန်သည်သာတည်း။

ဤဂါထာသည် သဒ္ဒါအနက်အားဖြင့် အလွန်ကောင်းမွန် ဟုတ်မှန်လှသောကြောင့် ကောင်းသောနတ်တို့ စောင်မရကား အန်ကစားတိုင်းပင် မင်းကြီးသာ နိုင်၏။

ပုရောဟိတ်ပုဏ္ဏားသည် ရှုံးလေသည်ဖြစ်၍ နေ့ရက်ရှည်လတ်သော် ပုဏ္ဏားအိမ်၌ ဥစ္စာရှားပါး၏။ ထိုအခါပုဏ္ဏားသည် ဤသို့ကြံ၏ "ဤမင်းကြီးသည် အန်ကစားတိုင်းပင် နိုင်ပေသည်။ ဤကဲ့သို့သာနိုင်သည် ဖြစ်အံ့။ ငါ၏အိမ်မှာ ဥစ္စာကုန်တော့မည်မချွတ်ပြီ။ ဤသို့နိုင်ခြင်း သည့်လည်း မင်းကြီးဂါထာတော်၏ မှန်ကန်သောအာနုဘော်ပင် ဖြစ်သည်။ မင်း၏ဂါထာ မမှန်အောင် ယောက်ျား တစ်ယောက်နှင့်သာ ဆက်ဆံသော မိန်းမကောင်းကို ရှာဦးမှသင့်မည်"ဟု ကြံ၏။

ဤသို့ကြံပြီးသော် မိန်းမတို့မည်သည်ကား ရမ္မက် အလွန်ကြီး၏။ ယောက်ျား တစ်ပါးကို မြင်ဖူးသောသူကို စောင့်ခြင်းငှာ တတ်နိုင်ခဲ၏။ ကိုယ်ဝန်မှစ၍ မိန်းမကိုသာ ထိန်းသိမ်းစောင့်ရှောက်စေပြီးလျှင် အရွယ်ရောက်သောအခါ ငါယူ၍ သိမ်းပိုက်အံ့ဟု

ကြံပြီးသော် မိမိသည် အင်္ဂဝိဇ္ဇာ၌လည်းကောင်း၊ ဗေဒင်၌လည်းကောင်း လိမ္မာသည်ဖြစ်၍ မိန်းမမွေးလတ္တံ့သော ကိုယ်ဝန်ဆောင်မိန်းမတစ်ဦးကို အနူးအညွတ် ပြောဆိုပြီးလျှင် ရိက္ခာဥစ္စာပေး၍ မိမိအိမ်၌ထား၏။

နေ့လစေ့၍ မိန်းမငယ်ကို ဖွားလတ်သော် ထိုသတိုးသမီးကို မာဏဝိကာ ဟုအမည် မှည့်ပြီးလျှင် တစ်ပါးသောယောကျ်ားကို မမြင်စေဘဲ မိန်းမ အလုပ်အကျွေး ဖြင့်သာ မွေးမြူ၏။ အမိကိုလည်း တစ်ပါးသို့ သွားစေ၏။

ဤသို့မွေးမြူ၍ အရွယ်ရောက်သောအခါ မိမိသည် သိမ်းပိုက်လေ၏။ ဤသူငယ်မ ကို မသိမ်းရသေးသမျှကာလပတ်လုံး မင်းကြီးနှင့် အန်ကစားခြင်းကို မပြုဘဲ နေ၏။ သိမ်းပိုက်ပြီးသောအခါ ဥပါယ်တံမျဉ်ရှာ၍ မင်းနှင့် အန်ကစား၏။

မင်းလည်း ကစားသောကာလ အထက်က ရွတ်မြဲတိုင်းသော ဂါထာကို ရွတ်ပြန်၏။ ထိုအခါ ပုရောဟိတ်ပုဏ္ဏားက'' မမ ဂေဟေ ဌပေတွာ မာ ဏဝိကံ'' ဟူသော ဂါထာကိုရွတ်၏။ အဓိပ္ပါယ်ကား ''ကျွန်ုပ်မြောက်သားဖြစ်သော သူငယ်မကို ထား၍ တစ်ပါးသော မိန်းမတို့သာ ယောကျ်ားတစ်ဦးနှင့် မရောင့်ရဲ ပါသတည်း'' ဟူလိုသည်။ ဤဂါထာဖြင့် ကစားသောအခါ ပုရောဟိတ်ဆရာပင် နိုင်လေ၏။

ခုနစ်ကြိမ်တိုင်တိုင် နိုင်သောအခါ ဗာရာဏသီမင်းလည်း ဤသို့ကြံပြန်၏။ ''ဤပုဏ္ဏား၏ အိမ်တွင်လင်တစ်ယောက်သာ ဆက်ဆံခြင်းရှိသော မိန်းမရှိလေရာသည်။ ငါသိအောင် ပြုဦးအံ့'' ဟုကြံ၍ တစ်ယောက်သော မိန်းမကို စုံစမ်းစေသဖြင့် ရှိကြောင်းကို သိလေသော် ''ဤမိန်းမငယ်၏ သီလကို ပျက်အောင် ပြုဦးအံ့''ဟု ကြံ၍ အဆင်း အရောင်လှသော မင်းချင်းယောကျ်ားတစ်ဦးကိုခေါ်၍ ''သင်သည် ဤပုရောဟိတ်ပုဏ္ဏား၏ မယားကို သီလပျက်အောင် တတ်နိုင်ပါအံ့လော''ဟု မေး၏။

ထိုယောကျ်ားကလည်း ''အရှင်မင်းကြီး၊ အလွန်အားဖြင့် တစ်ဆယ့်ငါးရက် ကြာလျှင် တတ်နိုင်ပါ၏''ဟု လျှောက်၏။ ထိုအခါ မင်းကြီးက ထိုယောကျ်ားအား များစွာ ဆုလာဘ်ပေး၍ ''သင်ကြံဆောင်လော့''ဟု စေလိုက်၏။

ထိုမင်းချင်းယောကျ်ားလည်း ပုဏ္ဏားအိမ်နှင့်မနီးမဝေးဖြစ်သော ဈေးတန်း၌ ဈေးအိမ်ပြုလုပ်၍ အထူးထူးသော ပန်းနံ့သာ စားဖွယ်သောက်ဖွယ်တို့ကို ရောင်း၏။

ပုရောဟိတ်ပုဏ္ဏားလည်း ထိုမာဏဝိကာမည်သော မိန်းမကို ဘုံခုနစ်ဆင့် ရှိသော တိုက်ပြာသာဒ်၌ ထား၏။ ခုနစ်တန်သော တံခါးတို့၌ မိန်းမအစောင့်သာ ဖြစ်စေ၏။ တစ်ပါးသော ယောကျ်ားတို့သည် ရှုကြည့်ရုံမျှပင် ဝင်ခြင်းငှာ မရကုန်။ ထိုမာဏဝိကာ၏ တိုက်၌ အမှိုက်ကိုမျှလည်း အလုပ်အကျွေးဖြစ်သော မိန်းမကြီး တစ်ယောက်သာလျှင် ယူ၍ ပစ်၏။ ဆင်ယင်ရန် ပန်းနံ့သာကိုလည်းကောင်း၊ စားဖွယ် သောက်ဖွယ်ကို လည်းကောင်း ထိုမိန်းမတစ်ဦးသာလျှင် သွင်းရသတည်း။

အလုပ်အကျွေးမိန်းမသည် မာဏဝိကာအား ဆင်ယင်ရန် ပန်းနံ့သာ ဝယ်ခြင်းငှာ ဈေးသို့လာလတ်သော် မင်းချင်းယောကျ်ားသည် မိမိဆိုင်သို့ခေါ်၍ များစွာသော အစား အသောက်ကျွေး၍ ''အကျွန်ုပ်၏မိခင်နှင့်တူလှသည်''ဟု ဆို၍ ငိုကျွေးလျက် ဖက်ဖက် ယမ်းယမ်းဖြင့် ချစ်ကျွမ်းဝင်အောင် ပြု၏။ မိခင်ဟူ၍သာ ခေါ်ဆို၏။ လိုသမျှကိုလည်း အဖိုးမယူဘဲ ကျွန်တော်ကသာပေးပါမည်ဆို၍ ကွမ်းကရဝေး အစရှိသည်ကိုလည်း ကောင်း၊ ပန်းနံ့သာတို့ကိုလည်းကောင်း များစွာပေး၏။ ထိုသို့ ပြုဖန်များသော် အထိန်း မိန်းမကြီးလည်း ထိုယောကျ်ားအား သားရင်းကဲ့သို့ ချစ်ခင်၏။

တစ်နေ့သ၌ ဤသို့မေး၏ ''မိခင် ယခုဘယ်မှာ နေသနည်း၊ ဘယ်သူ၏ အလို့ငှာ ဤပန်းနံ့သာတို့ကို နေ့တိုင်း၊နေ့တိုင်း ဆောင်ရသနည်း''ဟု မေး၏။ အထိန်း မိန်းမကြီး ကလည်း ''ချစ်သား– နတ်ကိန္နရီမကဲ့သို့ လှပတင့်တယ် နုနယ်သော ပုရောဟိတ် ပုဏ္ဏား၏ မြောက်သားဖြစ်သော မာဏဝိကာကို စောင့်မ၍ နေရသတည်း'' ဤသို့ စသည်ဖြင့် အလုံးစုံသောအကြောင်းကို ပြောကြား၏။ ပန်းနံ့သာကိုများစွာ ဆောင်လေ သောအခါ မာဏဝိကာကလည်း ''မိခင်– အရှင်ပုဏ္ဏားသည် ကျွန်ုပ်ကို ပန်းဖိုးအသပြာ များစွာပေးပြန်သလော''ဟု မေး၏။ အထိန်းမိန်းမကြီးကလည်း ''အရှင် ပုဏ္ဏား ပေးသည်မဟုတ်၊ အကျွန်ုပ်၏သားထံမှ ဆောင်ခဲ့ရပါသည်''ဟု ပြော၏။ ''မိခင်၌ သားရှိသလော''ဟု မေးပြန်လျှင် ''လူ့ပြည်တွင် လူတစ်ယောက်ဟု ဆိုလောက်အောင် လှပတင့်တယ်သော သားယောကျ်ားကောင်းရှိပါသည်''ဟု ပြောပေ၏။

ယင်းသို့ ပြောဆိုနေကြလျက် ခုနစ်ရက်ခန့် ရှိသောအခါမင်းချင်းယောကျ်ားသည် နာချင်ယောင်ဆောင်၍ အိပ်ရာ၌နေလေ၏။ အထိန်းမိန်းမကြီးလည်း ပန်းယူမြဲအချိန်ကို လာ၍ အိမ်မှာမမြင်သော် ''ငါ့သားအဘယ်မှာနည်း''ဟု မေး၏။အဖော်ဖြစ်သော သူက ''မိခင့်သားသည် မချမ်းသာရှိသည်''ဟု ပြော၏။ ထိုမိန်းမကြီးလည်း အိပ်ရာ တိုက်ခန်းသို့ ဝင်၍ မင်းချင်းယောကျ်ား၏ ကိုယ်လက်ကို ဆုပ်နယ်လျက် ''ချစ်သား– အဘယ်သို့ မချမ်းသာသနည်း''ဟု မေး၏။ ထိုယောကျ်ားလည်း စကားမပြန်ဘဲ ဆိတ်ဆိတ် နေလေသော် တစ်ဖန်ထပ်၍ မေးမြန်းပြန်၏။ ထိုအခါမှ ''မိခင်– ကျွန်ုပ်ပြောခြင်းငှာ မဝံ့ပါ။ အသေပင်ခံပါတော့မည်''ဟု ဆိုလေ၏။ ''ချစ်သား– မိခင်ကိုမျှမပြောဆိုသော် ဘယ်သူ့ကို ပြောဆိုတော့အံ့နည်း။ အလိုရှိသလိုပင် ပြောလော့''ဟု ခွင့်ပေး၏။ ထိုအခါ မင်းချင်း ယောကျ်ားကလည်း ''မိခင်–ကျွန်ုပ်အား တစ်ပါးဝေဒနာရှိသည်မဟုတ်။ ပုရောဟိတ် ပုဏ္ဏား၏ မိန်းမဖြစ်သော မာဏဝိကာ၏ လှပတင့်တယ်ခြင်းကို မိခင် ပြောကြားသည်မှ စ၍ မြင်ချင်လှသော စိတ်ဖြင့် အိပ်မပျော် စားမဝင်ရှိပါသည်။ မမြင်ရမူ ကျွန်တော်သေရ ချိမ့်မည်''ဟု ဆို၏။ ထိုစကားကို ကြားသော် အထိန်းမကြီးကလည်း ''ချစ်သား– ဤအမှုကား ဝန်မလေး၊ မိခင်ကြံ၍ ဆောင်အံ့''ဟု ဆိုပြီးမှ ပန်းနံ့သာတို့ကို များစွာ ယူ၍ သွားလေ၏။

မာဏဝိကာ၏အထံသို့ ရောက်သော် ဤသို့ပြော၏ ''ချစ်သမီး–မိခင်သားသည် ချစ်သမီး၏လုပတင့်တယ် နုနယ်သိမ်မွေ့သော သတင်းကိုကြား၍ အလွန်စုံမက် တိမ်းညွတ်သော စိတ်ရှိသည်ဖြစ်၏။ မစားမအိပ်နိုင်အောင်ပင်ရှိ၏။ ချစ်သမီးနှင့် အလုလည်းတူ၏။ အသက်အရွယ်လည်း တူ၏။ ပုဏ္ဏားကြီးပင် ပျက်စီးငြားသော်လည်း ကျွန်ုပ်သားသည် အားကိုးစရာဖြစ်၏။ ထို့ကြောင့် ချစ်သမီးသည် မိတ်ပြုသင့်လှသည်'' ဟု ဆို၏။ မာဏဝိကာကလည်း ''မိခင် ကြံ၍သာ ဆောင်ပါလော့''ဟု ဆို၏။

ထိုအခါ အထိန်းမကြီးလည်း တံခါးခုနစ်တန်၌ စောင့်သောမိန်းမတို့အား တံခါးဝ၌ မနေစိမ့်သောငှာ မြူအမှိုက်တို့ကို များစွာပုတ်ခါ၍ ထုတ်၏။ တစ်ပါးသူတို့က စိုးစဉ်းပြောဆိုကြလျှင် ထိုသူတို့၏အထက်၌ အမှိုက်ကို စွန့်ခဲ့၏။ ပြဖန်များသော် တစ်စုံတစ်ယောက်သော မိန်းမမျှ သွင်းသည်ကိုလည်းကောင်း၊ ထုတ်သည်ကို လည်းကောင်း၊ မမေးမကြည့်ကြကုန်။ ထိုအခါမှ အထိန်းမိန်းမကြီးသည် ပန်းရွက်သော တောင်း၌ မင်းချင်းယောက်ျားကို အိပ်စေ၍ တိုက်တွင်းသို့ သွင်းလေ၏။

မာဏဝိကာလည်း လျှို့ဝှက်ရာ၌ထား၍ နှစ်ရက်သုံးရက်ပတ်လုံး မွေ့လျော် စေပြီးမှ ''အမောင်ထွက်ဦးလော့''ဟု ဆို၏။ ထိုမင်းချင်းကလည်း ''နှမ အရွယ်မတန်ဘဲ ပျော်စံလိုသော ပုဏ္ဏားကြီး၏ဦးခေါင်းကို ထောင်းပါရစေဦးလော့''ဟု ဆို၏။ ထိုအခါ မာဏဝိကာလည်း သယောက်လင်၏အလိုသို့ပါ၍ ပုဏ္ဏားကြီး မိမိတိုက်ခန်းသို့ လာသောအခါ ပျားကဲ့သို့ ချိုသာသောစကားဖြင့် ပုဏ္ဏားအားလှည့်ပတ်၍ ''အရှင် ပုဏ္ဏား၊ ကျွန်ုပ်တစ်ယောက်ချင်းနေရ၍ ပျင်းရိလှပါသည်။ စောင်းတီးပါလော့''ဟု ဆို၍ ပုဏ္ဏားကြီး စောင်းတီးလေ၏။ စောင်းတီးပြန်သော် ''ကျွန်ုပ်ကလိုသည်။ အရှင်ပုဏ္ဏားမြင်မည်ကိုလည်း ရှက်လှပါသည်။ မျက်စိကို အဝတ်ဖုံးပါရစေ''ဟု ဆိုပြန်၏။ ပုဏ္ဏားလည်း ကာမဂုဏ်အား ကြီးသူဖြစ်ရကား မယားအလိုသို့လိုက်၍ ''မျက်နှာကိုဖုံးပါတော့''ဟု ခွင့်ပေး၏။ သူငယ်မလည်း ပုဏ္ဏား၏မျက်စိကို အဝတ်ဖြင့် ပတ်ပြီးသော် စောင်းတီးစေ၍ အတန်ငယ်ကပြီးလျှင် ပုဏ္ဏား၏ ကိုယ်ကိုတိုးကာ ကပ်ကာကစား၏။ ထိုအခါ မင်းချင်းယောက်ျားသည် ပုန်းရာမှထွက်၍ ပုဏ္ဏား၏ ဦးခေါင်းထက်၌ တတောင်ဖြင့်နှက်ပြီးမှ ပုန်းမြဲတိုင်း ပုန်းလေ၏။

ပုဏ္ဏားလည်း အင်တန်နာသော် မာဏဝိကာကို အမျက်ထွက်၍ ''သင်၏လက် မဟုတ်''ဟု ဆို၍ ရိုက်နှက်ခြင်းငှာ အားထုတ်၏။ မာဏဝိကာလည်း ပုဏ္ဏား၏ ရင်ခွင် ထက်၌ထိုင်၍ အထူးထူးသော မာယာဖြင့် ပျူငှာပြုလျက် အမျက်ကြေစေ၏။ ပုဏ္ဏားကြီး အိမ့်ပြင်သို့ ထွက်သောကာလ ထိုအထိန်း မိန်းမကြီးလည်း မင်းချင်း ယောက်ျားကို ပန်း အမှိုက်တောင်းတွင် ထည့်၍ထုတ်မြဲ ထုတ်ခဲ့လေ၏။ မင်းချင်း ယောက်ျားသည် မာဏဝိကာ၏ သီလကိုဖျက်ပြီးသော် မင်းကြီးထံသို့လာ၍ အလုံး စုံသော အကြောင်းကို ကြားလျှောက်၏။

ဗာရာဏသီမင်းကြီးလည်း ပုရောဟိတ်ပုဏ္ဏားသည် မင်းထံခစားခြင်းငှာ လာလတ်သော် ''ပုဏ္ဏား၊ ယနေ့အန်ကစားကြအံ့''ဟု ဆို၍ အန်တလင်း၌ မင်းနှင့် ပုဏ္ဏားသည် ကစားပြန်လေ၏။ မင်းလည်း အန်သီချင်းကို ကျူးမြဲကျူးသောအခါ ပုရောဟိတ် ပုဏ္ဏားကလည်း ''ဌပေတွာ မမ မာဏဝိကံ''ဟူသော ဂါထာကိုဆို၏။ ထိုအခါ ဗာရာဏသီ မင်းကြီးက ''အဆွေပုဏ္ဏား–သင့်မိန်းမ၏ သယောက်ထားသော ယောက်ျား၏ အထောင်း ကို စောင်းတီးဆဲ ခံရပြီးလျက် သင့်မိန်းမ၏ ဂုဏ်ကျေးဇူးကို ချီးကျူးရှာသေး သလော''ဟု ဆို၏။ အန်လည်း ပုဏ္ဏားပင် ရှုံးခြင်းသို့ရောက်၏။

မင်းဆိုသော စကားကိုကြားလျှင် ပုဏ္ဏားလည်း အလွန်ရှက်၍ မာဏဝိကာအား နှိပ်စက်အံ့သောအကြောင်းကို ခွင့်တောင်း၏။ မင်းကြီးကလည်း ''ပုဏ္ဏား– သင်၏ မြောက်သားသာမဟုတ်၊ အစလုံးစုံသော မိန်းမဟူသမျှပင် မေထုန်ရာဂ၏ အရေးဖြင့် သွေးဆောင်သူရှိခဲ့သော် စောင့်ရှောက်ခြင်းငှာ မတတ်နိုင်။ ထို့ကြောင့် အမျက် မရှိလင့်''ဟု ဆုံးမလိုက်၏။

ပုဏ္ဏားလည်း အိမ်သို့ပြန်လာခဲ့၍ မာဏဝိကာအား စိစစ်မေးမြန်းလေ၏။ ထိုအခါ မာဏဝိကာသည် မိန်းမတို့၏ မာယာပရိယာယ်ဖြင့် လွှဲဖယ်ပြောဆို၍၊ အရှင်ပုဏ္ဏားမှ တစ်ပါး ဘယ်ယောက်ျား၏ လက်အတွေ့ကိုမျှ မသိရဖူးကြောင်းကို ကျိန်ဆိုပြီးလျှင် ''အရှင် မယုံသော် မီးပုံတော်မူ၊ အကျွန်ုပ် သစ္စာပြု၍ မီးတွင်းသို့ ဆင်းပါမည်''ဟု ဝန်ခံ၏။ ပုဏ္ဏားကြီးလည်း ''ဤမီးတွင်းသို့ဆင်းဝံ့မူ ယုံကြည် တော့အံ့''ဟု ဆို၍ မီးပုံစေ၏။ မီးဆင်းရအံ့သောနေ့သို့ ရောက်သောအခါ အထိန်း မိန်းမကြီးကို မိခင့်သားလာ၍ မီးသို့ဝင်ဆဲ၌ လက်ကိုဆွဲပါစေဟု မှာထားပြီးမှ ပုဏ္ဏား ကြီး၏ရှေ့တွင် ဤသို့သစ္စာပြု၏။ ''ကျွန်ုပ်သည် အမိဝမ်းက ဖွားသည်မှစ၍ ယနေ့ထက်တိုင် လင်ပုဏ္ဏားကြီးမှ တစ်ပါးသော ယောက်ျားတို့၏ လက်အထိကိုမျှ မခံရဖူးသည် မှန်ပါ၏။ မှန်ခဲ့သော် ဤမီးပုံသို့ ဆင်းသော်လည်း မွေးညင်း တစ်ပင်မျှ မလောင်သည်ဖြစ်ပါစေသော။ တစ်ပါးသော ယောက်ျားတို့၏ လက်အထိကို ခံရမူ ဤမီးသည် ထင်းအမှိုက်ကဲ့သို့ လောင်မြိုက်ပါစေသော''ဟု သစ္စာပြု၍ ဆင်းတော့ အံ့ဟု မီးပုံသို့ ရှေးရှုသွား၏။

ထိုအခါ မှာထားသော မင်းချင်းယောက်ျားသည် ပရိသတ်လေးပါး၏ ရှေ့တွင် လာ၍ ''နတ်ကိန္နရာကဲ့သို့ လှပတင့်တယ် နုနယ်သော ဤမိန်းမငယ်ကို မဖွယ်မရာ ပုဏ္ဏားကြီးသည် နှိပ်စက်ဘိလေသည်'' ဟုဆို၍ လက်ကိုဆွဲကိုင်လာ၏။ မာဏဝိကာ လည်း''အရှင်ပုဏ္ဏား၊ အကျွန်ုပ်သစ္စာပျက်ချေပြီ။ အရှင့် မျက်မှောက်၌ပင် ဤယောက်ျား၊ လက်ကိုကိုင်လာသည်''ဟု ဆို၏။ ပုဏ္ဏားကြီးလည်း ''ဤ မိန်းမငယ်သည် ငါ့ကို လှည့်စား လေသည်''ဟု ပုတ်ခတ်၍ အိမ်မှနှင်ထုတ်လေ၏။

ဤသို့ ဆိုအပ်ပြီးသောနည်းဖြင့် မာတုဂါမတို့မည်သည်ကား မသူတော်တို့၏ တရားကို လိုက်စား၍ ပြုကျင့်ပြီးလျှင် လင်ကိုလည်းကောင်း၊ တစ်ပါးသောသူ တို့ကိုလည်းကောင်း လှည့်ပတ်ကုန်သည်သာဖြစ်၏–ဟူ၍ ဟောဟော်မူသည်။

ဤသို့ ကေနိပါတ် အဏ္ဍဘူတဇာတ်၌လာသောကြောင့် မီးသို့ဆင်းမည့် မာယာဖြင့် လင်ကိုလှည့်ပတ်သော မိန်းမသည် ပုရောဟိတ်ပုဏ္ဏား၏ မယား မာဏဝိကာ ဟူ၍ မှတ်အပ်၏ဟူပေ။

ဤဇာတ်၌ မာဏဝိကာကဲ့သို့ အထင်အရှား လှည့်ပတ်ခြင်းသည်သာလျှင် မာယာမည်သည် မဟုတ်။ မိန်းမတို့သည် ယောကျ်ားတို့အား မိမိအလိုသို့ လိုက်စိမ့်သောငှာ လှည့်ပတ်ခြင်း၊ သွေးဆောင်ခြင်း၊ ဖြားယောင်းခြင်း၊ ကိုယ်အမူအရာ၊ နှုတ်အမူအရာ ဟူသမျှသည် မာယာမည်သည်သာတည်း။ ထိုမာယာသည် လေးဆယ် အပြားရှိ၏။

လေးဆယ်ဟူသော်ကား–

ဝိဇမ္ဘတိ၊ ကိုယ်ကိုဆန့်၏။ ဝိနမတိ၊ ကိုယ်ကိုညွတ်ကိုင်း၏။ ဝိလာသတိ၊ စံပယ်၏။ ဝိလဇ္ဇတိ၊ ရှက်စနိုးသကဲ့သို့ ပြု၏။နခေန နခံ ဃဋ္ဋေတိ၊လက်သည်းဖြင့် ခြစ်၏။ ပါဒေနပါဒံ အက္ကမတိ၊ တစ်ဖက်ခြေဖြင့် တစ်ဖက်ခြေကို နင်း၏။ ကဋ္ဌေန ပထဝိံ ဝိလေခတိ၊ သစ်သားလှင်ကန်ဖြင့် မြေကိုခြစ်၏။ ဒါရကံ ဥလ္လင်္ဃတိ ဥလ္လင်္ဃာပေတိ၊ သူငယ်ကို ချီမြှောက်၏။ သူငယ်ကိုလည်း ချီမြှောက်စေ၏။ ကီဠတိ ကီဠာပေတိ၊ ကစားကျီစယ်၏။ ကစားကျီစယ်စေ၏။ စုမ္ဗတိ စုမ္ဗာပေတိ၊ ဖက်ယမ်းနမ်းရှုပ်၏။ ဖက်ယမ်းနမ်းရှုပ်စေ၏။ ဘုဉ္ဇတိ ဘုဉ္ဇာပေတိ၊ စားဖွယ်ကို စား၏။ စားဖွယ်ကိုစားစေ၏။ ဒဒါတိ၊ ပေးဟန်ပြု၏။ ယာစတိ၊ တောင်း၏။ ကတမနုကရောတိ၊ သူပြုသည်ကို အတုလိုက်၍ ပြု၏။ ဥစ္စံ ဘာသတိ၊ မြင့်၍ဆို၏။ နီစံဘာသတိ၊ နိမ့်၍လည်းဆို၏။ အဝိစ္စံ ဘာသတိ၊ ထင်စွာဆို၏။ ဝိဝိစ္စံ ဘာသတိ၊ ကွယ်၍ဆို၏။ နစ္စေန၊ က သဖြင့်လည်း ကောင်း၊ ဂီတေန၊ သီသဖြင့်လည်းကောင်း။ ဝါဒိတေန၊ တီးမှုတ်သဖြင့် လည်းကောင်း။ ရောဒနေန၊ ငိုယိုသဖြင့်လည်းကောင်း။ ဝိလာသိတေန၊ စံပယ်ခြင်းဖြင့် လည်းကောင်း။ ဝိဘူသိတေန၊ တန်ဆာ ဆင်ခြင်းဖြင့်လည်း ကောင်း။ ဇဂ္ဃတိ၊ ပြင်းစွာရယ်၏။ ပေက္ခတိ၊ စောင်း၍ ကြည့်၏။ ကဋိံ စာလေတိ၊ ခါးကိုကော့၍လှုပ်၏။ ဂုယှဘဏ္ဍကံ သံစာလေတိ၊ လျှို့ဝှက်အပ်သော အင်္ဂါကို ထက်ဝန်းကျင်လှုပ်၏။ ဦရုံဝိရတိ၊ ပေါင်ကို ဖွင့်လှစ်၏။ ဦရုံ ဝိဒဟတိ၊ ပေါင်ကိုဖုံးလွှမ်း၏။ ထနံ ဒဿေတိ၊ သားမြတ်ကို ပြ၏။ ကစ္ဆံ ဒဿေတိ၊ လက်ကတီးကိုပြ၏။ နာဘိံ ဒဿေတိ၊ ချက်ကိုပြ၏။ အက္ခိံနိခဏတိ၊ မျက်စိကိုမှိတ်၏။ ဘမုကံ ဥက္ခိပတိ၊ မျက်စိကိုချီ၏။ ဩဋ္ဌံ ဥပလိခတိ၊ နှုတ်ခမ်းကိုကိုက်၏။ ဇိဝှံ နိလ္လာလေတိ၊ လျှာကိုထုတ်၍ လှုပ်၏။ ဒုဿံ မုဉ္စတိ၊ ကိုယ်ဝတ်ကို ကျွတ်ယောင်ပြု၏။ ဒုဿံ ပဋိဗန္ဓတိ၊ ကိုယ်ဝတ်ကို ပြင်၍ဝတ်၏။ သိရသံ မုဉ္စတိ၊ ဆံထုံးကို ဖြေ၏။ သိရသံ ဗန္ဓတိ၊ ဆံထုံးကို

ပြင်၍ထုံး၏။ ဣမာနိ၊ ဤလေးဆယ်တို့သည်။ မာယာ၊ လှည့်ပတ်သွေးဆောင်တတ်သော အမူအရာတို့တည်း။

ဤသို့ အသီတိနိပါတ် ကုဏာလဇာတ်၌ ဟောတော်မူသည်။

◆◆◆◆◆

## ၉၂၈။ ခိုးသူထောင်းသည်၊ လောင်းပွင့်ရည်၊ မည်သည့်ဇာတ်တွင်မည်ကြောင့်နည်း။(၂၂၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဧကနိပါတ် တက္ကပဏ္ဍိတဇာတ်တွင် မိန်းမလှည့်ပတ်သောကြောင့် ဘုရားလောင်းသည် ခိုးသူထောင်းသည်ကို ခံရဖူး၏ ဟူပေ။

ထိုအကြောင်းကို ထင်စွာဆိုလိုက်ဦးအံ့–

ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းကြီးသည် မင်းပြုလေသော် ငါတို့အလောင်းတော်သည် ထိုဗာရာဏသီမြို့၏ ကျေးလက်ဖြစ်သော မြို့ကြီးတစ်ခု၌ ဗြဟ္မဏမဟာသာလ အမျိုးတွင် ဖြစ်၍ အရွယ်ရောက်သောအခါ သူဌေးတို့၏ စည်းစိမ်ကို ဆယ်နှစ်ကျော်ခံစားခဲ့ပြီးမှ သံဝေဂ တရားရ၍ ရသေ့ရဟန်းပြုပြီးသော် ဂင်္ဂါမြစ်၏အနီး တောအုပ်ကြီးတစ်ခု၌ နေရာသခ်မ်း ပြု၍နေ၏။ ဈာန် အဘိညာဉ် သမာပတ်တို့ကိုလည်း မပြတ်လေ့လာလျက် ရဟန်းချမ်းသာဖြစ်သော သစ်သီး အာဟာရ ဖြင့်သာ နေ၏။

ထိုအခါ ဗာရာဏသီပြည်၌ သူဌေးကြီးတစ်ဦး၏ သမီးသည်အဆင်းအရောင် လှပလျက် အမျက်စောင်းမာန်ကြီး၏။ ခက်ထန် ကြမ်းကြုတ်သည်ဖြစ်၍ ကျေးကျွန် အမှုလုပ်တို့အား ပုတ်ခတ်ညှဉ်းဆဲ မောင်းမဲ ရေရွတ်လေ့ရှိ၏။ ထို့ကြောင့် "စဏ္ဍကုမာရီ" ဟု ခေါ်ဆိုကြကုန်၏။ ကျေးကျွန်ဖြစ်သော သူတို့သည် တစ်နေ့သ၌ ထိုစဏ္ဍကုမာရီကို ခေါ်၍ ဂင်္ဂါမြစ်၌ ရေကစားခြင်းငှာ သွားကြကုန်သော် သူဌေးသမီးသည် အခြံအရံဖြစ်သော သူတို့အား ရေမှမတက်ရအောင် ဗလက္ကာရဆွဲ၍သာ ကစားပျော်ပါးစေသည်နှင့် နေဝင်သောအခါ ကြီးစွာသောမိုးသည် တက်၍ရွာလတ်၏။ ထိုအခါ ကျေးကျွန်တို့သည် စဏ္ဍကုမာရီကို ရေ၌မျောလေအောင် တွန်းပစ်ပြီးမှ မြန်စွာတက်၍ အိမ်သို့လာကြ၏။ သူဌေးက "ငါ့သမီး အဘယ်မှာနေရစ်သနည်း"ဟု မေးသော် "ကျွန်ုပ်တို့ရှေ့ပင် တက်သွား လေသောကြောင့် မြန်စွာလိုက်လာပါသည်"ဟု ဆိုကြကုန်၏။ မိဘ ဆွေမျိုးတို့သည် ထိုမှ ဤမှ ရှာဖွေကြသော်လည်း မရနိုင်လေကုန်။

သူဌေးသမီးမူကား ရေအလျဉ်၌မျောလေသော် သစ်တုံးတစ်ခုကို အမှီရလျက် အစဉ်အတိုင်းမျောလေသဖြင့် သန်ခေါင်းယံရှိသောအခါ ဘုရားလောင်း ရသေ့၏ နေရာအနီး သစ်ပင်လဲကြီးတစ်ခု၌ တင်လာ၏။ ရသေ့သခ်မ်းမှမီးကို မြင်သောအခါ

91
A

စဏ္ဍာကုမာရီလည်း 'ကယ်ပါကယ်ပါ'ဟု ကြော်ငြာ ဟစ်ကြွေး၏။ ရသေ့လည်း ထိုအသံကိုကြားလျှင် ဤအသံသည် မာတုဂါမ၏ အသံတည်း။ သို့ရာတွင် ငါကယ်မှ အသက်ချမ်းသာတော့ မည်ဟု နှလုံးပြု၍ မြက်မီးရှူးကိုကိုင်လျက် ရေနားသို့ သက်ဆင်းပြီးလျှင် ဆင်ပြောင်ကြီး၏ အားနှင့်တူသော အားဖြင့်ကူးကာ ဆယ်ယူ၍ မိမိသခ်မ်းသို့ဆောင်ပြီးသော် မီးလှုံစေ၍ အချမ်းပြေသောအခါမှ အရသာရှိသော သစ်သီးတို့ကို စားစေ၏။ ယင်းသို့ ပြုစုပြီးမှ သင်ကား အဘယ်အရပ်၌နေသော ဘယ်သူ၏သမီးနည်းဟု မေး၏။ စဏ္ဍာကုမာရီကလည်း ဗာရာဏသီပြည်၌ နေသော သူဌေးသမီးဖြစ်ကြောင်း၊ ရေကစားရာ၌ ကျေးကျွန်တို့သည် တွန်းပစ်၍ မျောလာကြောင်းကို ပြောဆို၏။ ဘုရားလောင်းရသေ့လည်း ယနေ့ ဤသခ်မ်းတွင်း၌ပင် သင်အိပ်လော့။ ငါတို့ ရဟန်းမည်သည်ကား မိန်းမနှင့်တစ်မိုး တစ်ရံတည်းသောကျောင်း၌ နေ၍မသင့်ချေဟု ဆိုပြီးမှ လွင်တီးခေါင်သို့ ဆင်း၍နေ၏။

ဤသို့သောနည်းဖြင့် နှစ်ရက်သုံးရက်နေစေပြီးမှ ''သူဌေးသမီး၊ သင်သွားလေတော့။ သင့်မိဘနေသော ဗာရာဏသီမြို့သည် ဤအရပ်မှ တစ်ယူဇနာခွဲကွာ၏။ ဂင်္ဂါမြစ်ကို အစဉ်လျှောက်၍ သင်သွားလေ''ဟု ဆို၏။ စဏ္ဍာကုမာရီလည်း မိမိချည်း မသွားဝံ့ရကား ဤရသေ့သီလပျက်စေပြီးမှ ငါဆောင်၍ သွားအံ့ဟုကြံလျက် လေးငါးရက်တိုင်အောင် မသွားဘဲ နေ၏။ ယင်းသို့နေပြီးသော် ရှင်ရသေ့အား မိန်းမတို့၏ ပြုအပ်သောကိစ္စဖြင့် သီလကို ပျက်စီးစေ၏။

ရသေ့လည်း ဈာန်မှ လျှောကျ၍ သီလပျက်ပြီးသော်လည်း ဤတောအုပ်၌ပင် နေ၏။ ထိုအခါ သူဌေးသမီးက ''အမောင်၊ ကျွန်ုပ်တို့သည် ဤတောအုပ်၌နေသဖြင့် အဘယ်အကျိုးရှိအံ့နည်း။ လူတို့နေရာမြို့ရွာသို့ သွားကြကုန်အံ့''ဟုဆို၍ လာခဲ့ကြပြီးသော် တစ်ခုသော ပစ္စန္တရွာ၌ အိမ်ပြု၍ နေ၏။ သစ်သီးတို့ကို ဆားစိမ်သော ရက်တက်ဖြင့် ရောင်းစား၍ရသော အဖိုးဖြင့် အသက်မွေးကြ၏။ ထို့ကြောင့် လူထွက်ကို ''တက္ကပဏ္ဍိတ'' ဟု သမုတ်ကြသတည်း။

ယင်းသို့ နေရာတွင် တစ်ရံသောအခါ ခိုးသူသည် တောင်မှ ဆင်းသက်၍ ထိုပစ္စန္တရွာ ကို လုယက်တိုက်ဖျက်ပြီးလျှင် ရသော ဘဏ္ဍာတို့ကို ထိုရွာသူမိန်းမတို့အား ရွက်စေ၍ အတန်ငယ် ပို့စေပြီးမှ လွှတ်လိုက်၏။ သူဌေးသမီး စဏ္ဍာကုမာရီကိုကား ခိုးသား မိုလ်မှူးသည် မြင်သောအခါ လွန်စွာတပ်သော စိတ်ရှိသည်ဖြစ်၍ မပြန်စေပဲ မယားပြု လေ၏။ တက္ကပဏ္ဍိတလည်း ခိုးသူတို့ သိမ်းပိုက်ကြောင်းကိုကြားသော် ငါ၏မယားသည် တရားမဲ့ကျင့်သော သူတို့၏အထံ၌ မနေဘဲ မကြာမီ ငါ့ထံသို့ လာလတ္တံ့ဟု မျှော်လျက်သာ နေ၏။

စဏ္ဍာကုမာရီကမူကား ဤသို့ ကြံ၏ ''ငါသည် ဤလူဆိုးတို့၏အထံ၌ စားလိုတိုင်း ဝတ်လိုတိုင်းစားရ၊ ဝတ်ရ၏။ တက္ကပဏ္ဍိတသည် ငါ့ကို စုံမက်သဖြင့်

တစ်စုံတစ်ယောက် သော မင်းကိုအမှီပြု၍ မရရအောင်ကြံဆောင် ယူလတ္တံ့။ ထိုသို့ ယူလာသော် ငါ၏ချမ်းသာ မှယုတ်လတ္တံ့။ ဤတက္ကပဏ္ဍိတကို အစပြုတ်အောင် ပြုမှသင့်မည်''ဟု ကြံ၍ လူတစ်ယောက်ကို ခေါ်ပြီးလျှင် ''အရှင်တက္ကပဏ္ဍိတသည် ဤလ ဤနေ့၌ ကျွန်ုပ်ကို ဆောင်လာပါ''ဟု သတင်းစာပေးလိုက်၏။ တက္ကပဏ္ဍိတ လည်း ထိုစကားကို ယုံကြည်သည်ဖြစ်၍ ဆောင်ယူခြင်းငှာ သွားလေပြီးသော် ရွာ၏ အနီး၌နေ၍သတင်းကို ပို့စေ၏။ စဏ္ဍကုမာရီလည်း ထွက်လာ၍ အတွေ့ခံပြီးလျှင် ဤသို့ဆို၏ ''အမောင် ယခုနေ့အခါ၌ ငါတို့အကယ်၍ သွားသည်ဖြစ်အံ့။ ခိုးသား ကြီးသည် လိုက်၍ သတ်တော့မည် မချွတ်ပြီ။ ညဉ့်ကိုသွားမှသာ လျော်မည်။ ထို့ကြောင့် ပုန်းကွယ်ရာ အရပ်၌ပင် နေပါဦးလော့ဟု ဆို၍ တစ်ခုသော ကျီထက်၌နေစေ၏။

ခိုးသူကြီးတို့သည် နေ့လည်ပတ်ရာမှ ပြန်၍ ညစာစားသော် သေရည်ကို သောက်၍ ယစ်သောအခါ သူဌေးသမီးက ဤသို့ဆို၏။ ချစ်လင်– ယခုနှယ်အခါ၌ ကျွန်ုပ်ကို ဆောင်ယူအံ့သောသူလာလျှင် ဘယ်သို့ပြုချေအံ့နည်းဟု မေး၏။ ခိုးမှူးကြီးကလည်း ဤသို့ ထောင်းမည်၊ ဤသို့ထုမည်စသည်ဖြင့် ကြုံးဝါး၏။ ထိုအခါ မိန်းမက ''ချစ်လင်၊ ရန်သူဝေး သည်ဟု မှတ်သလော။ အိမ့်နောက်ကျီထဲတွင် ရှိသည်တကား''ဟု ပြော၏။ ထိုစကားကို ကြားလျှင် ခိုးမှူးကြီးလည်း မြန်စွာထ၍ ကျီထဲမှ တက္ကပဏ္ဍိတကို ဆွဲငင်၍ ပုတ်ခတ် ထောင်းထု၏။ တက္ကပဏ္ဍိတလည်း ညည်းဆဲတိုင်းတစ်ပါးသော စကားကို မဆိုမူ၍–

ကောဓနာ အကတညူ စ၊ ပိသုဏာ မိတ္တဘေဒကာ–

ဟူသော စကားကိုသာ ဆို၏။

ထိုပါဌ်၏ အဋ္ဌကား။ ။ ဣတ္ထိယော နာမ၊ မိန်းမတို့ မည်သည်ကား။ ကောဓနာ၊ အမျက်ကြီးကုန်၏။ အကတညူ စ၊ ပြုဖူးသောသူ၏ ကျေးဇူးကိုလည်း မသိတတ်ကုန်။ ပိသုဏာ စ၊ သူနှစ်ယောက်တို့၏ အချစ်ကို ပျက်စေတတ်သော စကားကိုလည်း ဆိုတတ်ကုန်၏။ မိတ္တဘေဒကာ စ၊ အဆွေခင်ပွန်းကိုလည်း ဖျက်ဆီးတတ်ကုန်၏။

ခိုးမှူးကြီးလည်း တက္ကပဏ္ဍိတကို ပုတ်ခတ်ထောင်းထု၍ မောပန်းသောအခါ သင့်ရာ၌ ချည်နှောင်ထားပြီးမှ မိမိကား အိပ်နေ၍ သေယစ်ခြင်း ပြယ်သောအခါ နိုးလာ၍ တစ်ဖန် ပုတ်ခတ်ပြန်အံ့သောငှာ အားထုတ်သော် တက္ကပဏ္ဍိတလည်း ဆိုမြဲတိုင်း စကားလေးခုကိုသာ ဆို၏။ ထိုအခါ ခိုးမှူးကြီးက ဤသို့ မေး၏ ''အချင်းယောက်ျား– ဤစကားလေးခုကိုသာ အဘယ့်ကြောင့် မြည်တမ်းသနည်း၊ သင်၏ကျေးဇူးသည် ဘယ်သူ၌ ရှိဖူးသနည်း''ဟု မေး၏။

ထိုသို့မေးသော် တက္ကပဏ္ဍိတကလည်း ''အချင်းယောက်ျား–နားထောင်ဦးလော့၊ ငါသည် ဂင်္ဂါမြစ်၏ အနီး၌ ရသေ့ရဟန်းပြု၍နေရာ ဤမိန်းမသည် မြစ်၌မျောလာ၍ ဆယ်တင်ပါသည်။ တင်ပြီးလျှင် သင့်မိဘရှိရာ အရပ်သို့ သွားလေတော့ဟု ဆိုပါသည်ကို

မသွားလိုဘဲ ငါ၏သီလကိုဖျက်ဆီးသောကြောင့် ရက်တက်သည့်ကြီးအဖြစ်သို့ ငါရောက်ရသည်။ သင်တို့ ဆောင်လေသောအခါ ငါရဟန်းပြုခွင့် ရပြန်ပြီဟု ဝမ်းမြောက်စွာနေပါသည်ကို ယူလာပါဦးဟု မှာလိုက်ပြန်သောကြောင့် ယခု ငါလာရသည်၊ လာရပြန်သော် မလိုက်လိုလျှင် မလိုက်လိုကြောင်းဖြင့်သာ မပြော။ သင်ခိုးမှုနှင့် ငါ့အကြားတွင် ကုန်းစကားပြု၍ သင်လည်း မကောင်းမှု ဖြစ်လေအောင်၊ ငါလည်း အကျိုးမဲ့ သေလေအောင် ပြုရက်လေသည်။ ထို့ကြောင့် ''ကောဓနာ အကတညူ-စသော စကားကို ငါဆိုသတည်း'' ဟူ၍ ပြော၏။

ထိုစကားကို ကြားရသော် ခိုးမှုသည် သံဝေဂဖြစ်တည့်၏။ ဤမိန်းမသည် ဤမျှလောက် ကျေးဇူးကြီးသော လင်ကိုလျက် အသက်သေအောင် ကြံဆောင်လေသည်။ ကျေးဇူးမရှိသော ငါ့တို့ကိုကား အဘယ်ဆိုဖွယ်ရာ ရှိအံ့နည်းဟု မြည်တမ်း၍ ပြစ်မှား မိသည်ကိုလည်း တောင်းပန်ပြီးမှ ထိုစဏ္ဍာကုမာရီကို ရွာပြင်သို့ထုတ်၍ သန်လျက်ဖြင့် ခုတ်သတ်လေ၏။ ဘုရားအလောင်းလည်း ခိုးမှုအား တရားဟောပြီးလျှင် ယခင် နေမြဲသော တောသို့ပြန်၍ ရဟန်းပြုလေ၏။ ခိုးမှုလည်း ထိုတက္ကပဏ္ဍိတ၏ ထံ၌ပင် ရသေ့ပြု၍ နေလေသည်။ အသက်အတိုင်းနေ၍ စုတေသောအခါ ကံအားလျော်စွာ လားရလေ၏။ ဤတက္ကပဏ္ဍိတကား ယခုအခါ ငါဘုရား ဖြစ်တော်မူလှာ၏။ ခိုးသားကား ဥက္ကဏ္ဍိ ရဟန်းဖြစ်၏။

ဤဇာတ်၌ ဘုရားအလောင်းကို ခိုးသားထောင်းဖူး၏ ဟူပေ။

❖❖❖❖❖

## ၉၂၉။ ပစ္စေကာမည်၊ သုံးဆူသည်၊ မည်ပါရမီ ဖြည့်သနည်း။(၂၂၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ပစ္စေကဗုဒ္ဓါတို့သည်လည်းကောင်း၊ အဂ္ဂသာဝက, မဟာသာဝက, ပကတိသာဝက တို့သည်လည်းကောင်း၊ ဒါန, သီလ, နိက္ခမ, ပညာ, ဝီရိယ, ခန္တီ, သစ္စာ, အဓိဋ္ဌာန်, မေတ္တာ, ဥပေက္ခာဟူသော ပါရမီ ဆယ်ပါး၊ စရိယသုံးပါး၊ ပရိစ္စာဂ ငါးပါးတို့ကိုပင် ဖြည့်ရသည်။ ကျင့်ဝတ်တရားကား ဘုရားအလောင်းတို့နှင့် မထူးပြားပြီ။ ပါရမီ ဖြည့်ရသော ကာလ အရှည်အတိုသာ ထူးပြားကြသည်။

ထို့ကြောင့် သုတ္တနိပါတ်အဋ္ဌကထာ ခဂ္ဂဝိသာဏသုတ် အဖွင့်၌-

**ပစ္စေကဗုဒ္ဓါနံ ပန ကိံ စရိယံ ပတ္ထနာ ဝဋ္ဋတီတိ၊ ဒွေအသင်္ချေယျာနိ ကပ္ပသတသဟဿဉ္စ၊ တတော ဩရံ န သက္ကာ၊ ပုဗ္ဗေ ဝုတ္တနယေနေဝ ဝေတ္ထ ကာရဏံ ဝေဒိတဗ္ဗံ။** ဟူ၍ မိန့်တော်မူသည်။

❖❖❖❖❖

## ၉၃၀။ သခင်ချစ်မည်၊သက်တော်သည်၊မည်အကြောင်းကြောင့်မရှည်သနည်း။(၂၂၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဘုရားသခင်တို့ ပါရမီဖြည့်ရသော ကာလမျှလောက် သက်တော်တည်လိုသော် တည်နိုင်စွမ်းလျက် ဘယ့်ကြောင့် မရှည်သနည်းဟု မေးသည်။ ဘုရားရှင်တို့၏ ဓမ္မတာကို မလွန်နိုင်သောကြောင့် မရှည်သည် ဟူပေ။

❖❖❖❖❖

## ၉၃၁။ တရားဆယ်တည်၊မင်းကျင့်ရည်၊ဘုန်းစည်ဘယ်တွင်ဟောသနည်း။(၂၂၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဒါနံ သီလံ ပရိစ္စာဂံ၊ အဇ္ဇဝံ မဒ္ဒဝံ တပံ။**
**အကောဓံ အဝိဟိံသဉ္စ၊ ခန္တိ စ အဝိရောဓနံ။**

ဒါနံ၊ အလှူပေးခြင်းလည်းကောင်း။ သီလံ၊ ငါးပါးသီလကို ဆောက်တည်ခြင်း လည်းကောင်း။ ပရိစ္စာဂံ၊ အခြံအရံ ကျေးကျွန်တို့နှင့်တကွ နွမ်းပါးသောသူတို့အား စွန့်ကြဲခြင်း လည်းကောင်း။ အဇ္ဇဝံ၊ ဖြောင့်မတ်ခြင်းလည်းကောင်း။ မဒ္ဒဝံ၊ နူးညံ့ခြင်း လည်းကောင်း။ တပံ၊ ခြိုးခြံစွာကျင့်သော ဥပုသ်ဆောက်တည်ခြင်း လည်းကောင်း။ အကောဓံ၊ အမျက်မထွက်ခြင်းလည်းကောင်း။ အဝိဟိံသဉ္စ၊ မညှဉ်းဆဲခြင်းလည်းကောင်း။ ခန္တိ စ၊ သည်းခံခြင်းလည်းကောင်း။ အဝိရောဓနံ၊ လူခပ်သိမ်းတို့နှင့် မဆန့်ကျင်ကြောင်း ကောင်းစွာကျင့်ခြင်းလည်းကောင်း။ ဣတိ၊ ဤသို့။ ဒသရာဇဓမ္မေ၊ ဆယ်ပါးသော မင်းကျင့်တရားတို့ကို။ ဘာဝေယျ၊ ပွားစေရာ၏။

ဤသို့ အသီတိနိပါတ် မဟာဟံသဇာတ်တွင် ဟောတော်မူသည်။

❖❖❖❖❖

## ၉၃၂။ ဥပ္ပလဝဏ်ထေရီ၊ မိန်းမသည်၊ မည်တေဂ် ရသနည်း။(၂၂၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**တေဒဂ္ဂံ ဘိက္ခဝေ မမ သာဝိကာနံ ဘိက္ခုနီနံ ဣဒ္ဓိမန္တာနံ ယဒိဒံ ဥပ္ပလဝဏ္ဏာ–**

ဟူ၍ အင်္ဂုတ္တိုရ်ပါဠိတော်၌ လာသောကြောင့် တန်ခိုးကြီးကုန်သော ဘိက္ခုနီမတို့ထက် ကဲလွန်၍ တန်ခိုးကြီးခြင်း တည်းဟူသော ဣဒ္ဓိမန္တတေဒဂ်ကိုရ၏ ဟူပေ။

❖❖❖❖❖

**၉၃၃။ ကုသိုလ်ဖြစ်ရည်၊ အကြောင်းသည်၊ မည်ပဒဋ္ဌာန် ဆိုပိမ့်နည်း။(၂၂၅)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အနဝဇ္ဇကုဋ္ဌဝိပါကလက္ခဏာနိ၊ တာနိ အကုသလဝိဒ္ဓံသနရသာနိ၊ ဝေါဒါနပစ္စုပဋ္ဌာနာနိ၊ ယောနိသော မနသိကာရပဒဋ္ဌာနာနီတိ ဝေဒိတဗ္ဗာနိ။**

ဟူ၍ အဘိဓမ္မတ္ထသင်္ဂဟ ဒီပနီ၌ မိန့်ရကား ကုသိုလ်တရားတို့သည် အပြစ်မရှိ၊ လိုအပ်သော အကျိုးကိုပေးတတ်သော လက္ခဏာရှိ၏။ မကောင်းသော အကုသိုလ်တရားကို ဖျက်ဆီးတတ်သော ကိစ္စရှိ၏။ ဖြူစင်သောအဖြစ်လျှင် ထင်သော အခြင်းအရာရှိ၏။ အသင့်အားဖြင့် နှလုံးသွင်းခြင်းလျှင် ကုသိုလ်ဖြစ်ကြောင်းဖြစ်ရကား ယောနိသော မနသိကာရလျှင် ပဒဋ္ဌာန်ရှိ၏ဟု ဆိုသည်။

❖❖❖❖❖

**၉၃၄။ ယာ သာ ပုဒ်သည်၊ အာနှင့်တည်၊ မည်မျှလိင်မျိုးဆံသနည်း။(၂၂၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒွိလိင်သည် ဣတ္ထိလိင် ပုလ္လိင်၊ ဣတ္ထိလိင် နပုလ္လိင်,ပုလ္လိင်,နပုလ္လိင်အားဖြင့် သုံးပါးရှိသည်တွင် ရှေးဒွိလိင်နှစ်မျိုးနှင့် ဆက်ဆံသင့်ရကား ဣတ္ထိလိင်, ပုလ္လိင်နှစ်ပါး ဆံ၏ဟူပေ။

ဣတ္ထိလိင်ဆံသော ဥဒါဟရဏ်ကား။ ယာ ဩဇာ။ ယာ မာလာ။ ယာ နာရီ။ ယာ ဓမ္မဇာတာ ပုဒ်တို့တည်း။

ပုလ္လိင်ဆံသော ဥဒါဟရဏ်ကား။ ယာ ဒေဝတာ။ သာ ဒေဝတာ။ ယာ ဝဇ္ဇာ–ပုဒ်တို့တည်း။

❖❖❖❖❖

**၉၃၅။ သုဒ္ဓဒိန်တည်၊ နှစ်ဦးလည်၊ မည်သို့ထုတ်သော် မှန်သနည်း။(၂၂၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သုဒ္ဓဒိန၊ သီလိုကြ၊ သုံးရာ့ခြောက်ဆယ်ထုတ်။
မစုံခြောက်ရက်၊ လျှော့ပြီးလျက်၊ ရှေ့နှစ်–ရက်လွန်နုတ်။
ကေတက်ဦး၊ တန်ခူးဆန်းစ၊ နေ့ရက်ရ၊ ကျမ်းမ ပေဒင်ချုပ်။
ၚင်းဒိန်မှာ၊ အတာရောထား၊ သတ္တစား၊ ကြွင်းငြားနေ့စဉ်ဟုတ်။
တစ်နည်းထုတ်ရန်၊ တာမပြန်၊ တည်ဟန်မာတုလဲ။
တာပြန်နှစ်မှာ၊ တည်ဖို့ရာ၊ မှတ်ပါတော်တုလဲ။
ရက်လွန်သစ်နှင့်၊ နုတ်ပစ်ပြီးခါ၊ ထိုသချာတွင်၊ မာသာတန်ခူး၊ ဆန်းဦး သုဒ္ဓဒိန်စွဲ။
တာရက်ရောကာ၊ သတ်စားပါ၊ ကြွင်းမှာ နေ့ဖြစ်မြဲ။

ဤနည်းအမှန်ပင် ဖြစ်သော်လည်း ရက်မငင်သင့်သောနှစ်တို့၌ ရက်ငင်၍ လေးလရက်စုံ သတ်ခဲ့သော်လည်းကောင်း၊ ရက်ငင်သင့်လျက် မငင်ခဲ့သော နှစ်တို့၌ လည်းကောင်း တစ်ခု အလွန်အယုတ်ရှိတတ်သည်။ ထို့ကြောင့် ပညာရှိတို့ ဆင်ခြင်၍သာ ပြုရမည်။

❖❖❖❖❖

## ၉၃၆။ ဇာတ်ကိုမတည်၊ ငဲ့လေသည်၊ မည်သည့် ပြယုဂ်ပေတို့နည်း။(၂၂၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

များသော အနက်ဒြပ်ကိုဟောလျက် ဇာတ်ကိုငဲ့၍ ကေဝုစ်ထားသော သဒ္ဒါကား ''ပဋိသန်္ဓိယောနိသော စိဝရံ'' အစရှိသည်တည်း။

ဤ၌ စီဝရသဒ္ဒါသည် ကိုယ်ဝတ်၊ ဒုကုဋ်၊ သင်းပိုင်၊ မျက်နှာသုတ်၊ နိသီဒိုင်၊ မိုးရေခံ၊ အမာလွှမ်း၊ အိပ်ရာခင်း၊ ပရိက္ခရာဟူသော သင်္ကန်းကိုးထည်လုံးကို ဆင်ခြင်သည် ဖြစ်၍ ဗဟုဝုစ် ဆိုသင့်လျက် သင်္ကန်းသာမညဇာတ်ကို ငဲ့သဖြင့် ကေဝုစ်ဆိုလေသည် ဟူလို။

❖❖❖❖❖

## ၉၃၇။ ဒြပ်ကိုတည်၊ ငဲ့လေသည်၊ ယင်းသည် ပြယုဂ် ဘယ်သို့နည်း။(၂၂၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တစ်ခုတည်းသော အနက်ကို ဟောလေသည်ဖြစ်၍ ကေဝုစ် ဆိုသင့်လျက် ဒြပ်ကိုငဲ့၍ ဗဟုဝုစ်ဆိုသည်ကား–

**ပရိသုဒ္ဓေါ အဟံ ဘန္တေ၊ ပရိသုဒ္ဓေါတိ မံ ဓာရေထ။**

အစရှိသည်တည်း။

ဤရဟန်းငယ် ပါရိသုဒ္ဓိကိုပြုရာ၌ အဖော်ရဟန်းကြီး တစ်ပါးတည်းဖြစ်၍ ဓာရေဟိဟု ကေဝုစ်ဆိုသင့်လျက် ဂရုပြုအပ်သော အရာဖြစ်သော ဒြပ်ကိုငဲ့၍ ဗဟုဝုစ်ဆိုရ၏ ဟူလိုသည်။ တစ်ပါးအရာ ပါဠ်ကိုလည်း ပြယုဂ်မူလေ။

❖❖❖❖❖

## ၉၃၈။ ထွက်ဝင်သက်မည်၊ ယင်းနှစ်တည်၊ ဘယ်သည်အဦးဖြစ်သနည်း။(၂၃၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အမိဝမ်းမှ ဖွားစသောသူအား ထွက်သက် ရှေးဦး ဖြစ်သည်။ ထို့နောက်မှ ဝင်သက် ဖြစ်၏။

ထို့ကြောင့် ဝိနည်းအဋ္ဌကထာ၌–

**အဿာသောတိ ဗဟိနိက္ခမနဝါတော။ ပဿာသောတိ အန္တော ပဝိသနဝါတော။ သုတ္တန္တဋ္ဌကထာသု ပန ဥပ္ပဋိပါဋိယာ အာဂတံ။ တတ္ထ**

**ဟိ သဗ္ဗေသမ္ပိ ဇဗ္ဗုသေယျကာနံ မာတု ကုစ္ဆိတော နိက္ခမနကာလေ ပဌမံ အဗ္ဘန္တရဝါတော ဗဟိ နိက္ခမတိ။ ပစ္ဆာ ဗာဟိရဝါတော သုခုမံ ရဇံ ဂဟေတွာ အဗ္ဘန္တရံ ပဝိသန္တော တာလုံ အာဟစ္စ နိဗ္ဗာယတိ။ ဝေါတာဝ အဿာ သပဿာသာ၊ ဝေဒိတဗ္ဗာ။ ။ ဟူ၍မိန့်၏။**

အဿာသောတိ၊ ဟူသည်ကား။ ဗဟိနိက္ခမနဝါတော၊ အပသို့ထွက်သော လေတည်း။ ပဿာသောတိ၊ ဟူသည်ကား။ အန္တောပဝိသနဝါတော၊ အတွင်းသို့ဝင်သော လေတည်း။ သုတ္တန္တဋ္ဌကထာသု ပန၊ သုတ်အဋ္ဌကထာတို့၌ကား။ ဥပ္ပဋိပါဋိယာ၊ အစဉ် မဟုတ်သောအားဖြင့်။ အာဂတံ၊ လာ၏။ ဟိ သစ္စံ၊ ၏။ တတ္ထ၊ ထိုထွက်သက်, ဝင်သက် နှစ်ပါးတို့တွင်။ သဗ္ဗေသမ္ပိ၊ အလုံးစုံလည်းဖြစ်ကုန်သော။ ဇဗ္ဗုသေယျက သတ္တာနံ၊ အမိဝမ်း၌ ကိန်းကုန်သော သတ္တဝါတို့အား။ မာတုကုစ္ဆိတော၊ အမိဝမ်းမှ။ နိက္ခမနကာလေ၊ ဖွားစသောအခါ၌။ ပဌမံ၊ ရှေးဦးစွာ။ အဗ္ဘန္တရဝါတော၊ ကိုယ်တွင်း၌ ဖြစ်သောလေသည်။ ဗဟိ၊ အပသို့။ နိက္ခမတိ၊ ထွက်၏။ ပစ္ဆာ၊ နောက်မှ။ ဗာဟိရဝါတော၊ အပမှဖြစ်သော လေသည်။ သုခုမံရဇံ၊ သိမ်မွေ့သော မြူကို။ ဂဟေတွာ၊ ယူ၍။ အဗ္ဘန္တရံ၊ အတွင်းသို့။ ပဝိသန္တော၊ ဝင်လေသော်။ တာလုံ၊ အာစောက်ကို။ အာဟစ္စ၊ ထိ၍။ နိဗ္ဗာယတိ၊ ငြိမ်း၏။ ဝေါ၊ ဤသို့။ တာဝ၊ အစဉ်အတိုင်း။ အဿာသပဿာသာ၊ တို့ကို။ ဝေဒိတဗ္ဗာ၊ ကုန်၏။

ဝိနည်းအဋ္ဌကထာ၌ကား။ ။ သတ္တဝါတို့၏ သန္တာန်၌ ဖြစ်စဉ်ကိုယူ၍ ဆိုသည်။

သုတ် အဋ္ဌကထာ၌ကား။ ။ ကမ္မဋ္ဌာန်းစီးဖြန်းသော ယောဂီပုဂ္ဂိုလ်၏ နှလုံးသွင်း အစဉ်သို့လိုက်၍ အဿာသကိုဝင်သက်၊ ပဿာသကို ထွက်သက်ဟု ဆိုသည်။

ဝိနည်းအဋ္ဌကထာ၏ အလိုအားဖြင့်။ ။ အာဒိမှိသာသော အဿာသောဟု ဝိဂြိုဟ်ပြု။ အာဒိမှိ၊ ဖွားစကာလ၌။ သာသော၊ လွှတ်သောလေတည်း။ အဿာသော၊ ဖွားစကာလ၌ လွှတ်သောလေ။ ပစ္ဆာ သာတော ပဿာသော။ ။ ပစ္ဆာ၊ နောက်မှ။ သာသော၊ ရှူသောလေတည်း။ ပဿာသော၊ နောက်မှ ရှူသောလေ။

သုတ်အဋ္ဌကထာ၏အလိုအားဖြင့်။ ။ အန္တော မုခံ သသတီတိ အဿာသော။ ဗဟိ မုခံ သ သတီတိ ပဿာသောဟု ဝိဂြိုဟ်ပြုလေသည်။

❖❖❖❖❖

## ၉၃၉။ ရေနတ်တွင်မည်၊ နဂါးပြည်၊ ဘယ်သည် ရပ်၌တည်သနည်း။(၂၃၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရေနတ် နဂါးတို့သည် ဇမ္ဗူဒိပ်ကျွန်း၏ မြောက်ဘက် ကမ်းနားဖြစ်သော သမုဒ္ဒရာ လှိုင်းအပြင်၌လည်းကောင်း၊ သီဟိုဠ်အစရှိသော ကျွန်းငယ်တို့၏ ကမ်းနား ဖြစ်သော သမုဒ္ဒရာလှိုင်း အပြင်၌လည်းကောင်း တည်ကုန်သည်။

ထို့ကြောင့် သာရတ္ထသင်္ဂဟ၌ ''တတ္ထ ယေ နာဂါ မဟာသမုဒ္ဒေ ဦမိပိဌ္ဌေ ပဋိဝသန္တိ'' ဟူ၍ မိန့်၏။

ထိုနဂါးတို့တွင် နဂါးမတို့သည် ဥတုလာခြင်း၊ သံဝါသဖြစ်ခြင်း သတ္တဝါစုတိခြင်း တည်းဟူသော အကြောင်းသုံးပါးညီသဖြင့် ကိုယ်ဝန်ရှိသောအခါ ငါတို့သည် ဤအရပ်၌ သားဖွားသည်ဖြစ်အံ့။ သားငယ်တို့သည် လှိုင်းတံပိုး အဟုန်ကိုလည်းကောင်း၊ ဂဠုန်တို့၏ ပျံလည်ခြင်းကြောင့်ဖြစ်သော လေအဟုန်ကိုလည်းကောင်း သည်းမခံနိုင်ရာ၊ သေပျက်သည်ဖြစ်လတ္တံ့ဟု ကြံကုန်၍ ထိုသမုဒ္ဒရာနှင့် တစ်ဆက်တည်းတည်သော ဂင်္ဂါ၊ ယမုနာ၊ အစိရဝတီ၊ မဟီ၊ သရဘူဟူသော မြစ်ကြီးတို့တွင် တစ်ခုခုသော မြစ်ကြီးဖြင့် လာ၍သာ ဟိမဝန္တာတောအုပ်သို့ ဝင်ပြီးလျှင် ဂဠုန်တို့ ကွယ်ဝှက်ရာဖြစ်သော တောင်ခေါင်းတို့၌လည်းကောင်း၊ ရွှေလိုဏ်၊ ငွေလိုဏ်၊ ပတ္တမြားလိုဏ်တို့၌လည်းကောင်း ခိုအောင်း၍သာ ဖွားကြကုန်၏။ ထိုနဂါးတို့ ပြေးသွားနိုင်သောအခါ ဂင်္ဂါမြစ်စပ်၏ ဖမျက်ပမာဏ ရှိလောက် သောရေ၌ ကူးသွား ပြေးလွှားခြင်းကို သင်စေ၏။ ဂင်္ဂါမြစ်၌ ဤမှာဘက်မှသည် ထိုမှာဘက်သို့၊ ထိုမှာဘက်မှသည် ဤမှာဘက်သို့ ကူးသန်းသွားလာနိုင်သောအခါ ငါတို့သားသည် သမုဒ္ဒရာတံပိုးအဟုန်ကိုလည်းကောင်း၊ ဂဠုန်ဘေး ကိုလည်း ကောင်းခံနိုင်လောက်ပြီဟု အမှတ်ရှိ၍ မိမိတို့၏ အာနုဘော်ဖြင့် ကြီးစွာသော မိုးကို ရွာစေ၍ ဟိမဝန္တာ၌ ရေပြည့်မှုရှိသောအခါ ရတနာအတိပြီးသောလှေကို ဖန်ဆင်းလျက် ထိုလှေ၌ ဆန်းကြယ် တင့်တယ်သော ပန်းဆိုင်း နံ့သာဆိုင်း ပိတာန်ကြာယပ်တို့ကို ဆင်ယင်လျက် ပဉ္စင်တူရိယာ တီးမှုတ်၍ သီက မြူးတူးပြီးလျှင် ဂင်္ဂါမြစ်ဖြင့် စုန်၍ မိမိတို့၏နေရာ သမုဒ္ဒရာကမ်းနားသို့ သွားကြကုန်၏။ ထိုနဂါးငယ် တို့သည် အစဉ်အတိုင်းကြီးပွား၍ အလံတစ်ရာ၊ အလံတစ်ထောင်၊ အလံတစ်သောင်းမျှ လောက်ပင် ရှိကုန်၏။

ဤမှတစ်ပါးသော နတ်နဂါးတို့သည် တောင်စဉ် ခုနစ်ထပ်တို့၏ အကြား ဖြစ်သော သီဒါမြစ်၌လည်းကောင်း၊ မြင်းမိုရ်တောင်၏ ပထမအာလိန်ပြင်၌ လည်းကောင်း၊ လူတို့၏ မြို့ပြပြည်ရွာကဲ့သို့ ရတနာအတိပြီးသော မြို့တံတိုင်းတို့ဖြင့် ဝိုင်းဝန်းကာရံလျက် ဗိမာန်နှင့် တကွ နေကြကုန်၏။ ထိုနဂါးတို့သည် ပဋိသန္ဓေအားဖြင့် အဏ္ဍဇ၊ ဇလာဗုဇ၊ သံသေဒဇ၊ ဥပပတ် ဟူ၍ လေးပါးအပြားရှိကုန်၏။ အချို့ကား သုဂတိအဟိတ်။ အချို့ကား ဒွိဟိတ် ပဋိသန္ဓေနေကုန်၏။

ဂဠုန်တို့သည် နဂါးကိုယူ၏ဟူရာ၌ မိမိအောက်ယုတ်သော နဂါး၊ မိမိနှင့် တူမျှသော နဂါးတို့ကိုသာ ယူနိုင်ကုန်သည်။ မိမိတို့ထက် သာလွန်သော နဂါးတို့ကို မယူနိုင်ကုန်။ ထိုစကားသည်မှန်၏။ ခုနစ်ပါး အပြားရှိကုန်သော နဂါးတို့ကို ဂဠုန်တို့သည် မသုတ်မယူနိုင်ကုန်။

)2
A

ခုနစ်ပါးဟူသော်ကား–

မိမိထက် ယောနိအားဖြင့် လွန်မြတ်သော နဂါးကိုလည်းကောင်း။

မြင်းမိုရ်တောင်၏ ပထမအာလိန်အပြင်၌တည်သော နဂါးစစ်သူကြီးတို့ကို လည်းကောင်း။

ဧတရဋ္ဌနဂါးမျိုးတို့ကိုလည်းကောင်း။

သီဒါခုနစ်တန်၌နေသော နဂါးတို့ကိုလည်းကောင်း။

မြေကြီး၏အတွင်း၌တည်သော နဂါးတို့ကိုလည်းကောင်း။

တောင်ခေါင်း၌နေသော နဂါးတို့ကိုလည်းကောင်း။

ဗိမာန်၌နေသော နဂါးတို့ကိုလည်းကောင်း။

ဤခုနစ်ပါးသော နဂါးတို့ကို ဂဠုန်တို့သည် မသုတ်ယူနိုင်ကုန်။

ထို့ကြောင့် သာရတ္ထသင်္ဂဟ၌–

တထာဟိ၊ ထိုစကားမှန်၏။ ဇလာဗုဇောသုပဏ္ဏော၊ ဇလာဗုဇဖြစ်သော ဂဠုန်သည်။ အတ္တနာ၊ မိမိနှင့်။ သမကံ၊ မျှသော။ ဇလာဗုဇနာဂံ၊ ဇလာဗုဇမျိုး ဖြစ်သော နဂါးကိုလည်းကောင်း။ ဟီနံ၊ ယုတ်သော။ အဏ္ဍဇ နာဂဥ္စ၊ အဏ္ဍဇမျိုးဖြစ်သော နဂါးကိုလည်းကောင်း။ ဂဏှာတိ၊ ယူနိုင်၏။ အတ္တနာ၊ မိမိထက်။ ဥတ္တမံ၊ မြတ်သော။ သံသေဒဇနာဂံ၊ သံသေဒဇမျိုး ဖြစ်သော နဂါးကို လည်းကောင်း၊ ဩပပါတိကဥ္စနာဂံ၊ ဥပပတ်မျိုးဖြစ်သော နဂါးကို လည်းကောင်း။ ဂဏှိတုံ၊ ယူခြင်းငှာ။ န သက္ကောတိ၊ မစွမ်းနိုင် အစ ရှိသည်ဖြင့် ဆိုသည်။

ထိုနဂါးမျိုး အပြားကား–

**ဝိသာပန စတုဗ္ဗိဓော အဟောသိ။ ကဋ္ဌမုခေါ၊ ပူတိမုခေါ၊ အဂ္ဂိမုခေါ၊ သတ္ထမုခေါ။**

အစရှိသော သာရတ္ထသင်္ဂဟပါဌ်နှင့်အညီ ကဋ္ဌမုခမျိုး၊ ပူတိမုခမျိုး အဂ္ဂိမုခမျိုး၊ သတ္ထမုခမျိုးအားဖြင့် လေးပါးအပြားရှိသည်။ ထိုလေးပါးကို ဒဋ္ဌဝိသ၊ ဖုဋ္ဌဝိသ၊ ဒိဋ္ဌဝိသ၊ ဝါတဝိသဟူသော အဆိပ်လေးပါးနှင့်မြှောက် တစ်ဆယ့်ခြောက်ပါးဖြစ်၏။ ထိုတစ်ဆယ့် ခြောက်ပါးကို အာဂတဝိသ၊ နောဃောရဝိသ၊ နောအာဂတဝိသ၊ ဃောရဝိသဟု ဆိုအပ်သော ဝိသလေးပါးနှင့် မြှောက်သော်ခြောက်ဆယ့်လေးပါးဖြစ်၏။ ထိုခြောက်ဆယ့် လေးပါးကို အဏ္ဍဇ၊ သံသေဒဇ၊ ဇလာဗုဇ၊ ဩပပါတိက တည်းဟူသော ယောနိ လေးပါးနှင့်မြှောက် နှစ်ရာ့ငါးဆယ့်ခြောက်ပါးဖြစ်၏။ ထိုနှစ်ရာ့ငါးဆယ့်ခြောက်ပါးကို ရေနေ, ကြည်းနေ နှစ်ပါးနှင့်မြှောက်။ ငါးရာ့တစ်ဆယ့်နှစ်ပါးဖြစ်၏။ ထိုငါးရာ့ တစ်ဆယ့် နှစ်ပါးကို၊ ကာမရူပီ၊ အကာမရူပီဟု ဆိုအပ်သော စည်းစိမ်ရှိ, မရှိ နှစ်ပါးနှင့် မြှောက်။ တစ်ထောင့် နှစ်ဆယ့်လေးပါးဖြစ်၏။ ဤသို့သိ၍ ခွဲဝေအပ်၏။

မြေကြီး၏ အထဲ၌လည်း နဂါးတို့၏ နေရာရှိကြောင်းကို ပါရာဇိကကဏ် အဋ္ဌကထာ၊ စတုတ္ထပါရာဇိက တပေါဒါဝတ္ထုအဖွင့်တွင်–

**ဝေဘာရ ပဗ္ဗတဿ ကိရ ဟေဋ္ဌာ ဘူမဋ္ဌကနာဂါနံ ပဥ္စယော ဇနသတိကံ နာဂဘဝနံ ဒေဝလောကသဒိသံ ရမဏီယေန တလေန အာရာမုယျာနေဟိ သမန္နာဂတံ။ စသည်ဖြင့် လာသည်။**

**အဓိပ္ပာယ်ကား။** ။ ရာဇဂြိုဟ်မြို့ကိုရံသော် တောင်ငါးလုံးတို့တွင် ဝေဘာရ တောင်၏ အောက်မြေထဲ၌ ယူဇနာငါးရာရှိသော နဂါးပြည်ရှိ၏။ နဂါးပြည်နှင့်တူသော မွေ့လျော်ဖွယ်သော မြေအပြင်လည်းရှိ၏။ အရံဥယျာဉ်တို့နှင့်လည်း ပြည့်စုံ၏။ ထိုပြည်၌ နဂါးတို့ပျော်ပါးရာ ဖြစ်သောရေအိုင်သည် ကြည်သောရေ၊ အေးသောရေ၊ မြိန်မြတ် သောရေတို့နှင့် ပြည့်စုံ၏။ မှော် ရေညှိမငွေ့၊ မွေ့လျော်ဖွယ်သော ဆိပ်ကမ်းလည်းရှိ၏။ လှည်းဘီးပမာဏရှိသော ပဒုမ္မာကြာတို့သည် အခါခပ်သိမ်းပွင့်ကုန်၏။ ငါးလိပ်တို့လည်း များစွာရှိကုန်၏။ ထိုအိုင်မှထွက်ခဲ့သော တပေါဒါမြစ်သည် နှစ်ခုသော ငရဲကြီးတို့၏ အကြားမှစီးခဲ့၍ ရာဇဂြိုဟ်ပြည်ကို လှည့်လည်၍ ပေါ်၏။ မြစ်ကမ်းနား၌ များစွာသော ပြိတ္တာတို့လည်းရှိကုန်၏။ ထိုမြစ်သည် လောဟကုမ္ဘီငရဲကြီးတို့၏ အကြားမှ လာသောကြောင့် ပူစွာလျက် အငွေ့ခြောင်းခြောင်းထွက်သော ရေအလျဉ်ရှိ၏ဟူ၍ ဆိုသည်။

ဟိမဝန္တာတော ဒဒ္ဒရတောင်ခြေရင်းတွင်လည်း နဂါးတို့ပြည်ရှိကြောင်းကို စတုကနိပါတ် ဒဒ္ဒရဇာတ်၌=

ဟိမဝန္တပဒေသေ ဒဒ္ဒရပဗ္ဗတပါဒေ နာဂဘဝနံနာမ အတ္ထိ။ ဟူ၍ လာသည်။

ဤနဂါးမျိုးတို့သည်လည်း မြေနေ နဂါးပင်ဖြစ်သည်။

ဤသို့ ကျမ်းဂန်လာသည်ကို ထောက်၍ နဂါးတို့ပြည်တည်ရာကို သိအပ်၏ဟူပေ။ ဇာတ်အဋ္ဌကထာ၊ သံယုတ်အဋ္ဌကထာ၊ သာရတ္ထသင်္ဂဟတို့၌ ယူလေကုန်။

❖❖❖❖❖

## ၉၄၀။ ရိုးသုံးရာသည်၊ ကိုယ်၌တည်၊ မည်သည် မည်သည့်အရိုးနည်း။(၂၃၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အယ်ကာရန်ပုစ္ဆာနံပါတ် ၇၈၊ ၇၉၊ ၈၀–က ဖြေခဲ့ပြီ။

❖❖❖❖❖

**၉၄၁။ ဝါယောဓာတ်သည်၊ လူ၌တည်၊ အမည်ဘယ်မျှပြားသနည်း။(၂၃၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဥဒ္ဓင်္ဂမာ အဓောဂမာ၊ ကုစ္ဆိဋ္ဌာစ ကောဋ္ဌာသယာ။**
**အင်္ဂမင်္ဂါနုသာရိနော၊ အဿာသပဿာသာဣတိ။**
**ဆ ဣမေ ဝါယော ဓာတုယော။**

ဥဒ္ဓင်္ဂမာ၊ အထက်သို့ ဆန်တက်သောလေ။ အဓောဂမာ၊ အောက်သို့ စုန်သောလေ။ ကုစ္ဆိဋ္ဌာ၊ ဝမ်း၌ တည်သောလေ။ ကောဋ္ဌာသယာ၊ အူအတွင်း၌ ကိန်းသောလေ။ အင်္ဂမင်္ဂါနုသာရိနော၊ အင်္ဂါကြီးငယ်သို့ အစဉ်လျှောက်သောလေ။ အဿာသ ပဿာသာ၊ ထွက်သက်ဝင်သက်လေ။ ဣတိ ဣမေ ဆ၊ ဤခြောက်ပါးသော လေတို့သည်။ ဝါယော ဓာတုယော၊ ဝါယောဓာတ်တို့တည်း။ သမ္မောဟ အဋ္ဌကထာ။

◆◆◆◆◆

**၉၄၂။ မြို့ရွာပျက်မည်၊ ကြောင်းဆယ်တည်၊မှတ်ရည်ထုံးစံမည်သို့နည်း။(၂၃၄)**
**၉၄၃။ မင်းပြောင်းလဲမည်၊ နိမိတ်တည်၊ အရှည်မှတ်ပုံဘယ်သို့နည်း။(၂၃၅)**

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား–

မြို့ရွာပျက်မည်၊ ကြောင်းဆယ်တည်ကို၊ နာလည်စေကြ၊ လင်္ကာပြအံ့၊ ဂြိုဟ်မ ရှစ်ထောင့်၊ မဖြောင့်သွားလာ၊ ခေါင်းပါးစာရေ၊ ချိန်နေမမှန်၊ ရွာသွန်မြူးခုန်၊ ပဇ္ဈုန်ထွေထူး၊ လေရူးပေါ်ပေါ်၊ ဖျောဖျောတက်တိုး၊ မိုးကြိုးအသံ၊ လမှန်ကြူးက၊ ဒေါင့်တဲစသည်၊ လုပ်ထယာခင်း၊ ကျဆင်းပိုးထူ၊ ခွေးအူချိန်လွဲ၊ တောထဲကြွက်နက်၊ တောကြက် သင်းခို၊ ရွာကိုဝင်လျှိုး၊ ကြမ်းပိုး ပိုးဟပ်၊ ထူထပ်များစွာ၊ နံ့စာသငယ်၊ ပေါယယ်ရောက်ကျ၊ ဗျဂ္ဃစိမ်းစား၊ သစ်ကျားရဲယောင်၊ မရှောင်လုယူ၊ ခိုးသူလည်းထ၊ ပြည်မအုပ်စိုး၊ မင်းစိုး များလတ်၊ ကြခတ် ဝါးကြီး၊ သီးသောကြောင်းဟိတ်၊ ဆယ်နိမိတ်မူ၊ ဆိတ်ဆိတ်ပြည်ရွာ၊ ပျက်တတ်စွာဟု၊ သာရတ္ထဒီပနီ။ ကျမ်းထွက်ပြီ၏။ သညီရုံးပေါင်း၊ ထိုအကြောင်းကို၊ ဆင့်လောင်းအသစ်။ မဖြစ်စိမ့်ငှာ၊ ကေရာတို့၊ ပညာရှုမြော်၊ ပေါင်းသူတော်နှင့်၊ တိုင်ပင်ချင့်၍၊ မြတ်ကျင့်ဆယ်မည်၊ ဆောက်တည်တုံလတ်၊ မှူးမတ်ကြီးငယ်၊ ပြည်စွယ် ပြည်သွား၊ ပြည်သူများကို၊ တရားမသွေ၊ စောင့်နေမြဲစွာ၊ သရဏာဖြင့်၊ လျှုဒါမငြိ၊ ဥဒါန်းဖြို၍။ ပြည်ကိုကုမပေရာသောဝ်။

နိဒါန်းမင်္ဂလာ၊ စည်ထွန်းဖြာပိမ့်၊ ချုပ်ချာကေရာဇ်၊ ဘုန်းသစ်တက်ဖြိုး၊ စောသတိုး တို့၊ တန်ခိုးစည်းစိမ်၊ ရွှေအိမ်ရွှေနန်း၊ စံမြန်းစဉ်မှ၊ အနိစ္စသို့၊ ရောက်ရ လိုသော်၊ ထင်ပေါ် နိမိတ်၊ အကြောင်းဟိတ်ကား၊ အရိပ်ပြန်သွား၊ ဘုရားပုထိုး၊ တန်ခိုးရောင်ခြည်၊ ထွက်သည် ထင်မြင်၊ ကောင်းကင်ဝေမှိုင်း၊ မှန်တိုင်းလေပြင်း၊

နေနှစ်စင်းနှင့်၊ လမင်းတံခွန်၊ မိုးစွန် အလယ်၊ ရှစ်ဂြိုဟ်ကြွယ်လည်း၊ မီးနှယ်ခိုးပြ၊ ဗျတ္တ စရိယာ၊ သီဟစာတုံ၊ နီယထုံမှိုး၊ မြေကြီးငလျင်၊ မြေပြင်အက်ကွဲ၊ တော်လဲဥက္ကာ၊ အညာရေစီး၊ နတ်သမီးကမ်းပြို၊ နေ့ကို ကြယ်မြင်၊ နန်းတွင်းပျားစွဲ၊ ပျံ့ဝဲလင်းတ၊ နားကျနန်းဦး၊ ဘီလူးကိုယ်ထင်၊ အမြင်ပြသွား၊ သားတစ်သွေးခဲ၊ သဲသဲဖြိုးစွာ၊ မိုးရွာကျောက်ခဲ၊ တောင်ကွဲထက်ခြမ်း၊ ကမ်းကိုလွှမ်းပြီး၊ ရေကြီးထူးဆန်း၊ မကာန်းလိပ်ငါး၊ ကြီးမားရောက်လာ၊ အိမ်ရာခဲပစ်၊ မြစ်ရေကမ်းဖို့၊ တောင်ပို့ရွှေ့တွား၊ နဂါးပေါ်ထွက်၊ ဒိန္နက်သကြံန်၊ ကြယ်ပျံကြယ်ပျောက်၊ အောက်သို့ ကြွေကျ၊ လကိုကြယ်ထွင်း၊ ကြယ်ချင်းထိခိုက်၊ ရှေး၌စဉ်လာ၊ ဖြစ်ဖူးရာကို၊ ရာဇဝင်ကြောင်း၊ စာဟောင်းအထွက်၊ သီကုံးမြွက်သည်၊ လေ့ကျက်မှတ်ကုန်ရာသတည်း။

ရဝိခေါ်တုံ၊ ရက်ဂဠုန်၌၊ ရောင်ဟုန်ထွန်းပ၊ သူရဇ္ဈလျှင်၊ ဖွဲ့ထအိမ်နေ၊ ဖြစ်လာပေသော်၊ မသွေပြည်ရွာ၊ မီးသာအတိ၊ လောင်တတ်ဘိ၏။ မှတ်သိတနင်္လာ၊ ရက်ဒိဝါ ဘား၊ ကညာနတ်တူ၊ တိုင်းတစ်ဆူက၊ ဆက်မှုအမှန်၊ မြဲကေန်တည့်၊ တစ်ဖန်ဘောမ၊ အိမ်ဖွဲ့လာသော်၊ ရာဇာမင်းလောင်း၊ ရောက်တုံရှောင်းအံ့။ တစ်ကြောင်းဗုဒ္ဓ၊ ပေါ်ထစစ်မက်၊ ဂုရုရက်ကား၊ ပျောက်ပျက်ဘေးဒဏ်၊ မှတ်ရန်ထိုပြီး၊ တစ်သီးသောကြာ၊ ဝေးရပ်ရွာက၊ ရတနာဆက်ရောက်၊ ထို့နောက်နဂါး၊ ရက်၌ငြားမူ၊ ပြည်သားချမ်းသာ၊ ဝပြောစွာ၏။ ထွက်ခါအစ၊ ဖွဲ့လတ်ကသော်၊ မုချမချွတ်၊ ထဘီဝတ်တို့၊ ဥပဒ်ကြီးစွာ၊ ရောက်တတ်ရာ၏။ တစ်ခါမွန်းလတ်၊ မင်းမှုူးမတ်နှင့်၊ မင်းမြတ်၌သာ၊ ဘေးစိုက်ရာသည်။ နေမှာနိမိတ် အဟောတည်း။

ဂဠုန်ရက်၌၊ ထွန်းတက်စန္ဒြာ၊ ခြည်ဝါရောင်မဲ့၊ လအိမ်ဖွဲ့သော်၊ ပြည်ထဲ့ရေးသာ၊ ဝပြောစွာ၏။ ဗျဿါရက်မင်း၊ ဖွဲ့လာခြင်းကား၊ မိုးမင်းသွေရှောင်၊ မရွာခေါင်အံ့၊ ထို့နောင် အင်္ဂါ၊ ဒေဝါသုန်ဖျင်း၊ ဖြစ်တို့လျှင်းလိမ့်၊ ရက်မင်းဗုဒ္ဓါ၊ ဖွဲ့ဝန်းကာသော်၊ ပြည်ရွာလေးသွယ်၊ ဝပြောကြွယ်အံ့၊ တစ်သွယ်ဂုရု၊ ဖွဲ့လာပြုမူ၊ နတ်တုကညာ၊ ရတနာဆင်ဖြူ၊ ရောက်မူ ကေန်၊ မချွတ်မှန်အံ့၊ တစ်တန်သောကြာ၊ ဖွဲ့ဝန်းကာသော်၊ သေတ္တာသန္ဓေ၊ ရောက်လာ ရေးရှင့်၊ မည်ပေးမသွေ၊ ရက်စနေ၌၊ ဖွဲ့ထွေတစ်သီး၊ ပြည်ကြီးပြည်ငယ်၊ ပျက်ကြောင်း သွယ်သည်။ လဝယ်နိမိတ် အဟောတည်း။

တနင်္ဂနွေ၊ ရက်ဒိဝေ၌၊ ထက်ဗွေအာကာ၊ တိမ်တိုက်သာလျှင်၊ ဖီလာဖြတ်သန်း၊ တံခွန်တန်းက၊ ရှေ့ခန်းရပ်မြေ၊ စစ်ထွက်ပေအံ့၊ ရောင်ရွှေဝင်းဝါ၊ တနင်္လာကား၊ သေနာ သူရ၊ ပျက်စီးရလိမ့်၊ တဝဘောမာ၊ ရက်အင်္ဂါမူ၊ ဒိသာရှေ့ခွင်၊ စစ်ကြီးဆင်အံ့၊ ရက်လျှင်ဗုဒ္ဓ၊ တံခွန်ပြသော်၊ ပါပမသွေ၊ ရောက်လတ်ချေ၏။ တစ်ထွေဂုရု၊ ထွက်လာပြု သော်၊ ရောက်မူ ကညာ၊ ရတနာဆင်ဖြူ၊ စွဲမှတ်ယူလော့၊ တရဂူတွင်သာ၊ ရက်သောကြာဝယ်၊ မှန်စွာ စစ်မက်၊ ထွက်လတ်အပြီး၊ တစ်သီး မှတ်ဖွယ်၊ စနေဝယ်ကား၊ ပြည့်ကြယ် ဝပြော၊ မိုးလျှင်ပေါသည်။ ။ ထွက်သော တိမ်တို့ခြင်းရာတည်း။

ပြဘာက်ရ၊ သဝိသက၊ အာဒိစ္စသူရိ၊ ဖန်ရဝိဟု၊ မည်ရှိများစွာ၊ ကျမ်းအလာနှင့်၊ မြန်မာအလို၊ နေဟုဆိုသည်၊ လူပိုလ်ပညတ်၊ ခေါ်စမှတ်သား၊ ပြာသာဒ်လျှံပြောင်၊ ဗိမာန်ဆောင်မှ၊ အရောင်နိမိတ်၊ ထင်မြဲတိတ်ကို၊ ခွဲစိတ်ဝေဖန်၊ သိစေပြန်အံ့၊ ထောင်မှန် လင်းရှိန်၊ စက်ရဝိန်တွင်၊ ထိန်ထိန်နီမြန်း၊ အရောင်သန်းက၊ တိုင်းခန်းပြည်သူ၊ ဥပဒ် ဟူလော့၊ ထို့အတူအဝါ၊ သန်းသည်မှာကား၊ ဥစ္စာများဖြင်၊ ကြွယ်ပင်သူဌေး၊ ဥပဒ် ဘေးတည့်၊ နေရေးငွေကျူ၊ အဆင်းဖြူ၍၊ ထို့တူထပ်မွမ်း၊ အဖြူလွှမ်းသော်၊ မှုထမ်း အပေါင်း၊ သူရဲကောင်းတို့၊ ပြောင်းမည်ခန္ဓာ၊ နေစကြာဝယ်၊ ထက်မှာအနီ၊ အောက်ဆီအဝါ၊ လယ်ချာအမည်း၊ ဖြတ်၍ဆီးသော်၊ ချုပ်တီးစစ်ပြိုင်၊ မနိုင်ရဘဲ၊ ပြိုပျက်ကွဲလိမ့်။ အံ့အဲ ထူးထွေ၊ ဖန်ဝန်းဗွေ၍၊ လူ့ခြေကဲ့သို့၊ မြင်တုံမြို့သော်၊ မှို့မင်္ဂလာ၊ ဆောင်ခါမပြီး၊ စစ်ကြီး မနိုင်၊ ပြိုင်၍ရှုံးလေ၊ နေ၏အထဲ၊ ရဲရဲရွှန်းဝါ၊ ဝက်ရုပ်ပါမူ၊ စောရာတန္တု၊ စသည်မောသော၊ ထူထပ်ပြောအံ့၊ ကျောကျောမည်းနက်၊ လယ်ချက် သန်းကာ၊ အဝါထက်ဆီ၊ အနီ အောက်ခြေ၊ မြင်ပြန်လေသော်၊ ရေမြေစိုးရ၊ ရာဇညဝယ်၊ သည်းဝကျင်ဧ၊ ချစ်ငြိမ့် လေးသည်၊ ရင်သွေးသက်ဝေ၊ သေတတ်ချေ၏၊ လယ်ဗွေ သန်းငြား၊ အမည်းသားလျက်၊ ထက်ဖျားအောက်မူ၊ အဖြူတစေ၊ နီဝါရွှေလျက်၊ ဝှန်ဝေ မီးရောင်၊ တက်ထွန်းပြောင်သော်၊ ဘုန်းခေါင်ဖိနိန်၊ မြတ်ရာဖိန်ကို၊ မာန်ရှိန်စွင့်စွင့်၊ အမတ်မြင့်၍၊ မချင့်မနှိုင်း၊ စော်ကားရိုင်းအံ့၊ ပိုင်းဖြတ်ကြက်ခြေ၊ မြင်ပြန်လေမူ၊ ရေမြေစိုးခြင်း၊ မင်း၌အနာ၊ ရောက်တတ်စွာသည်။ ချမ်းသာမရစမြဲတည်း။

ပြဘာက်ရာ၊ နေစကြာ၌၊ ဖြစ်လှာထူးလွန်၊ ရောင်ဝင်းဝှန်သည်၊ တံခွန်ကဲ့သို့၊ မြင်တုံမြို့သော်၊ အောင်မှို့လျှံညီး၊ ကမ္ဘုထီးနှင့်၊ မင်းကြီးသက်ဝေ၊ တောင်နေမိဖုရား၊ သားသမီးတော်၊ နတ်ပြည်ပျော်အံ့၊ ရွှေလှော်ဝင်းလျှံ၊ ဒေါင်းဘုံပျံဝယ်၊ အောင်လံစွင့်စွင့်၊ စိုက်ထူလွှင့်လည်း၊ ရှည်မြင့်မကြာ၊ စစ်ရောက်လှာအံ့၊ စကြာနေမင်း၊ ငွေအဆင်းသို့၊ ဖြူဝင်းလျှပ်လျှပ်၊ အထက်ရပ်ဝယ်၊ တပ်တပ်ရွှေရည်၊ ရောင်ပျို့စည်သော်၊ ပြည်သူ ပြည်သား၊ ဝတ်မွတ်ရှား၍၊ ဘေးများဥပဒ်၊ ရောက်တို့တတ်၏၊ နတ်ရဝိရွှေ၊ စက်ဝန်း ဗွေ၌၊ နီးလေထက်ခွင်၊ အောက်မည်းမြင်သော်၊ မိုးလျှင်မအောင်၊ ခေါင်ကြီးခေါင်အံ့၊ ဖြူရောင်ပြေပြေ၊ လယ်က နေ၍၊ ပတ်ခွေဝန်းလစ်၊ အနားရစ်မှာ၊ မီးလျှံငါသော်၊ လေသာတစ်ကြိမ်၊ မိုးတစ်ကြိမ်နှင့်၊ အငြိမ်မညီ၊ ပဲသီပဲနောက်၊ ကောက်မုယော ပြောင်း၊ မကောင်းတတ်ချေ၊ ပျက်စီးသေလိမ့်၊ နေအလယ်ချက်၊ အနီကွက်၍၊ နားလေးဘက်မှာ၊ အပြာတစေ၊ ထွင်းကာနေသော်၊ မိုးရေ မဖြိုး၊ မိုးသီးအများ၊ ကျသောအားဖြင့်၊ မိုးကားမရွာ၊ ခေါင်တတ်စွာ၏၊ အပြာလယ်ချက်၊ ထင်ပြက်ပြက်နှင့်၊ လေးဘက်နားမှာ၊ အနီဖြာ၍၊ ကွက်ခါမြင်ထွေ၊ ညာနန်းဗွေထက်၊ စံနေမငြီး၊ စန္ဒီထီးနှင့်၊ မင်းကြီးသက်နှင်း၊ စင်မရှင်းလျှင်၊ ယွင်းခဲ့ကျင့်ဝတ်၊ မေတ္တာချွတ်၍၊ လွှတ်အံ့တရား၊ အမှားမှားသည်။ ။ တစ်ပါးသူနှင့် နှောမြဲတည်း။

ဆောင်းစွန်နွေမှန်၊ နှစ်ဝသန်ဟု၊ ဂိမှန်စဲလု၊ သာရတုထက်၊ ဘာဏုစက်ရွှေ
ယုဂန်ဓွေမှ၊ လျှံဝေစဲစဲ၊ ပေါ်စဆဲတွင်၊ ရဲရဲဝင်းဝါ၊ တက်၍လာသော်၊ ကျောက်နာ
ဝက်သက်၊ များစွာတက်အံ့၊ တစ်ချက်ထိုမှ၊ ဝဿန္တဟု၊ မိုးလမှာမူ၊ နေဝန်းဖြူကာ၊
မပူမအော၊ ရန်သာ လွတ်ရှင်း၊ ကင်းအံ့လူပေါင်း၊ မိုးလည်းကောင်းလိမ့်၊ ဆောင်းဟုမည်ရ၊
ဟေမန္တ၌၊ သဝိတစက်၊ နီ၍ထွက်သော်၊ သားငှက်တို့မှာ၊ များစွာဥပဒ်၊ ဖြစ်လတ်
တံ့ရှောင်း၊ လူအပေါင်းလည်း၊ ဦးခေါင်းနှင့်ခြေ၊ တထွေတလာ၊ ရောဂါဆင့်ကဲ၊
ဖျားနာမြဲဖြင့်၊ ချမ်းမြဲမချမ်း၊ ပြောင်းနှမ်းဝါပဲ၊ သီးမြဲမသီး၊ ဆောင်းမြီးနွေစ၊ ဂိမှန္တနှင့်၊
ဝဿဟေမန်၊ ထိုသုံးတန်တွင်၊ စက်ဖန်ရဝေ၊ အပြာထွေ၍၊ အနေလွဲလျက်၊
အမည်းဖက်သော်၊ ကျွန်းကျက်သရေ၊ မြေဓိပတိ၊ ပြည်ကြီးသေဌ်နင်း၊ မင်းလည်းယာယီ၊
မချိမကြွ၊ မထလေရာ၊ မှူးသိကာက၊ ဥဏ္ဏာနာဘိ၊ အစေငြိနှင့်၊ ဗဟိပါဒေ၊ အခြေ
များမြောင်၊ ခြေမဲ့ကောင်လည်း၊ ပွားဆောင် မည်သီး၊ ဝါနီးစုံမက်၊ ငှက်နှင့်ကျေးသား၊
ထူထပ်များ၍၊ စပါးပဲပြောင်း၊ မကောင်း ပျက်ရာ၊ ဂဇာအဿ၊ မဟိသနှင့်၊
ဂေါဏအဇော၊ ဆိတ်ဟုဟောသည်၊ ဖြင်ပေါတိရစ္ဆန်၊ ဘေးဒဏ်ဥပဒ်၊ ဖြစ်တတ်လေရာ၊
ထိုပမာလည်း၊ ယဉ်သာသုံးပါး၊ ဥတုများတွင်၊ ဖန်သား တစ်ခြမ်း၊ အဖြူလွှမ်း၍
တစ်ခြမ်းကမှာ၊ အစိမ်းပါသော်၊ ထိုခါထိုရက်၊ တိထိစက်တွင်၊ ကိုးမျက်ချယ်လွင်၊
သင်ဒိုင်းရှင်သည်၊ ဝန်းကျင်ရှစ်ရပ်၊ ကယ်မလပ်အောင်၊ ဖပ်ဖပ်စိုရွှန်း၊ မိုးရေသွန်းအံ့၊
နေဝန်းနီလည်း၊ ၎င်းနည်းတည့်၊ နေလည်းအဖြူ၊ လနှင့် တူ၍၊ လျှံလူနီတျာ၊
စိမ်းနုပြာနှင့်၊ ပတ်ခါအနား၊ ရစ်ပြန်ငြားက၊ မင်းဖျားစောထွတ်၊ လူတမွတ်ကို၊
ညွတ်အံ့ ပြည်လုံး၊ ရှိပန်ကျုံးလိမ့်၊ တစ်ထုံးမှတ်ရန်၊ ရွှေဗိမာန်ဟု၊ စက်ဖန့်အနီး၊
ကြယ်ကြီးတစ်ပွင့်၊ နားလာလင့်သော်၊ ဆင်မင့်အဓိပတိ၊ ပြည်ကြီးထွတ်ချာ၊
နတ်ရွာရွှင်ပျော်၊ စံမွေ့လျော်သည်။ထိုရော်ဖြစ်မည်မလွဲတည်း။

ဖန်ဝင်းရောင်ဝါ၊ ထက်အာကာက၊ စိမ်းပြာရောင်လဲ့၊ ဝန်းအိမ်ဖွဲ့သော်၊ ပြည်ထဲ့
သေဌ်နင်း၊ မင်း၏အမတ်၊ သေတို့တတ်၏၊ ရဟတ်စကြာ၊ ဝင်သောခါ၌၊ နီတျာအဆင်း၊
ဖြစ်တို့လျှင်းမူ၊ မင်းလျှင်အနာ၊ ရောက်တတ်စွာ၏၊ နေမှာဖြူလျက်၊ အနက်ကြက်ခြေ၊
သန်းတို့လေလည်း၊ ရှစ်ထွေအင်စုံ၊ ကျေးဖူးပုံသည်၊ ရွှေဘုံသခင်၊ တိုင်းခွင်ဇမ္ဗူ
လှည့်တော်မူ၍၊ ပြည်သူကောင်းကျိုး၊ ရွက်ဆောင်ကြိုးအံ့၊ အခိုးသုံးသွယ်၊ အပြာချယ်မူ၊
တိုင်းလယ်ရွှေပြည်၊ စစ်ရောက်မည်တည့်၊ ပြာချည်အရောင်၊ နှစ်ဖက် ထောင်လျက်၊
ဖန်ဆောင်ပြာသာဒ်၊ ထွန်းလင်းပတ်သော်၊ မင်းမြတ်စံတည်၊ နေတော်ပြည်သည်၊
ပျက်မည်မယွင်း၊ မင်းလည်းထွက်ခွါ၊ ပြေးလေရာ၌၊ ကြမ္မာကုန်ရွှေ့၊ နတ်ရွာမွေ့အံ့၊
လင်းလေ့အသွင်၊ နေတွင်မြင်သော်၊ မကြင်ချစ်ကင်း၊ အချင်းချင်းပင်၊ ရန်တင်းပြုလစ်၊
ငှက်ညစ်ခင်ပုပ်၊ သဏ္ဍာန်လုပ်သို့၊ အရုပ်နေတွင်၊ ပြွံပြွံမြင်မူ၊ တိုင်းခွင် ပြည်ရွာ၊
မသာနွမ်းညှိုး၊ လူဆိုးလူပျက်၊ လုယက်ဖြင့်ပေါ၊ မောသောခိုးသူ၊ ထူးအံ့ရန်ဘက်၊
ထွက်အံ့စစ်ကြီး၊ သွေးချောင်းစီးလိမ့်၊ တစ်သီးနေမှာ တိမ်ပြာတစ်ခြမ်း၊ မနွမ်းရောင်ဝါ၊

ထွက်၍လာသော်၊ တောင်ညာတင်ထား၊ မိဖုရားသည်၊ လူများသေဌ်နှင်း၊ မင်းကိုမချစ်၊ အပြစ်မမြင်၊ မှားမိကျင်လိမ့်၊ နေလျှင်နှစ်စင်း၊ ထွက်၍လင်းမူ၊ ဝှန်ပြင်းမုန်တိုင်း၊ ခတ်ချိုး လှိုင်းလျက်၊ တိုင်းကြီးသာမိ၊ မိပတိတွင်၊ စန္ဒီထီးရှင်၊ ညာတင်မိဖုရား၊ နတ်ရွာလားအံ့၊ အနားနီးရစ်၊ လယ်ဖြူနှစ်နှင့်၊ လင်းလုစ်တစ်ထောင်၊ ယုဂန်တောင်က၊ ဖန်ရောင်ဖြိုးဘိ၊ ထွက်သည်ရှိသော်၊ ပဋိသန္ဓေ၊ စွဲနေသသူ၊ ပျက်မည်ဟူလော့၊ ရွှေဇမ္ဗူရစ်၊ နေတက် သစ်တွင်၊ ရပ်ရှစ်အသွင်၊ မြင်သည်ကျွဲနွား၊ ဆိတ်ဝက်များက၊ လားနှင့်သီဟ၊ ပီသအဆင်း၊ ဆိုရင်းရုပ်စု၊ တစ်ခုခုမျှ၊ မြင်လတ်ကမူ၊ ဌာနနန်းတည်၊ တိုင်းရွှေပြည်သည်၊ မစည် မပွင့်ပြိုကွဲတည်း။ ။ နေဝန်း၌ထင်သောနိမိတ်ကို ဟောသည်ပြီး၏။

ဥလုရာဇ စန္ဒရနှင့်၊ သသိက္ကန္ဒ၊ ဝေဠုရောင်ဖြူ၊ သီတဂူဟု၊ ပြည်သူပညတ်၊ ခေါ်စမုတ်သား၊ နတ်စန္ဒီမာ၊ ငြိုဟ်မြတ်စွာသည်၊ အာကာမိုးဝ၊ ဆန်းပေါ်စဝယ်၊ မြငွေရောင်မောင်း၊ မြောက်သို့စောင်းမူ၊ နှောင်းမိုးဝသန်၊ ကောင်းမြဲမှန်၏။ တစ်တန်မှတ်ဖွယ်၊ ပြည်ရွာဝယ်လည်း၊ ရပ်ဆယ်လင်းအောင်၊ မီးထင်းလောင်အံ့၊ တောင်သို့တထွေ၊ စောင်းပြန်ချေမူ၊ ဆာမူချောက်ချား၊ ရောဂါများလျက်၊ မြသားညိုလွင်၊ သင်ဒိုင်းရှင်လည်း၊ မရွှင်မြူးခုန်၊ ပဖွန်မသွန်း၊ သွေဖယ်ယွန်းလိမ့်၊ ငွေဝန်းလျှံပ၊ ဘုံနန်းလသည်၊ ပန္နရသီ၊ တိထီလုံးစေ့၊ ပြည့်သည်နေ့သို့၊ ချမ်းမြေ့သာယာ၊ လဆန်းမှာ၌၊ မြင်လာတုံပေ၊ တိုင်း နေပြည်သား၊ ဥပဒ်များအံ့၊ လကားဆန်းနေ့ ကြည့်ရွှေ့မြင်လာ၊ ဆရာပုဏ္ဏား၊ မင်းဖျား ရဲဘော်၊ မှူးတော်အမတ်၊ ဥပဒ်ဖြစ်စေ၊ ရစ်ခွေပြက်ပြက်၊ ဆန်းတက် အကွယ်၊ အကယ် နှစ်ဆင့်၊ မြင်ရလင့်မူ၊ ဆယ်ဆင့်တရား၊ ကျင့်မမှားသည်၊ ရဲဖျားစောကျော်၊ မြတ်ကိုယ်တော်၌၊ မလျော်အနာ၊ ရောဂါစွဲလေ၊ ဇီဝိတေလည်း၊ ပြောင်းသွေမချွတ်၊ ဖြစ်တို့တတ်သည်။ ။ မင်းမြတ်ကိုယ်တော် အရေးတည်း။

စန္ဒြရာဇာ၊ မြတ်ဒေဝါသည်၊ ဆန်းလာတက်၍၊ ဆယ့်ငါးနေ့၌၊ ငွေ့အရောင်နွမ်း၊ ညိုတခြမ်းနှင့်၊ ချမ်းချမ်းမြမြ၊ မမြင်ရမူ၊ ရညမိပတိ၊ တိုင်းကြီး ထွတ်ချာ၊ မြတ်ရာဇာကို၊ ပြည်ရွာရပ်သား၊ လူအများတို့၊ ခြားနားပုန်ကန်၊ ယွင်းဖောက်လုန်လိမ့်၊ တစ်ဖန်ထို့နောက်၊ လတည်းမောက်၍၊ မြောက်မြောက်စွင့်စွင့်၊ မြင်ပြန်လင့်မူ၊ ယခင့်စောလောင်း၊ ထိုမင်း ကောင်းသည်၊ ပြောင်းအံ့နတ်ရွာ၊ ထိုရပ်မှာပင်၊ ငယ်စွာလဝန်း၊ အမြင်ယွန်းသော်၊ သွန်းသွန်းမြင်ရာ၊ ထိုပြည်ရွာ၌၊ မုန်စွာ မှတ်လေ၊ ဥပဒ်ပွေလိမ့်၊ ကြီးထွေအပြင်၊ အဝန်းမြင်မူ၊ ယခင်ရွာပြည်။ ဝပြောမည်တည့်၊ ရွှေစည်မုရိုး၊ အလယ်ဖြိုးသို့၊ ကိုးယူဇနာ၊ အစွန်းသာ သည်၊ ဆယ်မှာလေးခု၊ လက္ကန္ဒုကို၊ မျှော်ရှုမြင်မူ၊ ရွှေပြည်သူတို့၊ ရေတူချမ်းငြိမ်၊ လနန်း အိမ်သည်၊ လယ်သိမ်၍ကျဉ်း၊ ခါးဝယ်စဉ်းမူ၊ တည့်ဦးဆိုးဆိုး၊ ပြည်ကြီးကျိုးလျက်၊ အမျိုးလေးပါး၊ ငတ်မွတ်ရှားအံ့၊ ရထားငွေစင်၊ အလယ်တွင်၌၊ မြင်သည်အပေါက်၊ အပြောက်ပြောက်မှာ၊ မြတ်ရာဇာကို ပဏ္ဏာထူးထွေ၊ ဆက်ရောက်ပေအံ့၊ လျှံဝေဝင်းဖြူ၊ သီတဂူသည်၊ ထူးခဲ့အရောင်၊ ထွန်းလင်းပြောင်မူ၊

ညာတောင်နေနတ်၊ ရှစ်သောင်း ထွတ်တွင်၊ သည်းပွတ်ရတနာ။ သားရရာ၏၊ စန္ဒာငွေလ၊ ထွက်ပေါ်စတွင်၊ ရှေ့ကတိမ်နီ၊ သန်း၍သီမူ၊ ယာယီနှစ်ထွေ၊ ကြည်းရေ သွားသူ၊ ကောင်းမည်ဟူလော့၊ ထို့တူရောင်ပြေး၊ ငါးကြင်းကြေးသို့၊ လရေးရစ်၍၊ ခိုးဝှန်ဝေ့သော်၊ ချမ်းမြေ့ပြည်ထဲ၊ သာယာမြဲတည့်၊ မြခဲရောင်မွတ်၊ နတ်ဘုံထွတ်တွင်၊ လွှတ်အခိုးဝေ၊ မြင်ပြုန်လေသော်၊ ပြည်နေပြည်သား၊ လူအများနှင့်၊ မင်းဖျားရန်စစ်၊ ကြီးစွာဖြစ်သည်။ ရှက်ရစ်ကြိုးနယ် ရှုပ်ထွေးတည်း။

လေးဆယ့်ကိုးယူဇနာ၊ ဝင်းဝင်းဝါသား၊ စန္ဒာမည်မှတ်၊ လပြာသာဒ်နှင့်၊ ဂြိုဟ်မြတ် အင်္ဂါ၊ တွေ့ကြိမ်ခါဝယ်၊ ရာဇထွတ်ဖျား၊ မင်းတရားတို့၊ ပြစ်မှားကျူးလွန်၊ တိုင်းစွန်ရပ်နေ၊ လူတစ်တွေတို့၊ မထေမဲ့ငြား၊ ပြုမိမှားလိမ့်၊ တရားပျော်မြူး၊ ဗုဒ္ဓဟူးဟု၊ ဂြိုဟ်ထူးအိမ်ရှေ့၊ နန်းအိမ်မွေ့နှင့်၊ တွေ့လတ်သောအခါ၊ ပြည်ရွာတိုင်းကား၊ ငတ်မွတ်ရှားအံ့၊ ဂြိုဟ်များ ဆရာ၊ မည်သာပညတ်၊ ဇီဝါနတ်နှင့်၊ ပြာသာဒ်ငွေဖူး၊ ပြိုင်ယှဉ်ပူးမူ၊ မိုးဦးလယ်နှောင်း၊ မကောင်းသောအား၊ စပါးနှမ်းဝါ၊ များစွာပျက်စီး၊ တိုင်းကြီးရွှေပြည်၊ မစည်မပင်၊ ငြိုငြင်ချောက်ချား၊ စောဖျားမင်းကျော်၊ ကိုယ်တော်မသာ၊ အနာတွေ့လတ်၊ လနန်းနတ်နှင့်၊ ဂြိုဟ်မြတ်သောကြာ၊ ရာသီနဝင်း၊ ထပ်ခြင်းမယွန်း၊ မွန်းမတည့်မီ၊ ယှဉ်မီလတ်သော်၊ ဘူပေါ်ရာဇ၊ နရိန္ဒ၏၊ နန်းမညာတင်၊ ရှစ်သောင်းရှင်သည်၊ ကျင့်အင်ယွင်းချွတ်၊ သူသို့ ညွတ်လိမ့်၊ ခေါင်ထွတ်ထွန်းစည့်၊ လမွန်းတည့်ကို၊ ယှဉ်သည့်သောကြာ၊ ပြည်ရာဇာဖြင့်၊ တကာလူပေါင်း၊ မကောင်းကြဉ်ရှောင်၊ များမြောင်အလှူ၊ ဆည်းဆူဒါန၊ ပေးဝေကြလိမ့်၊ ထိုပယှဉ်တွဲ၊ လမွန်းလွဲတွင်၊ ရဲရဲသောကြာ၊ ထိခိုက်လာသော်၊ ခြောက်ဖြာပြစ်ကင်း၊ သွယ်နွဲ့ရှင်းနှင့်၊ ဆင်မြင်းပဏ္ဏာ၊ ဆက်ရောက်လာအံ့၊ ရောင်ဖြာပဝင်း၊ ငွေလမင်းနှင့်၊ ယင်းသောကြာဂြိုဟ်၊ ထိန်ကျွန်းညိုသို့၊ ခိုကာနီးတွင်၊ မိုးသည်မြင်က၊ မရွှင်မလန်း၊ တိုင်းခန်း ရွှေပြည်၊ မစည်မပင်၊ ရှိမြဲပင်တည့်၊ ယခင်ငွေသား၊ လရထားနှင့်၊ ပတ္တမြားရောင်သွယ်၊ စနေကြယ်တို့၊ မိုးတိမ်လယ်ပြင်၊ ထိကြချင်သော်၊ မင်းတွင်ဥပဒ်၊ ကျိတ်ခိုးပတ်လျက်၊ လနတ်နန်းဘုံ၊ ဝန်းလာအုံမူ၊ မထုံတရား၊ ကျင့်ဖောက်ပြား၍၊ အများပြည်သူ၊ အိုးသို့ ဆူသည်။ ။ ပူ၏မီးနယ်မအေးတည်း။

သတ္တသတ္တာ၊ ယူဇနာဖြင့်၊ အာကာမိုးဝ၊ ရောင်ဖြိုးပသည်၊ ကမ္ဘာ့ကျက်သရေ၊ ယုန်နန်းငွေနှင့်၊ ပြိုင်ထွေယှဉ်မှီ၊ ရောဟဏီသည်၊ တူပြီရောင်ပြေး၊ ရှက်၍ထွေးသော်၊ ပြည်လေးမျက်နှာ၊ မသာယာ၍၊ မင်းလျာမင်းလောင်း၊ မကောင်းလျင်ဆော၊ ပေါ်၍ပေါ်အံ့၊ ရောဟဏီရှေ့၊ ခိုးရောင်ဝေ့သည်၊ စေ့တိထိလ၊ ဌာနသမိုင်း၊ တိုင်းကြီးနက္ခတ်၊ ကြတ္တိကာ ကြယ်၊ ရောင်သွယ်သွယ်နှင့်၊ အလယ်ပတ္တမြား၊ အနားကားကြူ၊ နန်းဘုံဖြူသည်၊ တူ၍နဝင်း၊ ထိကြနင်းစေ၊ တစ်ထွေရောဟဏီ၊ တူပြီမကွာ၊ ကြတ္တိကာဟု၊ မည်သာနှစ်ပါး၊ နက္ခတ် ကြားသို့၊ လသွားပစေ၊ ကြောင်နှစ်ထွေသည်၊ ညီပေတုံခါ၊ ဝသုဓာဟု၊ မဟာပထဝီ၊ မဟီတလေ၊ ဤမြေရိုက်ကြည်း၊ သိမ့်သိမ့်ဟည်းလျက်၊ ပြည်လည်းချောက်ချား၊ မွတ်သိပ် ရှားအံ့၊ နဂါးအမြီး၊ ကြယ်ကြီးမူလ၊

သိကြား့သံကောက်၊ ရွှေဂူငံ့ပေါက်သို့၊ ရောက်တုံ ဝင်ထွေ၊ လနန်းငွေကြောင့်၊ တိုင်းနေရှင်လူ၊ ဆာပူမကင်း၊ ဖြစ်ခြင်းဥပဒ်၊ သွားဒိနတ်နှင့်၊ နက္ခတ်သိကြား၊ သံကောက်ဖျားသို့၊ ငွေသားသသိ၊ ပြိုင်ယှဉ်ဘိမူ၊ ဘူမိပါလ၊ နရသေဌ်နှင်း၊ မင်းလည်းမသာ၊ ဖြစ်မြဲရာကြောင့်၊ မဟာသကြံန်၊ ခေါ်ရန်သန္ဓေ၊ မျှို့ခေါင်း ဆေးလိမ့်၊ ငွေသွေးပတ္တမြား၊ လရထားကို၊ နဂါးမည်သာ၊ အနုရာနှင့်၊ ဝိသာခါနတ်၊ လက်ယာပတ်၍၊ တွေ့လတ်ကြခါ၊ မြှည်ရွာတိုင်းကား၊ ပျက်စီးငြားအံ့၊ မြီးဖျားမူလ၊ ဟဿဒနှင့်၊ သလိဿမုန်၊ ပြုဗ္ဗာသန်က၊ ရောင်ဝှန်သတ္တဘိသ်၊ လျှံဖိတ် ရေဝတီ၊ ဤငါးလီကို၊ စန္ဒီနတ်ဂြိုဟ်၊ ဝင်၍ခိုမူ၊ ငြိုငြိုငြင်ငြင်၊ မရွှင်ညှိုးခြောက်၊ စစ်ကြီးရောက်အံ့၊ တောက်သည်အရောင်၊ လျှံပြောင်မိုးဝ၊ ခြောက်လုံးပသည်၊ ပုဏ္ဏာဖုသျှ၊ သဘော်ာတုနှင့်၊ ဣန္ဒြလစက်၊ ရောင်ချင်းယှက်က၊ မြေထက်အုပ်မိုး၊ စိုးသည့်မင်းကျော်၊ နတ်ပြည်ပျော်လိမ့်၊ စန္ဒော်နန်းလ၊ ကြယ်ပြုဗ္ဗနှင့်၊ ပုဏ္ဏာဖုသျှ၊ နှစ်ခုအကြား၊ ချင်းနင်းငြားသော်၊ ကျွဲနွားမြင်းဆင်၊ များဖြင့် သတ္တဝါ၊ သေတတ်စွာ၏၊ မှတ်ရတစ်ထွေ၊ သိသာစေစိမ့်၊ စနေအင်္ဂါ၊ နှစ်ဖြာဂြိုဟ်နတ်၊ ပြန်ခဲ့ပတ်၍၊ ဟဿဒမူလ၊ ရေဝတဟု၊ မည်ရထင်ရှား၊ ထိုသုံးပါးတွင်၊ တစ်ပါးပါးထက်၊ ရောင်ထွန်းပြက်က၊ စစ်မက်များမြောင်၊ မိုးရေခေါင်၍၊ ပြည်ထောင်သေဌ်နှင်း၊ မင်းလည်းလွဲသွေ၊ ပြောင်းတတ်ပေလိမ့်၊ စနေအင်္ဂါ၊ ဘုံသာနှစ်နန်း၊ ပြိုင်၍မြန်းမူ၊ တိုင်းခန်းရွာပြည်၊ ပျက်မည်မယွင်း၊ မင်း၏ကိုးရာ၊ မြတ်ဆရာလည်း၊ မကြာငြင်ငြို၊ ပျက်စီးပြိုသည်။ ။ ယွင်းယိုကြမ္မာ ကံဆွေးတည်း။

သူ့ပုစ္ဆာရင်း၌ မပါဘဲလျက် နောက်သွင်း၍ အဖြေပြုခြင်းသည် ဂန္ထဘာရ မဖြစ် လော ဟူငြားအံ့။ ဤကျမ်းဆရာလည်း နောင်လာအမျိုးသားတို့၏။ ပညာပွားစိမ့်သောငှာ ဤပုစ္ဆာကိုစီရင်သည်။ ငါလည်း ထို့ထက်သာလွန်သော ကရုဏာဖြင့် ဤဝိသဇ္ဇနာကျမ်းကို စီရင်သည်ဖြစ်ရကား ဂန္ထဘာရဖြစ်သော်လည်း အပြစ်တင်ဖွယ်မရှိ။ အကျိုးသာများဘိ၏။ ထို့ကြောင့် ဆိုသင့်လျက် မဆိုခဲ့သော အရာဟူသမျှကို သွင်း၍ ပြဆိုလိုက်သတည်း။ ရှေးစာ၌ ပုစ္ဆာတစ်ရာခန့်သာ အဖြေပါ၏။ အချို့နေရာမကျ၍ အသစ်ပြင်သည်။

**"အည်" ကာရန်ပုစ္ဆာ ၂၃၅-ပုဒ်အဖြေ ပြီး၏။**

◆◆◆◆◆

## (၂၉) "အည့်" ကာရန်ပုစ္ဆာ ၁၄-ပုဒ်အဖြေ

## ၉၄၄။ ရေသနုပ်တည့်၊ ဝတ်တုံလှည့်၊ ကန်ပြည့် အဘယ်တန်ခိုးနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဘုရားသခင်သည် မိုးရွာစေလိုသောဆန္ဒဖြင့် ရေသနုပ်တော်ကို ဝတ်သည်ရှိသော် တစ်ခဏချင်းတက်၍ ကန်ပြည့်အောင်ရွာလာသည်။ ယင်းသို့ရွာရခြင်းသည် တန်ခိုး ဆယ်ပါးတွင် အဘယ်တန်ခိုးနည်းဟု မေးသည်။

ဤအကြောင်းကို ထင်စွာဆိုလိုက်ဦးအံ့–

တစ်ရံသောအခါ ကောသလတိုင်း၌ မိုးသည် ရွာမြဲသောအခါတို့၌ မရွာသည်ဖြစ်၍ စိုက်ပျိုးအပ်သော ကောက်ပဲတို့သည် ညှိုးရော်ခြောက်သွေ့ကုန်၏။ တစ်ဖက်ဆည့်ကန်၊ လေးထောင့်ကန်၊ ဇာတဿရအိုင်တို့သည်လည်း နွေအခါကဲ့သို့ ခြောက်ခန်းလေကုန်၏။ ထိုအခါ ဇေတဝန်ကျောင်းတော်၏ အနီးဖြစ်သော ရေကန်ကြီး၌လည်း ရေတစ်ပေါက်မျှ မရှိသည်ဖြစ်၍ ညွန်၌ပုန်းအောင်း၍နေကုန်သော ငါးလိပ်ပုစွန်တို့ကို အိမ်ကျီး၊ တောကျီး၊ စွန်ရဲ၊ သိမ်းညို၊ ဝန်လို၊ လင်းယုန်တို့သည် တသောသော တသဲသဲ ပျံဝဲ ကျနားလျက် စားသောက်ဖမ်းယူကြကုန်၏။

ယင်းသို့ ရေသတ္တဝါတို့၏ များစွာပျက်စီးလေသည်ကို ဘုရားသခင် မြင်တော်မူသော် ကြီးစွာသော ကရုဏာဖြင့် ချမ်းသာစေလိုသော နှလုံးတော်ရှိသည်ဖြစ်၍ မိုးရွာစေအံ့ဟု ကြံပြီးလျှင် အရုဏ်တက်အချိန်တွင် ကိုယ်တော်ကို သုတ်သင်ပြီး၍ ဆွမ်းခံကြွတော်မူလျက် ဆွမ်းဘုဉ်းပေးပြီးလျှင် အရှင်အာနန္ဒာကိုခေါ်တော်မူ၍ ''ချစ်သားအာနန္ဒာ၊ ဇေတဝန်ရေကန်၌ ငါဘုရားရေသပ္ပါယ်တော်မူမည်။ ရေသနုပ်ကို ဆောင်ခဲ့လော့''ဟု မိန့်တော်မူ၏။ အရှင်အာနန္ဒာလည်း ''ဘုန်းတော်ကြီးလှသော ဘုရား၊ ဤဇေတဝန်ရေကန်၌ ယခုအခါ ချိုးစရာကို မဆိုထားဘိ၊ လျှာစွတ်ရုံမျှ သောက်လောက်စရာ ရေစမရှိပါ''ဟု လျှောက်၏။ မြတ်စွာဘုရားလည်း ''ချစ်သား အာနန္ဒာ–ငါဘုရား၏ကြီးမားသော အစွမ်းတော်ကို သင်မြင်ရလတ္တံ့။ ရေသနုပ်ကိုသာ ဆောင်ခဲ့လော့''ဟု မိန့်တော်မူ၏။ အရှင်အာနန္ဒာလည်း ပမာဏနှင့်ယှဉ်သော ရေသနုပ်တော်ကို ဆောင်၍ ဆက်ကပ်လျှင် ဘုရားသခင်လည်း တစ်ပိုင်းကိုဝတ်ပြီး၍ တစ်ပိုင်းကိုရုံလျက် ကျောင်းတော်မှ သက်ပြီးသော် ဇေတဝန် ရေကန်၏ စောင်းတန်း၌ ရပ်တော်မူလျှင် ထိုခဏ၌ သိကြားနေရာ ကမ္ဗလာသည် လွန်စွာပူပန်ရကား ဘယ်အကြောင်းများရှိသနည်းဟု သိကြားမင်းကြည့်လတ်သော် ရပ်တော်မူသော ဘုရားရှင်ကို မြင်၍ အလျင်တဆော ဝဿဝလာဟကနတ်ကို ခေါ်ပြီးလျှင် ''အမောင်နတ်သား– ဘုရားရှင်၏ အလိုတော်ပြည့်အောင် လျင်စွာ မိုးရွာချလော့''ဟု စေပေ၏။

ထိုအခါ ဝလာဟကနတ်သားလည်း မင်းသားအဆင်းနှင့်တူသော တိမ်တိုက် ပုဆိုးကို ဝတ်လျက်၊ တစ်ထည်သော တိမ်လွှာကို ရုံပြီးလျှင် ပြည့်စုံသော မိုးသီချင်းကို သီလျက် အရှေ့လောကဓာတ်မှသည် အနောက်လောကဓာတ်သို့ ရှေးရှုပြေး၏။ ထိုအခါ အရှေ့မျက်နှာမှ တလင်းတစ်ခုရာမျှလောက်သော မိုးလုံးသည်တက်၍ မည်းနက်သော တိမ်ခဲ တိမ်ထပ်တို့သည် ပြတ်လျက် လျှပ်စစ်တိမ်မီးတို့သည် တညီးညီးပြက်ကာဖြင့် လွန်စွာထစ်ကြိုးလျက် ရေအိုးမှမှောက်၍ သွန်လိုက်သော ရေကဲ့သို့ တွေတွေစီးမျှသော မိုးကြီး သည်းထန်စွာရွာ၍ ယူဇနာတစ်ရာ့ငါးဆယ်ရှိသော ကောသလတိုင်းအလုံး ရေပြည့်လေ၏။ ဇေတဝန်ရေကန်၌လည်း ကန်စောင်းတန်း ပြည့်လေ၏။

ဤသို့ မိုးရွာရခြင်းကြောင့် ဘုရားရှင်၏ တန်ခိုးကြီးသည်ကို ချီးမွမ်းကြသော စကားစပ်တွင် ''ယခုမှသာ မိုးရွာစေနိုင်သည်မဟုတ်၊ ရှေးသောအခါ ငါသည် ငါးမင်း

ဖြစ်တော်မူ၍ အိုင်၌ ရေခန်းသဖြင့် ငါးအပေါင်းတို့ ပျက်စီးသောအခါလည်း ငါဘုရား အလောင်းတော်ဖြစ်သော ငါးမင်းသည် သစ္စာပြုသဖြင့် မိုးရွာစေဖူးပြီ''ဟု အတ္ထုပ္ပတ္တိကို ပြ၍ မစ္ဆဇာတ်ကို ဟောတော်မူသည်။

ထိုဇာတ်ကိုကား ကေကနိပါတ်၌ သင်္ဂါယနာတင်သည်။ ယင်းသို့ မိုးကိုရွာစေခြင်းသည် ဘုရားရှင်၏ ဘုန်းပါရမီတော်ကြောင့် ဖြစ်ရကား တန်ခိုးဆယ်ပါးတွင် ပုညဝတော ဣဒ္ဓိဟု ဆိုအပ်သည်။ စိတ်တော်ကြံတိုင်းပြီးလေသောကြောင့် မနောမယ ဣဒ္ဓိလည်း ဆိုအပ်သတည်း။

❖❖❖❖❖

## ၉၄၅။ နတ်ရွာအပြည့်၊ နေကုန်လှည့်၊ စားသည့်သြဇာ တူလိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

စတုပ္ပဒါနံ၊ အခြေလေးချောင်းရှိသော သတ္တဝါတို့၏။ အာဟာရတော၊ စားသော အစာထက်။ သကုဏာနံ၊ ငှက်တို့၏။ အာဟာရော၊ အစာသည်။ သုခုမော၊ သိမ်မွေ့၏။ တေသံ၊ ထိုငှက်တို့၏။ အာဟာရတော၊ စားသောအစာထက်။ ပစ္စန္တဂါမဝါသီနံ၊ ပစ္စန္တရစ် ရွာစွန်၌ နေသောသူတို့၏။ အာဟာရော၊ အစာသည်။ သုခုမော၊ သိမ်မွေ့၏။ တေသံ၊ ထိုပစ္စန္တရစ်ရွာသူတို့၏။ အာဟာရတော၊ စားသောအစာထက်။ ဂါမဘောဇကာနံ၊ ရွာစားတို့၏။ အာဟာရော၊ အစာသည်။ သုခုမော၊ သိမ်မွေ့၏။ တေသံ၊ ထိုရွာစားတို့၏။ အာဟာရတော၊ စားသော အစာထက်။ ရာဇ ရာဇမဟာမတ္တာနံ၊ ပဒေသရာဇ် ကေရာဇ်မင်း၊ မင်း၏ အမတ်ကြီးတို့၏။ အာဟာရော၊ အစာသည်။ သုခုမော၊ သိမ်မွေ့၏။ တေသံ၊ ထိုမင်း, မင်း၏ အမတ်ကြီးတို့၏။ အာဟာရတောပိ၊ စားသော အစာထက်လည်း။ စက္ကဝတ္တီနံ၊ စကြဝတေး မင်းတို့၏။ အာဟာရော၊ အစာသည်၊ သုခုမော၊ သိမ်မွေ့၏။ တေသံ၊ ထိုစကြဝတေးမင်းတို့၏ အာဟာရတောပိ၊ စားသော အစာထက်လည်း။ ဘုမ္မာဒေဝါနံ၊ ဘုမ္မစိုးနတ်တို့၏။ အာဟာရော၊ အစာသည်၊ သုခုမော၊ သိမ်မွေ့၏။ တေသံ၊ ထိုဘုမ္မစိုးနတ်တို့၏။ အာဟာရတောပိ၊ စားသောအစာထက်လည်း။ စာတုမဟာရာဇိကာနံ။ စတုမဟာရာဇ်နတ်မင်းတို့၏။ အာဟာရော၊ အစာသည်။ သုခုမော၊ သိမ်မွေ့၏။ ဝေ၊ ဤအတူ။ ယာဝပရနိမ္မိတ ဝသဝတ္တီ၊ ပရနိမ္မိတဝသဝတ္တီဘုံတိုင်အောင်။ အာဟာရော၊ အစာ၏ သိမ်မွေ့သော အဖြစ်ကို။ ဝိတ္ထာရေတဗ္ဗော၊ အကျယ်ချဲ့ ဆိုအပ်၏။

ဤသို့ လူ့ပြည်၌ရှိကြကုန်သော သတ္တဝါတို့သည် ရေးကြမ္မာအားလျော်စွာ တစ်ဦးထက် တစ်ဦးသည် နူးညံ့သိမ်မွေ့သောအစာ ရှိလေသကဲ့သို့၊ နတ်ပြည်၌ နတ်တို့သည်လည်း တစ်ဘုံထက် တစ်ဘုံသာ၍ သိမ်မွေ့သော အစာရှိကုန်၏ဟူ၍ သာရတ္ထသင်္ဂဟ၌လာသည်။

ထိုနတ်ပြည်၌ဖြစ်သော နတ်တို့သည် မိမိကောင်းမှုအားလျော်စွာ ဗိမာန်၏ အနီး၌ ပေါ်လာသော ဒေဝဒုမ မည်သော သစ်ပင်သည်ရှိ၏။ ထိုသစ်ပင်မှသီးသော အသီးသည် သုဓာဘုတ်မည်၏။ အပွင့်မှဖြစ်သော ပျားလဘို့ကဲ့သို့သော ဝတ်ရက်သည် ပီယူသ မည်၏။ ထိုသုဓာဘုတ် ပီယူသကား သိမ်မွေ့သော အတွေ့အရသာ ဩဇာ ကြီးလှသော ကြောင့် နတ်၏ကိုယ်ခန္ဓာကို ထောက်ပံ့လျက်သာ ပျံ့နှံ့လေသည်။ ကျင်ကြီး ကျင်ငယ်ကား မဖြစ်။ အဘယ်ကဲ့သို့နည်းဟူမူ ဤလူ့ပြည်၌ ပျားထောပတ် အရသာ ကဲ့သို့တည်း။ ဤသုဓာဘုတ်သည် တစ်ဘုံနှင့်တစ်ဘုံ မတူကြ။ ဝသဝတ္တီဘုံ၌ အလုံးစုံသော နတ်တို့၏ ဩဇာထက် သာလွန်၏ ဟူလိုသည်။

◆◆◆◆◆

## ၉၄၆။ မြင်းခံပြည့်၊ သေတုံလှည့်၊ မျက်၏ မင်းကြီး ဘယ့်ကြောင့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မင်ရေးကိုမကြောက်၊ မြင်းရေးကို ကြောက်သောကြောင့် မင်းကြီးကွပ်မျက်၏ ဟူပေ။

အကြောင်းကိုကား သိကြသည်များ၏။ ယင်းသို့ များသော်လည်း 'ဆိုရေးရှိတွေ့ မဆိုချေသော်၊ ဆိုမပေအံ့ချက်၊ ဝန်ခံပျက်ချိမ့်၊ ဆိုဆက်ပီပီ၊ ဆိုလိုက်သည်ပိမ့်''ဟူ၍ စပ်တော်မူသော အရှင်အဂ္ဂသမာဓိနည်းကိုခံ၍ အတန်ငယ် ဆိုလိုက်ဦးအံ့။

ပုဂံပြည်၌ ကုလားကျမင်း၏ သားတော် 'မင်းယဉ်နရသိခ်'နှင့် 'နရပတိစည်သူ' ဟူ၍ ညီနောင်နှစ်ယောက်ရှိသည်တွင် နောင်တော်မင်းယဉ်နရသိခ် မင်းပြုသောအခါ ညီတော် နရပတိစည်သူသည် ပြည်ထဲရေးကို စီရင်၍ နေရ၏။ မယ်တော်ကား ညီတော်နှင့် တစ်အိမ်တည်းနေ၏။

ထိုအခါ ဆင်ခေါင်းဝက်ဝင်အရပ်တွင် ရှမ်းတစ်ဦးသည် ဝါးတောသို့ ဝင်လေသော် အဋ္ဌနာ ရွှေနှင့်တူသော ဝါးလုံးကြီးတစ်ခုတွေ့လေ၏။ ထိုဝါးကိုခွဲ၍ ကြည့်လျှင် ဝါးထဲ၌ ပုလဲမှည့် အဆင်းနှင့်တူသော မိန်းမငယ်ကိုရ၍ ထိုရှမ်းကြီးသည် သမီးပြု၍ မွေးလေ၏။ အရွယ်သို့ ရောက်သောအခါ လူလည်းမက၊ နတ်လည်းမမျှ၊ အလွန်လှပသော အဆင်းနှင့် ပြည့်စုံသည်ဖြစ်၍ ဤမိန်းမငယ်ကား မင်းနှင့်သာတန်၏ဟု ကြံပြီးသော် မင်းကြီးထံသို့ ဆောင်လာ၏။

မင်းယဉ်နရသိခ်လည်း ထိုမိန်းမငယ်ကိုမြင်လျှင် ''နားပက်ကျယ်နှင့် ဝမ်းပျက် လိလိ ရှိသည်''ဟု ဆို၍ မယ်တော်အား ကွမ်းပြင်စရာပေးတော်မူ၏။ မယ်တော် မိဖုရားလည်း ပညာကြီးသော မိန်းမဖြစ်၍ နားကိုတန်ရုံဖြတ်၍ ဆက်ပြီးသော် အနေအစား အလုံးစုံကို သင်ပြ၍ ယဉ်ကျေးသောကာလ သားတော် နရပတိစည်သူနှင့် ထိမ်းမြား၏။ နားတန်လေသော် သံသေဒဇပုဂ္ဂိုလ်ဖြစ်၍ လူမိန်းမများစွာတို့ထက် ထူးကဲလွန်မြတ်သော အရောင် အဆင်းရှိသောကြောင့် ယောက်ျားတကာတို့သည်

မြင်တိုင်း မြင်တိုင်းတိမ်းညွတ်သည်သာ ဖြစ်ကုန်၏။ ဝါးထဲကရသူ ဖြစ်သောကြောင့် ''ဝေဠုဝတီ''ဟု အမည်ပေး၏။

မင်းယဉ်နရသိခ်လည်း သီတင်းနေ့တိုင်သော် မယ်တော်အိမ်သို့လာ၍ ရှိခိုးကန်တော့မြဲ ဖြစ်သောကြောင့် တစ်နေ့သ၌ ကန်တော့ခြင်းငှာလာရာတွင် ဝေဠုဝတီကို မြင်လေ၏။ မြင်လျှင် ''ဤသူငယ်မကား အသူနည်း''ဟု မေး၍ ဝါးထဲကရ၍ ဆက်လာသူ ဖြစ်ကြောင်းကို လျှောက်လျှင် အသပြာတစ်သိန်းမှ ရှုံးသောသူကဲ့သို့ နှလုံးမသာခြင်း ဖြစ်လျက် အဖန်တလဲလဲကြည့်၏။ ကြည့်ဖန်များသဖြင့် အားကြီးသော ဆန္ဒရာဂသည် ဖြစ်၍ ရအောင်ငါယူအံ့ဟု အကြံရှိ၏။

တစ်ရံသောအခါ မင်း၏ ပရိယာယ်ဖြင့် အမတ်ငယ်တစ်ဦးအား ''အထက်ငဆောင်ချမ်းစစ်ထွက်သည်။ စစ်ကူတော်မူပါဟု သဝဏ်စာခွေ ပြုပြီးသော် ညီတော်နှင့် အတူနေကြစဉ် သင်ဆက်လာလှည့်''ဟု စေတော်မူ၏။ စေလိုက်သောအမတ်လည်း နေ့ရက်မကြာလာ၍ မင်းရင်ပြင်သို့ ဝင်ပြီးလျှင် ယခု ငဆောင်ချမ်း ဗန်းမော်အရပ်မှာ စစ်ရှိပါသည်။ ရေအားကြည်းအားနှင့် ဆန်၍ကူတော်မူပါဟု စာကိုဆက်လာ၏။ မင်းယဉ် နရသိခ်လည်း ညီတော်ကို မှူးမတ်ရဲမက် ခန့်ရံ၍ အလျင်ချီလေဟု စေတော်မူ၏။

နရပတိစည်သူလည်း ဤသတင်းကို သူတပါးမကြားဘဲ ရုတ်ခြည်း ဖြစ်လာသည်။ ယမန်ကလည်း ငါ့မိဖုရားကို များစွာကြည့်သည်။ ယူလို၍ပင် စေလေသလောဟု တွေးတောခြင်းရှိလျက်ပင် ရဲမက်ဗိုလ်ပါစီရင်၍ ချီတော်မူ၏။ မြင်းသူတော်စင်နှင့် မြင်းခံပြေည့်ကို ဤအိမ်တော်အရေး အရာရှိသော်လည်းကောင်း၊ စကားစမြည် ထွက်သော် လည်းကောင်း နေ့ညဉ့်မဟူ လျင်လှစေဟု မှာ၍ထားခဲ့၏။ နရပတိစည်သူလည်း ရေအား ကြည်းအားဆန်၍ သစ်ဆိမ့်သစွာရသို့ရောက်လျှင် ကွန်းထောက်တဲဆောက်၍ နေပြီးမှ အထက်ကသတင်းကို နားထောင်သော် တစ်စုံတစ်ခုမျှမကြားသောကြောင့် မှူးမတ် ဗိုလ်ပါများကို စည်းဝေးပြီးလျှင် ''အရေးရှိသော် နောင်တော်ဘက်က ကူညီမည်လော၊ ငါ့ဘက်က ကူညီမည်လော''ဟု မေး၏။ အမတ်တို့ကလည်း ''မင်းယဉ် နရသိခ်ဝယ် သားယောကျ်ားမရှိ။ ညီတော်ပင် မင်းလျာဖြစ်သောကြောင့် အရှင့်ဘက်က နေပါမည်'' ဟု ဝန်ခံကြ၏။ ထိုအခါ သစွာအသီးအသီးပေး၍ မှူးမတ်တို့နှင့် နှလုံးတစ်ချောင်းတည်း ဖြစ်ကြ၏။ ထိုသို့ စည်းဝေးကြရာ အရပ်ကို 'သစွာရ'ဟု တွင်လေသည်။။

မင်းယဉ်နရသိခ်လည်းညီတော်သစ်ဆိမ့်သို့ ရောက်ပြီဟု ကြားလျှင် ခယ်မတော် ဝေဠုဝတီကိုယူ၍ နန်းတင်လေ၏။

မြင်းခံပြေည့်လည်း ညဉ့်အထွက် ခေါင်းလောင်းထိုးက ပုဂံတစ်ဖက် မြစ်ခြေအောင်သာကို ကူးပြီးလျှင် မြင်းသူတော်စင်ကို စီးပြီး၍ မည့်မပြင်း နှင်လေ၏။ ချင်းတွင်း ပရိမ္မသို့ရောက်မှ နေထွက်တပြုရှိ၏။ ထိုမှ ဟန်လင်းကို အဖြောင့်သန်း၍ ငါးပတ် ချောင်းသို့ ရောက်သော် နေဝင်လေ၏။ မြင်းခံပြေည့်လည်း တောအနီးတွင် ရှိသော

လဟာပြင်ကို မြစ်ထင်၍မြင်းသော်လည်း ပန်းပြီ၊ ယနေ့သည်တွင် အိပ်လျက် နံနက်မှ အရောက်သွား တော့မည်ဟု ကြံ၍ နတ်ကွန်းတစ်ခု၌ အိပ်လေ၏။

မြင်းသူတော်စင်လည်း တရေးနိုး၍ အပန်းပြေသောအခါ ဟီ၏။ နရပတိ စည်သူလည်း မြင်းဟီသံကို ကြားသော် ငါ့မြင်းသူတော်စင်ဟီသံတကားဟု ဆိုလျက် စက်တော် မခေါ်ဘဲ စောင့်နေ၏။ မရောက်လာဘဲ နှစ်ကြိမ် သုံးကြိမ်ဟီသော် ငါ့မြင်းဟီသံမှန်လျှင် ဤသည့်အုံးသည် မလွဲပေါက်စေသောဟု အဓိဋ္ဌာန်ပြု၍ အုံးတော်ကို လက်ဖြင့်ပုတ်သော် အုံးပေါက်လေ၏။ ထို့ကြောင့် ထိုအရပ်ကို ''မလွဲအုံးပေါက်''ဟု ယခုတိုင်အောင် တွင်သည်။ မင်းသားလည်း ကြောင့်ကြလျက်နေသည်တွင် မြင်းဟီသံကို ကြား၍ တွေးတောမိသည်နှင့် စက်တော်မခေါ်တတ်ရှိ၏။ ပြေည့်လည်း နံနက် ခေါင်းလောင်ထိုးက ထ၍ နှင်သော် လင်းလျှင်ပင် တပ်တော်သို့ ရောက်လေ၏။ နရပတိ စည်သူမင်းလည်း ''အဘယ်အကြောင်းကြောင့် လာသနည်း''ဟု မေး၍ နမတော် ဝေဠုဝတီကို နောင်တော် ယူကြောင်း လျှောက်တင်လျှင် ''နင်ယမန်နေ့ည ဘယ်မှာအိပ် သနည်း''ဟု မေး၏။ မြင်းတော်ပင်ပန်းလှ၍ ချောင်းတစ်ဖက်တွင် အိပ်ပါသည်ဟု လျှောက်သော် ကွပ်ရသော အကြံကို နှင်ကြံသည်။ ငါ့မယားကို သူယူသည့်အမှုကိုပင် တစ်ညဥ့်ပတ်လုံး လွန်အောင်နေဘိသည်။ နှင်သည် မင်းရေးကို ကား မကြောက်။ မြင်းရေကို ထောက်ဘိသည်။ ငါတို့ မင်းသည်ကား တစ်ခဏနှင့်ပင် အများကိစ္စကို ပြီးစေနိုင်သည်။ သို့ပါလျက် အကြံပျက်အောင် နှင်နေဘိသည်ဆို၍ ပြေည့်ကို ကွပ်လေ၏။

ထိုသို့ကွပ်ပြီးလျှင် မင်းကြီးလည်း အလုံးအရင်းနှင့်တကွ စုန်တော်မူ၏။ ပြေည့် အလောင်းလည်း ဖောင်တော်နားတွင်ကပ်လျက် ချင်းတွင်းဝတိုင်အောင် ပါလာသည်ကို မေးတော်မူသော် မှူးတော်မတ်တော်တို့က ကျွန်တော်ပြေည့်သည် အမှုတော်ကို ထမ်းရွက်လျက် သနားတော်မူသောဆုကို မခံရသောကြောင့် ဖောင်တော် နားတွင် ကပ်လျက် ပါပါသည်။ တွန်းပယ်၍မျှမရပါကြောင်းကို လျှောက်လျှင် ဤသောင်ပြင်တွင် တင်၍ သင်္ဂြိုဟ်လေ။ နတ်ကွန်းပြု၍လည်း ထားပေ။ ဤအရပ်သူတို့၏ ပူဇော်ရာဖြစ်စေဟု မိန့်တော်မူ၏။

ဤရာဇဝင်စာတမ်းကိုမှီ၍ ပြေည့်၏အကြောင်းကို သိရာ၏ ဟူပေ၏။

◆◆◆◆◆

## ၉၄၇။ မျက်စောင်းထိုးလှည့်၊ နဂါးကြည့်၊ မြည့်မြည့်ဘယ့်ကြောင့်ကြေသနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကြေခြင်း၏အကြောင်းကိုကား တန်ခိုးအရာဖြစ်၍ မကြံစည်အပ်ပြီ။ တန်ခိုး ဆယ်ပါးတွင် နဂါးတို့သည် စိန်းစိန်းကြည့်သဖြင့်လည်းကောင်း၊ အခိုးအငွေ့ သင့်သဖြင့် လည်းကောင်း တစ်ပါးသော သတ္တဝါတို့ ကြေပျက်ရခြင်းသည် ကမ္မဝိပါက ဇိဒ္ဓိမည်သော တန်ခိုးဖြစ်သည်။

ထို့ကြောင့် သာရတ္ထသင်္ဂဟ၌-

**အပိစ ကမ္မဝိပါကဇိဒ္ဓိနာမေသာ နာဂါနံ နာဂိဒ္ဓိ သုပဏ္ဏာနံ သုပဏ္ဏိဒ္ဓိ။**

စသည်ဖြင့် ဆိုတော်မူသည်။

နဂါးမျိုးတို့၏ တန်ခိုးသည်လည်း မတူကြလေ။ ဒိဋ္ဌဝိသနဂါး၊ ဒဋ္ဌဝိသနဂါး၊ ဖုဋ္ဌဝိသ နဂါးဟူ၍ သုံးမျိုးရှိသည်။

ထိုသုံးမျိုးတို့တွင်-

ဒိဋ္ဌဝိသနဂါးသည် သတ္တဝါကို မျက်စောင်းထိုး ကြည့်လျှင်ပင် ဖွဲပြာကဲ့သို့ ကြေရသည်။

ဒဋ္ဌဝိသနဂါးမျိုးသည် ကိုက်သည်ရှိသော် ထိုအတူ သေကြေရလေသည်။

ဖုဋ္ဌဝိသနဂါးမျိုးသည် ထိခိုက်မိလျှင်ပင် သေကြေရလေသည်။

ထို့ကြောင့် ဒုင်းအဋ္ဌကထာ၌-

**တတ္ထ ဒိဋ္ဌဒဋ္ဌဖုဋ္ဌဝိသာနံ နာဂါနံဒိသွာ ဍံသိတွာ ဖုသိတွာစ ပရူပဃာတ ကရဏေန နာဂိဒ္ဓီတိ ဝေဒိတဗ္ဗာ။** ။ ဟူ၍ ဆိုတော်မူသည်။

❖❖❖❖❖

## ၉၄၈။ မျက်စိဖြင့်လှည့်၊ ရုပ်ကိုကြည့်၊ မည်သည့် ကရိဏ်းပေတို့နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ကရိဏ်းသည် အဇ္ဈတ္တိက ကရိဏ်း, ဗာဟိရကရိဏ်းအားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုတွင် ကိုယ်မှအပဖြစ်သော ကရိဏ်းသည် ဗာဟိရကရိဏ်းမည်၏။ ပြယုဂ်ကား ဒတ္တေနဝိဟ် လုနာတိ အစရှိသည်တည်း။ ကိုယ်၏ အတွင်းဖြစ်သော ကရိဏ်းသည် အဇ္ဈတ္တိကကရိဏ်းမည်၏။ ပြယုဂ်ကား- စက္ခုနာ ရူပံ ပဿတိ-အစရှိသည်တည်း။

**တစ်နည်းကား။** ။ သဟဇာတ ကရိဏ်း, ဥပနိဿယကရိဏ်းအားဖြင့် နှစ်ပါး အပြားရှိ၏။ ထိုတွင်-ကတ္တားနှင့်တကွသော ကရိဏ်းသည် သဟဇာတ ကရိဏ်းမည်၏။ ပြယုဂ်ကား- ပါဒေန ဂါမံ ဂတော ပုရိသော စသည်တည်း။ မှီရာအကြောင်း ဖြစ်သော ကရိဏ်းသည် ဥပနိဿယ ကရိဏ်းမည်၏။ ပြယုဂ်ကား- စက္ခုနာ ရူပံ ပဿတိ အစရှိသည်တည်း။

ဤသို့ဆိုသည်ကို ထောက်၍ မျက်စိဖြင့် ရုပ်ကို ကြည့်ခြင်းသည် အဇ္ဈတ္တိက ကရိဏ်းဟူ၍လည်းကောင်း၊ ဥပနိဿယကရိဏ်းဟူ၍လည်းကောင်း သိရာသည်။

❖❖❖❖❖

၉၄၉။ ရှုကာတည့်တည့်၊ ဆင်ကြည့်ကြည့်၊ မည်သည့် မိန်းမမျိုးပေနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပဒုမိနီ မာတင်္ဂဒဿနံ စိတြိနီ ကပေါတကံ။**

**သင်္ခိနီ ကာကဒဿနံ ဟတ္ထိနီ ယက္ခဒဿနံ။**

ပဒုနီ မိန်းမမျိုးကား မာတင်ဆင်၏ ကြည့်ခြင်းကဲ့သို့ ရိပ်စောင်းကြည့်၏။
စိတြနီမိန်းမမျိုးကား ခို၏ကြည့်ခြင်းကဲ့သို့ တည့်တည့်ကြည့်၏။
သင်္ခိနီမိန်းမမျိုးကား ကျီးကဲ့သို့ ထပ်ကာထပ်ကာကြည့်၏။
ဟတ္ထိနီမိန်းမမျိုးကား သားစားဘီလူး ကြည့်သကဲ့သို့ စိန်းစိန်းဝါးဝါးကြည့်၏။

❖❖❖❖❖

၉၅၀။ ညစ်ပတ်လပြည့်၊ မှတ်တုံလှည့်၊ မည်မှည့် ဘယ်နာရီတို့နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပဒုမိနီ အန္တမလံ၊ ကာဠမလဋ္ဌ စိတြိနီ။**

**သင်္ခိနီ သာတမလဋ္ဌ၊ ဟတ္ထိနီ ပုဏ္ဏမာသိယံ။**

ပဒုမိနီကား လပြည့်ကျော် ရှစ်ရက်မှသည် လကွယ်အတွင်း၌ ပုဆိုးညစ်၏။ စိတြနီကား လပြည့်ကျော်တစ်ရက်မှသည် ရှစ်ရက်အတွင်း ပုဆိုးညစ်၏။ သင်္ခိနီကား လဆန်းတစ်ရက်မှသည် ရှစ်ရက်အတွင်း၌ ပုဆိုးညစ်၏။ ဟတ္ထိနီကား လဆန်း ရှစ်ရက်မှသည် လပြည့်အတွင်း၌ ပုဆိုးညစ်၏။ ပန်းသွန်သည်ကို ပုဆိုးညစ်၏ဟု ဆိုသည်။

❖❖❖❖❖

၉၅၁။ ထောပတ်သောက်လှည့်၊အားအင်ပြည့်၊မည်သည့်ကိရိယာပေတို့နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပိဝိတွာ ဟောတိ သပ္ပိ ဗလံ။ ။ဟူသော ပြယုဂ်၌–သပ္ပိ၊ ထောပတ်ကို။ ပိဝိတွာ၊ သောက်၍။ ဗလံ၊ အားသည်။ ဟောတိ၊ ဖြစ်၏။ ဤသို့ ယောဇနာမှု သောက်ခြင်း ကိရိယာသည် ပုဗ္ဗကာလကိရိယာ ဖြစ်သည်။ ယင်းသို့ ဖြစ်သော်လည်း ထောပတ် သောက်ခြင်းသည်အကြောင်း၊ အားပြည့်ခြင်းသည် အကျိုးဖြစ်ရကား ဟိတ်အနက် ဖြစ်သင့်သည်။ ထို့ကြောင့်။ သပ္ပိ၊ ထောပတ်ကို။ ပိဝိတွာ၊ သောက်ရသောကြောင့်။ ဗလံ၊ အားသည်။ ဟောတိ၊ ဖြစ်၏။ ဟူ၍သာ ယောဇနာရမည်။ ဤကိရိယာမျိုးသည် ဟေတုမန္တ ကိရိယာမျိုးဟူလိုသည်။



❖❖❖❖❖

## ၉၅၂။ အအူအပြည့်၊ နေတုံလှည့်၊ စားသည့်ပိုးကား အဘယ်နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**စူဠရန္ဓာစ မဟာစူဠရန္ဓာစ သိပ္ပါစ မဟာသိပ္ပါစ အန္တဝရာစ ပက္ကဝရာစ။ တေ ကိမယော အန္တံ နိဿာယ အန္တံ ခါဒန္တိ။ တတ္ထ ဇာယန္တိ။ ဝမုန္တိ။ ကီဠန္တိ။ ကီဠနသာလံ ကရောန္တိ။ ဗိယျန္တိ။ မိယျန္တိ။ ပုနပ္ပုနံ ဥပ္ပဇ္ဇန္တိ၊ သုသာနံ ကရောန္တိ။ သူတိဃရံ ကရောန္တိ။ ဥစ္စာရပဿာဝံ ကရောန္တိ။ ဂိလာန သာလံ ကရောန္တိ။**

ဟူ၍ မူလကမ္မဋ္ဌာန်း၌လာသည်။ အဓိပ္ပါယ်''အယ်'' ကာရုန်ပုစ္ဆာနံပါတ် ၈၁-ကဖြေဆိုခဲ့ပြီ။

❖❖❖❖❖

## ၉၅၃။ တောင်တစ်ရာပြည့်၊ တက်တုံလှည့်၊ မည့်ကြောင့်အာပတ်မသင့်သနည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**န ရုက္ခမဘိရူဟေယျ၊ သတိ ကိစ္စေဝ ပေါရိသံ။**
**အာပဒါသု ယထာကာမံ၊ ကပ္ပတိ အဘိရူဟိတုံ။**

ဟူ၍ လက်သန်း အဋ္ဌကထာတို့၌ လာသည်။

ဘိက္ခု၊ ရဟန်းသည်၊ ရုက္ခံ၊ သစ်ပင်ကို၊ န အဘိရူဟေယျ၊ မတက်ရာ။ ကိစ္စေ၊ ထင်းခြောက်ယူလိုခြင်းကိစ္စသည်။ သတိဝေ၊ ရှိသော်သာလျှင်။ ပေါရိသံ၊ တစ်သူ အတိုင်းအရှည်ရှိသော အရပ်တိုင်အောင်၊ အဘိရူဟေယျ၊ တက်ရာ၏။ အာပဒါသု၊ ကျား၊ သစ်၊ ဆင်မိုက်လိုက်ခြင်းဟူသော ရန်သူတို့ကြောင့်။ ယထာကာမံ၊ အလိုရှိတိုင်း။ အဘိရူဟိတုံ၊ တက်ခြင်းငှာ၊ ကပ္ပတိ၊ အပ်၏။

ဤသို့လာရကား ဘေးရန်ရှိသောကြောင့်တက်ရာ၌ အတောင်တစ်ရာပြည့်ပင် တက်သော်လည်း အာပတ်မသင့်ဟု သိရာသည်။

❖❖❖❖❖

## ၉၅၄။ မဂ်လာတည့်၊ ပုဒ်ရှိလှည့်၊ မ၏အနက် မည်သို့နည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မသည် အနက်မရှိ၊ အာဂုံ ဟူ၍လည်း ဋီကာဆရာတို့ မိန့်၏။ ကျက်သရေဟူသော အနက်ကိုဟောသည် ဟူ၍လည်း မိန့်၏။

အင်္ဂန္တိ ဂစ္ဆန္တိ သတ္တာ ဧတေနာတိ မင်္ဂ။

ဋေဒေနှ၊ ဤအကုသိုလ်တရားဖြင့်။ သတ္တာ၊ သတ္တဝါတို့သည်။ အပါယာဒိဒုက္ခံ၊ အပါယ်စသော ဆင်းရဲသို့။ အဂ်န္တိ၊ ဂစ္ဆန္တိ၊ ရောက်တတ်ကုန်၏။ က္လတိ၊ ထိုသို့ရောက်ကြောင်း ဖြစ်သော သတ္တိကြောင့်။ မဂ်၊ မဂ်မည်၏။ ။ အဂ်ဓာတ်။ အပစ္စည်း။ မအာဂုံ။

**မဂ် ပါပံ လုနာတိ ဆိန္ဒတီတိ မဂ်လံ။**

ယောသဘာဝေါ၊ သည်။ မဂ်ပါပံ၊ မကောင်းမှုကို။ လုနာတိ ဆိန္ဒတိ၊ ရိတ်ဖြတ်တတ်၏။ က္လတိ၊ ထို့ကြောင့်။ မဂ်လံ၊ မဂ်လာမည်၏။ မဂ်သဒ္ဒူပပဒ၊ လူဓာတ်၊ အပစ္စည်း။

**မဟန္တံ သိရိံ ဂလတိ ဂစ္ဆတိ ဋေဒေနာတိ မဂ်လံ။ ။ မဟန္တသဒ္ဒူ ပပဒ ဂလ ဂတိမှိ။ ဂစ္ဆန်ပျံ။**

**မဂ်န္တိ သတ္တာ ဋေဒေန ဝုဒ္ဓိံ ဂစ္ဆန္တီတိ မဂ်လံ။ ပသဌ်။ ။ မောဂ္ဂလာန်။**

ဋေဒေန၊ ဤဗာလအသေဝန စသော အကျင့်ဖြင့်။ သတ္တာ၊ သတ္တဝါတို့သည်။ မဂ်န္တိ ဝုဒ္ဓိံ ဂစ္ဆန္တိ၊ ကြီးပွားခြင်းသို့ ရောက်တတ်ကုန်၏။ က္လတိတသ္မာ၊ ထိုသို့ ကြီးပွားခြင်းသို့ ရောက်ကြောင်းဖြစ်သော သတ္တိကြောင့်။ မဂ်လံ၊ မဂ်လာမည်၏။

ဤမောဂ္ဂလာန်ဆရာအလိုအားဖြင့် မသည် ဝုဒ္ဓိအနက်ကို ဟော၏ဟူပေ။

◆◆◆◆◆

## ၉၅၅။ ပထဝီဓာတ်တည်၊ ပျက်တုံလှည့်၊ မည်သည့်ချိန်၌ သေအံ့နည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ပထဝိနသဿနာ ပဌမယာမေ-ဟူ၍လည်းကောင်း၊ ပထဝီဓာတုနဿန္တေ၊ ပုဗ္ဗဏှေ မရဏ ဘဝေ ဟူ၍လည်းကောင်း ဓာတုဝိဘာဂဒီပနီ၌ မိန့်၏။

◆◆◆◆◆

## ၉၅၆။ ထင်းတုံးကုန်လှည့်၊ ပုဆိုးထည့်၊ ချက်၏ ဘယ်သူ့ဒွေးပေနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဓနဥ္စယသူ့ဌေးသည် သမီးဝိသာခါ၏ လက်ထပ်ပွဲတွင် ကောသလမင်းနှင့် တကွသော ပရိသတ်တို့ကို ကျွေးမွေးသောအခါ ထင်းမလောက်၍ ပုဆိုးကို ထင်းပြု၍ ချက်ရ၏ဟူပေ။

ဤဝတ္ထုကို သိသာရုံဆိုလိုက်ဦးအံ့-

ရာဇဂြိုဟ်နယ်အဝင်ဖြစ်သော အင်္ဂတိုင်း၊ ဘဒ္ဒိယမြို့၌ မေဏ္ဍကအမည်ရှိသော သူဌေးသည်ရှိ၏။ ထိုသူဌေး၏ မယားကား စန္ဒပဒုမသိရီမည်၏။ သားကြီးကား ဓနဉ္စယမည်၏။ မယားကား သုမနဒေဝီမည်၏။ ကျွန်ကား ပုဏ္ဏ အမည်ရှိ၏။ ဤငါးဦးသော သူတို့ကား ပဒေသာတစ်မျိုးမျိုးစီရသော ဘုန်းရှိသော သူတို့ချည်းတည်း။ ဓနဉ္စယသူဌေး၏ သမီးသည် ဝိသာခါအမည်ရှိ၏။ ဤဝိသာခါသည် ခုနစ်နှစ်အရွယ် ရှိသော အခါတွင် ဘုရားသခင်လည်း သံဃာတော်အပေါင်းနှင့်တကွ ဒေသစာရီ ကြွချီတော်မူ၍ ဘဒ္ဒိယမြို့သို့ ရောက်အံ့သောအခါ အဘိုးဖြစ်သော မေဏ္ဍကသူဌေးက မြေးဝိသာခါကို ခေါ်၍ ''ချစ်မြေးတို့အားလည်းကောင်း၊ ငါတို့အားလည်းကောင်း ကောင်းမြတ်သော မင်္ဂလာ ဖြစ်စိမ့်သောငှာ အရွယ်တူသော သတို့သမီး ငါးရာတို့နှင့် ရထားစီး၍ ဘုရားသခင်ကို ခရီးဦးကြိုပြုချေ''ဟု စေလိုက်၏။ ဝိသာခါလည်း အဘိုးစေလိုက်သော အတိုင်း သွားလာသဖြင့် ဘုရားရှင်ကိုမြင်သောအခါ ရထားမှသက်၍ ခြေဖြင့်သာ သွား၍ ဘုရားအနီးသို့ကပ်၍ လျှောက်ပတ်သောနေရာ၌ ရှိခိုးကာနေ၏။ ကိုယ်တော်မြတ်လည်း သတို့သမီးငယ်နှင့် လျောက်ပတ်သော တရားစကားကို ဟောကြားတော်မူသဖြင့် ဝိသာခါသည် သူငယ်မ ငါးရာတို့နှင့်တကွ သောတာပတ္တိ ဖိုလ်၌ တည်လေ၏။ ထို့နောက် ထပ်ကာကြိုဆိုလာသော သူဌေးကြီး၊ သူဌေးကတော်ကြီးတို့လည်း အသီးအသီး တရားရကြကုန်၏။ ဘုရားသခင်ကိုလည်း သံဃာတော်နှင့်တကွ ပင့်ဖိတ်၍ လခွဲပတ်လုံး အလှူကြီးကိုပေး၏။ လခွဲ လွန်လေသော် ဘုရား ကိုယ်တော်မြတ်လည်း အရပ်တစ်ပါးသို့ ဒေသစာရီ ကြွချီတော်မူလေ၏။

ရာဇဂြိုဟ်ပြည့်ရှင် ဗိမ္ဗိသာရမင်းနှင့် သာဝတ္ထိပြည်ကို အစိုးရသော ကောသလမင်းကြီးကား တစ်ယောက်သည် တစ်ယောက်၏နှမယောက်ျားဖြစ်ကြသည် ဖြစ်၍ အမျိုးယောက်ဖတော်ကြသတည်း။

တစ်ရံသောအခါ ကောသလမင်းကြီးသည် ဗိမ္ဗိသာရမင်း၏အထံသို့လာ၍ ''အဆွေဗိမ္ဗိသာရ၊ သင်၏ နိုင်ငံ၌ အမိတဘောဂဖြစ်သော သူဌေးကြီးသည် ဇောတိကလည်း တစ်ယောက်၊ ဇဋိလလည်းတစ်ယောက်၊ မေဏ္ဍကလည်းတစ်ယောက်၊ ပုဏ္ဏကလည်း တစ်ယောက်၊ ကာကဝလ္လိယလည်းတစ်ယောက် ဤငါးယောက်ရှိပါသည်။ ထိုငါးယောက်တို့တွင် တစ်ယောက်သောသူကို ကျွန်ုပ်နိုင်ငံသို့ထည့်ပါ။ ကျွန်ုပ် ချီးမြှောက်ပြုစုလိုပါသည်'' ဟု တောင်း၏။ ဗိမ္ဗိသာရမင်းကြီးကလည်း ''အဆွေ-ဤသူဌေးကြီးငါးဦးတို့ကို ငါလှုပ်ရှားခြင်းငှာ မတတ်နိုင်ပါ။ မဟာပထဝီမြေကြီးကို လှုပ်ရှားရသည်နှင့် တူပါသည်''ဟု ပြော၏။ ကောသလမင်းကြီးကလည်း ''တစ်ဦးကိုမျှ ကျွန်ုပ်မရလျှင် နိုင်ငံသို့မပြန်ပြီ''ဟု ဆို၏။ ထိုအခါ ဗိမ္ဗိသာရမင်းလည်း အမတ်တို့နှင့်တိုင်ပင်ပြီးလျှင် မေဏ္ဍကသူဌေး၏ သားဖြစ်သော ဓနဉ္စယသူဌေးကိုခေါ်၍ ''အမောင် ဓနဉ္စယ၊ ကောသလမင်းကြီးသည် သူ့နိုင်ငံကိုခေါ်၍ ချီးမြှောက်လိုကြောင်းဖြင့်

တောင်းပန်လာသည်။ အမောင် လိုက်နိုင်ပါအံ့လော''ဟု မေး၏။ ဓနဥ္စယ သူဌေးကလည်း ''အရှင်မင်းကြီးပေးတော်မူလျှင် အကျွန်ုပ်လိုက်ပါအံ့''ဟု ဝန်ခံ၏။

ထိုအခါ ဗိမ္ဗိသာရမင်းသည် ကောသလမင်းကြီးအား ''ဤဓနဥ္စယသူဌေးကို ဆောင်ပါလေတော့''ဟု ခွင့်ပေး၏။ ကောသလမင်းလည်း ထိုသူဌေးကို ကျေးကျွန်ကျွဲနွားနှင့်တကွပင် ခေါ်၍ သွားလေသော် ကောသလတိုင်း မြေရေအရိပ်ကောင်း မွန်သောအရပ်တစ်ခုသို့ရောက်လျှင် ''အရှင်မင်းကြီး ဤအရပ်ကား ဘယ်သူ့နိုင်ငံနည်း'' ဟု မေး၍ ''ကျွန်ုပ်တို့နိုင်ငံဖြစ်သည်''ဟု ဆိုလျှင် ''အရှင်နေတော်မူသော သာဝတ္ထိပြည်နှင့် ခရီးဘယ်မျှကွာသေးသနည်း''ဟု မေး၏။ ''ခုနစ်ရက်ခရီးကွာသေး၏''ဟု ပြောပေသော် ''အရှင်မင်းကြီး၊ မင်းနေပြည် မည်သည်ကားကျဉ်းမြောင်း၏။ ကျွန်ုပ်တွင်လည်း အချင်းအရင်းသင်းပင်းများစွာ ပါသည်။ အရှင်နှစ်သက်ပါလျှင် ဤအရပ်၌ နေလိုပါသည်'' ဟု ဆို၏။ ကောသလမင်းကြီးကလည်း ''ကောင်းပြီ၊ သင်သူဌေး နေလိုရာ၌ပင် နေပါ လော့''ဟု ခွင့်ပြု၏။ ဓနဥ္စသူဌေးလည်း ထိုအရပ်၌ လျောက်ပတ်စွာ မြို့ဖန်ဆင်း၍ ရွာသင်းကျေးလက်နှင့်တကွ နေကြလေ၏။ ထိုပြည်သည် မိမိ၏အလိုအား လျော်စွာ နေရသောကြောင့် 'သာကေတ'ပြည်ဟု တွင်၏။

သာဝတ္ထိပြည်၌ မိဂါရအမည်ရှိသော သူဌေးအား ပုဏ္ဏဝဍ္ဍနမည်သောသား တစ်ယောက်သည် ရှိ၏။ ထိုသားသည် အရွယ်သို့ရောက်သောအခါ မိခင်ဖခင်တို့က ''ချစ်သား ပုဏ္ဏဝဍ္ဍန-အမျိုးအနွယ်တူသော သူတို့၏အထံမှ သင်နှစ်သက်သော သတို့သမီးကို ကြားလော့။ ငါတို့ဆောင်၍ ထိမ်းမြားအံ့''ဟုဆို၏။ သား ပုဏ္ဏဝဍ္ဍန ကလည်း ''အကျွန်ုပ်နှစ်သက်သောသူကို ဤသာဝတ္ထိမြို့တွင် မမြင်ပါ။ ထို့ကြောင့် မယားမနေဘဲ မိခင်ဖခင်တို့ကို လုပ်ကျွေးကာနေပါအံ့''ဟု ဆို၏။ မိဘတို့ကလည်း ''ချစ်သား- ဤသို့ မဆိုလင့်၊ သားသမီးအဆက်အနွယ် မရှိသောသူကား လူ့သစ်ငုတ်ဖြစ်၏။ ထို့ကြောင့် နှစ်သက်သောမိန်းမကိုသာ ပြလော့''ဟူ၍ အဖန်တလဲလဲတိုက်တွန်း၏။ ထိုအခါ ပုဏ္ဏဝဍ္ဍနကလည်း ''မိခင်ဖခင်တို့ အိမ်ထောင်ပြုစေလိုမူကား ကောင်းခြင်း ငါးပါးနှင့် ပြည့်စုံသော သတို့သမီးကိုရှာပါလော့။ ထိုသို့သော မိန်းမကိုရမှ ကျွန်ုပ် အိမ်သူပြုပါမည်''ဟု ဆို၏။

သင်၏ကောင်းခြင်း ငါးပါးဟူသည်ကား အဘယ်နည်းဟု မေးသော်-

''မိခင်ဖခင်တို့

၁။ ဆံ၏ကောင်းခြင်း၊ ၂။ အရိုး၏ကောင်းခြင်း၊

၃။ အသား၏ကောင်းခြင်း၊ ၄။ အရေ၏ကောင်းခြင်း၊

၅။ အရွယ်၏ကောင်းခြင်း- ဟူ၍ ငါးပါးတည်း။

ထိုငါးပါးတို့တွင် –

၁။ အကြင်မိန်းမသည် ဘုန်းရှိသောသူဖြစ်အံ့။ ဦးခေါင်း၌ရောက်သော ဆံတို့သည် ရှည်သည်။ အရောင်နက်သည်။ အဖျားညီညွတ်သည်။ ဒေါင်းမြီးကဲ့သို့ ကော့ရရော့ရှိသည်။ ဤကား ဆံ၏ ကောင်းခြင်းတည်း။

၂။ နှုတ်ခမ်းသားသည် မထူးမပါးရှိသည်။ တွဲလျားမကျသည်။ ဆေးမဆိုးဘဲ ကျီးအာသီး မှည့်ကဲ့သို့ နီသည်၊ ကောင်းစွာထိသည်၊ ပါးမစူမပိမ့်သည်။ ရင်ချီသည်။ လက်ဖမိုး ခြေဖမိုးတို့၌ ကွန်ယက်ကဲ့သို့ ဖြိုးသည်။ ဤကား အသား၏ကောင်းခြင်းတည်း။

၃။ ခံတွင်း၌ရောက်သောသွားသည် မခေါမကျဲ ရွှဲသီးကဲ့သို့ ညီညွတ်သည်၊ ပုလဲနှစ်ကဲ့သို့ ဖြူသစ်သောအရောင်ရှိသည်။ အရိုးအဆက်ဟူသမျှ၌ ခေါခေါ မထဘဲ ပြေပြေပြစ်သည်။ ဤကား အရိုး၏ ကောင်းခြင်းတည်း။

၄။ အလုံးစုံသော ရင်ဝမျက်နှာ အရေလွှာ၌ မှဲ့ညှင်းတင်းတိပ် အလိပ်အတွန့်မရှိ သန့်ရှင်းသည်။ မဟာလေ့ကား ပန်းအဆင်းကဲ့သို့ ဝင်းဝင်းလှသည်။ ဤကား အရေ၏ ကောင်းခြင်းတည်း။

၅။ အရွယ်ကောင်းခြင်းဟူသည်ကား သားသမီးဆယ်ကြိမ်ဖွားသော်လည်း တစ်ဆယ့်ခြောက်နှစ်ရွယ်၊ နှစ်ဆယ်ရွယ်ကဲ့သို့ တင့်တယ်သောသူတည်း ဟုဆို၏။

မိခင်ဖခင်တို့ကလည်း ငါတို့သားသည် ဘုန်းရှိသောသူဖြစ်သည်။ ဤကောင်းခြင်း ငါးပါးနှင့်ပြည့်စုံသော ဘုန်းပြိုင်ထိုက်သူကို မရမရှိရာဟု အောက်မေ့၍ ပုဏ္ဏားရှစ်ဦးတို့ကို ခေါ်ပြီးလျှင် ကောင်းခြင်းငါးပါးနှင့် ပြည့်စုံသောသတိုးသမီးကို လှည့်ပတ်၍ရှာကြလေကုန်။ တွေ့သောကာလ အကြောင်းကိုပြော၍ ဤရွှေပန်းကုံးကို ပေးခဲ့လော့ဟုဆိုလျက် အသပြာ တစ်သိန်းထိုက်သော ရွှေပန်းကုံးကိုပေး၏။ ပုဏ္ဏားရှစ်ဦး တို့လည်း ထိုရွှေပန်းကုံးကိုယူ၍ အရပ်ရပ်မြို့ကြီးတိုင်းကြီးသို့ လှည့်ပတ်ရှာဖွေလေသော် သာကေတပြည်သို့ ကဆုန်လအခါ၌ ရောက်လေ၏။

ထိုအခါ သာကေတပြည်၌လည်း နက္ခတ်သဘင် နှစ်စဉ် ခံမြဲဖြစ်၏။ ထိုသဘင် အခါဝယ် ကြင်ရာမစုံသေးသော မိန်းမငယ် ယောကျ်ားငယ်တို့သည် ယာဉ်ရထား မစီးဘဲ ပြကတေ့သော ကိုယ်ဖြင့်သာလာ၍ ဂင်္ဂါမြစ်ဆိပ်၌ ရေကစားကုန်၏။ ထိုအခါတွင် တွေ့မြင်ကြသော မိန်းမငယ်တို့ကို ယောကျ်ားငယ်တို့သည် အမျိုးအနွယ်ကိုစိစစ်လျက် နှစ်သက်သောသူအား ပန်းကုံးကိုပေးကြ၏။ ထိုပန်းကုံးကို လက်ခံသော သူနှင့်သာလျှင် စုံဖက်မြဲ ဓမ္မတာဖြစ်ကြသတည်း။

မိဂါရသူဌေး၏ ပုဏ္ဏားရှစ်ဦးတို့လည်း ဂင်္ဂါမြစ်ဆိပ်၌ ဇရပ်တစ်ခုတွင် တည်း၍ နေကြစဉ် ဝိသာခါသည် အရွယ်တူသော မိန်းမငါးရာ အရံနှင့်တကွ ဂင်္ဂါမြစ်ဆိပ်သို့ လာသော် ဇရပ်သို့ ရောက်ခါနီးတွင် မိုးကြီးလေကြီးရွာလတ်ရကား အခြားသော မိန်းမငယ်တို့သည် လျင်စွာပြေး၍ ဇရပ်သို့တက်လတ်၏။ ဝိသာခါမူကား နှေးနှေး

လာသောကြောင့် အဝတ်တန်ဆာကိုလည်းကောင်း၊ ဆံကိုလည်းကောင်း မိုးစိုစွတ်လျက် ဇရပ်သို့တက်ရ၏။ ကြည့်မျှော်၍နေသော ပုဏ္ဏားတို့သည် ဝိသာခါအား လေးပါးသော ကောင်းခြင်းနှင့် ပြည့်စုံသည်ကိုမြင်၍ သွား၏ကောင်းခြင်း ရှိမရှိကို သိလိုရကား ဤသို့စကားစ၏။ ''ဤမိန်းမငယ်ကား အလွန်တင့်တယ် လျောက်ပတ်သော အဆင်းအင်္ဂါရှိ၏။ သို့ရာတွင် အတန်ငယ်ပျင်းရိမည် ထင်သည်။ လင်ယောကျ်ားများရှိခဲ့မူ ပအုံးရည်ကိုမျှ ကောင်းစွာ သောက်ရမည်မထင်'' ဟုဆို၏။ ထိုအခါ ဝိသာခါကလည်း ''ဖခင် ဘယ့်ကြောင့် ဤသို့ ဆိုသနည်း''ဟု မေး၏။ ''ချစ်သမီး–ဇရပ်အနီးသို့ရောက်မှ မိုးရွာသည်ကို အခြား မိန်းမငယ်တို့မှာ လျင်စွာဇရပ်သို့ တက်သောကြောင့် တစ်စက်မျှ မစွတ်ကုန်ကြ။ ချစ်သမီးမှာ ပြေးလာလျှင် လွတ်လောက်လျက် မပြေးဘဲလာသောကြောင့် အဝတ်တန်ဆာကို မိုးစွတ်ခံရသည်။ ကိုယ်ကိုသာ အလေးပြု၍ ဥစ္စာကို အလေး မပြုသောကြောင့် ဖခင်တို့ ဆိုပေသည်'' ဟူ၍ ဆိုသော် ဝိသာခါကလည်း ချိုသာစွာသော အသံဖြင့် ''ဖခင်တို့ အကြောင်းကို အကျွန်ုပ်ဆိုပါဦးအံ့။ ဤလောက၌ ပြေး၍ မတင့်တယ်၊ ကဲ့ရဲ့ဖွယ်ဖြစ်သော သူကား လေးဦးရှိပါသည်။ လေးဦး ဟူသော်ကား အဘိသိက်ခံပြီးသော ပြည့်ရှင်မင်းလည်း တစ်ပါး။ တန်ဆာဆင်အပ်သော မင်းဆင်လည်း တစ်ပါး။ အများသူတို့၏ ပူဇော်ရာဖြစ်သော ရဟန်းလည်းတစ်ပါး။ မိန်းမလည်းတစ်ပါး ဤလေးဦးသားတို့ပါတည်း။ ထိုတွင် ပြည့်ရှင် မင်းသည် ပြေးသွားသည်ဖြစ်အံ့။ ဤမင်းသည် ရာဇ်ဖြေမရှိ။ သူရသတ္တိမှ လည်းကောင်း၊ တည်ကြည်ခြင်းမှလည်းကောင်း ကင်း၏ ဟူ၍ ပြည်သူတို့ ကဲ့ရဲရာ ဖြစ်ပါသည်။ မင်းစီး ဆင်သည် ပြေးသည်ဖြစ်အံ့။ ဤဆင်ကား မယဉ်ကျေးသေး။ တောဆင်ရိုင်းကဲ့သို့ ပြေးသည်ဟု ကဲ့ရဲ့ဖွယ်ဖြစ်ပါသည်။ ရဟန်းသည် ပြေးသည်ဖြစ်အံ့။ ဤရဟန်းကား တည်ကြည်ငြိမ်သက်ခြင်းမရှိ။ ဣန္ဒြိယသံဝရ သီလမှ ကင်းသည်ဟူ၍ ကဲ့ရဲ့ဖွယ် ဖြစ်ပါ သည်။ မိန်းမတို့သည် ပြေးသွားသည်ဖြစ်အံ့။ ဤမိန်းမကား ယောကျ်ားငယ်ကဲ့သို့ ပြေးသည်ဟု ကဲ့ရဲ့ဖွယ် ဖြစ်ပါသည်။ ဤလေးပါးသောသူတို့တွင် ကျွန်ုပ်လည်း တစ်ဦးဝင်သောကြောင့် မပြေးဝံ့ဘဲ ဖြည်းဖြည်းသာ လာပါသည်။ ဖခင်တို့ ဤမှတစ်ပါးလည်း သားမိန်းမတို့ကို မွေးမြူရသော မိဘတို့ကား ရောင်းကုန်ပြုစုရသည်နှင့် တူပါသည်။ တစ်စုံတစ်ခုသော မြင်သာရာ၌ အမာရှိခဲ့သော် မစောင့်မထိန်းပါဟု လူသူအပြစ်တင်ဖွယ် ဖြစ်ပါတော့သည်။ ဤအကြောင်းကိုရည်၍လည်း ကျွန်ုပ်မပြေးဘဲ ဖြည်းဖြည်းသာ လာပါသည်''ဟု ပြော၏။

ထိုစကားကို ကြားသောအခါ သာယာလှသော အသံကိုလည်းကောင်း၊ တင့်တယ် ကောင်းမြတ်သော သွား၏လက္ခဏာကို လည်းကောင်း မြင်ရ၍ ပုဏ္ဏားရှစ်ဦးတို့သည် နှစ်သက်ရကား ''ချစ်သမီး၊ သင်ကဲ့သို့သော မိန်းမရတနာကို ဖခင်တို့ရှာ၍ လာပါသည်။ ဖခင်တို့တွင်ပါသော ဤရတနာပန်းကုံးနှင့်လျောက်ပတ်၏။ ဤပန်းကုံးကို ဆင်ယင်ပါ''ဟု အသပြာတစ်သိန်းထိုက်သော ပန်းကုံးကိုထုတ်၍ပေး၏။ ထိုအခါ ဝိသာခါကလည်း ''ဖခင်တို့သည် ဘယ်ပြည် ဘယ်မြို့မှ လာသနည်း။ ဘယ်သူ၏ပန်းကုံးပါနည်း''ဟု မေး၏။ ပုဏ္ဏားတို့ကလည်း ''ချစ်သမီး–သာဝတ္ထိပြည်တွင်

မိဂါရအမည်တွင်သော သူဌေးကြီး၌ ပုဏ္ဏဝဍ္ဍနအမည်ရှိသော သားသည်ရှိ၏။ ထိုသားသည် အဆင်းလည်းလှ၏။ ပညာလည်းတတ်၏။ နုးညံ့သိမ်မွေ့၏။ ထိုသတို့သား၏ ပန်းကုံးပါတည်း''ဟု ပြော၏။ ထိုအခါ ဝိသာခါကလည်း ငါတို့နှင့်မျိုးတူသော သူပင်ဖြစ်ပေသည်ဟု ပန်းကုံးကို သိမ်းပြီးသော် ကျေးကျွန်တို့ကို အိမ်သို့ပြန်၍ ယာဉ်ရထားယူစေပြီးမှ ရထားစီး၍ ပြန်၏။ ဓနဥ္စယ သူဌေးလည်း ရထားယူလာသည်ကိုမြင်လျှင် ငါ့သမီးအား ပန်းကုံးရပြီဟု သိနှင့်၏။ ပုဏ္ဏား ရှစ်ဦးတို့လည်း အိမ်သို့ လိုက်လာ၍ ဓနဥ္စယသူဌေး၏ထံသို့ရောက်လျှင် ''သင်ပုဏ္ဏား တို့သည် ဘယ်မှ လာသနည်း''ဟု မေး၏။ သာဝတ္ထိပြည်၌နေသော မိဂါရသူဌေးက သားပုဏ္ဏဝဍ္ဍန၏ အလို့ငှာ စေလွှတ်၍ လာရပါကြောင်းကိုလျှောက်လျှင် ''သင်တို့၏ အရှင် မိဂါရဝယ် ဘယ်မျှလောက်သော ဥစ္စာရှိသနည်း''ဟု မေး၏။ ''ကုဋေလေးဆယ် ရှိပါသည်'' ဟု ပြောလျှင် ငါတို့၏စည်းစိမ်ဥစ္စာနှင့်ဆသော် ချင်းရွှေးမျှသာရှိသည်။ သို့ရာတွင် ငါ၏သမီး နှစ်သက်မှု နှစ်သက်ရတော့မည်ဆို၍ လက်ခံပြီးလျှင် ကောင်းစွာ ကျွေးမွေး၍ လွှတ်လိုက်၏။ ပုဏ္ဏားတို့လည်း ပြန်လေ၍ သာဝတ္ထိပြည်သို့ရောက်သော် ကောင်းခြင်းငါးပါးနှင့် ပြည့်စုံသော မိန်းမရခဲ့ကြောင်းကို လျှောက်၏။ မိဂါရ သူဌေးကလည်း ''ဘယ်သူ၏သမီးနည်း''ဟု မေးလျှင် ဓနဥ္စယသူဌေး၏ သမီး ဖြစ်ကြောင်းကို ဆိုပေ၏။ ထိုအခါ မိဂါရသူဌေးကလည်း ဤဓနဥ္စယသူဌေးကား လွန်မြတ်သော အမျိုးပေတည်း။ အမျိုးကောင်းသမီးကိုပင် ရခဲ့သည်ဟု ဝမ်းမြောက် ဝမ်းသာလျက် လျင်စွာဆောင်ယူမှသင့်မည်ဟုကြံပြီးလျှင် ကောသလ မင်းကြီးအား အခွင့်ကိုပန်ကြား၏။ မင်းကြီးကလည်း ဤဓနဥ္စယကို ယောက်ဖတော် ဗိမ္ဗိသာရမင်း၏ နိုင်ငံမှ ငါတောင်းပန်၍ခေါ်ခဲ့ရသော သူပေတည်း။ ငါကိုယ်တိုင်လိုက်၍ ချီးမြှောက်အံ့။ သင်၏ အဆွေအား အကြောင်းကိုကြားလိုက်လော့ဟု ဆို၏။ ထိုအခါ မိဂါရသူဌေးက အဆွေဓနဥ္စယ–ကျွန်ုပ် သမီးယူခြင်းငှာလာလတ်သော် ကောသလမင်းကြီးလည်း ပရိသတ်နှင့်တကွ လိုက်ပါလိမ့်မည်။ အဆွေ လက်ခံနိုင်ပါအံ့လောဟု သဝဏ်စာရေး၍ စေလိုက်၏။ ဓနဥ္စယသူဌေးကြီးကလည်း ''အဆွေမိဂါရ– ကောသလမင်းနှင့် တကွ တစ်ကျိပ်မျှလောက်သော မင်းတို့ပင်လာသော်လည်း ဝမ်းမြောက်ပါ၏။ ကြွလာပါစေ''ဟု စကားပြန်လိုက်၏။ မိဂါရသူဌေးလည်း ထိုအကြောင်းကို မင်းကြီးအား လျှောက်ထား၍ နေ့ရက် ချိန်းချက်ပြီးလျှင် မဟာအနာထပိဏ်၊ စူဠအနာထပိဏ်၊ သုပ္ပဝါသ စသော သူဌေးကြီး တစ်ကျိပ်ကိုးဦးနှင့်တကွသော ကောသလမင်းလည်း အိမ်တွင် အစောင့် လူကိုသာထား၍ များစွာသော ပရိသတ်နှင့်တကွ ထွက်ကြွလေ၏။

ဓနဥ္စယသူဌေးလည်းလာကြောင်းကို ကြားလျှင် သမီးဝိသာခါကိုခေါ်၍ ချစ်သမီး– ရှင်မ၏ ယောက္ခမဖြစ်သော မိဂါရသူဌေးသည် မင်းပရိသတ်နှင့်တကွ လာသတတ်။ မြို့ပြ ပြည်ရွာကိုကောင်းစွာ စီရင်လော့ဟု ဆို၏။ ဝိသာခါလည်း ကမ္ဘာတစ်သိန်း ပါရမီ ဖြည့်ပြီးသူဖြစ်၍ ဝရဇိန် စက်သွားနှင့်တူသော ဉာဏ်ဖြင့် စိတ်ဖန်စီရင်သည်ကား ခမ်းနားကြီးကျယ် အံ့ဖွယ်သော မြို့သစ်ကို တည်ပြီးလျှင်

မင်းကြီး၏ နန်းတော်ကား ဤဌာနတွင်၊ အိမ်ရှေ့မင်း မှူးမတ်စသော သူ၏နေရာကား ဤဌာနတွင်၊ သူဌေး သူကြွယ်တို့ နေရာကား ဤဌာနတွင် ဤသို့ပြုပြင်ရမည်ဟု စီမံ၍ ကျေးကျွန်နှင့်တကွ ပါသမျှ ပရိသတ်တို့ကိုလည်း ကျွေးမွေး အံ့သောသူ အသင့်အသင့်ချည်းထား၏။ အယုတ် သဖြင့် မြင်း နွားထိန်းသော သူတို့ကိုမျှလည်း ဝိသာခါ၏ လက်ထပ်ပွဲသို့ လိုက်ပါသော် ငါတို့ မြင်း နွားကို ကျောင်းနေရသောကြောင့် သဘင်မျှ မကြည့်ခဲ့ရပါဟု ဆိုရာ မရှိရအောင် လဲလှယ်ထိန်းကျောင်းသူနှင့်ချည်း ထား၏။ မင်းပရိသတ်တို့သည် ရောက်ကြကုန်သော် အသီးအသီးသောအိမ်၌ အသင့်သာလျှင် သဘင်ရှုကာ စားကာသောက်ကာ နေကြရ၏။ ဝိသာခါ၏ အဖဖြစ်သော ဓနဥ္စယသူဌေးလည်း သမီးကို ဆင်ဝတ်စေခြင်းငှာ ပန်းထိမ် ငါးရာကိုခေါ်၍ ရွှေစင်နိက္ခ တစ်ထောင်ဖြင့် မဟာလ္လတာ တန်ဆာကို ပြုလုပ်စေ၏။ မြပုလဲစိန် ကျောက်နီလာ ဝေဠုရိယာ ပတ္တမြားစသော ကျောက်တို့ကိုလည်း ကွမ်းစားဖြင့် ချင့်၍ပေး၏။ ကောသလ မင်းကြီးလည်းရောက်၍ လေးငါးရက်ရှိလျှင် ဓနဥ္စယသူဌေး၏ ထံသို့ တမန် ဤသို့စေ၏။ အဆွေသူဌေးကြီး၊ ငါတို့လာသည် ကြာမြင့်ပြီ။ ဗိုလ်ပါ ပရိသတ်လည်း များသည်။ ကျွေးမွေးရသဖြင့် ပင်ပန်းကြတော့မည်။ ပြန်လွယ်အောင် ကိစ္စကို အမြန်ဆောင်လော့ဟု မှာလိုက်၏။ ဓနဥ္စယသူဌေးကြီးကလည်း အရှင်မင်းကြီး–ကျွန်ုပ် စိတ်ပြေရုံ နေတော်မူပါ။ ယခုကား မိုးအခါဖြစ်ပါပြီ။ ပြန်၍လည်းမလျော်ပါ။ ဗိုလ်ပါအပေါင်း တို့အား အရှင်မင်းကြီး ပြုဖွယ်ဟူသမျှကို ကျွန်ုပ်ကချည်း ပြုပါမည်။ မိုးလကုန်သဖြင့် သွားသင့်သောအခါမှ ကျွန်ုပ်လျှောက်ပါမည်ဟု လျှောက်လိုက်သည်။

ထိုအခါမှစ၍ သာကေတပြည်သည် အမြဲသော နက္ခတ်သဘင်ကဲ့သို့ ဖြစ်၏။ ပါသမျှသောသူတို့အား တစ်လလျှင်တစ်ကြိမ် ပုဆိုးဦးရစ် အဝတ်တန်ဆာ ပန်းနံ့သာ လိုသမျှပေး၍ သူဌေးကြီးသည် ငါတို့ကိုသာ များစွာချီးမြှောက်ပေသည်ဟု အသီးသီး မှတ်ရ၏။ ဤသို့သောနည်းဖြင့် ကျွေးမွေးပြုစုကာနေ၍ သုံးလတိုင်သောအခါ ချက်ပြုတ် လုပ်ကိုင်သောစဖိုသည်တို့က ဤသို့လျှောက်ထား၏။ အရှင်သူဌေးကြီး၊ ကျွေးမွေးပြုပြင် ဖွယ် ဟူသမျှမှာ တောင့်တရန်မရှိ ပြည့်စုံပေ၏။ ချက်ပြုတ်ရာဖြစ်သော ထင်းတမျိုးမှာ ရှာဝယ်၍ မလောက်မနိုင်ပြီဟု လျှောက်၏။ သူဌေးကြီးကလည်း ထင်းမလောက်လျှင် ဤပြည်တွင် ဆင်တင်းကုပ်၊ မြင်းတင်းကုပ်၊ အိမ်ဟောင်း၊ တဲဟောင်းတို့ကိုဖျက်၍ ထင်းပြုလေကုန်ဟု ဆို၏။ စဖိုသည်တို့လည်း သူဌေးဆိုတိုင်းပြု၍ လခွဲရှိသော် ကုန်ပြန် လေ၏။ တစ်ဖန် ထင်းမရှိပါကြောင်းကို လျှောက်ပြန်လျှင် ပုဆိုးကြမ်းထည်သော တိုက်ကြီးတို့ကို ဖွင့်လှစ်၍ ပုဆိုးတို့ကို ကြိုးကျစ်ပြီးလျှင် ဆီဆွတ်၍ ထင်းပြုပေတော့ဟု ခွင့်ပေး၏။စဖိုသည်တို့လည်း ထိုအမိန့်အတိုင်း ပုဆိုးကြမ်းတို့ကို ထင်းပြု၍ ချက်ပြုတ် ကြသဖြင့် လခွဲ လွန်လေ၏။ လေးလစေ့သောအခါ မဟာလ္လတာ တန်ဆာ ပြီးမြောက်၍ ထိမ်းမြားသော အခါသို့ရောက်လေ၏။

ဤမျှလောက်သော စကားအစဉ်ဖြင့် ''ထင်းတုံးကုန်လှည်း ပုဆိုးထည်၊ ချက်၏ အဘယ်သူဌေးနည်း''ဟူသော ပုစ္ဆာ၏ ဝိသဇ္ဇနာလည်း ပြည့်စုံသတည်း။

ထိုမဟာလ္လတာ တန်ဆာ၌–

ဝဇိရစိန် လေးကွမ်းစား၊

ပုလဲ တစ်ဆယ့်တစ်ကွမ်းစား၊

သန္တာ နှစ်ဆယ့်နှစ်ကွမ်းစား၊

မြ သုံးဆယ့်သုံးကွမ်းစား၊

ပတ္တမြားနီ ပတ္တမြားပြောက် ရှစ်ကွမ်းစား–

တို့ကို သင့်ရာသင့်ရာ ရတနာရွှေချည် ငွေချည်တို့ဖြင့် ခက်၍ ဥဒေါင်းငှက် က,သောသဏ္ဌာန်ဆောင်ပံမြီးရှက်တို့၌တလက်လက် တောက်ထိန်သော ဣန္ဒနီလာ ရတနာ အမျိုးမျိုးတို့ဖြင့် ချုပ်လျက် အဖိုးကိုးကုဋေ ထိုက်အောင်ပြုအပ်သော ဘဏ္ဍာ တည်း။ လက်ခ အသပြာတစ်သိန်းပေးရ၏။ ဤမဟာလ္လတာ တန်ဆာကိုဆင်ရခြင်းသည် ကဿပ ဘုရားရှင်လက်ထက်တော်၌ ဤဝိသာခါမသည် သင်္ဃဒါသီ မင်းသမီးဖြစ်၍ သံဃာတော် နှစ်သောင်းတို့အား တိစီဝရိတ်သင်္ကန်း လှူဒါန်းခဲ့သော ကုသိုလ်၏ အကျိုးတည်း။

ယင်းသို့သော တန်ဆာကိုဆင်စေ၍ မင်္ဂလာရှိသောနေ့၌ ထိမ်းမြားခြင်း၊ လက်ထပ်ခြင်း၊ စုလျားပတ်ခြင်းကို ပြုပြီးသော် အဖဖြစ်သော ဓနဥ္စယ သူဌေးကြီးက ပေးလိုက်သည်ကား ငွေအသပြာ အလေးတင်သော လှည်းပေါင်းငါးရာ။ ရွှေခွက် ရွှေအိုးတင်သော လှည်းငါးရာ။ ငွေခွက် ငွေအိုးတင်သော လှည်းငါးရာ။ ကြေးခွက် ကြေးအိုးတင်သော လှည်းငါးရာ၊ ပိုးချည်ပုဆိုး၊ ဝါချည်ပုဆိုး တင်သော လှည်းငါးရာ။ ဆီ၊ ထောပတ်၊ ပျား၊ တင်လဲ၊ သလေးဆန်၊ နှမ်း၊ မုန့်ပဲတင်သော လှည်းအစီးငါးရာစီ။ ထွန်, ထမ်းပိုး စသော အဆောက်အဦတင်သော လှည်းအစီး ငါးရာစီပေး၏။ ဤမှတစ်ပါး ရထားငါးရာတို့တွင် တစ်စီးတစ်စီးသော ရထား၌ အဆင်းလှသော ကျွန်သမီးလေးယောက်စီ။ တစ်ယောက်တစ်ယောက်၌ ပြုပြင်လုပ်ကျွေးအံ့သော မိန်းမကြီးတစ်ယောက်စီ၊ ဤမျှသော အခြံအရံကိုလည်းပေး၏။ သူဌေးကြီးက၊ ငါ့သမီးသည် အိမ့်ရှင်ဖြစ်သောအခါ ကျေးကျွန်တို့အား ပေးကမ်းရာ မပြည့်စုံသော ကြောင့် သူတပါးတို့ထံ၌ တောင်းခံ ချေးငှားခြင်း မရှိပါစေလင့်ဟု နှလုံးထား၍ ဤမျှလောက်သော အဆောက်အဦကို ပေးလိုက်သတည်း။ နွားမှာလည်း တစ်ခုသော ခြံငယ်ကိုဖွင့်၍ သုံးဂါဝုတ်ကျယ်သော မြေပြင်ပြည့်အောင် လွှတ်စေပြီးလျှင် ပြည့်သော ကာလ ထက်ဝန်းကျင်မှ စည်တီး၍ ခြံကိုပိတ်စေ၏။ ထိုမျှလောက်သော နွားတို့ကို ယူလေဟု ပေးလိုက်သည်။ ခြံတွင်း၌ကျန်သော နွားတို့က လည်း ငါတို့သခင်မဖြစ်သော ဝိသာခါ သွားရာသို့ ငါတို့လိုက်ကုန်အံ့ဟုကြံ၍ ခြံကိုခုန်ကာ ခုန်ကာထွက်၍လိုက်သည်။ နွားဥသဘပေါင်း ခြောက်သောင်း။ နို့ညှစ် နွားမပေါင်း ခြောက်သောင်းမျှလောက်ရှိ၏။ 95 B

ခြံစောင့်လူတို့ တားမြစ်၍မျှမရနိုင်ကုန်။ ဤသို့ ပေးသည် ထက်လွန်၍ လိုက်ခြင်းသည်ကား ကဿပဘုရားရှင် လက်ထက်တော်၌ သဃံဒါသီ မှင်းသမီးဖြစ်၍ သံဃာတော်တို့အား ဆွမ်းအဖျော် အလှူပေးသောအခါ သံဃာတော်တို့က တန်ပြီဟု မြစ်လျက်ပင် ဤခဲဖွယ်ကို သုံးတော်မူပါဦး၊ ဤစားဖွယ်ကို သုံးတော်မူပါဦးဟု ထပ်ကာထပ်ကာလျှောက်၍ အလွန်အမောက်နှင့်တကွ လှူခဲ့ဖူးသော ကောင်းမှု၏ အကျိုးတည်း။

ယင်းသို့ အဆောက်အဦတို့ကို ပေးသောအခါ ဝိသာခါ၏ အမိဖြစ်သော သုမနဒေဝီသည် ဤသို့ဆို၏။ ''အရှင်သူဌေးကြီး၊ ကျွန်ုပ်သမီးကို များစွာသော အဆောက်အဦကိုသာ ပေး၍ ကျေးကျွန်အမှုလုပ် သိမ်းဆည်းသူ မပါသော် ဤဘဏ္ဍာကို သိမ်းဆည်းရသဖြင့် သမီးဆင်းရဲလှလိမ့်မည်။ ကျွန်အမှုလုပ် ပေးပါဦးဟု ဆို၏။ ထိုအခါ ဓနဥ္စယသူဌေးကလည်း သမီးအား ချစ်သောသူကိုသာထည့်လို၍ ဆိုင်းသေးသည်ဟု ဆိုပြီးမှ၊ အနုရာဓ မြို့မျှလောက်ရှိသော ရွာကြီးတစ်ဆယ့်လေးရွာ၌နေသော သူတို့ကို ငါ့သမီးဝိသာခါ သည် သာဝတ္ထိပြည်သို့ သွား၍နေလတ္တံ့။ သင်တို့သည် ချစ်ခင်စုံမက်ကြမူ လိုက်လိုသသူ ဟူသမျှ လိုက်ကြလေကုန်ဟု စည်လည်စေ၏။ သမီးဝိသာခါကိုလည်း မိမိနေရာ တိုက်တွင်းသို့ခေါ်၍ ဤသို့ဆုံးမ၏။

ချစ်သမီး ယောက္ခတို့နှင့်အတူ လင်၏အိမ်၌နေသော မိန်းမတို့သည် ဤဆယ်ပါးသော အကျင့်ဝတ်တို့ကို မချွတ်အောင် ကျင့်အပ်၏။ ကျင့်ဝတ် ဆယ်ပါးဟူသည်ကား–

၁။ အိမ်တွင်းကမီးကို အပြင်သို့မထုတ်ရာ။
၂။ ပြင်ကမီးကို အိမ်တွင်းသို့ မသွင်းရာ။
၃။ ပေးတတ်သောသူကိုသာ ပေးရာ၏။
၄။ မပေးတတ်သောသူကို မပေးရာ၏။
၅။ မြံမြံသောနေရာ၌ ရလာသော်လည်းကောင်း၊ မရလာသော်လည်းကောင်း ကောင်းစွာ သိမ်းရာ၏။
၆။ ယောက္ခမတို့ နားမျက်စိ မပူဆာအောင် ချမ်းသာစွာလည်း နေရာ၏။
၇။ ချမ်းသာစွာလည်း စားရာ၏။
၈။ ချမ်းသာစွာလည်း အိပ်ရာ၏။
၉။ လောင်တတ်သောမီးကိုလည်း ရိုသေစွာ မွေးအပ်၏။
၁၀။ အိမ်ဦးနတ်ကိုလည်း မပြတ်ရှိခိုးရာ၏။

ဤကျင့်ဝတ် ဆယ်ပါးကို နှလုံးထား၍ ကျင့်လေဟု ဆုံးမ၏။

ထိုအခါ မိဂါရ သူဌေးလည်း တိုက်ခန်း၏ပြင်ဘက်က နေသည်ဖြစ်၍ စေ့ငုစွာကြား၏။ အဓိပ္ပာယ်ကိုကား မသိလေ။ နောက်နေ့နံနက် မင်းရင်ပြင်၌နေသော အနာထပိဏ် စသောသူဌေးရှစ်ဦးတို့အားလည်း ဤသို့မှာဆို၏။ အဆွေတို့–ကျွန်ုပ်သမီးသည် ငယ်ရွယ်သူ ဖြစ်သေးသည်။ တစ်စုံတစ်ရာအပြစ်ရှိမူ ကျွန်ုပ်ကိုယ်စားပြု၍ သွန်သင်

ကြပါဟု မှာဆို၍ ငါးဆယ့်လေးကုဋေမျှသော ဥစ္စာကို ဝိသာခါအားပေး၍ သာဝတ္ထိပြည်သို့ ထည့်လိုက်၏။ သာကေတပြည်၏ အရံဖြစ်သော တစ်ဆယ့်လေးရွာသားတို့သည်လည်း သားသမီးနှင့်တကွ ယူကောင်းရာရာ ဥစ္စာကိုယူ၍ အသီးသီး လိုက်ကြကုန်သည်။ စိုးစဉ်းမျှသာ ကြွင်း၏။ မိဂါရ သူဌေးလည်း မြေပြင်ပြည့်မျှလိုက်လာကြသော လူထုကိုမြင်လျှင် အဘယ်ကြောင့်လိုက်လာသနည်းဟု မေး၏။ အရှင့်ချွေးမ၏ ဝေယျာဝစ္စကို ဆောင်ရွက်ခြင်းငှာ လိုက်လာပါသတည်းဟု ပြောလျှင် ဤမျှ လောက်သော လူသူကို ငါအလိုမရှိ။ ပြန်ကြကုန်၊ ပြန်ကြကုန်ဟု နှင်၏။ ဝိသာခါက ဤသူတို့ တွက်တာကို ကြောင့်ကြဖွယ်ရာမရှိ။ လိုက်ပါစေဆို၍မျှလည်း သည်းမခံ။ တုတ်လုံးတံဖြင့် ပစ်ခြောက်ပြန်စေ၏။ သာဝတ္ထိမြို့ရောက်သောအခါ ဝိသာခါလည်း မဟာလ္လတာ တန်ဆာကိုဆင်လျက် ရထားစီး၍ မြို့သို့ဝင်၏။ ယင်းသို့ အတုမဲ့ တင့်တယ်သော ကျက်သရေကို ပြည်သူ ပြည်သားတို့ မြင်ကြလျှင် အလွန် အံ့သြချီးပလျက် မိတ်ဖွဲ့လိုသောဆန္ဒဖြင့် ကောင်းမွန် ထူးမြတ်သော ပဏ္ဏာကာရကို ပို့ကြကုန်၏။ ဝိသာခါလည်း သင့်ရာသော ဘဏ္ဍာဖြင့်သာ သာယာစွာပြောဆိုလျက် ပဏ္ဏာတုံ့ပေးလိုက်၏။ အလုံးစုံသော ပြည်သူတို့သည် ဆွေရင်း မျိုးရင်းကဲ့သို့ချည်း ဖြစ်လေကုန်၏။

ဝိသာခါရောက်သော နေ့ည၌ပင် မိဂါရသူဌေး၏ အိမ်နောက်ဖေးခြံတွင်း၌ အာဇာနည်မြင်းမသည် ကိုယ်ဝန်ဖွားမြင်ခြင်း ကိစ္စကို ပြု၏။ ဝိသာခါလည်း များစွာသော ကျွန်မအရံနှင့်တကွ မီးရှူးထွန်းကာ သွား၍ ရေအေး ရေနွေးပေးခြင်း၊ ဆီလိမ်းခြင်းကို ပြု၍ သက်သာရာရစေ၏။ ထိုမိဂါရ သူဌေးကား ဘုရားသခင်ကို မကိုးကွယ်။ အဝတ်မဆည်း အချည်းနီးနေသော အစေလက ရဟန်းတို့ကိုသာ ဆရာပြု၍ ကိုးကွယ်သောသူတည်း။ ချွေးမရောက်၍ နောက်တစ်နေ့၌ မိမိဆရာဖြစ်သော အစေလက ရဟန်းတို့အား ရေမရောသော ဃနာဆွမ်းဖြင့် လုပ်ကျွေးခြင်းငှာပင့်၍ အိမ်ဦး၌ ထားပြီးလျှင် ချွေးမ ဝိသာခါ မြန်စွာလာလှည့်။ ဖခင်၏ဆရာ ရဟန္တာမြတ်တို့ကို ရှိခိုးလှည့်ဟုခေါ်၏။ ဝိသာခါလည်း ရဟန္တာဟူသော အသံကို ကြားလျှင် ရွှင်လန်းစွာ လာတည့်၍ ဆွမ်းကျွေးရာ၌ ကြည့်လျှင် တက္ကတွန်း ရဟန်းတို့ကိုမြင်၍ သို့စင် အရှက်အကြောက်ကင်းလျက် နွားမြင်း ကဲ့သို့သောသူကို ရဟန္တာပြု၍ ငါတို့ယောက္ခမ ဆိုဘိသည်တကားဟု အောက်မေ့လျက် ထွီဟု တံတွေးထွေး၍ အိမ်တွင်းသို့ဝင်လေ၏။ ထိုအခါ အစေလက ဆရာတို့က သူဌေးကို ဤသို့ကဲ့ရဲ့ကြ၏။ သူဌေးကြီး၊ တခြားဌာန၌ မိန်းမရတနာကို မရပါလော။ အရှင်ဂေါတမ၏ တပည့်မဖြစ်သော ဤမိန်းမယုတ်ကို အဘယ့်ကြောင့် အိမ်သို့ဆောင်ပါသနည်း။ သင်၏သား ပုဏ္ဏဝဓနသည် သိကြားလုလင်ကဲ့သို့ လူ့ပြည်တွင် ထူးမြတ်သောသူတကား။ ဤအယူမှားသော မိန်းမနှင့်မတန်၊ မြန်စွာနှင်၍ ပစ်ပါလော့ဟု ဆို၏။ ထိုအခါ မိဂါရသူဌေးကလည်း အရှင်ဘုရား၊ ဆိတ်ဆိတ်သာ သည်းခံတော်မူပါ။ ငယ်သူတို့မည်သည်ကား ကောင်းသော အလား၊ မကောင်းသော အလားကို မချင့်တွက်နိုင်သေးပါ။ ဖြည်းဖြည်း လိမ္မာပါလိမ့်မည်ဟု တောင်းပန်၏။ ထိုတက္ကတွန်းတို့ ကျောင်းသို့ ပြန်၍ အတန်ကြာလျှင် မိဂါရသူဌေးလည်း အဖိုးများစွာ

ထိုက်သော နေရာထက်၌ ထိုင်၍ ရေမရောသော ဃနာထမင်းကို ရွှေခွက်ဖြင့် ထည့်၍ စား၏။ ဝိသာခါလည်း အနီးသို့လာ၍ ယပ်ခပ်ကာနေ၏။ ထိုအခါ ပိဏ္ဍစာရီကဖြစ်သော ရဟန်းတစ်ပါးသည် အိမ်ဝသို့ဝင်၍ ဆွမ်းရပ်လာ၏။ ဝိသာခါလည်း ယောက္ခမ မြင်စိမ့်သောငှာ နေရာပြောင်း၍ ရပ်၏။ သူဌေးကြီးလည်း မော်၍ ကြည့်သဖြင့် ရဟန်းကို မြင်သော်လည်း မမြင်သကဲ့သို့ ဘယ်စကားမျှ မဆိုဘဲ မျက်နှာကို အောက်ထား၍ စားမြဲသာ စားလျက်နေ၏။ ထိုအခါ ဝိသာခါက အရှင်ဘုရား၊ ကန်တော့ပါသေး၏။ ကြွပါဦးတော့။ ကျွန်ုပ်တို့ အဖသည် အစာဟောင်းကိုသာ စားပါသည်ဟုဆို၏။ ထိုစကားကို ကြားသောအခါ မိဂါရသူဌေးလည်း စားသော ထမင်းပွဲကို တွန်းပစ်လိုက်၍ ဟယ် မိန်းမယုတ်၊သင်ငါ့ကို အစာဟောင်းစား ဆိုပြန် သလောဟု ငေါက်ငန်း၍ ဤမိန်းမယုတ်ကို အိမ်မှ နှင်ထုတ်ကြကုန်၊ ဆွဲပစ်ကြကုန်ဟု ကျေးကျွန်တို့ကို စေ၏။ ထိုအခါ သူဌေး၏ အနီးမှာလည်း ဝိသာခါ၏ ကျေးကျွန်တို့သာ နေသည်ဖြစ်၍ ဆွဲပစ်ကြဝံ့မည်ကို မဆိုထားဘိ။ အပါးသို့ချဉ်းဝံ့သူမျှ မရှိကုန်။ ထိုအခါ ဝိသာခါလည်း ဖခင်သူဌေး၊ ဤသို့နှင်ထုတ်ကာမျှဖြင့် ကျွန်ုပ်မဆင်းချေသေး။ ကျွန်ုပ်တို့သည် ရေဆိပ်မှ ခေါင်းခုချ၍ ဆောင်ရသော မိန်းမမဟုတ်။ မိခင် ဖခင်တို့ ထင်ရှားသော သမီးတည်း။ ကျွန်ုပ်လွန်သည် မလွန်သည်ကို ဆင်ခြင်ပါဦး။ စိတ်ကူး၍ မရလျှင် ကျွန်ုပ် အဖ အပ်နှံလိုက်သော သူဌေးကြီးရှစ်ဦး ရှိပါသေးသည်။ ခေါ်၍ ဆေးကြောပါစေဟု ဆို၏။ ထိုအခါ မိဂါရသူဌေးကလည်း အနာထပိဏ်စသော သူဌေးရှစ်ဦးတို့ကို ခေါ်၍၊ ကျွန်ုပ်အပြစ်လော၊ ချွေးမအပြစ်လောကို ဆေးကြောကြပါလောဟု ဆို၏။ သူဌေးရှစ်ဦးတို့ကလည်း ဘယ်ကဲ့သို့ သူငယ်မသည် ရှင်သူဌေးကို ကျူးလွန်သနည်းဟု မေး၏။ ဝိသာခါက ဘယ်ကဲ့သို့မှ ကျွန်ုပ်မကျူးလွန်ပါဟု ပြော၏။ မိဂါရသူဌေးကလည်း ကျွန်ုပ်မင်္ဂလာရှိသော နေရာ၌ ဃနာထမင်း စားပါသည်ကို မစင်စားသည်ဟူ၍ ဆိုသည်။ ထို့ကြောင့် ဤအိမ်မှ နှင်ထုတ်ကြကုန်ဟု ကျွန်ုပ်ဆိုပေသည်ဟူ၍ ပြော၏။ ချစ်သမီး သင် ဆိုပေသလောဟု မေး၏။ ကျွန်ုပ် မစင်စားသည်ဟူ၍ မဆိုပါ။ ဆွမ်းခံလာသော ရဟန်းတစ်ပါးသည် အိမ်တံခါးဝ၌ ရပ်သည်ကိုကြည့်မျှော်ပြီးလျှင် စကားမပြန်ဘဲ စားမြဲသာစား၍ နေခြင်းကြောင့် ကျွန်ုပ်တို့၏ ယောက္ခမသည် ဤဘဝ၌ ကောင်းမှုသစ်ကို မရှာလို။ ရှေးကုသိုလ်ဟောင်းကိုသာ စားသည်။ အရှင်ဘုရား၊ တစ်ပါး၌ ရပ်ခံပါချေဦးတော့ ဟူ၍သာ ကျွန်ုပ်ဆိုပါသည်ဟု ပြော၏။ သူဌေးရှစ်ဦး တို့ကလည်း ဤစကားဖြင့် အပြစ်ဆိုရန် မရှိပေ။ မှန်သောအကြောင်းကိုပင် ပြောပေသည်တကားဟု ဆိုကြ၏။ မိဂါရ သူဌေးကလည်း ဤအမှုဖြင့် အပြစ်မဆိုရသော်။ ဤသူငယ်မသည် ကျွန်ုပ်အိမ်သို့ ရောက်သော နေ့ညဉ့်၌ သူ့ကျွန်မတို့နှင့် အချိန်မဲ့ကို အိမ့်နောက်ဖေးသို့ ထွက်သွား၏။ ဤသို့သွားခြင်းသည် သူ့အပြစ် မဟုတ်လော့ဟု ဆိုပြန်၏။ သူဌေးကြီးတို့ကလည်း သမီး သွားသလောဟု မေးပြန်သော်၊ သွားသည် မှန်ပါ၏။ မှန်သော်လည်း အခြား မဟုတ်ပါ။ ဤအိမ်မှာ မွေးထားသော အာဇာနည်မြင်းမသည် သားမွေးဖွားသောကြောင့် ဆေးဝါးဖြင့် မစခြင်းငှာ လည်းကောင်း၊ ရေအေး၊ ရေနွေး ပေးခြင်းငှာလည်းကောင်း

များစွာသော ကျွန်မတို့နှင့်တကွ မီးရှူးထွန်း၍ သွားပါသည်ဟု ပြော၏။ သူဌေးကြီးတို့ကလည်း အဆွေမိဂါရ– သင့်အိမ်၌ရှိသော ကျေးကျွန်တို့မှာလည်း မပြုဖူးကြသော တိရစ္ဆာန် သားဖွားရာ၌ ညီညာမစကြခြင်း ကိစ္စကို ဤသူငယ်မ ပြုပေသည်တကား။ ဘယ်မှာ အပြစ်ဆိုထိုက်ပါအံ့နည်း ဟုဆိုကြ၏။ မိဂါရလည်း ဤအမှုတို့၌ အပြစ်မဆိုထိုက်သော် သူ့အဖသည် ကျွန်ုပ်အိမ်သို့ ထည့်လိုက်မည့်နေ့၏ ရှေ့ညဉ့်၌ ဆယ်ပါးသော ပဋိစ္ဆန္နဩဝါဒကို မှာလိုက်သည်။ ထိုအနက်ကိုကျွန်ုပ်မသိ၊ ကိုယ့်အိမ်တွင် မီးမရှိသော် သူတစ်ပါးအိမ်က မီးကိုမျှမယူဘဲ နေရတော့မည်လောဟူ၍ ဆိုပြန်၏။ ထိုအခါ ဝိသာခါကလည်း ဤပြကတေ့သော မီးကိုရည်၍ ကျွန်ုပ်ဖခင် မမှာပါ။ ရန်သူတည်း ဟူသော မီးကိုသာ မှာပါသည်။ သမီးယောက္ခမတို့အိမ်၌ နေသော မိန်းမတို့မည်သည်ကား သူတစ်ပါး၏ ကောင်းမကောင်းကိစ္စကို ယောက္ခမတို့ ပြောဆိုကဲ့ရဲ့သော အသံကို ကြားလျှင် ထိုစကားကို နားထောင်၍ သူတစ်ပါးတို့အား ဤကဲ့သို့သော စကားကို ငါတို့ယောက္ခမ ဆိုသည်ဟု ပြောလျှင် ထိုသူတို့နှင့် ခိုက်ရန်ဖြစ်ရ၍ အတွင်းကမီးကို ပြင်သို့ ထုတ်သည် မည်ပါသည်။ ယောက္ခမတို့၏ အကြောင်းစကားကို သူတစ်ပါးတို့ ပြောဆို သည်ကို ကြားသဖြင့် ယောက္ခမတို့ အားပြော၍ ခိုက်ရန်ဖြစ်ရခြင်းသည် ပြင်ကမီးကို အတွင်းသို့ သွင်းသည် မည်ပါသည်။ ထိုမီးနှစ်ပါးကို မမွေးလေလင့်ဟု ဆိုပါသည်။ ပေးတတ်သော သူကိုသာ ပေးရာ၏ဆိုသည်မှာလည်း ဥစ္စာပစ္စည်းကို ချေးငှားသော် ပြန်၍ ပေးတတ်သောသူကိုသာ ချေးငှားရမည်။ ပြန်၍ မပေးတတ်သောသူတို့ကို မချေးငှားရာ ဆိုပါသည်။ မြဲမြံသောနေရာ၌ သိုမှီးရာ၏ ဆိုသည်မှာ သိက္ခာသီလ ထူးမြတ်သော ရတနာသုံးပါး၏ထံ၌လည်းကောင်း၊ သက်ကြီးရွယ်ရင့်တို့၏ထံ၌လည်းကောင်း၊ သံသရာမျိုးဖြစ်သော အလှူကိုကား ရသော်လည်းကောင်း၊ မရသော်လည်းကောင်း ကောင်းစွာ ပေးလှူရာ၏ ဆိုပါသည်။ ချမ်းသာစွာနေရ၏ အစရှိသော စကားမှာ ယောက္ခမမိဘတို့ကို မပန်မကြား ဘဲလည်း အမှုကိစ္စကိုမပြုရာ။ ယောက္ခမတို့၏ ရှေးဦးစွာလည်း မစားရာ၊ ရှေးဦးစွာလည်း မအိပ်ရာ။ ယောက္ခမတို့မထမီ ရှေးဦးစွာ ထရာ၏။ လုပ်ဆောင်ဖွယ်ကိစ္စရှိလျှင် ရှေးဦးသာ လုပ်ဆောင်ရာ၏။ ယောက္ခမတို့ကိုလည်းကောင်း၊ လင်ကိုလည်းကောင်း၊ မီးပုံကြီးကဲ့သို့ ရှိသေစွာ လုပ်ကျွေးရာ၏ဟု ဆိုလိုပါသည်ဟု စေ့ငုစွာ ပြန်ပြောလျှင် မိဂါရသူဌေးလည်း စကား တုံ့ပြန်လှန်ဖွယ်ရာ မရှိသောကြောင့် မျက်နှာကို ညိတ်လျက် ဆိတ်ဆိတ်သာ နေလေ၏။ သူဌေးရှစ်ဦးက ဤမှတစ်ပါး အပြစ်ဆိုရန် ရှိသေးသလောဟု မေး၏။ မရှိပေဟုဆိုလျှင် ယင်းသို့ အပြစ်မရှိဘဲ ဤသူငယ်မကို အိမ်ကထွက်လော့ဟု ဆိုခြင်းသည် အဆွေသူဌေး လွန်ပေသည်ဟု ဆိုကြ၏။ ထိုအခါ ဝိသာခါကလည်း ဖခင်တို့– ကျွန်ုပ်ကို အပြစ်ရှိလျှင် သုတ်သင်ကြပါဟု ကျွန်ုပ်အဖ အပ်လိုက်သည်။ ယခု ကျွန်ုပ်တွင် အပြစ်မရှိကြောင်းကို သိတော်မူပါပြီ။ ကျွန်ုပ်ဖခင် လာသောအခါ မိန့်တော်မူကြပါ။ ကျွန်ုပ် ပြန်ပါတော့မည်ဟု ခွင့်တောင်း၍ ကျေးကျွန်တို့ကို ဆင် မြင်း ရထား ပြင်ချေဟု စေလိုက်၏။ ထိုအခါ မိဂါရသူဌေးက ချစ်သမီး၊ ဖခင်သည် ဒေါသအလိုက် အပြစ်မထိုက်ဘဲ ဆိုမှားလေပြီ။

သည်းခံပါဟု တောင်းပန်၏။ ဝိသာခါကလည်း ဖခင် ဤအိမ်၌ ကျွန်ုပ် မနေနိုင်ပါ။ မြတ်စွာဘုရားတပည့်သား သံဃာတို့နှင့် တစ်ရံတစ်ခါမျှ ကင်း၍ ကျွန်ုပ်မွေ့လျော်ခြင်း မရှိ။ ထိုဘုရား သံဃာတို့အား လှူဒါန်းပူဇော်ကာ တရားနာကာ နေမှသာလျှင် ကျွန်ုပ် နေနိုင်ပါမည်ဟု ဆို၏။ ထိုအခါ မိဂါရသူဌေးက ငါ့သမီး အလိုရှိတိုင်း လှူပါဟု ခွင့်ပေး၏။ ဝိသာခါကလည်း ကျွန်ုပ်ပြုသမျှပင် ဖခင် ညီညာပါမည်လောဟု မေး၏။ ညီညာပါမည်ဟု ဝန်ခံလျှင် ဤအတိုင်းမှန်မူ သည်းခံ၍ နေပါတော့မည်ဟု ဆို၏။

ထို့နောက် နှစ်ရက်မြောက်သောနေ့၌ ဝိသာခါလည်း ဆရာဖြစ်တော်မူသော ဘုရားသခင်အား အလှူပေးခြင်းငှာ များစွာသော လှူဖွယ်ဝတ္ထုတို့ကို စီရင်၍ ဘုရားသခင်ကို သံဃာတော်နှင့်တကွ ပင့်၏။ အိမ်သို့ ရောက်သောအခါ မိဂါရသူဌေးကို ဆွမ်းကပ်လှည့်ပါဟုခေါ်၏။ သူဌေးလည်းသွားမည်ဟုကြံသော် မိမိထံ၌ အလှူခံနေကျ ဖြစ်သော တက္ကတွန်းတို့က သူဌေးကြီး– အရှင်ဂေါတမထံသို့ မသွားလင့်ဟု များစွာ တားမြစ် သောကြောင့် မထလာဘဲ ငါ့သမီးသာ ကပ်လှူနှင့်ပါဟု မှာလိုက်၏။ ဆွမ်း ဘုဉ်းပေး၍ တရားနာအံ့သောအခါ တစ်ဖန်ထပ်ကာ ပင့်ခေါ်ပြန်၏။ ထိုအခါ မိဂါရ သူဌေးလည်း အထက်ဝန်ခံချက်ကြောင့် မနေသာသဖြင့် လိုက်လာရ၏။ တက္ကတွန်းတို့ ကလည်း သူဌေးကြီးသည် ရှင်ဂေါတမ၏ တရားကို နာသော်လည်း တင်းတိမ်ကွယ်ကာ သာနေ၍ နာလေဟု မှာလိုက်ကြ၏။ မိဂါရသူဌေးလည်း တက္ကတွန်းဆရာတို့ မှာလိုက်တိုင်း ကွယ်ဝှက်သောနေရာ ဝိသာခါ၏ အနီး၌ထိုင်၍ တရားတော်နာ၏။ ဘုရားသခင်တို့၏ တန်ခိုးမည်သည်ကား တိုက်နံရံခြားသည်ဖြစ်စေ၊ စကြဝဠာတောင် ခြားသည်ဖြစ်စေ မျက်နှာပါး၌ ရှေးရှုနေ၍ တရားတော်ကို ဟောသကဲ့သို့ သတ္တဝါတို့ ထင်ရမြဲဓမ္မတာ ဖြစ်ရကား ထိုသူဌေးအားလည်း အပါးတွင်ကပ်၍ဟောသကဲ့သို့ ထင်၏။ အစဉ်သော တရားစကားကို ကြားနာရလေလျှင် နည်းတစ်ထောင်တို့ဖြင့် တန်ဆာဆင်အပ်သော သောတာပတ္တိမဂ်သို့ရောက်၍ တစ်လျှောက်တည်း ဖလဋ္ဌာန် ဖြစ်လေသော် ဤမျှလောက်သော ကာလပတ်လုံး မားယွင်းသော ငါ၏အမိုက်ကို ငါ့ချွေးမသည် ပျောက်ပ ကင်းစင်အောင် ကြံဆောင်၍ ဆုံးမပေးသည်။ ငါ့မိခင်ထက် ချစ်ကြင်ပေသောသူ ဖြစ်ပေသည်ဟု ဝိသာခါ၏ကျေးဇူးကို အထူးသဖြင့် တင်လျက် ထက်ဝန်းကျင်ကာသော တင်းတိမ်အရံကို လှစ်ကာ ဝိသာခါ၏ သားမြတ်ဖျားကို သားသူငယ်ကဲ့သို့ စို့ပြီးလျှင် ချစ်သမီး,ယနေ့မှစ၍ ဖခင်ကိုသားဟူ၍ မှတ်ပါ။ ချစ်သမီးကိုလည်း မိခင်ပြုပါတော့မည်ဆို၍ အမိအရာ၌ ထားလေ၏။ ထိုအခါမှစ၍ ဝိသာခါသည် မိဂါရမာတာဟု တွင်သတည်း။ ယင်းသို့ ချွေးမကို အမြတ်တနိုးဆိုပြီးမှ ဘုရားသခင်ထံသို့ ကပ်ပြန်၍ခြေတော်ကို ဦးခေါင်းဖြင့်တိုက်၍ ရှိခိုးပြီးသော် ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အကျွန်ုပ်သည် ဤမျှလောက်သော ကာလပတ်လုံး အသိပညာ အလိမ္မာကို မရသောကြောင့် ရတနာသုံးပါး ဂုဏ်ကိုမျှ မသိပါလေ။ ယခု အကျွန်ုပ်ချွေးမကို အမှီပြု၍ သဗ္ဗညုကျေးဇူးတော်ကို သိရပေသည်။ အပါယ် လွတ်ကြောင်း တရားကောင်းကို သိရပေသည်။ အကျွန်ုပ်၏ စီးပွားချမ်းသာ

ဖြစ်စိမ့်သောငှာသာလျှင် ဝိသာခါသည် ဤအိမ်သို့ ရောက်လာပေသည်ဟု ချီးပလျက် ''သောဟံ အဇ္ဇ ပဇာနာမိ၊ ယတ္ထ ဒိန္နံ မဟပ္ဖလံ''အစရှိသော ဂါထာကိုဆို၏။ ထိုအခါမှစ၍ မိဂါရသူဌေး၏အိမ်၌ သာသနာတော် တည်းဟူသော တံခါးပွင့်လေသတည်း။

ဤဝတ္ထုကို ထောက်၍ ''ချွေးမကိုကြည့်၊ နို့စို့၏။ မည်သည့်သူဌေး ဆိုမည်နည်း'' ဟူ၍ ပုစ္ဆာပြုသင့်၏။

ဤ၌ မိဂါရသည် ချွေးမနို့ကိုမစို့သော်လည်း စို့သကဲ့သို့ဖြစ်သောကြောင့် အတ္ထာပတ္တိက နည်းအားဖြင့် အဋ္ဌကထာဆရာ ဆိုလေသလောဟု တွေးတောဖွယ်ရှိ၏။ ရှိသော်လည်း မတွေးတောသင့်ပြီ၊ ဘယ့်ကြောင့်နည်းဟူမူ-

**သာဏိကံ ဥက္ခိပိတွာ ဂန္ဓသုဏှာယ ထနံ မုခေန ဂဟေတွာ တွံ မေ**
**အဇ္ဇ ပဋ္ဌာယ မာတာတိ တံ မာတုဋ္ဌာနေ ဌပေသိ။**

ဟူ၍ ဓမ္မပဒ အဋ္ဌကထာ၌ တိုက်ရိုက်လာချေသည်။

❖❖❖❖❖

## ၉၅၇။ တိရစ္ဆာန်ထည့်၊ မြင်တုံ၏။ မည့်ကြောင့် နတ် မမြင်သနည်း။(၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တိရစ္ဆာန်မြင်လျက် နတ်မမြင်သော ရူပါရုံကား တစ်စုံတစ်ခုမျှ ရှိသည်ဟူ၍ လောကီကျမ်း၊ လောကုတ္တရာကျမ်းတို့၌ လာသည်ကို သတိမမူမိ။ ဂိဇ္ဈကုဋ်တောင်၌ ရှိသော ပြိတ္တာတို့ကို ကျီး, လင်းတတို့သည် ဆိတ်ဆွဲလျက်နေသည်ကို ရဟန္တာဖြစ်သော အရှင်လက္ခဏ ထေရ်သည် သတိမမူမိ၍ မမြင်သည်ကိုရည်၍ ပုစ္ဆာပြုမည် ထင်သည်။ ဘယ့်ကြောင့်နည်းဟူမူ ရဟန္တာတို့လည်း ဝိသုဒ္ဓိနတ်ပင် ဖြစ်သောကြောင့်တည်း။

အကြောင်းကို အမြွက်မျှဆိုလိုက်ဦးအံ့-

ဘုရားသခင်သည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံးနေတော်မူသောအခါ အရှင်မောဂ္ဂလာန်နှင့် အရှင်လက္ခဏထေရ်တို့သည် ဂိဇ္ဈကုဋ်တောင်၌ ကျောင်းငယ်ဖြင့် နေ၏။ တစ်နေ့သ၌ နံနက်သောအခါ ရာဇဂြိုဟ်ပြည်သို့ ဆွမ်းခံဝင်ခြင်းငှာ လာသော် တပေါဒါမြစ်နှင့် ဂိဇ္ဈကုဋ်တောင်၏အကြား ဟင်းလင်း အပြင်၌ သွားသော အသားမရှိ၊ အရိုးစု အတိသာဖြစ်သော ပြိတ္တာကိုမြင်၍ အရှင်မောဂ္ဂလာန် ပြုံးတော်မူ၏။ အရှင်လက္ခဏက ငါ့ရှင်မောဂ္ဂလာန် အဘယ့်ကြောင့် ပြုံးသနည်းဟု မေးသော် ငါ့ရှင် လက္ခဏ- ဤပြဿနာကို ဖြေဆိုခြင်းငှာ အခါ မဟုတ်သေး၊ သံဃာစုဝေး၍ ဘုရားရှင် ထံသို့ ကပ်ကြသောအခါမှ မေးပါလော့ဟု ဆို၏။ ထိုစကားအတိုင်း ညချမ်းသောကာလ ဘုရားရှေ့တော်၌ စည်းဝေးသောအခါ အရှင်လက္ခဏက ငါ့ရှင်မောဂ္ဂလာန်၊ နံနက်ယံက သင်ပြုံးသောအကြောင်းကား

အဘယ်နည်းဟု မေး၏။ အရှင်မောဂ္ဂလာန်ကလည်း ငါပြုံးခြင်း အကြောင်းကား အခြားမဟုတ်။ ဂိဇ္ဈကုဋ်တောင်မှ ဆင်းသောအခါ တောင်ခြေရင်း ဟင်းလင်းပြင်နေရာ၌ လူသတ္တဝါ၏ သဏ္ဍာန်ကဲ့သို့ သဏ္ဍာန်ရှိလျက် ပကတိ အရိုးစုသာဖြစ်သော ပြိတ္တာသည် ရွေ့ကာ ရွေ့ကာသွား၏။ ထိုပြိတ္တာအား လက်ယာမှ လည်းကောင်း၊ လက်ဝဲမှ လည်းကောင်း လှည်းအိမ်ပမာဏ လောက်ရှိသော လင်းတ စွန်ရဲ ကျီးမဲ ငှက်တို့သည် နံရိုးကြားတို့၌ လှံသွားနှင့်တူသော နှုတ်သီးဖြင့် ဆွပ်ဆိတ် ဖောက်လျက် နေကြကုန်သည်။ ထိုပြိတ္တာလည်း ကျင်နာသောဒဏ်ကို သည်းမခံနိုင်သောကြောင့် လွန်စွာ ညည်းတွားသော အသံကိုပြု၏။ ဤပြိတ္တာကို မြင်သောအခါ ငါသည် ဤသို့ အောက်မေ့၏။ သြော်– မဖြစ်ဖူးမြဲ အံ့ဖွယ်သရဲ ထူးကဲလှချေ၏ တကား။ ဤကဲ့သို့သော အတ္တဘောကိုရသော သတ္တဝါတို့သည် ဤလူ့ရွာ၌ ရှိချေသေး၏ တကားဟု အကြံဖြစ်ပေသည်ဟု ပြော၏။ ထိုအခါ လက္ခဏထေရ် ကလည်း ကျွန်ုပ်နှင့် အတူ သွားလျက် ကျွန်ုပ်ကား မမြင်၊ အရှင်ဘုရားမြင်၏ဟု ဆိုခြင်းသည် ဥတ္တရိမနုဿ ဓမ္မဖြစ်ရာသည်ဟု ဆို၏။

ထိုအခါ မြတ်စွာဘုရားကလည်း ချစ်သားတို့၊ ဤသတ္တဝါကို ငါဘုရားသည် ဗောဓိပင်ရင်း၌ သဗ္ဗညုတဉာဏ်ကို ရသောအခါကပင် ထင်စွာသိတော်မူ၏။ ယင်းသို့ သိသော်လည်း သက်သေမရှိသေး၍ ငါဟောတော်မမူသည်။ ယခုအခါ သတ္တဝါတို့၏ မျက်စိသဖွယ်ဖြစ်သော ငါ၏ချစ်သား မောဂ္ဂလာန်သည် သက်သေခံဖြစ်အောင် စင်စစ် မြင်ခဲ့ပြီတကား။ ငါဟောကြားတော်မူအံ့။ ဤပြိတ္တာကား အခြားသူမဟုတ်၊ ရာဇဂြိုဟ် ပြည်တွင် အစဉ်အဆက် နွားကိုသတ်၍ ရောင်းစားသော ဝေါဃာတကတည်း။ ထိုနွားသတ် ယောက်ျားသည် နွားကိုသတ်သော မကောင်းမှုကြောင့် သိန်္ဘိုင်းရေ၌ ရှည်မြင့်စွာခံခဲ့ပြီး၍ အကျိုးကြွင်းအားဖြင့် ယခုအခါဝယ် ဤနေရာ၌ အရိုးစုပြိတ္တာ ဖြစ်လာပြန်သတည်း။ ချစ်သားမောဂ္ဂလာန်သည် မှန်သောစကားကိုပင် ဆိုလေ့ရှိ၏ဟု မိန့်တော်မူ၏။

ထို့နောက် တစ်နေ့သောအခါ ကြွတော်မူရာတွင် တစ်ခုသောဟင်းလင်းအပြင်၌ ကြောက်မက်ဖွယ်သော ကျီး, စွန် လင်းတတို့သည် ထိုးဆိတ်စားသောက်ကြ၍ ကျင်နာလှသော အသံဖြင့် ညည်းတွားလျက် သွားရသောအသားစု ပြိတ္တာကိုမြင်၍ ရှေးနည်းတူ မေးမြန်းပြောဆိုကြသည်တွင် ဘုရားသခင်က ချစ်သားတို့–ဤအသားစု ပြိတ္တာ သည်လည်း ဤရာဇဂြိုဟ်ပြည်တွင် နွားသတ်ယောက်ျားပင်တည်းဟု မိန့်တော်မူ၏။ ထို့နောက် ကြွတော်မူရာတွင် တစ်ခုသော ဟင်းလင်းအပြင်၌ သွားလာရသော အရေလွှာမရှိ၊ သားတစ် အတိဖြစ်သော ပြိတ္တာကို မြင်၍လည်းကောင်း၊ လှံသွားတို့သည် ခွေးဟပ်သကဲ့သို့ ခုန်ကာ ခုန်ကာလိုက်၍ စူးရှသည်ကိုခံရသော ပြိတ္တာကို မြင်၍ လည်းကောင်း၊ လှံသွားပကတိ အမွေးရှိသော ပြိတ္တာကိုမြင်၍လည်းကောင်း၊ မြားသွား

ပကတိ အမွေးရှိသော ပြိတ္တာကို မြင်၍လည်းကောင်း၊ အပ်အမွေးရှိသော ပြိတ္တာကိုမြင်၍ လည်းကောင်း၊ ရှေးနည်းအတူ မေးမြန်းပြောဆိုကြသည့်တွင် ဘုရားသခင်က ပြိတ္တာတို့သည် ရာဇဂြိုဟ်ပြည်၌ ဝက်သတ်ယောက်ျား၊ ငှက်သတ်ယောက်ျား၊ ဆိတ်သတ် ယောက်ျား၊ သားမုဆိုးဖြစ်ကြောင်းကို ဟောတော်မူသည်။ ဤမှတစ်ပါးလည်း အများရှိသော ပြိတ္တာတို့၏ အကြောင်းကိုလည်း ဟောတော်မူသည်။

ဤပြိတ္တာတို့ကို တိရစ္ဆာန်ဖြစ်သော ကျီး စွန် လင်းတတို့သည် မြင်ကုန်လျက် ဝိသုဒ္ဓိနတ်ဖြစ်သော လက္ခဏထေရ် မမြင်သည်ကိုရည်၍ ပြဿနာပြုသည်ဟု ဆိုဖွယ် ရှိသည်။ မမြင်ကြောင်းကား ရဟန္တာပင်ဖြစ်သော်လည်း ဒိဗ္ဗစက္ခုအဘိညာဉ်ကို ဝင်စားသောအခါမှ မြင်သည်။ မဝင်စားသောအခါ အနောဋ္ဌာရိကဖြစ်သော အာရုံတို့ကို မမြင်ချေ။အရှင်မောဂ္ဂလာန်မူကား ထိုအဘိညာဉ်တရားတို့ကို မပြတ်ဝင်စားတော် မူသောကြောင့် မြင်လေသည်ဟူ၍ ပါရာဇိကဏ် အဋ္ဌကထာ၌ဆိုသည်။

**''အည့်'' ကာရန်ပုစ္ဆာ ၁၄-ပုဒ် အဖြေပြီး၏။**

◆◆◆◆◆

## (၃၀) ''အည်း''ကာရန်ပုစ္ဆာ ၁၅-ပုဒ်အဖြေ။

**၉၅၈။ ရဟန်းစောင့်စည်း၊ကျင့်ဝိနည်း၊ညည်းလျှင်အာပတ်ဘယ်တွင်နည်း။(၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

န ကရေ နိတ္ထုနံ ဝစ္စံ။ နိတ္ထုနံ-နိတ္ထုနန္တော၊ ကျည်းညည်းလျက်။ ဝစ္စံ၊ ကျင်ကြီးကို။ န ကရေ၊ မပြုရာ။ ကရောန္တဿ၊ ပြုသောရဟန်းအား။ အာပတ္တိ ဒုက္ကဋဿ၊ ဒုက္ကဋ် အာပတ်သင့်၏။ ဟူ၍ ခုဒ္ဒသိက္ခာ၌ လာသည်။

◆◆◆◆◆

**၉၅၉။ ပဋ္ဌာန်းပစ္စည်း၊ ဆွမ်းပစ္စည်း၊ နည်းကွဲဝိဂြိုဟ် ဘယ်သို့နည်း။ (၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ပဋ္ဌာန်းပစ္စည်းသည် ပဋိစ္စ ဖလံ ဧတိ ဧတသ္မာတိ ပစ္စယော-ဟူသော ဝစနတ္ထကြောင့် ပစ္စည်းမည်၏။ ဧတသ္မာ၊ ထိုအကြောင်းတရားကြောင့်။ ဖလံ၊ အကျိုးကို။ ပဋိစ္စ၊ စွဲ၍။ ဧတိ၊ ဖြစ်တတ်။ ဣတိ-ဧတသ္မာ၊ ထိုသို့အကြောင်းတရားတို့၏ ဖြစ်ရာဖြစ်သော သတ္တိကြောင့်။ ပစ္စယော၊ ပစ္စည်းမည်၏။ အပါဒါနသာဓနကိတ်ဝိဂြိုဟ်။ ပဋိရှေးရှိသော ဧ-ဓာတ်၊ အ-ပစ္စည်း။

ဆွမ်းစသော ပစ္စည်းသည်ကား။ ပီတိကရဏဋ္ဌေန ပစ္စယောဟူ၍ အဋ္ဌကထာ ဆရာတို့ဝိဂြိုဟ်ပြုခြင်းကြောင့်။ ပီတိံ ကရောတီတိ ပစ္စယော။ ပီတိ အယတိ ဧတေနာတိ

96
B

ပစ္စယော။ ဟူ၍ဝိဂ္ဂြိုဟ်ပြုအပ်၏။ ။ ပီတိ၊ နှစ်သက်ခြင်းကို။ ကရောတိ၊ ပြုတတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ ပစ္စယော၊ ပစ္စည်းမည်၏။ ဓေတောန၊ ဤဆွမ်းကွမ်း စသော အာမိသဖြင့်။ ပီတိ၊ နှစ်သက်ခြင်းသည်။ အယတိ၊ ဖြစ်တတ်၏။ ဣတိ၊ ထိုသို့ နှစ်သက်ခြင်း၏ ဖြစ်ကြောင်းဖြစ်သော သတ္တိကြောင့်။ ပစ္စယော၊ ပစ္စည်း မည်၏။ ကတ္တု သာဓန၊ ကရဏသာဓန၊ ပီတိ သဒ္ဒူပပဒ၊ ဣဓာတ်၊ အပစ္စည်း။

❖❖❖❖❖

## ၉၆၀။ ဘွဲ့မည်ပစ္စည်း၊ဓာတ်ပစ္စည်း၊သည့်လည်းခြား၏ဘယ့်နှယ်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မဟာသတ္တဿ ပစ္စယံ ကတွာ ဥပ္ပန္နတ္တာ ပစ္စယောတွေဝ နာမံ ကရိံသု။ ။ ဟူ၍ ဝေဿန္တရာဇာတ် အဋ္ဌကထာကိုမှီ၍ မင်း၏ အထောက်အပံ့ ဖြစ်သော သူကို ပစ္စည်းဟူ၍ မှည့်ရကား၊ ရညော ပစ္စယံ ကရောတီတိ ပစ္စယော ဟူ၍ ဝိဂ္ဂြိုဟ်ပြုအပ်၏။ ရညော၊ မင်း၏။ ပစ္စယံ၊ အထောက်အပံ့ကို။ ကရောတိ၊ ပြုတတ်၏။ ဣတိ၊ ထို့ကြောင့်။ ပစ္စယော၊ ပစ္စည်းမည်၏။ ။ပုဂံမင်း၏ အမတ်ဖြစ်သော အနန္တပစ္စည်း, ရန္တပစ္စည်း တို့ကိုယူ။

သဒ္ဒါကျမ်း၌လာသောဓာတ်ပစ္စည်းမှာ ပဋိ ဝိသုံ ဝိသုံ အတ္ထေ ဝေတီတိ ပစ္စယော ဟူသော ဝစနတ်ကြောင့် ပစ္စည်းဖြစ်၏။ အတ္ထေ၊ ကတ္တား ကံ စသော အနက်တို့ကို။ ဝါ နိဿယ, နိဿိတ စသော အနက်တို့ကို။ ပဋိ ဝိသုံ ဝိသုံ၊ အသီးအသီး။ ဝေတိ၊ ဖြစ်စေ၏။ ဣတိ၊ ထို့ကြောင့်။ ပစ္စယော၊ ပစ္စည်းမည်း၏။ ။ကတ္တုသာဓန၊ ပဋိရှေးရှိသော။ ဓောတ်၊ အပစ္စည်း။

❖❖❖❖❖

## ၉၆၁။ မထေရ်ကစ္စည်း၊ သမုစ္စည်း၊ နည်းမတူဘူး မည်သို့နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကာယိဝါဏိဇ္ဈာဒိနာ ဗျာပါရေန ကစ္စတိ ဒိပ္ပတီတိ ကစ္စော။ ။ ယော ထေရပိတာ၊ အကြင်မထေရ်၏ အဖသည်။ ကာယိဝါဏိဇ္ဈာဒိနာ၊ လယ်လုပ်ခြင်း၊ ကုန်သွယ်ခြင်း အစရှိသော။ ဗျာပါရေန၊ ကြောင့်ကြခြင်းဖြင့်။ ကစ္စတိ ဒိပ္ပတိ၊ ထွန်းပတတ်၏။ ဣတိ၊ ထို့ကြောင့်။ ကစ္စော၊ ကစ္စည်းမည်၏။ ကတ္တုသာဓန၊ ကစ္စဓာတ်၊ အပစ္စည်း။ ။ ကစ္စဿ အပစ္စံကစ္စာယနော။ ကစ္စဿ၊ ကစ္စ အမည်ရှိသော သူ၏။ အပစ္စံ၊ သားတည်း။ ကစ္စာယနော၊ ကစ္စ အမည်ရှိသော သူ၏သား။ အပစ္စတဒ္ဓိတ်ဝိဂ္ဂြိုဟ်။ ကစ္စပုဒ်၊ ဏာယန ပစ္စည်း။ ကစ္စာယနဘေဒ ဆရာတို့ပြုသော ဝိဂ္ဂြိုဟ်ရှိသောကြောင့်သာ ရေးလိုက်သည်။

မဟာသာဝကအဝင်ဖြစ်တော်မူသော သဒ္ဒါကျမ်း၊ နေတ္တိကျမ်းတို့ကို စီရင်သော အရှင်မဟာကစ္စည်းမှုကား ဥဇ္ဇေနီပြည်ကိုအစိုးရသော စဏ္ဍပဇ္ဇောတမင်း၏ ပုရောဟိတ်

ပုဏ္ဏားပေတည်း။ အဖအဘိုးလည်း ပုရောဟိတ်ပုဏ္ဏားမျိုးဖြစ်၍ လယ်လုပ်ခြင်း ကုန်သွယ်ခြင်းနှင့် ဝေးလှစွ၊ ယင်းသို့ဝေးခဲ့သော် ထိုအရှင်နှင့်လျော်အောင် ဘယ်သို့ ဝိဂြိုဟ်ဆိုအံ့နည်းဟူငြားအံ့။ ။ ကနကဝဏ္ဏေန ဒိပ္ပတီတိ ကစ္စာ၊ ဟူ၍လည်းကောင်း။ ဗျာကရဏာဒိသဗ္ဗသိပ္ပေဟိ ကစ္စတိ ဒိပ္ပတီတိ ကစ္စာ၊ ဟူ၍လည်းကောင်း ဝိဂြိုဟ် ပြုသင့်၏။ ယော ထေရော၊ အကြင်မထေရ်သည်။ ကနကဝဏ္ဏေန၊ ရွှေနှင့်တူသော အဆင်းဖြင့်။ ဒိပ္ပတိ၊ ထွန်းပတတ်၏။ ဣတိ၊ ထို့ကြောင့်။ သော ထေရော၊ ထိုမထေရ် သည်။ ကစ္စာ၊ ကစ္စည်းမည်၏။ ဝါ၊ တစ်နည်းကား။ ဗျာကရဏာဒိသဗ္ဗသိပ္ပေဟိ၊ ဗျာကရိုဏ်းက၊ စသည်ကုန်စင်၊ ဗေဒင်ပိဋကတ်၊ အတတ်ဥဿုံ၊ အလုံးစုံတို့ဖြင့်။ ကစ္စတိ ဒိပ္ပတိ၊ ထွန်းပထင်ရှားတတ်၏။ ဣတိ။ ထို့ကြောင့် သော ထေရော၊ ထိုမထေရ်သည်။ ကစ္စာ၊ ကစ္စည်းမည်၏။

သမောဓာယ ဥစ္စိယတီတိ သမုစ္စယော။ ။ သမောဓာယ၊ ပေါင်းရုံး၍။ ဥစ္စိယတိ၊ ဆိုအပ်၏။ ဣတိ၊ ထို့ကြောင့်။ သမုစ္စယော၊ သမုစ္စည်းမည်၏။ နော မတိ။ ။ သမုစ္စယနံ သမုစ္စယော။ သံပုဗ္ဗ၊ ဥပုဗ္ဗ စိ စယေ။ ဂဠုန်ပျံ။ ။ ကစ္စည်း၌ ကစ္စသဒ္ဒါသည် ထွန်းပခြင်း အနက်ကို ဟော၏ဟူပေ။

❖❖❖❖❖

## ၉၆၂။ ကုသိုလ်ချင်းချည်း၊ ဟေတုနည်း၊ ပစ္စည်းဘယ်သို့တပ်မည်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကုသလော ဓမ္မော ကုသလဿ ဓမ္မဿ ဟေတုပစ္စယေန ပစ္စယော ဟူသောပါဠိ၌ ကုသလော ဓမ္မော ဟူသော ကတ္တားပုဒ်၏ အရကား ကုသိုလ် ကောဋ္ဌာသ၊ စေတသိက် အဌတိံသ နာမက္ခန္ဓာ၊ ထိုနာမက္ခန္ဓာတို့၌ပါသော ဒွိဟိတ်ဖြစ်အံ့။ အလောဘ၊ အဒေါသ၊ တိဟိတ်ဖြစ်အံ့– အလောဘ၊ အဒေါသ၊ အမောဟ။ ဤဟိတ်သုံးပါး ပစ္စည်းတရားရ၏။ ကုသလဿ ဓမ္မဿဟူသော သမ္ပဒါန်ပုဒ်၏အရကား ဟိတ်နှင့် တကွသော သမ္ပယုတ် နာမက္ခန္ဓာ ပစ္စယုပ္ပန်တရားရ၏။ ဟေတုပစ္စယေနဟူသော ကရိုဏ်းပါဌ်၏ အရကား ဟေတုပစ္စယသတ္တိရ၏။

ပစ္စည်းတပ်ဟန်ကား မဟာကုသိုလ်ရှစ်ခုသည် ပုညကိရိယာ ဝတ္ထုဆယ်ပါး တို့တွင် တစ်ပါးပါးကို အာရုံပြု၍ ဖြစ်လိုလတ်သည်ရှိသော် မိမိပဋိသန္ဓေစိတ်နှင့်တူသော စိတ်သည် အတီတဘဝင်၊ ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ၊ ပဉ္စဒွါရာဝဇ္ဇန်း၊ စက္ခုဝိညာဉ်၊ သမ္ပဋိစ္ဆိုင်း၊ သန္တီရဏ၊ ဝုဋ္ဌော၊ မဟာကုသိုလ်စိတ်ရှစ်ခုတို့တွင် တစ်ခုခုသည် ဇောကိစ္စခုနစ်ကြိမ်၊ ထို့နောင်ဘဝင်ကိစ္စဖြစ်၍ ချုပ်၏။ ထိုသို့ဖြစ်သောအခါ ပထမဇော၌ပါသော အလောဘသည်၊ အဒေါသသည်၊ အမောဟသည်၊ အလောဘ အဒေါသသည်၊ အလောဘ၊ အမောဟသည်၊ အဒေါသ၊ အမောဟသည်၊ အလောဘ၊ အဒေါသ အမောဟသည် သမ္ပယုတ်ဖြစ်သော နာမက္ခန္ဓာတို့အား ဟေတုသတ္တိဖြင့် ကျေးဇူးပြုပေ၏။

ဤအတူ မဟာဂ္ဂုတ်ကုသိုလ်၊ လောကုတ္တရာကုသိုလ်တို့၌လည်း ဝီထိအသီးအသီးချ၍ ပစ္စည်းတပ်ဟန်ကို သိရမည်။ အကျယ်မူ မဟာကုသိုလ်စိတ်၌ ဝီထိပေါင်း တစ်သောင်းငါးထောင့်တစ်ရာ့နှစ်ဆယ်စီ ခြောက်ဒွါရ၌ ဖြစ်သည်ဟု ဖြေရမည်။

❖❖❖❖❖

**၉၆၃။ တောင်သမန်တောင်ချည်၊ အနည်းနည်းနန်းတည်းဆောက်အုံဘယ်သိုက်နည်း။(၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အမရပူရမြို့သိုက်ဟူပေ။

❖❖❖❖❖

**၉၆၄။ မဏိဦးပြည်း၊ စာစပ်နည်း၊ ပေါင်းစည်းအချ ဘယ်လောက်နည်း။(၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တစ်ဆယ့်ငါးလုံးချသည် ဟူပေ။

❖❖❖❖❖

**၉၆၅။ ကလာပ်ကျမ်းနည်း၊ တွာပစ္စည်း၊ သိပ်သည်းဘယ်အနက်ပေနည်း။(၈)**

**၉၆၆။ သဒ္ဒါမှာလည်း၊ ထိုပစ္စည်း၊ ဟောနည်း ဘယ်အနက်ပေနည်း။(၉)**

ဟူသော အမေးပုစ္ဆာနှစ်ခု၌ အဖြေဝိသဇ္ဇနာကား–

**ကလာပါဒီသု ဘာဝတ္တေ၊ တုနတွာဒိ ဝိဓိယတေ။**
**ကစ္စာနာဒီသု ကတ္တွတ္တေ၊ ကိတ်သညာယ ဝိဓိယတေ။**

ဟူ၍ သဒ္ဒတ္ထဘေဒစိန္တာမိန့်ရကား ကလာပ်ကျမ်းစသည်တို့၌ တုန တွာန တွာ ဟူသော ပစ္စည်းတို့ကို ဘောအနက်၌ စီရင်အပ်၏။ ကစ္စည်းအစရှိသော ကျမ်းတို့၌ကား ကိတ်ဟူသော အမည်ဖြင့် ကတ္တားအနက်၌ စီရင်အပ်၏ ဟူလိုသည်။

❖❖❖❖❖

**၉၆၇။ ပုဒ္ဓေါ်၌လည်း၊ တပစ္စည်း၊ ဟောနည်း၊ ဘယ်အနက်ပေနည်း။(၁၀)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပုဓဂမာဒိတ္တေ ကတ္တရိဟူ၍ ကစ္စည်း ဆရာပင် မိန့်ရကား ကတ္တားအနက်ဟူပေ။

❖❖❖❖❖

**၉၆၈။ ငါ့ဆရာတည်း၊ ဤသူလည်း၊ စပ်နည်း ကိရိယာရှိလိမ့်နည်း။(၁၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သော၊ ဤသူသည်။ နော၊ ငါတို့၏။ သတ္ထာ၊ ဆရာတည်း။ အာချာတ် ကိရိယာ။ မ–သတ်ပါမူ။ တုလျက်လိဂ်တ်စပ်ရိုးဟူ၏။

❖❖❖❖❖

၉၆၉။ အကုသလည်း၊နေတ္တိနည်း၊ကြပ်တည်းဘယ်သို့ ဖွင့်ပိမ့်နည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–ချွန်းတောင်းချိတ်သကဲ့သို့ သူတစ်ပါးကို ချိတ်ငင်၍ ဆိုသောနည်းသည် အကုသနည်းမည်၏။ ထို့ကြောင့် အကုံသော ဝိယ ယော ဟောတိ၊ သော အကုသနယော မတော။ ဟူ၍ မိန့်အပ်ပြီ။ ဥဒါဟရဏ်နှင့် သိလိုမူ နေတ္တိ၌ယူ။

❖❖❖❖❖

၉၇၀။ ကောင်းကင်ဓာတ်စည်း၊ပျက်သတည်း၊ကုနည်းဘယ်ဓာတ်ရသနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အာကာသဓာတ်။ ဝိနဿတိ။ ပျက်သည်ရှိသော်။ ပထဝိသြဇာ။ သင်းပျံ့စွာနှင့်။ ရသာဆိမ့်ချို။ ပေးစေလိုရှင့်။ ဓာတုနိဏ္ဏယလက်ာ။

❖❖❖❖❖

၉၇၁။ ခြောက်နှစ်တွင်ချည်း၊မြင်းသွားမည်း၊သွားတည်းဘယ်သွားတို့ပေနည်း။(၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အထက် အည်းကာရန် ပုစ္ဆာနံပါတ် ၉၀၄–၉၀၅–၉၀၆ တွင် ဖြေခဲ့ပြီ။

❖❖❖❖❖

၉၇၂။ ငယ်ချိန်ကတည်း၊ ငှလောင်းပွင့်စည်း၊ ခမည်းရှိခိုး ဘယ်မျှနည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အဟံ ဘန္တေ တုမှာကံ ဇာတဒိဝသေ ကပိလဝတ္ထုံ ဥပနီတာနံ ဝေါ ပါဒေ ပရိဝတ္တေတွာ ဖြဟ္မာဏဿ မတ္ထကေ ဌိတေ ဒိသွာပိ အဟံ တုမှေ ဝန္ဒိ။ အယံ မေ ပဌမဝန္ဒနာ။ ဝပ္ပမင်္ဂလဒိဝသေ ဇမ္ဗုစ္ဆာယာယ သိရိသယနေ နိပန္နံ ဝေါ ဇမ္ဗုစ္ဆာယာ အပရိဝတ္တနံ ဒိသွာပိ တုမှာကံ ပါဒေ ဝန္ဒိ။ အယံ မေ ဒုတိယဝန္ဒနာ။**

ဟူ၍ ဝေဿန္တရာဇာတ် အဋ္ဌကထာ၌လာသည်။

**အဓိပ္ပါယ်ကား။** ။ အရှင်ဘုရားကို ဖွားစသောနေ့၌ ကာလဒေဝိလ ရသေ့ကို ရှိခိုးစေခြင်းငှာ ဆောင်ခဲ့ပါသော် အရှင်ဘုရား၏ ခြေတော်စုံသည် ပျံတက်၍ ရသေ့ ဦးခေါင်းထက်၌ တည်လေသည်ကိုမြင်၍ ဖခင်တစ်ကြိမ် ရှိခိုးပါ၏။ ထို့နောက် နှစ်လ မြောက် လယ်ထွန်မင်္ဂလာပြုသောအခါ သပြေပင်ရိပ်၌ သားကိုသိပ်ထားသည်တွင် သပြေ ရိပ်သည် နေမွန်းစောင်း၍ မပြောင်းမရွေ့တည်လေသည်ကိုမြင်၍ ဖခင်တစ်ကြိမ် ရှိခိုးပါ၏။ ဤကားနှစ်ကြိမ်မြောက် ရှိခိုးခြင်းတည်းဟူလိုသည်။

ယင်းသို့ ကျမ်းလာသောကြောင့် ဘုရားလောင်းငယ်စဉ်က သုဒ္ဓေါဒန မင်းသည် နှစ်ကြိမ်ရှိခိုး၏ဟူပေ။

**''အည်း'' ကာရန်ပုစ္ဆာ ၁၅-ပုဒ် အဖြေပြီး၏။**

◆◆◆◆◆

## (၃၁) ''အဉ်'' ကာရန်ပုစ္ဆာ ၁၈-ပုဒ်အဖြေ

## ၉၇၃။ ဆင်းတုတင်ပျဉ်၊ ခွေးသောလျဉ်၊ ဝိညာဉ်ဘုရားခွေလိမ့်နည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ယခုကာလ ဆင်းတုရုပ်ပွားတို့၌ တင်ပျဉ်ခွေ သကဲ့သို့ ဝိညာဉ်တော်ရှိသော ဘုရားသည် ခွေပါ၏လောဟု မေးရာ၌ မည်ကဲ့သို့သော အခြင်းအရာဖြင့် ထက်ဝယ်ခွေသည်ဟူ၍ တိုက်ရိုက်လာသော ကျမ်းကိုကား မတွေ့မိ။

ရှေးဆရာတို့၏ ဝစနာမဂ္ဂကို ကြားသိဖူးသည်မှာ။ မြတ်စွာဘုရား သက်တော်ထင်ရှားရှိသော ကာလ၌ ထက်ဝန်းကျင်သော အရပ်ဒေသမှ ဗုဒ္ဓလက္ခဏာကို ပုဏ္ဏားပညာရှိ ရသေ့ပညာရှိတို့သည် မိမိတို့၏ဉာဏ်ဖြင့် ကြံဆ၍ အရှင်ဂေါတမသည် ငါဘုရားဟု ဝန်ခံ၏။ ဘုရားတို့၏ လက္ခဏာနှင့် ပြည့်စုံမှ ဘုရားမှန်ရာသည်။ မပြည့်စုံသော် မမှန်ရာ။ ဗုဒ္ဓလက္ခဏာကို စုံစမ်းဦးအံ့ဟု ကြံ၍ မိမိတို့၏ ကိုယ်တိုင်သော်လည်းကောင်း၊ သူတစ်ပါးကို စေလွှတ်၍သော်လည်းကောင်း ကြည့်ရှုစေသည်။ ထိုသို့ ကြည့်ရှုလာသော ဝေနေယျတို့၏ သံသယကို ပျောက်စေခြင်းငှာ လက်တော်၌ရှိသော လက္ခဏာ၊ ခြေတော်၌ရှိသော လက္ခဏာ၊ ကိုယ်တော်၌ရှိသော လက္ခဏာတို့ကို မြင်သာအောင်ပြ၍ ယခုထုလုပ်ကြသော ဆင်းတုကဲ့သို့ ထက်ဝယ်ခွေ၍ နေတော်မူသည်။ လက်ဖမိုးတော်၏ ပြည့်ဖြိုးသောအဖြစ်။ ရှည်သောလုံးသော၊ ညီညွတ်သော လက်ချောင်းတော်ရှိသော အဖြစ်။ နီသော လက်သည်း တော်ရှိသောအဖြစ်ကို မြင်စေခြင်းငှာ လက်ဝဲလက်ကိုချလျက် လက်ဖမိုးကိုပြ၍ နေတော်မူသည်။ ။ လက်ဝါးတော်အပြင်၏ နူးညံ့သောအဖြစ်။ ဝင်းဝင်း နီသောအဖြစ်။ ဓမ္မစက္က စသော အရေးရှိသော အဖြစ်တို့ကို မြင်စေလို၍ လက်ယာ လက်ဝါးတော်ကို ပြလျက် နေတော်မူသည်။ ။ ဏေဓိမည်သော သားကဲ့သို့ မြင်းခေါင်းတော်၏ ပြည့်ဖြိုးသောအဖြစ်၊ ဖမျက်တော်၏မြင့်သောအဖြစ်ကို မြင်စေလို၍ ခြေတော်ကို တင်လျက်နေတော်မူသည်။ တစ်ရာ့ရှစ်ကွက် စက်လက္ခဏာဖြင့် မှတ်အပ်သော ဖဝါးတော်ရှိသော အဖြစ်၊ ရွှေခြေနင်းကဲ့သို့ ညီညွတ်သော အပြင်ရှိသော အဖြစ်၊ အစဉ်လှသော ခြေချောင်းတော် ရှိသော အဖြစ် စသည်ကိုမြင်စေလို၍ ဖဝါးနှစ်ဖက်ကို ပြလျက် နေတော်မူသည်။ ။ ရင်၊ ညှပ်ရိုး၊ ပခုံး၊ လက်ရုံးတည်းဟူသော ခုနစ်ပါးသောအရာ၌ ပြည့်ဖြိုးသောအဖြစ်ကို မြင်စေလို၍ လက်ကနဲတော့တင်လျက်နေတော်မူသည်။ ဆဒ္ဒန်ဆင်မင်း၏ နှာမောင်းနှင့်

တူသော ပြေပြစ်သော လက်ရုံးတော်ရှိသောအဖြစ်။ ရှည်သော လက်ရုံးတော်ရှိသော အဖြစ်ကို မြင်စေလို၍ လက်ရုံးတော်ကိုဆန့်လျက် နေတော်မူသည်။ ။ ဤသို့ နေသောကြောင့် ဤမျှလောက်သော လက္ခဏာကို မြင်ကုန်သောသူတို့သည် ဘုရား စင်စစ်ဟူ၍ သိသဖြင့် အလွန်ကြည်ညိုကြ၍ ဆည်းကပ်ကိုးကွယ်ခြင်းသို့ ရောက်ကုန် သည်ဟု ဆရာမွန် ဆရာမြတ်တို့ မိန့်ဆိုကုန်သည်။

ထိုစကားသည် ကျမ်းဂန်၌ အရိပ်အမြွက်ထင်ပါ၏လော ဟူငြားအံ့။ ထင်၏ ဟူပေ။ ဘယ်သို့ ထင်သနည်းဟူမူကား။ သာဝတ္ထိပြည်၏အနီး နီဂုံးကြီး၌နေသော ကောသလမင်း၏ဆရာ သောဏဒန္တပုဏ္ဏားသည် တပည့်အမ္ဗဋ္ဌလုလင်ကို စေ၍ မဟာပုရိသ လက္ခဏာနှင့် ပြည့်စုံမည် မပြည့်စုံမည်ကို ကြည့်စေသည်။ ပြည့်စုံကြောင်း ကို မြင်၍ ပြန်ပြောလျှင် ထိုသောဏဒန္တပုဏ္ဏားသည် လျင်စွာလာ၍ သရဏဂုံယူသည်။ ပေါက္ခရသာတိပုဏ္ဏားလည်း လက္ခဏာနှင့် ပြည့်စုံကြောင်းကို ကြား၍ မိမိကိုယ်တိုင် လာလျက် ကြည့်ရှုသဖြင့် ပြည့်စုံဟန်ကို မြင်လျှင် ဘုရားရှင်ထံသို့ ကပ်၍ သရဏဂုံ ယူသဖြင့် သောတာပန် ဖြစ်လေသည်။ သေလပုဏ္ဏားလည်း တပည့်သုံးရာနှင့်တကွ ကိုယ်တိုင်လာ၍ ကြည့်ရှုသဖြင့် သဗ္ဗညုလက္ခဏာကို မြင်လျှင် အလွန်ကြည်ညို၍ ကိုယ်တော်မြတ်ထံ၌ တောင်းပန်၍ ရဟန်းပြုလေသည်။ ဗာဝရီပုဏ္ဏားလည်း အဇိတ အမှူးရှိသောတပည့်ကြီး တစ်ကျိပ်ခြောက်ယောက်တို့ကိုစေ၍ သုံးဆယ့်နှစ်ပါးသော လက္ခဏာကိုကြည့်စေသည်။ ရောက်သော် တရားတော်ကိုနာသဖြင့် ရဟန္တာချည်း ဖြစ်ကြလေကုန်သည်။ ဗြဟ္မာယု ပုဏ္ဏားလည်း ဥတ္တရလုလင်ကို လွှတ်၍ ကြည့်စေသည်။ ထိုဥတ္တရလုလင်ကား ခုနစ်လတိုင်တိုင် အပါးတွင် စောင့်၍ကြည့်သည်။ အလုံးစုံကိုမြင်ရ၍ ဆရာအား ပြန်ပြောသောအခါ ကိုယ်တိုင်လာ၍ ခြေမတော်ကို ခံတွင်းဖြင့်ငုံ၍ သရဏဂုံယူလေသည်။ မကြာမြင့်မီ အနာဂါမ်တည်လေသည်။ ဤအကြောင်းများကို ဒီဃနိကာယ်အမ္ဗဋ္ဌသုတ်။ မဇ္ဈိမနိကာယ် သေလသုတ်။ ဗြဟ္မာယုသုတ် ပါဠိတော်, အဋ္ဌကထာတို့၌ လာသည်။ ထို့ကြောင့် ဆရာမြတ်တို့၏ စကားသည် ပရမ္ပရလဒ္ဓေါ ပဒေသဖြစ်၍ ဂင်္ဂါရေနှင့် ယမုနာ ရေမခြား မပြားသကဲသို့ ကျမ်းဂန် အလာနှင့် လွန်စွာညီညွတ်သော စကားဖြစ်ပေသည်။ ထို့ကြောင့် ယခုထုလုပ်သော ဆင်းတု တင်ပျဉ်ခွေသကဲ့သို့ သက်တော်ထင်ရှားရှိသော ဘုရားသခင်လည်း ခွေတော်မူ၏ ဟူ၍ပင် သိရမည်။

❖❖❖❖❖

## ၉၇၄။ ကုသကိုအဉ်၊ ပဘာကြဉ်၊ ကံလျဉ်ပါကြောင်း ဘယ်သို့နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အတီတေ ကိရ ဗာရဏသိဒွါရဂါမေ။ ပ။ ပုပ္ဖကမ္မဿ ဝသေန ဝိရူပေါ အဟောသိ။ သာစ တံ နက္ခုစ္ဆတိ။** ဟူ၍ ဇင်းဇာတ်အဋ္ဌကထာ၌ လာသည်။

**အဓိပ္ပာယ်ကား**။။ရှေးလွန်လေပြီးသောအခါ ဗာရာဏသီပြည်၏ တံခါးဝ ဖြစ်သော ရွာ၌ ခရီးမ၏ လက်ယာအိမ်တန်းမှ အမျိုးကောင်းတစ်ဦး။ လက်ဝဲအိမ်တန်းမှ အမျိုးကောင်း တစ်ဦးတို့သည် နေကြကုန်၏။ ထိုနှစ်ဦးတို့တွင် လက်ယာအိမ်တန်း နေသောသူ၌ သားညီနောင် နှစ်ယောက်၊ လက်ဝဲအိမ်တန်း၌ နေသောသူ၌ သမီး တစ်ယောက်သည် ရှိ၏။ အရွယ်ရောက်သောအခါ ညီနောင်နှစ်ယောက်တွင် အစ်ကို ဖြစ်သောသူနှင့် ထိုမိန်းမ ငယ်သည် သင့်မြတ်၍ ညီဖြစ်သောသူလည်း မယားမရှိဘဲ အစ်ကိုအိမ်၌နေ၏။ ထိုညီငယ်ကား ငါတို့ ဘုရားအလောင်းတော်ပင်တည်း။ တစ်ရံသောအခါ ထိုအိမ်၌ အလွန်အရသာရှိသော မုန့်တို့ကိုလုပ်၍ သုံးဆောင်ကြ၏။ ထိုအခါ ဘုရားအလောင်း တောသို့ သွားလေသည်နှင့် အိမ်ရှင်မိန်းမသည် မတ်၏ အလို့ငှာ မုန့်ကိုအတန်ငယ်ထား၍ ကြွင်းသော မုန့်တို့ကို သူတစ်ပါးတို့နှင့် ဝေဖန်၍ စားသောက်ကြ၏။ စားပြီးစအခါဝယ် အရှင်ပစ္စေက ဗုဒ္ဓါတစ်ပါးသည် အိမ်ဝ၌ ဆွမ်းရပ်လာ၏။ ထိုအခါ အိမ်ရှင်မိန်းမသည် မတ်အလို့ငှာ ထားသောမုန့်တို့ကို နောက်မှလုပ်၍ ပေးတော့အံ့ဟု ကြံလျက် အရှင်ပစ္စေက ဗုဒ္ဓါအား လှူလိုက်၏။ ထိုအခိုက်တွင် မတ်ယောကျ်ားလည်း တောမှပြန်ရောက်လာသော် အိမ့်ရှင်မ သည် ဤသို့ဆို၏။ အမောင်၊ သင်၏အဖို့ဖြစ်သော မုန့်တို့ကို အရှင်ကောင်းအား ကျွန်ုပ်လှူ လိုက်ပြီ။ ဝမ်းမြောက် ဝမ်းသာရှိပါလော့။ အမောင့်အဖို့အရာကို ဖြည်းဖြည်းမှ ကျွန်ုပ်လုပ်၍ ပေးပါအံ့ဟု ဆို၏။ ထိုအခါ မတ်ကလည်း ငါ့အဖို့ဖြစ်သောမုန့်ကို လှူရာ သလောဟုဆို၍ ရှင်ပစ္စေကဗုဒ္ဓါအား လိုက်၍တောင်း၏။ ရလျှင်အတန်ငယ် နှိုက်၍စား၏။ အိမ့်ရှင်မိန်းမလည်း အလွန်နှလုံးမသာလျက် မိခင်အိမ်သို့တက်၍ စကားပန်းအဆင်းကဲ့သို့ ဝင်းလှသော ထောပတ်ကိုဆောင်ပြီးလျှင် အရှင်ပစ္စေကဗုဒ္ဓါ၏ သပိတ်တော်၌ အပြည့်လောင်း၍ ဤသို့ဆုတောင်း၏။ အရှင်ဘုရား၊ ဤဒါန၏ အကျိုးအားဖြင့် အကျွန်ုပ်သည် ဖြစ်လေရာရာ ဘဝ၌ပင် ဝင်းဝင်းတောက်ပသောကိုယ်၏ အရောင်ကို ဆောင်သော မိန်းမသည် ဖြစ်ရပါလို၏။ ဤသူတော် မဟုတ်သော ယောကျ်ားယုတ်နှင့်လည်း တစ်ရပ်ကွက်၊တစ်မြို့၊ တစ်နိုင်ငံတွင်းမှာ မဖြစ်ရပါလိုသောဟု ဆုတောင်း၏။ ထိုစကားကို ကြားသော် မတ်ယောကျ်ားကလည်း အတန်ငယ်စားမိသော မုန့်ကို အရှင်ပစ္စေကဗုဒ္ဓါအား ပြန်၍ ကပ်လှူပြီးလျှင် အရှင်ဘုရား၊ အကျွန်ုပ်သည် ဤကောင်းမှုကြောင့် ဖြစ်လေရာ၌ ကုဋ္ဌာသယ ဟူသမျှကို တောင်းတတိုင်းပြည့်အောင် ဆောင်နိုင်သော ယောကျ်ားမြတ် ဖြစ်စေသော။ ယူဇနာတစ်ရာ၊ နှစ်ရာခြားသော အရပ်၌ပင်နေသော်လည်း ဤမိန်းမကိုယူ၍ ခြေရင်း၌ အလုပ်အကျွေး ပြုနိုင်သည် ဖြစ်စေသောဟု ဆုပတ္တနာ၏။ ယင်းသို့ ဆုတောင်း သောကြောင့် မတ်ယောကျ်ားသည် ကုသမင်း၊ မရီးသည် ပဘာဝတီ ဖြစ်သောအခါ လွန်စွာအလိုမရှိခြင်းဖြစ်၍ ရေကန်၌ တပ်အပ်မြင်လျှင် ဖဲကြဉ်၍ ပြေးလေသတည်း။ ပစ္စေကဗုဒ္ဓါ၏ သပိတ်သို့ ရောက်ပြီးသော မုန့်ကိုယူ၍ ထွင်းကာ စားဖူးသော မကောင်းမှု အကျိုးကြောင့် မျက်နှာမလှ

ဒုမ္မုခဖြစ်သတည်း။ တစ်ဖန် ကြည်ညိုသော စိတ်ဖြင့် လျှ၍ ဆုတောင်းပြန်သောကြောင့် ပဘာဝတီကို ရအောင် ဆောင်နိုင်ပြန်သတည်း။

❖❖❖❖❖

## ၉၇၅။ နန္ဒမူလျှင်၊ စပ်ခါယှဉ်၊ မဉ္ဇူပင်ပေါင်း ဘယ်မျှနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တတ္ထေဝ၊ ထိုဂန္ဓမာဒနတောင်၌ပင်လျှင်။ နန္ဒမူလကံနာမ၊ နန္ဒမူလက အမည်ရှိသော။ ပဗ္ဘာရံ၊ ဂူလိုဏ်သည်။ ပစ္စေကဗုဒ္ဓါနံ၊ ပစ္စေကဗုဒ္ဓါ အရှင်တို့၏။ ဝသနောကာသော၊ နေရာအရပ်တည်း။ ဂုဟာယော၊ လိုဏ်တို့သည်။ သုဝဏ္ဏဂုဟာ၊ ရွှေလိုဏ်လည်းကောင်း။ မဏိဂုဟာ၊ ပတ္တမြားလိုဏ် လည်းကောင်း။ ရဇတဂုဟာ၊ ငွေလိုဏ်လည်းကောင်း။ ဣတိ၊ ဤသို့။ တိသော၊ သုံးပါးတို့တည်း။ တတ္ထ၊ ထိုသုံးပါးတို့တွင်။ မဏိဂုဟာဒွါရေ၊ ပတ္တမြားလိုဏ်၏ တံခါးဝ၌။ မဉ္ဇူသကောနာမရုက္ခော မဉ္ဇူသကမည်သော သစ်ပင်သည်။ ဥဗ္ဗေဓေန၊ အမြင့် အစောက်အားဖြင့်။ ယောဇနံ၊ တစ်ယူဇနာ။ ဝိတ္ထာရေန၊ အနံအားဖြင့်။ ယောဇနံ၊ တစ်ယူဇနာသည်။ အတ္ထိ၊ ရှိ၏။ သော၊ ထိုမဉ္ဇူသက သစ်ပင်သည်။ ယတ္တကာနိ၊ အကြင်မျှလောက် ကုန်သော။ ပုပ္ဖါနိ၊ ပန်းတို့သည်။ ဥဒကေဝါ၊ ရေ၌လည်းကောင်း။ ထလေဝါ၊ ကြည်း၌ လည်းကောင်း။ ပုပ္ဖန္တိ၊ ပွင့်ကုန်၏။

ဤသို့ သာရတ္ထဒီပနီ ဋီကာ၊ သာရတ္ထသင်္ဂဟ ကျမ်းတို့၌ မဉ္ဇူသကမည်သော သစ်ပင်သည် ပတ္တမြားဂူဝတွင် ရှိကြောင်းကိုသာ ဆိုသည်။ ပင်ပေါင်းဘယ်မျှ ရှိသည်ဟူ၍ မဆို။ ယင်းသို့ မဆိုသော်လည်း ကျွန်းဦးသပြေပင်သည် ကျွန်း၏ မင်္ဂလာနိမိတ်အလို့ငှာ တစ်ပင်သာရောက်သကဲ့သို့ ဟိမဝန္တာ၏ နိမိတ်မင်္ဂလာအလို့ငှာ တစ်ပင်သာရှိသည်ဟု ယူမှတ်သင့်၏။

❖❖❖❖❖

## ၉၇၆။ ဝမ်းတွင်းအောင်းစဉ်၊ ဝီထိယှဉ်၊ ပဥ္စဒွါရ ကျလိမ့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အမိဝမ်းတွင်း၌ ကိန်းအောင်းစဉ်အခါဝယ် ပဥ္စဒွါရဝီထိ မကျဘဲ၊ ဘုရားလောင်း စသည်တို့အား မနောဒွါရဝီထိကျ၏။ တစ်ပါးသော ပုဂ္ဂိုလ်တို့အား မနောဒွါရဝီထိမျှမကျ ဟူပေ။

ဘယ်ကိုထောက်၍ ဆိုသနည်းဟူငြားအံ့–

တထာ ဟိ လောကိယ မနုဿာ မာတုကုစ္ဆိယံ ပဋိသန္ဓိ ဂဏှန္တာ စ ဝသန္တာစ နိက္ခမန္တာ စန ဇာနန္တိ။ သမ္ဗုဒ္ဓါဟောန္တိ။ စရိမဘဝိကာနံယေဝ

**ဗောဓိသတ္တာနံ မာတုကုစ္ဆိယံ ဩက္ကမနေ တတ္ထ ဝါသေ နိက္ခမနေစာတိ တီသု ကာလေသု သမ္ပဇာနနာ ဟောတိ။**

အစရှိသည်ဖြင့်လာသော သာရတ္ထသင်္ဂဟပါဠ်ကိုထောက်၍ သိရာ၏ဟူပေ။

**အနက်ကား။** ။ တတော တံဝစနံ၊ ထိုစကားကို။ ဟိ၊ ထင်စွာ ဆိုလိုက်ဦးအံ့။ လောကိယမနုဿာ၊ လောကီဖြစ်သော လူတို့သည်။ မာတုကုစ္ဆိယံ၊ အမိဝမ်း၌။ ပဋိသန္ဓိဂဏှန္တာစ၊ ပဋိသန္ဓေယူသည်တို့ကိုလည်းကောင်း။ တတ္ထ၊ ထိုအမိဝမ်း၌။ ဝသန္တာစ၊ နေရသည်တို့ကိုလည်းကောင်း။ နိက္ခမန္တာစ၊ ဖွားသည်တို့ကိုလည်းကောင်း။ န ဇာနန္တိ၊ မသိကုန်။ သမ္မူဠှာ၊ ပြင်းစွာ တွေဝေကုန်သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။ စရိမဘဝိကာနံ၊ အဆုံးစွန်သောဘဝ၌ ဖြစ်ကုန်သော။ ဗောဓိသတ္တာနံယေဝ၊ ဘုရားလောင်းတို့အား သာလျှင်။ မာတုကုစ္ဆိယံ၊ အမိဝမ်းသို့။ ဩက္ကမနေ၊ သက်ဝင်ခြင်း၌လည်းကောင်း။ တတ္ထ ဝါသေ၊ ထိုအမိဝမ်း၌ ကျိန်းအောင်းသော အခါ၌လည်းကောင်း။ နိက္ခမနေစ၊ ဖွားသောအခါ၌ လည်းကောင်း။ က္ကတိ၊ ဤသို့။ တီသုကာလေသု၊ သုံးပါးသော အခါတို့၌။ သမ္ပဇာနနာ၊ ဆင်ခြင်နိုင်ခြင်းသည်။ ဟောတိ၊ ဖြစ်၏။

အသီတိမဟာသာဝကာ၊ ရှစ်ကျိပ်သော မဟာသာဝကတို့သည်။ ပဝိသန္တာဝ၊ ဝင်သည်ကိုသာလျှင်။ ဇာနန္တိ၊ သိကုန်၏။ ဝသန္တာစ၊ နေရသည်ကိုလည်းကောင်း။ နိက္ခမန္တာစ၊ ဖွားရသည်ကိုလည်းကောင်း။ န ဇာနန္တိ၊ မသိကုန်။ ဒွေအဂ္ဂသာဝကာစ၊ နှစ်ဦးသော အဂ္ဂသာဝကတို့သည်လည်းကောင်း။ ပစ္စေကဗောဓိသတ္တာစ၊ ပစ္စေကဗုဒ္ဓါ အလောင်းတို့သည်လည်းကောင်း။ ပဝိသန္တာစ၊ ဝင်သည်ကိုလည်းကောင်း။ ဝသန္တာစ၊ နေသည်ကိုလည်းကောင်း။ ဇာနန္တိ၊ သိကုန်၏။ နိက္ခမန္တာ၊ ဖွားသည်တို့ကို။ န ဇာနန္တိ၊ မသိကုန်။

ဗောဓိသတ္တာ ပန၊ ဘုရားလောင်းတို့သည်ကား။ အန္တောကုစ္ဆိဂတော၊ မယ်တော်ဝမ်း၌ နေရလတ်သော်။ မာတရံ၊ မယ်တော်ကို။ န ပဿန္တိ၊ မမြင်ကုန်။ ဟိ ကသ္မာ၊ အဘယ့် ကြောင့်နည်းဟူမူကား။ အန္တောကုစ္ဆိယံ၊ ဝမ်းတွင်း၌။ စက္ခုဝိညာဏံ၊ စက္ခု ဝိညာဉ်သည်။ န ဥပ္ပဇ္ဇတိ၊ မဖြစ်။

ဟူ၍လည်း မဟာပဓာနသုတ် အဋ္ဌကထာ၌ တိုက်ရိုက်လာသည်။

ထို့ကြောင့် အမိဝမ်း၌ နေရသောသူအား ပဋ္ဌဒွါရဝီထိမကျ။ ဝင်သည်ကိုလည်းကောင်း။ နေရသည်ကိုလည်းကောင်းသိသော ဘုရားလောင်းတို့၌သာ မနောဒွါရဝီထိကျ၏ဟု သိရသည်။

❖❖❖❖❖

## ၉၇၇။ မဖွားမီစဉ်၊ ကုသိုလ်ယှဉ်၊ အယဉ်ဝမ်းတွင် ဖြစ်လိမ့်နည်း။(၅)

ဟူသော် အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒါန၊ သီလ၊ ဘာဝနာ၊ အပစာယန၊ ဝေယျာဝစ္စ၊ ပတ္တိဒါန၊ ပတ္တာနုမောဒန၊ ဓမ္မဿဝန၊ ဓမ္မဒေသနာ၊ ဒိဋ္ဌိဇုကမ္မ တည်းဟူသော ပုညကိရိယာဝတ္ထုတို့ကို အာရုံပြု၍

ဖြစ်သော ကုသိုလ်စိတ်မှုကား ဝမ်း၌ကိုန်းရသော သူဟူသမျှမဖြစ်။ ပဋိသန္ဓေနေသည်ကို လည်းကောင်း၊ ဖွားသည်ကိုလည်းကောင်း သိတော်မူသော ဘုရားလောင်း စသည် တို့၌ကား ကုသိုလ်စိတ်ဖြစ်၏။ ဘယ့်ကြောင့်နည်းဟူမူ ထိုပုဂ္ဂိုလ် တို့သည် မဟာကုသိုလ် စိတ်ဖြင့်သာလျှင် ထိုအခြင်းအရာကို သိလေသောကြောင့်တည်း။ ဝမ်း၌မဖွားမီ စုတေ့ရသောသူအား မရဏာသန္နဇောသည် ဖြစ်သင့်ရကား ထိုဇော၌ ကုသိုလ်စိတ်သော် လည်းကောင်း၊ အကုသိုလ်စိတ်သော်လည်းကောင်း ဖြစ်သင့်၏။ ယင်းသို့ ဖြစ်သင့် သော်လည်း ကျမ်းဂန်၌ တိုက်ရိုက်မပြသောကြောင့် မုချမဆိုသာ ဖြစ်သည်။

◆◆◆◆◆

## ၉၇၈။ ဗောဓိပင်ပျဉ်၊ မြစ်နေရဉ်၊ အလျှဉ်ဘယ်မျှ ကွာသနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အထ ဗောဓိသတ္တော နေရဉ္ဇရာယ တီရေ သုရဘိကုသုမအလင်္ကတေ နီလောဘာသေ မနောရမေ့ သာလဝနေ ဒိဝါဝိဟာရံ ကတွာ သာယန္ဟသမယေ ဒေဝတာ ဟိ အလင်္ကတေန အဋ္ဌုသဘဝိတ္တာရေန မဂ္ဂေန မိဂိန္ဒသီဟော ဝိယ ဝိဇမ္ဘမာနော နရသီဟော ဗောဓိရုက္ခာဘိမုခေါ ပါယာသိ။**

ဟူ၍ ဗုဒ္ဓဝင်အဋ္ဌကထာ၌ လာသည်။

**အဓိပ္ပာယ်ကား။** ။ ဘုရားလောင်းသည် နေရဉ္ဇရာမြစ်၏အနီး ကောင်းသော ရနံ့ရှိသော ပန်းတို့ဖြင့် ထက်ဝန်းကျင်တန်ဆာဆင်အပ်သော စိမ်းညိုသော အရောင်ရှိသော နှလုံးမွေ့လျော် ဖွယ်ရှိသော အင်ကြင်းတောကြီး၌ နေ့သန့်တော်မူ ပြီးသော် ညချမ်းသောအခါ နတ်တို့သည် တန်ဆာဆင်အပ်သော ရှစ်ဥသဘကျယ်သော လမ်းဖြင့် ခြင်္သေ့မင်းကဲ့သို့ တင့်တယ်စံပယ်စွာ မဟာဗောဓိမဏ္ဍိုင်သို့ ရှေးရှုကြွတော်မူ၏ ဟူလိုသည်။

ဝိနည်းမဟာဝါပါဠိတော် အဋ္ဌကထာ၊ အပဒါန်အဋ္ဌကထာစသည်တို့၌လည်း ဤနည်းတူသာလာသည်။ ဘယ်မျှလောက် ခရီးကွာသည်ဟူ၍ မလာ။ ဗောဓိ–ဝိဘာဝနီ ၌ကား နေရဉ္ဇရာမြစ်နှင့် ဗောဓိပင်သည် တစ်ဂါဝုတ်ကွာသည်ဟု လာ၏။

◆◆◆◆◆

## ၉၇၉။ ပစာယနယှဉ်၊ ကြီးသုံးစဉ်၊ တလျှဉ်မဖြစ် ဘယ့်ကြောင့်နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကြီးသောသူတို့၌ ရိုသေခြင်းသည် အပစာယန ကုသိုလ်ဖြစ်၏ဟူရာ၌ ကြီးခြင်းသည် သီလဂုဏ်, ပညာဂုဏ်, သမာဓိဂုဏ်ဖြင့် ကြီးခြင်းတည်းဟူသော

ဂုဏဝုမို၊ အသက်အရွယ်ဖြင့်ကြီးခြင်း တည်းဟူသော ဝယဝုမို၊ ဤနှစ်ပါးတို့၌ ရှိသေခြင်းသာလျှင် အပစာယန ကုသိုလ်ဖြစ်၏။ အမျိုးအရိုးကြီးခြင်း၊ စည်းစိမ်ကြီးခြင်း ရှိသော မင်းတို့၌ ရှိသေခြင်းသည် အပစာယနကုသိုလ်မဖြစ်။ ထိုသို့ မဖြစ်ခြင်းသည် ဘယ့်အကြောင်း ကြောင့်နည်းဟု မေးလိုသည်။ ဇာတိဝုမုဖြစ်သောမင်းတို့ကို ရှိသေခြင်းကား ကြောက်၍ သော်လည်းကောင်း၊ ဆုလာဘ်ကို လို၍သော်လည်းကောင်း ရှိသေခြင်းဖြစ်သည်။ ကုသိုလ် ကြောင့် ကောင်းသော နှလုံးသွင်းဖြင့် ရှိသေသည်မဟုတ်။ ထို့ကြောင့် အပစာယန ကုသိုလ်မဖြစ် ဟူပေ။ ။ အဘိဓမ္မာဂဏ္ဌိပုဒ်။

◆◆◆◆◆

၉၈၀။ ပဥ္စဝိညာဉ်၊ တစ်ဆယ်လျှဉ်၊ ရုပ်စဉ်မပေး ဘယ့်ကြောင့်နည်း။။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ရူပဇနနေ ဝိသေသပစ္စယေဟိ ဈာနင်္ဂေဟိ သမ္ပယောဂါဘာဝတော ဒွိပဉ္စဝိညာဏာနိ ရူပံ န ဇနေတိ။**

ဟူသော ဋီကာကျော်နှင့်အညီ ရုပ်ကိုဖြစ်စေခြင်း၌ ထူးသောအကြောင်း ဖြစ်ကုန်သော ဈာနင်တို့နှင့် ယှဉ်ခြင်းမရှိသည်၏ အဖြစ်ကြောင့် ဒွေပဥ္စဝိညာဉ် တစ်ဆယ်တို့သည် စိတ္တဇရုပ်ကို မဖြစ်စေတတ်သည်ဟု မှတ်ရမည်။

◆◆◆◆◆

၉၈၁။ နံ့သာကျောင်းယဉ်၊ ဆောက်စိုက်စဉ်၊ သဗ္ဗညုရောက်ဘယ်မျှနည်း။။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သတ္တာပိ၊ မြတ်စွာဘုရားသည်လည်း။ တတ္ထ၊ ထိုတန်ဆောင်းဝန်း ကျောင်းတော်၌။ အာရဗ္ဘကာလတော၊ အားထုတ်စ ကာလမှ။ ပဋ္ဌာယ၊ စ၍။ ပရိဘောဂံ၊ သုံးဆောင်ခြင်းကို။ အကာသိကိရ၊ ပြုတော်မူသလျှင်ကတည်း။ ။ ပုဏ္ဏောဝါဒသုတ် အဋ္ဌကထာ။ ။ ပရိဘောဂံ အကာသီတိ အနေကဝါရံ အာဂန္တွာ တတ္ထ ဝိဟရတိ။ ဟု ဋီကာတို့၌ မိန့်သည်။

ထိုကိုမှီ၍ သီလဝံသထေရ်မြတ်လည်း တံတားဦးတည်၌–

နံ့သာကျောင်းဝယ်၊ ကျိုန်းအောင်းဘုန်းကြီး၊ ဆုံးမပြီးလျှင်၊ မပြီးမချင်း၊ လုပ်စဉ်တွင်း၌၊ သေဌ်နင်းခေါက်ခေါက်၊ ကြိမ်ကြိမ်ရောက်၏။ ဟူ၍ စပ်ဆိုသည်။ အကြိမ်ဘယ်မျှဟု မပါချေ။

◆◆◆◆◆

## ၉၈၂။ မင်းစီးဆင်ယာဉ်၊ သင့်စီလျဉ်၊ ငါးစဉ်အင်္ဂါ ဘယ်သို့နည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သောတာ၊ ဆိုသောစကားကို နားလည်တတ်သည်။ ဟန္တာ၊ သတ်ထိုက်သော သူကို သတ်တတ်သည်။ ရက္ခိတာ၊အရှင်ကိုစောင့်တတ်သည်။ ခန္တာ၊ ရန်ကိုခံတတ်သည်။ ဂန္တာ၊ လျင်စွာသွားတတ်သည်။ ဣမေ၊ ဤအင်္ဂါငါးပါးတို့သည်။ ဟတ္ထိယာနဿ၊ ဆင်ယာဉ်၏။ အင်္ဂါ၊ အင်္ဂါတည်း။ အင်္ဂုတ္တရ ပဥ္စက နိပါတ်ပါဠိ။

◆◆◆◆◆

## ၉၈၃။ မင်းစီးမြင်းယာဉ်၊ အင်္ဂါယှဉ်၊ သုံးစဉ်ရှိ၏ အဘယ်နည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဝဏ္ဏသမ္ပန္နာ၊ တင့်တယ်သောအဆင်းနှင့် ပြည့်စုံသည်။ ဇဝနသမ္ပန္နာ၊ လျင်မြန်ခြင်းနှင့် ပြည့်စုံသည်။ အာရောဟပရိဏာဟဝါ၊ လုံးရပ်သဏ္ဍာန်နှင့် ပြည့်စုံသည်။ ဣတိ၊ ဤသုံးပါးတို့သည်။ ဟယင်္ဂါ၊ မြင်း၏ အင်္ဂါတို့တည်း။

◆◆◆◆◆

## ၉၈၄။ မြို့တန်ဆာစဉ်၊ ခုနစ်လျဉ်၊ ယှဉ်ရန်မည်သို့ မည်ညာနည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**သေိကာ ပရိခါစေဝ၊ အနုမတ္တာဝုဓံ ဗလံ။**
**ဒေါဝါရိကော စ ပါကာရော၊ ပရိက္ခာရာပုရဿိမေ။**

**သေိကာ၊** တံခါးတိုင်လည်းကောင်း။ ပရိခါစေဝ၊ ကျုံးလည်းကောင်း။ အနုမတ္တာ၊ သူရဲရှိ, သူရဲပြေးလည်းကောင်း။ အာဝုဓံ၊ လက်နက်လည်းကောင်း။ ဗလံ၊ ဗိုလ်ပါရဲမက် လည်းကောင်း။ ဒေါဝါရိကော စ၊ တံခါးမှူး, တံခါးစောင့် လည်းကောင်း။ ပါကာရော၊ မြို့ရိုးတံတိုင်းလည်းကောင်း။ ဣမေ သတ္တာ၊ ဤခုနစ်ပါးတို့သည်။ ပုရဿ၊ မြို့၏။ ပရိက္ခရာ၊ တန်ဆာတို့တည်း။ ရာဇနီတိ။

◆◆◆◆◆

## ၉၈၅။ ရိမဒ်ပြည်ယှဉ်၊ သင့်စီလျဉ်၊ မင်းစဉ်ဥမျိုး ဘယ်မျှနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဖြူစောထီးမှစ၍ ရွှေအုန်းသီးတိုင်အောင် မင်း ကိုးဆက်။

◆◆◆◆◆

**၉၈၆။ တဂိုဏ်းနှစ်လျဉ်၊ ဇ ဂိုဏ်းယှဉ်၊ ခေါ်စဉ် ဘယ်ဂါထာတို့နည်း။(၁၄)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဣန္ဒာဒိကာ တာ ဝဇိရာ ဇ ဂါ ဂေါ။**

ဟူ၍ ဝုတ္တောဒယမိန့်သောကြောင့် တ, ဂိုဏ်းနှစ်ခု၊ ဇ, ဂိုဏ်းတစ်ခု၊ ဂရုနှစ်ခု ရှိသောဂါထာသည် ဣန္ဒဝဇိရာဂါထာမည်သည်။

❖❖❖❖❖

**၉၈၇။ ဝိစယယှဉ်၊ ဟာရလျဉ်၊ ပဥ္စာဝိစယ ဘယ်သို့နည်း။(၁၅)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

နေတ္တိ၌ အကျယ်လာ၏။ ဤမှာထုတ်၍ ကျေးဇူးမများလောက်ပြီ။

❖❖❖❖❖

**၉၈၈။ လူပျိုနာစဉ်၊ ရိမယှဉ်၊ မချဉ်တမြစ် ဘယ်ဆေးနည်း။(၁၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကုလားမျက်စိ၊ ခေါ်ဘိမြစ်ရေ၊ ကျိုသောက်ပေက၊ ရိဋ္ဌေ ရိဖြူ၊ ရိနီမှုလည်း၊ မြူမငြိတွယ်၊ ချမ်းသာလွယ်၏။ ။ ဆေးလင်္ကာ။

❖❖❖❖❖

**၉၈၉။ ဘာလက်ဆွဲစဉ်၊ ဆင်နှင့်ယှဉ်၊ တမျဉ်ဥပါယ် ဘယ်မင်းနည်း။(၁၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဥပရာဇာကြီးဟူပေ။ ။ ရာဇဝင်၌ ထင်ရှားရှိ၏။

❖❖❖❖❖

**၉၉၀။ ကာလသုံးစဉ်၊ စပ်သုံးလျဉ်၊ ဝဲယဉ်စသည် ဘယ်သို့နည်း။(၁၈)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကာလသုံးစဉ်၊ ဝဲယဉ်သုံးထပ်၊ အစပ်သုံးခု၊ စတုသင်္ခေ၊ တွက်ရေဝီသ၊ အာကာရဖြင့်၊ ပဋိစ္စမြတ်၊ သမုပ္ပါဒ်ကို၊ ဟောမှတ်လေးတွဲ့။ ဟိတ်ဖိုချဲ့၍၊ တဆဲ့နှစ်အင်၊ ဒွါဒသင်နှင့်၊ ညွှန့်ရှင်ကျိုးစက်၊ အဆက်ဆက်မှ၊ လွတ်ထွက်နိုင်ကြောင်း၊ ကောင်းသားလုံ့လ၊ အားထုတ်ကြလျက်၊ မြစ်မနှစ်မွှာ၊ နုတ်ဖြတ်

ခွါ၍၊ အညာနိဗ္ဗာန်၊ ရွှေပြည်မွန်သို့၊ ဆန်အံ့ရင်းတည်၊ စူးစူးရည်သည်၊
မလည် မသုန်၊ မဟာဂုဏ်သို့-

ဟူ၍ သံဝရပျို့၌ စပ်သည်ကိုမှီ၍လည်းကောင်း၊ ပဋိစ္စသမုပ္ပါဒ်ကို အကျဉ်း အကျယ် အသွယ်သွယ်ထုတ်ကြသည်ကို မှီ၍လည်းကောင်း သိလွယ်သည်ဖြစ်၍ မဖြေပြီ။

''အဉ်'' ကာရန်ပုစ္ဆာ ၁၈-ပုဒ်အဖြေပြီး၏။

## (၃၂) ''အဉ်'' ကာရန်ပုစ္ဆာ ၃-ပုဒ်အဖြေ

### ၉၉၁။ စူဠနီတဉ်၊ နွဲ့ခိုက်စဉ်၊ ရှော့အဉ်ချော့သည် ဘယ်သူနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

စူဠနီမင်းသားနွဲ့သည်ကို မဒ္ဒရာဇ်မင်း၏ သမီးတော်ဖြစ်သော နန္ဒာဒေဝီသည် ချော့ဖူး၏ ဟူပေ။

အကြောင်းအမွှက်ကို ဆိုလိုက်ဦးအံ့-

စူဠနီမင်း၏ ခမည်းတော်ကား မဟာစူဠနီ မင်းတည်း။ မယ်တော်စလာကဒေဝီ သည် စူဠနီမင်းသားကိုဖွား၍ ပြေးသွားနိုင်သောအခါ ဝမ်းမှာ တိခိဏမင်းသားကို သန္ဓေရှိလျက် ဆဗ္ဗိပုဏ္ဏားနှင့် မှားယွင်းစပ်ရှက်ကြ၍ ခင်ပွန်းဖြစ်သော မဟာစူဠနီမင်းကြီး စားဖွယ် ထမင်းဝယ် အဆိပ်ခတ်၍ သတ်လေ၏။ သတ်ပြီးသော် ဆဗ္ဗိပုဏ္ဏားကို ထီးနန်းနှင်းလျက် မင်းပြုစေ၏။ တစ်နေ့သ၌ စူဠနီမင်းသားသည် မယ်တော်အား စားဖွယ်မုန့်တောင်း၍ စားနေသည်တွင် ယင်တို့သည် ချိုသောအရသာကြောင့် များစွာ လာ၍ ကိုယ်၌လည်းကောင်း၊ မုန့်၌လည်းကောင်း အုံသည်ကို မင်းသားသည် ယင်၊ မအုံစိမ့်သောငှာ လက်မှရှိသော ခဲဖွယ်ကို အတန်ငယ်ဖဲ့၍ ကြမ်း၌ အစု အစု ထားပြီးမှ လက်၌ရှိသော ယင်တို့ကို ပုတ်ခတ်၏။ ကြမ်း၌ရှိသော မုန့်၌သာလျှင် အုံကြလေသော် မင်းသားသည် ကောင်းစွာခဲဖွယ်ကိုစား၍ အားရသောအခါမှ လိုရာသို့ ထသွား၏။ ဆဗ္ဗိပုဏ္ဏားလည်း မင်းသား၏ အမူအရာကို မြင်လျှင် ဤမင်းသားကား ယခုအရွယ် ကပင် မိမိလက်၌ ယင်ကိုမျှမနားစေဘဲ ခဲဖွယ်စား၏။ နောင်အရွယ် ရောက်သောအခါ ဤထီးနန်းစည်းစိမ်ကို ငါ့အားမပေးလတ္တံ့။ ထို့ကြောင့် ဤမင်းသားကို ယခုက ဖျောက်ဖျက်မှ ရန်ငြိမ်းအံ့ဟု ကြံပြီးလျှင် မိဖုရားကြီး စလာကဒေဝီအား ပြောဆို၏။ စလာကဒေဝီလည်း ပုဏ္ဏားစကားကို ကြားလျှင် အရှင်မင်းကြီး၊ သားပင် ဖြစ်သော် လည်း ချစ်သောလင်၏ ရန်သူကိုမွေးမြူ၍ အကျိုးမရှိ။ သို့ရာတွင် သူတစ်ပါး မသိ ရအောင်သာ ကွျန်ုပ်ဖျောက်ပါအံ့ဟု ဝန်ခံ၏။ ယင်းသို့ ဝန်ခံပြီးလျှင် ဥပါယ်တံမျဉ်၌ လိမ္မာသော ပညာရှိမိန်းမဖြစ်၍ စားတော်ကဲကို ခေါ်ပြီးသော် အမောင် စားတော်ကဲ၊ ငါ့သား စူဠနီသည် သင်၏သား ဓနုသေခနှင့် တစ်နေ့တည်း ဖွားဖက်လည်း ဖြစ်၏။ ချစ်ခင်သော သူငယ်ချင်းကစားဖက်လည်း ဖြစ်၏။ ယခုငါ့သားကို ဆဗ္ဗိပုဏ္ဏားသည်

သတ်လိုသော အကြံရှိ၏။ ထို့ကြောင့် ငါ့သား၏ အသက်ကို သင်စောင့်ပါဟု ဆို၏။ စားတော်ကဲကလည်း ကောင်းပါပြီ။ ကျွန်တော် စောင့်ပါမည်။ အရှင်မိဖုရား စီရင်တိုင်း ပြုပါမည်ဟု ဝန်ခံလျှင် မိဖုရားက ဤသို့ဆို၏။ အမောင် စားတော်ကဲ၊ စူဠနီကို သင်၏အိမ်သို့ ခေါ်၍သင့်သား ဓနုသေခနှင့်အတူ နှစ်ရက် သုံးရက် နေစေပြီးသော် အိမ်ပေါ်၌ ဆိတ်ရိုးတို့ကိုစုထား၍ အများအိပ်ပျော်ချိန်ဖြစ်သော ညဥ့်အခါ၌ အိမ်ကို မီးတိုက်၍ သူတစ်ယောက်မျှ မသိစေဘဲ သူငယ်နှစ်ယောက်ကို ခေါ်၍ နိုင်ငံတစ်ပါးသို့ ထွက်သွားပါလေ။ နိုင်ငံတစ်ပါးသို့ ရောက်သောအခါလည်း ငါ့သား စူဠနီကို မင်းသား ဖြစ်သည်ဟု မပြောလေနှင့်။ သင်၏ သားသာ ပြောပါလေဟု ဆို၍ ထိုစားတော်ကဲအား အဖိုးများစွာ ထိုက်သောဥစ္စာနှစ်တို့ကို ပေးလိုက်၏။ စားတော်ကဲလည်း မိဖုရားဆိုတိုင်း အလုံးစုံကို ပြုပြီးလျှင် မဒ္ဒရာဇ်တိုင်း၊ သာဂလမြို့သို့ ထွက်ပြေးလာသဖြင့် ရောက်သော အခါ မင်းကြီးထံ၌ ခစားလေ၏။ သာဂလမင်းလည်း ယုံကြည်မြတ်နိုးသဖြင့် စားတော်ကဲ ဟောင်းကိုချ၍ စူဠနီမင်း၏ အထိန်းကိုပင် စားတော်ကဲအရာ၌ တင်ပေ၏။ သူငယ် နှစ်ယောက်တို့ စားတော်ကဲနှင့်အတူ နေ့တိုင်း နန်းတော်သို့ လိုက်ကြ၏။ တစ်နေ့သ၌ သာဂလမင်းကြီးသည် ဤသို့မေး၏။ စားတော်ကဲ၊ ဤသူနှစ်ယောက်သည် အဘယ် သူ၏ သားနည်းဟု မေး၏။ စားတော်ကဲက လည်း အကျွန်ုပ်သားချည်း ဖြစ်ပါသည်ဟု လျှောက်၏။ သင်၏သား ဟူသော် အသွင်သဏ္ဌာန် မတူကြတကားဟု ဆိုပြန်လျှင် အရှင်မင်းကြီး၊ အမိ ခြားသောကြောင့် တူပါသည်ဟု လျှောက်၏။ မင်းကြီးလည်း စားတော်ကဲ၏ စကားကိုယုံမှတ်လျက် သင်၏သား နှစ်ယောက်ကို ငါ၏ နန်းတော်သို့ မပြတ်နေ့တိုင်း ဝင်ရောက်ခစားစေဟု ဆို၏။ သူငယ်တို့လည်း ယင်းသို့သော အမိန့် အတိုင်းဝင်၍ ခစားရသဖြင့် အကျွမ်းဝင်ကြ လေသော် နန်းတော်၌ မင်း၏သမီးနှင့် အတူ ကစားကြရကုန်၏။ ထိုအခါ စူဠနီမင်းသားနှင့် မဒ္ဒရာဇ်မင်းသမီးတို့သည် မပြတ်တွေ့မြင်ရခြင်းကြောင့်လည်းကောင်း၊ အရွယ်ရောက်ဦးစ ဖြစ်ကြသောကြောင့် လည်းကောင်း၊ ကံပါရမီ ဆုံညီသောသူ ဖြစ်ကြသောကြောင့်လည်းကောင်း အချင်းချင်း ယှက်ကူး၍ နှစ်ဦးစလုံးစိတ်ထဲ၌ ရည်ငံကြ၏။ နန်းတော်တွင်း၌ စူဠနီမင်းသားသည် ဂျင်ကစားသည်ရှိသော် မဒ္ဒရာဇ် မင်းသမီးကိုသာလျှင် ဂျင်ကောက်စေ၏။ ကျည်းသား ခုံညင်းကစားသော်လည်း မင်းသမီးကိုသာ ကောက်ချေစေ၏။ ကောက်ချေစေ၍မျှ မကောက်လျှင် မင်းသမီး၏ထိပ်ကို လက်ဝါးဖြင့် ပုတ်ခတ်၏။ မင်းသမီးလည်း ငို၍ သာနေသည်။ မည်သို့မျှ မပြန်မဆို။ မင်းသမီးငိုသံကို ကြား၍ အထိန်းက ဘယ့်ကြောင့် ငိုသနည်း။ ဘယ်သူ တိုက်ခတ်သနည်းဟု မေးလျှင် ဤသူ ငါ့ကိုပုတ်ခတ်သည်ဟု ပြောလျှင် ငါ့ကြောင့် ထိုသူ မင်းဒဏ်သင့်ရာလေတော့မည်ဟု မိမိနှင့်ထပ်တူ ချစ်ခြင်း ရှိသည်ဖြစ်၍ မပြောဆိုဘဲ လွှဲဖယ်၍သာ ငါ့အလိုလို ဆူးထိ၍ ငိုသည်။ ခလုတ်ထိ၍ ငိုသည်ဟု ပြော၏။ တစ်နေ့သ၌ စူဠနီမင်းသားသည် ဂျင်ကစားရာတွင် မင်းသမီးကို ဂျင်ကောက်ချေဟုစေ၏။ မင်းသမီးလည်း အချစ်ယုံ၍ မသွားဘဲနေလျှင် မင်းသမီး၏ ထိပ်ကို လက်ဝါးဖြင့် ပုတ်ခတ်၏။ ထိုသို့ ပုတ်ခတ်သည်ကို မဒ္ဒရာဇ်မင်းမြင်သော်

ဤသူငယ်ကား မကြောက်မရွံ့ အလွန်ရဲရင့်၏။ စားတော်ကဲနှင့်လည်း မတူ။ ရှုချင်စဖွယ် တင့်တယ်သောအဆင်းလည်းရှိ၏။ စားတော်ကဲသားမဟုတ်။ မျိုးကောင်း ဆွေကောင်း၏ သားစစ်ဖြစ်ရာသည်ဟု ကြံ၏။ ထိုနေ့မှစ၍ မဒ္ဒရာဇ်မင်းသည် စူဠနီမင်းသားကို အထူးသဖြင့် ကြည့်ရှုသိမ်းပိုက်၏။ တစ်နေ့သ၌ မင်းသမီးကစား၍ နေရာတွင် အထိန်းတော်တို့သည် အချိုအချဉ် မုန့်ခဲဖွယ် တို့ကိုသွား၍ ပေး၏။ မင်းသမီးလည်း ကစားဖော်ဖြစ်ကုန်သော သူငယ်တို့အား မုန့်ခဲဖွယ်ကို မိမိလက်ဖြင့် ဖဲ့၍ ဝေ၏။ တစ်ပါးသော သူငယ် သူငယ်မ တို့သည် ပုဆစ်တုပ်လျက် မျက်နှာကို အောက်ချ၍ ခံကြရကုန်၏။ စူဠနီမင်းသားကာ မယူဘဲနေ၏။ မင်းသမီးက ရော့ အဥ်ဟု ကမ်းလျှင် မင်းသမီး၏ လက်တွင်ရှိသော မုန့်ကိုလု၍ အတူရပ်လျက်စား၏။ မဒ္ဒရာဇ်မင်းလည်း ထိုသို့ ပြုသည်ကိုမြင်သော်လည်း မည်သို့မဆို မမြင်ယောင်ပြု၍သာနေ၏။ တစ်နေ့သ၌ ဂျင်ကစားလတ်သော် မင်းသား၏ ဂျင်သည် မင်းကြီး၏ အိပ်ရာအောက်သို့ ဝင်လေသော် ဤပစ္စန္တရစ်မင်း၏ အိပ်ရာအောက်သို့ ငါဘယ့်ကြောင့် လျှိုးဝင်ရအံ့နည်းဟု ဆို၍ ပြင်ကနေလျက် တုတ်လုံးတံဖြင့် ထုတ်ယူ၏။ ထိုအမူအရာကို မင်းကြီးမြင်လေသော် ဤသူငယ်ကား စင်စစ် စားတော်ကဲ၏ သားမဟုတ်ဟု မြဲမြံစွာမှတ်ပြီးလျှင် စားတော် ကဲကို ခေါ်၍ ဤသူငယ်ကား ဘယ်သူ၏ သားနည်းဟု မေး၏။ စားတော်ကဲကလည်း အရှင်မင်းကြီး၊ ကျွန်ုပ်သားပင် ဖြစ်ပါသည်ဟု လျှောက်လျှင် သင်၏သား မဟုတ် ကြောင်းကို ငါအတတ်သိပြီ။ ဘယ့်ကြောင့် ငါ့ကို လှည့်ပတ်သနည်း။ မှန်တိုင်း သင်လျှောက်လော့။ မှန်တိုင်း မလျှောက်လျှင် သင်၏ အသက်ကို ဤသန်လျက်သွားတွင် ကုန်စေအံ့ဟု ဆို၍ သန်လျက်ကိုမိုး၏။ ထိုအခါမှ စားတော်ကဲလည်း အရှင်မင်းကြီး၊ ကျွန်ုပ်မှန်တိုင်း လျှောက်ပါမည်။ ဆိတ်ကွယ်ရာကိုသာ ပေးတော်မူပါဟု ခွင့်တောင်း၏။ ထိုအခါ မဒ္ဒရာဇ်မင်းလည်း စားတော်ကဲကို ဆိတ်ကွယ်ရာသို့ ခေါ်ပြီးလျှင် သင် မှန်တိုင်း လျှောက်လော့ဟု ဆို၏။ စားတော်ကဲလည်း မိမိ၏ လည်းကောင်း၊ သူငယ်၏ လည်းကောင်း ဘေးမဲ့ဆုကို တောင်းပြီးလျှင် အရှင်မင်းကြီး၊ ဤသူငယ်ကား ပဉ္စလ ရာဇ်ပြည်ကို အစိုးရသော မဟာစူဠနီမင်းကြီး၏ သားပါတည်း။ မယ်တော် စလာက ဒေဝီမိဖုရားသည် မင်းကြီးကိုပယ်ရှား၍ ဆဗ္ဗိပုဏ္ဏားကို နန်းတင်လေသဖြင့် မင်းသားကို သတ်မည်ပြုရာတွင် အသက်ကိုစောင့်ခြင်းငှာ ကျွန်ုပ်ထွက်ပြေး လာရပါသတည်းဟု အခြင်းအရာအလုံးစုံကို မင်းကြီးအား လျှောက်ထား၏။ မဒ္ဒရာဇ်မင်းလည်း ထိုနေ့မှ စ၍ စူဠနီမင်းသားအား ကောင်းစွာပြုစု သိမ်းပိုက်၍ ဆယ့်ခြောက်နှစ် အရွယ်သို့ ရောက်သောအခါ သမီးတော် နန္ဒာဒေဝီနှင့် ထိမ်းမြားလေ၏။

ဤအတ္တုပ္ပတ္တိကို မဟော်ဇာတ် အဌကထာတွင် လာသည်ဖြစ်၍ ကျည်းကန် ဆရာ ပြဿနာပြုလေသည်။ ထို့ကြောင့် မုန့်ကို ရော့ အဥ်ပေး၍ ချော့သောသူကား နန္ဒာဒေဝီ မင်းသမီးဟု သိရမည်။

❖❖❖❖❖

**၉၉၂။ အစွန်းလျှဉ်လျှဉ်၊ နေ့နှင့်ညဉ်၊ ရှဉ့်စာဘယ့်ကြောင့် ပေးသနည်း။(၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရှေးသောအခါ ရာဇဂြိုဟ်ပြည်ကို အစိုးရသော မင်းတစ်ယောက်သည် မောင်းမ မိဿံ အရံကျေးကျွန်နှင့်တကွ ဥယျာဉ်သို့ထွက်၍ ကစားပျော်ပါးသတည်း။ ထိုမင်းသည် မင်္ဂလာရှိသော သစ်ပင်ကြီးတစ်ပင်အောက်၌ ခင်းထားအပ်သော ကျောက်ဖျာထက်ဝယ် အိပ်စက်၍ နေသောအခါ ကျေးကျွန်သင်းပင်းတို့လည်း မင်းအိပ်သော အခိုက်ဖြစ်၍ ထိုမှဤမှ သွားလာကြသည်တွင် မြွေဟောက်တစ်ကောင်သည် လူသောက် စားသော သေ၏အနံ့ဖြင့် ယစ်လျက်နေရာတွင် တွင်းမှထွက်၍ ကြည့်လေသော် ကျောက်ဖျာ ပေါ်တွင် အိပ်သောမင်းကိုမြင်၍ ကိုက်သတ်ခြင်းငှာ ရှေးရှုလာ၏။ မင်္ဂလာ ရှိသော သစ်ပင်၌ စောင့်သော ရုက္ခစိုးသည် ဤမင်း အကျိုးမဲ့သေရှာတော့မည်ဟု သနား၍ မင်း၏ အသက်ကို စောင့်ခြင်းငှာ ရှဉ့်နက်ယောင်ဖြင့်လာ၍ အိပ်ရာသို့ တက်လျက် မင်းကိုလည်း နိုးစေ၏။ မြွေကိုလည်း တားမြစ်၏။ မင်းလည်း ရုတ်ခြည်းထ၍ကြည့်သော် မြွေကိုမြင်သဖြင့် ရှဉ့်နက်ကြောင့် ငါ့အသက်ချမ်းသာပေသည်ဟု ကျေးဇူးတင်ရကား ထိုမှစ၍ ထိုဥယျာဉ်၌ ရှိသော ရှဉ့်နက်တို့ကို နံနက်တစ်ကြိမ်၊ ညတစ်ကြိမ် အစာ ပေးလေသတည်း။ ထို့ကြောင့် ထိုဥယျာဉ်သည် ကလန္ဒက နိဝါပ–ဟု အမည်ရလေ သတည်း။

ထို့ကြောင့် ပါရာဇိကဏ် အဋ္ဌကထာ၌–

**ကလန္ဒကာနံ စေတ္ထ နိဝါပံ အဒံသု၊ တေန ကလန္ဒကနိဝါပေါတိ ဝုစ္စတိ။ ပုဗ္ဗေ ကိရ အညတရော ရာဇာ တတ္ထ ဥယျာနေ ကီဠနတ္ထံ အာဂတော။**

အစရှိသည်ဖြင့် ဆိုလေသည်။

❖❖❖❖❖

**၉၉၃။ ဦးဆံလျှဉ်လျှဉ်၊ ထားမရှဉ့်၊ လျော်စဉ့်ကုန်၏ ဘယ်သူနည်း။(၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကိဋ္ဌဘိယော။

**"အဉ်" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေပြီး၏။**

❖❖❖❖❖

## (၃၃) "အဉ်း" ကာရန်ပုစ္ဆာ ၄–ပုဒ်အဖြေ

**၉၉၄။ တရားတော်မျဉ်း၊ ကုန်အောင်ချဉ်း၊ အကျဉ်းရေတွက် ဘယ်မျှနည်း။(၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**တဒေတံ ဗုဒ္ဓဝစနံ သဗ္ဗံပိ ရသဝသေန ဧကဝိဓံ။ ဓမ္မဝိနယဝသေန ဒုဝိဓံ ဟောတိ။ ပ။**

သဗ္ဗံပိ၊ အလုံးစုံလည်းဖြစ်သော ဘုရားစကားတော်သည်။ ရသဝသေန၊ ကိစ္စ၏ အစွမ်းဖြင့်။ ဧကဝိဓံ၊ ဝိမုတ္တိရသတည်းဟူသော တစ်ခုသောအဖို့ရှိ၏။ ဓမ္မဝိနယဝသေန၊ ဓမ္မဝိနယ၏ အစွမ်းဖြင့်။ ဒုဝိဓံ၊ နှစ်ပါးအပြားရှိသည်။ ဟောတိ၊ ဖြစ်၏။ ပဌမ မဇ္ဈိမ ပစ္ဆိမ ဗုဒ္ဓဝစနဝသေန။ ရှေးဦးစွာသော ဘုရားစကား၊ အလယ်ဖြစ်သော ဘုရားစကား အဆုံးစွန်သော ဘုရားစကား၏အစွမ်းဖြင့်။ တိဝိဓံ၊ သုံးပါးအပြားရှိ၏။ ပိဋက ဝသေန၊ ပိဋကတ်၏ အစွမ်းဖြင့်။ တထာ၊ ထို့အတူ။ တိဝိဓံ၊ သုံးပါးအပြားရှိ၏။ နိကာယဝသေန၊ နိကာယ်၏ အစွမ်းဖြင့်။ ပဉ္စဝိဓံ၊ ငါးပါးအပြားရှိ၏။ အင်္ဂဝသေန၊ အင်္ဂါ၏ အစွမ်းဖြင့်။ နဝဝိဓံ၊ ကိုးပါးအပြားရှိ၏။ ဓမ္မက္ခန္ဓဝသေန၊ ဓမ္မက္ခန္ဓာ၏ အစွမ်းဖြင့်။ စတုရာသီတိသဟဿဝိဓံ၊ ရှစ်သောင်းလေးထောင်အပြားရှိ၏။ ဣတိ၊ ဤသို့။ ဝေဒိတဗ္ဗံ၊ သိအပ်၏။ ။ ပါရာဇိကဏ်အဋ္ဌကထာ။

◆◆◆◆◆

## ၉၉၅။ ခေတ်ပစ္စည်းလျှဦး၊ နှစ်ပါးချဦး၊ ပညတ် ဘယ်သူရသနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပုဓခေတ်၊ တပစ္စည်းချဦးကြ၍ ပုဒ္ဓေါဟု ပုဒ်ပြီးသည်။ ပုဓခေတ်၏အရကား ဉာဏ်၊ တပစ္စည်း၏အရကား ဘုရားဟု သမုတ်အပ်သော သတ္တသန္တာနပညတ်၊ ဒြပ်ဝိသေသကို ရသည်ဖြစ်၍ ပစ္စည်းဖြင့် ပညတ်ရ၏ ဟူပေ။

◆◆◆◆◆

## ၉၉၆။ သူ့ကိုခိုင်းမျဉ်း၊ မကစဉ်း၊ ကံလျဉ်းတွန်းပစ် ဘယ်သူနည်း။(၃)။

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ခိုင်းမျဉ်း''ဟူသော စကားသည် လေးစားခန့်ညားသည်၊ ရွံ့သည်၊ တွန့်သည်ဟု ဆိုလိုပါသည်၊ ''မခိုင်းမျဉ်း''ဟူသော စကားကား မလေးစား၊ မခန့်ညား၊ မရွံ့ မတွန့် ဟူလိုသည်။

ထို့ကြောင့် ရှင်သီလဝံသသည် ဆုတောင်းခန်း၌–

နှုတ်နက်ဆိုတိုင်း၊ သံ့နှယ်ထိုင်း၍၊ မခိုင်းမမျဉ်၊ ထားကောင်းရဉ်သို့၊ ဆိုစဉ်ခဏ၊ အမြွက်ပြကြ၊ မဟစသာ၊ ထုံးနည်းနာကို ၊ မကြာမြေမှု၊ နှုတ်ဝယ်လု၍၊ တစ်ခုမထား၊ သူ့ကိုကြားသည်။ ။ ပုဏ္ဏားဉာဏ ဂမ္ဘီတည်း။ ဟူ၍ စပ်ဆိုသည်။

''မကစဉ်း''ဟူသောစကားလည်း စည်းကမ်းမစောင့် ဆိုလိုသည်။ သူတစ်ထူးကို မလေးမစား စည်းကမ်းမစောင့်ဘဲ ပြုကျင့်မည်ဟု ကြံလျက် ရှေးကံအလျဉ်း တွန်းပစ်၍ မပြုရသည်ကား ဘယ်သူနည်းဟု မေးလိုသည်။ ။ ပသေနဒီကောသလမင်းကြီး ဟူပေ။

ဘယ်သို့ ဖြစ်သနည်းဟူမူကား–

တစ်ရံသောအခါ ကောသလမင်းကြီးသည် တစ်ခုသော သဘင်နေ့၌ ဆင်ဖြူစီး၍ ပြည်လည်လေသော် ပြည်၏တောင်မျက်နှာ၌ သူကြွယ်တစ်ဦး၏ မိန်းမသည် ဘုံခုနစ်ဆင့်ရှိသော ပြာသာဒ်တံခါးဝမှာရပ်လျက် မင်းကိုရှုမျှော်၏။ မင်းလည်း ထိုမိန်းမကိုမြင်လျှင် ကောင်းကင်တိမ်တိုက်မှ ထွက်ထွန်းသော လဝန်းကဲ့သို့ မှတ်၍ တပ်ငြိသောစိတ် ဖြစ်လေရကား နန်းသို့ရောက်သောအခါ လိမ္မာသော အမတ်တစ်ယောက်ကို ဤမည်သော အရပ်၌နေသော သူငယ်မတွင် ခင်ပွန်းရှိသည်မရှိသည်ကို သိအောင်ပြုချေဟု စေလိုက်၏။ အမတ်လည်း စူးစမ်း၍ ခင်ပွန်းရှိကြောင်းကို သိသဖြင့် မင်းကြီးအားလျှောက်သော် ခင်ပွန်းဖြစ်သော သူကြွယ်ကိုခေါ်၍၊ သင်သည် မင်းခယောကျ်ားပြုလော့ဟု ဆို၏။ သူကြွယ်လည်း ဤမင်းသည် ငါ့အားသက်သက်မဲ့ ချီးမြှောက်လိုသည်မဟုတ်။ ငါ့မိန်းမကို ယူရအောင် ငါ့ကို သတ်လို၍သာ ခေါ်သည်ဟု သိရကား အရှင်မင်းကြီး၊ ကျွန်ုပ် မင်းခမပြုလိုပါ။ လုပ်ခွန် သွင်းဆက်၍သာ နေပါရစေဟု ဆို၏။ မင်းကလည်း သင်၏လုပ်ခွန်ကို ငါအလိုမရှိ၊ လူသာခစား လာလှည့်ဟု ဆို၍ လက်နက်လွှားကာတို့ကိုအပ်၏။ သူကြွယ်ယောကျ်ားလည်း များစွာသော သတိဝီရိယတို့ဖြင့် တစ်စုံတစ်ခုမျှ မလစ်ဟင်းရအောင် ရှက်ဆောင်လေ့လာ သောကြောင့် စီရင်ခွင့်ကို မရလေရကား တစ်နေ့သ၌ ဤသို့ဆို၏။

သူကြွယ်–ဤမြို့မှ တစ်ယူဇနာကွာသော မြစ်၏အလယ် ကျွန်းငယ်၌ အရုဏဝတီ မြေနှင့် ကုမုဒြာကြာသည် ရှိ၏။ ထိုမြေနှင့်ကြာကို ငါညချမ်းရေချိုးမီအောင် ဆောင်၍ ပေးရမည်။ မပေးနိုင်လျှင် အပြစ်စီရင်မည်ဆို၏။ ထိုစကားကိုကြားသော် သူကြွယ်လည်း အလွန်ကြောက်လန့်သဖြင့် အိမ်သို့လာ၍ ထမင်းကျက်ပြီလောဟု မေး၏။ မီးဖိုတွင်ချက်ဆဲ ဖြစ်ပါသည်ဟု ဆိုလျှင်၊ ထိုချက်ဆဲသောအိုးကို ယူ၍သွားမည်။ မြစ်သို့ရောက်သော် ကျက်လတ္တံ့ဟုဆို၍ အမြန်သွားလေ၏။ မြစ်နားသို့ ရောက်သော် ခရီးသွား လူတို့အားလည်း ထမင်းအချို့ကို မျှဝေ၏။ မိမိစားပြီးသော ကြွင်းသမျှကိုလည်း ရေနေသတ္တဝါ၊ ကြည်းနေသတ္တဝါတို့ကို ပေးကမ်း၏။ ယင်းသို့ပြုပြီးမှ ကျယ်စွာသော အသံဖြင့် ဤသို့ ဟစ်၏။ ''ဤရေ၌ စောင့်နေကုန်သော ရေနတ်နဂါးအပေါင်းတို့– ကျွန်ုပ်သည် အိမ်၌နေသောအခါ သံဃာတော်တို့ ဆွမ်းခံရာ၌ ဆွမ်းလောင်းရသော ကုသိုလ်ကို လည်းကောင်း။ ယခုခရီးသွား ယောကျ်ားအား ထမင်းကျွေးရသော ကုသိုလ်ကို လည်းကောင်း၊ အမျှယူတော်မူကြပါ။ ကျွန်ုပ်သည် မင်း၏ အာဏာဖြင့် လာရပါသည်။ ကုမုဒြာကြာနှင့် အရုဏဝတီမြေကိုလည်း ရအောင် မစပါကုန်''ဟု ကြွေးကြော်၏။ ထိုအသံကို မြစ်၌နေသော နဂါးမင်းကြား၍ လူအို၏ သဏ္ဌာန် ဖန်ဆင်း၍ လာပြီးလျှင်၊ လုလင်–သင်ကား အဘယ်ကို ဆိုသနည်းဟု မေး၏။ သူကြွယ်လည်း မိမိဟစ်ကြော်သော စကားကိုပင် သုံးကြိမ်တိုင်အောင် ပြန်ပြောလေလျှင်၊

သင်၏ ကောင်းမှုကိုလည်း ငါသာဓု ခေါ်မည်။ သင်လိုသော ကမ္ဗလာကြာနှင့် အရဏဝတီမြေကိုလည်း ယူလေတော့ဟု ပေးလိုက်၏။ သူကြွယ်လည်း အမြန်ပြန်လာလေ၏။

ကောသလမင်းလည်း သူကြွယ်ကို စေလိုက်ပြီးနောက် ဤသို့ကြံ၏။ လူတို့မည်သည်ကား များစွာသော ဥပါယ်တံမျဉ်ရှိ၏။ ကြာနှင့်မြေကို အလွယ်တကူရ၍ ပြန်လာသော်ငါမသတ်ရချိမ့်မည်။ မြို့တံခါးကိုပိတ်စေမှ သင့်မည်ကြံ၍ တစ်စုံတစ်ခုသော အရေးရှိသကဲ့သို့ ပရိယာယ်ဆို၍ မြို့တံခါးကို ပိတ်ထားစေ၏။ သူကြွယ်ပြန်လာ၍ မင်းကြီးထံသို့ ဝင်ပါရစေ ဆိုသော်လည်း တံခါးစောင့်တို့က မဖွင့်ဘဲနေလျှင် သူကြွယ်လည်း မင်းကြီးသည် ငါ့ကိုသတ်လို၍ ပြုသည်မှန်ပြီဟု စိတ်ချ၍ရခဲ့သော မြေနှင့် ကြာပန်းကို တံခါးရွက်ဖျား၌ ဆွဲထားခဲ့၍ ပြည်တွင်းသို့ ဝင်ပြီးလျှင်၊ အို ပြည်သူပြည်သားအပေါင်းတို့၊ မင်းကြီးသည်အကျွန်ုပ်ကို အကြောင်းမရှိဘဲ ဖျက်ဆီးလိုချေပြီဟု သုံးကြိမ်ကြွေးကြော်ပြီးမှ ဘုရားကျောင်းသို့သွား၍ အိပ်နေလေ၏။ ကောသလ မင်းကြီးလည်း ညဥ့်ဦးယံ၌ ညောင်စောင်းထက်ဝယ် လျောင်းလျက် ဤသို့ကြံ၏။ သူကြွယ်ကား ယနေ့ ငါ့ထံသို့ မရောက်လာနိုင်ပြီ၊ နက်ဖြန် ရောက်လာ သောအခါ မင်းအာဏာကို လွန်သော အပြစ်နှင့် သတ်ပြီးသော် ညချမ်းအခါ ဤသူ၏ မိန်းမကို နန်းသို့ဆောင်ယူအံ့။ ငါ၏ ဆန္ဒပြည့်တော့မည်ဟု ကြံအောင်းမေ့လျက် အိပ်စက်၍မပျော်ဘဲ သန်းခေါင်ကျော်လေ၏။

ထိုအခါ ယူဇနာ ခြောက်ဆယ်ရှိသော လောဟကုမ္ဘီ ငရဲအိုးမှပွက်၍ အထက်သို့ ပေါ်လာသော ငရဲသူ လေးယောက်တို့သည် အချင်းချင်းကြည့်၍ နောင်တစကား ပြောကြား ခြင်းငှာ တစ်ယောက်တစ်ခါစီ ဆိုလိုလျက် အက္ခရာတစ်လုံးစီမျှသာ ဆိုမိ၍ တစ်ဖန် မြုပ်ပြန်လေသော် ငရဲသားလေးဦးတို့၏ ကြောက်မက်ဖွယ်သော အော်သံကို ကောသလ မင်းကြီး ကြားလေ၏။ မင်းကြီးလည်း ထိုအသံကိုကြားသည်မှစ၍ အလွန် ကြောက်လန့်လျက် ငါ၏အန္တရာယ်ပင်လော၊ ပြည်၏အန္တရာယ်ပင်လောဟု တွေးတောသဖြင့် တစ်ညဥ့်လုံး မအိပ်နိုင်ဘဲလျက် နံနက်မိုးသောက်လေသော် ပုရောဟိတ် ပုဏ္ဏားကိုခေါ်၍၊ ဆရာ၊ ညဥ့်သန်းခေါင်အခါတွင် မဟာပထဝီ၏ အတွင်းမှ ကြောက်မက်ဖွယ်ရှိလှသော ''ဒု, သ, န, သော'' ဟူသောအသံကို ကြားရချေသည်။ ဘယ်သို့ဖြစ်လတ္တံ့နည်းဟု မေး၏။ ပုရောဟိတ် ပုဏ္ဏားကလည်း၊ မင်းကြီး၊ ဤအသံကား အခြားမဟုတ်။ မင်းကြီး၏ လည်းကောင်း၊ မိဖုရားကြီး၏လည်းကောင်း အန္တရာယ် ရောက်အံ့သော နိမိတ်ဖြစ်ချေသည် ဟုဆို၏။ ထိုစကားကိုကြားရသော် ကောသလ မင်းလည်း အတိုင်းထက်အလွန် ကြောက်ရကား၊ ဆရာ၊ ထိုအန္တရာယ်၏ ပျောက်ပြယ်အံ့သောအမှု ရှိပါသလောဟု မေး၏။ ပုဏ္ဏားကလည်း၊ အရှင်မင်းကြီး–အန္တရာယ် ပျောက်ရာသော အကြောင်းကားရှိပါ၏။ သို့ရာတွင် ပြုခြင်းငှာ အလွန် ဝန်လေး၏။ ရှေးမင်းမြတ်တို့သာ ပြုနိုင်ရာ၏ဟုဆိုသော် ကျွန်ုပ်လည်း ပြုပါအံ့။ ပြုဖွယ်ရာကိုသာ ပြောလော့ဟု ဆိုသော် မင်းကြီးဆင်တစ်ရာ။ မြင်းတစ်ရာ။ နွားဥသဘတစ်ရာ။

နို့ညှစ်နွားမတစ်ရာ။ ဆိတ်တစ်ရာ၊ မြည်းတစ်ရာ။ ကြက်တစ်ရာ။ ဝက်တစ်ရာ။ သတို့သမီးငယ်တစ်ရာ။ သတိုးသားငယ်တစ်ရာ ဤသို့ တစ်ထောင်မျှ လောက်သော သတ္တဝါကို သတ်၍ ယဇ်နတ် ပူဇော်မှသာ ထိုဘေးမှ လွတ်ငြိမ်းရာ သတည်းဟု လျှောက်၏။ မင်းကြီးလည်း ထိုစကားကိုကြားသော် မိမိအသက် ချမ်းသာလိုသောကြောင့် မင်းချင်းယောကျ်ားတို့ကိုခေါ်၍ ဤမျှလောက်သော လူသူ, ဆင်, မြင်းတို့ကို ဖမ်းယူ၍ ယစ်တိုင်၌ စုချေဟု စေလိုက်၏။ မင်းချင်းယောကျ်ားတို့လည်း ဥစ္စာအား၊ ကိုယ်အား နည်းသောသူတို့ကို အနိုင်အထက် ဆွဲငင်၍ မြင်း၊ ဆင်၊ ကျွဲ၊ နွား စသည်ကိုလည်း အနိုင် အထက်ယူ၍ ယဇ်တိုင်၏ အနီးတွင် ချည်နှောင်ကာ ထား၏။ ပြည်သူ ပြည်သားတို့သည် များစွာငိုယိုလျက် မြေပြိုမည့်ကဲ့သို့ ဖြစ်လေ၏။

ယင်းသို့အုတ်အုတ်ကျက်ကျက်ဖြစ်သော အသံကို မလ္လိကာဒေဝီကြားလျှင် မင်းကြီးထံပါးသို့ ကပ်၍ အရှင်မင်းကြီး–အဘယ့်ကြောင့် တစ်ပြည်လုံး ကြွက်ကြွက်ဆူမျှ ဖြစ်ရဘိသနည်းဟု မေး၏။ မင်းကြီးကလည်း ညဥ့်သန်းခေါင်ယံအခါ ကြောက်မက်ဖွယ် စွာသော အသံကြီးလေးရပ်ကိုကြား၍ ပုဏ္ဏားတို့ကိုမေးသော် ယဇ်ပူဇော်ရမည် ဆိုသောကြောင့် ယဇ်ပူဇော်ခြင်းငှာ လူသူ, ဆင်, မြင်းစသည်ကို ဖမ်းယူသည်ဟု ပြောလျှင် မလ္လိကာဒေဝီလည်း ဤသို့ဆို၏။ “အရှင်မင်းကြီး ကာသိ၊ ကောသလဟူသော တိုင်းကြီး နှစ်ရပ်ကိုအုပ်ကွပ်စိုးမိုး၍ နေ့တိုင်း၊ နေ့တိုင်း ထမင်းတစ်စရွတ်ချက်ကို စားလေသမျှသည် အသိအလိမ္မာ ပညာပင်မဖြစ်ချေ။ သူငယ်များကဲ့သို့ လှည့်စား တိုင်းပင် ယုံချေသည်၊ ဘယ့်ကြောင့်ဆိုသနည်းဟူမူ။ ဤလောက၌ သူတစ်ယောက်သည် အစားသေသဖြင့် သူတစ်ပါး အသက်ချမ်းသာသည်ကို သင်မင်းကြီးသည် မြင်းဖူး၊ ကြားဖူးပါ၏လော။ ခဲခက်သော အရေးအရာကို မိုက်လှစွာသော ပုဏ္ဏားတို့အား ဘယ့်ကြောင့် မေးဘိသနည်း။ သင်မင်းကြီး၏မြို့၌ အမြဲနေတော်မူသော ပညာရှိ တကာတို့၏ အထွတ်ဖြစ်တော်မူသော မြတ်စွာဘုရား သခင်ကိုသာ လျှောက်သင့်သည် မဟုတ်ပါလော”ဟု ဆို၍ အရှင်မင်းကြီး၊ ယခုပင် ဘုရားသခင်၏ အထံတော်သို့ သွားကြအံ့ဟု တိုက်တွန်း၏။ မင်းကြီးလည်း ရထားပြင်စေ၍ မိဖုရားနှင့်တကွ ကျောင်းတော်သို့သွား၍ ဘုရားရှင်ရှေ့တော်သို့ ရောက်သောအခါ တစ်ခွန်းသော စကားကိုမျှ မဆိုဝံ့။ ရှိခိုးလျက်သာနေလေ၏။ ဘုရားသခင်လည်း မင်းကြီး– ဘယ် အကျိုးငှာ မင်းကြီးတို့လာသနည်းဟု မေး၏။ ထိုအခါ မလ္လိကာမိဖုရားက ဤသို့ လျှောက်၏။ ဘုန်းတော်ကြီးသော အရှင်ဘုရား၊ ညဥ့်သန်းခေါင် အခါတွင် မဟာပထဝီ၏ အတွင်းမှ ကြောက်မက်ဖွယ်ရှိလှသော “ဒု, သ, န, သော” ဟူသော အသံလေးပါးကို မင်းကြီးကြားရသည်ဖြစ်၍ အလွန်ကြောက်သောကြောင့် ပုဏ္ဏားတို့ကို မေးပါသော် တစ်ထောင်ပြည့်သောယဇ်ကို ပူဇော်မှ မင်း၏အသက်ကို ရမည်ဟု ဆိုကြပါသည်။ ထိုစကားကို ကျွန်ုပ်တို့ မယုံနိုင်ပါသောကြောင့် ထိုအသံ၏ အကျိုးအပြစ်ကို သိသာအောင် ကိုယ်တော်မြတ်၏အထံသို့ ခေါ်ဆောင်၍ လာရပါ သတည်းဟု လျှောက်၏။

ထိုအခါ မြတ်စွာဘုရားကလည်း မင်းကြီး–မကြောက်လင့်၊ မစိုးရိမ်လင့်။ သင်၏အန္တရာယ်မဟုတ်။ ရှေးမကောင်းမှုကံကြောင့် ငရဲခံ၍နေရသော သတ္တဝါတို့၏ ဟစ်အော်သံသာတည်း။ ငါဘုရားသည် တစ်ရံတစ်ရံ ကြားတော်မူသည်သာတည်းဟု မိန့်တော်မူ၏။ မကောင်းမှုကြောင့် ခံရသော် ဘယ်ငရဲသူပါနည်းဟု လျှောက်ပြန်လျှင် မင်းကြီး–ရှေးအန္တရကပ်ဆုတ်၍ လူတို့အသက် နှစ်သောင်းနေသောအခါ ကဿပ မြတ်စွာဘုရားသည် ထင်ရှားဖြစ်တော်မူ၍ နှစ်သောင်းသော ရဟန္တာတို့နှင့်တကွ ဗာရာဏသီပြည်၌ နေတော်မူသောအခါ များစွာသော ပြည်သူတို့သည် အလှည့်အလည် အလှူပေးကြကုန်သည်။ ဥပုသ်သီတင်း ဆောက်တည်ကြကုန်သည်။ ထိုအခါ ဗာရာဏသီ ပြည်၌ ကုဋေလေးဆယ်ကြွယ်ဝသော သူဌေးလေးဦးတို့သည် မားသော အယူအကြံ ရှိသည်ဖြစ်၍ ဤပြည်သူ ပြည်သားမိုက်တို့သည် အကျိုးမဲ့ ဥစ္စာ ပြုန်းတီးခြင်းငှာ အလှူပေးကြကုန်၏။ ငါတို့ကား ကိုယ်၏ ဥစ္စာကို ကိုယ်သာ ခံစားအံ့ဟု ကြံ၍ ထက်စွာသော သေရက်ကို သောက်စားပြီးသော် ကချေသဘင်ငှား၍လည်း ပျော်ပါးသည်။ သူ၏သမီး၊ သူ၏မယားတို့ကိုလည်း ပြစ်မှားလွန်ကျူးကုန်သည်။ သမီးရှင် မယားရှင်တို့ အပြစ်ပြုမည် ဟု ကြံလျှင် သေသောက်ကြူးတို့ကို တံစိုးပေး၍ ထိုသူတို့ကို သတ်စေသည်။ ဤသို့သော မကောင်းမှုကံကြောင့် သေလွန်သောအခါ သူကြွယ် လေးယောက်တို့သည် အဝီစိငရဲသို့ ရောက်လေကုန်သည်။ ဘုရားတဖြစ်နှင့်တဖြစ် အကြားကာလပတ်လုံး ထိုငရဲ၌ခံခဲ့ရပြီးမှ ယခုတစ်ဖန် လောဟကုမ္ဘီငရဲ ခံရပြန်သည်။ ထိုငရဲအိုးကား ယူဇနာခြောက်ဆယ် နက်သည်။ မျက်နှာဝမှ နှစ်မြုပ်လေသော် အနှစ်သုံးသောင်းခန့်ရှိမှ အောက်အပြင်သို့ ရောက်သည်။ တစ်ဖန် ပေါ်ခဲ့ပြန်သော် အနှစ်သုံးသောင်းရှိမှပင် မျက်နှာဝသို့ ရောက်၍ ပေါ်သည်။ ယင်းသို့ပေါ်သောအခါ လူ့ပြည်၌ ပြုခဲ့မိသည်ကို သတိရ၍ ဩော်–ငါတို့ကား မားယွင်းသောအကျင့်ဖြင့် အသက်ရှည်မိ၍ အဆုံးမရှိသော ဆင်းရဲကို ခံရချေသည်။ တစ်ဖန် လူ့ပြည်သို့ ရောက်ပါမူကား ကောင်းသောအကျင့်ကိုသာလျှင် ကျင့်ပါတော့မည်ဟု တစ်ဂါထာစီ ရွတ်ဆိုလိုသည်။ ယင်းသို့ ဆိုလိုလျက် အက္ခရာတစ်လုံးစီမျှသာ ဆိုမိ၍ ထိုငရဲ၌ မြုပ်မြဲမြုပ်ပြန်လေသည်ဟု တစ်ခု တစ်ခုသော အက္ခရာကို တစ်ဂါထာစီဖွဲ့လျက် အနက်အဓိပ္ပာယ်ကို ဖော်၍ မိန့်တော်မူပေ၏။

ကောသလမင်းကြီးလည်း ထိုတရားကိုကြားရသော် ကြီးစွာသော သံဝေဂသည် ဖြစ်၏။ သူတစ်ပါး မယားကိုပြစ်မှားခြင်းဟူသော ပရဒါရကံ၊ လူကိုသတ်ခြင်းစသော ပါဏာတိပါတ ကံတို့သည် အလွန်ဝန်လေးလှ၏တကား။ ငါသည် သူကြွယ်မယားကို သိမ်းယူလိုခြင်းကြောင့် သူကြွယ်အား သတ်မိသည်ဖြစ်အံ့၊ ထိုငရဲတို့ကဲ့သို့ မချွတ်ခံရတော့မည်တကားဟု စိတ်ထဲကအောက်မေ့လျက်၊ ဘုန်းတော်ကြီးသော အရှင်ဘုရား– တရားတော်ကို နာရသဖြင့် ကျွန်ုပ်သက်သာရာ ရလေပြီ။ သံသရာရှည်ကြောင်းကို သိရပေပြီဟု ချီးမွမ်းထောမနာလျက် မြတ်စွာဘုရားကိုရှိခိုး၍ ပြန်လေ၏။ ယခင် သူကြွယ်လည်း ချမ်းသာရာရလေ၏။

ဤသို့ ဓမ္မပဒ အဋ္ဌကထာ၌ လာသောဝတ္ထုကိုစွဲ၍ ''သူ့ကိုခိုင်းမျဉ်း၊ မကစဉ်း၊ ကံလျဉ်းတွန်းပစ် ဘယ်သူနည်း''ဟု ပုစ္ဆာပြုသည် ဟူ၍ သိအပ်၏။

❖❖❖❖❖

၉၉၇။ သားမြတ်ဖြန့်ညှဉ်း၊ ကောင်းကင်ကျဉ်း၊ အလျဉ်းဘယ်ဒေါသပေနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**လောကိယတ္ထမတိက္ကန္တံ၊ အတိဝုတ္တံ မတံ ယထာ။**
**အတိသမ္ဗာဓ မာကာသ၊ မေတိဿာ ထနဇမ္ဘနေ။**

လောကိယတ္ထံ၊ လူတို့ဆိုမြဲသောအနက်ကို။ အတိက္ကန္တံ၊ လွန်၍ဆိုအပ်သော။ ယံ ဝါကျံ၊ အကြင်စကားသည်။ အတ္ထိ၊ ရှိ၏။ တံ ဝါကျံ၊ ထိုစကားကို။ အတိဝုတ္တံ၊ အတိဝုတ္တ ဒေါသသင့်သော စကားဟူ၍။ မတံ၊ သိအပ်၏။ ယထာ၊ ဥဒါဟရဏ်ပုံစံကား အသို့နည်း ဟူငြားအံ့။ အတိသမ္ဗာဓ မာကာသမေတိဿာ ထနဇမ္ဘနေ၊ အတိသမ္ဗာဓ။ ပ။ ထနဇမ္ဘနေ– ဟူသည်တည်း။ ။ ဧတိဿာ၊ ထိုသားမြတ်ကြီးသော မိန်းမ၏။ ထနဇမ္ဘနေ၊ သားမြတ်ကို ဖြန့်သည်ရှိသော်။ အာကာသံ၊ ကောင်းကင်ပြင်သည်။ အတိသမ္ဗာဓံ၊ အလွန် ကျဉ်းသေး၏။ သုဗောဓာလင်္ကာရ။

**''အဉ်း'' ကာရန်ပုစ္ဆာ ၄–ပုဒ်အဖြေပြီး၏။**

❖❖❖❖❖

## (၃၄) ''အေ'' ကာရန်ပုစ္ဆာ ၃၃–ပုဒ်အဖြေ

**၉၉၈။ ကိုယ်တော်အရေ၊ အဆင်းရွှေ၊ ထူးလေဘယ်ကောင်းမှုကြောင့်နည်း။(၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**အက္ကောဓနော အဒေါသိ အနုပါယာသဗဟုလော။ ဗဟုမ္ပိ ဝုတ္တော သမာနော နာဘိသဇ္ဇိ န ကုပ္ပိ။**

အစရှိသည်ဖြင့်လာသော ပါဠိတော်နှင့်အညီ ပါရမီဖြည့်တော်မူခဲ့သော ရှေးရှေးသောဘဝတို့၌ သူတစ်ပါးတို့အား အမျက်စောင်းမနန်နည်းသည်။ စိတ်၏ နှောင့်ယှက်ခြင်း မရှိသည်။' များစွာပြောဆိုငြားသော်လည်း သူတစ်ပါးတို့အား စွန်းငြိခြင်းမရှိ။ ပြေပြစ် ချောမောစွာ ဆိုလေ့ရှိ၏။ သီလ ပညာ သမာဓိဂုဏ်နှင့် ပြည့်စုံသော ရှုရဟန်း တို့အားလည်း ရွှင်လန်းကြည်ညိုသောစိတ်ဖြင့် နူးညံ့သိမ်မွေ့သော အခင်းအရုံတို့ကို ပေးကမ်းလှူဒါန်းခဲ့ဖူး၏။ ရွှေအဆင်းကဲ့သို့ ဝင်းဝင်းတောက်သော အဝတ်သင်္ကန်းတို့ကိုလည်း လှူဒါန်းပူဇော်ခဲ့ဖူး၏။ ထိုကောင်းမှုတို့ကြောင့် ရွှေအဆင်းနှင့်

တူသော ကိုယ်တော် အရေရှိခြင်း၊ နူးညံ့သိမ်မွေ့ခြင်း တည်းဟူသော သုဝဏ္ဏစ္ဆဝိလက္ခဏာကို ရတော်မူသည်။

❖❖❖❖❖

## ၉၉၉။ ဝိသေသ်ဝိသေ၊ ကိရိယာနေ၊ နှစ်ထွေကတ္တား ကွဲချိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ကိရိယာဝိသေသန, ကိရိယာဝိသေသသျှ နှစ်ပါးရှိခဲ့သော် ထိုကိရိယာ၏ကတ္တားသည် တစ်ခုတည်းပင်လော။ ကွဲသေးသလောဟု မေးလိုသည်။

ဤပုစ္ဆာ၌ ဉာဏ်နုသော သူတို့ နားလည်စိမ့်သောငှာ အမေးကို ထင်စွာဆိုလိုက်ဦးအံ့-

အဟံ အဘိဝန္ဒိယ ဝက္ခာမိ-ဟူသောပုဒ်တို့၏ ရှိခိုးခြင်း ကိရိယာကို ပြီးစေတတ်သော ကတ္တားကား ကျမ်းပြုဆရာ၏ သဒ္ဓါစေတနာပြဋ္ဌာန်းသော စိတ္တုပ္ပါဒ်တည်း။ ကျမ်းကို ဟောခြင်း ကိရိယာ၏ ကတ္တားကား ကျမ်း၏အနက်အဓိပ္ပါယ်ကို ဆင်ခြင်သော သတိ ဝီရိယ ဉာဏ်ပြဋ္ဌာန်းသော စိတ္တုပ္ပါဒ်တည်း။ ယင်းသို့ စိတ္တုပ္ပါဒ် ကွဲကြရကား သတ္တိဖြစ်သော ကတ္တားလည်း ကွဲသင့်သည်။ ယင်းသို့ ကွဲသင့်လျက် ကျမ်းပဏာမဟူသမျှ၌ အဟံဟူသော ကတ္တားတစ်ပါးကို အဘိဝန္ဒိယ ဟူသော ဝိသေသနကိရိယာ၌လည်းကောင်း၊ ဝက္ခာမိဟူသော ဝိသေသျှ ကိရိယာ၌လည်းကောင်း စပ်ကြကုန်သည်။ ထိုသို့ စပ်ခြင်းသည် ကတ္တားဟူ၍ စပ်သလော။ ကွဲလျက်ပင်စပ်သလော။ ကတ္တားတစ်ပါးတည်းဖြစ်သင့်သလော။ နှစ်ပါး ဖြစ်သင့်သလော မေးလိုသည်။ ။ ကတ္တားတူကြောင်းကို ကစ္စည်းဆရာပင် ''ပုဗ္ဗကာ လေကကတ္တုကာနံ တုန တွာန တွာဝါ''ဟု သုတ်တည်ပြီးဖြေ၊ သတ္တိ မုချေန ကာရကံ- ဟူသည်နှင့်အညီ ကိရိယာနိပ္ဖါဒနသတ္တိသာလျှင် ကတ္တား မည်သည်။ ရှိခိုးခြင်းကိရိယာကို ပြီးစေတတ်သော သတ္တိလည်းတခြား၊ ကျမ်းကိုဟောခြင်း ကြိယာကို ပြီးစေတတ်သော သတ္တိလည်းတခြားမဟုတ်လော။ ယင်းသို့ သတ္တိခြားပါလျက် ရှင်ကစ္စည်းဆရာသည် ဘယ့်ကြောင့်ကေကတ္တုကဟု ဆိုပါသနည်း ဟူငြားအံ့-

**ကိတာချာတဝိသေသျေဟိ၊ ယံ ဝုတ္တံ တံ ပကာသတိ။**
**ဝိသေသနာနုတ္တမပိ၊ ဝုတ္တံ ဝါ ဒဗ္ဗဘေဒတော။**

ကစ္စာယနသာရဖြင့် ဖြေအပ်၏။

ကိတာချာတဝိသေသျေဟိ၊ ကိတ်, အာချာတ်ဖြစ်ကုန်သော ကိရိယာဝိသေသန, ကိရိယာဝိသေသျ တို့သည်။ ယံ ကာရကံ၊ အကြင်အဟံ ဟူသော ကတ္တားကို။ ဝုတ္တံ၊ ဟောအပ်၏။ တံ၊ ထို အဟံ ဟူသော ကတ္တားကို။ ဝိသေသနာ၊ ကိရိယာဝိသေသနသည်။ အနုတ္တမပိ၊ မဟောအပ်သော်လည်း။ ဝုတ္တံဝ၊ ဟောသကဲ့သို့။

ပကာသတိ၊ ထင်ရှား၏။ ကသ္မာ၊ အဘယ့်ကြောင့်နည်းဟူမူကား။ အဒဗ္ဗဘေဒတော၊ ငါဟူသောဒြပ်၏ မပြားသောကြောင့်တည်း။

အဘိဝါဒိယ ဟူသော ကိတ်ကိရိယာသည် စင်စစ်ကားမဟော။ ယင်းသို့ မဟောသော်လည်း ဒြပ်မပြားသောကြောင့် ဟောသကဲ့သို့သာ ဖြစ်၏။ ထို့ကြောင့် ကေကတ္တုကဖြစ်သည်ဟု ဆိုသတည်း။

**တစ်နည်းကား။** ။ ၎င်းကစ္စည်းဆရာတည်သော သုတ်ဟူသမျှသည် ယေဘုယျသို့ လိုက်၍သာ တည်သည်ဖြစ်သောကြောင့် ကိရိယာဝိသေသနနှင့်, ကိရိယာဝိသေသျသည် ကတ္တားတူကြသည်ကားများ၏။ အပ္ပကအားဖြင့် ကတ္တား ကွဲသည်လည်း ရှိသင့်၏။ ပြယုဂ်ကား ''ဇဝနမ္ပိ အနုပ္ပဗ္ဗိတွာ ဒွတ္တိက္ခတ္တုံ ဝေါဋ္ဌဗ္ဗန မေဝပဝတ္တတိ'' အစရှိသည်တည်း။ ဤပါဌ်၌ အနုပ္ပဗ္ဗိတွာ ဟူသော ပုဗ္ဗကာလ ကိရိယာ၏ ကတ္တားကား ဇဝနမ္ပိတည်း။ ပဝတ္တတိ ဟူသော အပရကာလကိရိယာ၏ ကတ္တားကား ဝေါဋ္ဌဗ္ဗနမေဝ တည်း။ ထို့ကြောင့် ကွဲ၏ဟူပေ။ ဤပါဌ်ကို ကေကတ္တုနည်း နှင့် ညီစိမ့်သောငှာ ''ဇဝနဿပိ အနုပ္ပဇ္ဇနတော''ဟု ဝိဘတ်ပြင်၍ ယောဇနာကြသည်။

❖❖❖❖❖

## ၁၀၀၀။ သဇာတာပေ၊ လှူဒါန်းလေ၊ ရွှေခွက် ဘယ်မျှဝင်သနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ထိုရွှေခွက်၏ပမာဏကို ကျမ်းကြီးကျမ်းငယ်တို့၌ပင် မည်မျှလောက်ရှိသည်ဟူ၍ မဆို။ ယင်းသို့ မဆိုသော်လည်း ကိုယ်တော် သုံးဆောင်သောကာလ ထန်းသီးမည့်ပမာဏရှိသော ဆွမ်း ၄၉–လုတ်ဘုဉ်းပေးရသည်။ ထိုမျှသော ဆွမ်းထည့်ရာဖြစ်၍ လူတို့သုံးစွဲသော ခွဲတောင်းပမာဏ ရှိရာသည်။

❖❖❖❖❖

## ၁၀၀၁။ ပဉ္စဝေါကာရေ၊ ရုပ်ဘုံပေ၊ တစ္ဆေဘယ့်ကြောင့် မမြင်သနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပရမတ်ကျမ်းအလိုအားဖြင့် ဝိနိပါတိက အသုရာဟုခေါ်ဝေါ်အပ်သော– သုတ္တန် ကျမ်း အလိုအားဖြင့် ပြိတ္တာဟုခေါ်ဝေါ်အပ်သော တစ္ဆေတို့သည် လူတို့ကဲ့သို့ ရုပ်နာမ်အစုံ ရှိပါလျက် အဘယ့်ကြောင့် လူတို့ မမြင်ရသနည်းဟု မေးသည်။ အဖြေကား– ကိုယ်ကို ကွယ်ပျောက်စေတတ်သော ဆေးကို ဆောင်သောကြောင့် မမြင်ရသည်ဟူပေ။

ဆေးဆောင်ကြောင်းကို အဘယ်ကိုထောက်၍ သိရသနည်းဟူမူကား– သီဟိုဠ်ကျွန်း၊ အနုရာဓမြို့၌ ဘီလူးမတစ်ယောက်သည် သားငယ်နှစ်ဦးတို့ကို ထူပါရာမ တံခါးပြင်၌ နေစေ၍ အစာရှာခြင်းငှာ မြို့တွင်းသို့လာခဲ့ရာ အစာအခန့်သင့် မတွေ့

သည်နှင့် ကြာမြင့်သော် ပိဏ္ဍပါတိကမထေရ်တစ်ဦးသည် မြို့သို့ဝင်အံ့သောငှာ လာသည်ကို မြင်သဖြင့် သူငယ်နှစ်ဦးတို့က ကိုယ်ထင်ပြသလျက် ဤသို့ဆို၏။ အရှင်ဘုရား၊ ကျွန်ုပ် တို့မိခင်သည် မြို့တွင်းသို့ အစာရှာခြင်းငှာ သွားသည်ကြာပါပြီ။ ရသမျှကိုယူ၍ မြန်စွာလာပါ။ သင်၏သားများ ဆာမွတ်လှပြီဟု အရှင်မြတ် မိန့်တော်မူလိုက်ပါဟု လျှောက်၏။ မထေရ်မြတ်ကလည်း သင်တို့မိခင်ကို အဘယ်သို့ သော အကြောင်းဖြင့် ငါမြင်နိုင်၊ သိနိုင်အံ့နည်းဟုဆိုသော် အရှင်ဘုရား၊ ဤဆေးမြစ်ကို ယူ၍ ကြွတော်မူပါဟု ဆေးမြစ်ကို အပ်လိုက်၏။ ပုံသဏ္ဌာန်ကိုလည်း ညွှန်ကြားလိုက်၏။ မထေရ်မြတ်လည်း ဆေးမြစ်ကို ဆုပ်၍ လာလတ်သော် တံမြက်ချေးစွန့်ရာ သားငါး ဖျက်ရာတို့၌ အရာအထောင်မျှလောက် သွားလာနေထိုင်သော ဖုတ် ပြိတ္တာဘီလူးတို့ကို မြင်ရ၏။ သူငယ်နှစ်ဦးတို့၏ မိခင်ဖြစ်သော ဘီလူးမသည်လည်း တစ်ခုသောအိမ်ရိပ်၌ မြှုပ်ထားသောကိုယ်ဝန်၏ အညစ်အကြေး တို့ကိုဖော်ယူ၍ လမ်းသို့ထွက်လာသည်ကို သူငယ်တို့ပြောလိုက်သောအမှတ်ဖြင့် သိလေလျှင် သူငယ်တို့ မှာလိုက်သော အကြောင်းကို ပြော၏။ ဘီလူးမလည်း အရှင်ဘုရား— အကျွန်ုပ်ကို ဘယ့်ကြောင့် မြင်သနည်းဟု မေးလျှင် သင်၏သားတို့ ပေးလိုက်သောဆေးကြောင့် မြင်သည်ဟု ပြော၏။ ဆေးကိုပြစမ်းပါဆို၍ လက်ကိုဖြန့်ပြလေသော် ဘီလူးမသည် ဆေးကိုလုယူပြီးမှ လျင်စွာသွားလေ၏။ ထို့ကြောင့် ထိုသူတို့သည် တစ်ခုသော ဆေးမြစ်၏ အာနုဘော်ကြောင့် ကိုယ်ကိုကွယ်ဝှက်နိုင်သည်ဟု သိအပ်၏ ဟူ၍ မဇ္ဈိမ နိကာယ် အဋ္ဌကထာ၌ မိန့်၏။

ထိုတစ္ဆေတို့၏အကောင်ကို သေသောကာလ မမြင်ရသော အကြောင်းအရာကိုလည်း ရှင်နာဂသိန်၏ စကားတော်ဖြင့် သိအပ်၏။

အကြောင်းကား တစ်ရံသောအခါ မိလိန္ဒမင်းကြီးသည် ဤသို့မေး၏။ အရှင်နာဂသိန်၊ ဤလောက၌ တစ္ဆေ ဖုတ်ပြိတ္တာဟု ခေါ်ဝေါ်အပ်သော နတ်ဘီလူးတို့သည် ရှိပါသေး၏လောဟု မေး၏။ မင်းကြီး ရှိ၏ဟု ဖြေလျှင် အရှင်ဘုရား— ထိုနတ်ဘီလူးတို့ကို ဘယ့်ကြောင့်မမြင်ရသနည်းဟု မေး၏။ မင်းကြီး ဆေး၏အာနုဘော်ကြောင့်လည်းကောင်း မိမိတို့၏ ကမ္မဇိဒ္ဓိကြောင့်လည်းကောင်း မမြင်ရချေ။ အကယ်၍မြင်စေလိုသည်ဖြစ်အံ့။ ပြနိုင်သည်သာတည်းဟု ဖြေ၏။ အရှင်ဘုရား၊ ထိုဘီလူးတို့သည် ထိုဘဝမှ စုတေကြ သေး၏လောဟု မေးပြန်၏။ မင်းကြီး စုတေကြသေးသည်သာတည်း ဟုဖြေ၏။ အရှင်ဘုရား၊ ထိုဘီလူးတို့ စုတေသောအခါ ဆေးကိုလည်း မဆောင်နိုင်ရာပြီ။ ကိုယ်အကောင်သည် ဘယ့်ကြောင့် မထင်ပါသနည်း။ ပုပ်သောရနံ့သည် ဘယ့်ကြောင့် မနံပါသနည်းဟု မေး၏။ မင်းကြီး၊ ထိုဘီလူးတို့ စုတေသောအခါ ကိုယ်အကောင်လည်း ထင်၏။ ပုပ်သော ရနံ့လည်း နံ၏။ သို့ရာတွင် အကြင်ဘီလူးတို့ စုတေအံ့သောအခါ ကျန်ရစ်သော ဆွေမျိုး တို့ကို လူမသိစိမ့်သောငှာ တစ်ခုသော မနောမိဋ္ဌာန်ဖြင့် သေကြ၏။ ထို့ကြောင့် ပိုးရွ သဏ္ဌာန်ဖြင့်လည်းကောင်း ကင်မြီးကောက်သဏ္ဌာန်၊ ကင်းခြေများသဏ္ဌာန်၊

ပုတ်သင်၏ သဏ္ဌာန်ဖြင့်လည်းကောင်း။ သမင်၏သဏ္ဌာန်၊ ငှက်၏သဏ္ဌာန်ဖြင့် လည်းကောင်း အသေကောင်ထင်လေသတည်းဟု ဖြေ၏။

ထိုဖုတ်ပြိတ် ဘီလူးတို့သည် ပဋိသန္ဓေအားဖြင့် အချို့ကား အဟိတ်၊ အချို့ကား ဒွိဟိတ်၊ အချို့ကား တိဟိတ် ပဋိသန္ဓေနေကုန်၏။ အချို့ကား သံသေဒဇ အချို့ကား ဂဗ္ဘသေယျက၊ အချို့ကား ဥပပတ်ပင်တည်း။

ထို့ကြောင့် သာရတ္ထသင်္ဂဟ၌–

**ပေတာနန္တိ ပေတလောကပရိယာပန္နာနံ ဒုက္ကဋ္ဌကမ္မကာရိကာနံ ဝိဘာဝနံ။**

**ပေတာ ဟိ ဒွိဟေတုက တိဟေတုကာ ဟောန္တိ။** စသည်ဖြင့် မိန့်တော်မူသည်။

❖❖❖❖❖

၁၀၀၂။ **နှုးညံ့လက်ခြေ၊ သုံးလူ့ဆွေ၊ ပြုလေ ဘယ်ကုသိုလ်ကြောင့်နည်း။(၅)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**စတူဟိ သင်္ဂဟဝတ္ထူဟိ မဟာဇနံ သင်္ဂဟိတော အဟောသိ။**

အစရှိသောပါဠိနှင့်အညီ– ပါရမီဖြည့်ခဲ့သော ရှေးရှေးသောဘဝတို့၌ ဒါန၊ အတ္ထ စရိယာ၊ ပိယဝါစာ၊ သမာနတ္တတာ ဟူသော သင်္ဂဟဝတ္ထုလေးပါးတို့ဖြင့် များစွာသော လူအပေါင်းတို့အား သင်္ဂြိုဟ်ထောက်ပံ့ခြင်းကို ပြုတော်မူဖူး၏။ ထိုကောင်းမှုကြောင့် မုဒုဟတ္ထပါဒဟူသော လက္ခဏာကို ရတော်မူသည်။

❖❖❖❖❖

၁၀၀၃။ **သင်တင့်ရပ်နေ၊ ပေါင်းမိတ်ဆွေ၊ သည်နေဘယ်အနက်ဟောနည်း။ (၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကေမန္တိ နိသီဒတိ ဟူသော ပုဒ်၏ အရပင်ဖြစ်ရကား နေသဒ္ဒါသည် နိသီဒန အနက်ကိုဟော၏ဟူပေ။

❖❖❖❖❖

၁၀၀၄။ **လေးအသချော်၊ ဖြည့်၍နေ၊ သည်နေမှုကား မည်သို့နည်း။(၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကြာမြင့်ခြင်းတည်းဟူသော စိရကာလ အနက်ကိုဟော၏။ ဤလောက၌လည်း တစ်စုံတစ်ခုသော ကိစ္စကြောင့် ကြာမြင့်သောသူကို ''သင် နေလွန်းသည်''ဟု ဆိုရိုးရှိသတည်း။ မယားနေသည်၊ လင်နေသည်ဟူသော စကား၌နေသဒ္ဒါကား ရှေးရှုဆောင်ခြင်း အနက်ကိုဟော၏။ ဖြစ်ခိုက်ဖြစ်နေဟူသောစကား၌ နေသဒ္ဒါကား ဖြစ်ဆဲ–ဆဲ ဟူသော ဝတ္တမာန်အနက်ကိုဟော၏။

❖❖❖❖❖

၁၀၀၅။ ပြည်လက် ပြည်ခြေ၊ သည်နှစ်ထွေ၊ မြဲနေဘယ်သို့ ဆိုပိမ့်နည်း။(၈)

ဤအမေးပုစ္ဆာ၏ အဖြေဝိသဇ္ဇနာကို အထက် ''အယ်'' ကာရန် ပုစ္ဆာနံပါတ် ၁၀၀-တွင် ဖြေဆိုခဲ့ပြီ။

❖❖❖❖❖

၁၀၀၆။ ပြည်ဦးကင်းပေ၊ မှတ်ကြလေ၊ ခေါ်ထွေ မည်ပုဂ္ဂိုလ်ပေနည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- အမတ်ကြီးသည် ပြည်၏ ဦးကင်းမည်၏။

❖❖❖❖❖

၁၀၀၇။ ကေဝဋ္ဋောပေ၊ ပါဠိရှိလေ၊ သည်ကေ ဘယ်အနက်ဟောသနည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ကေ ဥဒကေ မစ္ဆဂဟဏတ္ထာယ ဝဋ္ဋတိ ပရိဗ္ဘမတီတိ ကေဝဋ္ဋော။**

ယော နေသာဒေါ၊ အကြင်တံငါသည်။ ကေ ဥဒကေ၊ ရေ၌။ မစ္ဆဂဟဏတ္ထာယ၊ ငါးကိုဖမ်းခြင်းအကျိုးငှာ။ ဝဋ္ဋတိ ပရိဗ္ဘမတိ၊ လှည့်လည်တတ်၏။ ဣတိ၊ ထို့ကြောင့်။ သော နေသာဒေါ၊ ထိုတံငါသည်။ ကေဝဋ္ဋော၊ ကေဝဋ္ဋမည်၏။

ဤသို့ ကေက္ခရကောသဋီကာ မိန့်ရကား ကေဝဋ္ဋော၌ ကေသဒ္ဒါ - ရေဟူသော အနက်ကို ဟော၏။

❖❖❖❖❖

၁၀၀၈။ ယောဂိနော ခေ၊ သည်အနေ၊ယင်းခေ ဘယ်အနက်ဟောသနည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

> ယောဂိနော၊ ကမ္မဋ္ဌာန်းစီးဖြန်းခြင်းနှင့် ယှဉ်သောရဟန်းတို့သည်။ ခေ၊ ဆိတ်ငြိမ်ရာ အရပ်၌။ အဘိရမန္တိ၊ အလွန်မွေ့လျော်ကုန်၏။ ဤသို့ အနက်ရှိရကား ခေသဒ္ဒါကား ဆိတ်ငြိမ်ရာဟူသော အနက်ကိုဟော၏။

> **ကတ ပုညာ ရတာ ခမို၊ ဝိညာဏာ ခေ သုနိဿိတာ။**
> **ပက္ခိနော ခမိ ဝစ္ဆန္တိ၊ ခမိစ္ဆန္တိ ဒုက္ခဋ္ဋိတာ။**
> **ယောဂိနော ခေ ဘိ ရမန္တိ၊ ဘမရာ ဝံသခေ ရတာ။**

ကတပုညာ၊ ပြုအပ်သော ကောင်းမှုရှိကုန်သော သူတို့သည်။ ခမို၊ နတ်ပြည်၌။ ရတာ၊ မွေ့လျော်ကုန်၏။ ဝိညာဏာ၊ စက္ခုအစရှိကုန်သော ဝိညာဏ်ခြောက်ပါးတို့သည်။ ခေ၊ စက္ခုန္ဒြေအစရှိသော ပသာဒရုပ်၌။ သုနိဿိတာ၊ ကောင်းစွာမှီကုန်၏။ ပက္ခိနော၊ ငှက်တို့သည်။ ခမို၊ ကောင်းကင်၌။ ဂစ္ဆန္တိ၊ သွားကုန်၏။ ဒုက္ခဋ္ဋိတာ၊ ဆင်းရဲဖြင့် နှိပ်စက်သော သူတို့သည်။ ခံ၊ ချမ်းသာကို။ ဣစ္ဆန္တိ၊ အလိုရှိကုန်၏။ ယောဂိနော၊ ကမ္မဋ္ဌာန်းစီးဖြန်းသော ရဟန်းတို့သည်။ ခေ သုညေ၊ ဆိတ်ငြိမ်ရာအရပ်၌။ အဘိရမန္တိ၊

မွေ့လျော်ကုန်၏။ ဘမရာ၊ ပျားပိတုန်းတို့သည်။ ဝံသခေ၊ ဝါးလုံး၏ အတွင်း၌။ ရတာ၊ မွေ့လျော်ကုန်၏။

ခသဒ္ဒါ၏အနက်ကိုပြသော ကေက္ကရကောသဋီကာဂါထာကို ဆောင်လေသည်။

❖❖❖❖❖

## ၁၀၀၉။ ဖွတ်သားစားစေ၊ ချမ်းသာပေ၊ စွဲလေ ဘယ်အနာတို့နည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဘဂဏ္ဍလာ၊ မြင်းသရိုက်အနာကို။ ဝါ၊ အသားထွက်သော အနာရှိသောသူကို။ ဂေါဓမံသံ၊ ဖွတ်သားကို။ ခါဒေယျ၊ စားစေရာ၏။ သုခေါ၊ ချမ်းသာ၏။

❖❖❖❖❖

## ၁၀၁၀။ မိုးသံကြားလေ၊ ဗျိုင်းသန္ဓေ၊ နေ၏မိုးကို တပ်လိမ့်နည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဗလာကာသု ပန ပုရိသော နာမ နတ္ထိ။ တာ ဥတုသမယေ မေဃသဒ္ဒံ သုတွာ ဂဗ္ဘ ဂဏှန္တိ။**

ဗလာကာသု ပန၊ ဗျိုင်းတို့၌ကား။ ပုရိသော နာမ၊ အဖိုမည်သည်။ နတ္ထိ၊ မရှိ။ တာ၊ ထိုဗျိုင်းမတို့သည်။ ဥတုသမယေ၊ မိုးဥတုစသောအခါ၌။ မေဃသဒ္ဒံ၊ မိုးခြိမ်းသော အသံကို။ သုတွာ၊ ကြား၍။ ဂဗ္ဘံ၊ ကိုယ်ဝန်ကို။ ဂဏှန္တိ၊ ယူကုန်၏။

ဤသို့ အသံကြားသည်နှင့် သန္ဓေယူနိုင်ကြောင်းကို ပါရာဇိကဏ် အဋ္ဌကထာ၌ လာသည်။ ထိုမိုးအသံကို ရာဂအားဖြင့် တပ်သည်ဟူ၍မလာ။ ထို့ကြောင့် ရာဂစိတ် မစွန်းငြိဘဲ မြေ ရေ သစ်ပင်များကဲ့သို့ ဥတုသမုဋ္ဌာန်နှင့်သာ ထိုဗျိုင်းသတ္တဝါတို့ သန္ဓေယူနိုင်၏ ဟူ၍မှတ်ရာသည်။

ဖား၊ ငါး၊ တီ၊ မျှော့ စသော သတ္တဝါတို့လည်း ဤနည်းတူ ဥတုသမုဋ္ဌာန် သန္ဓေယူသည်များ၏။

❖❖❖❖❖

## ၁၀၁၁။ မြှစ်ခြင်းပြီးစေ၊ စမြင်းကြေ၊ ပေးလေ ဘယ်ဆေးမြစ်တို့နည်း။(၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပန်း ခင်ပုပ်ဟု၊ ဖော်ထုတ် သညာ၊ ဆေးမြဖ်စွာကား၊ အကြာအရှည်၊ ဝမ်းမီးစည်၍၊ ခိုင်ကျည်ခက်တင်း၊ စမြင်းဒေါသ၊ ဟူသမျှကို၊ ခဏလတ်လတ်၊ ကြေစေတတ်၏။ ။ ဆေးအဘိဓာန်။

❖❖❖❖❖

**၁၀၁၂။ ပြောင်ပြောင်သံမြေ၊ နင်းရချေ၊ ပြုလေဘယ်မကောင်းကျိုးနည်း။(၁၅)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ယေ ဇီဝလောကသ္မိံ သုပါပဓမ္မိနော၊**
**နရဥ္စ နာရိဥ္စ အပါပဓမ္မံ။**
**ဟိံသန္တိ ရောသေန္တိ သုပါပဓမ္မာ၊**
**တေ လုဒ္ဒကမ္မာ ပသဝေတွာ ပါပံ။**
**တေမေ ဇနာ ခန္ဓဟတာ သယန္တီတိ။**

ဟူ၍ နေမိဇာတ်၌လာသည်။

**အဓိပ္ပာယ်ကား။** ။ အရှင်နေမိမင်းကြီး–အလျှံ ပြောင်ပြောင်တောက်သောသံမြေ၌ ရပ်၍လည်းကောင်း၊ သွား၍လည်းကောင်း၊ အိပ်၍လည်းကောင်း ခံရကြသော ပြောင်ပြောင်တောက်သော ကိုယ်ရှိသော ဤငရဲသူတို့ကား ရှေးလူပြည်၌ ဖြစ်သောအခါ စော်ကားရမ်းကား မတရားသမှု ပြုတတ်စွာသော လူဆိုး လူညစ်တို့ချည်း။ ထိုသူတို့သည် လူ့ပြည်၌ ဖြစ်သောအခါ အမျိုးကောင်း၊ သားသမီးဖြစ်ကုန်သော ယောကျ်ားမိန်းမတို့၏ အကျင့်စာရိတ္တကိုလည်း ပျက်စီးအောင်ပြုလေ့ရှိ၏။ ပဉ္စသီလ၊ အဋ္ဌင်္ဂသီလ၊ ဒသင်္ဂသီလ စသော အကျင့်ကိုဆောက်တည်ကျင့်သုံးကုန်သော သူတို့အားလည်းကောင်း၊ လှူဒါန်း ပေးကမ်းခြင်းစသော ကုသိုလ်တရား၌ ပျော်ပါးကုန်သော သူတို့အားလည်းကောင်း နာလိုခြင်းမရှိ။ ဝန်တိုပိတ်ပင်သော သဘောဖြင့် ပျက်စီးအောင် ပြောဆိုလေ့ရှိ၏။ ကောင်းစွာကျင့်ပေသော အမျိုးသား၊ အမျိုးသမီးတို့အား ကိုယ်စိတ် ချမ်းသာမရအောင် စောင်းမြောင်း ငြူစူလေ့ရှိ၏။ ထိုသူတို့သည် ထိုမကောင်းမှုကြောင့် စုတေသောအခါ သိဉ္ဇိုဝ်း၏ အရံဖြစ်သော ဤသံမြေငရဲ၌ ကြီးစွာသော ဆင်းရဲကို ခံရလေသတည်း ဟူလိုသည်။

◆◆◆◆◆

**၁၀၁၃။ တိုခြင်းသုံးထွေ၊ မြင်းကောင်းပေ၊ ထိစေသုံးပါးအဘယ်နည်း။(၁၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာမှာ အထက် ''အည်'' ကာရန်ပုစ္ဆာ ၉၀၄–၉၀၅–၉၀၆ တွင် ဖြေခဲ့ပြီ။

◆◆◆◆◆

**၁၀၁၄။ ပုထုဇဉ်ပေ၊ ရဟန်းသေ၊ စေတီ ထိုက်ပါလေလိမ့်နည်း။(၁၇)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗုဒ္ဓါ ပစ္စေကဗုဒ္ဓါ စ အရဟန္တာ စက္ကဝတ္တီတိ ထူပါရဟာ စတုရော ဟောတိ။

ဟူသော ပါဠိဖြင့် ဘုရားသခင်, အရှင်ပစ္စေကဗုဒ္ဓါ, ရဟန္တာ, စကြာဝတေးမင်း

ဟူ၍ စေတီထိုက်သော ပုဂ္ဂိုလ်လေးယောက်သာ ရှိသည်ဟု ကျမ်းဂန်လာသောကြောင့် ပုထုဇဉ် ရဟန်းတို့ အရိုးသည် စေတီမတည်ထိုက် ဟူပေ။

စကြဝတေးမင်း၏ အရိုးကိုတည်သော စေတီနှင့် ဘုရားသခင်တို့၏ ဓာတ်တော်ကို တည်သော စေတီသည် ဘယ်သို့ထူးပါသနည်း ဟူငြားအံ့-

**စက္ကဝတ္တိနော ဥပ္ပတ္တိယာ ဒွေသမ္ပတ္တိယော လဘန္တိ။ ဗုဒ္ဓါနံ ဥပ္ပတ္တိယာ တိဿော သမ္ပတ္တိယော လဘန္တိ။ စက္ကဝတ္တိနော စေတိယံ ဇဂ္ဂိတွာ ဒွေ သမ္ပတ္တိယော လဘန္တိ။ ဗုဒ္ဓါနံ စေတိယံ ဇဂ္ဂိတွာ တိဿော သမ္ပတ္တိယော လဘန္တိ။**

ဟူ၍ ဒုကင်္ဂုတ္တရ အဋ္ဌကထာလာသည်နှင့်အညီ- ဤလောက၌စကြဝတေးမင်း ဖြစ်ခြင်းကြောင့် လူတို့သည် လူ့ချမ်းသာ၊ နတ်ချမ်းသာ ဟူသော ချမ်းသာနှစ်ပါးကို ခံစားကြရကုန်သည်။ ဘုရားသခင်တို့ဖြစ်ခြင်းကြောင့် လူ့ချမ်းသာ၊ နတ်ချမ်းသာ၊ နိဗ္ဗာန် ချမ်းသာဟူသော ချမ်းသာသုံးပါးကို ရကြကုန်သည်။ စေတီကိုပူဇော်ရာ၌လည်း ဤနည်း အတူ စကြဝတေးမင်း၏ စေတီကိုပူဇော်လုပ်ကျွေးရသဖြင့် မနုဿသမ္ပတ္တိ ဒေဝသမ္ပတ္တိ နှစ်ပါးကိုသာ ရနိုင်သည်။ ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာအရှင်တို့၏ စေတီကို ပူဇော်လုပ်ကျွေးပြုစုရသဖြင့် ချမ်းသာသုံးပါးကို ရကုန်သည်။ ဤကား ထူးပြားဟန်တည်း။

ဘုရားသခင်သည် အိမ်ရာထောင်သောလူ့ဘောင်၌နေသောသူကားစကြဝတေး မင်းပင် ဖြစ်သော်လည်း ရဟန်းဘောင်နေသော သာမဏေငယ်အားရှိခိုးထိုက်ကြောင်းကို ဟောတော်မူသည်ဖြစ်လျက် စေတီတည်သင့်သောအရာ၌ အနာဂါရိယဖြစ်သော ပုထုဇဉ် ရဟန်းတို့၏ အရိုးကို စေတီတည်ခြင်း၌ ခွင့်မပြု။ အိမ်ရာထောင်သော လူသားဖြစ်သော စကြဝတေးမင်း၏အရိုးကို စေတီတည်ခြင်း၌ ဘယ့်ကြောင့် ခွင့်ပြုသနည်း ဟူငြားအံ့။ ပုထုဇဉ်ရဟန်းတို့၏ အရိုးကို စေတီတည်သဖြင့် အံ့ဖွယ်မရှိသောကြောင့်သာ ခွင့်မပြု သည်။ ပူဇော်၍ ကုသိုလ်မဖြစ်သောကြောင့် ခွင့်မပြုသည် မဟုတ်ဟု ဖြေအပ်၏။ အကျယ်ကိုလိုသော် မဟာပရိနိဗ္ဗာနသုတ် အဋ္ဌကထာ၌ ယူလေ။

❖❖❖❖❖

## ၁၀၁၅။ ဒုတိယနေ၊ ကုတ္တိန္ဒြေ၊ စွဲလေ ဘယ်တရားတို့နည်း။ (၁၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ကုတ္တိန္ဒြိယေန၊** သည်။ ယေ ဓမ္မာ၊ အကြင်သြဠာရိကရုပ်ဒွါဒသတို့ကို။ ခန္ဓသင်္ဂဟေန၊ ရူပက္ခန္ဓာဟူသော ရေတွက်ခြင်းဖြင့်။ သင်္ဂဟိတာ၊ ကုန်၏။ အာယတနသင်္ဂဟေန အသင်္ဂဟိတာ။ ဓာတုသင်္ဂဟေန အသင်္ဂဟိတာ။

**တေ ဓမ္မာ စတူဟိ ခန္ဓေဟိ ဒွိဟာယတနေဟိ အဋ္ဌဟိ ဓာတူဟိ အသင်္ဂဟိတာ။**

❖❖❖❖❖

၁၀၁၆။ စတုတ္ထပေ၊ နယနေ၊ သုခိန္ဓြေစွဲ ဘယ်သို့နည်း။(၁၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သုခိန္ဒြိယေန၊ သည်။ ယေ ဓမ္မာ၊ အကြင်ဝေဒနိန္ဓြေလေးပါးတို့ကို။ ခန္ဓသင်္ဂဟေန သင်္ဂဟိတာ။ ပ။ တေဟိ ဓမ္မေဟိ၊ ထိုဝေဒနိန္ဓြေလေးပါးတို့သည်။ ယေ ဓမ္မာ၊ အကြင်သုခိန္ဓြေတို့ကို။ ခန္ဓသင်္ဂဟေန သင်္ဂဟိတာ။ ပ။ တေ ဓမ္မာ ဧကေန ခန္ဓေန ဧကေနာယတနေန ဧကာယ ဓာတုယာ သင်္ဂဟိတာ။ ဤသို့စွဲမည်ဟူပေ။

❖❖❖❖❖

၁၀၁၇။ ငါးဦးခေါင်းနေ၊ ဖြစ်တုံလေ၊ ဆိုထွေပုလဲ မည်သို့နည်း။(၂၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာမှာ ''အဲ'' ကာရန်ပုစ္ဆာနံပါတ် ၁၉၈–၁၉၉–၂၀၀ တို့တွင် ဖြေ၍ပြီးခဲ့ပြီ။

❖❖❖❖❖

၁၀၁၈။ သူ့သက်သတ်လေ၊ ကံအနေ၊ ဘယ်ဝေဒနာ ယှဉ်လိမ့်နည်း။(၂၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ပါဏာတိပါတော ဒုက္ခဝေဒနာယ သမ္ပယုတ္တော။ ဟူ၍ ခုဒ္ဒကပါဌ၌ မိန့်၏။

❖❖❖❖❖

၁၀၁၉။ ဆယ့်ခြောက်သချေ်၊ ပွင့်တုံလေ၊ တွက်ရေဘုရားဘယ်မျှနည်း။(၂၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**စိန္တိတံ သတ္တသချေ်ယျံ၊ နဝသချေ်ယျ ဝါစကံ။**
**ကာယဝါစံ စတုချာတံ၊ ဗုဒ္ဓတ္တံ သမုပါဂမိ။**

ဟူသော ဂါထာနှင့်အညီ စိတ်ဖြင့်ကြံ၍သာ ဘုရားဆုကိုတောင်းခဲ့သော ကမ္ဘာပေါင်း ခုနစ်သချေ်။ နှုတ်ဖြင့်မြွက်၍ ဘုရားဆုကိုတောင်းခဲ့သော ကမ္ဘာပေါင်း ကိုးသချေ်။ နှစ်ရပ်ပေါင်း တစ်ဆယ့်ခြောက်သချေ်အတွင်း၌ ပွင့်သောဘုရားပေါင်းကား ငါးသိန်း တစ်သောင်း နှစ်ထောင် ရှိ၏ဟူပေ။

ဤမျှသော အကျဉ်းချုပ်ဖြင့် ပုစ္ဆာပြေလောက်ပြီ ဖြစ်သော်လည်း

သရုပ်ဝိသေသ ဖော်မပြမူ သုတေသနတို့၏ အာသာသည် မငြိမ်းရာ သေးရကား "သောတတ္တကီကျမ်း" စကားကို မှတ်သားလောက်ရုံ ထုတ်ဆိုလိုက်အံ့-

ဤဘဒ္ဒကမ္ဘာမှ ပဋိလောမအားဖြင့် ပြန်၍ရေသော် သချေ်နှစ်ဆယ်နှင့် ကမ္ဘာတစ်သိန်းကျသော သာရကမ္ဘာ၌ သုဒ္ဓါဝါသ ဗြဟ္မာ့ဘုံ၌နေသော အနာဂါမ် ဗြဟ္မာကြီးသည် လောက၌ ဘုရားမဖြစ်ဘဲ သုည်းခြင်းများသည်ကို မြင်၍ "လူသုံးပါးတို့၏ ကိုးကွယ်လဲလျောင်းရာဖြစ်သော ကောင်းကျိုး မကောင်းကျိုးကို ပြတတ်သော ဘုရားသည် ထင်ရှား မဖြစ်ခဲ့သော် ငါတို့နေရာ သုဒ္ဓါဝါသဘုံ၌ အသစ်ရောက်သော ဗြဟ္မာသည် မရှိရာ။ ရှိရင်းဗြဟ္မာတို့ နိဗ္ဗာန်ယူသဖြင့် ဤဘုံသည် ဆိတ်လတ္တံ့။ ဘုရားဖြစ်မှသာ ဗြဟ္မာသစ် ပွားဘိရာသည်။ ထို့ကြောင့် ဘုရားဖြစ်အောင် ကြံဆောင်အားထုတ် အံ့သောသူကို ငါတိုက်တွန်းအံ့ဟု ကြံ၍ အနန္တ စကြဝဠာအတွင်း၌ ရှိသောလူတို့ကို ကြည့်လတ်သော် ငါတို့ ဘုရားအလောင်းတော်ကို မြင်လေ၏။ ထိုအခါ ငါတို့ဘုရား အလောင်းသည် ဂန္ဓာရပြည်တွင် ဆင်းရဲသော အမျိုး၌ဖြစ်၍ မျက်စိ မမြင်သော မိခင်ကို ထင်းထမ်း၍ လုပ်ကျွေးပြုစုကာ နေ၏။

တစ်ရံသောအခါ ထိုကဋ္ဌဝါဟနလုလင်သည် ကုန်စလယ် သွယ်အံ့သောငှာ တစ်ခုသော လှေငယ်ကို ပြုပြင်၍ မိခင်ကိုလည်း လှေထက်တင်လျက် သမုဒ္ဒရာ၏ အဝဖြစ်သော မြစ်၌ ကူးသန်းသွားလာသည်တွင် တစ်နေ့သ၌ လှေပျက်၍ နစ်လေ၏။ ကဋ္ဌဝါဟနလုလင်လည်း မယ်တော်ကို ပခုံးထက်ဝယ်တင်၍ ထိုမြစ်ကိုကူး၏။ ထိုအခါ အကနိဋ္ဌဘုံ၌နေသော အနာဂါမ်ဗြဟ္မာကြီးသည် သက်ဆင်းလာ၍ကဋ္ဌဝါဟနလုလင်အား ဘုရားဆုကိုတောင်းစိမ့်သောငှာ နည်းပေး၍ ချီးပင့်၏။ ကဋ္ဌဝါဟနလုလင်လည်း မိခင်ကို ပခုံးထက်ထမ်းလျက် ငါ့အသက်မသေလျှင် ငါ့မိခင်ကို ကမ်းသို့ရောက်အောင် ပို့ဆောင်အံ့။ ဤကောင်းမှုကြောင့် နောင်သောအခါ သတ္တဝါအပေါင်းတို့ကို သံသရာ ခနောင်းဝဲမှ လွတ်ထွက်အောင် ပို့ဆောင်နိုင်စေသော။ ငါသည် အကယ်၍ ဘုရား ဖြစ်သည်ရှိသော် သတ္တဝါ အပေါင်းတို့အား ငါ့အလားကဲ့သို့ တရားအထူးကို သိစေအံ့။ ငါသည် ဤဝဋ္ဋ ဆင်းရဲမှလွတ်မှုကား သတ္တဝါအပေါင်းတို့အား ငါ့အလားကဲ့သို့ လွတ်စေအံ့။ ငါသည် ဤမြစ်မှကူးမြောက်မှုကား သတ္တဝါ အပေါင်းတို့အား မျောပါ သော သံသရာမြစ်မှ စင်စစ်ကူးမြောက်စေအံ့ ဟူ၍ "ဗုဒ္ဓေါ ဗောဓေယျံ၊ မုတ္တော မောစေယျံ တိဏ္ဏော တာရေယျံ"ဟူသော စကားသုံးခွန်းတို့ကို နှုတ်မမြွက်ဘဲ စိတ်ထဲကသာကြံ၍ ကြုံးဝါး တော်မူ၏။ ဗြဟ္မာကြီးလည်း ထိုသားအမိတို့ကို ကျွန်းသို့ရောက်အောင် ပို့ဆောင်၍ ချမ်းသာစေ၏။ ဤသို့လျှင် ထိုကဋ္ဌဝါဟနလုလင်အဖြစ်က အစပြု၍ နှုတ်မမြွက်ဘဲ စိတ်ထဲကသာကြံလျက် ဘုရားဆုကို တောင်းတော်မူသတည်း။

ထိုအဖြစ်မှစုတေ့ခဲ့သော် အလောင်းတော်သည် သိရိမတီပြည်ကို အစိုးရသော မင်း၏သားဖြစ်၍ မိဘတို့လွန်သောအခါ မင်းအဖြစ်ကိုရ၏၊ ဆင်းရဲသောသတ္တဝါအပေါင်း တို့ကို ကောင်းစွာမစ ရှက်ဆောင်တတ်ရကား သတ္တဝါဟနမင်းဟူသော အမည်ကိုရ၏။

တစ်ရံသောအခါ အမုန်ယစ်သော ဆင်ကိုမြင်၍ ဤခင်မင်တပ်မက်မောတတ်သော ရာဂမည်သည်ကား အလွန်ဆိုးရွား၏။ ကောင်းသောသတ္တဝါကိုလျက် ရှုးသွပ်မေ့လျော့စေတတ်၏။ မြင်းသော မီးနှင့်လည်း တူ၏။ ကြမ်းသော မြွေဆိပ်နှင့်လည်း တူ၏။ ကောင်းမြတ်သော ဤဆင်သည် ရာဂကြောင့်ပင် ရှုးသွပ်ပျက်စီးရလေသည်။ ရာဂကြောင့်ပင် မိဘတို့သည် သားသမီးကို သတ်ခြင်း၊ ညီရင်း အစ်ကိုတို့သည် တစ်ယောက်သည် တစ်ယောက်အား သတ်ခြင်းအစရှိသော မကောင်းမှုတို့ကို ပြု၍ ငရဲကြီး ငရဲငယ်တို့၌ ဖြစ်ကြရကုန်သည်။ ဤရာဂစသော ကိလေသာတို့မှလွတ်အောင် ငါရှေးဦးစွာ ကြံဆောင်ပြီး လျှင် ထက်ဝန်းကျင်သော သတ္တဝါတို့ကို ကိလေသာမှ လွတ်စေ၍ နိဗ္ဗာန်သို့ငါပို့အံ့ဟူ၍ နှုတ်မမြွက်ဘဲ စိတ်ထဲကသာ ကြံစည် တောင့်တလျက် တောထွက်၍ ရသေ့ပြုပြီးသော် ဟိမဝန္တာသို့ ဝင်၍ နေတော်မူ၏။ အသက်အတိုင်းနေ၍ စုတေ့လေသော် နတ်ပြည်၌ ဖြစ်တော်မူသည်။

ထိုမှတစ်ပါး လူ့ပြည်သို့လားသော် ငါတို့ ဘုရားအလောင်းတော် မာဂဓတိုင်း အနိလိနအမည်ရှိသော ဤပုဏ္ဏားရွာ၌ ပုဏ္ဏားအကြီးဆုံး၏ သားဖြစ်၍ အရွယ်သို့ ရောက်သောအခါ အိမ်ရာထောင်ခြင်းမှထွက်၍ ရသေ့ပြုပြီးသော် ပဏ္ဍဝ အမည်ရှိသော တောင်၌ နေ၏။ ထိုအခါ မိမိထံသို့ ရောက်လာသော အမျိုးကောင်းသားတို့အား ကာမဂုဏ် ငါးပါး၌ အပြစ်များကြောင်းကို ဟောပြ၍ ရသေ့ပြုစေသဖြင့် ရသေ့အရံ ငါးရာရှိ၏။ တစ်ရံသောအခါ ပဏ္ဍဝတောင်ခြေရင်း၌နေသော ကျားမတစ်စီးအား မိမိကိုယ်ကို အစားခံ၍ လှူ၏ "ငါသည် ဤကောင်းမှုကြောင့် နောင်သောအခါ ဘုရားအဖြစ်ကိုရ၍ ဝေနေယျ သတ္တဝါတို့အား ချမ်းသာသုံးပါးကို ပေးနိုင်သည် ဖြစ်စေသော"ဟု နှုတ်မမြွက်ဘဲ စိတ်ကသာ ကြံ၍ ဘုရားဆုကို တောင်းတော်မူ၏။

ထို့နောက် သာဂလပြည်ကို အစိုးရသော အတိဒေဝမင်း ဖြစ်တော်မူ၏။ ထိုအခါ ဤလူ့ရွာ၌ ဗြဟ္မဒေဝဘုရား ထင်ရှားဖြစ်တော်မူ၏။ အတိဒေဝမင်းလည်း ဘုရားသခင်အား ကြည်ညိုသည်ဖြစ်၍ ဆွမ်း, သင်္ကန်း အစရှိသော ပစ္စည်း အလှူကြီးကိုပေးလျက် "ငါသည် နောင်သောအခါ ဤမြတ်စွာဘုရားအဖြစ်ကို ရစေသော"ဟု စိတ်ဖြင့်သာ ပတ္ထနာတော်မူသည်။ ထိုကမ္ဘာမှစ၍ ခုနစ်သင်္ချေတိုင်တိုင် နှုတ်မမြွက်ဘဲ စိတ်ထဲကသာ ပတ္ထနာ၍ ပါရမီဖြည့်တော်မူသည်။ ခုနစ်သင်္ချေတို့၏ အမည်ကား—

> နန္ဒော သုနန္ဒော ပထဝိ၊ မဏ္ဍော ဓရဏီ သာဂရော။
> ပုဏ္ဍရီကောတိမေ သတ္တ၊ အသင်္ချေယျာ ပကာသိတာ။

ဟူသော ဂါထာနှင့်အညီ--နန္ဒအသင်္ချေ၊ သုနန္ဒအသင်္ချေ၊ ပထဝီအသင်္ချေ၊ မဏ္ဍအသင်္ချေ၊ ဓရဏီအသင်္ချေ၊ သာဂရအသင်္ချေ။ ပုဏ္ဍရီကအသင်္ချေ ဟူ၍ ခုနစ်ပါးတို့တည်း။ ထိုခုနစ်ပါးတို့တွင် နန္ဒအသင်္ချေ၌ ဗြဟ္မဒေဝ အစရှိသော ငါးထောင်သော

ဘုရားတို့သည် ပွင့်တော်မူကုန်၏။ သုနန္ဒအသင်္ချေ၌ ကိုးထောင်။ ပထဝီအသင်္ချေ၌ တစ်သောင်း။ မဏ္ဍအသင်္ချေ၌ တစ်သောင်းတစ်ထောင်၊ ဓရဏီအသင်္ချေ၌ နှစ်သောင်း၊ သာဂရအသင်္ချေ၌ သုံးသောင်း။ ပုဏ္ဍရီကအသင်္ချေ၌ လေးသောင်းသော ဘုရားတို့သည် ပွင့်တော်မူကုန်၏။ အလုံးစုံကိုပေါင်းသော် ဘုရားပေါင်း တစ်သိန်းနှစ်သောင်း ငါးထောင် ရှိ၏။

"ငါ ဘုရားဖြစ်စေသော"ဟု နှုတ်မြွက်၍ ဆုတောင်းသည်ကား ကိုးသင်္ချေ တို့တည်း။ ထို ကိုးသင်္ချေတို့၏ အမည်ကား–

**သဗ္ဗဘဒ္ဒေါ သဗ္ဗဖုလ္လော၊ သဗ္ဗရတနသဘက္ခန္ဓော။**
**မာနိတော စ ပဒုမော စ၊ ဥသဘတော ခန္ဓုတ္တမော။**
**သဗ္ဗဖာလော အသင်္ချေယျာ၊ နဝမောတိ ပဝုစ္စရေ။**

ဟူသော ဂါထာနှင့်အညီ– သဗ္ဗဗဒ္ဒအသင်္ချေ၊ သဗ္ဗဖုလ္လအသင်္ချေ၊ သဗ္ဗရတန– အသင်္ချေ၊ ဥသဘက္ခန္ဓအသင်္ချေ၊ မာနိတအသင်္ချေ၊ ပဒုမအသင်္ချေ၊ ဥသဘအသင်္ချေ၊ ခန္ဓုတ္တမအသင်္ချေ၊ သဗ္ဗဖာလအသင်္ချေ ဟူ၍ ကိုးပါးတို့တည်း။ ထိုကိုးပါးတို့တွင် သဗ္ဗဗဒ္ဒအသင်္ချေ၌ ပေါရာဏဂေါတမအစရှိသော ငါးသောင်းသော ဘုရားတို့သည် ပွင့်တော်မူကုန်၏။ သဗ္ဗဖုလ္လအသင်္ချေ၌ ခြောက်သောင်း။ သဗ္ဗရတနအသင်္ချေ၌ ခုနစ်သောင်း။ ဥသဘက္ခန္ဓအသင်္ချေ၌ ရှစ်သောင်း။ မာနိတအသင်္ချေ၌ ကိုးသောင်း။ ပဒုမအသင်္ချေ၌ နှစ်သောင်း။ ဥသဘအသင်္ချေ၌ တစ်သောင်း။ ခန္ဓုတ္တမအသင်္ချေ၌ ငါးထောင်။ သဗ္ဗဖာလအသင်္ချေ၌ နှစ်ထောင်သော ဘုရားတို့သည် ပွင့်တော်မူကုန်၏။ အလုံးစုံကို ပေါင်းသော် ဘုရားပေါင်း သုံးသိန်းရှစ်သောင်းခုနစ်ထောင် ရှိ၏။ နှစ်ရပ် ပေါင်းသော် ငါးသိန်းတစ်သောင်းနှစ်ထောင်တည်း။

အစစွာသော ပေါရာဏ ဂေါတမဘုရားသခင်၏ လက်ထက်၌ ငါတို့ ဘုရားလောင်းသည် ဧည့ဝတီမည်သောပြည်၌ သာဂရနရိန္ဒမည်သော မင်းဖြစ်၍ ဘုရားသခင်အား တပည့်သား သံဃာတော်နှင့်တကွ ကျိန်းဝပ်စေခြင်းငှာ နံ့သာ ကျောင်းဆောက်၍ လှူသည်။ ထိုအခါ "ငါလည်း ဤဂေါတမဘုရားအတူ လူတွင် ထင်ရှား ဘုရားအဖြစ်သို့ ရောက်စေသော"ဟု နှုတ်မြွက်၍ ဘုရားဆုကိုတောင်းသည်။

ထိုဘုရား၏နောက်တွင် ပေါရာဏ ဒီပင်္ကရာဖြစ်တော်မူ၏။ ထိုအခါ ငါတို့ ဘုရားအလောင်းတော်သည် ဘုရားဘထွေးတော်၏ သမီးဖြစ်သော သန္တသုမိတ္တာ မင်းသမီး ဖြစ်တော်မူ၏။ ထိုအခါ ပေါရာဏဒီပင်္ကရာ၏ တပည့်ဖြစ်သော ရဟန်းငယ် တစ်ဦးသည် ပြည်ကိုလှည့်၍ ဆီဝတ်ခံပြီးလျှင် ကျောင်းတော်တွင် နေ့တိုင်း မီးပူဇော်လေ့ ပြု၏။ တစ်နေ့သ၌ ပြည်တွင် ဆီခံ၍ မရသောကြောင် မင်းသမီးနေသော ပြာသာဒ်သို့ တက်လေ၏။ သန္တသုမိတ္တာ မင်းသမီးလည်း အလုပ်အကျွေး ကျွန်မတစ်ယောက်ကို ရဟန်းတော် ဘယ်အလို့ငှာ ကြွလာသနည်းဟုမေးစေ၍ ဆီဝတ်ခံကြောင်းကို

ကြားသိလျှင် အားရဝမ်းသာ နံ့သာဖြင့် ထုံအပ်သော မုန်ညင်းဆီကို ရွှေခွက်ဖြင့် ထည့်၍ ဆောင်ခဲ့ပြီးမှ ရဟန်းငယ်၏သပိတ်၌ အပြည့်လောင်း၍ ဤသို့လျှောက်၏ ''ရဟန်းတော်– ဤဆီကို သခင်အလိုရှိသမျှ ဘုရားကျောင်းတော်၌ မီးပူဇော်ပါလေလော့။ ကျွန်ုပ်စကားကိုလည်း မောင်တော်ဘုရားအား လျှောက်ပါလေ။ အရှင်ဘုရား၏ နှမတော် သန္တသုမိတ္တာ မင်းသမီးသည် အရှင်ဘုရားကဲ့သို့ အတူလိုက်၍လည်း ကျင့်ပါသည်။ သိရိသိဒ္ဓတ္ထ အမည်ရှိသော ဤဆီမွှေးကိုလည်း လှူပါသည်။ ဤကောင်းမှုတို့ကြောင့် နောင်သောအခါ မောင်တော်ကဲ့သို့ ဘုရားဖြစ်လိုပါသည်။ ဖြစ်သောအခါလည်း ဤဆီကဲ့သို့ သိရိသိဒ္ဓတ္ထ ဟူသောအမည်ကိုရလိုပါသည်။ ဘုရားဖြစ်ပါအံ့လော၊ မဖြစ်ပါအံ့လောကို မိန့်တော်မူပါဟု လျှောက်ပါလေ''ဟူ၍ မှာလိုက်၏။ ရဟန်းငယ်လည်း မင်းသမီး၏ သတင်းစကားကို ဆောင်၍လာခဲ့ပြီးသော် ဘုရားကျောင်းတော်၌ ဆီမီးထွန်းမြဲတိုင်းထွန်း၏။ မိမိအလိုရှိသော ဘုရားဆုကိုလည်း ပန်၏။ ထိုအခါ ပေါရာဏဒီပင်္ကရာဘုရား ဆွမ်းခံကြွတော်မူလာ သည်နှင့် ရှိခိုးပြီးသော် ဤသို့ နားတော်လျှောက်၏။ ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ယနေ့ အကျွန်ုပ် တစ်ပါး၌ ဆီဝတ်ခံ၍ မရသောကြောင့် အရှင့်နှမတော် မင်းသမီး၏ ပြာသာဒ်သို့ဝင်ရာ မင်းသမီးသည် များစွာသော နံ့သာဆီတို့ကိုလည်း လှူလိုက်ပါသည်။ နောင်သောအခါ မောင်တော်ကဲ့သို့ ဘုရားဖြစ်ချင်၍ ပါရမီဖြည့်ပါသည်။ ဘုရားအဖြစ်သို့ ရောက်မည်၊ မရောက်မည်ကို မိန့်တော်မူပါဟု မှာလိုက်ကြောင်းကို လျှောက်၏။ ထိုအခါ ပေါရာဏဒီပင်္ကရာ မြတ်စွာဘုရားလည်း ဤသို့ မိန့်တော်မူ၏ ''ချစ်သား ရဟန်းငယ်– ပါရမီကိုဖြည့်သဖြင့် မပြည့်စုံသောသူမရှိ။ ပြည့်စုံဘိသည်သာတည်း။ သင်သည် ဆုပတ္ထနာ၍ ငါ၏ကျောင်းတော်၌ ဆီမီးဝတ်ပြုရသော ကောင်းမှုကြောင့် နောင်သောအခါ ငါ၏အမည်ကဲ့သို့ ဒီပင်္ကရာမည်သော ဘုရားဖြစ်လတ္တံ့။ ထိုအခါ ငါ၏ နှမတော်ဖြစ်သော သန္တသုမိတ္တာသည် သုမေဓာရသေ့ဖြစ်၍ သင်၏မျက်မှောက်၌ ဗျာဒိတ်ရလတ္တံ့''ဟု အဆင့်စကား မိန့်ကြားတော်မူ၏။ ထိုစကားကိုကြားရသောအခါ ရဟန်းငယ်လည်း အလွန်ဝမ်းမြောက်သည်ဖြစ်၍ တစ်နေ့သ၌ မင်းသမီး ပြာသာဒ်သို့ သွား၍ အမိန့်တော်ကို ပြန်ကြား၏။ မင်းသမီးလည်း အားရဝမ်းသာလျက် နံ့သာဆီတို့ကို တစ်ဖန်ကပ်လှူပြန်၍ အကျွန်ုပ်သည် ဤဘဝမှ စုတေလျှင် ယောကျ်ားအဖြစ်ကို ရစေသောဟု ပတ္ထနာ၏။ ထိုအခါမှစ၍ ကုသိုလ်တရားတို့ကို အားထုတ်လျက် အသက်အတိုင်းနေ၍ စုတေလျှင် နတ်ပြည်၌ နတ်မင်းအဖြစ်ကို ရလေ၏။

ဤသို့သော အနိယတဗျာဒိတ်ကို ရသဖြင့်သာလျှင် ဘဝများစွာ ဖြစ်လာခဲ့၍ ရှစ်သချေ်လွန်သော သာရမဏ္ဍကမ္ဘာ၌ ယခင်ရဟန်းငယ်သည် ဒီပင်္ကရာဘုရားဖြစ်တော်မူ၍ ငါတို့ဘုရာအလောင်းသည် သုမေဓာရသေ့ဖြစ်လာ၍ နိယတဗျာဒိတ်ကို ခံရလေသည်။

ထို့နောက် လေးသချေ်နှင့် ကမ္ဘာတစ်သိန်းကြာသဖြင့် ငါတို့ရှင်စော ဂေါတမဘုရား၏ အဖြစ်သို့ရောက်တော်မူသည်။ လေးသချေ်တို့၏ အမည်ကား–

**သေလော ဘာသော ဓဇယျော စေဝ၊ ရုစိယာတိသခ်ါရိမေ။**
**စတ္တာရော တေ အသချေ်ယျာ၊ ဝိတိဝတ္တာတိ ဝုစ္စတိ။**

ဟူသော ဂါထာနှင့်အညီ သေလအသချေ်၊ ဘာသအသချေ်၊ ဓဇယျအသချေ်၊ ရုစိယအသချေ် ဟူ၍ လေးပါးတည်း။ ထိုလေးသချေ်တွင်း၌ ပွင့်သော ဘုရားကား တဏှင်္ကရာ။ မေဓင်္ကရာ။ သရဏင်္ကရာ။ ဒီပင်္ကရာ။ ကောဏ္ဍညာ။ မင်္ဂလာ။ သုမန။ ရေဝတ။ သောဘိတ။ အနောမဒဿီ။ ပဒုမ။ နာရဒ ဘုရားအားဖြင့် တစ်ကျိပ်နှစ်ဆူတည်း။

ကမ္ဘာတစ်သိန်းထက်၌ ပွင့်သောဘုရားကား–ပဒုမုတ္တရဘုရား။ သုမေဓာ။ သုဇာတာ။ ပိယဒဿီ။ အတ္ထဒဿီ။ ဓမ္မဒဿီ၊ သိဒ္ဓတ္ထ။ တိဿ။ ဖုဿ။ ဝိပဿီ။ သိခီ။ ဝေဿဘူ။ ကကုသန်။ ကောဏာဂုံ။ ကဿပ။ ဂေါတမဘုရားအားဖြင့် တစ်ကျိပ်ခြောက်ဆူတည်း။ အလုံးစုံ အရပ်ရပ်ကို ပေါင်းသော် ငါးသိန်း တစ်သောင်း နှစ်ထောင့်နှစ်ကျိပ်ရှစ်ဆူတည်း။ ဤကား သောတတ္တကီနိဒါန်း၊ တထာဂတုပ္ပတ္တိကျမ်းတို့၌ လာသောစကားစဉ် အမြွက်တို့တည်း။

ထိုဘုရားတို့ကိုမှတ်၍ ပဏာမပြုခြင်းငှာ သီဟိုဠ်ဆရာတို့ ဂါထာတော်ဖွဲ့သည်ကား–

**ဗုဒ္ဓါ အနန္တာမရိယာ သုသခ်ယေ။**
**ဗုဒ္ဓါ အနန္တာသုဟလာ ဝိသခ်ယေ။**
**ဗုဒ္ဓါ ရိယာ ယေ ပကု လက္ခကပ္ပကေ။**
**ဝန္ဒာမိ တေ ဓိရနိရက္ကမေ အဟံ။**

ဟူ၍ ဖွဲ့သီတော်မူသည်။

ဂါထာကို သရုပ်ပေါ်အောင် မြန်မာပြန်လိုက်ဦးအံ့–

သုသခ်ယေ၊ ဘုရားဖြစ်ဟိတ် အောင်ဘိသိက်ကို စိတ်တော်ကြံကာ ပတ္ထနာ၍ ပါရမီပုညဖြည့်ခဲ့ရသော နန္ဒအသချေ်, သုနန္ဒအသချေ်, ပထဝီအသချေ်, မဏ္ဍအသချေ်, ဓရဏီအသချေ်, သာဂရအသချေ်, ပုဏ္ဍရီကအသချေ် တည်းဟူသော ခုနစ်သချေ်တွင်း၌။ အနန္တာမရိယာ၊ ဗြဟ္မဒေဝဘုရားစသျက် မေ၊ ဓ၊ ကောင်း၊ ကျိုး၊ ရာ၊ ဂီဘိုးဝယ်၊ ဆင့်တိုး သုည၊ တိက်နှစ်ထပ်၊ ငါးထပ်ဇယ၊ စဉ်ကာချ၍၊ ရေရတွက်ကိန်း တစ်သိန်းနှစ်သောင်းငါးထောင်ကုန်သော။ ဗုဒ္ဓါ၊ သုံးလူ့သခင်ဘုရားရှင်တို့သည်။ ဉပ္ပဇ္ဇိံသု၊ ပွင့်တော်မူကုန်ပြီ။ ဝိသခ်ယေ၊ နှုတ်တော်မြွက်ကာ တောင်းပန်ထွာ၍ ပါရမီ ယုတ်မြတ် ဖြည့်ခဲ့အပ်သော သဗ္ဗဘဒ္ဒ၊ သဗ္ဗဖုလ္လ၊ သဗ္ဗရတန၊ ဘက္ခန္ဓနှင့်၊ မာနိတ–ပဒုမ၊ ဉသဘ ခန္ဓုတ္တမ၊ သဗ္ဗဖာလ မည်ရတွက်ရေ ကိုးသချေ်

တွင်း၌။ အနုန္နာသုဟလာ၊ ပေါရာဏာသက္က ဂေါတမလျှင် အစတည်လတ် ပည်းသော သတ်နှင့် အင်္ဂနေဒ္ဒါကော် သောင်းစီဖြစ်လျက် ဆင့်သစ်ပည်းဒွ သဟဿကိန်း ပေါင်း၍ ထိန်းသော် သုံးသိန်း ရှစ်သောင်း ခုနစ်ထောင်ကုန်သော။ ဗုဒ္ဓါ၊ လေးပါးသစ္စာ ဦးစွာသိမြင် ဘုရားရှင်တို့သည်။ ဥပ္ပဇ္ဇိံသု၊ ပွင့်တော်မူကုန်ပြီ။ ဃေ၊ ကိုယ်နှုတ် စိတ်ပါ ပတ္ထနာ၍ ပါရမီဆယ်ထွေ ဖြည့်ခဲ့ပေသော သေလ ဘာသ ဖေဿ ရှစ်ယာ လေးဖြာမည်ရင်း သချေ်တွင်း၌။ ရိယာ၊ တဏှာကရာ ဦးစွာပွင့်ထ ပ– နာ–ကျအောင် ရေဆပြည့်သိပ် တစ်ကျိပ်နှစ်ဆူကုန်သော။ ဗုဒ္ဓါ၊ ငါးမာရ်ပယ်ရှင်း သုံးလူ့မင်းတို့သည်။ ဥပ္ပဇ္ဇိံသု၊ ပွင့်တော်မူကုန်ပြီ။ လက္ခကပ္ပကေ၊ ကမ္ဘာတစ်သိန်းတွင်း၌။ ပကာ၊ ပဒုမုတ္တရ ဘုရားမှသည် ဂေါတမတိုင်ရောက် ရေခဲ့မြောက်သော် တစ်ကျိပ်ခြောက်ဆူ ကုန်သော။ ဗုဒ္ဓါ၊ သုံးလူ့တန်ဆောင် ငါးမာရ်အောင်တို့သည်။ ဥပ္ပဇ္ဇိံသု၊ ပွင့်တော်မူကုန်ပြီ။ တေ ဇိရနိရက္ကမေ၊ ထိုသုံးစုကိန်း သချ်ာထိန်းသော် ငါးသိန်း တစ်သောင်း နှစ်ထောင် နှစ်ကျိပ် ရှစ်ဆူကုန်သော မြတ်စွာဘုရားတို့ကို။ အဟံ၊ သည်။ အာဒရံ၊ ရိုသေစွာ။ ဝန္ဒာမိ၊ ငါးမည်သေသတ် အဓိမတ်ဖြင့် ရှိညွတ်ပန်ထွာ ရှိခိုးပါ၏။

အစိတ်အားဖြင့် သိလိုသော် ဤသို့မှတ်လေဦး–

ငါးထောင်မှန်လှ၊ သမ္ဗုဒ္ဓ၊ နန္ဒသချေ်တွင်း။
သုနန္ဒတွင်၊ ကိုးထောင်ရှင်၊ အောင်မြင်မာရ်ငါးသင်း။
ပထဝီထောင်၊ ဆယ်လီဆောင်၊ ဘုန်းခေါင်သကျမင်း။
သချေ်မဏ္ဍာ၊ သောင်းထောင်မျှ၊ ဇိနမြတ်ရှင်ရင်း။
နှစ်သောင်းပြည့်ညီ၊ ရေဏီ၊ လောကီလွန်ခဲ့လျှင်း။
သာဂရမှန်၊ သောင်းသုံးပြန်၊ ဘုန်းလျှံနေသို့လင်း။
ပုဏ္ဍရီက၊ သောင်းလေးဆ၊ နရထွတ်မှန်ကင်း။
တစ်သိန်းနှစ်သောင်း၊ ငါးထောင်ဆောင်း၊ စိတ်ဓာင်းခုနစ်သချေ်တွင်း။
ဗဒ္ဓဖုလ္လ၊ ရတနာ၊ သဗ္ဗယုဉ်လေမင်း။
သောင်းသချ်ာမှတ်၊ ပည်းသောသတ်၊ သုံးကပ်စဉ်သင့်သွင်း။
ဥသဘဝယ်၊ သောင်းရှစ်သွယ်၊ ပစ်ပယ်ရာဂကင်း။
ကိုးသောင်းတွက်ရေ၊ မင်္ဂဖိုလ်ခြေ၊ သချေ်မာနိတွင်း။
သချေ်ပဒုမ၊ နှစ်သောင်းရ၊ ဇိနစောရန်ခွင်း။
သချေ်ဥသဘာ၊ သောင်းဗုဒ္ဓ၊ ဒုက္ခလွတ်ရှင်းရှင်း။
ခန္ဓုတ္တမမှာ၊ ငါးထောင်သာ၊ အောင်ချာလူ့ထိပ်နင်း။
နှစ်ထောင်သဗ္ဗ၊ ဖာလက၊ ဉာဏထိုးဖောက်ထွင်း။

မေ, တာ, ကောင်း, ကျိုး၊ ဒွါဒိ-ကိုး၊ ခင်း, ပိုး, မဲ့ခန့်=တျင်း။
ဂဏန်းသင်္ချာ၊ မာတိကာ၊ စဉ်လာဆယ့်ခြောက်အင်း။
စဆုံးဒွယ၊ သဟာသ၊ သေသသောင်းစီသွင်း။
ငါးမာရ်လွှတ်ချွေ၊ ပွင့်တုံလေ၊ သချေ်ဆယ့်ခြောက်တွင်း။
ငါးသိန်းတစ်သောင်း၊ နှစ်ထောင်ပေါင်း၊ မြတ်လောင်းသုံးလူ့မင်း။
ဤမျှလောက်ဖြင့် ယခင့်ပုစ္ဆာ၏ ဝိသဇ္ဇနာပြည့်စုံပြီ။
သံ, ဂုံ, ပ, မ၊ ယျ-ဤမှ၊/ ကေတိ-သိ, ဝေ။
ဝိ, ဇော်နဂု၊/ တိ, နှင့်-ဖု၊ ဒွေနဂုကပ်တီတေ။/
သိဒ်, ဓောနဝ၊ / ပိ, အ, မ၊ ရာ့ဆယ့်ရှစ်မှန်လေ။/
သတ္တာသဟာသ်၊ ဆု, သု, မှတ်၊/ သိန်းကပ်မုတ္တရေ။/
တော်-အ, ပ, နဘ၊/ နှစ်သင်္ချာ၊ သော, ပါ=မင်, သု, ရေ။/
သုံးသချေ်-ည/ တံ, မေ, သ၊ ဒီ,မှ လေးသချေ်။/
သချေ်လေးကွင်း၊ သိန်းကပ်တွင်း၊ သေဋ္ဌနင်းဌာဝီသေ။
ဆယ်ဖြာလက်ဦး၊ ရှိစုံဖူး၊ ညွတ်နူးအာဒရေ။
သချေ်နှစ်ဆယ်အတွင်း ပွင့်သော ဘုရားပေါင်းပြီး၏။

◆◆◆◆◆

## ၁၀၂၀။ ငရှတ်နှံ့ပေ၊ ဆတ်ဆတ်ချေ၊ ရလေမိန်းမ မည်သူနည်း။(၂၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းကြီးသည် မင်းပြုသောအခါ ထိုမင်းတွင် သားမရှိ သမီးတစ်ယောက်သာရှိ၏။ နှမတော်၏ သားဖြစ်သော တူလည်း တစ်ယောက်ရှိ၏။ ထိုသမီးတော်နှင့် တူတော်တို့သည် ငယ်စဉ်ကပင် ချစ်ကျွမ်းဝင်ခဲ့ရကား အရွယ်ရောက် သောအခါ အလွန်တပ်မက်မောခြင်းရှိကြ၏။ မင်းကြီးမူကား တူတော်၏ အလို့ငှာ တစ်ပါးသောမင်းသမီးကို ဆောက်နှင်းအံ့၊ သမီးတော်ကိုကား မင်းတစ်ပါးတို့နှင့် ဆက်လက်၍ မိတ်ပြုမည်ဟု အကြံရှိ၏။ ထိုအကြံကို အမတ်တို့နှင့် တိုင်ပင်သော် သင့်လျော်ပါသည်ဟု အမတ်တို့ စိတ်ညီကြသောကြောင့် တူကိုလည်း တခြား၊ မင်းသမီးကိုလည်း တခြားနေစေ၏။ ထိုအကြံကို သမီးတော်၊ တူတော်တို့ သိကြသောအခါ ပြင်းစွာသော စိုးရိမ်ခြင်း ရှိကြလျက် တစ်နေ့သ၌ မင်းသားသည် နတ်ဝင်မကိုခေါ်၍ ဤသို့ဆို၏။ နတ်ဝင်မ၊ ငါ၏ ဝရီးသမီးကို ငါရအောင် သင်ကြံဆောင်နိုင်အံ့လော။
101 အကယ်၍ ကြံဆောင်နိုင်မူ အသပြာတစ်ထောင် ငါပေးအံ့ဟု ဆို၏။ ထိုအခါ
A နတ်ဝင်မက အရှင့်သား-ဤအရေးကား မခက်။ အရှင့်သားသည် ဖုတ်ဝင်ယောင်

ဆောင်၍ သုသာန်၌ နှစ်ရက်၊ သုံးရက် နေရမည်။ သူတစ်ပါးတို့ ဆေးဝါကုခြင်းငှာ အနားသို့ရောက်လာသော် မတုန်မလှုပ် စကားမပြန်ဘဲ နေရမည်။ မျက်စိကို၊ နားကို ဆေးထည့်ခဲ့သော် မမွှန်မစပ်အောင်သာ ပြု၍နေရမည်။ ထိုအခါ ဦးရီးတော်မင်းကြီးသည် သမီးတော်နှင့်တကွ လာလတ္တံ့။ ထိုအခါ စပ်မွှန်စွာသော ငရုတ်မှုန့်ကို ပရိတ်သတ် အလယ်သို့ ဖျန်းပက်၍ ခြေဆတ်ကြသဖြင့် အလန့်တကြား ပြေးသောအခါ နမတော်ကို ယူ၍ ကိစ္စပြီးစေရမည်။ မင်းသမီးကိုလည်း အကျွန်ုပ်စကား သွင်းပါမည်ဟု လျှောက်၏။ မင်းသားလည်း နတ်ဝင်မ လျှောက်သောအရေးကို နှစ်သက်ရကား လေးငါးရက် ကြာလျှင်ပင် စားမြဲအစားကိုလည်း မစား၊ အိပ်မြဲအချိန်ကိုလည်း မအိပ်၊ သူရူးကဲ့သို့ပြု၍ သုသာန်သို့သွားပြီးလျှင် တစ်ခုသော ညောင်စောင်းထက်တွင် မှောက်လျက် အိပ်နေလေ၏။ ဆွေမျိုး၊ ကျေးကျွန်တို့သည် အနီးအပါးသို့ လာသော် ကြောက်မက် ဖွယ်သ-ပြု၍ ခြိမ်းခြောက်၏။ ထိုအခါ မင်းကြီးလည်း သမားဟူးရားတို့ကို ခေါ်၍ တူတော်ရှိရာသို့သွား၏။ ထိုအခါ မင်းသမီးလည်း လိုက်ပါရစေဆို၍ လိုက်လေသော် နတ်ဝင်မသည် မင်းသမီးကိုချီ၍ ဆောင်ခဲ့၏။ တူတော်၏အပါး၌ ဝန်းရံကာ ထိုင်နေ၍ ဆေးသမားတို့ကို ကြည့်ရှုစေစဉ် နတ်ဝင်မလည်း မျက်နှာကို ငုံ့ကာကြည့်လတ်သော် မင်းသားလည်း ရုတ်ခြည်းထ၍ ငရုတ်မှုန့်ကို မွှန်စေ၍ ဆက်ဆတ်ချေကြလေသော် နတ်ဝင်မလည်း လန့်သောအခြင်းအရာဖြင့် ကျယ်စွာသော အသံကိုဟစ်လျက် ပြေးကုန်၏။ နတ်ဝင်မပြေးလျှင် ထက်ဝန်းကျင်သော မိန်းမ၊ ယောက်ျားအားလုံးပင် ပြေးကြကုန်၏။ မင်းသမီးမူကား နားသွင်းပြီးဖြစ်၍ မပြေးဘဲ ကျန်ရစ်သည်နှင့် မင်းသားသိမ်းယူ၍ မိမိအိမ်သို့ သွားလေ၏။ ထိုအကြောင်းကို နတ်ဝင်မသွား၍ မင်းကြီးအား ရှေ့လျှောက်သောအခါ ဗာရာဏသီမင်းလည်း ငါ့တူနှင့် သမီးသည် ပြကတေ့ပင် စပ်မိချင်လျက်ရှိသည်။ ယခုမှ ခံတွင်းရှိရာ၌ ပျားလာ၍ အုံသကဲ့သို့ ဖြစ်လေသည်ဟု ဆို၍သာ နေရလေ၏။

ကေနိပါတ် အသိလက္ခဏဇာတ်၌ ငရုတ်မှုန့်ကြောင့် ချေရာတွင် နှာခေါင်း ပြတ်သော ပုဏ္ဏားလည်း ဤမင်း၏ ပုဏ္ဏားပင်ဖြစ်သည်။ ။ ငရုတ်မှုန့်ကြောင့် ချေရာတွင် မယားရသည်လည်း ဤမင်း၏ တူပင်ဖြစ်သည်။ ။ ထို့ကြောင့်

**တဒေဝေကဿ ကလျာဏံ၊ တဒေဝေကဿ ပါပကံ။**
**တသ္မာ သဗ္ဗံ န ကလျာဏံ၊ သဗ္ဗံ ဝါပိ န ပါပကံ။ ။**

ဟူသောဂါထာဖြင့် တူတော်မင်းသား သီဆိုလေသည်။ ။ ဗြဟ္မဏ၊ ပုဏ္ဏား။ တဒေဝ၊ ထိုချေခြင်းသည်လျှင်။ ကေဿ၊ တစ်ဦးသောသူအား။ ကလျာဏံ၊ ကောင်းသော အကျိုးဖြစ်၏။ တဒေဝ၊ ထိုချေခြင်းသည်လျှင်။ ကေဿ၊ ကစ်ဦးသောသူအား။ ပါပကံ၊ မကောင်းကျိုးဖြစ်၏။ တသ္မာ၊ ထို့ကြောင့်။ သဗ္ဗံ၊

101
B

အလုံးစုံသောအမှုသည်။ နကလျာဏာ၊ အကောင်းချည်းသာလည်းမဟုတ်။ သဗ္ဗံဝါပိ၊ အလုံးစုံသော အမှုသည်လည်း။ နပါကံ၊ မကောင်းချည်းသာလည်း မဟုတ်။

အရာအားလျော်စွာ ပညာရှိသောသူတို့ ပြုမှု ကောင်း၏။ ပညာမဲ့သောသူတို့ ပြုမှု မကောင်းဟူလိုသည်။

❖❖❖❖❖

၁၀၂၁။ ထိုးသည့်သဝေ၊ ရစ်လိပ်ခွေ၊ ရေးလေ ကျောက်စာမည်သို့နည်း။(၂၄)

၁၀၂၂။ ခုနစ်တစ်ထွေ၊ ထိပ်တွင်နေ၊ ခေါ်ထွေမည်သို့ ဖတ်ပိမ့်နည်း။(၂၅)

၁၀၂၃။ ငါးခုသေခွေ၊ အောက်ဆွဲလေ၊ ထူးထွေ မည်သို့ဆိုမည်နည်း။(၂၆)

ဟူသော အမေးပုစ္ဆာသုံးခု၌ အဖြေဝိသဇ္ဇနာကား–

ဂူကျောင်းဘုရား၊ တည်ထားကျောက်စာ၊ ဖတ်ဖို့ငှာကို၊ လက်ာစီရင်၊ အကျဉ်းဆင်အံ့၊ ချလျှင်တစ်စီး၊ လုံးကြီးနှစ်တင်၊ သုံးလျှင်ဆံခတ်၊ ထက်ရပ်စီးတင်၊ တစ်ချောင်းငင်မူ၊ လေးလျှင်အောက်ဆွဲ၊ တစ်တွဲ နှစ်ချောင်း၊ ငင်လိုက်ရှောင်းမူ၊ ငါးဆွဲဟူ၏။ ခြောက်မူ သဝေ၊ သတ်လေသမျှ၊ အောက်ကသတ်ဆွဲ၊ ပင့်မြဲမောက်ချ၊ ရစ်ကယော့၌၊ လုံးကြီးတင်မူ၊ ဝဆွဲဟူလော့၊ ဟမှုထိုးလစ်၊ နောက်ပစ်လေဟန်၊ နောက်ပစ်ပြန်သော်၊ ဟထိုးခေါ်လော့၊ သင့်လျော်ကျောက်စာ၊ ရေးထုံးမှာသည်၊ နောင်လာလူများ ဖတ်ဖို့ထား။

❖❖❖❖❖

၁၀၂၄။ ပိုးမရှိသော၊ လှေပျက်လေ၊ လှေရှင်ဘယ်မျှ လျော်စိမ့်နည်း။(၂၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သူ့လှေတက်ကို၊ ငှားလျက်မကွာ၊ စီးသွားရာ၌၊ ရေမှာမြုပ်ဆုံး၊ တစ်စုန်းသစ်ငုတ်၊ ခလုတ်ထိလျက်၊ ကွဲပျက်တစ်ထွေ၊ ပိုးစားလေသော်၊ လှေ အဖိုးသာ၊ ပေးစေရာ၏။

❖❖❖❖❖

၁၀၂၅။ သူ့ကျွန်နှင့်နေ၊ ကျွန်ခံလေ၊ ကျွန်သေခံသူ လွတ်လိမ့်နည်း။(၂၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကိလေသာ့ဝန်၊ ရမ္မက်လွှမ်း၍၊ သူ့ကျွန်မစစ်၊ မိန်းမသစ်ကို၊ ကြင်ချစ်သမှု၊ မယားပြုသော်၊ ထိုသူ့တွက်နေ၊ ကျွန်ခံစေ၍၊ ကျွန်သေသောခါ၊ လွတ်စေရာ၏။

❖❖❖❖❖

၁၀၂၆။ သူကြွက်ဝက်သေ၊ သတ်မိချေ၊ ငွေစင်ဘယ်မျှလျော်ထိုက်နည်း။(၂၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကြွက်မှုတစ်မတ်၊ ဝက်ငါးကျပ်တည့်၊ သတ်သော်လျော်စေ၊ မဖြစ်ပေမူ၊ ပွားလေအံ့သည်၊ အကြောင်းရည်၍၊ ယင်းသည့်တွင်ဘက်၊ လေးဆ တက်လော့။

◆◆◆◆◆

၁၀၂၇။ စည်းမရှိပေ၊ နွားစားလေ၊ လျော်ငွေဘယ်မျှ တပ်မည်နည်း။(၃၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အကြင်ယောက်ျား၊ ခရီးနား၌၊ စပါးလယ်ယာ၊ လုပ်ခင်းတာဝယ်၊ ရှိကာ စည်းမြိတ်၊ မဆို့ပိတ်၍၊ ဝက်ဆိတ်ကျွဲနွား၊ ချင်းနင်းစားသော်၊ ထွေပြားပစ္စာ၊ မဆိုသာခဲ့၊ မနုဝဏ္ဏနာလက်ာ။

◆◆◆◆◆

၁၀၂၈။ ဟာရအနေ၊ ဆယ့်ခြောက်ထွေ၊ ဒေသနာဟာရ ဘယ်သို့နည်း။(၃၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အထက် ''အယ်'' ကာရန်ပုစ္ဆာနံပါတ် ၁၄–တွင် ဖြေခဲ့ပြီ။

◆◆◆◆◆

၁၀၂၉။ တေဇောဓာတ်ခြေ၊ ပျက်တုံလေ၊ သေချိန်မည်သို့ညွှန်မည်နည်း။(၃၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အထက် ''အမ်း'' ကာရန်ပုစ္ဆာနံပါတ် ၃၁၃–တွင် ဖြေခဲ့ပြီ။

ပထဝီဓာတ်ပျက်မူ ပျက်သည့်နေ့က စ၍ ငါးရက်တွင် သေအံ့။

အာပေါဓာတ်ပျက်မူ လေးရက်တွင် သေအံ့။

တေဇောဓာတ်ပျက်မူ သုံးရက်တွင် သေအံ့။

ဝါယောဓာတ်ပျက်မူ နှစ်ရက်တွင် သေအံ့။

◆◆◆◆◆

၁၀၃၀။ ပူးဆင်စနေ၊ လက်ဝဲခြေ၊ ယွင်းသေမြွေခဲ မည်သို့နည်း။(၃၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အောင်စံမြတ်သူ၊ အဖိုယူ၊ ကျော်လှရဲထွတ်၊ အမမှတ်။

ဥဒေါင်းညီပြာ၊ လက်ယာကခဲမြဲ၊ စန္ဒြနှင့်၊ ဗုဒ္ဓရက်သောကြာ။

မှတ်ပါရော့လက်ဝဲ။

သည့်ကလွဲမူ၊ ကြမ္မာယူ၊ သေသူဆိုရမြဲ။

ဤအမြွက်မျှဖြင့် အကျိုးများစွာ မရှိရာသေး၊ အရေးစုံလင်စွာပြမှ ကျမ်းကြည့်ကျိုး နပ်မည်ဖြစ်လတ်ရကား မွေ့ခဲကျမ်းအလာကို သိသာရုံ ဆိုလိုက်ဦးအံ့–

လဆန်းတစ်ရက်နေ့၌ ယောက်ျားကို လက်ဝဲကမွေ့ခဲမူသေအံ့၊ မွေ့ဖိုတည်း။ လက်ယာကခဲမူ မသေ၊ မွေ့မတည်း။ ၎င်းတစ်ရက်နေ့ မိန်းမကို လက်ယာကခဲမူ သေအံ့၊ မွေ့မတည်း။ လက်ဝဲကခဲမူမသေ၊ မွေ့ဖိုတည်း။ လဆန်းနှစ်ရက်နေ့၌ကား ထိုစကားကို ပြန်သောအားဖြင့် သိအပ်၏။ သုံးရက်၊ ငါးရက်၊ ခုနစ်ရက်၊ ကိုးရက်၊ ဆယ့်တစ်ရက်၊ ဆယ့်သုံးရပ်၊ ဆယ့်ငါးရပ်တို့၌ လဆန်းတစ်ရက်နည်းတူ ဟောရမည်။

တနင်္ဂနွေနေ့ နံနက်အခါ၌ ခဲမူကား သေအံ့၊ ဆဗ္ဗာပုတ္တဖြစ်သော မွေ့ပွေး တည်း။ နေလွဲ၌ခဲမူကား မသေ၊ ရေမွေ့ပြောက်၏သားတည်း။ ညရီတရော၌ ခဲမူကား သေအံ့၊ မွေ့ပြဒါး၏သားတည်း။ သူငယ်အိပ်ဆိတ်၌ ခဲမူလည်း သေအံ့၊ ငန်းတော်ကျား သားတည်း။

တနင်္လာနေ့ နံနက်ခဲမူ မသေ၊ အဆိပ်မရှိသော မွေ့၏သားတည်း။ ပန်းရန်စ အခါခဲမူ သေအံ့။ မွေ့ဟောက်တည်း။ မွန်းလွဲခဲမူ မွေ့ပွေး၊ စပါးကြီးသားတည်း။ ညနေချမ်း ခဲမူ မသေ၊ မွေ့ပတုတ်သားတည်း။ ညဉ့်ဦးက သူငယ်အိပ်ဆိတ်တိုင်ရုံအခါ ခဲမူကား သေအံ့၊ မွေ့ပွေးတည်း။

အင်္ဂါနေ့ နေမထွက်မီခဲမူ သေအံ့၊ အမိ မွေ့ပွေး၊ အဖမွေ့ဟောက်သားတည်း။ မျက်လဲစင်မှမွန်းတည့်တိုင်ရုံအတွင်း ခဲမူကား သေအံ့၊ အမိမွေ့ဟောက်၊ အဖ ဆင်ပစ်မွေ့၏ သားတည်း။ မွန်းလွဲကနေဝင်တိုင်အောင် ခဲမူကား မသေ၊ အမိမွေ့ပွေး၊ အဖ ဦးခေါင်းကြီး၏ သားတည်း။ သူငယ်အိပ်ဆိတ်တွင်ခဲမူ သေအံ့၊ မွေ့ပွေး လည်ဂုတ်တို၏ သားတည်း။

သန်လွဲဗုဒ္ဓဟူးနေ့သို့ အဝင်ခဲမူ သေအံ့၊ မွေ့ငန်းတည်း။ ဗုဒ္ဓဟူးနေ့ ပန်းရန်စအခါကို ခဲမူမသေ၊ အမိမွေ့ဟောက်၊ အဖမွေ့ခေါင်းစိမ်းကြီးသားတည်း။ သုံးချက်တီးမှ နေဝင်တိုင်အောင်ခဲမူ သေအံ့၊ သူငယ်အိပ်ဆိတ်အတွင်း ခဲမူလည်း သေအံ့၊ မွေ့ပြဒါး သားတည်း။

ကြာသပတေးနေ့သို့ အဝင်၊ သန်းခေါင်ကျော်တွင် ခဲမူကား သေအံ့၊ နဂါးမျိုး တည်း။ ကြာသပတေးနေ့ နေထွက်က နေဝင်တိုင်ခဲမူကား သေအံ့၊ ဆင်ပစ် မွေ့သားတည်း။

သောကြာနေ့သို့ဝင်စ ညဉ့်၌ခဲမူကား သေအံ့၊ မွေ့ပွေး ဆင်ပစ်မွေ့သားတည်း။

သောကြာနေ့ နံနက်က နေဝင်ရုံအတွင်း ခဲမှုကား သေအံ့၊ အဖ ဆင်ပစ် မြွေ၊ အမိ ငန်းပုပ် သားတည်း။ သူငယ်အိပ်ဆိတ်ခဲမှု မသေ၊ ရေမြွေပြောက်၏ သားတည်း။

သန်းခေါင်ကသည် စနေနေ့အဝင် ခဲမှုကားသေအံ့၊ မြွေဟောက်သားစစ်တည်း။ မွန်းတည့်အတွင်း ခဲမှုကား သေအံ့၊ မြွေဟောက်တည်း။ မွန်းလွဲက သုံးပဟိုရ်တိုင်ရုံခဲမှု မသေ၊ ငန်းတော်ကျားတည်း။ သုံးပဟိုရ်မှစ၍ ညဦးတစ်ချက်တီးအတွင်း ခဲမှုကား သေအံ့၊ ငန်းနက်တည်း။ ။ ဤကား ဆေးမကုဘဲ သဘောအားဖြင့် သေမည်၊ ရှင်မည်ကို ဟောသော စကားတည်း။ ဆေးကုမှုကား လွတ်သည်ပင်။

တနင်္ဂနွေနေ့ခဲသော် အောင်မဲဖြူမြစ်ကို သောက်စေ၊ ပွတ်စေ။တနင်္လာနေ့ ခဲသော် မိုးနံမြစ်ကို သောက်စေ၊ ပွတ်စေ။ အင်္ဂါနေ့ခဲသော် မောက္ခတောမြစ်ကို သောက်စေ၊ ပွတ်စေ။ ဗုဒ္ဓဟူးနေ့ခဲသော် မြင်းခေါင်း နွာယောင်မြစ်ကို သောက်စေ၊ ပွတ်စေ။ ကြာသပတေးနေ့ခဲသော် သရက်ချိုမြစ်ကို သောက်စေ၊ ပွတ်စေ။ မဟော်ရာ ကြက်ဆူ လည်းကောင်း၏။ သောကြာနေ့ခဲသော် သစ်တော်မြစ်ကို သောက်စေ၊ ပွတ်စေ။ စနေနေ့ ခဲသော် ဥနှဲမြစ်ကို သောက်စေ၊ ပွတ်စေ။ လွတ်တတ်၏။

တနင်္ဂနွေနေ့ခဲသောမြွေကား အာနန္ဒာမည်၏။ အဆိပ်ကား ဖမိုးထက် ရှိ၏။ အရှေ့သို့ မျက်ပြူ၍ မန္တန်နှင့်ချပေး၊ ကျအံ့။ ချရန်သော မန္တန်ကား။ ဥုံ အာနန္ဒာ ဟိလိ ဟိလိ စဲယျ စဲယျ သွားဟ။ ။ ၃၇-အုပ်မန်း၍ချ။ ကိုက်ရာမှ အဆိပ်ရည်သက်၏။

တနင်္လာနေ့ခဲသောမြွေကား ဇေသုကံမည်၏။ အဆိပ်ကား ပုဆစ်ဦး၌ ရှိ၏။ အနောက်သို့ မျက်နှာပြု၍ချ။ မန္တန်ကား။ ဥုံဇေသုကံ ဟိလိ ဟိလိ စဲယျ စဲယျ သွားဟ။ ၃၇ အုပ် မန်း၍ချ။

အင်္ဂါနေ့ခဲသော မြွေကား၊ တက်သရက်မည်၏။ အဆိပ်ကား လက်ယာနား၌ ရှိ၏။ မြောက်သို့ မျက်နှာပြု၍ချ။ မန္တန်ကား။ ဥုံတက္ကသံ ဟိလိ ဟိလိ စဲယျ စဲယျ သွားဟ။

ဗုဒ္ဓဟူးနေ့ခဲသော မြွေကား၊ တလုသကံမည်၏။ အဆိပ်ကား နှုတ်ခမ်းထိပ် ရှိ၏။ တောင်သို့မျက်နှာပြု၍ချ။ မန္တန်ကား။ ဥုံတလုသကံ ဟိလိ ဟိလိ စဲယျ စဲယျ သွားဟ။

ကြာသပတေးနေ့ခဲသောမြွေကား၊ ဝိသကံမည်၏။ အဆိပ်ကား အသည်းဖျား၌ ရှိ၏။ မြောက်သို့မျက်နှာပြု၍ချ။ မန္တန်ကား။ ဥုံဝိသကံ ဟိလိ ဟိလိ စဲယျ စဲယျ သွားဟ။

သောကြာနေ့ခဲသော မြွေကား၊ မဟာပန္နတိမည်၏။ အဆိပ်ကား လက်ဝဲ မျက်စိ၌ နေ၏။ တောင်သို့မျက်နှာပြု၍ချ။ မန္တန်ကား။ ဥုံ မဟာပန္နတိ ဟိလိ ဟိလိ စဲယျ စဲယျ သွားဟ။

စနေနေ့ခဲသော မြွေကား၊ သံသဗဟိမည်၏။ အဆိပ်ကား လက်ယာ

ချက်စိဋ္ဌနေ၏။ အရှေ့သို့မျက်နှာပြု၍ချ။ မန္တန်ကား။ ဥုံသံသဗဟိ ဟိလိ ဟိလိ စဲယျ စဲယျ သွားဟ။

ဟူ၍ ၃၇အုပ် မန်း၍ချ။ အဆိပ်ချနည်း ပြီး၏။

အပင်းချ မန္တန်ကား။ ။ ဥုံပိပိ နင့် အဆိပ်ထက်။ ငါ့ အဆိပ်တက်ခဲ့။ သက်လည်း ဆရာသက်။ ပျက်လည်း ဆရာပျက်။ ဥုံကြောသေး ကြောမ။ ကုန်အောင် တွသည်။ ကျောကမနေ။ ကျောတွင်ဖြေသည်။ ပြေလေလော့။ လွန်ထုံးလျှော့သို့ လျှော့လေလော့။ စုန်းပင်း၊ နတ်ပင်း၊ ဆရာပင်းက၊ မကြွင်းသေလေ။ ခြေသို့ ရောက်သက်။ ထွက်လည်း ဆရာထွက်၊ ပျက်လည်း ဆရာပျက်။ ။ထိပ်ဆံကိုခွဲပြီးလျှင် ဆံကိုခါ၍ မန်း။ အဆိပ်ကျ နေကျ။ ၎င်းဂါထာနှင့် ထုံးကို မန်း၍ ခဲရာ၌အထက်ကသား။ တိုး၍မတက်နိုင်။ တစ်ပါးက ခေါ်လာမူ။ ခေါ်လာသူ၏ ထိပ်ဆံကိုခွဲ၍ မန်း။ အကိုက်ခံရသူမှာ တိုး၍မတက်ပြီ။

ငန်းတော်ရေမြွေ အသေကောင်ရလျှင်၊ ၎င်း၏ဝမ်းသို့ နန်းလုံးကြိုင်မြစ်ကို ပြည့်အောင်သွင်း။ အခြောက်လှန်း။ မီးသော်လည်း ကင်၍ခြောက်စေ။ ခြောက်လျှင် ညက်စွာကြိတ်။ ၎င်းကို နန်းလုံးကြိုင်ရွက် ရေနှင့်ဖျှန်း၍ကြိတ်ပြန်။ အတောင့်ပြု၍ထား။ မြွေခဲ၍ အခြားဆေးမန္တန်တို့နှင့် မပျောက်နိုင်လျှင်၊ ၎င်းဆေးကို တစ်ပဲခန့်ဖျော်၍ တိုက်။ ဦးခေါင်းငယ်ထိပ်ကစ၍ အဆစ်တိုင်း စုတ်နှင့်ထိုးလေ။ အဆိပ်ရေ ကိုက်ရာမှ စီး၍ဆင်း၏။ အသက်ကိုမှီလျှင် ချမ်းသာ ရနေကျဆေးတည်း။

''အေ'' ကာရန်ပုစ္ဆာ ၃၃-ပုဒ် အဖြေပြီး၏။

❖❖❖❖❖

## (၅) ''အေ့'' ကာရန်ပုစ္ဆာ ၁၆-ပုဒ်အဖြေ

### ၁၀၃၁။ ဘုရားဟောရွှေ၊ တို့ဘုန်းဟေ့၊ မေ့လျော့မယူ ဘယ်ဇာတ်နည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ငါတို့ ဘုရားအလောင်းတော်သည် ဗြဟ္မဒတ်မင်း ဖြစ်သောအခါ ဒရီမုခ မည်သော ပစ္စေက ဗုဒ္ဓါက တရားဟောပြ၍ ဆုံးမပေးသည်ကို ကာမဂုဏ်ဖြင့် ယစ်မူးမေ့လျော့၍ မနာယူဘဲ နေဖူးသည်။

အကြောင်းကို ဆိုလိုက်ဦးအံ့-

လွန်လေပြီးသောအခါ မဂဓတိုင်း၊ ရာဇဂြိုဟ်ပြည်၌၊ မဂဓရာဇ်မင်းကြီးသည် မင်းပြု၏။ ထိုအခါ ငါတို့ ဘုရားအလောင်းတော်သည် ထိုမင်း၏မိဖုရားကြီးသားဖြစ်၍ ''ဗြဟ္မဒတ္တကုမာရ''ဟု အမည်တွင်၏။ ထိုမင်းသား ဖွားသောနေ့၌ ပုရောဟိတ် ပုဏ္ဏား၏ မိန်းမတွင်လည်း ရွှေအဆင်းနှင့်တူသော သတို့သားကို ဖွား၏။ ထိုသတို့သားသည် ရှုချင်စဖွယ် တင့်တယ်သော မျက်နှာရှိရကား ''ဒရီမုခ''ဟူသောအမည်ကို မှည့်၏။ ထိုမင်းသားနှင့် ပုရောဟိတ် ပုဏ္ဏားသား နှစ်ဦးတို့သည် ပြေးသွားနိုင်သော

အရွယ်ကပင် ကစားဖော်ပြု၍ မင်းအိမ်၌သာ အတူနေကြသဖြင့် အချင်းချင်း ချစ်ခင်ကြလျက် တစ်ဆယ့်ခြောက်နှစ်အရွယ်သို့ ရောက်သောအခါ မိခင်ဖခင်တို့က တက္ကသိုလ်ပြည်သို့ သွား၍အတတ်သင်စေဟု စေလိုက်၏။ သူငယ်နှစ်ဦးတို့လည်း မိဘတို့စေသော အတိုင်းသွားလေ၍ တက္ကသိုလ်ပြည် ဒိသာပါမောက္ခဆရာ့ထံ၌ အတတ်ကိုသင်သဖြင့် ခုနစ်နှစ်တိုင်လျှင် မင်းသားလည်း ဆင်စီး၊မြင်းစီးစသော အတတ်မျိုးအပေါင်းကို တတ်၏။ ပုဏ္ဏားသား ဒရီမုခလည်း မိမိအမျိုးနှင့်လျော်သော ဗေဒင်သုံးကျမ်းနှင့်တကွ သဗ္ဗမယအတတ်ကို တတ်၏။

ယင်းသို့တတ်မြောက်ကြ၍ အမိရပ်ထံသို့ ပြန်အံ့သောအခါ အရပ်မြို့ရွာကို သိကျွမ်းအောင် ထိုထိုသော တိုင်းကြီး၊ပြည်ကြီးကို လှည့်လည်၍ ပြန်အံ့ဟု တိုင်ပင်ကြ ပြီးလျှင် ဆရာအား ပူဇော်ခဲ့၍ ထိုထိုမြို့ရွာသို့ လှည့်လည်ကာ ပြန်ခဲ့၍ ဗာရာဏသီမြို့သို့ ရောက်သောနေ့၌ တစ်ခုသော နီဂုံးဝယ် ထမင်းအလို့ငှာ လှည့်လည်လေသော် တစ်ဦးသော သူကြွယ်သည် ပုဏ္ဏားတို့အား နို့ယနာကျွေးသော မင်္ဂလာအခါနှင့် ကြုံ၍ထိုသူကြွယ်၏ အိမ်သို့ ဝင်လေသော် သူကြွယ်လည်း အိမ်တွင်းသို့ ပင့်ဆောင်၍ ဗြဟ္မဒတ္တကုမာရကို ဖြူသောနေရာဖြင့် ခင်း၍ပေး၏။ ဒရီမုခကိုကား ရဲရဲနီသော ကမ္ဗလာဖြင့် ခင်းပေး၏။ ထိုအခါ ဒရီမုခလည်း ခင်းသော နေရာ၏နိမိတ်ကို မြင်လျှင် ယနေ့ကား ငါ့အဆွေ ဗြဟ္မဒတ္တသည် ဤဗာရာဏသီပြည်၌ မင်းအဖြစ်ကို ရလေ တော့အံ့။ ငါကား စစ်သူကြီးဖြစ်လတ္တံ့ဟု သိ၏။ ထိုသူ နှစ်ဦးတို့သည် ထမင်းစားပြီးသော် သင့်လျော်သော မင်္ဂလာပန္နက်ကို ရွတ်၍ လှူအပ်သော ဝတ္ထုကို သိမ်းယူပြီးမှ ထိုအိမ်မှ ထွက်လာခဲ့၍ ဗာရာဏသီပြည်၏ အနီး မင်းဥယျာဉ်ကြီး၏ အတွင်းဝယ် ခင်းထားသော ကျောက်ဖျာထက်၌ ဗြဟ္မဒတ္တကုမာရသည် ကောင်းစွာ အိပ်စက်လျက်၊ ဒရီမုခသည် ဘုရားလောင်း၏ခြေကို ဆုပ်နယ်လျက် နေ၏။

ထိုအခါကား ဗာရာဏသီပြည်၌ မင်းကြီးသေလွန်၍ သင်္ဂြိုဟ်ပြီးသောနောက် ခုနစ်ရက်ပြောက်သဖြင့် သားမြေး ဆက်ခံသူ မရှိရကား မဟာ ဇနကဇာတ်၌ကဲ့သို့ ဖုဿရထားလွှတ်၍ မင်းလောင်းရှာသော နေ့နှင့်ကြုံသတည်း။ တင့်တယ်စွာတန်ဆာ ဆင်အပ်သော ဖုဿရထားလည်း များစွာသော စည်စောင်းပတ်သာ တူရိယာနှင့်တကွ စစ်အင်္ဂါလေးပါး ခြံရံလျက် မြို့မှထွက်၍ ဥယျာဉ်သို့ ရှေးရှုလာပြန်ပြီးလျှင် ထိုဥယျာဉ်ကို လက်ယာရစ် သုံးပတ်လှည့်၍ ဆိုက်၏။ ခြေကိုဆုပ်နယ်၍နေသော ဒရီမုခလည်း ဖုဿရထား လာသည်ကိုမြင်လျှင်၊ ငါ့အရှင်ဖြစ်သော ဤမင်းသားသည် ယနေ့မင်းဖြစ်၍ ငါ့အား စစ်သူကြီးအရာကို ပေးလတ္တံ့သည်ကား မချွတ်ပြီ။ အကယ်၍ ငါစစ်သူကြီး ဖြစ်မှုကား ပြည်ရေးရွာမှုကိုစီရင်ရ၍ များစွာမကောင်းမှုဖြစ်တော့မည်။ ထိုမကောင်းမှု ရှိကလည်း ဤလူ့ဘဝကိုမှ ပြန်၍မရနိုင်လေရာပြီ။ ထို့ကြောင့် အိမ်ရာထောင်သော လူ့ဘောင်၌ နေခြင်းဖြင့် အကျိုးမရှိ၊ ရဟန်းပြု၍ ကောင်းမှုကိုရှာရအောင် ဖုံးကွယ်ရာ၌ နေမှ သင့်မည်ဟု ကြံလျက် ဘုရားလောင်းကိုမသိစေဘဲ နေရာမှထ၍ ဥယျာဉ်အစွန်၌

အခေါင်း ရှိသောသစ်ပင်တစ်ခုတွင် ခိုဝင်၍ နေလေ၏။

ဖုသသရထား၌ ခြံရံလျက်ပါသော မှူးမတ် ပုရောဟိတ်တို့သည်လည်း ကျောက်ဖျာထက်၌ အိပ်နေသော ဘုရားလောင်းကို မြင်၍ ခြေလက္ခဏာတို့ကို ကြည့်လျှင် ဤအရှင်ကား အလွန်ဘုန်းရှိသော မင်းတည်း။ ကျွန်းငယ်နှစ်ထောင် အရံရှိသော လေးကျွန်းလုံး၌ မင်းပြုခြင်းငှာစွမ်းနိုင်ရာ၏။ သို့ရာတွင် တည်ပါအံ့လော စုံစမ်းဦးအံ့ဟု ကြံ၍ စည်စောင်းတူရိယာတို့ကိုတစ်ပြိုင်နက် တီးရွတ်စေ၏။ ဘုရားလောင်းလည်း အိပ်ရာမှ ဖြည်းညှင်းစွာထလျက် ကျောက်ဖျာထက်ဝယ် ထိုင်နေ၏။ ထိုအခါ ဆရာပုရောဟိတ်သည် ပုဆစ်တုပ်၍ အရှင်မင်းမြတ်– ဗာရာဏသီပြည် ရွှေထီး ရွှေနန်းသည် ခြေရင်းတော်သို့ ဆိုက်ရောက်ပါပြီ။ အရှင့်သားသည် ကြွ၍ မင်းပြုတော်မူပါဟု လျှောက်၏။ ဘုရားလောင်းလည်း သင်တို့၏မင်းသည် ဘယ်သို့ ဖြစ်သနည်း စသည်ဖြင့် အကြောင်းမျိုးစုံကိုမေး၍ မင်းကြီးကံကုန်ကြောင်း၊ နန်းဆက် ဖြစ်သော သားမရှိကြောင်းကိုလျှောက်၍ မင်းဆွေ မင်းမျိုးဖြစ်သော သမီးကညာ တို့ကိုဆောင်၍ ထိုဉယျာဉ်တွင်ပင် ရာဇာဘိသိက်သွန်း၍ မင်းမြှောက်လေ၏။ ယင်းသို့ ဘိသက် သွန်းပြီးလျှင် ထက်ဝန်းကျင်မှ လူများအပေါင်းတို့သည် ခြံရံလျက်မြို့ကို လက်ယာရစ်လှည့်၍ မင်းအိမ်တော်သို့ ဝင်ပြီးသော် တရားစီရင်ရာဌာန၌ နေ၍ မှူးမတ် မင်းချင်းတို့အား အသီးအသီး ကြီးစဉ်ငယ်လျှောက် အရာအထူးဌာနန္တရ၌ ထားပြီးမှ ရွှေနန်းပြာသာဒ်ထက်သို့ တက်လေ၏။ ကချေသည်ဖြစ်သော မင်း၊ မောင်းမတို့လည်း ခယဖြေဖျော်၍ မွေ့လျော်ဖွယ် ချီးမြှောက်ကြသောကြောင့် မင်း၏ စည်းစိမ်ဖြင့် ယာက်မူး မေ့လျော့ရကား ငယ်စဉ်က ကစားဖက်၊ အတတ်သင်ဖက်ဖြစ်သော ဒရိမုခကို သတိမရဘဲ နေလေ၏။

ဒရိမုခလည်း မင်းသည် မြို့တွင်းသို့ဝင်သောအခါ ပုန်းအောင်းရာမှ ထွက်ခဲ့၍ ကျောက်ဖျာထက်၌ ထိုင်လေသော် ဖက်ရွက်ရော်တို့ ကြွေကျသည်ကို မြင်၍ "ဤဖက်ရွက်သည် ပေါက်သစ်စ၌ လှပတင့်တယ် ရှုဖွယ်ရာရှိလှလျက် ရင့်ခြင်းသို့ ကျပြီးသော် ညှိုးရော်ကြွေကျ၍ လေသကဲ့သို့ ငါ၏ကိုယ်ခန္ဓာလည်း ငယ်သောအရွယ်က ရှုသာတင့်တယ် စုံမက်ဖွယ်ဖြစ်ပြီးလျှင် ကြီးမင်းအိုရွှမ်းလှ၍ မကြာမီပင် အိုခြင်း, နာခြင်း, သေရခြင်းဖြင့် ပျက်ယွင်းကြွေကျလတ္တံ့သည်သာတည်း"ဟု ခယ, ဝယ အနိစ္စသဘောကို ဆင်ခြင်သဖြင့် မြေပြင်အလုံးကို ပဲ့တင်ထပ်စေလျက် မြတ်သော ပစ္စေကဗောဓိဉာဏ်သို့ ရောက်လေ၏။ ထိုခဏ၌ လူဝတ်၊ လူစား ဆံမုတ်ဆိတ်တို့သည် ကွယ်ပ၍ သပိတ်သင်္ကန်း ရဟန်းပရိက္ခရာနှင့်တကွ ဝါတော်ခြောက်ဆယ် ရပြီးသော မထေရ်ကြီးကဲ့သို့ ဖြစ်၍ ကျောက်ဖျာထက်၌ တည်နေပြီးမှ နံနက်ဆွမ်းခံ၍ ဘုဉ်းပေး ပြီးသော် ကောင်းကင်ခရီးဖြင့် ပျံ၍ ဟိမဝန္တာတော ဂန္ဓမာဒနတောင်ယံဝယ် နန္ဒမူလလိုဏ်၌ သီတင်းသုံးနေလေ၏။

၀၂ ဘုရားအလောင်းဖြစ်သော ဗြဟ္မဒတ်မင်းသားလည်း တရားသဖြင့် မင်းပြု၏။
A ပြည်ရေးရွာမှုများသောကြောင့်လည်းကောင်း၊ စည်းစိမ်ကြီးမားသောကြောင့်

လည်းကောင်း သူငယ်ချင်းဖြစ်သော ဒရိမုခကို မေ့လျော့၍ အနှစ်လေးဆယ်လွန်မှ သတိရလေသဖြင့် အမှူးအမတ် ပုရောဟိတ်တို့ကို ဤသို့မေး၏။ အချင်းတို့- ဥယျာဉ်၏အတွင်း ကျောက်ဖျာပေါ်ထက် အိပ်စက်၍နေစဉ် သင်တို့ရထားနှင့် ပင့်ခေါ်လာသောအခါ ငါတစ်ယောက် ချင်းသာ တွေ့သလော။ ငါ့အဖော်ဖြစ်သော ဒရိမုခကို မတွေ့ကြသလောဟု မေး၏။ မှူးမတ်တို့ကလည်း အရှင်တစ်ပါးတည်းသာ တွေ့မြင်ပါသည်ဟု လျှောက်၏။ မင်းကလည်း ငါတစ်ဦးတည်းလာသည်မဟုတ်။ ဖွားဖက်ငယ်ဖော်ဖြစ်သော ဒရိမုခမည်သော သူတစ်ဦး ပါသည်။ သင်တို့ အောက်မေ့ကြ ဦးလော့ဟု ဆို၍ အကြင်သူသည် ဤဒရိမုခကို ညွှန်ပြနိုင်သည်ဖြစ်အံ့။ ထိုသူအား ကြီးစွာသော ဆုလာဘ်ကို ငါပေးမည်ဟု များစွာ ဆိုတာလျက် အနှစ်ငါးဆယ်မျှ လွန်လေ၏။

ဒရိမုခ ပစ္စေကဗုဒ္ဓါလည်း အနှစ်ငါးဆယ်ကျော်သောအခါ ငါ၏ခင်ပွန်းသည် ငါ့ကို တ, သ. လျှပြီ။ အသက်လည်းကြီးရင့်ပြီ။ သားသမီးစသည်တို့ဖြင့် ပွားစီးခြင်းသို့ ရောက်လေပြီ။ ငါသွား၍ တရားဟောတော့အံ့ဟု ကြံ၍ ကောင်းကင်ဖြင့်ပျံလေပြီးလျှင် မင်းကြီး ဥယျာဉ်မင်္ဂလာကျောက်ဖျာထက်၌ ရွှေဆင်းတုကဲ့သို့ နေတော်မူ၏။ ဥယျာဉ်စောင့်လည်း ပစ္စေကဗုဒ္ဓါကိုမြင်လျှင် အရှင်ဘုရား- အဘယ်အရပ်မှ လာသနည်း၊ အဘယ်အမည်ရှိသနည်းဟု မေးလျှောက်၏။ ငါသည် ဟိမဝန္တာတော နန္ဒမူလလိုဏ်မှ လာသည်။ ငါ၏အမည်ကား ဒရိမုခမည်သတည်းဟု ဆိုပေသော် အရှင်မြတ်သည် အကျွန်ုပ်တို့မင်းကိုသိပါသလောဟု လျှောက်ပြန်၏။ သင်တို့မင်းကား ငယ်သောအခါက ငါ၏ခင်ပွန်းတည်းဟု မိန့်ပေ၏။ ဥယျာဉ်မှူးကလည်း အရှင်ဘုရား- အရှင်မြတ်ကို အကျွန်ုပ်တို့မင်းကလည်း အလွန်တောင့်တ၏။ ကြွရောက်လာကြောင်းကို အကျွန်ုပ် လျှောက်ပါချေအံ့။ အရှင်မြတ်သည် ဤနေရာ၌ ဆိုင်းလင့်တော်မူပါဟု တောင်းပန်ခဲ့၍ မင်း၏ထံသို့ အမြန်သွား၍ လျှောက်လေသော် မင်းကြီးလည်း အလွန်အားရ၍ ငါ့ခင်ပွန်းကို ပူဇော်အံ့ဟု ရထားစီးလျက် များစွာသော အခြံအရံနှင့်တကွ ဥယျာဉ်သို့လာ၍ ပစ္စေက ဗုဒ္ဓါအား ရှိခိုးပူဇော်ကာ ပဋိသန္ထာရစကား ပြောဟောနေ၏။

ပစ္စေကဗုဒ္ဓါကလည်း မင်းကြီး- အဂတိလေးပါးသို့ မလိုက်စားဘဲ မင်းကျင့် တရားနှင့် ညီစွာမင်းပြုပါ၏လော။ ဥစ္စာဒဏ် ထားခြင်း၊ လက်နက်ဒဏ်ထားခြင်းဖြင့် သူအပေါင်းတို့အား မညှဉ်းဆဲခြင်း ရှိပါ၏လော။ ဒါန, သီလစသော ကုသိုလ် ကောင်းမှုတို့ကို ပြုစု ဆည်းပူးပါ၏လော အစရှိသည်ဖြင့် မေးမြန်းပြောဆိုပြီးမှ မင်းကြီး- ယခုကား အသက်အရွယ်ကြီးပြီ။ ရဟန်းတရားကိုကျင့်၍ တမလွန်ရိက္ခာကို ရှာချိန် သင့်ပြီဟု တရားဟောလို၍ "ပင်္ကော စ ကာမ ပလိပေါ စ ကာမာ" အစရှိသော ဂါထာကို ဆို၏။ ထိုဂါထာ၏ **အဓိပ္ပာယ်ကား။** ။ ဒါယကာ မင်းကြီး- လူတို့ဘုံတွင် ခုံမင်စွာ ခံစားရသော ကာမဂုဏ် မည်သည်ကား ရွှံ့ရောက်သော၊ အညစ်အကြေးကို ဆောင်တတ်သော မှော်သေးရေညှိနှင့်လည်း တူ၏။ ခပ်သိမ်းသော ပြိတ်မြက်ကြာမျိုး တို့၏ ပေါက်ရာဖြစ်သော ညွှန်နှင့်လည်းတူ၏။ သတ္တဝါတို့ကို နစ်မွန်းစေခြင်း။ ညစ်ညူး

စေခြင်း။ ပျက်စီးစေခြင်းဟူသော ဘေးသုံးပါးနှင့်ယှဉ်၏။ နေ၊ လ၊ တာရာတို့၏ အရောင်အဝါကိုလျက် မြေးယှက်တတ်သော တိမ်မြူမီးခိုးအညစ်တို့နှင့်လည်း တူ၏။ ထို့ကြောင့် ဤကာမဂုဏ်တို့ကို စွန့်ခွါ၍ စင်ကြယ်သောအကျင့်နှင့် ယှဉ်ဦးလော့ဟု မိန့်တော်မူ၏။

ထိုစကားကိုကြားသော် မင်းလည်း ကိလေသာတို့မှ မခွာနိုင်သောအဖြစ်ကို လျှောက်လို၍ "ဂဓိတော စ ရတ္တော စ အဓိမုစ္ဆိတောစ" အစရှိသော ဂါထာကို ဆို၏။ အဓိပ္ပာယ်ကား။ အရှင်ဘုရား– ပိန်းကြားပင်မျိုးတို့သည် ရေညွန်နှင့်ကင်း၍ မရှင်နိုင်သကဲ့သို့၊ ကျွန်ုပ်သည်လည်း အဘိဇ္ဈာ ကာယဂန္ထ ဟူသော ရေဖြင့်ဖွဲ့လျက်၊ ကိလေသာ ကာမဂုဏ်၊ ဝတ္ထုကာမဂုဏ်တည်း ဟူသော ညွန်၌နစ်၍ ဖြစ်ပွားကြီးကျယ် လာပေသည်။ ကြာပန်းနှင့်တူသော ကာမရသကို ခံစားရသည်ဖြစ်၍ အလွန် မွေ့လျော်ပေသည်။ ဤ ဘဝတသန္တာန်၌ ပယ်လှန်ခွာရှောင်ခြင်းငှာ မတတ်နိုင်ပြီ။ ဤမင်း၏ အနေဖြင့်သာလျှင် ဒါန, သီလ စသော ကုသိုလ်တရားကို အားထုတ်ပါ တော့မည် ဟူလိုသည်။

ပစ္စေကဗုဒ္ဓါလည်း ထပ်ကာဆုံးမ၍ "ယော အတ္တကာမဿ ဟိတာနုကမ္ပိနော အစရှိသော ဂါထာကိုဆို၏။ ။ အဓိပ္ပာယ်ကား။ ဒါယကာမင်းကြီး– အကြင်သူသည် လူတို့ဘုံဝယ် ကာမဂုဏ်၌ ပျော်ပါးခြင်းဟူသော အကျင့်သာလျှင်မြတ်၏ဟု နှလုံးထား လျက် ပညာရှိတို့၏ ဆုံးမစကားကိုလိုက်နာ၍ ကောင်းစွာမကျင့်သည်ဖြစ်အံ့။ ထိုသူကား စင်ဖြူကောင်းမြတ်သော နတ်ဗြဟ္မာတို့၏ ဂတိသို့မလားဘဲ အမိဝမ်းထဲသို့ သာလျှင် အဖန်တလဲလဲ ကပ်တပ်၏။ ဘင်ပုပ်ကျင်း၌ ပျော်ပိုက်သော လောက်ကဲ့သို့ အစာသစ် အစာဟောင်းတို့၏ အလယ်၌ရောက်သော သွေးညှီတံစီး တွင်း၌သာလျှင် ကြာမြင့်စွာ ကိန်းအောင်းလျက် ဖွားထွက်၍လာသော်လည်း များစွာသော ဒုက္ခကို အဖန်တလဲလဲ ခံရ၏။ ထို့ကြောင့် ဒုက္ခကင်းလွတ်စိမ့်သောငှာ စင်ကြယ်စွာသော ရဟန်းတို့ တရားကို အားထုတ်၍ ကျင့်ဦးလော့ ဆိုလိုသည်။

ထိုသို့ ဆုံးမပါသော်လည်း ဗာရာဏသီမင်းက ကျွန်ုပ်ဤဘဝ၌ မင်း၏သုခကို မစွန့်ပစ် နိုင်ချေ။ ဤအနေဖြင့်သာလျှင် ဒါန, သီလ စသော ကုသိုလ်ကို အားထုတ် တော့အံ့ဟု ဆို၍ ငြင်းဆန်ကာနေ၏။ ယင်းသို့ဆုံးမ၍ မရလေလျှင် အရှင်ပစ္စေက ဗုဒ္ဓါလည်း ဒါယကာ မင်းကြီး– တဖြည်းဖြည်းသာတွေး၍ တမလွန်အရေးကို ပြုလေ လော့ဟု ဩဝါဒပေး၍ မိမိနေရာ ဟိမဝန္တာသို့ ပြန်လေ၏။ အလောင်းတော် မင်းကြီးလည်း ထိုအခါမှစ၍ ကာမချမ်းသာ၌ တစ်စတစ်စ အပြစ်ကိုရှုသဖြင့် အသက်ခြောက်ဆယ်ကျော် အရွယ်သို့ ရောက်သောအခါ များစွာသော အပြစ်ကိုမြင်၍ ထက်ဝန်းကျင်သော မင်း,မိဖုရား၊ သားတော်၊ သမီးတော်၊ မှူးတော်၊ မတ်တော် အပေါင်းတို့သည် တောင်းပန် ငိုကြွေးကြစဉ်ပင် အလုံးစုံသော ပြည်၏စည်းစိမ်ကို စွန့်၍ ရဟန်းပြုပြီးမှ တောသို့ဝင်၍ ဗြဟ္မစိုရ်တရားကို အားထုတ်သဖြင့် မရှည်မြင့်မီ ဈာန်အဘိညာဏ် သမာပတ်တို့ကိုရ၍ အသက်အဆုံး၌ ဗြဟ္မာ့ပြည်သို့ လားလေ၏။ မြတ်စွာဘုရားသည် ဤသို့သော တရားဒေသနာကို ဆောင်တော်မူ၍ သစ္စာလေးပါးကို

အဆုံးသတ်ပြီးမှ ဇာတ်ကိုပေါင်းတော်မူ၏။

ဤဇာတ်၌ ငါတို့ဘုရားအလောင်းတော်ဖြစ်သော ပြဟ္မဒတ်မင်းသည် ဒရီမုခ ပစ္စေကဗုဒ္ဓါဟောသော တရားကို ရုတ်ခြည်း မလိုက်နာဘဲ ကာမစည်းစိမ်ဖြင့် မေ့လျော့ ၍သာ ဆယ်နှစ်ကျော်ကြာအောင် နေတော်မူဖူးသည်ဟူ၍ ဆက္ကနိပါတ်၊ ဒရီမုခဇာတ် ကျမ်း၌ လာသည်။

◆◆◆◆◆

## ၁၀၃၂။ မမြင်မတွေ့၊ လွန်သိမ်မွေ့၊ ကံမွေ့မဟုတ် အဘယ်နည်း။ (၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဝိညတ္တိဒွယံ စိတ္တဇမေဝ။ သဒ္ဒေါစိတ္တောတုဇော။ လဟုတာ ဒိတ္တယံ ဥတုစိတ္တာဟာရေဟိ သမ္ဘောတိ။**

ဟူသော လက်သန်းအဋ္ဌကထာပါဠ်နှင့်အညီ– စိတ်ကြောင့်သာဖြစ်သော ကာယဝိညတ်, ဝစီဝိညတ် တည်းဟူသော ဝိညတ်ရုပ်နှစ်ခု၊ စိတ်ကြောင့်လည်းကောင်း၊ ဥတုကြောင့်လည်းကောင်းဖြစ်သော အသံဟူသော သဒ္ဒရုပ်တစ်ခု။ လဟုတာ၊ မုဒုတာ၊ ကမ္မညတာဟူသော ဝိကာရရုပ်သုံးခု ဤခြောက်ခုသော ရုပ်တို့သည် မြင်လည်း မမြင်အပ်။ တွေ့လည်း မတွေ့အပ်။ ကံ‌ကြောင့်ဖြစ်သည်လည်း မဟုတ်ဟူပေ။

◆◆◆◆◆

## ၁၀၃၃။ ကြောင်မိန်ဝက်လေ့၊ သိသာရွေ့၊ စေ့ခေါ်ဆင်မှာဘယ့်ကြောင့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကြောင်ကို ''မိန်–မိန်''ဟု ခေါ်ခြင်းသည် ''ငါးဟဲ့–ငါးဟဲ''ဟု ဆိုလိုသည်၊ မီနသဒ္ဒါကား ငါးကိုဟောသည်။

ဝက်ကို ''လေ့လေ့''ဟုခေါ်ခြင်းသည် ပျစ်ပျစ်သော ယာဂုတည်းဟူသော လျက်ဖွယ်ကို လျက်တတ်သော သတ္တဝါမျိုးဖြစ်၍ ''လေယျ လေယျ၊ လျက်လှည့်– လျက်လှည့်''ဟု ဆိုလိုသည်။

ဆင်ကို ''စေ့–စေ့''ဟု ခေါ်ခြင်းသည် ဆန်ကိုအလွန်ကြိုက်သော သတ္တဝါမျိုး ဖြစ်၍ ''ဆန်စား လှည့်–ဆန်စားလှည့်''ဟု ဆိုလိုသည်၊ စေ့ဝှသဒ္ဒါ ဆန်ကိုဟောသည်။

ခွေးကို ''အို့–အို့''ဟု ခေါ်ခြင်းသည် ဟပ်မျို၍ စားတတ်သော သတ္တဝါမျိုးဖြစ်၍ ''အဝဟရ အဝဟရ၊ မျိုလှည့်–မျိုလှည့်''ဟု ဆိုလိုသည်။ ကြက်ကို ''တီ–တီ''ဟု ခေါ်ခြင်းသည် ပိုးမွှားတီရစ္ဆာန်ကို စားတတ်သော သတ္တဝါမျိုးဖြစ်၍ မဂဓဘာသာဖြင့် ''တိရစ္ဆာန်–တိရစ္ဆာန်''ဟု ဆိုလိုသည်။ ။ တစ်ပါးအရာတို့၌လည်း ဤနည်းတူမှတ်လေ။

◆◆◆◆◆

**၁၀၃၄။ ဂူတစ်လုံးတွေ့၊ ပေါင်းယှဉ်၍၊ ခြသေ့်မင်းချင်း နေလိမ့်နည်း။(၄)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**မာနောပိ အဟံ မာနဝသေန ပဝတ္တနတော ဒိဋ္ဌိသဒိသောဝ ပဝတ္တတီတိ ဒိဋ္ဌိယာ သဟ ဧကစိတ္တုပ္ပါဒေန ပဝတ္တတိ။ ကေသရသီဟော ဝိယ အပရေန တထာဝိဓေန သဟာဧကဂုဟာယံ။**

ဟူ၍ ဋီကာကျော်မိန့်သည်ကိုထောက်သဖြင့် ခြသေ့်မင်းချင်း ဂူတစ်လုံးတည်း ပေါင်းယှဉ်၍မနေဟု သိအပ်၏။

**အနက်ကား။** ။ မာနောပိ၊ မာနတရားသည်လည်း။ အဟံမာနဝသေန၊ ငါဟူသော မာန်ထောင်ခြင်း၏အစွမ်းဖြင့်။ ပဝတ္တနတော၊ ဖြစ်ခြင်းကြောင့်။ ဒိဋ္ဌိသဒိသောဝ၊ ဒိဋ္ဌိနှင့် အလားတူသည်သာလျှင်။ ပဝတ္တတိ၊ ၏။ တသ္မာ၊ ထို့ကြောင့်။ ဒိဋ္ဌိယာ၊ ဒိဋ္ဌိနှင့်။ သဟ၊ တကွ။ ဧကစိတ္တုပ္ပါဒေ၊ တစ်ခုသောစိတ္တုပ္ပါဒ်၌။ န ပဝတ္တတိ၊ မဖြစ်။ ကိမိဝ၊ အဘယ်ကဲ့သို့နည်းဟူမူကား။ ကေသရသီဟော၊ ကေသရာခြသေ့်သည်။ အပရေန၊ တစ်ပါးသော။ တထာဝိဓေန၊ ထိုထိုမိမိနှင့်တူသော သဘောရှိသော ခြသေ့်တစ်ကောင်နှင့်။ သဟ၊ တကွ၊ ဧကဂုဟာယံ၊ တစ်ခုတည်းသောလိုဏ်၌။ န ဝသတိ ဝိယ၊ မနေ သကဲ့သို့တည်း။

ဒိဋ္ဌိနှင့်မာနသည် တစ်ခုသောစိတ္တုပ္ပါဒ်၌ ပြိုင်ယှဉ်၍ မဖြစ်သည်ကို ဥပမာပြု၍ ပြအပ်သော စကားတည်း။ ဤဥပမာဖြင့်ပင် သိသာလှ၏ ဟူပေ။

❖❖❖❖❖

**၁၀၃၅။ ဆယ့်ခုနစ်ရွေ့၊ သက်မစေ့၊ စုတေ့သည့်ရုပ် ဘယ်မျှနည်း။(၅)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

စိတ်နှင့်အတူ ဖြစ်ခြင်းချုပ်ခြင်း ရှိသည်ဖြစ်၍ စိတ္တာနုပရိဝတ္တိဝိညတ္တိဝမ္မအမည်ရသော ဝိညတ်ဒွေဟူပေ။ ။ လက္ခဏာရုပ်လေးခုသည် သတ္တရသာယုက မရှိသည်မဟုတ် လောဟူငြားအံ့။ သတ္တရသာယုက မရှိသည်မှန်၏။ မှန်သော်လည်း ထိုလက္ခဏာရုပ် တို့သည် ဥပါဒ်, ဋ္ဌီ, ဘင် အားဖြင့် ဖြစ်ခြင်းမရှိ။ တစ်ပါးသောရုပ်တို့၏ ဥပါဒ်ကိုသာ ဥပစယ, သန္တတိဟူသော အမည်ဖြင့်၊ ဋ္ဌီကို ဇရတာဟူသောအမည်ဖြင့်၊ ဘင်ကို အနိစ္စတာဟူသောအမည်ဖြင့် ခေါ်ရလေသောကြောင့် ရုပ်သီးမဟုတ်၍ မရေတွက်ဟူပေ။ ထို့ကြောင့် ဋီကာကျော်၌–

> ရူပဓမ္မာနန္တိ ဝိညတ္တိလက္ခဏာရူပဝဇ္ဇာနံ ရူပဓမ္မာနံ။ ဝိညတ္တိဒွယဉှိ ဧကစိတ္တက္ခဏာယုကံ။ တထာ ဟိ တံ စိတ္တာနုပရိဝတ္တိဓမ္မေသု ဝုတ္တံ။ လက္ခဏာရူပေသုစ ဇာတိစေဝ အနိစ္စတာစ စိတ္တသဉပ္ပါဒ ဘင်္ဂက္ခဏေဟိ သမာနာယုကာ။ ဇရတာ ပန ဧကူနပညာသစိတ္တက္ခဏာယုကာ။

ဟူ၍မိန့်ပြီ။

❖❖❖❖❖

❖❖❖❖❖

၁၀၃၆။ မင်္ဂိုလ်ရ၍၊ မသိမ်မွေ့၊ လက်ဖေ့သတ်သူ၊ ဘယ့်လောက်နည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

မင်္ဂလေးပါးတွင် တစ်ပါးပါးကိုလည်းကောင်း၊ ဖိုလ်လေးပါးတွင် တစ်ပါးပါးကိုလည်းကောင်း၊ လေးပါးလုံးကိုလည်းကောင်း ရပြီးသူဖြစ်လျက် မသိမ်မွေ့ဘဲ လက်ဖေ့လက်ပမ်းသတ်သူကို ကျမ်းဂန်၌လာသောအရာကို သတိမမူမိချေ။ သတိရသူတို့ ဖြေပါလေကုန်။

❖❖❖❖❖

၁၀၃၇။ အရေတော်မြေ့၊လွန်သိမ်မွေ့၊ဘုန်းဟေ့ ဘယ်ကောင်းမှုကြောင့်နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အက္ကောဓနော အဟောသိ အနုပါယာသဗဟုလော အစရှိသော ပါဠိနှင့်အညီ ရှေးရှေးသောဘဝတို့၌ သူတစ်ပါးတို့အား အမျက်စောင်းမာန်နည်းလျက် ပြေပြစ်စွာ ပြောဆိုလေ့ရှိသည်။ နူးညံ့သိမ်မွေ့သော အခင်းအရုံကိုလှူလေ့ရှိသည်။ ထိုကောင်းမှုတို့ကြောင့် သိမ်မွေ့နူးညံ့သော အရေရှိခြင်း ဟူသော သုဝဏ္ဏစ္ဆဝိ၊ သုခုမစ္ဆဝိ လက္ခဏာကို ရတော်မူသည်။ ။ အထက် ''င''ကာရန်ပုစ္ဆာနံပါတ် ၉၉၈-တွင်လည်း အဖြေရေးခဲ့ပြီ။

❖❖❖❖❖

၁၀၃၈။ သွားတော်သိမ်မွေ့၊လေးဆယ်စေ့၊ချမ်းမြေ့ဘယ်ကုသိုလ်ပေနည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ပိသုဏာဝါစံ ပဟာယ ပိသုဏာဝါစာ ပဋိဝိရတော ဟောတိ။ ဣတော သုတွာ အမုတြ အက္ခာတာဣမေသံ ဘေဒါယ အမုတြဝါ သုတွာ ဣမေသံ အက္ခာတာ။**

အစရှိသည်ဖြင့် ဟောတော်မူသော လက္ခဏာသုတ် ပါဠိနှင့်အညီ ရှေးရှေးသော ဘဝတို့၌ ပိသုဏာဝါစာ ဟူသော ဝစီဒုစရိုက်မှ ရှောင်ကြဉ်တော်မူ၍ မညီညွတ်သောသူနှစ်ယောက်တို့ကို ညီညွတ်အောင်၊ ချစ်ခင်သင့်တင့်အောင် ပြောဆိုခြင်း တည်းဟူသော ကုသိုလ်ကြောင့် လေးဆယ်စေ့သော သွားတော်ရှိခြင်းတည်းဟူသော စတ္တာလီသသမဒန္တ လက္ခဏာကို ရတော်မူသည်။ အထက် ယသတ် ''အယ်'' ကာရန်ပုစ္ဆာနံပါတ် ၈၅-၌။ လေးချောင်းအစွယ်။ ကိုယ်တော်ဝယ်။ ဘယ်ကောင်းမှုကြောင့် ဖြစ်သနည်း- ဟူသော ပုစ္ဆာကို ဖြေခဲ့ရာဝယ် စွယ်တော်လေးချောင်းသည် မကောင်းသော အသက်မွေးခြင်းဟူသော မိစ္ဆာဇီဝမှကြဉ်ရှောင်၍ သမ္မာအာဇီဝဖြင့် အသက်မွေးတော်မူသော ကုသိုလ်ကြောင့် ရသည်ဟု ပြဆိုခဲ့သည်။ ထိုရှေ့စကားနှင့် နောက်စကားကို စပ်သော် သွားတော် လေးဆယ်ကိုရကြောင်း ကောင်းမှုလည်း တခြား၊ စွယ်တော်

လေးဆူကိုရကြောင်း ကောင်းမှုလည်းတခြားဖြစ်၍ ကမ္မအားဖြင့်လည်းကောင်း၊ ကမ္မသရိက္ခကအားဖြင့်လည်းကောင်း၊ လက္ခဏာအားဖြင့်လည်းကောင်း လက္ခဏာနိသံသအားဖြင့်လည်းကောင်း ကွဲလွဲလေရကား သွားတော်လေးဆယ်လည်း တခြား၊ စွယ်တော်လေးချောင်းလည်းတခြား ဖြစ်သင့်သည်ဟု အချို့ဆရာတို့ မိန့်ဆိုကြ၏။ ထိုစကားသည်မသင့်။ အဘယ့်ကြောင့်နည်းဟူမူ–ပီသုဏဝါစာဟူသော ဝစီဒုစရိုက်မှ ကြဉ်ခြင်းလည်း မိစ္ဆာဇီဝတွင် ဝင်ပြီးဖြစ်သောကြောင့် အသီးအခြားသော အကြောင်း မဖြစ်နိုင်။ အကြောင်းမသီးခြားက အကျိုးလည်း မသီးခြားနိုင်။ ထို့ကြောင့် စွယ်တော်နှင့် တကွ သွားတော်လေးဆယ်သာရှိသည်။ ဂုဏ်ထူးဝိသေသ ရှိသည်ကို ပြလို၍သာ စွယ်တော်ကို အသီးထုတ်၍ ဆိုသည်ဟု ယူရမည် ပါဠိသာစကေကိုလိုလျှင် သာသနာလင်္ကာရစာတမ်းတွင် ယူလေ။

◆◆◆◆◆

## ၁၀၃၉။ ကိုယ်တော်ခြင်္သေ့၊ ထက်ဝက်ရှေ့၊ ကယ်၍တူ၏ဘယ့်ကြောင့်နည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ခြင်္သေ့မင်း၏ ရှေ့ထက်ဝက်သော ကိုယ်သည် ပိန်သော၊ နိမ့်သော၊ မတင့်တယ်သော အရာမရှိ။ ရွှချင်စဖွယ် တင့်တယ် ပြည့်ဖြိုးသကဲ့သို့ ဘုရားသခင်၏ ကိုယ်တော်အလုံးသည်လည်း ပိန်လွန်းသော၊ နိမ့်လွန်းသော နေရာမရှိ။ ပြည့်ဖြိုး လှပသည်ဖြစ်၍ ရှုမောစဖွယ် တင့်တယ်သော သီဟပုဗ္ဗမုကာယလက္ခဏာကို ရတော်မူခြင်းသည် လည်းကောင်း၊ ပန်းဝတ်ဆံဖြင့် စီမံပြုပြင်သကဲ့သို့ အချိုင့်မထင် ဖြိုးသောရင်တော် ရှိတော်မူခြင်းသည် လည်းကောင်း၊ အန္တရံ သဗ္ဗပီဏလက္ခဏာကို ရတော်မူခြင်းသည် လည်းကောင်း၊ မုရိုး စည်ကဲ့သို့လုံးသော လည်တော်ရှိခြင်းတည် ဟူသော သမဝဋ္ဋက္ခန္ဓလက္ခဏာကို ရတော်မူခြင်းသည် လည်းကောင်း ဤလက္ခဏာ သုံးပါးကိုရခြင်းသည် ရှေးရှေးသော ဘဝတို့၌ အမျိုးတို့၏ ကျင့်ဝတ်တရားမှ မယုတ်အောင် အားထုတ်၍ ကျင့်တော်မူဖူးသော ကောင်းမှုကြောင့် ရတော်မူသည်။ ။ ခြင်္သေ့မင်း၏ မေးနှင့်တူသော မတို မချွန်း တိဝန်းသော မေးတော်ရှိခြင်း တည်းဟူသော သီဟဟနု လက္ခဏာကို ရခြင်းသည်လည်း သူတစ်ပါးတို့အား စဉ်လဲခြင်းမရှိ ဖြောင့်မတ်သောသဘောဖြင့် သိမ်းပိုက် မွေးမြူခဲ့ဖူးသော ကောင်းမှုကြောင့် ရတော်မူသည်။

◆◆◆◆◆

## ၁၀၄၀။ တံခါးပိတ်၍၊ တောထွက်လေ့၊ စေ့မြေဘယ်ကိရိယာနည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဒွါရံ ပိဒဟိတွာ နိက္ခမိ ဟူသောပါဠိ၌ ထွက်ခြင်းကိရိယာကား ရှေ့၊ တံခါး ပိတ်ခြင်း ကိရိယာကား နောက်ဖြစ်သောကြောင့် တွာပစ္စည်းသည် အပရကာလ

ကိရိယာအနက်၌ ဖြစ်သည်ဟူ၏။ ဒဏ္ဍော တက္ကစ္စပတတိကာ သမာနကာလကိရိယာ။ ဗုဒ္ဓံ ဝန္ဒိတွာ ဝက္ခာ မိကား ပုဗ္ဗကာလကိရိယာ။ ပိဝိတွာ ဟောတိ သပ္ပိ ဗလံ ပါဠ်၌ တွာပစ္စည်းကား ဟေတွတ္ထ ကိရိယာတည်း။ နောက်ကလည်း ဖြေခဲ့ပြီ။

❖❖❖❖❖

## ၁၀၄၁။ တသွာရှေ့၊ ဟိတ်နှင့်တွေ့၊ ထူး၍အနက် နေလိမ့်နည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တသွာနောင်၊ ဟိတ်နှင့်ဆောင်မူ၊ အနက်တူ၊

တသွာရှေ့၊ ဟိတ်နှင့်တွေ့၊ ပြား၍အနက်ယူ။ ။ နိယံ။

ဋီကာကျော်တို့၌ ဥဒါဟရဏ်ထင်ရှားပြီ။

❖❖❖❖❖

## ၁၀၄၂။ မြေခုတ်ယွင်း၍၊ ပျက်ဝလေ့၊ သေနေ့ဘယ်မျှ ခန့်ပေနည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- အထက် နသတ် ''အန်'' ကာရန်ပုစ္ဆာနံပါတ် ၆၀၃-တွင်ဖြေခဲ့ပြီ။

❖❖❖❖❖

## ၁၀၄၃။ နားတော်ပြကတော့၊မြတ်ဘုန်းဟော့၊ဘယ်၍ကြားတော်မူလိမ့်နည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- အထက် ''အည်'' ကာရန်မံသစက္ခု အမေးပုစ္ဆာကပင် တဝတည်း ရေးခဲ့ပြီ။ သိလိုမူ ပုစ္ဆာနံပါတ် ၉၀၀-တွင် ကြည့်လေ။

❖❖❖❖❖

## ၁၀၄၄။ လူနှင့်ခြသေ့်၊ အိမ်ထောင်၍၊ ချောမြေ့ရင်သွေး ဘယ်မျှနည်း။(၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

လာလတိုင်း၊ ဝင်္ဂပြည်ကိုအစိုးရသော မင်းကြီးသည် ကာလိင်္ဂမင်း၏ သမီးတော်ကို မိဖုရားမြှောက်၍ မင်းပြုရာတွင် သမီးတော်သုပ္ပတိဒေဝီကို ဖွားမြင်သည်။ ထိုမင်းသမီး ဖွားစကပင် ဗေဒင်ဆရာတို့က လက္ခဏာနိမိတ်ကိုကြည့်၍ ဤမိန်းမကား ခြသေ့်နှင့် အိမ်ထောင်သင့်လတ္တံ့ဟု ဟောပြောကြ၏။ မင်းသမီးအရွယ်ရောက်သောအခါ အကျင့် အာစာရမှ မမြတ်သောကြောင့် မိဘတို့သည် စွန့်ပစ်လိုက်၍ တောအုပ်သို့ ရောက်လေသော် ကေသရာခြသေ့်နှင့်တွေ့၍ ခြသေ့်သည် ကျောက်ကုန်းထက်တင်၍ ဆောင်ပြီးမှ မိမိ နေရာကျောက်ဂူ၌ သွင်းထား၍ မယားပြုလေ၏။ ယင်းသို့ ခြသေ့်နှင့်

ပေါင်းဖက်ရာတွင် သားတစ်ယောက်၊ သမီးတစ်ယောက်ရ၏။ သားကား သီဟဗာဟု မည်၏။ သမီးကား သီဟသီဝလိမည်၏။ ထိုမောင်နှမတို့ အရွယ်ရောက်သောအခါ လူတို့မြို့ရွာသို့ ပြေးလာ၍ ဝင်္ဂပြည်သို့ရောက်လျှင် ဦးရီးတော်ကသိမ်းမြန်းမွေးမြူ၍ ကြီးပွားလေသဖြင့် ဦးရီးတော် သေလွန်သောကာလ သီဟဗာဟုသည် မင်းအဖြစ်ကိုရ၍ ခြင်္သေ့နေသော တောအုပ်၌ သီဟပုရမည်သောမြို့ကိုတည်၍ နှမတော်သီဟသီဝလိကို မိဖုရားပြု၍ နန်းစံသည်တွင် သားတော် ဝိဇယမင်း၊ သုမိတ္တမင်းတို့ကို ဖွားမြင်သည်။ အကျယ်ကိုလိုသော် မဟာဝင် စာကိုယ်ဋီကာတို့၌ ရှုလေကုန်။

◆◆◆◆◆

## ၁၀၄၅။ ဘီလူးနှင့်တွေ့၊ အိမ်ထောင်စေ့၊ဘုန်းဟေ့ဘယ်မင်းပေတို့နည်း။(၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ပုဂံပြည်၌ စလေမင်းခွေးဟူပေ။ အကျယ်ကို အထက် ''အည်''ကာရန်ပုစ္ဆာနံပါတ် ၇၃၉–တွင် ဖြေခဲ့ပြီ။

◆◆◆◆◆

## ၁၀၄၆။ ကူးတို့စီး၍၊ ပါးပုတ်တွေ့၊ ရသေ့ဘယ်မင်း ဆရာနည်း။(၁၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဗာရာဏသီမင်းဆရာဟူပေ။

**အကြောင်းကား။** ။ လွန်လေပြီးသောအခါ ငါတို့ဘုရားအလောင်းတော်သည် ဗြာဟ္မဏမဟာသာလအမျိုး၌ ဖြစ်၍ အရွယ်ရောက်သောကာလ ရသေ့ရဟန်းပြု၍ ဟိမဝန္တာတော၏အစ၌ နေသည်တွင် ချဉ်ဆားမှီဝဲအံ့သောငှာ တစ်ရံသောအခါ လူတို့ရွာသို့ လာသည်တွင် ဗာရာဏသီမင်းတွေ့မြင်၍ ထိုရှင်ရသေ့အား လျှောက်၍ တရားနာပြီးမှ အကျွန်ုပ်မြို့၏ အနီး၌ သီတင်းသုံးတော်မူပါဟု ပင့်လျှောက်၏။ ရှင်ရသေ့လည်း လူတို့၏ အနီးတွင် ငါမနေလိုဆို၍ ခွင့်မပေးလေလျှင် အရှင်ရသေ့ အမြဲမနေလိုသော် တစ်ရံတစ်ခါ ကြွတော်မူပါဟု ပင့်လိုက်၏။ ရှင်ရသေ့လည်း ကောင်းပြီဟု ဝန်ခံ၍ ပြန်လေ၏။ တစ်ရံသောအခါ မြို့သို့လာသည်တွင် ဂင်္ဂါမြစ်၌ ရေရှိသောအခါဖြစ်၍ မကူးနိုင်သောကြောင့် ကူးတို့ပို့အံ့သောသူကြည့်သော် ရဟန်းသံဃာတို့၏ ဂုဏ်ကျေးဇူးကို မသိတတ်သော ကူးတို့သမား တစ်ဦးကိုတွေ့၍၊ ဒါယကာ ဟိုမှာဘက်ကမ်းသို့ ငါ့ကိုပို့ပါဟု ဆို၏။ ကူးတို့ သမားကလည်း။ အရှင်ရသေ့– အခရလျှင် ပို့အံ့ဟုဆို၏။ ဒါယကာ၊ ပို့သာပို့လော့။ သူတကာ ပေးနိုင်ခဲသောအခကို ငါပေးအံ့ဟု ဆို၏။ ကူတို့သမားကလည်း ယင်းသို့ဖြစ်လျှင် လှေသို့တက်ယော့ဟု ဆို၍ ပို့လေ၏။ ထိုမှာဘက်ကမ်းသို့ ရောက်သောအခါ ရှင်ရသေ့ ပေးရန်အခကို ငါ့အားပေးလော့ဟု တောင်း၏။ ဒါယကာ၊ ရသေ့ရဟန်းတို့ကို လည်းကောင်း သူကြီး မိဘတို့ကို လည်းကောင်း ဥစ္စာအခမယူဘဲ ပို့ရခြင်းသည် တစ်မလွန်ဘဝ၌

တောင့်ဘအပ်သော ဆုနှင့် ပြည့်စုံသည်သာ ဖြစ်၏။ ထို့ကြောင့် ထိုသူကို အခမယူရာ။ တစ်ပါးသူတို့ကို ပို့လိုမှုကား လှေမစီးမီ အခကိုတောင်းရာ၏။ မတောင်းမူ၍ ပို့သော် ထိုမှာဘက်ကမ်းသို့ ရောက်သောအခါ အခဥစ္စာကို မပေးဘဲ ထွက်ပြေးတတ်၏။ ဤသြဝါဒကို ကောင်းစွာမှတ်လေလော့။ ဤကား အခပင်တည်းဟု ဆို၏။ ထိုစကားကို ကြားသော် ကူးတို့သမားသည် အမျက်ထွက်၍ အထူးထူးဆဲရေးပြီးမှ ရသေ့၏ပါးကို ပုတ်ခတ်၍ လှေကို နစ်အောင် ပြုလေ၏။ ဤသို့ မလိမ္မာသော သူမိုက်တို့ မည်သည်ကား အသက်ထက်ဆုံး မှတ်သားထိုက်သော သြဝါဒကိုပေးလျက် အကျိုး ရှိသည်မထင်။ မျက်မြင်သုံးဆောင်ရသော စားဖွယ်သောက်ရာ ရွှေငွေဥစ္စာကိုသာ အကျိုးရှိသည်ဟု ထင်မှတ်၍ မပြစ်မှား အပ်သော သူကို ပြစ်မှားဖူးလေသည်ဟု ဟောတော်မူသော အဘ္ဗမဇာတ်ကို မှီ၍ သိရာ၏ ဟူပေ။

**"အေ့" ကာရန်ပုစ္ဆာ ၁၆–ပုဒ်အဖြေပြီး၏။**

❖❖❖❖❖

## (၃၆) "အေး" ကာရန်ပုစ္ဆာ ၁၆–ပုဒ်အဖြေ

**၁၀၄၇။ သစ္စာပွင့်မွေး၊ ညှောင်ရိပ်အေး၊ ခက်သေးခက်မ ဘယ်လောက်နည်း။(၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**တဿ ခန္ဓော ဒသဟတ္ထော၊ ပဉ္စသာခါ မနောရမာ။**
**စတုသဋ္ဌာ စတုဟတ္ထာ၊ ပဉ္စဖလပဋိမဏ္ဍိတာ။**

**သတဿန္တု ပသာခါနံ၊ သာခါနန္တာ သမာပိ စ။**
**ဧဝံ အာသိ မဟာဗောဓိ၊ မနောဟရသိရိန္ဒရာ။**

ဟူ၍ မဟာဝင်၌လာသည်။

**အဓိပ္ပာယ်ကား။** ။ အမြစ်တရာတို့ဖြင့် ကောင်းစွာ တည်လတ်သော ဒက္ခိဏာသာခါ ဗောဓိသည်ပင်စည်ဆယ်တောင်မြင့်သည်။ နှလုံးမွေ့လျော်ဖွယ်သော ခက်မ ငါးဖြာတို့သည် လေးတောင်၊ လေးတောင်စီရှိသည်။ အသီးငါးခုတို့ဖြင့် တန်ဆာဆင်အပ်သည်။ ခက်သေး တစ်ရာရှိသည်။ ၎င်းထက်၌ ဖြာသော ခက်ငယ်လည်း တစ်ရာစီရှိသည်။ ပင်မရင်းဖြစ်သော ဗောဓိပင်နှင့် ထပ်တူဖြစ်၍ လူနတ်အပေါင်းတို့၏ နှလုံးကို ဆောင်လျက် ရွှေဖျဉ်း၌ တည်လေသည်ဟူ၍ ဆိုသည်။ ထိုသို့လာသည်ကို ထောက်၍ မဟာဗောဓိပင်၌ ခက်မကြီး ငါးဖြာ၊ ခက်သေးတစ်ရာ၊ ခက်ငယ် တစ်ထောင်ရှိသည်ဟု သိအပ်၏။ ဤကား ကျမ်းကြီးကျမ်းခိုင်တို့၌ လာသော စကားတည်း။

103
B

မဟာဗောဓိသမိုင်းဟူသော စာငယ်၌ကား ဘုရားပွင့်တော်မူသော ဗောဓိပင်သည် အစောက်အားဖြင့် မြေမှသည် အထက်ခွဆုံးတိုင်အောင် သံတောင်ငါးဆယ်။ ထိုမှသည် အဖျားတိုင်အောင် သံတောင်ငါးဆယ်ရှိသည်ဖြစ်၍ နှစ်ရပ်ပေါင်း သံတောင်တစ်ရာရှိသည်။ အရိပ်နေ အချင့်လည်း သံတောင်တစ်ရာရှိသည်။ ပင်စည်လုံးပတ်ကား ဘုရားရှင့် တစ်ဆယ့်ရှစ်တောင်။ မဇ္ဈိမသား၏ လေးဆယ့်ငါးတောင်ရှိသည်။ ရှေးရှေးကမူကား ခက်မငါးဖြာ။ ယခုမှာကား ဓမ္မာသောကမင်းကြီးသည် လက်ယာတောင်ကိုင်းကို ယူလေသောကြောင့် ခက်ကြီးလေးခုသာရှိသည်။ ထိုမှဖြာသော ခက်ငယ်ပေါင်းကား ငါးသန်း သုံးသိန်း သုံးသောင်း သုံးထောင့် ခုနစ်ခက်ရှိသည်။ ရွက်ချပ်ပေါင်းကား တစ်ကုဋေ တစ်သန်း ခြောက်ဆယ့်လေးချပ် ရှိသည်။ သန္တာအဆင်းနှင့်တူသော အညွန့်ပေါင်းကား ကုဋေတစ်ရာရှိသည်။ အရွက်တို့သည် အချို့ကား ညိုသောအရောင်။ အချို့ကား ရွှေသော အရောင်။ အချို့ကား နီသောအရောင်။ ဖြူသောအရောင်။ စိမ်းသောအရောင်အားဖြင့် ငါးမျိုး ပြားကုန်သည်။ ဗောဓိပင်၏ အရှေ့မြောက်ယွန်း တစ်လံကွာတွင် ရွှေပလ္လင်ရှိ၏။ ထိုရွှေပလ္လင်ကား အစောက်တစ်ဆယ့်လေးတောင်။ အပြန့်တစ်ဆယ့်ခြောက်တောင်ရှိသည်။ ပလ္လင်နှင့် ဗောဓိပင်ကြားဝယ် ဝသုန္ဒရေကျောက်ဖြစ်လျက်ရှိသည်။ ဗောဓိပင်ထက်ဝန်းကျင်၌ မာရ်နတ်ရုပ် ဆင်စီးလျက် စစ်သည်ဗိုလ်ဖါအများနှင့်တကွ ကျောက်ဖြစ်လျက် ရှိသည်။ မာရ်နတ် မင်းသမီး သုံးယောက်တို့လည်း ကျောက်ဖြစ်လျက်ရှိသည်ဟူ၍ စာငယ်များတွင် တွေ့ဖူး၏။ အရှင်ဗုဒ္ဓဃောသ သီသော ဂါထာဟူ၍လည်း သသံကရိုက်နှင့် သုံးဂါထာရှိ၏။ နှစ်သက်ရာ မှတ်လေကုန်။

❖❖❖❖❖

## ၁၀၄၈။ ဇမ္ဗူမှာဒွေး၊ ရာမှာငေး၊ နက်လေးဓိပ္ပာယ်မည်သို့နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဇမ္ဗူဒိပ်ကျွန်းတွင် သုနာပရန္တတိုင်း၊ ဝါဏိဇဂါမရွာ၏အနီး၊သစ္စဗန္ဓတောင်ထိပ်၌ ရသေ့တောင်းပန်၍ ချခဲ့သော ပါဒစေတီတစ်ဆူ။ နမ္မဒါမြစ်နား၌ နဂါးတောင်းပန်၍ ချခဲ့သော ပါဒစေတီတော်တစ်ဆူ။ ဤနှစ်ဆူရှိကြောင်းကို မဇ္ဈိမနိကာယ်၊ ပုဏ္ဏောဝါဒသုတ်၌ လာသည်။ ထိုခြေတော်ရာနှစ်ဆူကို အကြောင်းပြု၍ ''ဇမ္ဗူမှာဒွေး''ဟု ဆိုသည်။ အရာကား လက်ဝဲခြေတော်ရာချည်းဖြစ်၍ ''ရာမှာငေး''ဟူ၍ဆိုသည်ဟု ဆရာကျော်တို့ မိန့်ကြ၏။ထို့ကြောင့် မုဒ္ဒဇ-ရအက္ခရာနှင့် ''ရာမှာ''ဟု ရေးသင့်သည်။ ယာမာနတ်ပြည်၌ ပါဒစေတီ ရှိကြောင်းကို ကျမ်းမတွေ့ချေ။ အထက် ''အပ်'' ကာရန်ပုစ္ဆာနံပါတ် ၅၁၂-တွင်လည်း ဖြေဆိုခဲ့ပြီ။

❖❖❖❖❖

၁၀၄၉။ သမင်မမြေး၊ ဘုန်းပျံ့မွေး၊ ပြည်ရေးသုတ်သင် ဘယ်မင်းနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သမင်မ၏သမီးဖြစ်သော ဘေဒါရီ၏သား ဒွတ္တဘောင်မင်းဖြစ်၍ သီရိခေတ္တရာပြည်ကို တည်ထောင်သော ဒွတ္တဘောင်မင်း ဟူပေ။

◆◆◆◆◆

၁၀၅၀။ ယုန်ချိုလိပ်မွေး၊ ပုစွန့်သွေး၊ ခေါ်ရေးဘယ်ဥပစာနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဦးချိုရှိသော ကျွဲနွား စသော သတ္တဝါတို့၏ ဦးချိုဟူသောအမည်ကို ဦးချိုမရှိသော ယုန်၌ တင်စား၍ ယုန်ချိုဟု ခေါ်ဝေါ်သောကြောင့်လည်းကောင်း၊ အမွေးရှိသော ခွေးဆိတ် စသော သတ္တဝါတို့၏ အမွေးဟူသော အမည်ကို အမွေးမရှိသော လိပ်၌ တင်စား၍ လိပ်မွေးဟု ခေါ်ဝေါ်ခြင်းကြောင့်လည်းကောင်း သသဝိသာဏ ဟူသော ပုဒ်ကဲ့သို့ တဒ္ဓမ္မူပစာမည်၏။ ပုစွန်သွေးဟူရာ၌ လူစသော သတ္တဝါတို့၏ သွေးနှင့် တူသောကြောင့် ပုစွန်အဆီကို သွေးခေါ်သည်ဟု ယူလျှင် သီဟမာဏဝေါ်ကဲ့သို့ သဒိသူပစာဖြစ်သင့်၏။ တဒ္ဓမ္မူပစာလည်း ယူသင့်၏။

◆◆◆◆◆

၁၀၅၁။ ကုသကိုရွေး၊ သိကြားပေး၊ နက်လေးပတ္တမြား ဘယ်မှာနည်း။ (၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အလောင်းတော် ကုသမင်းကြီးအား သိကြားပေးအပ်သော တစ်ဆယ့်ခြောက်မြှောင့် အကောက်တစ်ထောင်ရှိသော ပတ္တမြားလုံးသည် ဝိဒေဟတိုင်းမိထိလာပြည်ကို အစိုးရသော ဝိဒေဟရာဇ်မင်း၏ လက်သို့ ရောက်သည်ဖြစ်၍ ထိုပတ္တမြားနှင့် ကေဝဋ္ဋပုဏ္ဏားကို လှည့်ပတ်လိုသောကြောင့် မဟောသဓာ သုခမိန်သည် တရားစစ်ဆင်ရာ သဘင်သို့ ဆောင်ယူကြောင်းကို မဟော်ဇာတ်၌ လာသည်။ ဤစကားကိုထောက်လျှင် ကုသဇာတ်နှင့် မဟော်ဇာတ်သည် တစ်ကမ္ဘာတည်း အန္တရကပ် တစ်ကပ်တည်း၌ ရှေ့နောက်အားဖြင့် ဖြစ်ကြသည်ဟု မှတ်သင့်၏။ ဤကမ္ဘာ၌ ဖြစ်ရသော ၃၅–ဇာတ်တွင်ကား မပါ။ ရှေးကမ္ဘာက ဖြစ်ဟန်ရှိသည်။

◆◆◆◆◆

၁၀၅၂။ ဇောဒီသားမွေး၊ မျှင်သေးသေး၊ ဆိုရေးဘယ့်လောက် နုသနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဇမ္ဗူဒီပါ၊ ကျွန်းမျက်နှာ၌၊ များစွာရပ်နေ၊ လူဗိုလ်ခြေ၏၊ ထိပ်ဖွေဦးခေါင်း၊
ဆံတစ်ချောင်းကို၊ ဆင့်ပေါင်းစိတ်ဖြာ၊ ဆယ့်ခြောက်မြွာမှ၊ မြောက်မှာကျွန်းသူ၊

လူတို့ဆံနှင့်၊ နှိုင်းစံတူကြ၊ တပင်ရလျက်၊ ထိုကတစ်ဖန်၊ ဆယ့်ခြောက်ပြန်မှ၊ အလွန်တရာ၊ သိမ်မွေ့စွာသော၊ ရွှေစာမရီ၊ သားဇော်၏၊ ရင်ဆီအဖျား၊ လက်တီးကြား၌၊ ရောက်ငြားဖွဲ့သေး၊ ထိုအမွေးဖြင့်-

ဟူ၍ နရသီဟပျို့၌ စပ်ဆိုသည်ကိုမှီ၍ သိရသည်။ ပါဠိပါဠိကိုလိုမူ သံယုတ်အဋ္ဌကထာ။ သမ္မောအဋ္ဌကထာတို့၌ယူလေ။

◆◆◆◆◆

## ၁၀၅၃။ သုဒ္ဓဋ္ဌရေး၊ ခေါက်၍မေး၊ ရုပ်သေးဘယ်မျှ ရှိသနည်း။ (၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ခေါက်၍မေးက၊ ရုပ်သေးအရ၊ သုဒ္ဓဋ္ဌနှင့်၊ နဝကလာပ်၊ သတ္တရသ်တွင်၊ ပိုင်းဖြတ်ခြင်းငှာ၊ အာကာသဓာတ်၊ ဆယ့်ငါးရပ်လောင်း။ ချင့်ပေါင်းရှုပ၊ ဒွတ္တိ သမှာ၊ သတ္တိရှာ၍၊ တာသုံးခုမြောက်၊ ထပ်လှောက်လက္ခဏာ၊ လေးပါးလာက၊ တစ်ရာပြည့်ရှိ၊ လူ့ထိပ်မိုး။ ။ ဟူသောကဗျာဖြင့် သိရာ၏ဟူပေ။

**အဓိပ္ပါယ်ကား။** ။ စည်မျက်နှာစသည်၌ အဋ္ဌကလာပ်ရုပ် ရှစ်ခုရသည်။ ခေါက်၍ အသံဖြစ်လတ်သော် သဒ္ဒနဝကကလာပ်ရသည်။ နှစ်ရုပ်ကိုပေါင်းသော် တစ်ဆယ့်ခုနစ် ဖြစ်၏။ ထိုရုပ်တို့၏အကြား တစ်ဆယ့်ငါးခုသည် အာကာသဓာတ်ဟု ဆိုအပ်သော ပရိစ္ဆေဒရုပ်ဖြစ်၍ နှစ်ခုကိုပေါင်းသော် သုံးဆယ့်နှစ်ပါးရ၏။ ထိုကို လဟုတာ၊ မုဒုတာ၊ ကမ္မညတာဟူသော ဝိကာရရုပ်သုံးခုနှင့် မြှောက်သော် ကိုးဆယ့်ခြောက်ပါးရ၏။ ထိုတွင် လက္ခဏာရုပ်လေးခုနှောလျှင် ရုပ်ပေါင်းတစ်ရာပြည့်၏ ဟူလိုသည်။

◆◆◆◆◆

## ၁၀၅၄။ ဝိဇယရှေး၊ သီဟိုဠ်ကျေး၊ စည်းဝေးလူနေ ရှိလိမ့်နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဝိဇယဗာဟုမင်း မတည်ထောင်မီ သီဟိုဠ်ကျွန်း၌ လူနေဖူးသည်မရှိ။ သီရိယဝတ္ထုမည်သော ဘီလူးမင်းတို့၏နေရာ မြို့သာရှိ၏ဟူပေ။

◆◆◆◆◆

## ၁၀၅၅။ စစ်ခေါင်မြေဝေး၊ ချီလေသေး၊ သည့်ဝေးဘယ်အနက်ဟောနည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ခရီးရှည်ဝေးခြင်းတည်းဟူသော အဒ္ဓါနဒူရအနက်ကို ဟောသည်။

◆◆◆◆◆

၁၀၅၆။ မနှောမြူမှေး၊ ပြစ်ခြည်ဝေး၊ သည်ဝေးမှုကားဘယ်သို့နည်း။(၁၀)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မရှိခြင်းဟူသော နတ္ထိကအနက်ကိုဟောသည်။

❖❖❖❖❖

၁၀၅၇။ သံသရာဝေး၊ ယခင်ရှေး၊ သည်ဝေးထူး၏ ဘယ့်နှယ်နည်း။(၁၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ကြာမြင့်ခြင်းဟူသော စိရပ္ပဝတ္တန အနက်ကိုဟောသည်။

❖❖❖❖❖

၁၀၅၈။ စံပယ်ဖြူဖွေး၊ စကားသေး၊ သည်သေးဘယ်အနက်ဟောနည်း။(၁၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ငယ်သောအပ္ပကအနက်ကို ဟောသည်။

❖❖❖❖❖

၁၀၅၉။ ရဲသူသက်ပေး၊ မစုံသေး၊ သေးချင်းဘယ်သို့ကွဲသနည်း။(၁၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ငဲ့ကွက်တောင့်တခြင်းဟူသော အပေက္ခအနက်ကို ဟောသည်။

❖❖❖❖❖

၁၀၆၀။ နေခြည်ရောင်ပြေး၊ စာစပ်ရေး၊ နက်လေးချီရှိုး မည်သို့နည်း။ (၁၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အထက် နသတ် ''အန်း'' ကာရန်ပုစ္ဆာနံပါတ် ၆၆၆–တွင် ဖြေခဲ့ပြီ။

❖❖❖❖❖

၁၀၆၁။ ကိုယ်လုံးရှုပ်လေး၊ လုံအမွေး၊ ခဲရေးပြီတ္တာ ဘယ့်ကြောင့်နည်း။ (၁၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဝက်ထိုးသမား၊ သားထိုးသမားတို့ ခံရသည်။

❖❖❖❖❖

**၁၀၆၂။ မုသားဆိုရေး၊ အပြစ်လေး၊ ယှဉ်ထွေး ဘယ်ဝေဒနာနည်း။ (၁၆)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- မုသာဝါဒေါ တိဝေဒနော ဟူသော ပါဠ်နှင့်အညီ ဝေဒနာသုံးပါးဖြစ်၏ ဟူပေ။

**''အေး''ကာရန်ပုစ္ဆာ ၁၆-ပုဒ်အဖြေ ပြီး၏။**

◆◆◆◆◆

## (၃၇) ''အက်'' ကာရန်ပုစ္ဆာ ၃-ပုဒ်အဖြေ

**၁၀၆၃။ ငါးကွမ်းစားထွက်၊ဓာတ်တော်ခွက်၊လက်ထက် ဘယ်ရွှေရောင်တို့နည်း။(၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**ဒသဗလဿ ဓာတုယော သုဝဏ္ဏစင်္ကောဋ္ဌကေ ပက္ခိပိတွာ။**

ဟူ၍ နလာဋဓာတုဝင် စသည်တို့၌ လာသည်၊ ရွှေဆယ်မျိုးတို့တွင် မည်သည့် ရွှေဖြင့် ပန်းတောင်းပြုလုပ်သည်၊ ခွက်ပြုလုပ်သည်ဟု ကျမ်းဂန်မလာချေ။

ရွှေမျိုးတို့၏ ပြားဟန်ကို ကျမ်းဂန်လာတိုင်း ပြလိုက်ဦးအံ့ - ရွှေသည် လူတို့ သုံးဆောင်အပ်သော မနုဿဘောဂရွှေ, နတ်တို့သုံးဆောင်အပ်သော ဒိဗ္ဗဘောဂရွှေ အားဖြင့် နှစ်ပါးအပြားရှိ၏။ ထိုနှစ်ပါးတို့တွင် မနုဿဘောဂရွှေသည်လည်း ယုတ္တိကရွှေ ဒသဝိဒ္ဓရွှေ၊အကရုပ္ပန္နရွှေ၊ စာမီကရရွှေဟူ၍ လေးပါးအပြားရှိ၏။ ဒိဗ္ဗဘောဂရွှေသည် လည်း သာတကုမ္ဘမည်သော ရွှေ၊ ဇမ္ဗုနဒမည်သောရွှေ၊ သိင်္ဂီရွှေဟူ၍ သုံးပါးအပြားရှိ၏။ ထိုခုနစ်ပါးတို့တွင် ကြေးနီ သံ စသည်တို့ဖြင့် ရော၍ပြုအပ်သော ရွှေသည် ယုတ္တိ ကရွှေ မည်၏။ ထိုယုတ္တိကရွှေထက် ဒသဝိဒ္ဓရွှေသည် မြတ်၏။ ဤကား ဖိုဝ၌ဆယ်ကြိမ် ဆယ်ဖန်လျော်အပ်၊ ဦးအပ်သောရွှေတည်း။ ယခု လူတို့ကား ဆယ်မူးရေရွှေဟု ခေါ်ကြ၏။ ထိုဒသဝိဒ္ဓရွှေထက် အကရုပ္ပန္နရွှေသည် မြတ်၏။ ဤရွှေကား အလိုလို မပြုပြင်ဘဲ မြေမှလည်းကောင်း၊ ကျောက်မှလည်းကောင်းဖြစ်သော ရွှေတည်း။ ထိုရွှေထက် စာမီကရမည်သော ရွှေသည် မြတ်၏။ ဤရွှေကား စာမီမည်သော သစ်ပွင့်ကို မီးဖြင့်ချက်၍ ပြုအပ်သော ရွှေတည်း။ စာမီမည်သော ပန်းပွင့်မှ အလိုလိုဖြစ်သော ရွှေဟူ၍ အဘိဓာန် ဋီကာ၌ဆို သည်။ ။ထိုစာမီကရရွှေထက် သာတကုမ္ဘမည်သော ရွှေသည် မွန်မြတ်၏။ ဤရွှေကား ကျောက်ညွန့်မှဖြစ်သော ပဒုမ္မာကြာ၏ အဆင်းနှင့် တူသော အဆင်းရှိသော ရွှေတည်း။ ထိုရွှေထက် ဇမ္ဗုနဒမည်သောရွှေသည် မွန်မြတ်၏။ ဤရွှေကား ကျွန်းဦးဇမ္ဗုသပြေပင်၏ ခက်မတို့၏အောက်၌ စီးသွားသော မြစ်တို့၏ ဆင်ခေါင်းပမာဏ၊ အိုးစရည်း ပမာဏ ရှိကုန်သော ဇမ္ဗူသပြေသီးတို့ ကြွေကျသဖြင့် ထိုအစေ့တို့မှဖြစ်သော ရွှေတည်း။ ထိုဇမ္ဗုနဒရွှေထက် သိင်္ဂီမည်သော ရွှေသည် မွန်မြတ်၏။ ဤရွှေကား နွားချိုနှင့်တူစွာ မြေမှပေါက်လာသော ရွှေတည်း။ အရောင်ကား

မီးကျီးအလျှံကဲ့သို့ ရှိသည်။ ထို့ကြောင့် တိကနိပါတ်တော် အင်္ဂုတ္တိုရ်ရ အဋ္ဌကထာ၊ မဟာဝဂ်၊ ဝိသာခုပေါသထသုတ် အဖွင့်၌ ''သိင်္ဂီ သုဝဏ္ဏန္တိ ဂေါသိင်္ဂသဒိသံ ဟုတွာ ဥပ္ပန္နတ္တာ ဇဝံ နာမကံ သုဝဏ္ဏံ'' ဟူ၍ မိန့်၏။ အဘိဓာန်ဋီကာ၌ကား ငါးကြင်း သဏ္ဌာန်ကဲ့သို့ ရေထဲမြေထဲ၌ ဖြစ်သော ရွှေသည် သင်္ဂီရွှေမည်၏ ဟူ၍ ဆိုသည်။ အမရကောသကျမ်း။ ရတနကောသကျမ်းတို့၌ကား လူတို့လက်ကောက် လက်စွပ် ပုတီးနားတောင်း ပြုလုပ်သော ရွှေသည် သိင်္ဂနိက်ရွှေမည်၏ဟူ၍ ဆိုသည်။ ထိုသိင်္ဂီရွှေသည် ခပ်သိမ်းသော ရွှေမျိုးတို့ထက် မွန်မြတ်၏။ ဘုရားသခင်၏ အဆင်းတော်သည် သိင်္ဂီရွှေနှင့်တူ၏ဟူ၍ ဝိမာနဝတ္ထုအဋ္ဌကထာ၊ တေရသကဏ် ဋီကာတို့၌ ဆို၏။ ဇမ္ဗူနဒရွှေသည် ဇမ္ဗုသပြေသီးစေ့မှ ဖြစ်၏ဟု ဆိုရာ၌ ထိုအစေ့ပင် ရွှေဖြစ်သည် မဟုတ်။ အသီးကြွေကျရာအရပ်၌ အစေ့တို့မှ ရွှေညှောက်ရွှေညွန့်တို့သည် ပေါက်လာ၍ ဖြစ်သည်ဟု ဥပရိပဏ္ဏာသ အဋ္ဌကထာ သခါရုပ္ပတ္တိသုတ် အဖွင့်၌ဆိုသည်။

ထိုမှတစ်ပါးလည်း ကဋ္ဌနရွှေ၊ ဇာတရူပရွှေ၊ ဟာဋ္ဌကရွှေ၊ ဝါလိကရွှေ၊ နိက္ခရွှေ အစရှိသော ဝေါဟာရအားဖြင့် များသောအပြားရှိ၏။ ထိုအပြားတို့တွင် တောင်ထွတ် တောင်အတွင်းတို့၌ ဖြစ်သော ရွှေသည် ကဋ္ဌနရွှေမည်၏။ အဘယ်တောင်၌ဖြစ်သနည်း ဟူမူကား ဟိမဝန္တာတော သုဒဿနမည်သော တောင်ထွတ်၌ အစုံ့ အစုံ့တက်သော အားဖြင့် ရွှေတို့သည် များစွာဖြစ်ကုန်၏။ ဝေပုလ္လတောင်၊ ကဋ္ဌနဂိရိတောင်တို့ ၌လည်း ဖြစ်ကုန်၏။ ထိုကဋ္ဌနရွှေသည် ထွန်းပသောအရောင်ရှိသောကြောင့် ကနက ရွှေဟူ၍လည်း ခေါ်ကုန်၏။ ထိုရွှေကိုကား များသောအားဖြင့် နတ်တို့သုံးဆောင်ကြ၏။ မြေမှလည်းကောင်း၊ ကျောက်မှလည်းကောင်း ဖြစ်သောရွှေကို အကြိမ်များစွာ လှော်၍ ပြုအပ်သော အလွန်ဝါရွှေသော အဆင်းဖြင့် တင့်တယ်သော ရွှေသည် ဇာတရူပ ရွှေမည်၏။ ထိုရွှေသည် ဘုရားသခင်၏ အဆင်းတော်နှင့် တူသောကြောင့် သတ္ထုဝဏ္ဏ ရွှေလည်းခေါ်ကုန်၏။ ပိုးရွ ခြ ပုန်းတို့သည် ဆောင်အပ်သော မြေမှုန့်တို့ကိုကြည့်၍ ရအပ်သော ရွှေသည် ဟာဋ္ဌက ရွှေမည်၏။ ချောင်းမြောင်းမြစ်ကမ်း သဲသောင်တို့၌ ဖြစ်သောရွှေသည် ဝါလိကရွှေမည်၏။ ထိုရွှေကား လှော်တိုင်း၊ဦးတိုင်း အရောင်ထွက်၏။ တစ်နိက္ခပမာဏရှိသော ရွှေဖြင့် ပြုအပ်သော ရွှေသည် နိက္ခရွှေမည်၏။ ထို့ကြောင့် တိကနိပါတ် အင်္ဂုတ္တိုရ်အဋ္ဌကထာ၌–

**ကဋ္ဌနန္တိ ပဗ္ဗတေယျံ၊ ပဗ္ဗတေ ဇာတသုဝဏ္ဏံ။ ဇာတရူပန္တိ သတ္ထု ဝဏ္ဏသုဝဏ္ဏံ။ ဟာဋ္ဌကန္တိ ကိပိလ္လိကာဟိ နီဟရသုဝဏ္ဏံ။ နိက္ခန္တိ အတိရေက ပဉ္စသုဝဏ္ဏေန ကတပိလန္ဓနံ။** ဟူ၍ မိန့်အပ်၏။

**တစ်နည်းလည်း။** ။ နီဖလံ၊ နာရဏီ၊ နာရဝေါ၊ နာလိကာ၊ နာလမုတ္တာ၊ အဋ္ဌန၊ အဋ္ဌနီမုတ္တာ၊ အဇဋ္ဌဝနီ၊ ဇာတရူပ၊ ဥရနိတာ၊ သိင်္ဂီနိက္ခ၊ ဇမ္ဗူရာဇ်ဟူ၍ ရွှေမျိုး တစ်ဆယ့် နှစ်ပါးရှိသည်။ ထိုတစ်ဆယ့်နှစ်ပါးတို့တွင် ကြေး သံ၊ အငန် အဖန်စင်သော

နီဖလံ ရွှေအကျပ် ရှစ်ဆယ်ကို ခြောက်ဆယ်တင်အောင်လှော်မှု နာရဏီဖြစ်၏။ ထိုနာရဏီ ခြောက်ဆယ်ကို လေးဆယ့်ငါးကျပ်တင်အောင် လှော်မှု နာရဝေါ ဖြစ်၏။ ၎င်း နာရဝေါရွှေ လေးဆယ့်ငါးကျပ်ကို သုံးဆယ့်သုံးကျပ် ခုနစ်မူး တစ်ပဲ တင်အောင် လှော်မှု နာလိကာ ဖြစ်၏။ ထိုနာလိကာ သုံးဆယ့်သုံးကျပ် ခုနစ်မူး တစ်ပဲကို နှစ်ဆယ့်ငါးကျပ် သုံးမူး နှစ်ရွေးတင်အောင်လှော်မှု နာလမုတ္တာဖြစ်၏။ ထိုနာလမုတ္တာရွှေ နှစ်ဆယ့်ငါးကျပ် သုံးမူးနှစ်ရွေးကို တစ်ဆယ့်ကိုးကျပ် နှစ်ရွေးတင်အောင်လှော်မှု အဋ္ဌနရွှေဖြစ်၏။ ထိုအဋ္ဌနရွှေ တစ်ဆယ့်ကိုးကျပ် နှစ်ရွေးကို တစ်ဆယ့်လေးကျပ် နှစ်မူး တစ်ပဲတင်အောင် လှော်မှု အဋ္ဌနီမုတ္တရွှေဖြစ်၏။ ထိုအဋ္ဌနီမုတ္တရွှေ တစ်ဆယ့်လေးကျပ် နှစ်မူးတစ်ပဲကို တစ်ဆယ့်ခြောက်မူး တစ်ပဲ လေးရွေးတင်အောင် လှော်မှု အဇ္ဈေဝနီဖြစ်၏။ ထိုအဇ္ဈေဝနီ ရွှေတစ်ဆယ့်ခြောက်မူး တစ်ပဲ လေးရွေးကို ရှစ်ကျပ်တစ်ရွေးတင်အောင် လှော်မှု ဇာတရူပရွှေ၏။ ထိုဇာတရူပရွှေ ရှစ်ကျပ် တစ်ရွေးကို ခြောက်ကျပ်တင်အောင်လှော်မှု ဥရနိတာရွှေဖြစ်၏။ ထိုဥရနိတာ ရွှေခြောက်ကျပ်ကို လေးကျပ်နှစ်မတ်တင်အောင် လှော်မှု သိင်္ဂနိက်ရွှေဖြစ်၏။ ထိုသိင်္ဂနိက်ရွှေ လေးကျပ်နှစ်မတ်ကို သုံးကျပ် သုံးမူးတစ်ပဲ လေးရွေး တင်အောင်လှော်မှု ဇမ္ဗူရာဇ်ရွှေဖြစ်၏။ ဤကား လူတို့ ပယောဂဖြစ်သော ရွှေမျိုးတည်း။ ဤရွှေမျိုးတို့တွင် ဘုရားသခင်၏ အဆင်းတော်သည် ဇာတရူပ ရွှေနှင့်တူသည် ဟူ၍လည်းကောင်း၊ သိင်္ဂနိက်ရွှေနှင့် တူသည်ဟူ၍ လည်းကောင်း ကျမ်းဆရာတို့ ဆိုကုန်သည်။

◆◆◆◆◆

၁၀၆၄။ မြို့ကြီးတည်လျက်၊ သုံးကျွန်းထက်၊ ရေတွက်မြို့ပေါင်းဘယ်မျှနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဇမ္ဗူဒိပ်ကျွန်းကဲ့သို့ အရှေ့ကျွန်း၊ အနောက်ကျွန်း၊ မြောက်ကျွန်းတို့၌ မြို့ပေါင်း မည်မျှရှိသည်ဟု ကျမ်းဂန်မလာ။

◆◆◆◆◆

၁၀၆၅။ ကျွန်းသုံးကျွန်းထက်၊ တည်ကြလျက် ကျေးလက်ခရိုင်ဘယ်မျှနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ကျမ်းဂန်မလာ။

"အက်" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေပြီး၏။

◆◆◆◆◆

## (၃၈) "အောက်" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေ

၁၀၆၆။ သုဘာကိဏှအောက်၊ ရေတောင်ပေါက်၊ ရေထောက်ကမ္ဘာဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မီးဖျက်သောကမ္ဘာ၌လည်းကောင်း၊ လေဖျက်သော ကမ္ဘာ၌လည်းကောင်း၊

ကမ္ဘာ တစ်ဖန်တည်ပြန်လိုလတ်သော် မိုးကြီးသည်းထန်စွာရွာ၍ သုဘာကိဏ်ဘုံတိုင်အောင် ရေပြည့်လျက် တည်ပြီးမှ တရွေ့တရွေ့လျော့ကျ၍ ဗြဟ္မာ့ဘုံ၊ နတ်ဘုံ၊ လူ့ဘုံ အစဉ်အတိုင်း ပေါ်လေသည်။ ရေဖျက်သော ကမ္ဘာ၌ကား သံဝဋ္ဋကပ်မှ စ၍ ဖျက်သောရေပင် မြင့်ရှည်စွာ တည်ပြီးမှ တရွေ့တရွေ့လျော့ကျ၍ ဗြဟ္မာ့ဘုံ-နတ်ဘုံ၊ လူ့ဘုံတို့ ပေါ်ကြကုန်သည်။ ထို့ကြောင့် ရေ၏ကြီးခြင်းသည် ဘယ်ကမ္ဘာမျှ မလပ်ဟု ဆိုအပ်၏။

❖❖❖❖❖

၁၀၆၇။ ပုလဲရောင်ပေါက်၊ ဓာတ်တော်တောက်၊ အံ့လောက်ဘယ်ပုလဲသို့နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

တိမ်တိုက်မှဖြစ်သော ဝလာဟကမည်သော ပုလဲ၏အရောင်ကဲ့သို့ ဓာတ်တော်ရောင်တောက်၏ ဟူပေ။ ။ ဘယ်ကိုထောက်၍ သိသနည်းဟူငြားအံ့ - "မုတ္တိကာပဘာတိ ဝလာဟကဇာတပဘာ" ဟု ဓာတုဝင်ဋီကာတို့၌ ဖွင့်သောကြောင့် သိသည်ဟူပေ။

❖❖❖❖❖

၁၀၆၈။ ပုလဲအတောက်၊ ရှစ်ပါးလောက်၊ မြားမြောက်မည်သည်မည်သည်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

အထက် "အဲ" ကာရန်ပုစ္ဆာနံပါတ် ၁၉၈-၁၉၉-၂၀၀၀တို့တွင် ဝေဖန်၍ပြခဲ့ပြီ။

"အောက်"ကာရန်ပုစ္ဆာ ၃-ပုဒ်အဖြေပြီး၏။

❖❖❖❖❖

## (၃၉) "အိုက်" ကာရန်ပုစ္ဆာ ၃-ပုဒ်အဖြေ

၁၀၆၉။ စကြဝဋ္ဌာတိုက်၊ တစ်ပါး၌၊ ရောင်မြိုက်စေတီ တည်လိမ့်နည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**စတ္တာလီသ သမာဒန္တာ၊ ကေသာ လောမာ စ သဗ္ဗသော။**
**ဒေဝါဟရိံသု ဧကေကံ၊ စက္ကဝါဠပရမ္ပရာ။**

စာလီသ သမာဒန္တာ၊ အမျှလေးဆယ်သောသွားတော်တို့ကိုလည်းကောင်း။ သဗ္ဗသော၊ အလုံးစုံကုန်သော။ ကေသာ စ၊ ဆံတော်တို့ကိုလည်းကောင်း။ လောမာ စ၊ အမွေးတော်တို့ကိုလည်းကောင်း။ ဒေဝါ၊ နတ်တို့သည်။ ဧကေကံ၊ တစ်ချောင်း။

104
B

တစ်ချောင်းစီ။ စက္ကဝါဠပရမ္မရာ၊ စကြဝဠာအဆက်ဆက်တို့သို့။ ဟရိံသု၊ ဆောင်လေကုန်၏။

ဤသို့ ဗုဒ္ဓဝင်ပါဠိတော်၌ သွားတော်၊ ဆံတော်၊ အမွေးတော်တို့ကို နတ်တို့သည် တစ်ပါးသော စကြာဝဠာတိုက်သို့ ဆောင်၍ ကိုးကွယ်ကြောင်းကိုသာ လာသည်။ စေတီ တည်ကြောင်းကို မလာ။ ထူပဝင်၊ နလာဋဓာတုဝင် စသည်တို့၌လည်း ဤနည်းတူသာ ဆိုကုန်သည်။ စေတီတည်ကြောင်းကို မဆိုချေ။

◆◆◆◆◆

## ၁၀၇၀။ မြင်းမိုရ်တောင်၌၊ တွက်ခန့်လိုက်၊ ရထိုက်မြူငယ် ဘယ်မျှနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

တွက်နည်း တွက်ပုံကား ပြဆိုနိုင်၏။ ရသောဂဏန်းပေါင်းကို ခေါ်ဝေါ်ခြင်းငှာကား မတတ်နိုင်ရာ။ ဘယ့်ကြောင့်နည်းဟူမူ ကော်တစ်လုံးနှင့် သုည ၁၄၀–လျှင် အသင်္ချေ ဖြစ်သည်။ ဤအသင်္ချေမျှကိုသာ ရေတွက်နည်းရှိသည်။ ထို့ထက်လွန်၍ ဂဏန်းများမှ ရေတွက်နည်းမရှိလေသောကြောင့်တည်း။ မြင်းမိုရ်တောင်၌ မြူတွက်နည်းကိုလည်း ရှေ့ကပြဆိုခဲ့ပြီ။

◆◆◆◆◆

## ၁၀၇၁။ နဂါးသိမ်းပိုက်၊ စွယ်တော်၌၊ ရောင်မြိုက်စေတီ တည်လိမ့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

လက်ယာအောက် စွယ်တော်ကို ဒေါဏပုဏ္ဏားဝှက်ထားရာ ဇေယျသေန နဂါးမင်းယူ၍ ရတနာစေတီ တည်ပြီးလျှင် ထည့်သွင်းဌာပနာ၍ ကိုးကွယ်သည်ဟု ထူပဝင်တို့၌ ဆိုသောကြောင့် စေတီတည်သည်ဟူပေ။

**"အိုက်" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေပြီး၏။**

◆◆◆◆◆

## (၄၀) "အင်" ကာရန်ပုစ္ဆာ ၅–ပုဒ်အဖြေ

## ၁၀၇၂။ ဘုရားသခင်၊အပ်တော်လျှင်၊ ဘယ်တွင် ဘယ်သူလှူသနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ရဟန်းပြုတော်မူသောအခါ ဃဋိကာရဗြဟ္မာ ကပ်လှူလာသော ပရိက္ခရာရှစ်ပါးတွင် အပ်ပါလာသည်ဖြစ်၍ ဃဋိကာရဗြဟ္မာ လှူသည်ဟူပေ။

◆◆◆◆◆

၁၀၇၃။ အပ်ကျည်နှင့်ပင်၊ တို့ချစ်ရှင်၊ အပ်လျှင်ဆောင်တို့ လေလိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဝါသိသူစိဃရဋ္ဌာပိ ကူနပတ္တနဂရေ–ဟူသော ဗုဒ္ဓဝင်ပါဠိဖြင့် ပဲခွပ်နှင့် အပ်ကျည်သည် ကူနပတ္တနဂိုရ်ပြည်၌ တည်ရစ်၏ဟု ဆိုသောကြောင့် ဘုရားကိုယ်တော်မှာလည်း အပ်ကျည်နှင့်ပင် ဆောင်သည်ဟု ဆိုရာသည်။

◆◆◆◆◆

၁၀၇၄။ ယခုတုံစင်၊ ထိုအပ်လျှင်၊ ဘယ်တွင် ဘယ်သူ သိမ်းလိမ့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မည်သူသိမ်းသည်ဟု ကျမ်းတွင် မတွေ့ချေ။

◆◆◆◆◆

၁၀၇၅။ သီဟိုဠ်ကျွန်းခွင်၊ စွယ်တော်ရှင်၊ ဘယ်တွင်ဌာပနာလေလိမ့်နည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မည်သည့်စေတီ၊ မည်သည့်ရုပ်တုတို့၌ စွယ်တော်ကို ဌာပနာသည်ဟု ကျမ်းဂန် မတွေ့။ ရာဇဝင်စာတမ်းတို့၌ကား မင်းအဆက်ဆက် နန်းတော်ဦးတွင် စင်ပြာသာဒ်နှင့် ထား၍ ပူဇော်ကြောင်းကို ဆိုသည်။ ပေါက္ကံပြည် အနော်ရထာမင်း၏ လက်ထက် သီဟိုဠ်ကျွန်းသို့ ကူး၍ စွယ်တော်ကိုတောင်းရာ သဃ်ဗောဓိမင်းသည် စွယ်တော် ကိန်းဝပ်သော ပြာသာဒ်ဦး၌ ရတနာပန်းတောင်းဖြင့်ခံလျက် တောင်းပန်သည်တွင် စွယ်တော် တစ်ဆူပွား၍ ပုဂံမင်းအား ပေးလိုက်ကြောင်းကို ဆိုသည်။

◆◆◆◆◆

၁၀၇၆။ ဇမ္ဗူဒိပ်တွင်၊ တို့ချစ်ရှင်၊ ဈာန်ဝင်ဌာန ဘယ်လောက်နည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သီဟိုဠ်ကျွန်း၌ ဈာန်သမာပတ်ဝင်ရာဌာနကို ခုနစ်ပါးဟူ၍ မဟာဝင်ကျမ်း၌ လာ၏။ ဇမ္ဗူဒိပ်ကျွန်း၌ကား မည်မျှရှိသည်ဟူ၍မလာ။ ယင်းသို့ မလာခြင်းသည် အမြဲနေရာဌာန ဖြစ်၍ ဈာန်ဝင်စားရာလည်း အလွန်များသောကြောင့် မပြဆို လေသည်ဟု ယူဖွယ်ရှိသည်။

"အင်း" ကာရန်ပုစ္ဆာ ၅–ပုဒ်အဖြေပြီး၏။

◆◆◆◆◆

## (၄၁) "အင့်" ကာရန်ပုစ္ဆာ ၃-ပုဒ်အဖြေ

### ၁၀၇၇။ သိကြားနေခွင့်၊ ဝေယန်မြင့်၊ ဘုံဆင့် ဘယ်မျှရှိသနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

သိကြားမင်း၏နေရာ ဝေဇယန္တာ ပြာသာဒ်သည် ဘုံဆင့်ဘယ်မျှ ရှိသနည်းဟု မေးရာ၌ သုတ်မဟာဝါ အဋ္ဌကထာ၊ သက္ကပဥှာသုတ် အဖွင့်တွင်-

**သက္ကဿ ဝေဇယန္တော နာမ ပါသာဒေါ သတ္တယောဇနသတာနိ ဥဂ္ဂန္တိ။**

ဟူသောပါဠိဖြင့် သိကြားမင်း၏ နေရာဖြစ်သော ဝေဇယန္တာပြာသာဒ်သည် ယူဇနာ ခုနစ်ရာမြင့်သည်ဟု လာသည်။ ၎င်း သုတ်မဟာဝါ အဋ္ဌကထာ၊ မူလပဏ္ဏာသ အဋ္ဌကထာ၊ သတိပဋ္ဌာနသုတ်အဖွင့်တွင်-

> **ယောဇနသဟဿုဗ္ဗေဓော ဝေဇယန္တပါသာဒေါ။ ပဉ္စယောဇနသတုဗ္ဗေဓာ သုဓမ္မာဒေဝသဘာ။ ဒိယဍ္ဍယောဇနသတိကော ဝေဇယန္တရထော။ တထာ ဧရာဝဏော ဟတ္ထိ။**

ဟူသောပါဠိဖြင့် ဝေဇယန္တပြာသာဒ်ကား ယူဇနာတစ်ထောင် မြင့်သည်။ သုဓမ္မာ ဇရပ်ကား ယူဇနာငါးရာမြင့်သည်။ ဝေဇယန္တာရထားကား ယူဇနာ တစ်ရာ့ငါးဆယ် မြင့်သည်။ ဧရာဝဏ်ဆင်လည်း ဤနည်းတူ ယူဇနာတစ်ရာ့ငါးဆယ် မြင့်သည်ဟူ၍ လာသည်။

တောင်ဘီလာဆရာတော်စီရင်သော လောကဝိဒူ၌ကား ဝေဇယန္တာပြာသာဒ် ယူဇနာခုနစ်ရာ။ အထွတ်ယူဇနာ သုံးရာမြင့်သည်ဖြစ်၍ နှစ်စုပေါင်း ယူဇနာတစ်ထောင် ရှိသည်ဟု ဆိုသည်။ ဘုံဆင့်ကိုကား ဘယ်မျှရှိ၏ဟူ၍ ကျမ်းဂန်တို့၌ မတွေ့ဖူးချေ။

ထိုပြာသာဒ်၏ ကြီးကျယ်ဆန်းကြယ်သော အခြင်းအရာကို ရှေးဆရာတို့စပ်ဆိုသည်ကား-

> နတ်ပူရ၌၊ မာဃ နေရာ၊ သူဇာပျော်မြိန်း၊ ဝေယန်နန်းကား၊ အဝန်းကိုးရာ၊ ယူဇနာတည့်၊ ခုနစ်ရာအစောက်၊ မောက်မောက်ဖြူးဖြူး၊ အဖူးသုံးရာ။ သီးမြွှာရစ်သောင်း၊ လေးထောင်ပေါင်းတည့်၊ ဆောင်းဆောင်း စွင့်စွင့်။ ဘုံဆင့်တစ်ရာ၊ ကူဋ္ဌာဂါရ၊ ရွှန်းရွှန်းပသား၊ အိမ်မတစ်သောင်း၊ တိုက်ကောင်း တစ်သန်း၊ ရွှန်းရွှန်းမောင်းမောင်း၊ ညောင်စောင်းတွက်ရေ၊ ဆယ်ကုဋေတည့်၊ ထွေထွေထွန်းပြောင်၊ ကုဋိဆောင်လည်း၊ တောက်လောင် ယိုစီး၊ နတ်သမီးတို့၊ ဖြင်ညီးများဘိ၊ တိကောဋိနှင့်၊ သဋ္ဌိသတ၊ သဟဿဟု၊ နရနာရီ၊ သိသိသာသာ၊ ကျမ်း၌လာသည်၊ နောင်လာလူများ မှတ်ဖို့ထား။ ရခိုင်ဆို ကေပိုဒ် တွေ့ဖူးသည်။

◆◆◆◆◆

**၁၀၇၈။ ဗောဓိပင်မြင့်၊ သီဟိုဠ်နှင့်၊ အချင့်တာကွာ ဘယ်မျှနည်း။(၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဗောဓိပင်နှင့် ပါဋလိပုတ်ပြည် ခုနစ်ယူဇနာကွာကြောင်း၊ ၎င်းပြည်နှင့် သင်္ဘောဆိပ် ငါးယူဇနာကွာကြောင်းကိုကား ပါရာဇိကဏ်အဋ္ဌကထာ ၎င်းဋီကာတို့၌ ဆို၏။ သမုဒ္ဒရာအကျယ်ကိုကား မည်မျှဟူ၍ ဆိုသောကျမ်းဂန်ကို မတွေ့မိ။ ထို့ကြောင့် သမုဒ္ဒရာခြားသော ဌာနဖြစ်ရကား မဟာ ဗောဓိပင်နှင့် သီဟိုဠ်ကျွန်းအကွာကို တာဖြင့် မန္တိုင်းယှဉ်နိုင်သာချေ။

❖❖❖❖❖

**၁၀၇၉။ လူနတ်လှူခွင့်၊ တို့ဘုန်းမြင့်၊ ရလင့်သင်္ကန်း ဘယ်မျှနည်း။(၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ရဟန်းပြုတော်မူစကာလ၌ ဃဋီကာရ ဗြဟ္မာကပ်လှူလာသော ရွှေကြာသင်္ကန်းသာလျှင် မန္ဒမ်းမညစ် အသစ်ကဲ့သို့ သင်္ကန်းတော် ရှည်သမျှကာလပတ်လုံး တည်ကြောင်းကိုလည်း ကျမ်းဂန်၌ဆိုသည်။ ပရိနိဗ္ဗာန် စံဝင်ခါနီး၌ ပုက္ကုသမလ္လာမင်းသည် ရွှေအဆင်းနှင့်တူသော သင်္ကန်းနှစ်ထည် လှူကြောင်းကိုလည်း ပရိနိဗ္ဗာနသုတ်တွင်လာသည်။ ဤမှတစ်ပါး မည်သည့်ဒါယကာ၏ သင်္ကန်းကို ခံယူ ဖူးသည်ဟူ၍ ကျမ်းဂန်မတွေ့။ ရှင်မဟာကဿပရဟန်းဖြစ်စအခါတွင် ပံသုကူဒုကုဋ်တော်နှင့် လဲလှယ်ကြောင်းကိုကား အင်္ဂုတ္တိုရ်အဋ္ဌကထာ၌လာ၏။

**"အင့်" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေ ပြီး၏။**

❖❖❖❖❖

## (၄၂) "အင်း" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေ

**၁၀၈၀။ ပဉ္စာပြည်တွင်း၊ ကိုးကွယ်လျှင်း၊ ရှင်ရင်းသုံးဆောင်ဘယ်သည့်နည်း။(၁)**

**၁၀၈၁။ ခါးပန်းတော်ရင်း၊ နီဝင်းဝင်း၊ အကွင်းရှိတို့ လေလိမ့်နည်း။(၂)**

**၁၀၈၂။ သုံးလူ့သေဌ်နင်း၊ မြေအခင်း၊ သိမ်တွင်းဘယ်ပြည် ရှိလိမ့်နည်း။(၃)**

ဟူသော အမေးပုစ္ဆာသုံးခု၌ အဖြေဝိသဇ္ဇနာကား– ဘဂဝတော၊ ဂေါတမ မြတ်စွာဘုရား၏။ ပတ္တော၊ စ၊ သပိတ်တော်သည်လည်းကောင်း၊ ဒဏ္ဍော၊ တောင်ဝှေးတော်သည် လည်းကောင်း။ စီဝရဉ္စ၊ သင်္ကန်းတော်သည်လည်းကောင်း။ ဝဇိရာယံ၊ ဝဇိရာပြည်၌။ ပတိဋ္ဌိတံ၊ တည်၏။ နိဝသနံ၊ သင်းပိုင်တော်သည်။ ကုလဃရေ၊ ကုလဃရပြည်၌။ ပတိဋ္ဌိတံ၊ တည်၏။ ပစ္စတ္ထရဏံ၊ အိပ်ရာခင်းတော်သည်။ ကပိလဝှယေ၊ ကပိလပြည်၌။ ပတိဋ္ဌိတံ၊ တည်၏။ ဓမကရဏဉ္စ၊ ဓမကရိုဏ်တော်သည် လည်းကောင်း။ ကာယဗန္ဓနဉ္စ၊ ခါးပန်းတော်သည်လည်းကောင်း။ ပါဋလိပုတ္တနဂရေ၊ ပါဋလိပုတ်ပြည်၌။ ပတိဋ္ဌိတံ၊ တည်၏။ ဥဒကသာဋိကာ၊ ရေသနုပ်တော်သည်။ ဓမ္ပာယံ၊

စမ္မာပြည်၌။ ပတိဋ္ဌိတံ၊ တည်၏။ ဥဏ္ဏာလောမံ၊ ဥဏ္ဏာလုံမွေးရှင်တော်သည်။ ကောသလေ၊ ကောသလတိုင်း၌ ပတိဋ္ဌိတံ၊ တည်၏။ကာသာဝဋ္ဋ၊ သင်္ကန်းတော်သည်ကား။ ဗြဟ္မလောကေ၊ ဗြဟ္မာ့ပြည်၌။ ပတိဋ္ဌိတံ။ တည်၏။ ဝေဌနံ၊ ဦးရစ်တော်သည်။ တိဒသပုရေ၊ တာဝတိံသာနတ်ပြည်၌။ ပတိဋ္ဌိတံ။ တည်၏။ နိသီဒနံ၊ နိသီဒိုင်သည်။ အဝန္တိပုရေ၊ အဝန္တိပြည်၌။ ပတိဋ္ဌိတံ၊ တည်၏။ အတ္ထရဏံ၊ မြေခင်းနီးတော်သည်။ ဒေဝရဋ္ဌေ၊ ဒေဝတိုင်း၌။ ပတိဋ္ဌိတံ၊ တည်၏။ အရဏိ၊ မီးပွတ်တော်သည်။ မိထိလာယံ၊ မိထိလာပြည်၌။ ပတိဋ္ဌိတံ၊ တည်၏။ ပရိဿာဝနံ၊ ရေစစ်တော်သည်။ ဝေဒေဟေ၊ ဝိဒေဟတိုင်း၌။ ပတိဋ္ဌိတံ၊ တည်၏။ ဝါသိ၊ ပဲခွပ်တော်သည်လည်းကောင်း။ သူစိဃရဉ္စာပိ၊ အပ်ကျည်တော်သည်လည်းကောင်း။ ဣန္ဒပတ္တေ၊ ဣန္ဒပတ္တနဂိုရ် အမည်ရှိသော။ ပုရေ၊ ပြည်၌။ ပတိဋ္ဌိတံ၊ တည်၏။ အဝသေသံ၊ ကြွင်းသော။ ပရိက္ခာရံ၊ ပရိက္ခရာတော်သည်။ အပရန္တကေ၊ အပရန္တအမည်ရှိသော။ ဇနပဒေ၊ ဇနပုဒ်၌။ ပတိဋ္ဌိတံ၊ တည်၏။ ဤသို့ ဗုဒ္ဓဝင် ပါဠိတော်၌ လာသည်ကိုထောက်၍ ယခင့်ပုစ္ဆာတို့ကို သိအပ်၏။

"အင်း" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေပြီး၏။

❖❖❖❖❖

## (၄၃) "အောင်"ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေ

### ၁၀၈၃။ ဘုရားဘုန်းခေါင်၊လက်သုံးဆောင်၊တောင်ဝှေးလုံးလျား ဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– တောင်ဝှေးတော် ရှိကြောင်း ကိုသာ ဗုဒ္ဓဝင်၌လာသည်။ ပမာဏ အကြီးအရှည်ကိုကား အဋ္ဌကထာတို့၌ မပြချေ။ ရာဇမတ္တဏ် စသည်တို့၌လာသော တောင်ဝှေးလုပ်ရိုးကိုချင့်သော် ဘုရားသခင်၏ ဆံလျှဉ်တော်နှင့်အမျှ သုံးတောင်နှစ်မိုက် ဖြစ်သင့်၏။ ဤတောင်ဝှေး လုပ်ရိုးကို ရာဇမတ္တဏ်ကျမ်း၌ ပြသည်ကား–

**ရုဇုရနုပြဟာ တောဒိနာ၊ သူလ္လိဗ္ဗော ဗြဟ္မဏသျ ပလာသး**
**ရာဇညသျာဒေါ ဥဒုမ္ဗရး၊ ဒဏ္ဍော ဝေဿသျ ဗိလ္လသမ္ဘဝး။**
**ကေပနလာဋ္ဌယြာနပြမာဏတုလျာန္ယာဘိ ဖြ ဖလဒါနိ။**
**ကြမသော ဝိပြက္ခေတြိယး။ ဝေသျနံ ဒဏ္ဍကဖွာနိ။**

**အနက်ကား။** ။ ရုဇု၊ ဖြောင့်သော၊ အနုပြဟာတော၊ ပိုးမခဲသော။ အဒိနာ၊ အဖု အဆစ် အမျက်မကင်းသော၊ သူလ္လိဗ္ဗော၊ အလွန်ပြေပြစ် ချောမောသော။ ပလာသး။ ပေါက်သားသည်။ ဗြာဟ္မဏသျ၊ ပုဏ္ဏားရဟန်းအား။ ဒဏ္ဍော၊ တောင်ဝှေး သည်။ သျဒ်၊ ဖြစ်သင့်၏။ ဥဒုမ္ဗရး၊ ရေသဖန်းသားသည်။ ရာဇညသျ၊ မင်းအား။ ဒဏ္ဍော၊ တောင်ဝှေး သည်။ သျဒ်၊ ဖြစ်သင့်၏။ ဗိလ္လသမ္ဘဝး၊ ဥသျှစ်သားသည်။ ဝေဿသျ၊ သူဌေးသူကြွယ် ကုန်သည်တို့အား။ သျဒ်၊ ဖြစ်သင့်၏။

ကြမသော၊ အစဉ်အတိုင်း။ ဝိပြကွေ့တြိယးဝေသျာနံ။ ပုဏ္ဏား, မင်း, သူကြွယ်တို့၏။ဒဏ္ဍကမ္မောနိ၊တောင်ဝှေးတို့တည်း။ကေပနလာဠ္ဍယာနုပြမာဏတုလျာနိ၊ ဆောင်သောသူ၏ ဆံအတိုင်းအရှည်, နဖူးအတိုင်းအရှည်, နှာခေါင်းအတိုင်းအရှည် ရှိကုန်သည် ဖြစ်မူကား။ အဘိဗ္ဗဖလဒါနိ၊ အလိုရှိအပ်သော ကောင်းမြတ်သော အကျိုးကို ပေးတတ်ကုန်၏။

ဤသို့ ဂါထာလာသောကြောင့် ပိုးခဲခြင်း အဖုအမျက်ရှိခြင်းမှကင်းသော ဖြောင့်မတ် ပြေပြစ်သော ပေါက်သားသည် ပုဏ္ဏား၊ရဟန်းတို့အား တောင်ဝှေး ဖြစ်ထိုက်၏။ ရေသဖန်းသားသည် မင်းတို့အား တောင်ဝှေးဖြစ်ထိုက်၏။ ဥသျှစ်သားသည် သူဌေး သူကြွယ်တို့အား တောင်ဝှေး ဖြစ်ထိုက်၏။ အရှည်ပမာဏမှုကား ပုဏ္ဏား ရဟန်းအား ဆံအလျဉ်အထိ။ မင်းတို့အား နဖူးအထိ၊ သူဌေးသူကြွယ်တို့အား နှာခေါင်း အထိရှည်သော တောင်ဝှေးကိုဆောင်ရာ၏။ ထိုသို့ဆောင်မူ လိုအပ်သော ကောင်းကျိုးကို ပေးတတ်၏ ဟူလိုသည်။

❖❖❖❖❖

## ၁၀၈၄။ ရှစ်သောင်းလေးထောင်၊ကျမ်းကုန်အောင်၊တွက်ဆောင်အက္ခရာဘယ်မျှနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဓမ္မက္ခန္ဓာ တစ်ဆူ တစ်ဆူ ဟူသည် လည်း အများအနည်းမတူကြသောကြောင့် အက္ခရာကို တွက်သိနိုင်ရာသော အကြောင်း မဟုတ်။ ဗုဒ္ဓါနုဗုဒ္ဓဖြစ်သော ဆရာတို့ပြသော ပါဠိပဒလည်း မရှိချေ။

❖❖❖❖❖

## ၁၀၈၅။ စွယ်တော်ပြောင်ပြောင်၊လေးချောင်းဆောင်၊ထူးရောင်မရှိညီပိမ့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- စွယ်တော်လေးဆူ၏ အရောင်သည် ပြုံးတော်မူတိုင်း ကွန့်မြူးထွက်ပြေးသည်။ တစ်ဆူနှင့် တစ်ဆူကား အထူးမရှိ။ အတူအမျှပင် ထွက်သည်။ အရပ်ပမာဏကား နီစွလာသီတိအဝင်ဖြစ်၍ အတောင်ရှစ်ဆယ်ခန့်သာ ထွက်သတည်း။

"အောင်" ကာရန်ပုစ္ဆာ ၃-ပုဒ်အဖြေပြီး၏။

❖❖❖❖❖

## (၄၄) "အောင့်" ကာရန်ပုစ္ဆာ ၃-ပုဒ်အဖြေ

## ၁၀၈၆။ ကောင်းခြင်းမနှောင့်၊ယွင်းမထောင့်၊ဖြောင့်ဖြောင့် စွယ်တော်များလိမ့်နည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ငှက်ပျောနံ့သာပုသီးကဲ့သို့ စဉ်းငယ်ညွတ်လျက် တည်သည်ဟူ၍ သုတ်မဟာဝါ အဋ္ဌကထာ၌လာသည်။

❖❖❖❖❖

၁၀၈၇။ စိုးရိမ်မဖြောင့်၊ စိတ်စက်နှောင့်၊ ကြောင့်ကြတရားကိုယ် ဘယ်သည်နည်း။ (၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဒေါသမူဒွေ၌ရှိသော ဒေါမနဿ ဝေဒနာကို သောကဟူ၍ ဟောတော်မူရကား ကြောင့်ကြခြင်း၏ တရားကိုယ်ကား ဒေါမနဿဝေဒနာ ဟူပေ။

❖❖❖❖❖

၁၀၈၈။ နေ့တိုင်းမှောင့်ရှောင့်၊ ငါးစင်းခြောင့်၊ ဖနှောင့်ဘယ်တွင်ဟောသနည်း။ (၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ရာဂသလ္လံ, ဒေါသသလ္လံ, မောဟသလ္လံ, မာနသလ္လံ, ဒိဋ္ဌိသလ္လံ ဣမေ ခေါ ပဉ္စသလ္လာ မနောဝိညာဏဿ ဝိဇ္ဈကာ။**

ဟူသောပါဠိနှင့်အညီ ရာဂ–ဒေါသ–မောဟ–မာန–ဒိဋ္ဌိတို့သည် မနောဝိညာဉ်ကို စူးဝင်တတ်ရကား ခြောင့်တံသင်းနှင့်တူသောကြောင့် ခြောင့်ငါးစင်းမည်၏။ မနောဝိညာဉ် တည်းဟူသော တရားသည် စူးဝင်ရာဌာန ဖြစ်သောကြောင့် ဖနှောင့်မည်၏ဟူပေ။

"အောင့်" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေပြီး၏။

❖❖❖❖❖

(၄၅) "အောင်း" ကာရန်ပုစ္ဆာ ၃–ပုဒ် အဖြေ

၁၀၈၉။ ချစ်ရှင်အလောင်း၊ သင်္ကြိုဟ်ရှောင်း၊ အပေါင်းစည်းဝေးဘယ်မျှနည်း။ (၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဘုရားသခင် နိဗ္ဗာန်ဝင်သောအခါ စည်းဝေးလာသော ပရိသတ်လေးပါးတို့တွင် ရဟန်းပရိသတ်သည် သံဃာထေရ် ဖြစ်သော ပုဂ္ဂိုလ်ပင် ခုနစ်သိန်းရှိ၏။ မဇ္ဈိမဘိက္ခု၊ နဝကဘိက္ခုတို့ကိုကား မရေတွက် နိုင်ပြီ။ လူ, နတ်, ပရိသတ် တို့ကိုလည်း မရေတွက်နိုင်ပြီဟူ၍ ပါရာဇိကဏ်အဋ္ဌကထာ, သာရတ္ထဒီပနီဋီကာတို့၌ မိန့်၏။

❖❖❖❖❖

၁၀၉၀။ လေးကျွန်းတည်ရှောင်း၊ ဤမြေကောင်း၊ မြူပေါင်းလိက္ခာမည်မျှနည်း။ (၂)

၁၀၉၁။ ယင်းတွင်အကြောင်း၊ ရေတွက်ရှောင်း၊ ရွှေးပေါင်းဤမြေဘယ်မျှနည်း။ (၃)

ဟူသော အမေးပုစ္ဆာ နှစ်ခု၌ အဖြေဝိသဇ္ဇနာကား– ရှေးကာရေးဖြေခဲ့ပြီ။

"အောင်း" ကာရန်ပုစ္ဆာ ၃–ပုဒ် အဖြေပြီး၏။

❖❖❖❖❖

## (၄၆) ''အိုင်'' ကာရန်ပုစ္ဆာ ၄-ပုဒ်အဖြေ

**၁၀၉၂။ မပိတ်ပင်နိုင်၊ ဂုဏ်လေးဆိုင်၊ ကျမ်းခိုင်လာ၏မည်သို့နည်း။ (၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**စတုန္နံ ဟိ န သက္ကာ အန္တရာယော ကာတုံ။ ကတမေသံ စတုန္နံ၊ တထာဂတဿ အဘိဟဋ္ဌဘိက္ခာသင်္ခေပေန ဝါ နိဗဒ္ဓဒါနဿ အပ္ပိတ ဝတ္ထသင်္ခေပေန ဝါ ပရိစ္စတ္တာနံ စတုန္နံ ပစ္စယာနံ န သက္ကာ ကေနစိ အန္တရာယော ကာတုံ၊ ဗုဒ္ဓါနံ ဇီဝိတဿ န သက္ကာ ကေနစိ အန္တရာယော ကာတုံ၊ အသီတိယာ အနုဗျဉ္ဇနာနံ ဗျာမပ္ပဘာယ ဝါ န သက္ကာ ကေနစိ အန္တရာယော ကာတုံ၊ စန္ဒိမသူရိယ ဒေဝဗြဟ္မာနမ္ပိ ဟိ ပဘာ တထာဂ တဿ အနုဗျဉ္ဇနဗျာမပ္ပဘာ ပဒေသံ ပတွာ ဝိဟတာနုဘာဝါ ဟောန္တိ ဗုဒ္ဓါနံ သဗ္ဗညုတညာဏဿ န သက္ကာ ကေနစိ အန္တရာယော ကာတုန္တိ ဣမေသံ စတုန္နံ န သက္ကာ ကေနစိ အန္တရာယော ကာတုံ။ ဟူ၍ ပါရာဇိကဏ် အဋ္ဌကထာ ဝေရဉ္ဇကဏ္ဍာ၌ လာသည်။**

**အဓိပ္ပါယ်ကား။** ။ဘုရားသခင်တို့အား ဤမည်သော အခါပတ်လုံး လှူအံ့ဟု ပိုင်းခြား၍ ဝတ်ထားသော ဆွမ်း၏လည်းကောင်း၊ ကျောင်းသို့လည်း ဆောင်၍ ထားသောပစ္စည်းလေးပါး၏လည်းကောင်း အန္တရာယ်ကို တစ်စုံတစ်ယောက်သော သူသည် မပြုနိုင်။ဘုရားသခင်တို့၏ အသက်အန္တရာယ်ကိုလည်း တစ်စုံတစ်ယောက်သော သူသည် မပြုနိုင်။ရှစ်ဆယ်သော လက္ခဏာတော်၊ ဗျာမပ္ပဘာ ရောင်ခြည်တော်တို့၏ အန္တရာယ်ကိုလည်း တစ်စုံတစ်ယောက်သောသူသည် မပြုနိုင်။ သဗ္ဗညုတဉာဏ်၏ အန္တရာယ်ကိုလည်း တစ်စုံတစ်ယောက်သောသူသည် မပြုနိုင်၊ ဤလေးပါးသည် သူတစ်ပါး မတားနိုင်၊ မပိတ်ပင်နိုင်သော ဂုဏ်ဖြစ်သည်ဟူလိုသည်။

❖❖❖❖❖

**၁၀၉၃။ ရဟန်းမြတ်ပိုင်၊ တရားလှိုင်၊ ဘုန်းခိုင်ဘယ်သို့ ဟောသနည်း။(၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ရှာ၍မရ။

❖❖❖❖❖

**၁၀၉၄။ စကြာမင်းပိုင်၊ စောဘုန်းခိုင်၊ ဖြစ်တိုင်ဇာတ်ပေါင်းဘယ်မျှနည်း။(၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- စက္ကဝတ္တိ အသင်္ချေယျံ။

❖❖❖❖❖

105
B

၁၀၉၅။ စို့သက်တံမြိုင်၊ထက်အောက်ပြိုင်၊ညဥ့်တိုင်ဘယ့်ကြောင့်မပေါ်သနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

မြေရေတို့မှ ထွက်သော မြူခိုးတိမ်မှုံကို နေရောင်ကြောက်သောကြောင့်သာ စို့သက်တံ ဖြစ်လေရကား ညဥ့်အခါ မပေါ်နိုင်ဟူပေ။

''အိုင်'' ကာရန်ပုစ္ဆာ ၄–ပုဒ်အဖြေ ပြီး၏။

◆◆◆◆◆

## (၄၇) ''အိုင့်'' ကာရန်ပုစ္ဆာ ၁–ပုဒ်အဖြေ

၁၀၉၆။ ကိုယ်လုံးဖိုင့်ဖိုင့်၊ ခပ်အိုင့်အိုင့်၊ ချိုင့်ဝှမ်းရာကြိုက်မည်သူနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဟတ္ထိနီဖြစ်သော မိန်းမတည်း။

''အိုင့်'' ကာရန်ပုစ္ဆာ ၁–ပုဒ်အဖြေပြီး၏။

◆◆◆◆◆

## (၄၈) ''အိုင်း'' ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေ

၁၀၉၇။ မိုးညို့ပြိုင်းပြိုင်း၊ အုံ့ကာမှိုင်း၊ အုံ့တိုင်းရွာတို့ လေလိမ့်နည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

အုံ့တိုင်း မရွာချေ။

◆◆◆◆◆

၁၀၉၈။ ရေသို့ပိုင်း၊ ပတ်ရစ်သိုင်း၊ မှန်တိုင်းလာတို့ လေလိမ့်နည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''ဘုသာ ဝါတာပိ ပဟာရန္တိ'' စသည်ဖြင့် သံကိစ္စဇာတ် အဋ္ဌကထာ၌ ဆိုရကား ရေပြည့်၌ နိုပ်စက်ခြင်းငှာ ထိုက်သောရေသူတို့၏ ကြမ္မာအားလျော်စွာ လေပြင်း မှန်တိုင်းသည် ဇော့ခတ်ကုန်၏ ဟူပေ။

◆◆◆◆◆

၁၀၉၉။ မြင်းမိုရ်ရှိတိုင်း၊ တည့်ဝိုက်သိုင်း၊ ရွှေဆိုင်း ဘယ်မျှကုန်သနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

''အိန်'' ကာရန်ပုစ္ဆာနံပါတ် ၆၈၂၊ မြင်းမိုရ်ရောင်ရှိန်၊ တောင်ဂိရိန်၊ ကျပ်ချိန် ဘယ်မျှရှိသနည်းဟူသော ပုစ္ဆာ၌ ဖြေဆိုခဲ့သော တွက်နည်းကို မှီ၍ တွက်လေ။

''အိုင်း'' ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေ ပြီး၏။

◆◆◆◆◆

(၄၉) ''အစ်'' ကာရန်ပုစ္ဆာ ၄–ပုဒ်အဖြေ

၁၁၀၀။ သုံးလူ့မျက်နှစ်၊ တို့ရှင်ချစ်၊ ဟောလစ်ဂါထာ ဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ဓမ္မက္ခန္ဓာရှစ်သောင်းလေးထောင်တွင် ဂါထာပေါင်းကို ရွေးစစ်သော် ဘယ်မျှဟူ၍ သိနိုင်ဖွယ်ရာသော အကြောင်းမရှိ။

◆◆◆◆◆

၁၁၀၁။ လက်ယာရံဖြစ်၊ မထေရ်စစ်၊ ဖွားလစ် ဘယ်နေ့သားပေနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

သာသနာတော်ကျမ်း လောကီကျမ်းတို့၌ပင် ရှင်သာရိပုတ္တရာ ဘယ်နေ့သားဟု မတွေ့ဖူးချေ။

◆◆◆◆◆

၁၁၀၂။ ဖွားဖက်တော်စစ်၊ ပေါင်းခုနစ်၊ ဖွဲ့လစ် ဇာတာတူချိမ့်နည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဇာတာမတူ။ ဘယ့်ကြောင့်နည်းဟူမူကား ဖွားဖက်ဆိုသော်လည်း တစ်ချိန်တစ်နာရီတည်း မဟုတ်၊ ရက်တူရုံမျှကိုပင် ဖွားဖက်ဆိုရသည်။ အဘယ်ကိုထောက်၍ သိသနည်းဟူငြားအံ့။ ဘုရားသခင်တို့ ဖွားရိုးဖြစ်သော နာရီတီသင်း တြင်း, နဝင်းတို့၌ တစ်ပါးသူတို့ မဖွားကုန်။ စကြာမင်းတို့ ဖွားရိုးဖြစ်သော နာရီတီသင်း, တြင်းနဝင်းတို့၌လည်း တစ်ပါးသူတို့ မဖွားကုန်ဟူ၍ ဗြို့ဟတ်ကျမ်း၌ ဆိုသည်။ ထို့ကြောင့် ဖွားဇာတာကို မြင်သဖြင့် ဤသူကား ဘုရား ဖြစ်လတ္တံ့၊ ဤသူကား စကြာမင်းဖြစ်လတ္တံ့ဟု ပညာရှိတို့သိကြကုန်သည်။ ကောဏ္ဍည ပုဏ္ဏားလည်း ဘုရားလောင်း၏ ဖွားဇာတာကိုမြင်သဖြင့်ပင် စင်စစ် ဘုရား ဖြစ်လတ္တံ့ဟု ဆိုနိုင်ကြောင်းကို ဗုဒ္ဓဝင်အဋ္ဌကထာ၌ လာသည်။

◆◆◆◆◆

**၁၁၀၃။ ဒွါဒသဖြစ်၊ ဧချင်းစစ်၊ ဆယ့်နှစ်သိုက်စာ အဘယ်နည်း။(၄)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– (၁) မင်္ဂလာမဏ္ဍိုင် အစချီသော မင်းရဲဒိဗ္ဗဧချင်း။ (၂) မင်္ဂလာမာရ်အောင်အစချီသော မင်းရဲနရဧချင်း။ (၃) မင်းရဲထွေး ဧချင်း (၄) မင်းတရားရွှေထီး ဧချင်း။ (၅) မင်းတရားမယ်တော် ဧချင်း။ (၆) ရခိုင်မင်း ဧချင်း။ (၇) ယိုးဒယားဧချင်း။ (၈) သာယာဝတီမင်း ဧချင်း။ (၉) စေဋ္ဌကူးမင်း ဧချင်း။ (၁၀) မင်းရဲကျော်စွာ ဧချင်းဟူ၍ ဆယ်စောင်မျှသာ တွေ့ဖူးသည်။

သိုက်စာ၁၂–စောင်ဆိုသည်မှာ ပမာဏပြုလောက်သောသိုက်ကားဝမ်းဘဲအင်းစံ မင်းတရားလက်ထက် စက္ကာဘိဃောသ တံဆိပ်တော်ရ နတ်စက်ရောင်ဆရာတော် စီရင်ခဲ့သော သာသနာသိုက်၊ ဇာဂရုပုဏ္ဏားစီရင်ခဲ့သောသိုက်၊ ပေါက္ကံမြို့ ရွှေစည်းခုံ ဘုရားဝယ် သိကြားရေးသားထားသည်ဟု ကျော်စောသော သိကြားသိုက်။ ဂဝံပတေ့သိုက်။ ငမှန်ကန်းသိုက်။ ဂေါဝံရသေ့သိုက်ဟူ၍ ခြောက်စောင်သာ တွေ့ဖူးသည်။

**"အစ်" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေပြီး၏။**

◆◆◆◆◆

## (၅၀) "အို" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေ

**၁၁၀၄။ လေပွေဒိုးလို၊ မှိုင်းညိုညို၊ ညဥ့်ကို ဘယ့်ကြောင့်မလာသနည်း။(၁)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–လေပွေ၏လာခြင်းကား နေရှိန် လောင်ခြင်း၊ မြေမှပူသော အခိုးထွက်ခြင်း၊ နှစ်သွယ်သောလေတို့ဆိုင်မိခြင်း ဤသုံးပါးသော အကြောင်းကြောင့် ဖြစ်ရကား ညဥ့်အခါ နေရှိန် မရှိသည်ဖြစ်၍ လေနှစ်သွယ်တို့ ဆိုင်မိသော်လည်း လေပွေမဖြစ်ဟူပေ။ ။ ဥပမာကား ရေဝဲ၏ လည်ခြင်းသည် အောက်မှ လှိုက်၍ တက်သောရေ၊ လက်ဝဲ လက်ယာစီးလာသောရေ၊ ဤသုံးဦး ဆိုင်မိမှ ဝဲကန်တော့ ဖြစ်သကဲ့သို့တည်း။

◆◆◆◆◆

**၁၁၀၅။ သောဏထေရ်ပျို၊ ပုဂ္ဂိုလ်ကို၊ မိန့်ဆိုဘယ်တေဒဂ်နည်း။(၂)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– "တေဒဂ္ဂံ ဘိက္ခဝေ မမ သာဝကာနံ ဘိက္ခူနံ အာရဒ္ဓဝီရိယာနံ ယဒိဒံ သောဏော" ဟူ၍ အင်္ဂုတ္တိုရ်၌ လာသည်။

◆◆◆◆◆

**၁၁၀၆။ ဒေါနခေါ်ဆို၊ ပုဏ္ဏားအို၊ မင်္ဂဖိုလ် ရပါလေလိမ့်နည်း။(၃)**

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– မင်္ဂဖိုလ်ရသည်ဟူ၍ စာမတွေ့။

**"အို" ကာရန်ပုစ္ဆာ ၃–ပုဒ်အဖြေပြီး၏။**

◆◆◆◆◆

## (၅၁) ''အို့'' ကာရန်ပုစ္ဆာ ၂-ပုဒ်အဖြေ

### ၁၁၀၇။ ငွေရွက်နီစို့၊ ပွင့်တချို့၊ ညို့ညို့ကြေးနီဘယ်မျှနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ရွက်နီစို့ဟုခေါ်သော ငွေကား ရွက်နီနှင့် အရောင် အဆင်း တူသော တစ်မူးကဲ၊ နှစ်မူးကဲ၊ တစ်မတ်ကဲ၊ နှစ်မတ်ကဲ တို့ကို ရွက်နီစို့ ဟုခေါ်သည်။ ထိုငွေတို့တွင် ငွေစင်တစ်ဆယ်၊ ကြေးနီတစ်မူး ပါသည်ကို တစ်မူးကဲ။ ငွေစင် တစ်ဆယ်တွင် ကြေးနီ နှစ်မူးပါသည်ကို နှစ်မူးကဲ စသည်တို့ဖြင့် သိရာသည်။

❖❖❖❖❖

### ၁၁၀၈။ သဏ္ဌာန်ပို့ပို့၊ ပဲနောက်သို့၊ ဘုန်းပျို့ဓာတ်တော် ဘယ်မျှနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

**မဟန္တာ မုဂ္ဂမာသာ စ၊ မဇ္ဈိမာ ဘိန္နတဏ္ဍုလာ။**
**ခုဒ္ဒကာ သာသပမတ္တာ၊ တေပိ ဝန္ဒာမိ သာဒရံ။**

ဓာတ်တော်အကြီးကား ပဲနောက်ပမာဏ၊ အလတ်ကား ဆန်ကျိုးပမာဏ အငယ်ကား မုန်ညင်းစေ့ပမာဏဟူ၍ ပမာဏသုံးရပ် ပြသောဂါထာ။

**မဟန္တာ သုဝဏ္ဏသုဝဏ္ဏာစ၊ မဇ္ဈိမာ မုတ္တကာ ပဘာ။**
**ခုဒ္ဒကာ မကုလဝဏ္ဏာစ၊ တေပိ ဝန္ဒာမိ သာဒရံ။**

ဓာတ်တော်အကြီးကား ရွှေအဆင်း၊ အလတ်ကား ပုလဲအဆင်း၊ အငယ်ကား ချရားစေ့ အဆင်းဟူ၍ အဆင်းသုံးရပ်ကို ပြသောဂါထာ။

**မဟန္တာ ပဉ္စ နာဠိ စ၊ မဇ္ဈိမာ ပဉ္စ နာဠိ စ။**
**ခုဒ္ဒကာ ဆ စ နာဠိ စ၊ တေပိ ဝန္ဒာမိ သာဒရံ။**

အကြီးကား ငါးကွမ်းစား၊ အလတ်ကား ငါးကွမ်းစား၊ အငယ်ကား ခြောက်ကွမ်းစား ဟူ၍ အနည်းအများကို ပြသောဂါထာ။ ။ ဤဗုဒ္ဓဝင်ကျမ်းလာကို မှီ၍ သိအပ်သော ပါဠိဂါထာကို ထောက်၍ ပဲနောက်ပမာဏရှိသော ဓာတ်တော်ကား ငါးကွမ်းစားရှိ၏ဟု သိရာသည်။

''အို့'' ကာရန်ပုစ္ဆာ ၂-ပုဒ် အဖြေပြီး၏။

❖❖❖❖❖

## (၅၂) ''အိုး'' ကာရန်ပုစ္ဆာ ၉-ပုဒ်အဖြေ

### ၁၁၀၉။ မုန်ညင်းဆန်ကျိုး၊ ဓာတ်တော်မျိုး၊ တွက်ရိုးဘယ်ပြည်ကွမ်းစားနည်း။(၁)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ၎င်းဓာတ်တော်တို့ကိုခြင်သော ကွမ်းစားသည် အဘယ်ပြည်၌ဖြစ်သော ကွမ်းစားနည်းဟု မေးလိုသည်။ မဂဓတိုင်း၊

ရာဇဂြိုဟ်ပြည်သူတို့ အသုံးပြုသော ကွမ်းစားခွက်ဖြင့် ကြီးသောဓာတ်တော် ငါးကွမ်းစား။ အလတ်ငါးကွမ်းစား။ အငယ် ခြောက်ကွမ်းစား ရှိသည်ဟူ၏။ ယခုမြန်မာနိုင်ငံ၌ ဖြစ်သော ပြည်တောင်းဖြင့် ခြင်သော် မဂဓတစ်ကွမ်းစားလျှင် နှစ်ပြည်ရှိသည်။ နလာဋဓာတုဝင်တွင် ဘုရားသခင်၏ ဓာတ်တော်သည် တင်းအားဖြင့် နှစ်တင်း၊ ဒေါဏအားဖြင့် ရှစ်ဒေါဏ။ စလယ်ဟူသောကွမ်းစားအားဖြင့် တစ်ရာ့နှစ်ဆယ့်ရှစ် ရှိသည်ဟု ပြလိုရကား–

**စက္ခုမန္တသ္သ ဘဂဝတော သရီရဓာတု အဋ္ဌဒေါဏမတ္တံ သုဝဏ္ဏနာဠိယာ ကေသတအဋ္ဌဝီသတိနာဠိကာ အဟောသိ။ ဟူ၍ ဆိုသည်။**

ဒေါဏသဒ္ဒါကိုလည်း စရွတ်ဟူ၍ မြန်မာပြန်ကြသည်ကား ဝိနည်းဋီကာကြီးတို့နှင့် လည်းကောင်း၊ အဘိဓာန်နှင့်လည်းကောင်း မညီ။ စတုရော ပတ္ထာ၊ လေးကွမ်းစားတို့သည်။ အဠှကော၊ ပြည်မည်၏။ စတုရောဠှကံ၊ လေးပြည်သည်။ ဒေါဏံ၊ စိတ်မည်၏ ဟူ၍ အဘိဓာန်၌ ဆိုသည်။ ဝိမတိဋီကာ၊ သာရတ္ထဒီပနီ ဋီကာတို့၌လည်း။ စတုရောဠှကာ၊ လေးပြည်တို့သည်။ ကေဒေါဏံ၊ တစ်စိတ်မည်၏။ စတ္တာရိ ဒေါဏာနိ၊ လေးစိတ်တို့သည်။ ကေမာနိကာ၊ တစ်တင်းမည်၏ ဟူ၍ မိန့်ကုန်သည်။ ထို့ကြောင့် ဓာတ်တော်တို့သည် မဂဓ ကွမ်းစာတို့ဖြင့် တစ်ဆယ့်ခြောက်ကွမ်းစား။ မြန်မာတို့ပြည်အားဖြင့် သုံးဆယ့်နှစ်ပြည်။ စိတ်အားဖြင့် ရှစ်စိတ်။ တင်းအားဖြင့် နှစ်တင်းရှိသည်ဟု သိအပ်၏။

◆◆◆◆◆

## ၁၁၁၀။ သဒ္ဒါတက်တိုး၊ ကြည်ညိုမျိုး၊ ဘုန်းပျိုး ဘယ်ပုဂ္ဂိုလ်ပေနည်း။(၂)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အရှင်ရဋ္ဌပါလထေရ်မြတ်တည်းဟုဖြေ။ ထိုအရှင်သည် လူစဉ်က တိုင်းနိုင်ငံကိုစောင့်ရှောက်ခြင်းငှာ စွမ်းနိုင်သော ခတ္တိယမဟာသာလမျိုး၌ ဖြစ်လျက် ဘုရားသခင်၏ တရားတော်ကိုနာရလျှင် ရဟန်းပြုချင်သော စိတ်သည်အလွန်ဖြစ်ရကား မိခင်ဖခင်တို့ကို ခွင့်တောင်းပါသော်လည်း ရဟန်းပြု ခွင့်မပေးသည် ဖြစ်သောကြောင့် အခင်းမရှိသောမြေ၌ အလျားဝပ်လျက် ခုနစ်ရက်ပတ်လုံး ထမင်းမစားဘဲနေသည်ဖြစ်၍ တစ်ဆယ့်လေးနပ်ပတ်လုံး အစာပြတ်ရကား ငါတို့ သားသည် သေလေသည်ထက် ရဟန်းပြုစေခြင်းသည် မြတ်သေး၏ဟု မိဘတို့က ခွင့်ပြုရ၏။ ထိုအခါ မြတ်စွာဘုရားထံတော်၌ ရဟန်းပြုခွင့်ကို ရလေ၏။ ထို့ကြောင့် သာဝကတို့ကို တေဒဂ်ထားတော်မူသော ကာလ အရှင်ရဋ္ဌပါလကို ''တေဒဂ္ဂံ ဘိက္ခဝေ မမ သာဝကာနံ သဒ္ဓါပဗ္ဗဇိတာနံ ဘိက္ခူနံ ယဒိဒံ ရဋ္ဌပါလော'' ဟူ၍ သဒ္ဓါပဗ္ဗဇိတ အရာ၌ တေဒဂ် ထားတော်မူသည်။

◆◆◆◆◆

## ၁၁၁၁။ လာပ်သပ်ပြည့်ဖြိုး၊ ဘုန်းကံတိုး၊ ဖွားရိုးမဖွား ဘယ်သူနည်း။(၃)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အရှင်သီဝလိထေရ်ဟူပေ။ အဘယ် အကြောင်းကြောင့် ဤမထေရ်သည် လာဘ်သပ် ပြည့်စုံသနည်း ဟူမူကား။ ဤကမ္ဘာမှ ပြန်၍ရေသော် ၉၁–ကမ္ဘာထက်၌ ဝိပဿီမြတ်စွာဘုရား ထင်ရှားဖြစ်တော်မူသောအခါ ဗန္ဓုမတီပြည်သူတို့သည် မင်းနှင့်ပြိုင်၍ အလှည့်အလည် အလှူပေးကြရာ တစ်သင်းသော အရပ်သားတို့သည် ဘုရားအမှူးရှိသော သံဃာတော်တို့ကို ဆွမ်းလုပ်ကျွေးလှည့် ကျသည်နှင့် အလှူဝတ္ထုကို ရုံးစုကြကုန်သော် ပျားစိမ်းအရသာနှင့် နို့ဓမ်း အရသာသည် မပါဖြစ်၍ အလှူကို ဆော်ဖန်သော သူတို့သည် အရပ်ရပ်ကို လှည့်ပတ်၍ ရှာဖွေကြ၏။ ထိုအခါ ရှင်သီဝလိ၏ အလောင်းသည် တောရွာ၌သူကြီးဖြစ်၍ မင်း၏ထံသို့ တစ်စုံတစ်ခုသော ကိစ္စဖြင့် လာလတ်သော် လက်ဆောင်အလို့ငှာ နို့ဓမ်း တစ်အိုးကို ယူ၍ လာ၏။ ခရီးအကြား၌ ထွန်တုံးလောက်ရှိသော ပျံပြီးသော ပျားအုံတစ်ခုကိုလည်း တွေ့၍ ထမ်းဆောင်ခဲ့၏။ မြို့အနီးသို့ ရောက်သောကာလ ပျားရှာသောလူနှင့် တွေ့၍၊ အဆွေ၊ သင်ယူခဲ့သောပျားကိုလည်းကောင်း၊ နို့ဓမ်းကို လည်းကောင်း ကျွန်ုပ်အား ရောင်းပါလော့။ တစ်သပြာပေးပါအံ့ဟုဆို၏။ ထိုအခါ တောသူကြီးက ဤသို့ကြံ၏။ ဤပျားနှင့် နို့ဓမ်းသည် အဖိုးများစွာ ထိုက်သည် မဟုတ်ဘဲလျက် ဤသူသည် တစ်သပြာတိုင်အောင် ပေးခဲ့သည်။ တစ်စုံတစ်ခု အကြောင်းရှိရာ၏။ ငါသည် စုံစမ်းဦးအံ့ဟု ကြံ၍ အဆွေ၊ဤမျှဖြင့် ငါမရောင်းလိုဟု ဆို၏။ ထိုသူကလည်း နှစ်သပြာယူလော့ဟု ဆိုပြန်၏။ တစ်ဖန်လည်း ငါမရောင်း လိုသေးဟု ဆိုပြန်လျှင်။ လေးသပြာ၊ ရှစ်သပြာ တိုးတက်၍ သပြာတစ်ထောင် တိုင်အောင်ပေး၏။ ထိုအခါ တောသူကြီးကလည်း အဆွေ၊ ဤပျားနို့ဓမ်းတို့သည် ရှေးကာလအဖိုးများစွာ မထိုက်ဘဲလျက်အသပြာတစ်ထောင်တိုင်အောင် ယခု ပေးခြင်းသည် ဘယ်အကြောင်းကြောင့် ပေးသနည်းဟု မေး၏။ မြို့သားကလည်း အဆွေ၊ ငါတို့မြို့သားအပေါင်းတို့သည် ဘုရားအမှူးရှိသော သံဃာတော်တို့ကို အလှူပေးလှည့် ကျ၍ ငါတို့ဒါနဝတ္ထု၌ ပျားအရသာ၊ နို့ဓမ်းအရသာတို့ဖြင့် စုံလင်စွာ ကပ်လှူခြင်းငှာ ဝယ်ပါသတည်း။ အဆွေ၊ လှူကြသော ဒါယကာအများဖြစ်၍ အဖိုးကိုမရှောင်ပါ။ ဝတ္ထုကိုသာ ပြည့်စုံစေလိုပါသည်ဟု ဆို၏။ ထိုအခါ တောသူကြီးက လည်း သင်တို့ မြို့သူမြို့သားသာလျှင် အလှူဝင်ရသလော။ အခြားသူတို့လည်း မဝင်ရပါသလောဟု မေး၏။ အဆွေ ဘယ်သူ့ကိုမျှ မတားမြစ်။ ဝင်လိုသူဟူသမျှပင် ကူဝင်ရပါ၏ဟုဆိုသော် ထိုသို့ဖြစ်တပြီးကား ဤပျားနှင့်နို့ဓမ်းကို ကျွန်ုပ်အလှူဝင်ပါအံ့။ သို့ရာတွင် ကျွန်ုပ်ကိုယ်တိုင် လှူပါရစေဆို၍ ထိုယောကျ်ားနှင့်အတူ လိုက်လေ၏။ ဘုရားသခင်လည်း သံဃာတော် ခြောက်သန်းရှစ်သိန်းနှင့်တကွ ကြွတော်မူလာ၍ ခင်းအပ်သောနေရာ၌ နေပြီးသော် ထိုရွာသူကြီးသည် မိမိ၌ပါသော နို့ဓမ်းရည်တွင် ပျားရည်ထည့်ရောလျက် သင်းကြိုင်မွှေးပျံ့ ရနံ့ကောင်းမြတ်သော အစပ်ငါးပါး တို့ကိုလည်း ခတ်၍ ဘုရားသခင်အားကပ်လေ၏။ ဘုရားကိုယ်တော်မြတ်လည်း

ဒါယကာ၏ သဒ္ဓါတရား ကြီးပွားစိမ့်သောငှာ သံဃာတော် အားလုံးလောက်အောင် ပွားမြောက်စေသတည်းဟု မိဋ္ဌာန်၍ အလှူခံလေ၏။ ထိုတစ်အိုး မျှလောက်သော ပျားနို့ဓမ်းသည် သံဃာတော်အားလုံးပင်မျှလောက်၏။ ထိုသို့ဖြစ်သည်ကို မြင်လျှင် အတိုင်းထက်အလွန် ရွှင်လန်းသောစိတ်ရှိလျက် ဆွမ်းဘုဉ်းပေးပြီးသည်တိုင်အောင် နေပြီးမှ ပြီးသောအခါ တရားတော်ကိုနာ၍ "အရှင်ဘုရား၊ အကျွန်ုပ်သည် ဤပျားနို့ဓမ်းတို့ကို လှူဒါန်းပူဇော်ရသော ကောင်းမှုကြောင့် နောင်သံသရာဘဝဖြစ်သမျှတို့၌ ဒုက္ခအပေါင်းမှ ကင်းငြိမ်းလျက် လာဘ်ပူဇော်သက္ကာသည် မိုးရွာသကဲ့သို့ များပြားသည်ဖြစ်ပါလို၏။ နောင်ဘုရားရှင်တို့၏ သာသနာ၌ ပဋိသမ္ဘိဒါပတ္တ တေဒဂ်ရသာဝကကြီးလည်း ဖြစ်ပါလိုသော"ဟု ဆုတောင်း၏။ ဘုရားသခင်လည်း တရားအနုမောဒနာပြု၍ ကြွတော်မူ၏။ ထိုတောသူကြီးသည် မိမိနေရာ မြို့ရွာသို့ ပြန်ရောက်သော် ဆွေမျိုးညာတကာ တို့အားလည်းကောင်း၊ ရွာသူ ရွာသားတို့အားလည်းကောင်း၊ ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာတို့၌ သဒ္ဓါပြန့်ပွားစိမ့်သောငှာ ကောင်းစွာ ဖျောင်းဖျဆော်နိူး၍ ဘုရားသခင်ကို သံဃာတော်နှင့်တကွ ပင့်၍ ဆွမ်းလုပ်ကျွေးခြင်း ကိုလည်းပြု၏။ ထိုကောင်းမှုတို့ကြောင့် လူ့ပြည်၊ နတ်ပြည် ကျင်လည်ခဲ့၍ ငါတို့ ဘုရားလက်ထက်တော်၌ ကောလိယပြည်တွင် သုပ္ပဝါသာ အမည်ရှိသော မင်းသမီး၏ ဝမ်း၌ သန္ဓေတည်နေလာ၏။ ပဋိသန္ဓေနေသည်မှ စ၍ ထိုသုပ္ပဝါသာ၏ အိမ်၌ ငါးရာသော လက်ဆောင်ပဏ္ဏာတို့သည် ညဉ့် နံနက်အခါတိုင်း ရောက်လာကုန်၏။ မင်းသမီးလည်း ဘုန်းကံကို စုံစမ်းအံ့သောငှာ လုပ်နက်လယ်ယာ၌ မျိုးစေ့တောင်းကို မိမိလက်ဖြင့်ထိစေ၍ ကျေးကျွန်တို့ကို စိုက်ပျိုးစေသော် တစ်စေ့ တစ်စေ့သောမျိုးမှ အနှံတစ်ရာ လည်းကောင်း၊ အနှံတစ်ထောင်လည်းကောင်း ထွက်၍ သီး၏။ စပါး ပဲ နှမ်း စသည်ကို စဲ့ကျီတို့၌ အပြည့်လှောင်ပြီးသော် မင်းသမီးလက်ဖြင့် ထိစေ၍ ပိတ်လှောင်းကာထား၏။ ထိုထား သမျှသော ကျီတို့မှ ကျေးကျွန်တို့ ယူလတ်သော်လည်း ယူရာမထင်၊ ပြည့်မြဲပင် ပြည့်ပြန်၏။ မင်းသမီးချက်သော ထမင်းအိုးမှ သူတစ်ထူးတို့ကို ခူး၍ ကျွေးလတ်သော်၊ အကြင်မျှလောက်သော ကာလပတ်လုံး မင်းသမီးသည် မထသေး၊ ထိုမျှလောက်သော ကာလပတ်လုံး ထမင်းမကုန်နိုင်သည်သာဖြစ်၏။ ယင်းသို့သော ဘုန်းကံနှင့်ပြည့်စုံလျက် အမိဝမ်းတွင်း၌ ခုနစ်နှစ်နှင့် ခုနစ်လပတ်လုံး အောင်းရ၍ ဖွားအံ့သောအခါ ယောနိဝတွင် ကန့်လန့်တင်၍ ခုနစ်ရက်ပတ်လုံး ကြီးစွာသော ဆင်းရဲကို ခံရ၏။ ထိုအခါ သုပ္ပဝါသာ မင်းသမီးသည် ခင်ပွန်းယောက်ျားကို ခေါ်၍၊ အမောင်၊ ကျွန်ုပ်မသေမီ အလှူပေးလိုပါသည်။ ဘုရားသခင်ကို ဖူးမြင်လိုပါသည်။ ဘုရားရှင့်ထံသွား၍ ပင့်လျှောက်ပါချေ။ ဘုရားသခင်က မိန့်လိုက်သမျှသော စကားကိုလည်း ကျွန်ုပ်အား ပြန်ပြောပါဟု ဆို၍ စေလိုက်၏။ ခင်ပွန်းဖြစ်သော မင်းသားလည်း ဘုရားရှင်ထံသို့ မြန်စွာသွား၍ အကြောင်း စကားကို လျှောက်လေသော် ဘုရားကိုယ်တော်မြတ်က "ကောလိယဓီတာ သုပ္ပဝါသာ သုခိနီ ဟောတု၊ အရောဂါ ပုတ္တံ ဝိဇာယတု"ဟူသော စကားဖြင့် "ကောလိယမင်း၏

သမီးဖြစ်သော သုပ္ပဝါသာသည် ယခုမကြာ ချမ်းသာစေသတည်း။ ရောဂါမရှိ ပကတိသော သားကောင်းရတနာကို ဖွားမြင်ပါစေသတည်း''ဟု မိန့်တော်မူ၏။ ထိုစကားကိုကြားလျှင် မင်းသားလည်း အမြန်ပြန်၍လာ၏။ မင်းသားမရောက်မီ သုပ္ပဝါသာ၌လည်း ဓမကရိုဏ်မှ ထွက်သော ရေကဲ့သို့ သာယာသဖြင့် ကိုယ်ဝန်ဖွားနှင့်လေ၏။ ခြံရံ၍နေသော ဆွေမျိုးမိဘ ဖြစ်သော လူအပေါင်းတို့သည် လက်အုပ်ချီကာ ပတ္တနာကြလျက် ပြည့်သောမျက်ရည်ရှိသော မျက်ခွက်၌၊ ရုတ်ခြည်းပင် ရွှင်ပျလျက် ဝမ်းမြောက်ကြလေကုန်၏။ လင်မင်းသားလည်း အိမ်သို့ရောက်သောအခါ မြတ်စွာဘုရား မိန့်တော်မူလိုက်တိုင်း ပြောကြား၏။ များစွာသော ပရိသတ်တို့ကလည်း ဘုရားရှင့် အာနုဘော်ကြောင့် အလိုတော်ပြီးပေသည်ဟု ဆိုကြကုန်၏။ ထိုအခါ သုပ္ပဝါသာကလည်း လင်မင်းသားအား ကျွန်ုပ်သေအံ့လောဟု တွေးတောဆင်ခြင် ရှိသောအခါ၌ လှူလိုသော ဆွမ်းသည် မင်္ဂလာဆွမ်းဖြစ်လတ္တံ့။ ခုနစ်ရက်ပတ်လုံး ကျွန်ုပ်ဆွမ်းကျွေးလိုပါသည်။ မြတ်စွာဘုရားအား သွား၍ ပင့်လျှောက်ပါဦး ဆို၍ လျှောက်ရလေ၏။ ခုနစ်ရက်စေ့သော အခါ သားသူငယ်ကိုလည်း ဤသူငယ်သည် များစွာသော မိဘဆွေမျိုးတို့၏ စိုးရိမ်ခြင်းကို ငြိမ်းစေလျက် ဖွားသောသူဖြစ်ရကား ''သီဝလိ''ဟူသော **အမည်ကို မှည့်လေ၏။** သူငယ်လည်း ခုနစ်နှစ်နှင့် ခုနစ်လ ခုနစ်ရက် တိုင်အောင် **ဝမ်း၌ ကိန်းရသောသူ** ဖြစ်ရကား ဖွားစသော အခါ၌ပင် ရပ်ခြင်း၊ ထိုင်ခြင်း၊ **သွားလာခြင်း၊ စကားဆိုခြင်းကို** ပြုနိုင်၏။ ဖွား၍ ခုနစ်ရက်ရှိလျှင် အရှင်သာရိပုတြာနှင့် စကားပြောဟော နိုင်လေ၏။ ထိုအခါ အရှင်သာရိပုတြာက ဤသို့ဆို၏။ သတို့သား သင်သည် ကျင်ကြီး၊ ကျင်ငယ်တို့အကြား၌ ဆင်းရဲကျဉ်းမြောင်းစွာ ခုနစ်နှစ်တိုင်တိုင် နေခဲ့သော ဒုက္ခကို သိ၏လောဟုမေး၏။ သိပါ၏ဟု လျှောက်သော် ဤကဲ့သို့သော ဆင်းရဲမျိုးကို မတွေ့ရအောင် ရှင်ရဟန်းပြုနိုင်ပါအံ့လောဟု မေး၏။ သူငယ်ကလည်း အရှင်ဘုရား၊ အခွင့်ရမူ အကျွန်ုပ်ရှင်ပြုလိုပါ၏ဟု ဆိုပေ၏။ သုပ္ပဝါသာ မင်းသမီးကလည်း ငါ့သားသည် တရားစစ်သူကြီးဖြစ်သော အရှင်သာရိပုတြာနှင့် ဘယ်စကားကို ပြောဆို ပါလိမ့်မည်နည်းဟု တွေးတော၍ အရှင်သာရိပုတြာထံသို့ ကပ်ပြီးလျှင်၊ အရှင်ဘုရား– အကျွန်ုပ်သားသည် ဘယ်စကားကို ဆိုပါသနည်းဟု လျှောက်၏။ ရှင်သာရိပုတြာ ကလည်း ဒါယိကာမ၊ သင်၏သားသည် ခုနစ်နှစ်ကျော်ကာလပတ်လုံး ခံစားခဲ့ရသော ဆင်းရဲကို သတိရ၍ သင်ဒါယိကာမတို့ ခွင့်ပြုသည်ရှိသော် ရဟန်းပြုလို ပါသည်ဟု လျှောက်ဆိုသတည်းဟု မိန့်တော်မူလျှင်၊ အရှင်ဘုရား၊ ယင်းသို့ ဖြစ်မူကား အရှင်ဘုရား သည် သီဝလိသတို့သားကို ရှင်ပြုတော်မူပါဟု လျှောက်၏။ အရှင်သာရိပုတြာလည်း သူငယ်ကို ကျောင်းသို့ဆောင်၍ ရှင်ရဟန်းပြုလေ၏။ ဆံကိုသုတ်သင်ဆဲအခါ၌ တစပဉ္စက ကမ္မဋ္ဌာန်းကိုပြ၍ ဇာတိဒုက္ခ၊ ဇရာဒုက္ခ၊ မရဏဒုက္ခတို့ကို ကြားတော်မူလျှင် ဆံသုတ်သင်၍ အပြီး၌ပင် အရဟတ္တဖိုလ်သို့ ရောက်လေ၏။ သတို့သားသည် ရှင်ပြုသော နေ့မှစ၍ သံဃာတော်ဘောင်၌ပင် ပစ္စည်းလေးပါးတည်းဟူသော လာဘ်သည် လိုအပ်သမျှ ပြည့်စုံလေ၏။ အသက်နှစ်ဆယ်ပြည့်၍ ရဟန်းဖြစ်သောအခါ

106
B

ဤမှတစ်ပါး မှတ်စုမှတ်ပုံစာများတွင်ပါသော လူမျိုးတစ်ရာ့တစ်ပါးတို့၏ အမည်ကား အချို့ကွဲပြားလျက် ရှိ၏။ ပမာဏပြုလောက်သည်ကိုသာ ရည်၍ ရေးလိုက်သည်။ ။ အင်္ဂလိပ် ပညာရှိတို့ ဇမ္ဗူဒိပ်ကျွန်းအပြင်တွင် မြင်ဖူး ရောက်ဖူး သမျှသောနိုင်ငံ၌ လူမျိုးတို့၏အမည်နာမ အသုံးအဆောင်ကို ပြဆိုသောကျမ်း၌ကား အခြားသော အမည်နာမဖြင့် လာ၏။ တစ်ရာ့တစ်ပါးမစေ့စုံ။

◆◆◆◆◆

## ၁၁၁၅။ ဗောဓိသို့တိုး၊ ဓာတ်တော်မျိုး၊ ကြွရိုးဘယ်ဓာတ်အလျှဉ်နည်း။(၇)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– အသမ္ဘိန္နဓာတ်တော်တို့ အလျင်ကြွ လာသည်ဟု ဓာတုဝင်တို့၌လာသည်။

◆◆◆◆◆

## ၁၁၁၆။ မကွဲမကျိုး၊ ဓာတော်မျိုး၊ ခေါ်ရိုးဘယ်ဓာတ်တော်တို့နည်း။(၈)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ဥဏှိ စတုရော ဒါဌာ၊ ဒွေ့ အက္ခကာ စ သတ္တမာ။**
**အသမ္ဘိန္နာ ဝိသေသတော၊ သေသာ ဘိန္နာ စ ဓာတုယော။**

ဥဏှိသံ၊ နဖူးသင်းကျစ်တော်လည်းကောင်း။ စတုရော ဒါဌာ၊ လေးချောင်းသော စွယ်တော်လည်းကောင်း။ ဒွေ အက္ခကာ စ၊ ညှပ်ရိုးတော် နှစ်ချောင်းလည်းကောင်း။ က္လတိ၊ ဤသို့။ သတ္တမာ၊ ခုနစ်ပါးကုန်သော ဓာတ်တော်တို့သည်။ သဒါ၊ အခါခပ်သိမ်း။ အသမ္ဘိန္နာ၊ မကွဲမပျက်သည်ဖြစ်၍ အသမ္ဘိန္နဓာတ် မည်ကုန်၏။ သေသာ၊ ကြွင်းကုန်သော ဓာတ်တော်တို့သည်။ ဝိသေသတော၊ အထူးအားဖြင့်။ ဘိန္နာ၊ ကွဲပျက်သည်ဖြစ်၍ သမ္ဘိန္နဓာတ် မည်ကုန်၏။

ဥဏှိသံ၊ နဖူးသင်းကျစ်တော်သည်။ သီဟဠဒီပေ၊ သီဟိုဠ်ကျွန်း၌။ ပတိဋ္ဌိတော၊ တည်၏။ ဝါမက္ခကဋ္ဌ၊ လက်ဝဲညှပ်ရိုးတော်ဓာတ်သည်ကား။ ဗြဟ္မလောကေ၊ ဗြဟ္မာ့ ပြည်၌။ ပတိဋ္ဌိတော၊ တည်၏။ ဒိက္ခိဏက္ခကဋ္ဌ၊ လက်ယာညှပ်ရိုးတော် ဓာတ်သည်ကား။ သီဟဠေ၊ သီဟိုဠ်ကျွန်း၌။ ပတိဋ္ဌိတော၊ တည်၏။ ဧကော ဒါဌာ၊ တစ်ချောင်းသော လက်ယာ အထက်စွယ်တော်သည်။ တိဒသပုရေ၊ တာဝတိံသာ နတ်ပြည်၌။ ပတိဋ္ဌိတော၊ တည်၏။ ဧကောဒါဌာ၊ တစ်ချောင်းသော လက်ယာအောက် စွယ်တော်သည်။ နာဂပုရေ၊ နဂါးပြည်၌။ ပတိဋ္ဌိတော၊ တည်၏။ ဧကောဒါဌာ၊ တစ်ချောင်းသော လက်ဝဲအထက် စွယ်တော်သည်။ ဂန္ဓာရဝိသယေ၊ ဂန္ဓာရအရပ်၌။ ပတိဋ္ဌိတော၊ တည်၏။ ဧကောဒါဌာ၊ တစ်ချောင်းသော လက်ဝဲအောက်စွယ်တော်သည်။ ကလိင်္ဂရာဇိနော၊ ကလိင်္ဂမင်း၏။ ပုရေ၊ ပြည်၌။ ပတိဋ္ဌိတော၊ တည်၏။ စတ္တာလီသ သမဒန္တာ၊ အမျှလေးဆယ်သော

သွားတော်တို့ကို လည်းကောင်း။ သဗ္ဗသော၊ အကြွင်းမရှိအလုံးစုံသော။ ကေသလောမာ စ၊ ဆံအမွေးတော် တို့ကိုလည်းကောင်း။ ကေကာ၊ တစ်ချောင်းတစ်ချောင်းစီ။ စက္ကဝါဠဥပရမ္ဘရာ၊ စကြဝဠာ အဆက်ဆက်သို့။ ဒေဝါ၊ နတ်တို့သည်။ ဟရိံသု၊ ဆောင်ကုန်၏။ ။ စကားအလျဉ်းသင့်၍ တည်ရာဌာနနှင့်တကွ ပြလိုက်သည်။

❖❖❖❖❖

## ၁၁၁၇။ လူနတ်ကွယ်ကိုး၊ စောဘုန်းဖြိုး၊ တိုင်းရိုးလုံးပတ်ဘယ်မျှနည်း။(၉)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

**ပဉ္စဒီဃာ ပဉ္စဟတ္ထာ၊ ဒွါဝီသဥ္စ ဝိဒတ္ထိယော။**
**တရိယောဒသမုဋ္ဌိ စ၊ အင်္ဂုလံ အဋ္ဌတာလီသံ။**

**ပဉ္စဒသယဝေါစာတိ၊ အဋ္ဌုတ္တရသတံ ယထာ။**
**ဗုဒ္ဓရူပေဝ စနုတံ၊ ပဏ္ဍိတေဟိ တထာ မိတံ။**

ပဉ္စဒီဃာ၊ တစ်တောင့်ထွာဖြစ်သော ထက်ဝက်တော်နှင့် တိုင်းရာသည် အရှည် ငါးပါးလည်းကောင်း။ ပဉ္စဟတ္ထာ၊ အတောင်နှင့် တိုင်းရာသည် ငါးပါးလည်းကောင်း။ ဒွါဝီသဥ္စ ဝိဒတ္ထိယော၊ အထွာနှင့်တိုင်းရာသည် နှစ်ဆယ့်နှစ်ပါးလည်းကောင်း၊ တရိယော ဒသမုဋ္ဌိ စ၊ မုဋ္ဌိနှင့်တိုင်းရာသည် တစ်ဆယ့်သုံးပါးလည်းကောင်း။ အင်္ဂုလံ အဋ္ဌတာလီသံ၊ လက်သစ်နှင့် တိုင်းရာသည် လေးဆယ့်ရှစ်ပါးလည်းကောင်း။ ပဉ္စဒသယဝေါ စ၊ မုယောနှင့် တိုင်းရာသည် **တစ်ဆယ့်**ငါးပါးလည်းကောင်း။ ဣတိ၊ ဤသို့။ ဗုဒ္ဓရူပေဝ၊ ဘုရားသဏ္ဍာန် ရုပ်တုတော်၌ သာလျှင်။ ယထာ၊ အကြင်အခြင်းဖြင့်။ အဋ္ဌုတ္တရသတံ၊ **တစ်ရာ့ရှစ်ပါးသော။** စနုတံ၊ စနစ်ပုံကို။ ပဏ္ဍိတေဟိ၊ ပညာရှိတို့သည်။ တထာ၊ ထိုဆိုခဲ့သည့်အတိုင်း။ မိတံ၊ နှိုင်းရှည့်အပ်၏။ ။ ဤသို့ စနစ်ကျမ်းတို့၌ လာသည်။

အရှည်တစ်တောင့်ထွာနှင့် တိုင်းရာသည် ငါးပါးဟူသော်ကား– ရှေ့ထက် ဝယ်တော် တစ်တောင့်ထွာ။ ထက်ဝယ်တော်နှင့် နှာခေါင်းတော် တစ်တောင့်ထွာ။ နောက်ဆံ လျဉ်တော် တစ်တောင့်ထွာ။ ခါးတော် လုံးပတ် တစ်တောင့်ထွာ။ ခေါင်းတော်လုံးပတ် တစ်တောင့်ထွာ။ ဤသည်လျှင် အရှည်နှင့်တိုင်းရာသည် ငါးပါးတည်း။

အတောင်နှင့်တိုင်းရာသည် ငါးပါးဟူသော်ကား– ရင်ဝတော် တစ်တောင်။ တင်ဆုံက ပုဆစ်တော် တစ်ဖက်တစ်ချက် တတောင်။ ပုဆစ်တော်က ဖဝါးတော်ထိ တစ်တောင်။ ဤသည်လျှင် အတောင်နှင့် တိုင်းရာသည် ငါးပါးတည်း။

အထွာနှင့် တိုင်းရာသည် နှစ်ဆယ့်နှစ်ပါး ဟူသော်ကား။ ။ ထက်ဝယ်တော်က ချက်ရွှေ့ တစ်ဖက် တစ်ထွာ။ ချက်တော်က နံနှစ်ဖက်ကြား တစ်ထွာ။ နို့နှစ်ဖက်ကြားမှ နှာဖျားတစ်ထွာ။ နှာဖျားမှ မုနိတော်ရွှေ့ တစ်ထွာ။ ခေါင်းတော်အကန့် တစ်ထွာ။ အချင်း တစ်ထွာ။ နို့နှစ်ဖက်ကြား တစ်ထွာ။ နို့မှ ပခုံးတစ်ဖက် တစ်ထွာ။ လက်ကတီး

မြတ်စွာဘုရားမှတစ်ပါး အခြားသော ရဟန္တာတို့သည် ဘယ်သူမှ မတူနိုင်အောင် လာဘ်ပူဇော်သက္ကာရများခြင်းသည် ဖြစ်၍ ''တေဒဂ္ဂ ဘိက္ခဝေ မမ သာဝကာနံ လာဘီနံ ဘိက္ခူနံ ယဒိဒံ သီဝလိ''ဟူသော စကားဖြင့် တေဒဂ်ထားတော်မူရသတည်း။ အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ဓမ္မပဒ အဋ္ဌကထာတို့၌ လာ၏။ ဤ အရှင်သီဝလိကိုရည်၍ ''လာဘ်သပ်ပြည့်ဖြိုး၊ ဘုန်းကံတိုး၊ ဖွားရိုး မဖွားဘယ်သူနည်း''ဟု ပုစ္ဆာပြုလေသည်။

ဤအရှင်၏ အလောင်းသည် ဘယ့်ကြောင့် ခုနစ်နှစ်နှင့် ခုနစ်လ ခုနစ်ရက်ပတ်လုံး မိခင်ဝမ်း၌ အောင်းရသနည်းဟူမူကား ရှေးသောအခါ ဥဇ္ဇေနီပြည်ကို အစိုးရသောမင်းဖြစ်၍ မိမိရသောနိုင်ငံ ယယ်ရကား အလွန်ကြီးကျယ်သော ဗာရာဏသီကို ယူခြင်းငှာ စစ်သည်ဗိုလ်ပါများစွာရုံးစုရ၍ ချီလာပြီးလျှင် ဗာရာဏသီမြို့ကို ဝန်းရံ၍ ထား၏။ မြို့သူ မြို့သားတို့သည် ခြံလှောင်သော နွားကဲ့သို့ ထင်းရေ ဟင်းရွက်မျှမသွားရ၊ ကျဉ်းကြပ်စွာ ဖြစ်၏။ ဤသို့ဝန်းဝိုင်း၍ ထားသဖြင့် ခုနစ်နှစ်၊ ခုနစ်လရှိသော် ပြည်သူပြည်သားတို့က မိမိတို့မင်းကိုပယ်ရှား၍ ဥဇ္ဇေနီမင်းအား ပြည်ကိုအပ်ရလေ၏။ ထိုသို့ ပြုဖူးသော မကောင်းမှုကံကြောင့် အပါယ်လေးပါး၌ များစွာဆင်းရဲခံပြီးမှ အဆုံးစွန်သော ဘဝ၌ အမိဝမ်းတွင် ခုနစ်နှစ်၊ ခုနစ်လတိုင်အောင် နေရလေသည်။ ဖွားသောကာလလည်း ယောနိဝတွင် ကန့်လန့်တင်၍ ခုနစ်ရက်ပတ်လုံး ဆင်းရဲခံရလေသတည်း။

❖❖❖❖❖

## ၁၁၁၂။ နာရီခွက်မျိုး၊ ရေဝင်လျှိုး၊ ဖောက်ထိုးဘယ်ဆံ ခန့်ပေနည်း။(၄)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား–

ညဥ့်နေ့ စဉ်စီ၊ ပေါင်းနာရီဖြင့်၊ ပါဒ်ဗီဇနာ၊ ပြန်ခရာမှ၊ ထွက်လာရသော်၊ တွက်ဆအညီ၊ တစ်နာရီကား၊ ကြေးနီသပြာ၊ ဆယ့်ခြောက်သာကို၊ မျက်နှာခွက်ဝ၊ ပြုပြီးမှလျှင်၊ ယဝစတု၊ ကောဂ်ုလီ၊ လက်သစ်ညီဖြင့်၊ ကိုးသစ်ချင့်မှ၊ အမြင့်စောက်မှာ၊ ဥဗ္ဗေဓာကား၊ သတ္တာစင်စစ်၊ ခုနစ်သစ်ဖြင့် ခွက်လုပ်ချင့်မှ၊ ဒသသံဝစ္ဆရာ၊ ဣတ္ထိယာ၏။ ကေသာဆံပင်၊ ဆယ့်ခြောက်မျှင် ကို၊ ဝင်လောက်ရုံရုံ၊ ဖောက်ပြီးတုံမှ၊ အမ္ဗုဒက၊ ရေဝယ် ချသော်၊ ကေဝါရာ၊ နစ်တစ်ခါကို၊ တစ်နာရီမှတ်၊ တစ်မောင်းခတ်လော့၊ သူမြတ်ဉာဏ်ရှင် ပဟိုရ်ဆင်၍၊ ညဥ့်လျှင် လေးချက်၊ နေ့လေးချက်သည်။ ။ ရေတွက်အမှန် ခြောက်ဆယ်သော။

❖❖❖❖❖

## ၁၁၁၃။ နာရီချိန်နှီး၊ ခွက်အမျိုး၊ လုပ်ရိုးဆံဝင် ဘယ်မျှနည်း။(၅)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဆယ်နှစ်ရွယ်ကညာ၏ ဆံတစ်ဆယ့် ခြောက်ပင်ဝင်အောင် ဖောက်ရမည်ဟု အထက်လင်္ကာတွင် ပါပြီ။

◆◆◆◆◆

## ၁၁၁၄။ ရာ့တစ်ပါးတို၊ လူအမျိုး၊ ဆိုရိုးဘယ်ကျမ်း လာသနည်း။(၆)

ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား– ဇမ္ဗူဒိပ်ကျွန်း၌ အသီးအသီးသော တိုင်းကြီး ခရိုင်၊ နိုင်ငံတို့၏ နယ်ပယ် အပိုင်းအခြားကို ပြရာဖြစ်သော ဇမ္ဗူတံဆိပ်ကျမ်း၌ တစ်ရာ့တစ်ပါးသော လူမျိုးတို့ အရေအတွက်ကို လာသည်။ မှတ်လွယ်စိမ့်သောငှာ ရှေးဆရာတို့ လင်္ကာစီကုံး၍ ထားသည်ကို ရေးလိုက်အံ့–

တစ်ရာ့တစ်ပါး၊ လူမျိုးများကို၊ မှတ်သားကုန်လင့်၊ နိဒါန်းဖွင့်ပိမ့်၊ ယောနှင့် ရခိုင်၊ နှိုင်းပြိုင် ဓားဝယ်၊ ဘရယ် တောင်သူ၊ ပြော့ပြူးကမ်းယံ၊ ခုနစ်တန်ကို၊ မြန်မာမှူး၍၊ ရေတွက်ဆလော့။ ။ မွန်တ မွန်ညာ၊ မွန်န မွန်သိ၊ မှတ်ဘိလေးရိုး၊ တလိုင်းမျိုးတည့်၊ ရှမ်းမျိုး ခေါ်ညွှန်း၊ ယွန်း ဂင် လင်း ဖင်း၊ ချင်းနှင့်ကရင်၊ ကချင် ကသည်း၊ မျက်နှာမည်းမြို့၊ ကုံငယ် ကော်ထုတ်၊ တရုတ် တရက်၊ လဟက် လဟောက်၊ သောက္ကတဲဘူ၊ ဓနုလူနှင့်၊ ခေါ်ယူမှတ်ပိုက်၊ လဝိုက် လဝ၊ သညာ မည်တွင်၊ အင်ကျင် အင်ကျယ်၊ တစ်သွယ် ပလောင်၊ ထပ်နှောင်ဆင့်ပွား၊ ယိုးဒယားတဝီး၊ ကတူးနှင့် သက်၊ ရေတွက်မယိမ်း၊ ဇဗိန်း ဇဝ၊ များစွာ ပေါင်းသင်း၊ တနင်္သာရီ၊ ရေတွက်သီသော်၊ ခေါ်ညီတွင်ရိုး၊ ရှမ်းမျိုး သုံးဆယ်။ ။ ကုလားဝယ်ကား၊ ကလယ် ပသီ၊ ဘရင်ဂျီနှင့် ဇော်ဂီမာလီ၊ ဘော်ရီ–ဟိန္ဒူ၊ ရေဆူ–သောတုတ်၊ လဟုတ်–ဒေါ်ရား၊ ပုဏ္ဏား–ပရှူး၊ ကရှူး–ခန္တီ၊ တပသီပြင်၊ ဟာရီ–လာကာ၊ ဝေသာခါနှင့်၊ ပဋ္ဋိစွယာ၊ ဥစ္စယာက၊ စန္ဒ–စင်းကြဲ၊ သုတ္တံ–ဗျာပါ၊ မိစ္ဆာဆကဲ၊ ဦးပြဲ အိပ်ကပ်၊ ကလပ်–ဒေါဏ၊ ပိစ္ဆ–ဒေါလာ၊ ဒါရကာ–ပန္တ္တေ၊ မန္တေ–ခြေချုပ်၊ ဟိန္ဒုတ်–လှဘဲ၊ သင်းတွဲတတုံ၊ မှတ်ယုံလောယာ၊ ဒေါရဏာနှင့်၊ လေန္တိကာ–ဘော ဘာ။ ပန်လဝ–ခန္တီ၊ ကာလိ–ကျွန်တန်၊ ဇဟုလန်က၊ သုတန်ကလံ၊ ဇော်ဟဏံနှင့် မရမ် ပဏ္ဍိတ်၊ ဘိတ်က–ရေဆ၊ ဖုဿ–ဘင်္ဂါလီ၊ ဗာရာဏသီ၊ စုံစီထိုထို၊ သိန်းခိုအင်္ဂလိပ်၊ ခြောက်ကျိပ်မျိုးပြား၊ ကုလားအနွယ်၊ မှတ်ဖွယ်မှန်လှ၊ တစ်ရာ့တစ်ပါး၊ လူမျိုးများကို၊ စကားသိမ်းရုံး၊ အကျဉ်းချုံးသည်။ ။ နည်းထုံးစဉ်လာ ဥဒါန်းတည်း။

ကြားမှ လက်မောင်း တံတောင်ဆစ်ရှေ့တစ်ဖက်တစ်ထွာ တံတောင်ဆစ်ကသည် လက်ကောက် ဝတ်တော်ရှေ့ တစ်ဘက်တစ်ထွာ။ လက်ကောက်ဝတ်တော်ကသည် လက်ဖျားတစ်ဖက် တစ်ထွာ။ နောက်ဆံလျှဉ်တော်ကသည် ခါးအချင်းတစ်ထွာ။ အကန့်တစ်ထွာ။ ခါးတော်မှ တင်ပါး တစ်ဖက်တစ်ထွာ။ မေးဖျားတော်က ဆံလျှဉ်တော် အကုန် တစ်ထွာ၊ နောက်မုနိ တော်ရှေ့ တစ်ထွာ။ ဤသည်လျှင် အထွာနှင့် တိုင်းရာသည် နှစ်ဆယ့်နှစ်ပါးတည်း။

မှဲ့နှင့်တိုင်းရာသည် တစ်ဆယ့်သုံးပါးဟူသော်ကား။ နှာခေါင်းတော်မှ လက်ယာ လက်ဝဲနားတော်ရှေ့ တစ်ဖက်တစ်မှဲ့။ နားတော်မှလည်တော် အကုန်တစ်ဖက်တစ်မှဲ့။ လည်တော်မှပခုံးတော် တစ်ဖက်တစ်မှဲ့။ နို့တော်မှသည် လက်မောင်းတော်ရှေ့ တစ်ဖက် တစ်မှဲ့။ လည်တော်တစ်မှဲ့။ ရင်ကြားကသည် လက်မောင်းတော်ရှေ့ တစ်ဖက် တစ်မှဲ့။ ပေါင်တော်နှစ်ဖက်ထုတစ်မှဲ့။ ဤသည်လျှင် မှဲ့နှင့်တိုင်းရာသည် တစ်ဆယ့်သုံးပါးတည်း။

လက်သစ်နှင့် တိုင်းရာသည် လေးဆယ့်ရှစ်ပါး ဟူသော်ကား။ မေးတော်က နှာခေါင်းတော်ဖျားရှေ့လေးသစ်။ နှာခေါင်းတော်ဖျားကသည် မျက်မှောင်တော်ကြားရှေ့ လေးသစ်။ မျက်မှောင်တော်ကြားကသည် ဆံလျှဉ်တော်ရှေ့ လေးသစ်။ သင်းကျစ် ဆံလျှဉ်တော် နှစ်သစ်။ ဆံလျှဉ်ကသည် ခေါင်းတော်အဆုံး နှစ်သစ်။ ရေပွက်ကဲ့သို့ တက်သော မုနိတော်အဆုံး နှစ်သစ်။ ဆဗ္ဗညုတရုံသိပတိဋ္ဌာပန ရောင်ခြည်တော် ခြောက်ပါး တို့၏ စုဝေးရာ တည်ရာဖြစ်သော ဝိမလကေတုမာလာဟူသော အညစ် အကြေးကင်းသော မုန်ကင်းတော် လေးသစ်။ မျက်မှောင်တော် အလျားတစ်ဖက်ငါးသစ်။ မျက်မှောင်တော်မှ မျက်ခုံးတော်ရှေ့ တစ်ဖက်နှစ်သစ်။ မျက်စိတော်မှနားတော်ရှေ့ တစ်ဖက်လေးသစ်။ မျက်ကွင်းတော်အလျား တစ်ဖက်သုံးသစ်။ နားခွက်တော် တစ်ဖက်သုံးသစ်။ နားသားတော် တစ်ဖက်သုံးသစ်။ လည်ရေတော် သုံးဆင့် တစ်သစ်ခွဲစီ။ လက်တော်ထု တစ်ဖက်လေးသစ်။ လက်မောင်းတော်အလျား တစ်ဖက် တစ်ဆယ့်ခြောက်သစ်။ လက်မောင်းတော် လုံးပတ်တစ်ဖက် တစ်ဆယ့်ခြောက်သစ်စီ။ လက်ကောက်ဝတ်တော် လုံးပတ်တစ်ဆယ့် တစ်သစ်။ လက်ဖဝါးတော်သားအလျား ခြောက်သစ်စီ။ လက်ညှိုးလက်ငယ် ခြောက်သစ်စီ။ လက်ဖဝါးတော်ပြက် တစ်ဖက်ငါးသစ်စီ။ ခြေဖဝါးတော်အလျား တစ်ဖက်ဆယ်သစ်။ ခြေဖဝါး ဦးတော်ခြောက်သစ်။ ခြေဖနှောင့်တော် တစ်ဖက်ငါးသစ်။ ခြေမ ခြေညှိုးတော် တို့ကို ဖဝါးတော်၏ လေးစုတစ်စုယူ။ ခြေမ ခြေသည်းတော် အလျား အနံတစ်သစ်စီ။ ဤသည်လျှင် လက်သစ်နှင့် တိုင်းရာသည် လေးဆယ့်ရှစ်ပါးတည်း။

မုယောနှင့်တိုင်းရာသည် တစ်ဆယ့်ငါးပါးဟူသော်ကား– မျက်မှောက်တော်ပြက် သုံးမုယောစီ။ မျက်ပွင့်တော်တစ်ဖက် သုံးမုယောစီ။ မျက်ခွံတော် တစ်ဖက် သုံးမုယောစီ။ မျက်တောင်တော် တစ်ဖက် နှစ်မုယောစီ။ ခံတွင်းတော် တစ်မုယော။ အောက်နှုတ်ခမ်း

တော် တစ်မုယော။ လဆန်းငါးရက်လ သဏ္ဍာန်ရှိစေ။ နားသား နားကွင်း အလျားတစ်ဖက် နှစ်မုယော။ နှာခေါင်းတော်တွင်း တစ်ဖက်နှစ်မုယောစီ။ နှာခေါင်းဝ အကြားတစ်မုယော။ ဤသည်လျှင် မုယောနှင့် တိုင်းရာသည် တစ်ဆယ့်ငါးပါးတည်း။

မျက်လုံးတော် နှစ်ဖက်ဖြိုးစေ။ ပခုံးတော် လည်ကုပ်တော်ဖြိုးစေ။ ဖမိုးတော်ကား အလုပ်မှာမဝင်။ နဖူးတော် လေးသစ်။ ဆံလျှဉ်တော်တိုင်ရုံ ဖြိုးဖြိုးပြည့်ပြည့် ကြွကြွရှိစေ။ စလုံရိုက် တစ်ဖက်မရှိစေနှင့်။ အောက်နှုတ်ခမ်း လဆန်းငါးရက် သဏ္ဍာန်ရှိစေ။ သားမြတ်တော် နွားလားဥသဘ နဖူးကဲ့သို့ရှိစေ။ ဝမ်းတော် နွားလားဥသဘကဲ့သို့ ရှိစေ။ ရင်အုပ် တော်လည်း ခြသေ့်မင်း၏ ရင်အုပ်ကဲ့သို့ရှိစေ။ ရင်ဝတော်ကား နွားလားဥသဘ နဖူး ကဲ့သို့ရှိစေ။ ဤသည်လျှင် ဘုရားဆင်းတုတော်၏ လက္ခဏာတည်း။

တစ်နည်းကား ဆင်းတုတော်၏ ဆံလျှဉ်တော်ကသည် မေးဖျားရွေ့။ မေးတော်ဖျားကသည် သားမြတ်ရင်တော်ကြားရွေ့။ ရင်တော်ကြားကသည် ချက်တော်ရွေ့။ ချက်တော်ကသည် ထက်ဝယ်တော်ရွေ့ ဤလေးပါးကား ပြုသောဆင်းတုတော်၏ တစ်ဆယ့်နှစ်သစ်စီ။ မုနိတော်ကို အသီးထည့်။ ထိပ်တော်မှသည် ဆံလျှဉ်တော် ဆံလျှဉ်တော်မှသည် မျက်မှောင်တော်နှစ်ဖက်ကြား။ မျက်မှောင်တော် နှစ်ဖက်ကြားမှသည် နှာခေါင်းတော်ဖျား။ နှာခေါင်းတော်ဖျားမှသည် မေးတော်ဖျား ဤလေးပါးကား လေးသစ်စီ။ နှာခေါင်းတော်ဖျားအကြားကို သုံးစုစု။ အောက်နှစ်စု၊ အထက်တစ်စု။ အလယ်တွင် ခံတွင်းတော်ထည့်။ ခံတွင်းတော် အလျားတစ်ဆယ့် လေးသစ်။ ခေါင်းတော်လုံးပတ် သုံးဆယ့်ခြောက်သစ်။ တစ်တောင့်ထွာထည့် ခေါင်းတော်လုံးပတ်ကို လေးစုစု။ သုံးစု လက်မောင်းတော် နှစ်ဖက်။ တစ်ဖက် တစ်စုဖြစ်စေ။ လည်တော် အချင့်လည်း တစ်စု ဖြစ်စေ။ နားတော် အလျားငါးသစ်။ ပြက်နှစ်သစ်ခွဲ။ နဖူးတော်အပြင် လေးသစ်။ မျက်မှောင်တော် နှစ်ဖက်အကြား တစ်သစ်။ မျက်တောင် နှစ်ဖက်အကြား သုံးသစ်။ နှာခေါင်းတော် နှစ်သစ်ခွဲ။ လက်ရုံးတော်လုံးပတ် တစ်ဆယ့်သုံးသစ်။ ထိုကို လေးစုစု။ သုံးစု လက်ကောက်ဝတ် လုံးပတ်။ လက်တော်အသား ငါးသစ်။ လက်ချောင်းတော် ငါးသစ်။ ဖဝါးတော်အသား တစ်ဆယ့်နှစ်သစ်။ ထက်ဝယ်တော် အလျားကို လေးစုစု။ သုံးစု ထက်ဝယ်တော် အချင့်။ ထိုကိုလေးစုစု။ သုံးစု တစ်စု အစောက်ဖြစ်စေ။ ထက်ဝယ် တော်အလျားကို လေးစုစု။ သုံးစုပလ္လင်တော် အစောက် ဖြစ်စေ။ ဤသည်လျှင် ဘုရားရှင် ရုပ်တုတော်၏ စနစ်တည်း။ ဤစနစ်ပုံကိုမှီ၍ ဘုရားရှင်ရုပ်ပွားတော်၌ လုံးပတ် စသည်ကို သိရမည်။

စွယ်စုံကျော်ထင် အမည်ရှိသော ပုဏ္ဏာကျမ်း၌ သဒ္ဒဝိသေသ, အတ္တဝိသေသထ ဟု ဆိုအပ်သော သံကွဲကြောင်းကွဲ ပုဏ္ဏာတို့ကိုဆိုရာ ပထမပိုင်းကား ပြီး၏။ ။ ဤပဉ္စမပိုင်း၌ ပုဏ္ဏာပေါင်း တစ်ထောင့်တစ်ရာ့ တစ်ဆယ့်ခုနစ်ရပ် ရှိသည်။ ထိုပုဏ္ဏာတို့၌ သာလျှင် လောကီ၊ လောကုတ္တရာကျမ်းလာနှင့်စပ်သော အနက်အဓိပ္ပါယ်ကို

မှတ်လွယ်စိမ့်သောငှာ မေးသည်ဖြစ်၍ ဖြေဆိုခြင်းငှာ သင့်သည်။ ဒုတိယပိုင်း၌ကား သံတူကြောင်းကွဲ ပုစ္ဆာ တစ်ထောင့်တစ်ရာခန့် ရှိသည်။ ထိုပုစ္ဆာတို့ကား ပင့်ရစ်အသတ် ပညတ်မှန်ကန်ရုံမျှသာ ပုစ္ဆာပြုသည် ဖြစ်၍ အနက်အဓိပ္ပါယ်ဖြေဆိုဖွယ်မရှိ။ ပါတိမောက်ပြရာ၌ သမ္ဗန္ဓနာ ဒီကာစွသည် မပြုရဘဲပြီးသကဲ့သို့ ဖြေပြီးပင် ဆိုအပ်တော့သည်။

**"အိုး" ကာရန်ပုစ္ဆာ ၉-ပုဒ်အဖြေပြီး၏။**

**အဖြေကျမ်း၏ တတိယကဏ္ဍ ပြီး၏။**

◆◆◆◆◆

107
A

## ကျမ်း၏ အခြင်းအရာ

စွယ်စုံကျော်ထင် အမည်ရှိသော ဤပုစ္ဆာကျမ်းကို စီရင်သော ရှင်နန္ဒဓဇကား ယောကျ်ားသာမည မဟုတ်။ ဗုဒ္ဓ၊ ပစ္စေက၊ သာဝကအားဖြင့် ဆုမြတ်သုံးပါးတွင် ဘုရားရှင်တို့၏ ဆုကိုပန်လျက် ဆယ်တန်သော ပါရမီတရားကို အားထုတ်၍ ဖြည့်ကျင့်သည်။ ဇဝနဉာဏ်, တိက္ခဉာဏ်, ဂမ္ဘီရဉာဏ်, ဟာသဉာဏ်, သုတမယဉာဏ်, စိန္တာမယဉာဏ်, ပဋိဘာန်တို့နှင့် ပြည့်စုံသည်။ ဆရာမွန်, ဆရာမြတ်တို့၏ လက်မှ လျှို့ဝှက်ခဲကတ်သော ပိဋကတ်ကျမ်း၊ ဗေဒင်ကျမ်းများကို သင်ကြားနည်းယူသဖြင့် သူမတူနိုင်သော သတ္တိ ဗျတ္တိ ရှိသည်။ ဂုဏ္ဍနီအကျော်၊ ဝေရော်စန၊ မြဇောတိရည်၊ မျက်မြတ်ဥသုံ၊ လွန်ပြည့်စုံသော ဝေပုလ္လတောင်မင်းကဲ့သို့ ပရိသတ်ခပင်းတို့၏ မှီတင်းကိုးကွယ်ရာ ပညာရှင်သူဌေးကြီး ဖြစ်သည်။ ရှစ်ခွင်ဒိသာမှ ဆည်းကပ်လာသော ရဟန်းရှင်လူတို့အား ကျမ်းဂန် ပရိယတ်တရားကို သင်ကြားပို့ချလျက် နေသည်။ အသက် လေးဆယ်ကျော် အခါတွင် ငါတို့ ဂေါတမဘုရားကို ဖူးတွေ့ရ၍ ကျွန်ုပ် ဘုရား ဖြစ်ပါအံ့လောဟု လျှောက်သည်တွင် သင်သည် နောင်သောအခါ ငါကဲ့သို့ ဘုရား စင်စစ် ဖြစ်လတ္တံ့ဟု ဗျာဒိတ်ပေးတော်မူသည်ကို ခံရမည်ဟူ၍ သုံးကြိမ်တိုင်တိုင် အိပ်မက်မြင်ကြောင်းကိုလည်းကောင်း၊ ဆရာစီရင်သော သုတ်နိဿယနိဂုံးတွင်ပါသည်။ ယင်းသို့ ပါရမီခံ ဉာဏ်ကံကြီးမားသော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်ဖြစ်ရကား မြင်မြင်ဝါးဝါး သူတစ်ပါးတို့သည် ဖွဲ့ထားကုံးသီနိုင်မည်ကို မဆိုထားလင့် မေးခွင့် မေးရာကိုမျှ ကြံခြင်းငှာ မစွမ်းနိုင်ရာသော ပုစ္ဆာ၊ သိလွယ်ငြားသော်လည်း နောက်သားတို့ ပညာပွားရန် အကျိုးရှိသော ပုစ္ဆာ ဤပုစ္ဆာ အရပ်ရပ်တို့ကို ပိဋကတ်ဗေဒင်ရာဇဝင်ကျမ်း၊ ဆန်းအလင်္ကာ၊ လောကာယတ ဖြစ်သော ဂန္ထန္တရကျမ်း၊ ပုံပြင်ကျမ်းတို့မှ အဆန်း တကြယ် မှတ်ဖွယ်ကောင်းလှသော စကား အဆီအနှစ် အဆစ်အဖုတို့ကို ဖွေနုတ်၍ ပုစ္ဆာပြုခဲ့ပေသည်။

ယင်းသို့ အံ့သြစဖွယ် ကြီးကျယ်ထည်လိပ်သော ပုစ္ဆာကျမ်းဖြစ်ရကား အများပညာရှိ ကဝိခံပဏ္ဍိတ်ခေါ် ပုဂ္ဂိုလ်ကျော် ဟူသမျှတို့ ဖြေဆိုကြခြင်းငှာ ကြံစည်ပါသော်လည်း တော်ရာ၊ လျော်ရာကိုသာမြင်၍ ကောင်းကင်သို့ လက်လှမ်း သကဲ့သို့ ဖြစ်ရကား ဉာဏ်စွမ်း တူသူတို့ ဖြေတော်မူစေသောဟု တောင့်တသော အသံကို အဖန်ဖန် ကြားရသဖြင့် သိကြားမင်း မာဃသည် မိမိ၏ အလိုပြည့်စကာလ၌ ပီတိပါမောဇ္ဇကိုရ၍ အလိုမပြည့် သမျှသော သတ္တဝါတို့ကို ဖြည့်ခြင်းငှာ မျှော်လင့်သော အလားကဲ့သို့ တိုင်းစားကာ နေသည့် အတွင်းတွင် အရညဝါသီဖြစ်သော ကလျာဏဓဇ သူမြတ်၊ ပဏ္ဍာလသူမြတ်တို့ ထပ်မံတိုက်တွန်း ကြသောကြောင့် မုနိန္ဒာဘိဓဇ အမည်ရှိသော ငါသည် ကောဇာသက္ကရာဇ် ၁၂၂၆–ခုနှစ်၊ ကဆုန်လက အစပြု၍ ဤအဖြေကျမ်းကို ရေးသားစီရင်သည်။ ၁၂၂၇–ခု၊ သီတင်းကျွတ်လပြည့်ကျော် ရှစ်ရက်နေ့တွင် အောင်မြင်ပြီးစီးလေသတည်း။ 107

B

အမေး အဖြေ နှစ်ပါးတို့တွင် အမေးသည် ခဲယဉ်းသလော၊ အဖြေသည် ခဲယဉ်း သလော ဟူငြားအံ့။

မေးလိုသော သူသည် မိမိသင်၍ လည်းကောင်း၊ သူတစ်ပါးထံမှ ကြား၍ လည်းကောင်း၊ အလိုလိုကြံဆ၍ လည်းကောင်း ရအပ်သော အနက်သဘောကို မေးရသောကြောင့် ဝန်လေးသည်၊ ခဲယဉ်းသည် မဟုတ်။ ဖြေသောသူ သည်သာလျှင် ဥပမာ ဥပမေယျ သာဓကယုတ္တိကို နှိုင်းညှိ၍ ဖြေဆိုရသောကြောင့် ခဲယဉ်းလှသည် ဖြစ်၏။

တစ်နည်းလည်း အကြောင်းယုတ္တိကိုရှာလျက် သင့်လျော်စွာ မေးခြင်းသည်လည်း ခဲယဉ်း၏။ အကြောင်းကို ဖော်ဖွေ၍ အဖြေပြုရခြင်းသည်လည်း ခဲယဉ်း၏။ သတိပညာ ကြီးစွာသော သူတို့၏ အာရုံမူရာသာ ဖြစ်၏။

ထို့ကြောင့် ရထဝိနီတသုတ်အဋ္ဌကထာ၌-

**ကိံ ပဥှဿ ပုစ္ဆနံ ဘာရိယံ ဥဒါဟု ဝိဿဇ္ဇနန္တိ။ ဥဂ္ဂဟေတွာ ပုစ္ဆနံ နော ဘာရိယံ။ ဝိဿဇ္ဇနံ ပန ဘာရိယံ။ သဟေတုကံ ဝါ သကာရဏံ ကတွာ ပုစ္ဆနမ္ပိ ဝိဿဇ္ဇနမ္ပိ ဘာရိယမေဝါတိ။ ဥပဋ္ဌိတဿတီနံ ပန ဥဘယမ္ပေတံ န ဒုက္ကရံ။**

ဟူ၍ မိန့်ဆိုသည်။

ပဥှဿ၊ ပြဿနာကို။ ပုစ္ဆနံ၊ မေးခြင်းသည်။ ဘာရိယံ ကိံ၊ ဝန်လေးသလော။ ဥဒါဟု၊ ထိုသို့မဟုတ်။ ဝိဿဇ္ဇနံ၊ ဖြေခြင်းသည်။ ဘာရိယံ ကိံ၊ ဝန်လေးသလော။ ဣတိ ပုစ္ဆေယျ၊ ဤသို့မေးငြားအံ့။ ဥဂ္ဂဟေတွာ၊ သင်ကြားမှတ်သား၍။ ပုစ္ဆနံ၊ မေးခြင်းသည်။ နော ဘာရိယံ၊ ဝန်မလေး။ ဝါ၊ မခဲယဉ်း။ ဝိဿဇ္ဇနံ ပန၊ ဖြေဆိုခြင်းသည်ကား။ ဘာရိယံ၊ ဝန်လေး၏။ ဝါ၊ ခဲယဉ်း၏။ ဣတိ၊ ဤသို့။ ဝိဿဇ္ဇေတဗ္ဗော၊ ဖြေအပ်၏။ ဝါ၊ တစ်နည်းကား။ သဟေတုကံ၊ အရင်းရှိသော။ သကာရဏံ၊ အကြောင်းအကျိုးနှင့် တကွသော စကားကို။ ကတွာ၊ ပြု၍။ ပုစ္ဆနမ္ပိ၊ မေးခြင်းသည် လည်းကောင်း။ ဝိဿဇ္ဇနမ္ပိ၊ ဖြေဆိုခြင်းသည်လည်းကောင်း။ ဘာရိယမေဝ၊ ဝန်လေး သည်သာတည်း။ ဣတိ၊ ဤသို့။ ဝိဿဇ္ဇေတဗ္ဗော၊ ၏။ ပန၊ မခဲယဉ်းသည်ကို ဆိုလိုက်အံ့။ ဥပဋ္ဌိတဿတီနံ၊ ထင်သော သတိပညာရှိကုန်သော ပုဂ္ဂိုလ်တို့အား။ ဧတံ ဥဘယမ္ပိ၊ ဤနှစ်ပါးစုံသည်လည်း။ န ဒုက္ကရံ၊ မခဲယဉ်း။

ယင်းသို့ အဋ္ဌကထာဆရာ စကားနှစ်ခွန်းဆိုသည်တွင် ''အမေးလွယ်၏။ အဖြေခက်သည်'' ဟူသော ရှေးစကားသာလျှင် များစွာသော ဇာတ်နိပါတ် ဝတ္ထုသက်သေတို့နှင့် ညီသည်။ ဘယ်သို့ ညီသနည်းဟူမူ- ဥမင်ဇာတ်တော်၌ မဟောသဓမိန်ပညာရှိ, မရှိကို စမ်းခြင်းငှာ တစ်ဆယ့်လေးရပ်သော ပြဿနာကို ပညာသင့်ရုံရှိသော သိန်၊ ဒေဝိန်၊ ကာမိန်၊ ပက္ကုသ်တို့ပင် ပြုလုပ်နိုင်ပါသည်။ တစ်ဦးလုပ်သော

ပြဿနာကို တစ်ဦး ဖြေခြင်းငှာ မတတ်နိုင်ရာ။ ဘုရားလောင်း သုခမိန်သာလျှင် မေးလာသမျှ ပုစ္ဆာ၏ အနက်တို့ကို ပြက်ပြက်ထင်ထင် သိမြင်နိုင်သည်။

မိလိန္ဒပဥှာတွင်လည်း ပုထုဇဉ်ပညာရှိဖြစ်သော မိလိန္ဒမင်းကြီးမေးသော ပုစ္ဆာကို ပဋိသမ္ဘိဒါပတ္တ တိပိဋကဓရဖြစ်သော ရဟန္တာအရှင်တို့မှ ဖြေဆိုခြင်းငှာ မစွမ်းနိုင်ကြ သောကြောင့် ယောနကတိုင်းမှ ရှောင်ခွာ၍ ဟိမဝန္တာအစပ်၌ နေကြရသည်။ ရှေးပါရမီ ဝိသေသ ကြီးမြတ်လှသော နာဂသေနထေရ်ရောက်လာမှ ရဟန္တာအပေါင်းတို့သည် သာဂလမြို့သို့ လာဝံ့ကြသည်။ ဤသို့သော ကျမ်းဂန်းသက်သေကို ထောက်ထားသဖြင့် လည်းကောင်း၊ ကျွဲကျောင်းသားတစ်ယောက်သည် ခလောက်ဆွဲလျက် မြက်စားသော ကျွဲ၏ ဖျူပ်ကြောင်းမြည်သော အသံကိုမှတ်ပြီးလျှင် ပညာရှိ ရဟန်းတစ်ပါးအား အရှင်ဘုရား ဖျုပ်ကြောင်း သဒ္ဒါသည် အဘယ်ကို ဟောပါသနည်းဟု မေးလျှင် ထိုအရှင်သည် ကျမ်းဂန်တွင် တွေးမြှော်၍ မြင်တော်မမူနိုင် ရှိဖူးသည်တစ်ထုံး။

ပေါက္ကံပြည်၌ တစ်ဦးသော ဒါယိကာမသည် ကျမ်းတတ်ဆရာထံသို့ကပ်၍ အရှင်မြတ် ပြဿနာတစ်ခုကို ဒါယိကာမအားခွင့်ပြုပါ။ ဗုဒ္ဓေ သဒ္ဒါ၊ ဗုဒ္ဓေါ သဒ္ဒါ၊ ဗုဒ္ဓံသဒ္ဒါတို့သည် ဘုရားသခင်ကိုဟော၏ဟူပြီ။ ဗုဒ္ဓိုင်းသဒ္ဒါသည် အဘယ်အနက်ကို ဟောသနည်းဟု မေးလျှင်၊ ထိုကျမ်းတတ်အရှင်သည် ဆင်ခြင်၍မရနိုင် ရှိဖူးသည်က တစ်ထုံး။

ဤထုံးများကို ထောက်ထား၍ မေးသူကား ကျွဲကျောင်း၊ ဖြေသူကား ဘုရားလောင်း ဟု စကားဟောင်း ဆိုရိုးရှိကြသည်။ ယင်းသို့သော ကျမ်းဂန်ထုံစံကို နှိုင်းဆလျှင် အမေးကားလွယ်၏။ အဖြေသည်သာ ခက်သည်ဟူသော စကားသည် သင့်မြတ်ညီညွတ် သတည်း။

◆◆◆◆◆

## နိဂုံး

**စတုစက္ကသမ္ပုဏ္ဏာသ၊ ကဥ္စနာဂိရိနဂြသ။**
**စက္ကဒ္ဓေ တိလကဗ္ဘူတေ၊ ကျီးသဲက္ကတျာဘိသမ္ဘဝေ။**

(ပဌမ မကာရဝိပုလာပထျာ)

မဟာနိဂမေ ဇာတတ္တာ စ တဿ ပါစီနဘူမိဇေဒ္ဓေ သာသနဒ္ဓရာယ ပုတ္တဒါရာနံ မဟာမစ္စေန ကာရာပိတေ စတုဘုမ္မိကာဝါသေ ပဋ္ဌမံ ဝသိတတ္တာ စ၊ ကျီးသဲလေးထပ်တိအာချာတေန စက္ကသန္ဓရာစေရာနံ ဝံသာလင်္ကာရ ဘူတေန သဒ္ဓမ္မာဘိရမန္တေန သီလာဒိဂုဏယုတ္တေန ဝေပုလ္လပညာ ဝေယျတ္တိ ကေန တိပိဋကေ ဝေဒတ္တယဗဟုဿဘဂုဏောဟိ ဝိသုတေန ဂဏဝါစကေန မုနိန္ဒာဘိဓဇေသညိနာ မယာ ဥတ္တရတိတ္ထံ နာမ ဇနပဒမုပနိဿာယ နဝဝိဟာရေ ဂန္တ္ဝာ ကာရယန္တော ဝသန္တော မင်္ဂလတ္ထဒီပနိယာ ဒတ္ထံ ရစိတွာ အစိရံဝ သမြဟ္မစာရီနံ အာယာစနဥ္စ ပရာနုကမ္ပာယ စောဒိတဥ္စ ဥပါဒါယ ဝိသဇ္ဇကာမဝိဒူနံ မုခမဏ္ဍနာယိမံ ဂန္ထံ ဝိသဇ္ဇေ။ သယံလိက္ခေ။ ဂန္ထောယံ ဝေယျာကရဏောတိ သမ္ဘဝတော။ သော စ ဆိဒြာကာသသိန္ဓုပသော ဖိနစက္ကေ က္လသိကြဏ္ဏာ စမ္ပရူပေ ဂေါစေ ဝသော ဇနမာသပက္ခာဟာဒိနဘူတေ အဿယု ဇရဏာ အဋ္ဌမိဇီဝဒိနေ နိဋ္ဌင်္ဂတော။

**သုခါဝဟော အဟုရိဝ၊ မဟာမေဃော ဒိလံ ဇနံ။**
**ဘူခိလေယံ သုတေသာနံ၊ သီဃံ ဟောတ ဆန္ဒဒ္ဓရော။**

(ပဌမ နကာရဝိပုလပထျာ)

**အနက်ကား။** ။ စတုစက္ကသမ္ပုဏ္ဏာသ၊ ပတိရူပ စသည်အင်္ဂါ စက်လေးဖြာနှင့် လွန်စွာပြည့်စုံထသော။ ကဥ္စနာဂိရိနဂြသ၊ ရွှေတောင်အမည်ရှိသော မြို့၏။ တိလကဗ္ဘူတေ၊ မှန်ကင်းအတူ မှန်ကူသဖွယ်လည်း ဖြစ်ထသော။ စက္ကဒ္ဓေ၊ ဘုရားသြဝါ သာသနာ၏တည်ရာ ခေတ်မြတ်လည်းဖြစ်ထသော။ ကျီးသဲက္ကတျာဘိသမ္ဘဝေ၊ ကျီးသဲဟူ၍ ဗိုလ်လူသမုတ်အပ်သော။ မဟာနိဂမေ၊ မြစ်သာနီးတုံ ဈေးမစုံသောကြောင့် နိဂုံးမည်သီး ရွာရပ်ကြီး၌။ ဇာတတ္တာ စ၊ သန္ဓေကိန်းပျော် ဖွားမြော်ကြီးရင့်သည်၏ အဖြစ်ကြောင့်လည်းကောင်း။ တဿ နိဂမဿ၊ ထိုကျီးသဲအမည်ရှိသော နိဂုံး၏။ ပါစီနဘူမိဇေဒ္ဓေ၊ အရှေ့မျက်နှာ တာသုံးရာခန့် မျှော်ရာဗွေဘုံ မြေခုံညွန့်မြိတ် ကုန်းဦးထိပ်၌။ မဟာမစ္စေန၊ ရွှေတောင်ပန်းတောင်း ကူးပြောင်းလှယ်ကာ ဟံသာဝတီ ဌာနီပိုက်ချုပ် ဝန်ကြီးလုပ်ရသော မင်းကြီး မဟာမင်းနော်ရထာ ကြော်ငြာတွင်ပြီး အမတ်ကြီးသည်။ သာသနဒ္ဓရာယ၊ သာသနာကို စည်ပင်စွာ ဆောင်ရွက်စေခြင်း အကျိုးငှာ။ ပုတ္တဒါရာနံ၊ ရင်နှစ်နှစ်ဖော် ကြင်ဖော်ဇနီး မြောက်သားကြီးတို့ကို။ ကာရာပိတေ၊ မိမွေဖငုတ် ကံကျွေး ထုတ်၍ ဆောက်လုပ် တည်ထောင်စေအပ်သော။

စတုဘုမ္မိကာဝါသော၊ လေးထပ် ကျောင်းကြီး၌။ ပဋ္ဌမံ၊ ရှေးဦးစွာ။ ဝသိတတ္တာ စ၊ ယာပိုက်ဖြည့်တင်း သီတင်းသုံး နေသည်၏ အဖြစ်ကြောင့် လည်းကောင်း။ ကျီးသဲလေးထပ်တိ အာချာတေန၊ ကျီးသဲလေးထပ် ဆရာဟူ၍ ခေါ်ဝေါ်အပ်သော။ စက္ကာသန္တရာ စေရာနံ၊ ပရိယတ်, ပဋိပတ် နှစ်ရပ်သော သာသနာကို ကောင်းစွာ ဆောင်ကုန်သော ဆရာမွန် ဆရာမြတ်တို့၏။ ဝံသာလင်္ကာရ ဘူတေန၊ အဆက်အနွယ်ကို တင့်တယ်စွာ တန်ဆာ ဆင်သကဲ့သို့ ဖြစ်ထသော။ သဒ္ဓမ္မေ၊ သူတော်ကောင်းတို့၏ တရား၌။ အဘိရမန္တေန၊ အလွန်မွေ့ လျော်စွာ ထသော။ သီလာဒိဂုဏယုတ္တေန၊ သံဝရဝိနည်း၊ အာစာရဝိနည်း စောင့်စည်းမြိုးမြ် မြူမရှိသော သီလပညာ သမာဓိဂုဏ်နှင့်လည်း ယှဉ်ထသော။ ဝေပုလ္လပညာ ဝေယျတ္တိကေန၊ ပြန့်ပြောကျယ်ဝင်း ထိုးထွင်းနိူက်နှဲ ခွဲခြမ်းဝေဖန်နိုင်သော ဉာဏ်ပညာ အစွမ်းလည်း ရှိထသော။ တိပိဋကဝေဒတ္တယ ဗဟုဿုတဂုဏေဟိ၊ ပါဠိအဋ္ဌကထာ ဋီကာဉသုံ ကျမ်းသုံးပုံကို ချက်ကုန်ထုတ်ဖောက် လုံမစောက်ဖြင့် ပြန်ခေါက်များစွာ လေ့လာနိုင်ခြင်း တည်းဟူသော ပိဋကတ္တယ ဗဟုသုတ ဆန်းအလင်္ကာ သဒ္ဒါနေတ္တိ ဝိဒဂ်ဒဏ္ဍီ ဗျဉ္ဇီကလာပ် ဗြိုဟတ်ရာဇမတ္တဏ် ကာတန္တြ သရောဒယ ဇောတိသတ္ထ သူရိယသိဒ္ဓန္တ စသည်သုံးခန်း ဝေဒလ်ကျမ်းတို့၌ ပွန်းတီးလေ့လာ လိမ္မာသိမြင်ခြင်း တည်းဟူသော ဗေဒတ္တယဗဟုသုတ၊ ထုံးရာဇဝင် ပုံပြင်လင်္ကာ ကဗျာအရပ်ရပ် ဓမ္မသတ် ဆေးကျမ်း ဓာတ်ကျမ်းစာမ လောကဝိဇ္ဇာ အရာရာတို့၌ ကောင်းစွာ လိမ္မာခြင်း တည်းဟူသော ဗဟုသုတဂုဏ်တို့ကြောင့်။ ဝိဿုတေန၊ နိုင်ငံမဆံ့ ပျံ့သော ကျော်စော ခြင်းလည်း ရှိထသော။ ဂဏာဝါစကေန၊ ရှစ်ခွင်ဒိသာ ဝင်ရောက်လာသော သံဃာတော် အပေါင်းတို့၏ စာပို့ဆရာလည်း ဖြစ်ထသော။ မုနိန္ဒာဘိဓေယသညိနာ၊ မုနိန္ဒာဘိဓေ အမည်ရှိသော။ မယာ၊ ငါသည်။ ဥတ္တရတိတ္ထံနာမဇနပဒံ၊ မြောက်ဆိပ်ရွာဟု ကြေငြာ ကျော်ချီး ဇနပုဒ်ကြီးကို။ ဥပနိဿာယ၊ အမှီပြု၍။ နဝဝိဟာရဂဗ္ဘံ၊ အသစ်သော ကျောင်းတိုက်ကို။ ကာရယန္တော၊ ပြုစုတည်ထောင်လျက်။ ဝသန္တော၊ သီတင်းသုံးနေစဉ်။ မင်္ဂလတ္ထဒီပနိယာ၊ မင်္ဂလတ္ထဒီပနီ ဋီကာကျမ်းကြီး၏။ အတ္ထံ၊ မြန်မာဘာသာ မှီရာအတ္ထ နိဿယကို။ ရစိတွာ၊ ရေးသားပြုပြင် စီရင်ပြီး၍။ အစိရံဝ၊ မကြာမြင့်မီပင်လျှင်။ သဖြဟ္မစာရီနံ၊ သီတင်းသုံးဖော် သံဃာတော်တို့၏။ အာယာစနဥ္စ၊ တောင်းပန်ခြင်းကို လည်းကောင်း။ ပရာနုကမ္ပာယ၊ သူတစ်ပါးတို့အား သနားသော ကရုဏာ၏။ စောဒိတဥ္စ၊ တိုက်တွန်းခြင်းကိုလည်းကောင်း။ ဥပါဒါယ၊ အစွဲပြု၍။ ဝိဿဇ္ဇ ကာမဝိဒူနံ၊ ပုစ္ဆာခဲကတ် အရပ်ရပ်ကို ဆုံးဖြတ် ဖြေဆို လိုကုန်သော ပညာရှိတို့၏။ မုခမဏ္ဍနာယ၊ နှုတ်ခမ်း တန်ဆာ ဆင်ပါစေခြင်း အကျိုးငှာ။ ဣမံ ဂန္ထံ၊ ဤစွယ်စုံကျော်ထင် အမည်ရှိသော ပုစ္ဆာကျမ်းကို။ ဝိဿဇ္ဇေ ဖြေလိုက်၏။ သယံ လိက္ခေ၊ ကိုယ်တိုင် ရေးသီလိုက်၏။ အယံဂန္ထော၊ ဤကျမ်းကို။ ဝေယျာ ကရဏောတိ သမ္မတော၊ အမေးအဖြေ စုံကာ. နေသောကြောင့် ဝေယျာကရဏ်းဟူ၍ သမုတ်အပ်၏။သော စ ဂန္ထော၊ ထိုအဖြေကျမ်းသစ်သည်လည်း။ ဇိနစက္ကေ၊ ဘုရားသခင့်သာသနာတော်သည်။

ဆိဒြာကာသသိန္ဓုပသေ၊ ၂၄၀၉–ခုမြောက်ဖြစ်သော။ ဂေါစေ၊ လူတို့ဝေါဟာ နှစ်ဂေါစာသည်။ ဣသိကြ္ဏာစမ္မရှုပေ၊ ၁၂၂၇–ခုမြောက်ဖြစ်သော။ ဝသေ၊ နှစ်၌။ ဇနမာသ–ပက္ခာဟာဒိနဘူတေ၊ ဖွားလ ဖွားဖက် ဖွားရက် ဖွားနေ့ဖြစ်၍ ဖြစ်သော။ အသယုဇုဏာအဋ္ဌမီဇိဝဒိနေ၊ သီတင်းကျွတ် လပြည့်ကျော်ရှစ်ရက်၊ ကြာသပတေးနေ့၌။ နိဋ္ဌင်္ဂတော၊ အပြီးအဆုံးသို့ရောက်၏။ မဟာမေဃော၊ ဘုရားစကြာ ဖြစ်သောအခါ၌ ဩဘာထွန်းအံ့ လေးကျွန်းနှံ့အောင် ရွာသောမိုးကြီးသည်။ အခိလံ ဇနံ၊ ဤတိုက်အတွင်း ခပင်းဉသုံ ရှိနေကုန်သော လူနတ်များစွာ သတ္တဝါတို့၏။ သုခါဝဟော၊ ချမ်းသာကို ရွက်ဆောင်နိုင်သည်။ အဟုက္ကဝ၊ ဖြစ်သကဲ့သို့။ အယံဂန္ထော၊ ဤကျမ်းသည်။ ဘူခိလေ၊ မြေပြင်ပတ်ကုံး နိုင်ငံလုံး၌။ သုတေသာနံ၊ လောကုတ်လောကီကျမ်းဆီညွှန်မှု သုတပညာ အလိမ္မာကို ဖွေရှာ တောင့်တကုန်သော သူအပေါင်းတို့၏။ သီဃံ၊ ကောင်းမြတ်သော။ ဆန္ဒဒွရော၊ လိုအင်ဆန္ဒဟူသမျှကို ပြည့်ဝအောင် ရွက်ဆောင်နိုင်သည်။ ဟောထ၊ ဖြစ်ပါစေကုန်သတည်း။

အဟံ၊ငါသည်။အနေန ပုညေန၊ ဤဝေယျာကရဏ်းကျမ်းကိုပြုညွှန်းစီရင်ရသော ကောင်းမှုကြောင့်။ အနာဂတေ၊ နောင်သောအခါ၌။ အသေသဉာဏော၊ အကြွင်းမထင် သိမြင်နိုင်သော ပညာရှိသော။ အတုလ ဂုဏဒ္ဓရော၊ သူမတူနိုင် ကြီးခိုင်မြင့်မြတ်သော ဂုဏ်ကျေးဇူးကို ဆောင်နိုင်သော။ ဇိနဗ္ဗာဝေါ၊ ငါးမာရ်ပယ်ရှား ဘုရား၏အဖြစ်သည်။ ဟုတွာ၊ ဖြစ်၍။ သဒေဝကံ၊ နတ်နှင့်တကွသော လူအပေါင်းကို။ တာရေမိ၊ သံသရာနယ် မြစ်ပင်လယ်မှ ရှစ်သွယ်မဂ္ဂင် ဖောင်လင်းယာဉ်ဖြင့်။ ခေမင်္ဂတံ၊ ပြည်နိဗ္ဗာန်သို့ အမြန် ကယ်တင်ရလို၏။ ယာဝ၊အကြင်မျှလောက်။ ဇိနတ္တံ၊ ဘုရားအဖြစ်သို့။ အပတ္တံ၊ မရောက်သေး။ တာဝ၊ ထိုမရောက်သေးသမျှ ကာလပတ်လုံး။ သံသရန္တော၊ သံသရာ၌ ကျင်လည်ရ သည့်ရှိသော်။ ဥက္ကဋ္ဌသန္ဒိယာ၊ တိဟိတ်ဥက္ကဋ္ဌ မြတ်သောသန္ဓေနေရခြင်းဖြင့်။ သန္ဒိကော၊ ပဋိသန္ဓေတည်နေရသည်။ ဇာတိဿရဉာဏော၊ ကိုယ်အဖြစ်ကို တွက်စစ်ဓေ့ မြွေအောက်မေ့နိုင်သော ပညာရှိသည်။ ဒိဋ္ဌိဇု၊ ဖြောင့်မတ်ဟုတ်မှန်သည်ကို သိသော ပဝတ္တိပညာရှိသည်။ ဟုတွာ၊ ဖြစ်၍။ သဗ္ဗသိပ္ပါနိ၊ အလုံးစုံသော အတတ်မျိုး တို့ကို။ သုတစိန္တေန၊ ကြားကာ, မြင်ကာ, ကြံစည်ကာဖြင့်။ နိဋ္ဌင်္ဂတော၊ အပြီးတိုင်ရောက် တတ်မြောက်နိုင်ခြင်းသည်။ ဟောမိ၊ ဖြစ်ရပါလို၏။ ဣဒဥ္စ ပုညဘာဂံ၊ ဤကောင်းမှု၏ အဖို့ကိုလည်း။ သဗ္ဗသတ္တာနံ၊ အလုံးစုံသော သတ္တဝါတို့အား။ ဘာဇေမ၊ အမျှပေးဝေ ပါကုန်၏။ သုသက်ပ္ပါ၊ ကောင်းသော အကြံတို့သည်။ သမိဇ္ဈန္တု၊ ပြည့်စုံပါစေကုန် သတည်း။

စွယ်စုံကျော်ထင် အဖြေကြမ်းပြီး၏။

❖❖❖❖❖